ပဉ္စမနှိပ်ခြင်း

၁၉၆၆ ခုနှစ်



စာပေဗိမာန်ပုံနှိပ်တိုက် (မှတ်ပုံတင်အမှတ် – ၀၀၃၂) ၃၆၁ ပြည်လမ်း၊ ရန်ကုန်မြို့တွင်
ဦးကျော်အုံးက ရိုက်နှိပ်၍
စာပေဗိမာန် အုပ်ချုပ်ရေးမှူး ဦးထင်ကြီး (မှတ်ပုံတင်အမှတ် – ၀၄၇၀) က တာဝန်ခံထုတ်ဝေသည်။



မြန်မာ့ကျွန်းသစ်သည် မြန်မာနိုင်ငံသစ်တော၏ အဓိကထွက်ကုန်တရပ် ဖြစ်သည်။

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်
၏

# ရုပ်ပြဗဟုသုတဘာဏ်



အတွဲ — ၁၀

မြွတ် — ယူး

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစသားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစတို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မှအကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါ အကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

## ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| အမှတ် | အက္ခရာ | အုပ်စု |
|---|---|---|
| ၁။ | အ | |
| ၂။ | အာ | |
| ၃။ | အား | |
| ၄။ | အိ | |
| ၅။ | အီ | |
| ၆။ | အီး | |
| ၇။ | အု | |
| ၈။ | အူ | |
| ၉။ | အူး | |
| ၁၀။ | အေ့ | |
| ၁၁။ | အေ | |
| ၁၂။ | အေး | |
| ၁၃။ | အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ | အယ် | |
| ၁၅။ | အဲ | |
| ၁၆။ | အော့ | |
| ၁၇။ | အော် | |
| ၁၈။ | အော | |
| ၁၉။ | အို့ | |
| ၂၀။ | အို | |
| ၂၁။ | အိုး | |
| ၂၂။ | အက် | ကသတ် |
| ၂၃။ | အောက် | |
| ၂၄။ | အိုက် | |
| ၂၅။ | အင့် | ငသတ် |
| ၂၆။ | အင် | |
| ၂၇။ | အင်း | |
| ၂၈။ | အောင့် | ငသတ် |
| ၂၉။ | အောင် | |
| ၃၀။ | အောင်း | |
| ၃၁။ | အိုင့် | |
| ၃၂။ | အိုင် | |
| ၃၃။ | အိုင်း | |
| ၃၄။ | အစ် | စသတ် |
| ၃၅။ | အည့် | ညကြီးသတ် |
| ၃၆။ | အည် | |
| ၃၇။ | အည်း | |
| ၃၈။ | အဉ့် | ဉကလေးသတ် |
| ၃၉။ | အဉ် | |
| ၄၀။ | အဉ်း | |
| ၄၁။ | အတ် | တသတ် |
| ၄၂။ | အိတ် | |
| ၄၃။ | အုတ် | |
| ၄၄။ | အန့် | နသတ် |
| ၄၅။ | အန် | |
| ၄၆။ | အန်း | |
| ၄၇။ | အိန့် | |
| ၄၈။ | အိန် | |
| ၄၉။ | အိန်း | |
| ၅၀။ | အုန့် | |
| ၅၁။ | အုန် | |
| ၅၂။ | အုန်း | |
| ၅၃။ | အပ် | ပသတ် |
| ၅၄။ | အိပ် | |
| ၅၅။ | အုပ် | |
| ၅၆။ | အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ | အမ် | |
| ၅၈။ | အမ်း | |
| ၅၉။ | အိမ့် | |
| ၆၀။ | အိမ် | |
| ၆၁။ | အိမ်း | |
| ၆၂။ | အုမ့် | |
| ၆၃။ | အုမ် | |
| ၆၄။ | အုမ်း | |
| ၆၅။ | ျ | ယပင့် |
| ၆၆။ | ြ | ရရစ် |
| ၆၇။ | ွ | ဝဆွဲ |
| ၆၈။ | ှ | ဟထိုး |
| ၆၉။ | ျွ | ယပင့် ဝဆွဲ |
| ၇၀။ | ြွ | ရရစ် ဝဆွဲ |
| ၇၁။ | ျှ | ယပင့် ဟထိုး |
| ၇၂။ | ြှ | ရရစ် ဟထိုး |
| ၇၃။ | ွှ | ဝဆွဲ ဟထိုး |
| ၇၄။ | ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ | ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

**တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆုရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းဖြေရန်နည်းများလည်း ရရှိပေအံ့။**

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှုရင်း၊ နယူးယော့မြို့ အီဝင်ဂယ်လိုဝေမှုရင်း ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ပုဂ္ဂိုလ်များစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
|---|---|---|
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ ကာကွယ်ရေးဌာန | ရန်ကုန်မြို့ | ၃၃၊ ၃၆ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ ကောင်းကင်မြေတိုင်းဌာန | ရန်ကုန်မြို့ | ၂၄၇ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ နိုင်ငံခြားရေးဌာန | ရန်ကုန်မြို့ | ၁၁၅ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ ပြည်သူ့ရေနံလုပ်ငန်း | ရန်ကုန်မြို့ | ၁၀၄၊ ၃၉၃ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ ပြန်ကြားရေးဌာန | ရန်ကုန်မြို့ | (မျက်နှာစာရောင်စုံ) ၃၈၊ ၁၅၅၊ ၁၅၇၊ ၁၅၉၊ ၂၁၅၊ ၂၁၆၊ ၂၆၀ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ မြေယာ ကျေးလက် ကြီးပွားတိုးတက်ရေး ကော်ပိုရေးရှင်း | ရန်ကုန်မြို့ | ၆၊ ၂၂၁ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ ရှေးဟောင်း သုတေသနဌာန | ရန်ကုန်မြို့ | ၂၀၁၊ ၂၀၂၊ ၂၀၃၊ ၂၀၅၊ ၂၀၆ |
| မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရ အမျိုးသား စာကြည့်တိုက် | ရန်ကုန်မြို့ | ၂၄၀ |
| ဆိုဗီယက်သံရုံး | ရန်ကုန်မြို့ | ၄၄၇၊ ၄၄၈ |
| ဇီဝဗေဒဌာန၊ ဝိဇ္ဇာနှင့်သိပ္ပံ တက္ကသိုလ် | ရန်ကုန်မြို့ | ၁၅၃ |
| ကြေးမုံ သတင်းစာတိုက် | ရန်ကုန်မြို့ | ၂၁၇ |
| ငွေတာရီမဂ္ဂဇင်း | ရန်ကုန်မြို့ | ၂၉၀၊ ၂၉၁၊ ၂၉၂၊ ၂၉၃ |
| စာပေဗိမာန်မဂ္ဂဇင်း | ရန်ကုန်မြို့ | ၂၈၊ ၃၀ |
| တပ်မတော် မော်ကွန်းတိုက် | ရန်ကုန်မြို့ | ၁၀၄၊ ၁၀၆၊ ၁၀၇၊ ၁၁၀၊ ၁၁၂၊ ၁၁၄၊ ၁၄၄၊ ၁၉၄၊ ၂၄၁ |
| နယူးပစ် | ရန်ကုန်မြို့ | ၃၊ ၂၉၊ ၁၅၀၊ ၁၀၉၊ ၁၉၁၊ ၂၁၃၊ ၃၃၁၊ ၄၀၇၊ ၄၀၈ |
| ဗိုလ်တထောင် သတင်းစာတိုက် | ရန်ကုန်မြို့ | ၁၃၃ |
| ရုပ်ရှင်နှင့် ပြဇာတ်ဌာန | ရန်ကုန်မြို့ | ၁၉၇ |
| ရွှေသို့ စာစောင် | ရန်ကုန်မြို့ | ၇၊ ၄၃၊ ၁၃၂၊ ၁၃၈၊ ၁၄၆၊ ၃၁၈၊ ၃၈၂၊ ၃၈၄ |
| အောင်မင်္ဂလာရုပ်ရှင် | ရန်ကုန်မြို့ | ၃၃၀ (ရောင်စုံ) |
| ကိုအုန်း | ရန်ကုန်မြို့ | ၁၊ ၄၊ ၁၆၊ ၄၀ |
| ဦးကနက်စိန် | ရန်ကုန်မြို့ | ၉၈ |

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
| --- | --- | --- |
| ဦးကျော်ခင် | ရန်ကုန်မြို့ | ၂၃၅ |
| ဒေါ်ဒဂုန်ခင်ခင်လေး | ရန်ကုန်မြို့ | ၈၁၊ ၈၃၊ ၈၄၊ ၈၆ |
| သခင် ခင်မောင်ဦး | တောင်တွင်းကြီးမြို့ | ၁၂၂၊ ၂၅၅ |
| ဦးခင်လေးမောင် | ရန်ကုန်မြို့ | ၂၇၊ ၃၅၊ ၂၁၄ (ရောင်စုံ)၊ ၂၁၈၊ ၄၂၆ (ရောင်စုံ) |
| ဦးစပယ်သစ် | ရန်ကုန်မြို့ | ၉၅ |
| ဒေါက်တာ ဦးညီညီ | ရန်ကုန်မြို့ | ၁၇၉ |
| ဘိုးညွန့် | ရန်ကုန်မြို့ | ၉၀ |
| ဦးတောကျော် | ရန်ကုန်မြို့ | ၉၆ |
| ဒေါ်တက္ကသိုလ်စိန် | ရန်ကုန်မြို့ | ၃၇၃ |
| ဒေါ်တင်တင် | ရန်ကုန်မြို့ | ၈၇၊ ၈၈၊ ၉၄ |
| ဦးတင်ဦး | ရန်ကုန်မြို့ | ၂၈၅၊ ၂၈၆၊ ၂၈၇၊ ၂၈၈၊ ၂၉၄၊ ၂၉၅၊ ၂၉၆၊ ၂၉၇၊ |
| ဦးထိန်ဝင်း | ရန်ကုန်မြို့ | ၄၁၀ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၂ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၃၀၉၊ ၃၁၁၊ ၃၁၃၊ ၃၈၄ |
| ဦးထွန်းရင် | ရန်ကုန်မြို့ | ၁၉၁ |
| နိုင် ပန်းလှ | ရန်ကုန်မြို့ | ၄၁၂ |
| ဒေါ်ပြုံး | ရန်ကုန်မြို့ | ၉၆ |
| ဦးဘကွန်း (ညိုချော) | မန္တလေးမြို့ | ၄၄၅ |
| ဗိုလ်မှူး ဘရှင် | ရန်ကုန်မြို့ | ၁၃၆ |
| ဦးဘုန်းကျော် | ရန်ကုန်မြို့ | ၉၊ ၁၀၊ ၁၂၊ ၁၃ |
| ဒေါ်မာမာဝေ | ရန်ကုန်မြို့ | ၉၃ |
| ဦးမင်းနိုင် | ရန်ကုန်မြို့ | ၁၃၁၊ ၁၃၃၊ ၁၃၄၊ ၁၃၇ |
| ဦးမောင်မောင်ကြိုင် | နမ္မတူမြို့ | ၄ |
| ဒါရိုက်တာ ဦးမောင်မောင်မြင့် | ရန်ကုန်မြို့ | ၃၃၄ |
| တလိုင်း ဒေါ်မြကြင် | ရန်ကုန်မြို့ | ၃၆၈၊ ၃၇၀၊ ၃၇၁ |
| ဦးယော | ရန်ကုန်မြို့ | ၂၂၇၊ ၂၃၃ |
| ဦးရွှေကျီးညို | ရန်ကုန်မြို့ | ၈၇၊ ၉၆ |
| ဒေါ်လှ | ရန်ကုန်မြို့ | ၉၆၊ ၉၇ |
| ဦးလှမို | ရန်ကုန်မြို့ | ၂၆၇၊ ၂၆၈၊ ၂၆၉၊ ၂၇၀၊ ၂၇၁၊ ၂၇၂၊ ၂၇၃၊ ၂၇၄ |

# မြင်းဖတ်ပင်

အရွက်ကို ဆေးလိပ်လိပ်၊ အကိုင်းငယ်ကို တံပူအဖြစ် သုံး၍၊ အသီးကို ကလေးများ ဖောင်ဖောင် ဖောက် ကစားရသော မြတ်ရာပင်၊ သို့မဟုတ် မြရာပင်ကို တနင်္သာရီ တောင်ပိုင်းတွင် မြင်းဖတ်ပင်ဟု ခေါ်ကြသည်။

**မြတ်ရာပင်။** ။မြတ်ရာပင်၊ သို့မဟုတ် မြရာပင်သည် ဂရူးဝီးယား မျိုးစုတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒအမည်မှာ ဂရူးဝီးယား မိုက်ကရိုကော့ ဖြစ်သည်။

ပဲခူးရိုးမ တောင်ပေါ်ရှိ သစ်တောများတွင် မြတ်ရာပင်များကို အတွေ့ရများသည်။ အမြင့်ပေ ၃၀ အထိမျှသာ ရှိသဖြင့် မြတ်ရာပင်ကို သစ်ပင်ကြီးဟု မဆိုနိုင်ချေ။ ပင်စည်တွင် ထွင်းကြောင်းများကိုထင်ရှားစွာ မြင်နိုင်သည်။အခက်အလက်တို့တွင် အမွေးထူသည်။ ရွက်ရင်းပိုင်းသည် ဝိုင်း၍ အဖျားချွန်သည်။ အကိုင်းရင်းတွင်အပွင့်များပွင့်၍ အရောင်မှာ အဝါဖြစ်သည်။ အသီးများမှာ လုံး၍ မှည့်လျှင် အစိမ်းရောင်မှ အနက်ရောင်သို့ ပြောင်းလဲသွားသည်။ အသီးစိမ်းများကိုကလေးများဖောင်ဖောင်ဖောက်ကစားကြသည်။

မြန်မာနိုင်ငံ အောက်ပိုင်းတွင် မြတ်ရာပင်များ ပေါ်၍ သရက်သီးစိမ်းများ မှည့်အောင် မြတ်ရာရွက်များနှင့် အုပ်ထားတတ်ကြသည်။ ကုလားလူမျိုးများ သောက်လေ့ရှိကြသော "ဗီဒီ" ခေါ် ဆေးလိပ်ကလေးများကို မြတ်ရာရွက်ခြောက်များနှင့် လိပ်လေ့ ရှိကြသည်။ မြတ်ရာကိုင်းကလေးများကို တံပူအဖြစ် အသုံးပြုလေ့ ရှိကြသည်။

မြတ်ရာပင်ကို တနင်္သာရီ တောင်ပိုင်းတွင် မြင်းဖတ်ပင် (ဖြင်းဖတ်)ဟူ၍ ခေါ်ကြသည်။



မြတ်ရာပင်၏ အရွက်နှင့် အသီးများ

**မြတ်လေးပန်း။** ။မုလေးပန်း — ရှု။

**မြိတ်ခရိုင်။** ။မြိတ်ခရိုင်သည် မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီတိုင်း၏ တောင်ဖက် အစွန်ဆုံးဖြစ်သော ပင်လယ်ကမ်းခြေခရိုင် ဖြစ်သည်။ အနောက်ဖက်၌ ဗင်္ဂလားပင်လယ်အော် (ကပ္ပလီပင်လယ်)၊ တောင်ဖက်၌ မလေးရှားနိုင်ငံ၊ အရှေ့ဖက်၌ ယိုးဒယားနိုင်ငံ၊ မြောက်ဖက်၌ထားဝယ်ခရိုင်တို့နှင့် နယ်နိမိတ်ချင်း ဆက်စပ်လျက်ရှိသည်။မြိတ်ခရိုင်အတွင်းတွင် ကမ်းရိုးတန်း တလျှောက် စုလျက်ရှိသော မြိတ်ကျွန်းစုခေါ် ကျွန်းငယ်ကလေးပေါင်း ၈၀၀ ကျော် ပါဝင်သည်။ ခရိုင်နယ်မြေ အကျယ်အဝန်းမှာ ၁၁,၃၂၅ စတုရန်းမိုင်ရှိ၏။ နယ်၏ အရှေ့ဖက်တွင် မြောက်မှ တောင်သို့ တန်းလျက် ရှိသော တောင်တန်းနှစ်ခုသည် ယင်ပေါင်တန်းလျက် တည်ရှိသည်။ ထိုတောင်တန်း နှစ်ခု၏အကြားမှ တနင်္သာရီမြစ် စီးဆင်းလာ၍ တောင်ဖက်ပိုင်းသို့ ရောက်မှ အနောက်ဖက် ကျသော တောင်၏ ကျောက်တောင်ကြားကို ဖြတ်ကာ ပင်လယ်သို့ စီးဆင်းသည်။

မြိတ်ခရိုင် တဝှန်းလုံးလိုလိုပင် ထူထပ်သော သစ်တောများဖြင့် ဖုံးလွှမ်းနေ၍ အဖိုးထိုက်တန်သော ကျွန်းပင်၊ သင်္ကန်းပင်နှင့် ကညင်ပင်တို့ ပေါက်ရောက်၏။ ကမ်းရိုးတန်းမှာ အတွန့်အပြတ်ပေါများသည်။ ကမ်းခြေတွင်မူကား ရေတက်ရေကျကြောင့် ဖြစ်သော ချောင်းငယ်မြောင်းငယ်များ ပေါ၏။ ခရိုင်တောင်ပိုင်းဆီတွင် မြေဩဇာကောင်းသော မြေကွက်များရှိ၍ စပါး စိုက်ပျိုးနိုင်သည်။ အရှေ့ဖက်တွင်ကား တောင်မြင့်များ သစ်တောများရှိသည်။ ခရိုင်အတွင်းရှိ တနင်္သာရီမြစ်၊ လေညာမြစ်၊ ပတ်ချန်မြစ်တို့မှာ လှေဖြင့် အသင့်အတင့် ကူးသန်း သွားလာနိုင်သည်။ တနင်္သာရီမြစ်နှင့် မြစ်လက်တက်များ၏ ကမ်းပါးများတလျှောက်တွင် ကျောက်မီးသွေးများတွေ့ရှိသည်။ သတ္တုတွင်းများတွင် ခဲမဖြူ၊ ကြေးနီနှင့်သံဖြူများ တွေ့ရှိသည်။ သို့ရာတွင် ထားဝယ်သတ္တုတွင်းများကဲ့သို့ အရေးပါ အရာရောက်ခြင်း မရှိချေ။

ရှေးအခါက မြိတ်ခရိုင်သည် ယိုးဒယား နိုင်ငံအပိုင် ဖြစ်ခဲ့ဘူး၏။ အလောင်း ဘုရားနှင့် ဆင်ဖြူရှင်တို့ လက်ထက် ယိုးဒယား-မြန်မာစစ်ပွဲများ ဖြစ်ပွားသောအခါမှ တနင်္သာရီကို မြန်မာတို့က သိမ်းယူခဲ့လေသည်။ သို့ရာတွင် ယိုးဒယားက အသိအမှတ်မပြုဘဲ နေခဲ့သည်။ ၁၈၂၄–၂၅ ခုနှစ် အင်္ဂလိပ်များ မြန်မာနိုင်ငံအောက်ပိုင်းမှ တနင်္သာရီနှင့် ရခိုင်တိုင်းတို့ကို သိမ်းယူသောအခါတွင်မူ မြိတ်ခရိုင်ကို မြန်မာနိုင်ငံနယ်နိမိတ်အဘွင်းဟု အတိအကျ သတ်မှတ်လိုက်လေသည်။

မြိတ်ခရိုင်တွင် ကြက်ပေါင်စေး လုပ်ငန်း အကြီးအကျယ်ဖြစ်ထွန်း၏။ သတ္တုတွင်းတူးခြင်း၊ ငပိ ငခြောက်လုပ်ခြင်း၊ ကွမ်းသီးပင်စိုက်ခြင်း၊ ပင်လယ်ငှက်သိုက် ရှာဖွေခြင်းနှင့် ပုလဲငုပ်ခြင်းများကိုလည်း လုပ်ကိုင်ကြသည်။ ရန်ကုန်နှင့် အခြားဆိပ်ကမ်းမြို့များသို့ ရေကြောင်းဖက်မှ ကူးသန်းရောင်းဝယ်၏။ မြိတ်ခရိုင်မှ တင်ပို့ရောင်းချသော ပစ္စည်းများမှာ ဆန်စပါး၊ ကျွန်းသစ်၊ ကြက်ပေါင်စေး၊ သတ္တုရိုင်းများ၊ ကြိမ်၊ ငပိ ငခြောက်၊ ငှက်သိုက်နှင့် ကွမ်းသီးများ ဖြစ်ကြသည်။ ပိုးထည်များကိုလည်း ရက်လုပ် တင်ပို့သည်။ သို့သော် အကြီးအကျယ်ကား မဟုတ်ချေ။ ပင်လယ်ကမ်းခြေဒေသဖြစ်၍ ရာသီဥတုမှာ မိုးများသော်လည်း နေထိုင်၍ ကောင်းလေသည်။

မြိတ်ခရိုင်၌ နေထိုင်ကြသော လူမျိုးများမှာ မွန်၊ ကရင်၊ မြန်မာ(မြိတ်လူမျိုး)နှင့် ဆလုံလူမျိုးများ ဖြစ်ကြ၏။ နိုင်ငံခြားသားများလည်း လာရောက် နေထိုင်ကြသည်။ မြိတ်ခရိုင်တွင် မြန်မာဘာသာကို အဓိကထား၍ သုံးစွဲကြသော်လည်း အသံထွက်ပုံမှာ ရိုးရိုးမြန်မာတို့ နားမလည်နိုင်အောင်ပင် ကွဲပြားခြားနား၏။

မြိတ်ခရိုင်ကို မြို့နယ် ငါးခု ခွဲ၍ အုပ်ချုပ်သည်။ မြို့နယ်များမှာ မြိတ်၊ ပုလော၊ တနင်္သာရီ၊ ဘုတ်ပြင်း၊ ကော့သောင်းမြို့နယ်များဖြစ်ကြ၏။ ခရိုင်ဝန် ရုံးစိုက်မြို့မှာ မြိတ်မြို့ဖြစ်၏။ မြိတ်ခရိုင်တွင် ၁၉၅၆ ခုနှစ် ခန့်မှန်း သန်ကောင် စာရင်းအရ လူဦးရေ ၂၁၀,၉၇၃ ယောက် ရှိ၏။

မြိတ်ခရိုင်အတွင်း မီးရထားလမ်း အဆက်အသွယ်မရှိဘဲ မော်တော်ကားများဖြင့် သွားလာရ၏။ လမ်းများမှာလည်း ကြမ်းတမ်း လှသည်။ သို့ရာတွင် ကမ်းမြောင်ဒေသ ဖြစ်သဖြင့် အခြား ဆိပ်ကမ်းမြို့များသို့ ရေကြောင်းမှ လွယ်လင့်တကူ ကူးသန်း သွားလာနိုင်သည်။ ရန်ကုန်မြို့နှင့် လေကြောင်းခရီး အဆက်အသွယ်လည်း ရှိလေသည်။

**မြိတ်မြို့။** ။မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီတိုင်း မြိတ်ခရိုင်၏ ခရိုင်ဝန်ရုံးစိုက်ရာ မြို့ဖြစ်သည်။ တနင်္သာရီမြစ် စီးဝင်ရာ မြစ်ဝကျွန်းပေါ်တွင် တည်ရှိ၍ လုံခြုံသော ဆိပ်ကမ်းကောင်းဖြစ်၏။ ကမ်းခြေမှစ၍ တောင်ကုန်းမြင့်များ ဖြစ်ပြီး လျှင် ထိုတောင်ကုန်းမြင့်များပေါ်တွင် အစိုးရရုံးအဆောက်အအုံများ ရှိသည်။



မြိတ်မြို့ကို ကောင်းကင်မှ ရှုမြင်ရပုံဖြစ်သည်။ မြိတ်မြို့သည် မြိတ်ခရိုင်ဝန် ရုံးစိုက်ရာမြို့ဖြစ်၍ တနင်္သာရီမြစ်စီးဝင်ရာ မြစ်ဝကျွန်းပေါ်တွင် တည်ရှိသည့် လုံခြုံသော ဆိပ်ကမ်းမြို့ဖြစ်သည်။

ရှေးအခါက မြိတ်မြို့ကို အိန္ဒိယနိုင်ငံ ဗင်္ဂလားနယ်မှ တကျွန်းပို့ဒဏ်ခံရသော အကျဉ်းသမားများ ပို့ရာအရပ်အဖြစ် အသုံးပြုခဲ့ဘူးလေသည်။

မြိတ်မြို့သည် ယခုအခါ အရောင်း အဝယ် ဖွံ့ဖြိုးသော ဆိပ်ကမ်းတခု ဖြစ်ပေသည်။ ကျောထောက် နောက်ခံနယ်မြေတွင် ကျွန်းသစ်၊ တွင်းထွက်သတ္တုများ၊ ကြက်ပေါင်စေးများထွက်သည်။ မြိတ်ကျွန်းစုများတွင်လည်း တံငါ လုပ်ငန်းဖြစ်သည့် ငပိ ငခြောက်လုပ်ငန်း၊ ပုလဲလုပ်ငန်းများ အပြင် ကျွန်းကလေးများပေါ်တွင် ငှက်သိုက်ရှာဖွေခြင်း လုပ်ငန်းများရှိသဖြင့် ကူးသန်း ရောင်းဝယ်ရေးတွင် များစွာ တွင်ကျယ်သည်။ မြို့ပေါ်တွင် ပိုးထည်ရက်လုပ်ခြင်း လုပ်ငန်းများရှိသည်။ မြိတ်လုံချည်ခေါ် ထူထဲခိုင်မာသော ပိုးစစ် လုံချည်များမှာ အကောင်းဆုံး ပိုးထည် အမျိုးအစားတွင် ပါဝင်သည်။ ငပိတွင်လည်း မြိတ်စိမ်းစား ငပိသည် မြိတ်မြို့၏ နာမည်ကျော် ထွက်ကုန်တခု ဖြစ်ပေသည်။

လူဦးရေမှာ ၁၉၆၃ ခုနှစ် သန်းကောင် စာရင်း အရ ၃၅,၉၈၂ ယောက် ရှိလေသည်။

**မြန်မာ့စီးပွားရေး လုပ်ငန်းများ။** ။မြန်မာ နိုင်ငံ၏ စီးပွားရေး လုပ်ငန်းကို (က) ကောက်ပဲသီးနှံ စိုက်ပျိုးရေး၊ တိရစ္ဆာန် မွေးမြူရေး၊ သားငါး ရှာဖွေရေး၊ (ခ) စက်မှု လက်မှု လုပ်ငန်းကြီးများနှင့် (ဂ) အိမ်တွင်း စက်မှု လက်မှုနှင့် အလုပ်ရုံကလေးများဟူ၍ သုံးမျိုးသုံးစား ခွဲခြားနိုင်ပေသည်။ မြန်မာနိုင်ငံ၌ လုပ်သား ၁၀၀ လျှင် ၇၀ မှာကောက်ပဲ သီးနှံစိုက်ပျိုးရေးနှင့် ကျွဲနွား တိရစ္ဆာန်မွေးမြူရေး သားငါးရှာဖွေရေး လုပ်ငန်းများကို မှီခို နေကြောင်း တွေ့ရ၏။ အထူးသဖြင့် စိုက်ပျိုးရေးကို မှီခိုအားထားကြ၏။ စက်မှုလက်မှု လုပ်ငန်းကြီးများဆိုရာ၌ ဆန်စက်၊ သစ်စက်၊ ရေနံနှင့် ဓာတ်ဆီလုပ်ငန်း၊ သတ္တုတွင်းလုပ်ငန်းများနှင့် အခြား အလုပ်ရုံကြီးများကိုဆိုလိုသည်။ အိမ်တွင်းစက်မှုလက်မှုဆိုရာ၌ ရက်ကန်းရက်ခြင်း၊ တောင်းရက်ခြင်း၊ မီးသွေးဖုတ်ခြင်းအစရှိသည့် လုပ်ငန်းကလေးများ အားလုံးနှင့် သက်ဆိုင်၏။

**သမိုင်း။** ။ရှေးယခင် မြန်မာဘုရင်များ လက်ထက်တွင် မြန်မာနိုင်ငံ၌ လူဦးရေနည်းပါးသော်လည်း တိုင်းသူပြည်သားတို့၏ ဝင်ငွေမှာ များသောအားဖြင့် စိုက်ပျိုးရေးနှင့် လက်မှုပညာများကို အမှီပြု၍ ရရှိကြ၏။ အကြမ်းအားဖြင့် ဆိုသော် တိုင်းပြည်၏ ဝင်ငွေ ကျပ် ၁၀၀ လျှင် ၅၀ ကျပ်မှာ စိုက်ပျိုးရေးမှရ၍ ၅၀ ကျပ်မှာ လက်မှု ပညာများကို အမှီပြုခဲ့၏။ ထိုခေတ်တွင် ကမ္ဘာ့အရပ်ရပ်၌ စက်မှုလက်မှု လုပ်ငန်းကြီးများဖြစ်သော စက်ရုံကြီးများ မရှိသလောက်ဖြစ်၍ လက်မှုပညာ လုပ်ငန်းကလေးများသာ ရှိခဲ့၏။ ထိုအခါက



မြန်မာနိုင်ငံ၏ အဓိက ထွက်ကုန်ဖြစ်သော ဆန်များကို ပင်လယ်ရပ်ခြားနိုင်ငံများသို့ ရောင်းချရန် ပင်လယ်ကူး သင်္ဘောကြီးပေါ် တင်နေစဉ်

မြန်မာနိုင်ငံ၌ တောင်သူ လယ်သမားများသည် လယ်လုပ်ချိန်၌လယ်လုပ်၍ အားလပ်ချိန်များတွင် ရက်ကန်းရက်ခြင်း၊ တောင်းရက်ခြင်း၊ အိုးဖုတ်ခြင်း၊ မီးသွေးဖုတ်ခြင်း အစရှိသည့် အိမ်တွင်း လက်မှုများဖြင့် ဝင်ငွေကို ဖြည့်တင်း ခဲ့ကြသည်။ လူကြီးလူငယ်မရွေး အားလုံး ကိုယ်စီကိုယ်င အလုပ်ရှိခဲ့သည်။ လယ်ယာ မလုပ်သူများသည် ရက်ကန်း၊ ယွန်းထည်၊ ထန်းလျက်၊ ဆား၊ ရေနံအစရှိသည့် များစွာသော လုပ်ငန်းကလေးများဖြင့် အသက်မွေးမှုကို အားထုတ် ခဲ့ကြသည်။ ထိုအခါ နိုင်ငံခြားမှ ကုန်ချောများ မရောက်သေးသဖြင့် ပြည်တွင်း လက်မှုပညာများ ထွန်းကား၍ လူတိုင်းလိုလိုပင် အလုပ်အမြဲတမ်း ရှိခဲ့သည်။ သင်္ဌေးကြီး သူကြွယ်ကြီးများနည်းပါးသည်။ လူတိုင်း အသက်မွေးမှု ရှိနေသဖြင့် အလုပ်လက်မဲ့ပြဿနာ မရှိသလောက်ဟု ဆိုရပေမည်။

ဗြိတိသျှတို့မြန်မာနိုင်ငံတွင်အခြေစိုက်သောအခါ၌မြန်မာနိုင်ငံ စီးပွားရေးအခြေသည် ထူးခြားစွာ ပြောင်းလဲလာသည်။ ၁၇၅၀ ပြည့်နှစ်မှ ၁၈၅၀ ပြည့်နှစ်အထိဖြစ်သော အနှစ်တရာအတွင်း ဗြိတိသျှ ကျွန်းစု၌ စက်မှု လက်မှု လုပ်ငန်းများအထူးထွန်းကားတိုးတက်လာ၍ကုန်ချောများကိုလွယ်ကူစွာ ထုတ်လုပ် နိုင်ခဲ့သည်။ ဗြိတိသျှတို့သည် အိန္ဒိယပြည် မြန်မာပြည် အစရှိသည့် ကိုလိုနီတိုင်းပြည်များ၌ စိုက်ပျိုးရေးကို



နမ္မတူ ဘော်ချက်စက်ရုံ ဖြစ်သည်။ အလားတူ သတ္တုတွင်းလုပ်ငန်းများစွာတို့သည် မြန်မာ့စီးပွားကို မြှင့်တင်ပေးလျက် ရှိသည်။

မြန်မာ့ကျွန်းသစ်သည် နိုင်ငံခြားတွင် ထင်ရှားသော ထွက်ကုန်တရပ်ဖြစ်သည်။ မြန်မာနိုင်ငံမှ ကျွန်းသစ်များကို သစ်လုံးအတိုင်းဖြစ်စေ၊ ခွဲစိတ်၍ဖြစ်စေ နိုင်ငံခြားသို့ တင်ပို့ရောင်းချလျှက်ရှိသည်။

အားပေး၍ ရရှိသော ကုန်ရိုင်းကုန်ကြမ်းများကို ဗြိတိသျှ ကျွန်းစုမှ ထုတ်လုပ်သောကုန်ချောများနှင့် လဲလှယ်ရေးကို စီမံဆောင်ရွက်လေသည်။ ဤသို့ဖြင့် ဗြိတိသျှ ကျွန်းစုနှင့် ဥရောပနိုင်ငံ စက်ရုံကြီးများမှ ထွက်သော အထည်အလိပ်၊ သံကရိယာအစရှိသည့် ကုန်ချောများသည် မြန်မာပြည်တွင်းသို့ အဆီးအတားမရှိ တစိမ့်စိမ့်တဖွဲဖွဲ ဝင်လာသောကြောင့် မြန်မာတိုင်းရင်းသား အိမ်တွင်း လက်မှုပညာများ တစတစ တဖြည်းဖြည်း ဆုတ်ယုတ် ပပျောက်သွားလေသည်။ အထူးသဖြင့် လက်ရက်ကန်း၊ ပန်းဘဲ၊ ပန်းထိမ်၊ ယွန်းထည်၊ ဆား၊ ဖျာ၊ တောင်း အစရှိသည့် လုပ်ငန်းများ သိသိသာသာ ဆုတ်ယုတ် ခဲ့လေသည်။

၁၉၄၈ ခုနှစ်တွင် လွတ်လပ်သော မြန်မာနိုင်ငံတော်အဖြစ်သို့ ပြန်လည် ရောက်ရှိလာသော အခါ၊ ပြည်တွင်း စက်မှုလက်မှု အထူးသဖြင့် အိမ်တွင်း စက်မှုလက်မှု လုပ်ငန်းများ တိုးတက်စေရန် နိုင်ငံတော်အစိုးရသည် နှစ်နှစ် စီမံကိန်းအရ နိုင်ငံခြားမှ အထည်အလိပ် ကုန်ချောများ ဝင်ခွင့်ကို ကန့်သတ်၍ ခြည်ထုပ်များ၊ ရက်ကန်းပစ္စည်းနှင့် ဆိုးဆေးများ အစရှိသည်တို့ကို ပိုမို ဝင်ခွင့် ပြုခြင်းဖြင့် ပြည်တွင်း ရက်ကန်း လုပ်ငန်းများ တန္ဒေတခြား တိုးတက်လာစေသည်။

အိမ်တွင်း လက်မှုလုပ်ငန်းများ တိုးတက်လာစေရန် လက်မှုပညာပြပွဲကြီးများ မကြာခဏ ပြုလုပ်ခြင်းနှင့် ရင်းနှီးငွေများလိုလောက်မှုအတွက် အစိုးရချေးငွေများ ထုတ်ပေးရန် စီမံကိန်းများ ရှိကြောင်း သိရှိရ၏။ ယင်းလုပ်ငန်းများ အတွက် ခေတ်မီ စက်ကရိယာများ ပြသထားရှိရန် ပြတိုက်ကြီးများဖွင့်လှစ်ခြင်း၊ လက်မှု ပညာသင်ကျောင်းများ တည်ထောင်ခြင်းဖြင့် အားပေးကူညီရန် အစိုးရက ဆောင်ရွက်လျက် ရှိကြောင်းကိုလည်း သိရ၏။

မြန်မာနိုင်ငံ စီးပွားရေး အခြေခိုင်ခံ့စေရန် မြန်မာဘုရင်များ လက်ထက်၌ကဲ့သို့ လုပ်သား တရာလျှင် ၅၀ ကိုသာ စိုက်ပျိုးရေးနှင့် ကုန်ကြမ်းလုပ်ငန်းများတွင် အမှီပြုစေ၍၊ ကျန်လုပ်သားများကိုများသောအားဖြင့် ကုန်ချောလုပ်ငန်းများတွင် အမှီပြုစေရန် ရည်မှန်း ဆောင်ရွက်သင့်ပေသည်။ ကုန်ချောလုပ်ငန်းဆိုရာ၌ အိမ်တွင်း စက်မှုလက်မှု လုပ်ငန်းကလေးများသာမက သင့်တော်သော ခေတ်မီ စက်ရုံကြီးများ၊ အလုပ်ရုံကြီးများ စသော စီးပွားရေး လုပ်ငန်းကြီးများကို ဆိုလိုသည်။

စက်မှုလက်မှု လုပ်ငန်း ကြီးများဆိုရာ၌ ဆန်စက်၊ သစ်စက်၊ ရေနံဆီနှင့် ဓာတ်ဆီ၊ သတ္တုတွင်း အစရှိသည့် ကုန်ပစ္စည်းထုတ် လုပ်ငန်းများကို ဆိုလိုသည်။

မြန်မာနိုင်ငံရှိ စက်ရုံကြီးများ၏ ၁၉၄၀ ပြည့်နှစ်စာရင်းမှာ အောက်ပါအတိုင်းဖြစ်၏။ (စက်ရုံကြီးဆိုရာ၌စက်အားကိုသုံး၍ အနည်းဆုံး လုပ်သား ၂၀ ရှိသောအလုပ်ရုံကိုဆိုလိုသည်။)

| အမျိုးအမည် | လုပ်သား ဦးရေ | စက်ရုံ ဦးရေ |
|---|---|---|
| ၁။ ဆန်စက် | ၄၁,၆၂၆ | ၆၇၃ |
| ၂။ သစ်စက် | ၁၁,၅၇၉ | ၁၁၆ |
| ၃။ ဓာတ်ဆီချက်ရုံ | ၇,၄၅၄ | ၁၀ |
| ၄။ ဝါကြိတ်စက် | ၃,၇၆၆ | ၅၄ |
| ၅။ မီးရထားအလုပ်ရုံ | ၃,၂၉၃ | ၁၂ |
| ၆။ အထွေထွေအင်ဂျင်နီယာအလုပ်ရုံ | ၂,၉၉၁ | ၁၉ |
| ၇။ ပုံနှိပ်စက် | ၂,၆၈၁ | ၁၉ |
| ၈။ သင်္ဘောကျင်း | ၂,၂၀၁ | ၉ |
| ၉။ မီးခြစ်စက် | ၁,၉၈၄ | ၅ |
| ၁၀။ ဆီစက် | ၁,၅၁၃ | ၂၉ |
| ၁၁။ သကြားနှင့်ကြံရည်စက် | ၁,၃၈၆ | ၅ |
| ၁၂။ ခြည်စက် | ၁,၂၈၆ | ၁ |
| ၁၃။ စွပ်ကျယ်စက် | ၁,၁၃၇ | ၂ |
| ၁၄။ မော်တော်ကားအလုပ်ရုံ | ၇၂၇ | ၈ |
| ၁၅။ ဆပ်ပြာစက် | ၅၇၉ | ၁ |
| ၁၆။ စက်လက်နက်အလုပ်ရုံ | ၅၁၆ | ၁ |
| ၁၇။ ကြိုးစက် | ၄၇၅ | ၄ |
| ၁၈။ သိုးမွေးခြည်စက် | ၄၃၀ | ၁ |
| ၁၉။ ကြက်ပေါင်စေးပစ္စည်းအလုပ်ရုံ | ၃၈၉ | ၂ |
| ၂၀။ လျှပ်စစ်ဓာတ်အားပေးရုံ | ၃၅၃ | ၃ |
| ၂၁။ ရေခဲနှင့်ဗိလတ်ရည်စက် | ၃၄၆ | ၇ |
| ၂၂။ ဗိလတ်မြေ၊ ထုံးနှင့်အိုးခွက်အလုပ်ရုံ | ၃၂၅ | ၃ |
| ၂၃။ ဓာတ်ရထားအလုပ်ရုံ | ၂၆၄ | ၂ |
| ၂၄။ သတ္တုပစ္စည်းအလုပ်ရုံ | ၂၅၈ | ၃ |
| ၂၅။ ဆန်မှုန့်စက်ရုံ | ၂၃၃ | ၁ |
| ၂၆။ အရက်ချက်ရုံ | ၁၉၅ | ၂ |
| ၂၇။ မှုံ့ဖုတ်အလုပ်ရုံ | ၁၇၀ | ၃ |
| ၂၈။ လျှပ်စစ်အင်ဂျင်နီယာအလုပ်ရုံ | ၁၅၈ | ၄ |
| ၂၉။ ဂျုံကြိတ်စက်ရုံ | ၁၄၆ | ၁ |
| ၃၀။ သားရေနှင့်ဖိနပ်အလုပ်ရုံ | ၁၃၀ | ၁ |
| ၃၁။ သတ္တုရိုင်းကျိုစက်ရုံ | ၁၀၅ | ၄ |
| ၃၂။ လက်သမားအလုပ်ရုံ | ၉၀ | ၄ |
| ၃၃။ ရေစုတ်စက်ရုံ | ၉၄ | ၂ |
| ၃၄။ စိန်ရွှေပန်းထိမ်အလုပ်ရုံ | ၇၃ | [illegible] |
| ၃၅။ ကွဲနိုင်ဆေးပြားအလုပ်ရုံ | ၆၃ | [illegible] |
| ၃၆။ ဆေးဆိုးဆေးချတ်ခြင်းအလုပ်ရုံ | ၄၇ | ၁ |
| ၃၇။ ကြက်ပေါင်စေးအလုပ်ရုံ | ၄၇ | ၂ |
| ၃၈။ အုတ်၊အုတ်ကြွပ်နှင့်ကျောက်ကာအလုပ်ရုံ | ၄၄ | ၂ |
| ၃၉။ မီးလွှာပိုက်အလုပ်ရုံ | ၄၂ | ၁ |
| ပေါင်း | ၈၃,၂၁၀ | ၁၀၂၂ |

အထက်ဖော်ပြပါ စက်ရုံကြီးများအပြင် ရှမ်းပြည်မြောက်ပိုင်းရှိ (ဘော်တွင်း) သတ္တုတွင်းများ၊ တောင်ငူအနီးရှိ မော်ချီသတ္တုတွင်းနှင့် ထားဝယ် သတ္တုတွင်းများ ရှိသေးသည်။

ဤသို့သောစက်ရုံကြီးများ၊ အလုပ်ရုံကြီးများ၊ သတ္တုတွင်းလုပ်ငန်းကြီးများဖြင့် မြန်မာနိုင်ငံအတွက် ဝင်ငွေများစွာရစေခဲ့သော်လည်း ၁၉၄၁ ခုနှစ်တွင် ဒုတိယကမ္ဘာစစ်မီး ကူးစက်လာသည့် အချိန်မှစ၍ ထိုလုပ်ငန်းကြီးများ ပျက်စီးယိုယွင်းခဲ့ရာ ယခုတိုင် ကောင်းစွာ နာလန် မထူနိုင်ခဲ့သေးပေ။ ဤလုပ်ငန်းများ တင်းပြည့် ကျပ်ပြည့် ပြန်လည်ထူထောင်နိုင်ပါက၊ မြန်မာနိုင်ငံ စီးပွားရေး အထူးတိုးတက်လာပေမည်။ ပြန်လည်ထူထောင်ရာ၌ ရင်းနှီးငွေနှင့်လုပ်သားများ အထူးလိုအပ်သည်။ ရင်းနှီးငွေအတွက် ဆိုလျှင် တိုင်းရင်းသားများ၏ ချေတာစုဆောင်းငွေများ၊ အစိုးရ၏ ဘဏ္ဍာတော်မှ စိုက်ထုတ်ငွေများ၊ သို့မဟုတ် အစိုးရကနိုင်ငံခြားမှ ချေးငွေများဖြင့် စုပေါင်းဆောင်ရွက်သင့်သည်။ စစ်မဖြစ်မီကဆိုလျှင် အထက်ဖော်ပြပါ လုပ်ငန်းများ၌ များစွာသော လုပ်သားများမှာ အိန္ဒိယ နိုင်ငံသားများ ဖြစ်ကြ၏။ ယခုအခါ အိန္ဒိယနိုင်ငံသားများသည် မြန်မာနိုင်ငံသို့အလာနည်းသဖြင့် တိုင်းရင်းသား မြန်မာတို့ ဝင်ရောက်လုပ်ကိုင်ရတော့မည်ဖြစ်၍ အလုပ်လက်မဲ့ပြဿနာ ဖြေရှင်းနိုင်မည်သာမက တိုင်းရင်းသား လုပ်သားများအတွက် နေရေးထိုင်ရေး အတန်းအစား မြှင့်တင်နိုင်ရန်လွယ်ကူပေမည်။ စက်ရုံကြီးများ လုပ်ငန်းကြီးများ ထွန်းကားခြင်းဖြင့် လုပ်သားများအတွက် တနှစ်လျှင် ၁၂ လပတ်လုံး အလုပ်အကိုင်ဝင်ငွေမှန်မှန် ရနိုင်ရန် အကြောင်းရှိပေသည်။ လစဉ် ဝင်ငွေလည်း (စိုက်ပျိုးရေးနှင့် နှိုင်းစာသော်) ပိုမိုရရှိနိုင်သည်။ ထို့ပြင် ကမ္ဘာပေါ်ရှိ တိုးတက်နေသော နိုင်ငံများမှာပင် စက်ရုံလုပ်ငန်းကြီးများကို အထူး အားပေးလျက် ရှိကြလေသည်။

စက်မှု လက်မှု အလုပ်ရုံကြီးများရှိခြင်းဖြင့် စစ်ဖြစ်သောအခါအသုံးအဆောင်ပစ္စည်းအမျိုးမျိုးကိုတိုင်းပြည်အတွင်း၌ ပြုလုပ်နိုင်၏။ ယခုအခါ မြန်မာနိုင်ငံသည် စိုက်ပျိုးရေးကိုသာ ပိုမိုမှီခိုအားထားနေရသောကြောင့် များစွာသောလုပ်သားတို့မှာ ဝင်ငွေလုံလောက်ခြင်း မရှိကြချေ။ အချို့သော လုပ်သားများသည် စက်မှုလုပ်ငန်းကြီးများတွင် ဝင်ရောက် လုပ်ကိုင်နိုင်လျှင် စိုက်ပျိုးရေးတွင် ဆက်လက် လုပ်ကိုင်သူများအတွက် စီးပွားရေး တိုးတက်ရန်အကြောင်း ရှိပေသည်။

ထိုအကြောင်းများကြောင့် တိုင်းပြည်အတွက် သင့်တော်သော စက်မှုလက်မှု လုပ်ငန်းကြီးများကို သက်ဆိုင်ရာ အစိုးရတို့က အားပေးကူညီသင့်ပေသည်။ လုပ်သားများကလည်း ကျွမ်းကျင်မှုနှင့် စည်းကမ်းသေဝပ်မှုရှိရပေမည်။ စိတ်ကောင်းစေတနာဖြင့် အလုပ်ကိုရိုသေမှု လေးစားမှု အကျင့်ကောင်းမှုများ ရရှိစေရန် အစဉ် အားထုတ်ရမည် ဖြစ်ပေသည်။



ပြည်တွင်း ဖူလုံရုံမက နိုင်ငံခြားသို့ပင် တိုးချဲ့ ရောင်းချနိုင်ရန် တိုးတက်လျက်ရှိသော စီးပွားရေး လုပ်ငန်းတရပ်မှာ ဝါလုပ်ငန်းပင် ဖြစ်သည်။



မြန်မာ့စီးပွားကို များစွာ အထောက်အကူပြုသည့် အိမ်တွင်း လက်မှု လုပ်ငန်းမှာ ခြင်းတောင်းရက်သည့် လုပ်ငန်း ဖြစ်သည်။

**အိမ်တွင်းစက်မှုလက်မှုအလုပ်ရုံကလေးများ။** ။ရှေး မြန်မာဘုရင်များခေတ်တွင် စက်မှုလုပ်ငန်းများမရှိခဲ့သော်လည်း အိမ်တွင်း လက်မှု လုပ်ငန်းများ ဖွံ့ဖြိုး၍ လက်မှု ပညာသည်များ နိုင်ငံတဝန်းလုံး၌ အနှံ့အပြား ရှိခဲ့သည်။ အိမ်တိုင်း အိမ်တိုင်း၌ ရက်ကန်းစင်ကို တွေ့နိုင်၏။ ရွာတိုင်း ရွာတိုင်း၌ ဆိုသလို တောင်းရက်ခြင်း၊ ပလုံးရက်ခြင်း၊ ဖျာရက်ခြင်း၊ အိုးဖုတ်ခြင်းနှင့် ပန်းထိမ် ပန်းဘဲ လုပ်ငန်းများကို တွေ့ရှိနိုင်၏။ ယွန်းထည်လုပ်ငန်း၊ ထန်းလျက် ကြံသကာလုပ်ငန်း၊ ငပိ ငခြောက်လုပ်ငန်း၊ ပိုးထည်ရက်ခြင်း၊ ဆားချက်ခြင်း၊ ထုံးဖုတ်ခြင်း စသောလုပ်ငန်းတို့ကို များစွာသောဒေသတို့၌ တွေ့ရ၏။ စားသုံးပစ္စည်းများကို ပြည်တွင်း၌ ပြုလုပ်ဖန်တီးခြင်းဖြင့် လုံလောက်ခဲ့၏။

ဗြိတိသျှခေတ်တွင် အိမ်တွင်း လက်မှုပညာများ ဆုတ်ယုတ်ပျောက်ကွယ်ခဲ့လေသည်။ သို့ရာတွင် မြန်မာ နိုင်ငံ၌ အိမ်တွင်း စက်မှုလက်မှုများ ထွန်းကား တိုးတက်စေရန် အစိုးရနှင့် လူထုပါ တညီတညာတည်း အားထုတ်လျက်ရှိ၏။

အိမ်တွင်း လက်မှုလုပ်ငန်းများကို အောက်ပါအကြောင်းများကြောင့် အားပေး ကူညီရခြင်း ဖြစ်၏။

(က) မည်သည့် တိုင်းပြည်၌မဆို စိုက်ပျိုးရေးကို အမှီပြုနေသော တောင်သူ လယ်သမားဟူသရွေ့ အိမ်တွင်း လက်မှု ပညာတခုခုဖြင့် စိုက်ပျိုးရေး ဝင်ငွေကို ဖြည့်တင်းရ၏။

(ခ) မြန်မာ နိုင်ငံ၌ ၇၅ ရာခိုင်နှုန်းမျှသော လူဦးရေမှာ ကျေးလက်တောရွာများ၌ နေသူများဖြစ်၍ များသောအားဖြင့် စိုက်ပျိုးရေးကိုသာ အမှီပြုနေသဖြင့် အိမ်တွင်းလုပ်ငန်းများရှိမှသာ သူတို့၏ နေရေး ထိုင်ရေး အဆင့်အတန်းကို မြှင့်တင်နိုင်ပေမည်။ အိမ်တွင်း လက်မှုတွင် လူငယ်လူရွယ်၊ လူလတ်၊ သက်ကြီးသူများ အားလုံးပင် ကူညီဆောင်ရွက်နိုင်သည်။

(ဂ) အိမ်တွင်း လက်မှု လုပ်ငန်းသည် စက်ရုံကြီးများ၊ အလုပ်ရုံကြီးများကဲ့သို့ ရင်းနှီးငွေများစွာမလိုချေ။ သင့်တင့်သော ရင်းနှီးငွေနှင့်ပင် ဆောင်ရွက် နိုင်သည်။ ထို့ကြောင့် ရင်းနှီးငွေ ရှားပါးသော မြန်မာ နိုင်ငံကဲ့သို့သော နိုင်ငံများအတွက် ထိုလုပ်ငန်းကလေးများထွန်းကားရန် အားပေးကူညီရပေမည်။

ယခုအခါ မြန်မာနိုင်ငံ၌ အောက်ပါ အိမ်တွင်း စက်မှုလက်မှု လုပ်ငန်းများကို တွေ့ရှိနိုင်သည်။ ယင်းတို့မှာ ခြည်ထည်ရက်လုပ်ခြင်း၊ ပိုးထည် ရက်လုပ်ခြင်း၊ ကြံသကာချက်ခြင်း၊ ထန်းလျက် ချက်ခြင်း၊ အိုးဖုတ်ခြင်း၊ မီးသွေးဖုတ်ခြင်း၊ ဆားချက်ခြင်း၊ ထုံးဖုတ်ခြင်း၊ ထင်းခွေ ထင်းဖြတ်ခြင်း၊ နို့ထောပတ် ဒိန် အတွက် ကျွဲနွား မွေးမြူခြင်း၊ ကြိုးကျစ်ခြင်း၊ ဖျာတောင်းရက်ခြင်း၊ ကြိမ်ဝါးဖြင့် အိမ်ထောင် ပရိဘောဂ ပြုလုပ်ခြင်း၊ (သစ်သား) အရုပ်များ လုပ်ခြင်း၊ ငါးဖမ်းခြင်း၊ ငပိ ငခြောက် လုပ်ငန်း၊ ကြက်ငှက်မွေးမြူခြင်း၊ ပန်းဘဲ လုပ်ငန်း၊ ထီးလုပ်ငန်း၊ ယွန်းထည်လုပ်ငန်း စသည်တို့ ဖြစ်သည်။

ယခုအခါ သတ္တုအိုးခွက် လုပ်ငန်း၊ ဆပ်ပြာ၊ ဖယောင်းတိုင်၊ ကြံသကာ၊ ကာဖီမှုန့်၊ ပဲဆီ၊ နှမ်းဆီလုပ်ငန်း စသည့် အချို့သော လုပ်ငန်းများတွင် ခေတ်မှီ စက်ကရိယာများ အသုံး ပြုလျက်ရှိသည်ကို တွေ့ရပေသည်။ **ဦးတင်အုံး**



ရက်ကန်းလုပ်ငန်းသည်လည်း ပြည်တွင်း ဖူလုံမှုကို အထောက်အကူပြုသည့် မြန်မာ့စီးပွါးရေးလုပ်ငန်းတရပ် ဖြစ်သည်။

**မြန်မာ့ စစ်တပ် သမိုင်း။** ။စစ်နှင့် ဆိုင်သော ရှေးအစဉ်အဆက် မြန်မာစာပေများတွင် 'စစ်အင်္ဂါလေးပါး' ကို အခြေတည်၍ အမြဲ ဆိုလေ့ရှိသည်။ စစ်အင်္ဂါလေးပါး ဟူသော်ကား 'ဆင်လည်း တပါး၊ မြင်းလည်း တပါး၊ ရထားလည်း တပါး၊ ခြေသည်လည်း တပါး' ဖြစ်သည်။ ထိုစစ်အင်္ဂါလေးပါးကိုပင် 'သေနင်္ဂ' ဟူ၍လည်း ခေါ်သေးသည်။ သို့ရာတွင် ထိုစစ်အင်္ဂါလေးပါးမှာ ပါဠိကျမ်းများ၊ သက္ကတကျမ်းများကို မှီး၍ ဆိုခြင်းမျှသာ ဖြစ်သည်။ ထိုစစ်အင်္ဂါလေးပါးအနက် 'ရထား'မှာ ရှေးနှစ်ပေါင်း ၃,၀၀၀ ခန့်က ဖြစ်သော မဟာဘာရတ ကျမ်းကြီးတွင် ဘာရတညီနောင် စစ်ထိုးခန်း စသည်တို့၌ ပါရှိသော်လည်း မြန်မာ့ သမိုင်းတလျှောက်၌ 'ရထားတပ်' ဟူ၍ မရှိခဲ့။ တဖန် ပါဠိကျမ်းများ၊ သက္ကတကျမ်းများ၌ 'လှေသင်္ဘောတပ်' ဟူ၍ မပါရှိသော်လည်း မြန်မာတို့၌မူ 'လှေသင်္ဘောတပ်' (ရေတပ်) ပါရှိရစမြဲ ဖြစ်သည်။ ထို့ကြောင့် စစ်တပ်ဖွဲ့ပုံ၊ စစ်ချီပုံ၊ ခံမြို့တည်ပုံ စသည်တို့၌ မြန်မာ စစ်ကျမ်းများက ပါဠိကျမ်းများ၊ သက္ကတကျမ်းများကို မှီး၍ ဆိုကြသော်လည်း ရေမြေဒေသ ခေတ်ကာလ အလျောက် လက်တွေ့ မြန်မာနည်းများကို တီထွင် ကျင့်သုံးခဲ့ကြကြောင်းဖြင့် သိရသည်။

ဤတွင် မြန်မာရာဇဝင်များ၌ ဖော်ပြထားသော တကောင်းခေတ်၊ သရေ ခေတ္တရာခေတ်နှင့် ပုဂံပြည် အနော်ရထာမင်းစော လက်ထက် မရောက်မီသော ခေတ်များ၌ မြန်မာတို့၏ စစ်ဓလေ့ ထုံးစံများ မည်သို့ မည်ပုံ ရှိခဲ့ကြသည်ကိုမူ ကောင်းစွာမသိရ ။ အနော်ရထာ မင်းစော လက်ထက်လောက်မှစ၍သာ နည်းနည်းချင်း သိလာရတော့သည်။

အနော်ရထာမင်းစော လက်ထက်မှသည် သီပေါမင်းလက်ထက် အထိ မြန်မာတို့ စစ်တပ်ဖွဲ့ပုံမှာ ရှေးပဒေသရာဇ်ပုံစံ အတိုင်းပင် ဖြစ်သည်။ မင်းဧကရာဇ်တို့ စံနေရာ ဖြစ်သော ရာဇဌာနီ နေပြည်တော်များတွင် အရှေ့၊ အနောက်၊ တောင်၊ မြောက် တည်းဟူသော လေးပြင် လေးရပ်တို့ကို စောင့်ရှောက်ရသည့် ထောင်မှူး လေးဦး၊ သူရဲ ၄,၀၀၀ မှ တပါး အမြဲဖွဲ့စည်းထားသော တပ် ဟူ၍ မရှိ။ စစ်မက်အရေး ပေါ်ပေါက်လာသည့် အခါများတွင်မှ တနိုင်ငံလုံးရှိ ရဲရောင်သန်မာသူတို့ကို ဆင့်ခေါ်စုရုံးဖွဲ့စည်း တိုက်ခိုက်စေကြသည်။ ထိုကိစ္စ အတွက်လည်း ထောင်ပြူ၊ ရှစ်ရာပြူ၊ လေးရာပြူ၊ သုံးရာပြူ၊ နှစ်ရာပြူ၊ တရာပြူ၊ ရှစ်ဆယ်ပြူ၊ ငါးဆယ်ပြူ၊ သုံးဆယ်ပြူ၊ နှစ်ဆယ်ပြူ အထိ အသီးအသီး မြို့ပြတည်ရသည်။ ထောင်ပြူမြို့ ဆိုသည်မှာ စစ်မက် အရေး



မြန်မာနှင့် ရန်သူ ဆင်တပ်ချင်း တိုက်ခိုက် ယှဉ်ပြိုင်ကြစဉ်။ လက်ဝဲဖက်ရှိ ဆင်တပ်မှာ မြန်မာတပ် ဖြစ်သည်။




ဒွိအဓိပ

ခေါ်

ဂဠုန်တောင်ကဲ့သို့ စစ်ထိုးခြင်း



ဝါရိဝေဂ

ခေါ်

ရေယဉ်ဆင်းသကဲ့သို့ စစ်ထိုးခြင်း



တနည်း




ဥသဘ

ခေါ်

နွားလားဥသဘကဲ့သို့ စစ်ထိုးခြင်း




ဓေနုက

ခေါ်

လေးပြင်းထန် လေးညို့ဖြန်းသကဲ့သို့ စစ်ထိုးခြင်း




မကရ

ခေါ်

မကန်းကွက်ကဲ့သို့ စစ်ထိုးခြင်း



ဘုဇဂ

ခေါ်

မြွေသွားသကဲ့သို့ စစ်ထိုးခြင်း

စစ်ထိုးခြင်း ခြောက်ပါး




## နဒီစရဗျူဟာ

## ခေါ်

ရင်ဖောင်တန်း ငှက်ကဲ့သို့ စစ်ခံခြင်း




## ဝိစိတ္တကဗျူဟာ

## ခေါ်

ကင်းလက်မကဲ့သို့ စစ်ခံခြင်း




## သကဋဗျူဟာ

## ခေါ်

လှည်းဦးကင်းကဲ့သို့ စစ်ခံခြင်း




## မဍဝတ္တနဗျူဟာ

## ခေါ်

ပျားလပို့ကဲ့သို့ စစ်ခံခြင်း




## စက်ပါဒဗျူဟာ

## ခေါ်

ကျီးခြေကဲ့သို့ စစ်ခံခြင်း




## ဥဒ္ဒနဗျူဟာ

## ခေါ်

ခုံလောက်ကဲ့သို့ စစ်ခံခြင်း

စစ်ခံခြင်း ခြောက်ပါး

ပေါ်ပေါက် လာခဲ့သော် စစ်တပ်အတွက် ရဲမက် တထောင် ပေးရသည်။ ရှစ်ရာပြုမြို့က ရဲမက် ရှစ်ရာ ပေးရသည်။ ဤသို့အားဖြင့် သုံးဆယ်ပြု မြို့ကလည်း ရဲမက် သုံးဆယ်၊ နှစ်ဆယ်ပြု မြို့ကလည်း ရဲမက် နှစ်ဆယ် အသီးအသီး ပေးကြရသည်။ မြန်မာတနိုင်ငံလုံးမှ ဤနည်းဖြင့် ရဲမက် သုံးသိန်း ရနိုင်လေရာ မြန်မာနိုင်ငံကို သုံးသိန်းပြု ဟု သတ်မှတ်ထားသည်။ ဤစံနစ်ကို စတင်တီထွင်ခဲ့သူမှာ အနော်ရထာ မင်းစောပင် ဖြစ်သည်။ ထိုစဉ်က မြန်မာနိုင်ငံ၏ အရှေ့ဖက်နယ်စပ် တလျှောက်တွင် အစောင့် အရှောက် မြို့များ အဖြစ် ကောင်းစင်၊ ကောင်းတို့၊ ငရှန်း၊ ငရင်းအစရှိသော မြို့ပေါင်း ၄၃ မြို့ကို တပြိုင်နက်တချက်တည်း တည်စေခြင်းမှ အစပြုသည် ဟုဆိုသည်။

ထိုမြို့များမှ ထောက်ပံ့ကြရသည့် အစုကျ စံနစ်မှာလည်း လေးရာပြုမြို့ ဆိုလျှင် ရဲမက် ၄၀၀ အပြင် တအိမ်လျှင် ငွေ တမူးစီ ပေးရသည်။ ထိုရဲမက် ၄၀၀ အနက် ဒိုင်းကိုင် ၅၀၊ လေးသား ၈၀၊ လှံခား ၅၀၊ သေနတ်ကိုင် ၈၀၊ ဝန်ထမ်း ၅၀၊ အမြောက်တွင် မီးစာကိုင် ၉၀ ဟူ၍ စုစုပေါင်း ရဲမက် ၄၀၀ ကို အချိုးကျ ထောက်ပံ့ရသည်။

ထို့ပြင် စစ်မက်အရေး ပေါ်ပေါက်တိုင်း ထီးရုံ၊ နန်းရုံ ဖြစ်သော စော်ဘွားများ၊ မြို့စားများကလည်း မိမိတို့ တပ်များနှင့် အတူ ဆင့်ဆိုရာသို့ လိုက်ပါ တိုက်ခိုက်ကြရသည်။

မြန်မာမင်းများ လက်ထက်တွင် စစ်ဖက် အမှုထမ်း၊ မြို့ရွာ အုပ်ချုပ်ရေး အမှုထမ်း ဟူ၍ သီးခြား မရှိ၊ စစ်မက်အရေး ပေါ်ပေါက်လျှင် ဘုရင်မှအစ အမှုထမ်း တယောက် မကျန် စစ်မှုထမ်းရွက်ရသည်။ တပ်တွင် ဘုရင်နှင့် အိမ်ရှေ့မင်းသားတို့ မပါလျှင် ယုံမှတ်သော မင်းသားတဦးဦးကို အမှူးအချုပ် ခန့်အပ်သည်။ ထိုအမှူးအချုပ်ကို 'ဗိုလ်မှူးမင်းသား' ဟုခေါ်သည်။ မြင်းတပ်တွင်လည်း အထူးယုံမှတ်သော မင်းသားကို ခန့်ထားသည်။ 'မြင်းမှူးမင်းသား' ဟုခေါ်သည်။ လွှတ်တော် ဝန်ကြီး ဟူသရွေ့ကား 'အဂ္ဂမဟာ သေနာပတိ' ဘွဲ့ကို ခံယူကြရသည်။

ရှေးရိုးစဉ်လာအရ မှူးမတ်–မင်းချင်း၊ မင်းခစား–အမှုထမ်း၊ သူရဲ–သူခက်တို့အား အရည်အသွေး အလျောက် ရာထူးများ တိုးတက်ခန့်ထားပုံမှာ (၁) ခြေ ၁၀ ပွဲရမှ မြင်းသို့ တင်သည်။ (၂) မြင်း ၁၀ ပွဲရမှ ဆင်သို့ တင်သည်။ (၃) ဆင် ၁၀ ပွဲရမှ လှေသို့ တင်သည်။ (၄) လှေ ၁၀ ပွဲရမှ မြို့ပြက်ကျေး ပေး၍ သူကောင်းပြုသည်။ ဤစံနစ်ကို ထောက်လျှင်'လှေတပ်'ကို အရေးအကြီးဆုံး ထားကြောင်း သိရသည်။

မြန်မာ့ သေနင်္ဂဗျူဟာ စစ်ပညာများ ဖြစ်ကြသော စစ်၏အစီအရင် ခုနစ်ပါး အစရှိသည်တို့ အကြောင်းကိုလည်းကောင်း၊ မြန်မာ့ စစ်စာပေများ ဖြစ်ကြသော သေနင်္ဂဗျူဟာကျမ်း အစ ရှိသည်တို့ အကြောင်းကိုလည်းကောင်း၊ မြန်မာတို့ အကြီး အကျယ် အောင်နိုင်ခဲ့ကြသည့် အသံ စစ်ပွဲများ အစ ရှိသည်တို့ အကြောင်း ကိုလည်းကောင်း၊ မြန်မာတို့၏ စစ်သူကြီးများဖြစ်ကြသော မဟာဗန္ဓုလ အစ ရှိသည်တို့ အကြောင်းကိုလည်းကောင်း၊ မြန်မာ စစ်ဘုရင်ကြီးများ ဖြစ်ကြသော အလောင်းမင်းတရား အစရှိသည်တို့ အကြောင်းကိုလည်းကောင်း စာလေးမည် စိုး၍ ခြွင်းချန်ခဲ့သည်။

သို့ ခြွင်းချန်ထားပြီးနောက် သိသင့်၊ သိထိုက် သေးသည် ဟု အထင်ရှိသော သီပေါမင်းတရားလက်ထက် မြန်မာနိုင်ငံ မပျက်သုဉ်းမီအချိန်က စစ်တပ် ခန့်ခွဲအုပ်ချုပ်ပုံ အကြောင်းကို ဆက်၍ ဆိုပေမည်။

### စစ်တပ် ခန့်ခွဲ အုပ်ချုပ်ပုံ

**ကြည်းတပ်**

(၁) **ဆင်အစု၊** ၊ဆင်ဝန်၊ ခနက် ပလာ ဆင်ဝန်၊ ဆင်ဝန်ထောက်၊ ဆင်စာချီ၊ အောက်မားဝန်၊ အောက်မား စာရေး၊ ဆင်မှူး၊ သွေးသောက်ကြီး၊ နောက်တော်ဒိုင်း၊ ဆင် အတတ်ကို ကျွမ်းကျင်သူ၊ ဆင်ဆေး ဆရာ။

(၂) **မြင်းအစု၊** ၊မြင်းဝန်၊ မြင်းတပ်ဗိုလ်၊ မြင်း စာရေးကြီး၊ အဝေးမြင်းစာရေး၊ မြင်းခေါင်း၊ မြင်းစီး၊ မြင်းအမှုထမ်း၊ မြင်းဆေး ဆရာ။

(၃) **အမြောက်အစု၊** ၊အမြောက်ဝန်၊အမြောက်စာရေး၊ အမြောက်မှူး၊ သွေးသောက်ကြီး၊ အကြပ် အမှုထမ်း။

(၄) **စိန်အစု၊** ၊အမြောက်ဝန်က အုပ်ချုပ်သည်။

(၅) **သေနတ်အစု၊** ၊သေနတ်ဝန်၊ သေနတ်ဗိုလ်၊ သေနတ် စာရေးကြီး၊သေနတ် စာရေး၊တပ်မှူး၊ သွေးသောက်ကြီး၊ အကြပ်အမှုထမ်း။

(၆) **ခားစွဲ၊ လှံစွဲအစု၊** ၊သေနတ် ဝန်ကြီး၏ လက်အောက်။

(၇) **ယွန်း၊ကောင်ဟန်အစု၊** ၊သေနတ် ဝန်ကြီး၏ လက်အောက်။

(၈) **တင်ကျည်းအစု၊** ၊သေနတ်ဝန်ကြီး၏လက်အောက်။ (ဝါးရင်းတုတ် အစု ဟူ၍လည်း ခေါ်သည်။)

(၉) **လေးအစု၊** ၊သေနတ် ဝန်ကြီး၏ လက် အောက်။ (နောက်တွင် သေနတ် ကိုင်ရသည်။)

(၁၀) **ဒိုင်းအစု၊** ၊သေနတ်ဝန်ကြီး၏ လက်အောက်။

(ရှေ့ကာတပ်)




ဓညဝတီမြို့ဝန်

နတ်မြစ်တလျှောက်

(ရှေ့ရံတပ်)

ဓညဝတီ

<u>လက်ဝဲစစ်ကဲ(ဗိုလ်ချုပ်)</u>
မင်းကြီးမဟာသီဟသူရ (မြဝတီဦးစ)
တပ်ရင်း ၆ရင်း
စစ်ဆင် ၁၀
စစ်မြင်း ၃၀၀

(<u>ပင့်မတပ်</u>)

ဆင်ပြူ့ကွန်း

စစ်ကြောင်းမှူး(ဗိုလ်မှူး)
မင်းကြီးမဟာဗန္ဓုလ

လက်ျာစစ်ကဲ (ဗိုလ်ချုပ်)
မင်းကြီးမဟာမင်းလှရာဇာ

နားခံ-စလေမြို့စားမင်းလှရာဇာ
နားခံ-မဟာစည်သူကျော်ထင်
တပ်ရေးစာရေးကြီးနေမျိုးကျော်သူနော်ရထာ
တပ်ရေး-မင်းထင်စည်သူ

<u>ရာထူးခန့်အဖွဲ့</u>

မဟာမင်းကျော်
နေမျိုးမဟာမင်းလှမင်းကျော်
မင်းခေါင်ကျော်ထင်
မင်းရဲရာဇာ
မင်းလှသီရိသင်္ခယာ
နေမျိုးရဲခေါင်နော်ရထာ
ဘွဲ့ရ - ၁၀၀
အမှုထမ်း- ၆၀၀
လဲပီးများ - လက်ျာစစ်ကဲအတွက် ၃၀၀၀ (ပုဂံနှင့်ပြည်သားများ)
တပ်မအာရုံ ၃၀၀၀
စစ်ဆင် - ၅၀
စစ်မြင်း – ၅၀၀

**မဟာဗန္ဓုလ လက်ထက် စစ်မြေပြင် တပ်မ ဖွဲ့စည်းပုံ**

## မြန်မာ့စစ်တပ်သမိုင်း




မြန်မာတို့၏ စစ်ချီတက်မှု အစီအစဉ်

(၁၁) **ကာအစု**၊ ၊လက်နက်ကာ အမှုထမ်း၊ ဆင် ကာ အမှုထမ်းဟူ၍ကွဲပြားသည်။ဆင် ကာ အမှုထမ်း များမှာ အလုပ် ဌာနတွင် ပါဝင်သည်။

ရေတပ်

(၁)**သင်္ဘောအစု**၊ ၊ကပ္ပိတန်၊ စက်ဆရာ၊ သင်္ဘော အမှုထမ်းများ။

(၂)**သမ္ဗန်အစု**၊ ၊ရေးက လှေတော်များက ဆွဲရသည်။ မင်းတုန်းမင်းနှင့် သီပေါမင်းတို့ လက်ထက်တွင်သင်္ဘောအစုနှင့်ပေါင်းသည်။

(၃)**သရပတ်အစု**၊သေနတ်ကြီး၊အကြပ်အမှုထမ်း။

(၄)**ရဲလှေအစု**၊ ၊ရဲလှေနှင့် ခတ်လှေ မတူ၊ လှေပုံချင်းလည်း မတူ။

(၅)**ခတ်လှေအစု**၊ ၊ထောင်ကဲ၊ ပွဲနင်း၊သေနတ်ကြီး၊ ဦးစီး၊ တက်မကိုင်၊ လက်အောက်အမှုထမ်းများ။

(၆)**လှေလျှင်အစု**၊လှေလျှင် ဆိုသည်မှာ လှော်လှေနှင့် လှော်လောင်း တို့ကို ဆိုလိုသည်။ ဂေတ်လှေလည်း ပါဝင်သည်။

နေပြည်တော်စောင့်တပ်

(၁)**နန်းတွင်းစောင့်**၊ ၊တောင်ထားဝယ် အစု၊ မြောက်ထားဝယ်အစု၊ တောင် တရာ့ငါးဆယ် အစု၊ မြောက် တရာ့ငါးဆယ် အစု၊ မြောက်မာရဘင်၊ ရွှေပြည် မှန်ကင်း၊ နောက် ဝန်းကျင်အစုများနှင့်တံခါးနီ၊ ဝင်း လေးမျက်နှာလည်း ပါဝင်သည်။

(၂)**မြို့တွင်း ၁၂ ကွက်စောင့်**၊ ၊တကွက်လျှင် တကင်းကျ စောင့်ရသည် ။ ယခုကာလရှိ ကင်းဂတ်များနှင့် တူသည်။

(၃)**အုတ်မြို့ ၁၂ တံခါးစောင့်**၊ ၊တံခါးဗိုလ်၊ တံခါးမှူးများအပြင် စုကြီး ခြောက်ကြောင်းက အလှည့်ကျ စောင့်ရသည်။ အစုကြီးများမှာ နတ်စု လက်ဝဲ၊ နတ်စုလက်ယာ၊ ရွေး လက်ဝဲ၊ ရွေး လက်ယာ၊ လက်ဝဲကြောင်း၊ လက်ယာကြောင်း တို့ဖြစ်သည် ။

(၄)**မြေမြို့ ၅၄ တံခါးစောင့်**၊ မြေမြို့အတွင်းအစောင့်၊ ၊ တံခါး တပေါက်လျှင် တံခါးမှူး ၁၊ တံခါးစောင့် ၁၊ တကွက်လျှင် အရာထောက် (ရပ်ကွက် သူကြီး)၊ အကွဲထောက် (ရပ်ကွက် သူကြီး)၊ ဆယ်အိမ်ခေါင်းနှင့် အစု သေနတ် တို့က စောင့်ရသည်။ အစု သေ နတ် မှာ တောင် မာ ရ ဘင်၊ ရွှေ လှံ နတ် ရှင်၊ ရွှေးလင်းဇင်း၊ ရွှေပြည်၊ ဘုန်းတော်ဖြစ်၊ ဘုန်းတော်တိုး၊ သူရဲအမှုထမ်းများ ဖြစ်သည်။

(၅)**မြို့တော်စောင့်**၊ ၊မြို့တော်ကို အစုသေနတ်၊သို့မဟုတ် တာဝန် ချထားသော ကောင်ဟန်စု၊ ယွန်းစု စသည်တို့က စောင့်ရသည်။

အဝေးမြို့စောင့်

(၁)**မြို့တွင်းအမြဲစောင့်အမှုထမ်း**၊ ၊အမှုထမ်းမြို့ဖြစ်လျှင် အမှုထမ်းများက စောင့်ရသည်။ အမှုထမ်းမြို့ မဟုတ်လျှင် မြို့စောင့် သေနတ်က စောင့်ရသည်။ သူကြီးများက အလှည့်ကျ အုပ်ချုပ်ရသည်။

(၂)**လမ်းလျှောက် ကင်းစောင့် အမှုထမ်း**၊ ၊လမ်းလျှောက် တပ်ဗိုလ်နှင့် တပ်မှူး တို့ကို ခွဲခြားခန့်ထားသည်။ အစုဝင် အမှုထမ်း မဟုတ် သူများနှင့် ပေါင်း၍ စောင့်ရသည်။

လက်နက်တိုက်

(၁) **နေပြည်တော် လက်နက်တိုက်**၊ ၊လွှတ်တော်ကကြီးကြပ် စီမံ၍ လက်နက်တိုက်ဝန်၊ လက်နက်တိုက် စာရေး၊ သေနတ်ကြီး အမှုထမ်း များက အုပ်ချုပ်သည်။

(၂) **အဝေးလက်နက်တိုက်မှူး**၊ ၊ဒေသ ဆိုင်ရာ အရာရှိများနှင့် အမှုထမ်းများက အုပ်ချုပ်ရသည်။

ဤသည်တို့ကား မြန်မာ့ စစ်တပ် သမိုင်းနှင့် စပ်လျဉ်း၍ သိသင့်သိထိုက်သော အကြောင်းအချက် အချို့ ဖြစ်သည်။

ဤတွင် 'မြန်မာ့ စစ်တပ်သမိုင်း' အကြောင်းကို နိဂုံးမချုပ်မီ ရှေးမြန်မာစစ်သည်တော်များ စစ်ချီတက်၊ တိုက်ခိုက်ကြပုံနှင့် စပ်လျဉ်း၍ နိုင်ငံခြားသား တဦး၏ အမြင်ကို တင်ပြလိုပေသည်။ ထိုသူမှာ အခြား မဟုတ်၊ မျက်မြင်ကိုယ်တွေ့ လေ့လာ မှတ်သားထားသူ ဗရင်ဂျီ ဖုန်းတော်ကြီး ဆန်ဂျာမာနို ဖြစ်သည်။ ၁၇၃၃ ခုနှစ်တွင် သူရေးသည့် 'ဗမာ့ အင်ပါယာ အကြောင်း' ဟူသော ကျမ်း၌ အောက်ပါ အတိုင်း အပိုအလိုမရှိ မှတ်တမ်း တင်ထားခဲ့လေသည်။

"စစ်ထွက်ရတော့မည်ဟု အမိန့်ရကြသည်နှင့် တပြိုင်နက် ဗမာစစ်သည်တော်များသည် ကောက်စိုက်ခြင်း၊ ကောက်ရိတ်ခြင်းနှင့် စစ်မဲ့ချိန်တွင် ဝမ်းစာအတွက် ရှာမှီးလုပ်ကိုင်လျက် ရှိကြသော မည်သည့် အလုပ်အကိုင် မျိုးကို မဆိုပစ်ထား ခဲ့ကြပြီး ချက်ခြင်းပင် သက်ဆိုင်ရာ တပ်ဖွဲ့များ

သို့ သွားရောက် သတင်းပို့ကြကာ စစ်ထွက်ရန် ပြင်ဆင်ကြကုန်သည်။ နောက် သူတို့၏လက်နက် (သေနတ်) များကို ပခုံးပေါ်တွင် ထမ်းပိုးသဖွယ် ထမ်းလိုက်ကာ တဖက်အစွန်းတွင် ဖျာလိပ် တလိပ်၊ ညတွင် ခြုံရန် စောင်တထည်၊ သေနတ်အတွက် ယမ်းနှင့် ကျည်ဆန်များ၊ ချက်ပြုတ် စားသောက်ရန် အိုးငယ် တခုကို ချိတ်လိုက်ပြီး အခြားတဖက်အစွန်းတွင် ဆန်၊ ဆား၊ ငါးပိတို့ကို ချိတ်လိုက်သည်။ ဤသို့အားဖြင့် ဗမာစစ်သည်တော်များသည် လိုရာ စခန်းသို့ ယာဉ်များမပါ၊ အဝတ်တဲများ မပါ၊ ဝတ်ဆင်နေကျ အဝတ်အစားများနှင့်ပင် ခေါင်းပေါ်၌ 'စစ်သား'ဟု အသိအမှတ်ပြုရသည့် အဝတ်နီစများကို တင်ကာ ခြေလျင် လျှောက်ကြသည်။ အိပ်သည် ဆိုရာ၌လည်း ခဏ ခေတ္တလောက်သာ အိပ်ကြသည်။ အိပ်ရာမှ ထလာပြန်လျှင်လည်း မိမိတို့ကိုယ်တိုင် ကိုယ်ကျ ထမင်းကို ချက်၍....မိမိတို့ ကိုယ်တိုင်ကိုယ်ကျပင် စစ်သားများနှင့် ခရီးသွားတိုင်း အမြဲဆောင်ထားလေ့ ရှိသည့် ငါးပိအနည်းငယ်နှင့် ရောသော ဟင်းသီး ဟင်းရွက် ရေလုံပြုတ်တမျိုးကို ပြုတ်ကျိုကာ....စားသောက်ကြပြီးနောက် နံနက် ကိုးနာရီဆိုလျှင် ဆက်လက်ချီတက်ကြပြန်သည်။ ညအချိန်တွင်မူ သူတို့သည် မြေကြီးပေါ်၌ပင် တိုက်ခတ်လျက်ရှိသော လေပွေ လေပြင်း၊ ကျဆင်းလျက်ရှိသော နှင်းမှုန်နှင်းခဲ၊ ဈေကြဲလျက်ရှိသော မိုးသီးမိုးပေါက်တို့ကို သစ်ရွက် ဆူးချုံတို့ဖြင့်သာ ကာ၍ ရံ၍ အိပ်ကြကုန်သည်။ တခါတရံ တိုက်ပွဲ ဖစ်ပွဲများကို ရှေလာမည့်နှစ်သို့ ရွှေ့ဆိုင်း လိုက်ကြပြန်ပြီ ဆိုလျှင် ထိုစစ်သည်တော်များသည် ရဲဘော် ရဲဖက် အားလုံး စားသုံးနိုင်ရန်အတွက် ရန်သူနယ်ပယ်အတွင်း၌ပင် လယ်ထွန်ခြင်း၊ စပါးစိုက်ခြင်းစသော အမှုကိစ္စတို့ကို ပြုလုပ်ကြရပြန်လေသည်။"

ဦးဘသောင်း

**မြန်မာ့စွယ်စုံကျမ်း။** ။စွယ်စုံကျမ်း — ရှ။

# နိုင်ငံတည်ဆောက်ရေးလမ်းစဉ်

**ပြည်ထောင်စုမြန်မာနိုင်ငံ တော်လှန်ရေးကောင်စီသည် ၁၉၆၂ ခုနှစ် ဧပြီလ ၃၀ ရက်နေ့တွင် ကျင်းပခဲ့သော တပ်မတော် တပ်မှူးများ ညီလာခံ၌ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ဟူသော နိုင်ငံတည်ဆောက်ရေး လမ်းစဉ်ကြီးတရပ်ကို ချမှတ်ခဲ့သည်။ ထိုလမ်းစဉ်၏ အနှစ်သာရ၊ အဝိက အသွင်လက္ခဏာများနှင့်တကွ၊ တော်လှန်ရေးကောင်စီသည် ထိုလမ်းစဉ်ကို အကောင်အထည် ဖော်သောအားဖြင့် မည်သို့ ဆောင်ရွက်နေပုံတို့ကိုပါ အောက်တွင် တွေ့မြင် ဖတ်ရှုရပေမည်။**

**မြန်မာ့ ဆိုရှယ်လစ်လမ်းစဉ်။** ။ပြည်ထောင်စု မြန်မာနိုင်ငံ မြန်မာ့တပ်မတော် ကာကွယ်ရေး ဦးစီးချုပ် ဗိုလ်ချုပ်ကြီး နေဝင်း ဦးဆောင်သော ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီသည် ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ဖွဲ့စည်း ဖြစ်ပေါ်လာခဲ့သည်။ တော်လှန်ရေးကောင်စီသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ ယိုယွင်းလာနေခဲ့သောအခြေအနေဆိုးကို ဖျက်သိမ်းရန်နှင့် တိုးတက်ကောင်းမွန်၍ သာယာ ဝပြောအံ့သော လူ့ဘောင်သစ်ကို တည်ဆောက်ရန်တို့အတွက် နိုင်ငံတော် အာဏာကို မလွှဲသာပဲ သိမ်းယူခဲ့ရလေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီသည် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း မှီတင်း နေထိုင်ကြကုန်သော တိုင်းရင်းသား လူမျိုးများ အားလုံး ပါဝင်သော လုပ်သားပြည်သူ လူထုကြီး တရပ်လုံး၏ လူမှုရေး အကျိုးစီးပွားကို အခြေခံသည့် နိုင်ငံတည်ဆောက်ရေး လမ်းစဉ်ကြီး တရပ်ကို ၁၉၆၂ ခုနှစ် ဧပြီလ ၃၀ ရက်နေ့တွင် ကျင်းပခဲ့သော တပ်မတော် တပ်မှူးများ ညီလာခံ၌ အညီအညွတ် အတည်ပြု၍ ချမှတ်ခဲ့လေသည်။ နိုင်ငံ တည်ဆောက်ရေးလမ်းစဉ်၏ အမည်နာမသည်ကား **မြန်မာ့ ဆိုရှယ်လစ်လမ်းစဉ်** ဟူသတည်း။

မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ အနှစ်သာရနှင့် အဓိက အသွင် လက္ခဏာများသည်ကား အဘယ်နည်း။

မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ အနှစ်သာရသည် ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်းရှိ တိုင်းရင်းသား လူမျိုးစုံ၊ ဘာသာစုံ ပါဝင်သည့် လုပ်သား ပြည်သူ လူထုကြီး တရပ်လုံး၏ စားဝတ်နေရေးနှင့် လူမှုရေး အကျိုးစီးပွား အရပ်ရပ်ကို အစွမ်းဆောင်နိုင်ဆုံးသော နည်းလမ်းတို့ဖြင့် ထာဝစဉ်ဆောင်ရွက်နေမည် ဟူသော မှန်မြတ်သော ရည်ရွယ်ချက်ကြီး ဖြစ်ပေသည်။ ဤရည်ရွယ်ချက်ကြီးသည်ပင်လျှင် မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ အခြေခံ အကျဆုံးသော လမ်းညွှန်တရားကြီး ဖြစ်ပေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီသည် အဘယ်မည်သော ယုံကြည်ချက်ကို အခြေပြု၍ ဤမည်သော မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်ကို ဆောင်ရွက်ပေသနည်း။ တော်လှန်ရေး ကောင်စီသည် မိမိ၏ ယုံကြည်ချက်ကို ဤသို့ ကျေညာခဲ့ပေသည်။ "ပြည်ထောင်စု မြန်မာနိုင်ငံ



မြန်မာ့ ဆိုရှယ်လစ်လမ်းစဉ်ပါတီ ဌာနချုပ်

တော်လှန်ရေး ကောင်စီသည် ဤလောက၌ လူလူချင်း ခေါင်းပုံဖြတ်၍ မတရား အမြတ်ရှာစားသော စီးပွားရေး စနစ်ဆိုးများ တည်ရှိနေသရွေ့ ကာလပတ်လုံး လူအပေါင်းကို လူမှု ဒုက္ခများမှ လွတ်မြောက်စေလိမ့်မည်ဟု မယုံကြည်။ ဤပြည်ထောင်စု မြန်မာနိုင်ငံတွင် လူလူချင်း ခေါင်းပုံဖြတ်ခြင်း ကင်း၍ တရားမျှတမှုရှိသော ဆိုရှယ်လစ်စီးပွားရေး စနစ်ကို တည်ဆောက်နိုင်မှသာလျှင် လူမျိုးမရွေး ဘာသာမရွေး ပြည်သူလူထု အပေါင်းသည် အစားဆင်းရဲခြင်း ဒုက္ခ၊ အဝတ် ဆင်းရဲခြင်း ဒုက္ခ၊ အနေဆင်းရဲခြင်း ဒုက္ခ၊ အူမ မတောင့်သဖြင့် သီလ မစောင့်နိုင်သော ဒုက္ခ အစရှိသည့် လူမှုဒုက္ခ အပေါင်းမှ လွတ်မြောက်ကြလျက်၊ ကိုယ်စိတ်နှစ်ဖြာ ကျန်းမာ ချမ်းသာကြမည့် သာယာ ဝပြောသော လောကသစ်ကြီးသို့ ရောက်ရှိနိုင်မည်ဟု ယုံကြည်သည်။ သို့ယုံကြည်သည့်အတိုင်း ဆိုရှယ်လစ် လောကသို့ မရောက် ရောက်အောင် ပြည်သူတို့နှင့် အတူ လက်တွဲချီတက်ကြမည်ဟု အလေးအနက် အဓိဋ္ဌာန်ပြုသည်။”

တော်လှန်ရေးကောင်စီသည် မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်အရဖြစ်သော ဆိုရှယ်လစ်စီးပွားရေးစနစ်၏ အခြေခံသဘောတရားကို **မြန်မာ့ ဆိုရှယ်လစ်လမ်းစဉ်စာတမ်း၊** စာပိုဒ်အမှတ် ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၁၊ ၁၂ တို့တွင် ဤသို့ဖွင့်ဆိုခဲ့ပေသည်။

“ဆိုရှယ်လစ် စီးပွားရေး စနစ်၏ တရားကိုယ်သဘောမှာ အများ ကောင်းကျိုးအတွက် လူတိုင်း ပါဝင်သော အများပိုင် လုပ်ငန်းများကို အများက ဝိုင်းလုပ်ပြီး ပေါ်ထွက်လာသည့် အကျိုးစီးပွားများကို အများ အားလုံးပင် လုံလုံလောက်လောက်နှင့် ကျေကျေနပ်နပ် ရရှိစံစားနိုင်အပ်သော စီမံမှု သဘောတရား ဖြစ်ပေသည်။ ဆိုရှယ်လစ် စီးပွားရေး စနစ်၏ ရည်ရွယ်ချက်မှာ လူတိုင်းအား စီးပွားရေး ဖူလုံစေပြီး၊ ကိုယ်ကျင့်တရား ကောင်းလာစေခြင်းဖြင့် ပြည်သူအပေါင်း၏ ငြိမ်းချမ်း သာယာသော လောကသစ်ကြီးကို တည်ဆောက်ရန် ဖြစ်ပေသည်။

“ထို့ကြောင့် ဆိုရှယ်လစ် စီးပွားရေး စနစ်သည် လူလူချင်း ခေါင်းပုံဖြတ်၍ ကိုယ်ကျိုးရှာစားသော မည်သည့် စီးပွားရေး စနစ်ဆိုးများကို မဆို ဆန့်ကျင်သည်။

“ဆိုရှယ်လစ် စီးပွားရေး စနစ်သည် လူတစု၊ လူတဖွဲ့၊ လူတန်းစား တရပ်နှင့် ပါတီဝင် လူတန်းစား တသိုက်၏ ကျဉ်းမြောင်းသော ကိုယ်ကျိုးများ အတွက် မလုပ်ဆောင်ဘဲ၊ တိုင်းသူ ပြည်သား လူအများ၏ လူ့ဘဝ လိုအင် ဆန္ဒများကို ဖြည့်စွမ်းပေးရန် အတွက်သာလျှင် ရည်ရွယ်ချက်ထားပြီး စီမံ ဆောင်ရွက်သည်။

“ဆိုရှယ်လစ် စီးပွားရေး လုပ်ငန်းသည် တိုင်းပြည်၏ ကုန်ထုတ် စွမ်းအားစုကို စနစ်တကျ စီမံကိန်း ချ၍ အချိုးကျ တိုးတက်အောင် ဆောင်ရွက်ပေသည်။

"ကုန်ထုတ် စွမ်းအားစု ဆိုသည်မှာ တိုင်းပြည်တပြည်ရှိ မြေတွင်း မြေပေါ် ထွက် ဓာတ်သဘာဝ ပစ္စည်း အရင်းအနှီးများ၊ ကုန်ကြမ်း ကုန်ရိုင်းများ၊ ကုန်လုပ် ကိရိယာ အရင်းအနှီးများ၊ စုဆောင်းမိပြီးသော အရင်း အနှီးများ၊ တောင်သူ လယ်သမားများနှင့် ကုန်ထုတ် အလုပ်သမားများ၊ ပညာသည်များ၊ ကုန်လုပ် ဗဟုသုတ အတွေ့အကြုံများနှင့် ကျွမ်းကျင်မှုများ အစရှိသည်တို့ကို စုရုံးသိမ်းကျုံး၍ ခေါ်ဆိုခြင်း ဖြစ်သည်။

"ဆိုရှယ်လစ် စီးပွားရေး လုပ်ငန်းသည် တိုင်းပြည်၏ လူဦးရေနှင့် ကုန်ထုတ်စွမ်းအားစုကို အချိုးကျ စီမံကိန်းချ၍ ပြည်သူ လူအများအတွက် လူသုံး ကုန်ပစ္စည်းများကို လုံလောက်၍ ပေါများလာအောင် ထုတ်လုပ်ပေးသည်။ ပြည်သူ လူထု၏ နေထိုင်မှု အဆင့်အတန်းနှင့် ဝယ်နိုင်အားများ တိုးပွား လာအောင် ဆောင်ရွက်ရင်း ကုန်ထုတ် လုပ်ငန်းကို တိုးချဲ့ လာစေသည်။ ဤနည်း အားဖြင့် အလုပ် လက်မဲ့ မရှိစေတော့ဘဲ၊ လူတိုင်း၏ အသက်မွေး ဝမ်းကျောင်းမှုကို လုံခြုံလာစေသည်။

"ဆိုရှယ်လစ် စီမံကိန်းများကို ဆောင်ရွက်နိုင်ရန် အတွက် တိုင်းပြည်၏ အသက် သွေးကြော ဖြစ်သော **ကုန်ထုတ် အရင်းအနှီးများ** (ကုန်ထုတ် လုပ်ငန်း၊ ကုန်စည် ဖြန့်ဖြူးရေး လုပ်ငန်း၊ သယ်ယူ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး လုပ်ငန်း၊ ပြည်ပ ကုန်သွယ်ရေး လုပ်ငန်း အစရှိသည်များ) ကို နိုင်ငံပိုင် လုပ်ရမည်သာ ဖြစ်သည်။ တိုင်းပြည်၏ ကုန်ထုတ် အရင်းအနှီးများကို နိုင်ငံတော်က သော်၎င်း၊ သမဝါယမနှင့် စုပေါင်း အဖွဲ့များက သော်၎င်း ပိုင်ဆိုင်ရမည်။ ယင်းပိုင်ဆိုင်မှုများတွင် နိုင်ငံတော် ပိုင်ဆိုင်မှုသည် ဆိုရှယ်လစ် စီးပွားရေး စနစ်၏ အဓိက အခြေခံ ဖြစ်ပေသည်။ နိုင်ငံတော် ပိုင်ဆိုင်မှုသည် ပြည်သူ တရပ်လုံး၏ ပိုင်ဆိုင်မှု ဖြစ်သည်။ သမဝါယမနှင့် စုပေါင်း အဖွဲ့များ၏ ပိုင်ဆိုင်မှုသည် သက်ဆိုင်ရာ အဖွဲ့ အစည်း အသီးအသီး၏ ပိုင်ဆိုင်မှုများသာ ဖြစ်သည်။ သို့သော်လည်း အားလုံးသည် ဆိုရှယ်လစ် အမျိုးသား စီးပွားရေး စီမံကိန်း၏ ဘောင်အတွင်း၌သာလျှင် ဆောင်ရွက်ကြရသောကြောင့် အချင်းချင်း ကျေးဇူးပြုကြမည်သာ ဖြစ်သည်။

"ဆိုရှယ်လစ် စီမံကိန်းအရ စီးပွားရေး လုပ်ငန်းများကို ဆောင်ရွက်ကြသည့်အခါ၊ အလုပ်လုပ်နိုင်သော လူတိုင်း မိမိလုပ်နိုင်သော အလုပ်များကို လုပ်ကြရမည်။ ဖြစ်ထွန်းလာသော အကျိုး စီးပွားများကို အလုပ်လုပ်သော လူတိုင်းသည် မိမိ၏ ကာယ ဉာဏ ဝီရိယ စွမ်းအား အလိုက် ရရှိ၍ စံစားစေရမည်။

"မြန်မာ့ ဆိုရှယ်လစ် လောကတွင် လူအားလုံးသည် ညီတူ ညီမျှ မဖြစ်နိုင်။ လူတဦးနှင့်လူတဦးသည် ကာယ ဉာဏ ဝီရိယချင်း မတူညီနိုင်။ ထို့ကြောင့် မတူသော အရည်အချင်း အလိုက် ခြားနားခြင်းများ ရှိပေလိမ့်မည်။ သို့သော်လည်း မြင့်လွန်းသူက မြင့်လွန်းပြီး နိမ့်လွန်းသူက နိမ့်လွန်းခြင်းမျိုး မရှိစေရဘဲ၊ ဆူကြုံနိမ့်မြင့် နည်းနိုင်သမျှ နည်းစေရအောင် နည်းလမ်း မှန်စွာဖြင့် စီမံ ဆောင်ရွက်ရမည်သာ ဖြစ်သည်။"

တော်လှန်ရေး ကောင်စီသည် ဆိုရှယ်လစ် လူနေမှုစနစ်ကို အောင်မြင်စွာ ထူထောင်နိုင်ရန် အတွက် ဆိုရှယ်လစ် ဒီမိုကရေစီ နိုင်ငံတော်ကို ဖွဲ့စည်း တည်ထောင်ရမည်ဟု ကျေညာခဲ့ပေသည်။ ဤအချက်နှင့် စပ်လျဉ်း၍ **မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်စာတမ်း**၊ စာပိုဒ် အမှတ် ၁၃ တွင် ဤသို့ ဖော်ပြထားပေသည်။

"ဆိုရှယ်လစ် စီးပွားရေး စနစ်ကို အောင်မြင်စွာ ထူထောင်နိုင်ရန် အတွက် ဆိုရှယ်လစ် ဒီမိုကရေစီ နိုင်ငံတော်ကို ဖွဲ့စည်း တည်ထောင်ရမည်။ ဆိုရှယ်လစ် ဒီမိုကရေစီ နိုင်ငံတော် ဆိုသည်မှာ ဆိုရှယ်လစ် စီးပွားရေး စနစ်ကို အခြေခံသော၊ ဆိုရှယ်လစ် စီးပွားရေး စနစ်ကိုလည်း ကာကွယ် စောင့်ရှောက်ရမည် ဖြစ်သော ဒီမိုကရေစီ နိုင်ငံတော်မျိုး ဖြစ်သည်။ ။ဆိုရှယ်လစ် ဒီမိုကရေစီ နိုင်ငံတော်ကို ထိန်းသိမ်း ရွှေဆောင်သွားရမည့်သူများမှာ အဓိက အားဖြင့် တောင်သူ လယ်သမားများနှင့် အလုပ်သမားများ ဖြစ်ကြ၍ လူလတ်တန်းစားများနှင့် အများ ကောင်းစားရေးကို တည်တည်ကြည်ကြည် သစ္စာရှိရှိ လုပ်ဆောင်ကြမည့်သူများလည်း ပါဝင် လက်တွဲလျက် ဆောင်ရွက်ကြရမည် ဖြစ်ပေသည်။"

ဤသည်တို့မှာ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ စီးပွားရေးနှင့် နိုင်ငံရေးဆိုင်ရာ အခြေခံမှုများ ဖြစ်ကြပေသည်။ ဤအခြေခံမှုများကို အခြေပြု၍ မြန်မာ့ ဆိုရှယ်လစ် လူနေမှုစနစ်ကို တည်ဆောက်ရာတွင် တော်လှန်ရေး ကောင်စီသည် တိကျပြတ်သားသော အခြေခံသဘောထားကို ခံယူကျင့်သုံးလျက် ရှိပေသည်။ ယင်းအခြေခံ သဘောထားကို **မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ် စာတမ်း**၊ စာပိုဒ် အမှတ် ၂၊ ၃၊ ၄၊ ၅ တို့တွင် အောက်ပါအတိုင်း အထင် အရှား တွေ့ရပေသည်။

"နိုင်ငံတော် တော်လှန်ရေး ကောင်စီသည် မိမိ၏ လုပ်ငန်းရပ်များကို ချမှတ်ရာ၌၎င်း၊ အကောင်အထည် ဖော်ရာ၌၎င်း မြန်မာနိုင်ငံ၏ ရေမြေ သဘာဝနှင့် တကယ် ပကတိ တည်ရှိနေသော အဖြစ်မှန် အခြေအနေများကို ယထာဘူတ ကျအောင် လေ့လာသုံးသပ်ပြီး၊ ယင်းသို့ လေ့လာ သုံးသပ်ခြင်းမှ ရရှိလာအပ်သော အချက်များကို

မှုတည်၍ တိုးတက်မှု ဖြစ်စေမည့် နည်းလမ်းများကို ရှာဖွေ ဆောင်ရွက်မည်။

"နိုင်ငံတော် တော်လှန်ရေး ကောင်စီသည် မိမိ၏ လုပ်ဆောင်မှုများကို မိမိကိုယ် မိမိ ဝေဖန် စစ်ဆေးသော နည်းအားဖြင့် တိုးတက် ကောင်းမွန်အောင် ဆောင်ရွက်သွားမည်။ ။ကမ္ဘာ့ ဖြစ်ရပ်များ အထဲတွင် လက်ဝဲ လက်ျာ သွေဖည်မှုများကို မြင်ဘူး တွေ့ဘူးခဲ့ပြီ ဖြစ်၍ ယင်းလက်ဝဲ လက်ျာ သွေဖည်မှုများမှ လွတ်ကင်းအောင် သတိတရား လက်ကိုင်ထားပြီး ရှောင်ရှားသွားမည်။

"နိုင်ငံတော် တော်လှန်ရေး ကောင်စီသည် မည်သည့် အခြေအနေနှင့် မည်သည့် အခက်အခဲများကို တွေ့တွေ့၊ **တိုင်းရင်း ပြည်သူ အပေါင်း၏ အခြေခံ အကျိုးစီးပွား များကို မျက်ခြည်ပြတ် မခံဘဲ၊** ကာလ ဒေသနှင့် ပြောင်းလဲနေသော အခြေအနေများ အလျောက် တိုးတက်မှု ရှိအောင် ဆောင်ရွက်သွားမည်သာ ဖြစ်သည်။

"နိုင်ငံတော်တော်လှန်ရေးကောင်စီသည် ပြည်သူလူထု အပေါင်း၏ ကောင်းကျိုးချမ်းသာကို လက်တွေ့အားဖြင့် ပေးဆောင်နိုင်စေသော လုပ်ငန်းစဉ်နှင့် နည်းနာနိဿ များကို ရှာဖွေ ဆောင်ရွက်မည်။ သို့ ရှာဖွေ ဆောင်ရွက်ရာတွင် တိုင်းပြည် နိုင်ငံ မရွေး၊ မည်သည့်နိုင်ငံမှပင် မဆို ရယူအပ်သည့် တိုးတက်သော အယူအဆများ၊ တိုးတက်သော ကျမ်းစာအုပ်များနှင့် တိုးတက်သော ဘဝ အတွေ့အကြုံများ စသည်တို့ကို စိစစ် ဝေဖန်သော စိတ်ဓာတ်ဖြင့် လေ့လာ သုံးသပ်ကာ မြန်မာနိုင်ငံနှင့် သင့်လျော်အောင် ဆောင်ရွက်သွားမည်သာ ဖြစ်သည်။"

တော်လှန်ရေး ကောင်စီသည် မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်ကို အကောင်အထည် ဖော်သောအားဖြင့် အောက်ပါ ဆောင်ရွက်ချက်များကို တခုပြီးတခု ပြတ်သားစွာ လုပ်ဆောင်လာခဲ့ပေသည်။ ယင်းတို့မှာ —

— ၁၉၆၂ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်ပါတီကို ဖွဲ့စည်း တည်ထောင်ခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁၇ ရက်နေ့တွင် မြန်မာ့ ဆိုရှယ် လစ် လမ်းစဉ်ပါတီ၏ **တွေးခေါ် မြော်မြင်ရေး သဘောတရား** ဖြစ်သော **လူနှင့် ပတ်ဝန်းကျင်တို့၏ အညမည သဘောတရား** စာတမ်းကို ထုတ်ပြန် ကျေညာခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် အမျိုးသား ညီညွတ်ရေးကို ရှေးရှုအပ်သော လွတ်ငြိမ်းချမ်းသာခွင့် အမိန့်ကို ထုတ်ပြန်ခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် ဇွန်လ ၁၁ ရက်နေ့တွင် ပြည်တွင်း ငြိမ်းချမ်းရေး အတွက် ကမ်းလှမ်း ဖိတ်ခေါ်ခဲ့ခြင်း၊

— တောင်သူ လယ်သမား နှီးနှောဖလှယ်ပွဲကြီးများနှင့် အလုပ်သမား နှီးနှော ဖလှယ်ပွဲကြီးများကို နှစ်စဉ် ကျင်းပကာ ဆိုရှယ်လစ် စီးပွားရေးနှင့် လူမှုရေး တည်ဆောက်မှု ဆိုင်ရာ ပြဿနာများကို လုပ်သား ပြည်သူ လူထုများနှင့် ရင်းရင်းနှီးနှီး ပွင့်ပွင့်လင်းလင်း တိုင်ပင်ဆွေးနွေးခြင်း၊ ပြည်သူ့ အလုပ်သမားကောင်စီနှင့် ပြည်သူ့ တောင်သူလယ်သမား ကောင်စီတို့ကို ဖွဲ့စည်းရန် ပြင်ဆင် ဆောင်ရွက်နေခြင်း၊

— ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်း မှီတင်း နေထိုင်ကြသော တိုင်းရင်းသား လူမျိုးများ၏ စည်းလုံး ညီညွတ်ရေးကို တည်ဆောက်နေခြင်း၊

— ၁၉၆၄ ခုနှစ် မတ်လ ၂၈ ရက်နေ့တွင် အမျိုးသား စည်းလုံး ညီညွတ်ရေးကို ကာကွယ်သည့် ဥပဒေကို ထုတ်ပြန်ခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ဆိုရှယ်လစ် စီးပွားရေးစနစ် တည်ဆောက်မှုကို ကာကွယ်သည့် ဥပဒေကို ပြဋ္ဌာန်းခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းရှိ နိုင်ငံခြားနှင့် တိုင်းရင်းသားပိုင် ဘဏ်လုပ်ငန်း ၃၁ ခုကို နိုင်ငံပိုင်ပြုလုပ်ခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင် မြန်မာနိုင်ငံ စီးပွားရေး တိုးတက်မှု ကော်ပိုရေးရှင်း (ဘီအီးဒီစီ) နှင့် စစ်ဘက် ကုန်စည် ဖြန့်ချိရေးတို့ကို ပြည်သူပိုင် ပြုလုပ်ခဲ့ခြင်း၊

— ၁၉၆၄ ခုနှစ် မတ်လ ၁၉ ရက်နေ့တွင် ရန်ကုန်နယ်နိမိတ်တွင်၎င်း၊ ၁၉၆၄ ခုနှစ် ဧပြီလ ၉ ရက်နေ့တွင် မြန်မာနိုင်ငံ တဝန်းလုံးတွင်၎င်း ကုန်တိုက်ကြီးများ၊ စတိုးဆိုင်ကြီးများ၊ လက္ကားဆိုင်များ၊ ပွဲရုံများ၊ ဂိုဒေါင်များ၊ သမဝါယမ ဆိုင်များနှင့် အထွေထွေ စတိုးဆိုင်များကို ပြည်သူပိုင် ပြုလုပ်ခဲ့ခြင်း၊

— ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် ဗြိတိသျှအရင်းရှင်များ ပိုင်သော ဘီအိုစီ ရေနံ ကုမ္ပဏီလုပ်ငန်းတရပ်လုံးကို လုံးဝ ပြည်သူပိုင်အဖြစ်သို့ ပြောင်းလဲယူခဲ့ခြင်း၊

— ၁၉၆၅ ခုနှစ် ဇန္နဝါရီလ ၁၈ ရက်နေ့တွင် နယ်ချဲ့အရင်းရှင်ပိုင် ဘားမား ကော်ပိုရေးရှင်း လီမိတက်ကို လုံးဝ ပြည်သူပိုင်အဖြစ် လွှဲပြောင်းယူခဲ့ခြင်း၊

— တိုင်းရင်းသား ပုဂ္ဂလိကပိုင် စက်ရုံ အလုပ်ရုံ အချို့ကို ပြည်သူပိုင် ပြုလုပ်ခဲ့ခြင်းနှင့် အချို့တွင် စီမံ ခန့်ခွဲရေး ကော်မီတီများ ခန့်ထား၍ အုပ်ချုပ်ရေးကို လွှဲပြောင်း ယူခဲ့ခြင်း၊

— တောင်သူလယ်သမား ဘဝ မြင့်တင်ရေး လုပ်ငန်းရပ်များ ဖြစ်ကြသည့် **၁၉၆၃ ခုနှစ် တောင်သူ လယ်သမား အခွင့်အရေး ကာကွယ်သည့် ဥပဒေကို** ပြဋ္ဌာန်းခြင်း၊ **၁၉၆၃ ခုနှစ် သီးစား ချထားရေး ဥပဒေကို** ပြဋ္ဌာန်း

ခြင်း၊ **စိုက်ပျိုးရေး စရိတ်** ချေးငွေများကို ထုတ်ပေးခြင်း၊ **စပါး ကြိုတင် ရောင်းဝယ်ရေး** စနစ်ကို ဆောင်ရွက်ခြင်း၊ **မြေယာ ကော်မီတီ** ဖွဲ့စည်းခြင်း၊ **လယ်ယာနှင့် လုပ်ငန်းပေါင်းစုံ သမဝါယမ အသင်းများ** ဖွဲ့စည်းခြင်း၊ **ကျေးရွာဘဏ်များ** ဖွဲ့စည်းခြင်း၊ **သီးစားခစနစ်** ဖျက်သိမ်းခြင်း၊ **သမဝါယမ ကျေးရွာနှင့် ပြည်သူ့စိုက်ပျိုးကွင်းများ** ထူထောင်ခြင်း စသည်တို့ အဆက်မပြတ် ဆောင်ရွက်နေခြင်း။

အလုပ်သမားများ၏ ဘဝမြင့်တင်ရေး လုပ်ငန်းရပ်များဖြစ်ကြသည့် ၁၉၆၄ ခုနှစ် ပြည်သူ့ အလုပ်သမားများ၏ အခြေခံ ရပိုင်ခွင့်နှင့် တာဝန်များ ပြဋ္ဌာန်းသည့် ဥပဒေကို ၁၉၆၄ ခုနှစ် မေလ ၁ ရက်နေ့တွင် ပြဋ္ဌာန်း ကြေညာခြင်း၊ အလုပ်သမားများ၏ အတိတ်ကာလ နစ်နာမှုများအတွက် ရသင့် ရထိုက်သော အခွင့်အရေးများကို ရရှိအောင် ဆောင်ရွက်ပေးခြင်း၊ အလုပ်အကိုင်နှင့် အလုပ်သမား ရှာဖွေပေးရေး ဌာနများ ဖွင့်လှစ်ခြင်း၊ အလုပ်သမားများ အတွက် လူမှုဖူလုံရေး စီမံကိန်းကို တိုးချဲ့ ဆောင်ရွက်ခြင်း၊ အလုပ်သမား ရုံးများ တိုးချဲ့ဖွင့်လှစ်ခြင်း၊ အလုပ်ရုံ စက်ရုံ ပိတ်မှု စုံစမ်းရေး ကော်မီတီများ ဖွဲ့စည်းပေးခြင်း၊ အလုပ်သမား သက်သာချောင်ချိရေး အတွက် အခြေခံ စားသုံးကုန်များကို အကြွေးစနစ်ဖြင့် ရောင်းချပေးခြင်း၊ ကာယ ဥာဏ လုပ်သား သင်တန်းများ ဖွင့်လှစ်ခြင်း၊ လုပ်သားများ တက္ကသိုလ်ကျောင်းကို ဖွင့်လှစ်ခြင်း၊ လုပ်သားများနှင့် သားသမီးများ ပညာသင်ကြားနိုင်ရန် ညကျောင်းများ ဖွင့်လှစ်ခြင်း၊ အလုပ်သမားများကို ခေါင်းပုံဖြတ်သော ပုဂ္ဂလိက ကန်ထရိုက် လုပ်ငန်းကို ရပ်ဆိုင်းပစ်ခြင်း၊ ၁၉၆၅ ခုနှစ် ဆိုရှယ်လစ် စီးပွားရေးစနစ် တည်ဆောက်မှုအတွက် လုပ်ပိုင်ခွင့်များ အပ်နှင်းသည့် ဥပဒေကို ထုတ်ပြန်ခြင်း၊

တရားရေးနှင့် စီမံခန့်ခွဲမှုဆိုင်ရာများတွင် တိုးတက်သော ပြုပြင် ပြောင်းလဲမှုများကို ဆောင်ရွက်ခြင်း၊

ပညာရေးတွင် **စနစ်သစ် ပညာ**ရေးကို ချမှတ်၍ လက်တွေ့ အားဖြင့် တိုးတက်အောင် ဆောင်ရွက်နေခြင်း၊ အခြားသော လူမှုရေးများ ဖြစ်သည့် အမျိုးသား ကျန်းမာရေး တိုးတက်မှုကို ထိရောက်စွာ တိုးချဲ့၍ ဆောင်ရွက်နေခြင်း၊ အမျိုးသား ယဉ်ကျေးမှုကို ထိန်းသိမ်း၍ တိုးတက် ဖွံ့ဖြိုးလာရအောင် အထူး အာရုံပြုလျက် ဆောင်ရွက်နေခြင်း၊ နိုင်ငံခြားမှ သရုပ်ပျက်သော ယဉ်ကျေးမှုများ မဝင်ရောက် မလွှမ်းမိုးရအောင် **ကာကွယ်**လျက် ရှိခြင်း၊ လူမှုဝန်ထမ်း လုပ်ငန်းရပ်များကို တိုးချဲ့ ဆောင်ရွက်နေခြင်း။

ဤသည်တို့ကား ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီ၏ ဦးဆောင်မှုဖြင့် ဆောင်ရွက်နေခဲ့ပြီး၊ ဆောင်ရွက်နေဆဲလည်းဖြစ်သော **မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်** ဆိုင်ရာ လုပ်ငန်းရပ်များပေတည်း။

မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်သည် ပြီးစီးခြင်းသို့ မရောက်ရှိသေးပေ။ ဘယ်အခါတွင် ပြီးပြည့်စုံခြင်းသို့ ရောက်လိမ့်မည် ဟူ၍လည်း စက်ယန္တရားဆန်ဆန် တရားသေ ဝါဒဖြင့် ကန့်သတ်၍ မရပေ။ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ ပြီးမြောက် အောင်မြင်ရေးသည် မြန်မာ တိုင်းရင်းသား လုပ်သား ပြည်သူ အပေါင်း၏ နိုးကြားသော လုပ်ကိုင် ဆောင်ရွက်မှုများ အပေါ်တွင် တည်မှီလျက် ရှိနေပေသည်။ မည်သို့ဖြစ်စေ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်သည် မိမိ၏ ထူးခြားသော ဝိသေသ လက္ခဏာရပ်များနှင့် အညီ မလွဲမသွေ တိုးတက် ဖြစ်ပေါ်ရပေတော့မည်။ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ အောင်ပွဲကို မည်သည့် ဆန့်ကျင်ဖက်မျှ တားဆီးပိတ်ပင်နိုင်တော့မည် မဟုတ်ချေ။ အဘယ်ကြောင့် ဆိုသော် မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်သည် လူ့ဘဝ သဘာဝ ဝပြောမှုကို လိုလားကြကုန်သော (ဝါ) တိုးတက်လိုကြသော မြန်မာ တိုင်းရင်းသား ပြည်သူ အပေါင်း၏ မြော်မှန်းချက်များကို မှန်ကန်စွာ ဖော်ပြသောကြောင့် ပေတည်း။ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်သည် ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်း မှီတင်း နေထိုင်ကြကုန်သော တိုင်းရင်းသား လူမျိုးစုံ ဘာသာစုံ ပါဝင်သည့် လုပ်သား ပြည်သူ လူထုကြီး တရပ်လုံး၏ အခြေခံ အကျိုးစီးပွားအရပ်ရပ်ကို ထာဝစဉ်သာပင် ဆောင်ရွက်လျက် ရှိနေမည် ဖြစ်ရကား **မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်၏ အနှစ်သာ**ရသည် ထာဝစဉ်ပင် ရှင်သန်နေမည် ဖြစ်ပေသတည်း။

**မြန်မာ့ တော်လှန်ရေး။** ။ကမ္ဘာ့သမိုင်းတလျှောက်လုံးတွင် ကိုလိုနီ အုပ်ချုပ်ရေး စံနစ်ကို နှစ်ပေါင်း ၁၀၀ ကျော် ဆက်တိုက် တော်လှန်ခဲ့သော နိုင်ငံ ဟူ၍ ရှားလေသည်။ ထိုသို့ တော်လှန်ခဲ့သည်နှင့် အညီ ထိုကိုလိုနီ စံနစ်ကို နိုင်ငံ အတွင်းမှ အမြစ်ပါ ပြုတ်ထွက်သွားအောင် လုပ်နိုင်ခဲ့သော နိုင်ငံ ဟူ၍ကား ပို၍ ရှားလေသည်။ မြန်မာ နိုင်ငံသည် ၁၀၂၆ ခုနှစ် ဖေဖွါရီလ ၂၄ ရက်နေ့တွင် ရန္တပို စာချုပ် ချုပ်ဆိုပြီးသည့် အချိန်မှစ၍ ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် လွတ်လပ်ရေးရရှိသော အချိန်ထိ ဗြိတိသျှ နယ်ချဲ့ စံနစ်ကို တောက်လျှောက်တော်လှန်ခဲ့သောနိုင်ငံဖြစ်သည်။ (ရန္တပို စာချုပ် — လည်းရှု။)

မြန်မာတို့သည် ၁၈၂၆ ခုနှစ် အင်္ဂလိပ်-မြန်မာ ပဌမစစ်ပွဲတွင် ရှုံးနိမ့်ခဲ့၍ အင်္ဂလိပ်တို့ကို အာသံ၊ မဏိပူရ၊ ရခိုင်၊ တနင်္သာရီ နယ်များ ပေးလိုက်ရကာ၊ ၁၈၅၂ ခုနှစ် ဒုတိယ

စစ်ပွဲတွင် အောက်အကြေပိုင်းကို မြေထဲမြို့၊တောင်ငူမြို့များ အထိ ပေးလိုက်ရပြီးလျှင် ၁၈၈၅ ခုနှစ် တတိယ စစ်ပွဲအပြီး တွင်မူ အထက် မြန်မာနိုင်ငံ တခုလုံး ပေးအပ်လိုက်ရလေ သည်။ (အင်္ဂလိပ်-မြန်မာ စစ်ပွဲများ — ရှု။) ထိုသို့ အင်္ဂလိပ် အစိုးရ၏ အသိမ်းကို ခံရသည့် အခါတိုင်း အင်္ဂလိပ်တို့ကို လက်နက် လက်ရုံးဖြင့် တော်လှန်သူများ ရှိခဲ့သည်ချည်း ဖြစ်လေသည်။

အင်္ဂလိပ်-မြန်မာ ပဌမ စစ်ပွဲတွင် မြန်မာများ ရှုံးနိမ့်ခဲ့ရ ခြင်းကြောင့် ရခိုင်နှင့် တနင်္သာရီ စသည်တို့ကို အင်္ဂလိပ်များ လက်သို့ ပေးအပ် ခဲ့ကြရသော်လည်း အရှုံးပေးလိုစိတ်ကား မရှိကြချေ။ ထို့ကြောင့် မြန်မာတို့သည် ရခိုင်နှင့် တနင်္သာရီ တို့တွင် အင်္ဂလိပ်အုပ်ချုပ်ရေးကို မူတည်သော တော်လှန်မှု များကို ပြုလုပ်ခဲ့ကြလေသည်။ ထိုတော်လှန် တိုက်ခိုက်မှု များသည် နောက်ဆုံးတွင် အရာမရောက် ဖြစ်ခဲ့သည်မှာ မှန်သော်လည်း အောင်မြင်လုနီးပါး အခြေသို့ကား ဆိုက် ရောက်ခဲ့လေသည်။ အင်္ဂလိပ်များသည် ရခိုင်နှင့် တနင်္သာရီ တို့ကို လက်လွှတ်ပစ်ရတော့မလောက် အခြေအထိပင် ဆိုက် ခဲ့ရလေသည်။

တနင်္သာရီ နယ်စပ် တော်လှန်ရေးနှင့် ရခိုင်နယ်စပ် တော် လှန်ရေး နှစ်ခု အနက် တနင်္သာရီ နယ်စပ်တွင် ဖြစ်ပွားသော မုတ္တမ တော်လှန်ရေးက သာလွန်၍ တော်လှန်ရေး ပီသပုံ ရသည်။ ထိုတော်လှန်ရေး များတွင် မုတ္တမ မြို့ဝန်သည် တော်လှန်ရေး သမားများကို အတိအလင်း အားပေးခဲ့ သည်။ ရန်ကုန်မြို့ဝန်ကလည်း အတိအလင်း အားပေးခဲ့ သည်။ အတွင်းတော်မှ မှူးကြီး မတ်ကြီး များသည်လည်း ကြံရာပါများသာ ဖြစ်သည် ဟု ဆိုလေသည်။ ထိုသို့ တော် လှန်ကြရခြင်း၏ ရည်ရွယ်ချက်မှာ တနင်္သာရီနှင့် ရခိုင်ဖက် တို့တွင် အုပ်ချုပ်ရာ၌ အင်္ဂလိပ်များ အခက်အခဲ တွေ့နေ ကြသည်ကို သိသောကြောင့် ထိုထက်ပို၍ အခက်အခဲ တွေ့ စေရန်၊ စိတ်ခုတ်ပျက်စေရန်နှင့် ထိုသို့ စိတ်ခုတ်ပျက်ခြင်း ဖြင့် ထိုနယ်များကို မြန်မာများ၏လက်သို့ အသာတကြည် ပြန်အပ်စေရန် ဖြစ်လေသည်။ စင်စစ်အားဖြင့် မြန်မာ ဝန် ကြီးများသည် ၁၈၃၀ ပြည့်နှစ် ဩဂုတ်လ ၂၅ ရက်နေ့တွင် တနင်္သာရီနယ်ကို အတိအလင်း တောင်းဆိုခဲ့ကြ ဘူးလေ သည်။ တနင်္သာရီနယ်ကို အင်္ဂလိပ်တို့ အုပ်ချုပ်ရခြင်းဖြင့် သူတို့အဖို့ တနှစ်လျှင် တသိန်းခွဲခန့် ရှုံးနေကြလေသည်။ ထိုနည်းဖြင့် တဖက်မှ တော်လှန်တိုက်ခိုက်မှုများကို လုပ်ကာ အင်္ဂလိပ်များ အုပ်ချုပ်၍ မရသဖြင့် စိတ်ပျက်လာအောင် လုပ်ယင်း အခြားတဖက်မှ ဟင်နရီ ဗားနေး ကဲ့သို့သော အင်္ဂလိပ် အရေးပိုင် ကိုယ်စားလှယ်ထံတွင် တနင်္သာရီနှင့် ရခိုင်နယ်မြေများကို ပြန်၍ ပေးရန် အရေးဆိုခဲ့ကြလေ သည်။ (ဗားနေး၊ မေဂျာ — လည်းရှု။)

၁၈၅၂ ခုနှစ်၌ ဖြစ်ပွားသော အင်္ဂလိပ်-မြန်မာ ဒုတိယ စစ်ပွဲ အပြီးတွင်ကား မြန်မာတို့၏ တော်လှန်ရေးသည် ပို၍ ပြင်းထန်လာခဲ့သည်။ ထိုတော်လှန်ရေးတွင်ထင်ရှားသူများ မှာ သာယာဝတီနယ်၊ သာရဝေါနှင့် မိုးညိုတလျှောက်မှ ဗိုလ်ခေါင်းကြီး၊ ဗိုလ်မြတ်ထွန်းနှင့် အောက်မြန်မာနိုင်ငံရှိ မြို့ သူကြီးနှင့် ရွာသူကြီးများ ဖြစ်သည်။ ထိုတော်လှန်ရေးကို အင်္ဂလိပ်တို့သည် သုံးနှစ် အချိန်ကုန်ခံ၍ နှိမ်နင်းကြရသည်။

၁၈၈၅ ခုနှစ် အင်္ဂလိပ် - မြန်မာ တတိယစစ်ပွဲ၌ သီပေါ ဘုရင် ပါတော်မူပြီးသည့်နောက်တွင်ကား မြန်မာ နိုင်ငံ တဝန်းလုံးတွင် အုံကြွ၍ တော်လှန် ခဲ့ကြလေသည်။ သီပေါ ဘုရင်ပင် ပါတော်မူသွားပြီဖြစ်သော်လည်း မြန်မာစစ်သား များသည် မန္တလေးမြို့မှ နေ၍ အညံ့ခံကြရန် အမိန့်ထုတ် လျက်နှင့် အညံ့မခံကြဘဲ သင့်ရာ သင့်ရာ ခေါင်းဆောင် များ၏ နောက်မှ နေကာ အင်္ဂလိပ်များကို တညီတညာ တည်း တော်လှန်ခဲ့ကြသည်။

မန္တလေးမြို့ တဝိုက်တွင် တော်လှန်ကြသူများမှာ ထိုစဉ် က ပြင်သစ်ပိုင် ပွန်ဒိချယ်ရီသို့ ရောက်နေသော မြင်ကွန်း မင်းသား၏နောက်လိုက်များ ဖြစ်သည်ဟုဆိုသည်။ ယင်းတို့ သည် မန္တလေးမြို့တွင်း၌ သာမက မြို့ပြင်မှ ပလိပ်၊ လမိုင်း နှင့် ဇီးပင်ကြီးစခန်း တလျှောက် နေရာများတွင် တော်လှန် တိုက်ခိုက် ခဲ့သည်။

ဗန်းမော်နယ်တွင် ဝန်းသိုစော်ဘွား ဦးအောင်မြတ်သည် ထင်ရှားသည့် တော်လှန်ရေး ခေါင်းဆောင်တဦးဖြစ်သည်။ ရောဝတီနှင့် ချင်းတွင်းမြစ်ကြား တလျှောက် ဒေသများ တွင် တန်ခိုးသြဇာ ကြီးမားခဲ့သူလည်း ဖြစ်သည်။ ယင်း သည် ဝန်းသိုပတ်ဝန်းကျင်ရှိ ဒေသများကိုလည်း အင်္ဂလိပ် များ အုပ်ချုပ်၍ မရနိုင်အောင် အနှောင့် အယှက် ပေးခဲ့ လေသည်။ (ဝန်းသို စော်ဘွား — လည်းရှု။)

ရွှေဘိုနယ်တွင် ထိပ်တင်မှတ်၊ ထိပ်တင်သိန်း အစရှိသော မင်းသားများသည် ၁၈၈၅ ခုနှစ် ဒီဇင်ဘာလ ကတည်းက ပင် အင်္ဂလိပ်ကို တော်လှန်ခဲ့ကြသည်။ ရွှေဘိုနယ်မှ အခြား တော်လှန်ရေး ခေါင်းဆောင်များမှာ ဗိုလ်လှဦး၊ ဗိုလ်ပျံချီ၊ ဗိုလ်ရိုင်နှင့် ဗိုလ်အောင်မြတ်တို့ ဖြစ်ကြလေသည်။

ဗိုလ်လှဦးသည် ရွှေဘိုနယ် တောင်ဖက်ပိုင်း မြင်းမူ တ လျှောက်နှင့် စစ်ကိုင်းတောင်ဖက် မူးမြစ်ဝတိုင်အောင် သြ ဇာ အာဏာ ပျံ့ခဲ့သူ ဖြစ်သည် ။ ဗိုလ်လှဦး၏ လက်အောက် တွင် ဗိုလ်မင်းအိုနှင့် ဗိုလ်သာပွဲ ဆိုသော ခေါင်းဆောင်နှစ်ဦး ရှိသေးသည်။ သူတို့သည် စစ်ကိုင်းနယ်တနယ်လုံးကို အုပ် ချုပ်ထားကြရုံ မက အင်္ဂလိပ်အစိုးရနှင့် အဆက် အသွယ် ပြုလုပ်သော ပြည်တွင်း သစ္စာဖောက်များ၊ အင်္ဂလိပ်အစိုးရ လက်အောက်သို့ ခိုဝင်ကြသော သူကြီး စသည်တို့ကိုလည်း ရက်စက်စွာ သတ်ဖြတ်၍ ဆုံးမခဲ့ကြလေသည်။

အင်းဝမြို့တွင် ကြီးစိုးနေကြသော တော်လှန်ရေး ခေါင်းဆောင်များမှာ မက္ခရာမင်းသားကြီး၏ မြေးတော်သော ထိပ်တင်စောရန်နိုင်နှင့် ထိပ်တင်စောရန်ပိုင် ခေါ် ချောင်းခွ မင်းသားများ ဖြစ်ကြလေသည်။ ထို ချောင်းခွ မင်းသားများ၏ လက်ရုံးတဆူဖြစ်သော ဗိုလ်ရွှေရန်သည် အင်္ဂလိပ်များကို ထူးထူးချွန်ချွန် တိုက်ခိုက် နိုင်ခဲ့လေသည်။ နောင်အခါ၌ ဗိုလ်ရွှေရန်သည် ချောင်းခွမှ ပန်းလောင်နှင့် စမုံမြစ်ကြား တောကောင်းရာ ဒေသများသို့ သွားရောက်ပြီးလျှင် တော်လှန်ရေး ကိစ္စများကို ဆောင်ရွက်လေသည်။

ကျောက်ဆည်နယ်တွင်မူ မြင်စိုင်းမင်းသားသည် ထင်ရှားသော တော်လှန်ရေး ခေါင်းဆောင် ဖြစ်၏။ မူလအခြေပြုရာ ဇီးပင်ကြီးစခန်းမှ ဆုတ်ခွာလာခဲ့သော မြင်စိုင်း မင်းသားသည် ကျောက်ဆည်နယ် ရခိုင်ကြီးရွာတွင် စခန်းချကာ တော်လှန်ခဲ့၏။ထိုမှတဖန် ရှာငံသို့ပြောင်းရွှေ့၍ အခြေစိုက်ပြန်သည်။ရှာငံ၌ပင် မြင်စိုင်းမင်းသား ကွယ်လွန်သည်။

အထက်ချင်းတွင်းနှင့် အလုံ မုံရွာ တဝိုက်တွင် ရွှေချီးဖြူမင်းသား ဆိုသူနှင့်ဗုဒ္ဓရာဇာတို့ ကြီးစိုးခဲ့ကြသည်။ သို့သော်သူတို့သည် တကယ့်မင်းသား မဟုတ်ကြဘဲ မင်းလောင်းအမည်ခံသော တော်လှန်ရေးသမားများ ဖြစ်ကြလေသည်။

ရှေးအခေါ် တလုပ်မြို့ (ယခုခေတ် မြင်းခြံ) နယ်တွင် ယခုခေတ် မိတ္ထီလာ ခရိုင်နှင့် ပခုက္ကူခရိုင်များပါ ပါဝင်လေသည်။ ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်းတွင် အထက်၌ ဖော်ပြခဲ့သော ရွှေချီးဖြူသည် ပခန်းကြီး၌ အခြေစိုက်ပြီးလျှင် တော်လှန်ခဲ့သည်။ အရှေ့ဖက်ကမ်းတွင် စောရန်နိုင်တို့က ဝဲလောင်နှင့် ပုဂံ တလျှောက်ကို ကြီးစိုးကာ တော်လှန်ခဲ့ကြလေသည်။

ပုဂံနယ် ပုပ္ပါးတလျှောက်တွင် ဗိုလ်ချိုနှင့် ကြည့်မြင်တိုင်မင်းသားတို့က လှုပ်ရှား တော်လှန်ခဲ့ကြသည်။ မင်းတုန်းနယ်တွင် တော်လှန်သူမှာ ဗိုလ်ရွှဲဖြစ်၍ သူသည် သရက်မြို့တလျှောက်မှ နေ၍ တော်လှန် ခဲ့လေသည်။ လယ်ကိုင်းဖက်တွင်မူ ဘုန်းကြီးဗိုလ်တဦးဖြစ်သူ ဦးဥတ္တမက တော်လှန်ခဲ့သည်။ ဗိုလ်ရွှဲသည် မင်းတုန်းနှင့် မင်းလှ တလျှောက်မှ အနောက်ဖက်ပိုင်း ဒေသများတွင် ကြီးစိုးခဲ့၍ ငဖဲမြို့သည် သူ၏ ဌာနချုပ် ဖြစ်သည်။ ၁၈၈၆ ခုနှစ် ကုန်လုဆဲ အချိန်လောက်တွင် ဘုန်းကြီးဗိုလ် ဦးဥတ္တမသည် မင်းဘူး မြောက်ဖက် တလွှားကို သိမ်းပိုက်ထား၍ ဗိုလ်ရွှဲက တောင်ဖက်တလွှားကို သိမ်းပိုက်ထားလေသည်။ သူတို့ နှစ်ဦးလုံး၏ နောက်တွင် အင်အားကြီးမားသော တော်လှန်ရေး တပ်များ ရှိနေသဖြင့် အင်္ဂလိပ်များသည် အတော်ကြာသည့်တိုင်အောင် နှိမ်နင်း၍ မရနိုင် ရှိခဲ့လေသည်။

တောင်တွင်းကြီးနယ် တလျှောက်တွင် တော်လှန်ခဲ့သူမှာ မြို့လုလင် မြို့သူကြီး၊ ဗိုလ်ချုပ် အောင်ဆန်း၏ အဖိုးတော်သူ ဦးမင်းရောင် (ဗိုလ်ရွှေလရောင်) ဖြစ်သည်။ ဗိုလ်မင်းရောင်၏ လက်အောက်တွင် ဆင်များ၊ မြင်းများနှင့် တော်လှန်ရေး တပ်အင်အား လွန်စွာ ကောင်းလှပေသည်။

ပျဉ်းမနား တဝိုက်တွင် သိမ်ကုန်း သူကြီး၊ ဗုဒ္ဓရာဇာ၊ သီဟရာဇာနှင့် ကြည့်မြင်တိုင် မင်းသား တို့က တော်လှန်တိုက်ခိုက်ခဲ့ကြသည်။ ထိုတော်လှန်ရေး ခေါင်းဆောင်များသည် ပျဉ်းမနား မြို့ပြင်ဖက်ရှိ ဒေသအားလုံးနှင့် ရမည်းသင်းတလျှောက် ကြီးစိုး အုပ်ချုပ်ထားခဲ့ကြလေသည်။

မိတ္ထီလာနယ်တွင်ကား မြင်စိုင်းမင်းသား နောက်လိုက်များ ဖြစ်ကြသော ဗိုလ်မြတ်မုံ၊ ဗိုလ်မောင်ကြီးနှင့် ဗိုလ်မောင်လတ်တို့က တော်လှန် တိုက်ခိုက်ကြ၍ ဝမ်းတွင်းအရှေ့ဖက် မေ့အိုင်၊ ရှာငံ၊ ရပ်ဆောက် စသော အရပ်များတိုင်အောင် ကြီးစိုးထားကြလေသည်။ သာစည်နယ် မင်းလှမြို့တွင် ဗိုလ်ကံ၊ ဗိုလ်နှံနှင့် ဗိုလ်ရှန် ဆိုသော ညီအစ်ကို သုံးဦးသည် ထင်ရှားသော တော်လှန်ရေး ခေါင်းဆောင်များ ဖြစ်ကြလေသည်။

ထိုမျှသာ မက အောက် မြန်မာနိုင်ငံတွင် ကရင် အမျိုးသားများ၊ မွန်အမျိုးသားများ၊ ရခိုင် အမျိုးသားများ စသည်တို့ကရင်း၊ ရှမ်းပြည်တွင် ရှမ်းအမျိုးသားများကရင်း၊ အထက် မြန်မာနိုင်ငံတွင် ကချင်အမျိုးသားများ၊ ချင်းအမျိုးသားများ၊ လူရှိုင်း အမျိုးသားများ စသည်တို့ကရင်း အကြီးအကျယ် အပြင်း အထန် တော်လှန် ခဲ့ကြသည်။ သို့ရာတွင် လက်နက်ချင်းကလည်း မမျှ၊ မြန်မာ့ ကံဇာတာကလည်း ညှိုးနေခိုက် ဖြစ်သဖြင့် အမျိုးလိုက် တော်လှန်ကြငြားလည်း မအောင် မမြင် ဖြစ်ခဲ့ရလေသည်။

သို့တိုင်အောင် ထို တော်လှန်ရေးများကြောင့် အင်္ဂလိပ်တို့ဖက်မှ အရာရှိ ၁၁ ယောက်၊ အရာရှိ မဟုတ်သူ ၈၁၉ ယောက်၊ ပေါင်း ၈၃၀ ကျဆုံး၍ ထိခိုက်ဒဏ်ရာ ရသူပေါင်းမှာ ၂,၃၀၂ ယောက် ဖြစ်သည်။ အင်္ဂလိပ်တို့သည်လည်း ၁၈၉၀ ပြည့်နှစ်သို့ ရောက်မှသာလျှင် မြန်မာ့ တော်လှန်ရေး အင်အားစုများကို အတော်အတန် ငြိမ်သက်အောင် နှိမ်နင်းနိုင်ခဲ့ကြသည်။ နောက်ဆုံးတွင်မူ တော်လှန်ရေး အင်အားစုများသည် လုံးပါးပါးကာ ပျက်ယွင်း ကျဆုံးသွားလေသည်။

ထိုသို့ တော်လှန်ရေး ကျဆုံး၍ မြန်မာ့ လွတ်လပ်ရေးကို ဆုံးရှုံးသွားသော်လည်း တော်လှန်ရေး စိတ်ဓာတ်ကား လုံးဝ ကုန်ဆုံးသွားပြီဟူ၍ မဆိုနိုင်ချေ။ မီးခဲပြာဖုံးကဲ့သို့ အခွင့်သာလျှင် ပြန်၍ တော်လှန်လိုသော စိတ်ဓာတ်ကား ကိန်းအောင်းလျက် ကျန်ရှိ နေခဲ့လေသည်။

၁၈၈၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် အင်္ဂလိပ် အစိုးရတို့က အထက်မြန်မာနိုင်ငံကို သိမ်းယူပြီးဖြစ်ကြောင်း ကျေညာသည့် အချိန်မှ စ၍ မြန်မာတနိုင်ငံလုံး သူ့ကျွန်ဘဝ ရောက်ခဲ့ရပြီးနောက် အင်္ဂလိပ်တို့က ဥပဒေဖြင့် အုပ်ချုပ်

လာသည်ကို လက်ခံလာကြသည့် အပြင်၊ အင်္ဂလိပ် အစိုးရတို့က တဖွဲ့စီ ပြုပြင်ပေးနေသော ပြုပြင်ရေး ဥပဒေမျှဖြင့် ရောင့်ရဲနေသူများ ရှိသကဲ့သို့ မိမိတို့ လိုချင်သော၊ မိမိတို့ကို အကျိုးပြုမည် ဖြစ်သော ဥပဒေမျိုးကို အင်္ဂလိပ်အစိုးရထံမှ တစာစာ အော်၍ တောင်းနေရုံမျှဖြင့် မရနိုင်၊ နိုင်ငံရေး လှုပ်ရှားမှုကို ရမှသာလျှင် လူထုဆန္ဒအရ ပြုလုပ် နိုင်မည် ဖြစ်သဖြင့် နိုင်ငံရေး လွတ်လပ်မှုကို ချွေး၊ သွေး၊ မျက်ရည် အကျခံကာ တိုက်ပွဲဝင်၍ အရယူလိုသူများလည်းရှိခဲ့သည်။

ဤသို့ဖြင့် မြန်မာတို့သည် ဆုံးရှုံးခဲ့ရသော လွတ်လပ်ရေးကို မရအရ ကြိုးပမ်းခဲ့ကြရာ ဝိုင်အမ်ဘီအေ အသင်းများသည်၎င်း၊ ဂျီ၊ စီ၊ ဘီ၊ အေ အသင်းကြီးသည်၎င်း၊ ကျောင်းသား သပိတ်များသည်၎င်း၊ ၁၉၃၀ ပြည့်နှစ်တွင် ဆရာစံ ခေါင်းဆောင်သော တောင်သူ လယ်သမားများ၏ တော်လှန်ရေးကြီးသည်၎င်း၊ တို့ဗမာ အစည်းအရုံးသည်၎င်း၊ ၁၉၃၈ ခုနှစ်တွင် သခင်ဘိုးလှကြီး ခေါင်းဆောင်သော ရေနံမြေ အလုပ်သမား လှုပ်ရှားမှုကြီးအဝင်အပါ "၁၃၀၀ ပြည့်နှစ် အရေးတော်ပုံ" သည်၎င်း၊ ဗမာ့ထွက်ရပ်ဂိုဏ်းသည်၎င်း၊ ဗမာ့ တော်လှန်ရေးပါတီသည်၎င်း မြန်မာ့ တော်လှန်ရေး သမိုင်းတွင် ထင်ရှားသောမှတ်တိုင်ကြီးများ ဖြစ်လေသည်။ (ဂျီ၊စီ၊ဘီ၊အေ။ စံ၊ ဆရာ။တို့ဗမာ အစည်းအရုံး — လည်းရှု။) ထိုမှတပါး လွတ်လပ်ရေးကို တောင်းဆိုသော မြန်မာတို့ အဖို့ "လွတ်လပ်ရေးကို ဆူပူ တောင်းဆိုရုံမျှဖြင့် မရ၊ လက်နက်ဖြင့် တော်လှန်ပုန်ကန်မှသာ လွတ်လပ်ရေးကို ရနိုင်မည်" ဟူသော သင်ခန်းစာသည်လည်း ထင်ရှားပေါ်လွင်ခဲ့လေသည်။

၁၉၃၉ ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့တွင် ဒုတိယ ကမ္ဘာစစ်ကြီး စတင် ဖြစ်ပွားလေရာ ဗြိတိသျှ အင်္ဂလိပ်တို့၌ အခက် တွေ့လျှင် အကွက်ကောင်း ယူမည်ဟု စောင့်စားနေကြသော မြန်မာတို့မှာ ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြရသည်။ လွတ်လပ်ရေးကို တော်လှန် ပုန်ကန်ယူမှသာ ရမည်ဟု စွဲမြဲစွာ ယူဆထားသူတို့ အဖို့လည်း သွေးတကြွကြွ ဖြစ်ခဲ့ရလေသည်။

သို့သော် ဗြိတိသျှတို့ကို တော်လှန် တိုက်ခိုက်ရန်မှာ လက်နက်သည် အဓိက ဖြစ်လာ၍ တို့ဗမာအစည်းအရုံးကြီးသည် မည်သည့်နည်းဖြင့် ဖြစ်စေ လက်နက် အင်အား တောင့်တင်းသော နိုင်ငံခြား နိုင်ငံကြီးတခုခု၏ အကူအညီကို ရှာကြလေသည်။ ထိုသို့ ရှာကြယင်းမှ ဂျပန်စစ်ဌာနချုပ်နှင့် ဆက်သွယ်မိပြီးလျှင်၊ သခင်ကိုယ်တော်မှိုင်းကြီးမှူးသော တို့ဗမာအစည်းအရုံး၏ အထွေထွေ အတွင်းရေးမှူး သခင်အောင်ဆန်း ခေါင်းဆောင်သည့် နောင်အခါ ရဲဘော် သုံးကျိပ်ဟု တွင်လာသော မြန်မာမျိုးချစ် လူငယ်သုံးကျိပ်တို့သည် ဂျပန်နိုင်ငံတွင် လျှို့ဝှက်စွာ စစ်သင်တန်းများ တက်နိုင်ခဲ့ကြလေသည်။ (အောင်ဆန်း၊ ဗိုလ်ချုပ်။ ရဲဘော်သုံးကျိပ် — လည်းရှု။)

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် အရှေ့ အာရှ စစ်ပွဲကြီး စတင်ဖြစ်ပွားခဲ့၍ ထိုလ ၂၈ ရက်နေ့တွင် ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့၌ ဗမာ့လွတ်လပ်ရေး တပ်မတော် (ဘီ၊ အိုင်၊ အေ) ကို ဖွဲ့စည်းလိုက်ကြလေသည်။

ဂျပန်တပ်မကြီးများသည် ယိုးဒယားနိုင်ငံမှ မြန်မာနိုင်ငံအတွင်းသို့ တိုက်ခိုက် ချီတက်လာရာတွင် ဗိုလ်တေဇ ခေါ် ဗိုလ်ချုပ် အောင်ဆန်း ဦးစီးသည့် ထိုဗမာ့လွတ်လပ်ရေး တပ်မတော်သည် ဂျပန်တပ်များနှင့် အတူ စစ်သုံးကြောင်း ဖြန့်ခွဲ၍ လိုက်ပါတိုက်ခိုက်ခဲ့သည်။ ဂျပန်တပ်မကြီးများသည် ယိုးဒယားနိုင်ငံမှ မြန်မာနိုင်ငံအထိ လျင်မြန်စွာ ချီတက်လာနိုင်ခြင်း၊ လမ်းခရီး၌ ရန်သူတပ်များနှင့် တိုက်ခိုက်ရသည်မှ တပါး အနှောက်အရှက်များ မတွေ့ရခြင်း၊ မြန်မာပြည်သူ ပြည်သားတို့က ဝမ်းသာအားရ လိုက်လံစွာ ဆီး၍ ကြိုဆိုကြခြင်း၊ စစ်အောင်နိုင်ရေးအတွက် အမျိုးမျိုးသော အကူအညီများ ပေးခဲ့ခြင်း စသည့် အကျိုးတရားများမှာ ဗမာ့ လွတ်လပ်ရေး တပ်မတော်နှင့် အတွင်းသူပုန်အဖွဲ့၏ လှုံ့ဆော်မှု၊ ကူညီမှု တည်းဟူသော အကြောင်းတရားများကြောင့် ဖြစ်ထွန်း ခံစားခဲ့ရခြင်း ဖြစ်လေသည်။

ဗမာ့ လွတ်လပ်ရေးတပ်မတော်သည် ဤစစ်ပွဲတွင် ဂျပန်တို့၏ နာမည်ရ အမှတ် ၃၃၊ အမှတ် ၅၅ တပ်မကြီးများနှင့် ယှဉ်ပေါင်တန်း ရဲဝံ့စွာ တိုက်ခိုက်ခဲ့ကြသည်။ သို့သော် ပြည်တွင်း၌ စစ်ပွဲများကို အောင်နိုင်ပြီးကြသောအခါ ဂျပန် စစ်အာဏာပိုင်များသည် ဗမာ့လွတ်လပ်ရေး တပ်မတော်ကို အဖက်မလုပ်ကြတော့ချေ။ ဗမာ့လွတ်လပ်ရေး တပ်မတော်နှင့်တကွ မျိုးချစ်မြန်မာ ဟူသမျှတို့ကလည်း မူလက ထားရှိသည့် ကတိအတိုင်း လွတ်လပ်ရေးကို ချက်ခြင်း မကျေညာသဖြင့် ဂျပန်အပေါ်၌ မကျေမနပ်ဖြစ်ခဲ့သည်။ မြန်မာပြည်တွင်းရှိ ဂျပန်တပ်များက ဗမာ့တပ်မတော်အပေါ် မတရားပြုမှုရုံမျှ မက၊ ဂျပန်ဗဟိုစစ်ဌာနချုပ်ကပါ ယခင်က လျှာထားချက်များကို ချိုးဖောက်လျက် မြန်မာပြည်အား သိမ်းပိုက်ထားရန်နှင့် အခိုက်အတန့်အတွင်း စစ်အုပ်ချုပ်ရေးဖြင့် အုပ်ချုပ်ရန် ကျေညာလိုက်သည်။

ဤသို့ဖြင့် တရားမျှတမှုလည်း မရှိ၊ မိမိတို့ ရည်ရွယ်ချက်ပန်းတိုင်သို့ မရောက်မီ လည်လိမ်ခံရမည်ကဲ့သို့ ဖြစ်လာသောအခါ ဂျပန်စစ်တပ်ကို စိတ်နာကာ ထ၍ တော်လှန်ရန်ပင် စီစဉ်ကြသော်လည်း အချိန်အခါ မဟုတ်သေးကြောင်း ဖျောင်းဖျ နားချခြင်း ခံရသဖြင့် တော်လှန်ရန် အကြံကို ရွှေ့ဆိုင်းလိုက်ရလေသည်။

ထိုမျှသာမကသေး၊ ဗမာ့လွတ်လပ်ရေးတပ်မတော်သည် ဂျပန် စစ်အာဏာပိုင်များ အဖို့ ခေါင်းကိုက်စရာ ပြဿနာ

တခုဟု အထင်အမြင် ခံခဲ့ရပြီးလျှင် ၁၉၄၂ ခုနှစ် ဩဂုတ်လ ထဲတွင် ဗမာ့လွတ်လပ်ရေး တပ်မတော်ကို ဖျက်သိမ်း၍ "ဗမာ့ ကာကွယ်ရေး တပ်မတော်" (ဘီ၊ ဒီ၊ အေ) ဟု ပြန်လည် ဖွဲ့စည်းလိုက်ကြလေသည်။

ဘီ၊ဒီ၊အေကို စတင်တည်ထောင်သောအခါ တပ်ရင်းကြီး လေးခုနှင့် အခြား ဆေးတပ်ဖွဲ့၊ မြင်းတပ်ဖွဲ့၊ အမြောက်တပ်ဖွဲ့၊ သယ်ယူပို့ဆောင်ရေးတပ်ဖွဲ့ ကလေးများ အပါအဝင် လူ အင်အား စုစုပေါင်း ၅,၀၀၀ ပါဝင်ခဲ့သည်။ ထို့နောက်တွင် တပ်အင်အားကို ၂၅, ၀၀၀ အထိ တိုးချဲ့ရန် သတ်မှတ်ထားသည့်အတိုင်း စစ်သားသစ်များကို ထပ်မံစုဆောင်း၍ တိုးချဲ့လိုက်ရာ ဘီ၊ ဒီ၊ အေ ၏ အင်အားမှာ တနေ့တခြား အင်အား တိုးတက်လာသည်။ တပ်များသည်လည်း စံနစ်ကျနစွာ စည်းကမ်းသေဝပ်သော တပ်မတော်ကြီး ဖြစ်၍ လာသည်။

၁၉၄၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ဂျပန်တို့သည် မြန်မာပြည်အား လွတ်လပ်ရေး ပေးကြောင်း ကြေညာလေသည်။ ထိုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့တွင် ဂျပန် ပေးသော လွတ်လပ်ရေး အတုအယောင်နှင့် တချိန်တည်း ဗမာ့ကာကွယ်ရေး တပ်မတော်သည်လည်း ဗမာ့တပ်မတော် ဟူ၍ အမည်ပြောင်းလိုက်ရလေသည်။

ဗမာ့ တပ်မတော် ဟူ၍ အမည် ပြောင်းလဲပြီးနောက် စက်မှု လက်မှု တပ်ရင်းများ၊ သယ်ယူ ပို့ဆောင်ရေး တပ်များ၊ အမျိုးသမီး တပ်ဖွဲ့များနှင့် အခြား ဒေသဆိုင်ရာ ပြောက်ကျား တပ်ဖွဲ့များကိုပါ တိုးချဲ့ ဖွဲ့စည်းခဲ့သည်။ ဤအချိန်၌ ဗမာ့တပ်မတော်၏ အင်အားမှာ ၁၀,၀၀၀ နှင့် ၁၅,၀၀၀ အတွင်း၌ ရှိသည်။ တပ်မတော်၏ လက်အောက်ခံ ဒေသဆိုင်ရာ ပြောက်ကျား တပ်ဖွဲ့များမှာ ရခိုင်တိုင်း၊ မြစ်ဝကျွန်းပေါ် တိုင်းနှင့် သရက်ခရိုင်တို့တွင် ဖွဲ့စည်းထားခဲ့ရာ စုစုပေါင်း ၇၀,၀၀၀ ကျော် ရှိသော ဟူ၏ ။

ထိုအချိန်၌ တိုင်းပြည်တွင် ကင်ပေတိုင် ဟုခေါ်သော ဂျပန် စစ်ပုလိပ်တို့နှင့် ဂျပန်စစ်သားတို့၏ ရမ်းကား ယုတ်မာမှုဒဏ်ကို မရှုမလှ အံကြိတ်ကာ ခံနေခဲ့ကြရသည်။ ဂျပန် အရင်းရှင်များ ဖြစ်သော ကာနီဗို၊ ဂိုရှို၊ မစ်ဆုဗီရှိ စသော ကုမ္ပဏီကြီးများကလည်း စစ်ဒဏ်ကို မရှုမလှ ခံစားနေရသော မြန်မာ့စီးပွားရေးကို သွေးစုတ်လျက် ရှိကြသည်။ ဆီ၊ ဝါဂွမ်း၊ ရေနံ၊ ရော်ဘာနှင့် ဆန်စပါးတို့ကို ယင်းတို့က လက်ဝါးကြီး အုပ်ထားကြသည်။ လွတ်လပ်ရေး အတုအယောင် ဖြစ်၍ ရက်စက်ယုတ်မာမှုများ ကလည်း အမျိုးသမီးနှင့် ဘုန်းကြီးပင် မရှောင်တော့ဘဲ မြန်မာ့စီးပွားရေးနှင့် အုပ်ချုပ်ရေး မှန်သမျှ ဂျပန်တို့ ပြုသမျှ နှ၍ နေကြရသည့်အဖြစ်ကို ဗမာ့ တပ်မတော်နှင့် မျိုးချစ်ပုဂ္ဂိုလ် မှန်သမျှ မခံမရပ်နိုင် ဖြစ်လာကြသည်။

ထို့ကြောင့် ၁၉၄၄ ခုနှစ် ဩဂုတ်လ အတွင်းတွင် ဖက်ဆစ်တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ချုပ်ကြီးကို ဖွဲ့စည်းခဲ့သည်။ (ဖ ဆ ပ လ — ရှု။)

ထိုစဉ်က တော်လှန်ရေး၏ ကျောရိုး မဏ္ဍိုင်သဖွယ် ဖြစ်သော ဗိုလ်ချုပ်အောင်ဆန်း ဦးစီးသည့် ဗမာ့တပ်မတော်သည် အခိုင်မာ အတက်ကြွဆုံး အင်အားစု တရပ် ဖြစ်ခဲ့၏။ ဖ ဆ ပ လ အဖွဲ့ကြီးတွင် ပါဝင်သည့် အခြား အဖွဲ့အစည်းများ ဖြစ်ကြသော ကွန်မြူနစ် ပါတီ၊ ပြည်သူ့အရေးတော်ပုံ ပါတီ၊ အာရှလူငယ်များ အစည်း အရုံး တို့ကလည်း မိမိတို့ အဖွဲ့အစည်း အလိုက် လူထုကို စည်းရုံးသိမ်းသွင်းခဲ့ကြသည်။ ဖက်ဆစ်တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ချုပ်၏ အလံတော်အောက်တွင် ဗမာ့ တပ်မတော်ကို မဏ္ဍိုင်ပြုရသည့် ဆိုခဲ့ပြီးသော အဖွဲ့ အစည်း အသီးအသီးတို့သည် တော်လှန်ရမည့် နေ့ရက် အချိန် အခါကို စောင့်ဆိုင်း ပြင်ဆင်လျက် ရှိနေခဲ့ကြသည်။

ဗိုလ်ချုပ် အောင်ဆန်း ကြီးမှူးသော ဗမာ့တပ်မတော်သည် ဂျပန်ကို တော်လှန်ရန် အတွင်းကျိတ် ကြံစည်လျက် အင်အား မွေးလာခဲ့လေသည်။ ထိုစဉ်၌ အထက် မြန်မာပြည်တွင် ဗြိတိသျှတို့က အင်အားနှင့် ထိုးဖောက် တိုက်ခိုက်လာသောအခါ၊ ယင်းအခြေအနေကို အခွင့်ကောင်းယူကာ စစ်မျက်နှာ သီးသန့်ဖွင့်၍ တိုက်ပေးမည် ဟု ဂျပန်တို့ကို အယုံသွင်းလိုက်လေသည်။

တပ်များသည် ဗမာ့ တပ်မတော်မှ ရှေ့တန်းစစ်မျက်နှာ ဟူ၍ သတ်မှတ်ထားသော ရေနံချောင်း ဒေသ၊ သရက်ခရိုင် ဒေသနှင့် ပျဉ်းမနား ဒေသများဆီသို့၎င်း၊ မြစ်ဝကျွန်းပေါ် နှင့် တနင်္သာရီနယ်သို့၎င်း အသီးအသီး ချီတက်၍ သွားပြီးလျှင် တပ်ဖျောက်၍ ထားလိုက်ကြသည်။ ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့၌ ဗမာ့တပ်မတော်သည် ရန်ကုန်မြို့ ရွှေတိဂုံဘုရား အနောက်မြောက်ဖက်ရှိ ကွင်းပြင်ကြီး (ယခု တော်လှန်ရေး ပန်းခြံ) တွင် စစ်ရေးပြပွဲ အခမ်းအနားနှင့် တပ်ထွက်ပွဲ အခမ်းအနားကိုပင် ကျင်းပခဲ့သေးသည်။

ဂျပန်တို့ကို တော်လှန်ရန် အတွက် စစ်နယ်မြေ (တိုင်း) များကို ခွဲဝေချထားပုံမှာ အောက်ပါအတိုင်း ဖြစ်သည်။

တိုင်းအမှတ်(၁)။ ။ပြည်၊ သာယာဝတီ၊ အင်းစိန်။ ဤတိုင်းကို ဗိုလ်မှူး မောင်မောင် ဦးစီး၍ ဗိုလ်သိန်းတုတ်၊ ဗိုလ်သိန်းမောင်၊ ဗိုလ်သီဟ၊ ဗိုလ်အောင်မင်းတို့ပါဝင် သည်။ တိုင်း အမှတ် (၁) တပ်ဖွဲ့များကို 'မင်းလုစည်သူ တပ်ဖွဲ့" ဟု ခေါ်တွင်၏။

တိုင်းအမှတ်(၂)။ ။ဟင်္သာတ၊ မအူပင်၊ ဖျာပုံ။ ဤတိုင်းကို ဗိုလ်မှူးကြီး နေဝင်းက အုပ်ချုပ်၍ "ကျော်ခေါင်ဗလ တပ်ဖွဲ့" ဟု ခေါ်

တွင်၏။ ဗိုလ်မှူး တင်ဖေ၊ ဗိုလ် မှူး အောင်ကြီး၊ ဗိုလ်ကြည်ဝင်း၊ ဗိုလ်ဗစိန်တို့ ပါဝင်၏။

တိုင်းအမှတ်(၃)။ ။ပုသိမ်၊ ဟသာ်တ၊ မြောင်းမြ။ ဤတိုင်းကို ဗိုလ်မှူးကြီး စောကြာဒိုးက တာဝန်ယူ ဦးစီး၏။ "ရဲကျော်သူရတပ်ဖွဲ့" ဟု ခေါ်သည်။ ဗိုလ်စောထွန်းစိန်၊ ဗိုလ်ကြီး စောစံဖိုးသင်တို့ ပါဝင်၏။

တိုင်းအမှတ်(၄)။ ။ပဲခူး၊ ရွှေကျင်၊ သထုံ။ ဤတိုင်းကို ဗိုလ်မှူးကျော်ဇောကဦးစီး၍"လကျ်ာကျော်ထင် တပ်ဖွဲ့" ဟု ခေါ်တွင်၏။ ဤတိုင်းတွင် ဗိုလ်မှူးအောင်ရွှေ၊ ဗိုလ်လွန်းတင်၊ ဗိုလ်အေးမောင် (ရေဦး)၊ ဗိုလ်သိန်းတန် စသူများ ပါဝင်၏။

တိုင်းအမှတ်(၅)။ ။မော်လမြိုင်၊ ထားဝယ်၊ မြိတ်။ ဤတိုင်းကို ဗိုလ်မှူး တင်ထွန်းက ဦးစီး၍ "ဇေယျကျော်သူတပ်ဖွဲ့" ဟုခေါ်တွင်သည်။ဗိုလ်လှဖေကြီး၊ဗိုလ်ကျော်ထွန်းတင်၊ ဗိုလ်သံတိုင် စသူတို့ပါဝင်၏။

တိုင်းအမှတ်(၆)။ ။တောင်ငူ၊ ရမည်းသင်း၊ မိတ္ထီလာ၊ တောင်ပိုင်း ရှမ်းပြည်။ ဤတိုင်းကို ဗိုလ်မှူးရဲထွဋ်က ဦးစီး၍ "ဘယကျော်ထင် တပ်ဖွဲ့" ဟု ခေါ်တွင်သည်။ ဗိုလ်မှူးလွင် (ဆေးမှူး)၊ ဗိုလ်မှူးသောင်းကြည်၊ ဗိုလ်တောက်ထိန်၊ ဗိုလ်တာရာ၊ ဗိုလ်ထွန်းတင် စသူတို့ ပါဝင်၏။

တိုင်းအမှတ်(၇)။ ။သရက်၊ အာလံ၊ မကွေး၊ မင်းဘူး။ ဤတိုင်းကို ဗိုလ်မှူးအောင် ဦးစီး၍ "သီရိ ကျော်ထင် တပ်ဖွဲ့" ဟု ခေါ်၏။ ဗိုလ်မှူး စိန်ဝင်း (ရင်း ၆-မှူး) ဗိုလ်မောင်ကလေး၊ ဗိုလ်မိုးညို၊ ဗိုလ်စိန်မှန်၊ ဗိုလ်မှူးစန်းယုတို့ ပါဝင်သည်။

ဗိုလ်မှူး ရန်အောင်က ရှေ့တန်း စစ်ဌာနမှူး အဖြစ် တာဝန် ယူရသည်။ ဤ တိုင်းအမှတ် (၇) နှင့် အတူ ဗိုလ်ချုပ် အောင်ဆန်း၏ စစ်ဌာနချုပ် ပူးတွဲပါရှိ၏။ စစ်ဌာနချုပ်တွင် ဗိုလ်မှူးကြီး ဇေယျ၊ ဗိုလ်ခင်မောင်ကလေး၊ ဗိုလ်မှူးရှိန်း၊ ဗိုလ်မင်းခေါင်၊ ဗိုလ်မှူး လှအောင် စသူများ ပါဝင်သည်။

၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် ဗမာ့ တပ်မတော်သည် ပြည်သူ့တပ်မတော်ဟူသော အမည်ကို ခံယူကာ ဂျပန်တို့အား စစ်ကျေညာ၍ စတင် တိုက်ခိုက်ကြလေသည်။ ရခိုင်တိုင်းတွင်မူကား အခြေအနေအရ ဦးပညာသီဟနှင့် ကိုညိုထွန်းတို့ ကြီးမှူး၍ ထိုရက်မတိုင်မီကပင် ဂျပန်တို့ကို တိုက်ခိုက်ခဲ့ကြ၍၊ အနောက်မြောက်တိုင်းမှူး ဗိုလ်မှူး ဗထူး ကြီးမှူးသည့် ဗမာ့တပ်မတော် တပ်ရင်းတပ်ခွဲများသည် အခြေအနေအရ နားလည်မှုဖြင့် မတ်လ ၈ ရက်နေ့ကပင် ဂျပန်တို့ကို စစ်ကျေညာကာ စတင်တိုက်ခိုက်ခဲ့လေသည်။

ပြည်သူ့တပ်မတော်သည် ရခိုင်ဖက်မှ ဖြတ်၍ ဆုတ်ခွာလာသော ဂျပန်တို့ကို သရက်ခရိုင်နှင့် ပြည်ခရိုင်တို့ အတွင်းမှငင်း၊ အထက် မန္တလေး၊ မိတ္ထီလာတို့မှ ဆင်းလာသောဂျပန်တပ်များကို ပျဉ်းမနား၊ တောင်ငူ၊ ပဲခူး ခရိုင် နယ်မြေများမှငင်း၊ ကြွင်းကျန်သောတပ်ကွဲတပ်ကျန်များကို မြစ်ဝကျွန်းပေါ်နှင့် ရခိုင်တိုင်းဒေသများတွင်ငင်း၊ယိုးဒယားလမ်းမကြီးမှ နေ၍ ခံစစ်ကြောင်း တည်ဆောက်စ ပြုနေသော ဂျပန်တပ်များကို တနင်္သာရီနယ်အတွင်းရှိ တိုင်းအမှတ် ၅ တို့ကငင်း အသီးအသီး ပြင်းပြင်းထန်ထန် တိုက်ခိုက်ခဲ့သည်။ (ပြည်သူ့တပ်မတော်သည် ထိုနှစ် ဇူလိုင်လ ၂၃ ရက်နေ့တွင် မျိုးချစ် ဗမာ့တပ်မတော်ဟုအမည်ပြောင်းခဲ့သည်။) ရန်သူဖက်မှ ကျဆုံးသူ ၇,၇၂၆ ယောက်၊ ဒဏ်ရာရသူ ၂,၃၀၄ ယောက်၊ သုံ့ပန်း ၂၁၅ ယောက်တို့ အဖမ်းခံရသည် အထိ တိုက်ခိုက်ခဲ့၏။ ရန်သူထံမှ လက်နက်ခဲယမ်းမီးကျောက် အမြောက် အမြား သိမ်းဆီးရမိခဲ့သည်။ ဇူလိုင်လ ၂၀ ရက်နေ့မှ ဩဂုတ်လ ၄ ရက်နေ့အထိ စပ်ကြားကာလအတွင်း စစ်တောင်းမြစ်ဝှမ်းဒေသ တိုက်ပွဲတွင် ရန်သူ ဂျပန် ၆,၂၇၂ ယောက် ကျဆုံးခဲ့ရာ ထိုအထဲမှ ၃,၂၀၀ ခန့်မှာ မျိုးချစ် ဗမာ့တပ်မတော်၏ တိုက်ခိုက်မှုကြောင့် ကျဆုံးခဲ့ရသည်ဟု ဆိုလေသည်။

မျိုးချစ် ဗမာ့တပ်မတော်သည် မဟာမိတ်တို့ထက် ရှေးဦးစွာ မေလ ၁ ရက်နေ့တွင် ရန်ကုန်မြို့ကို သိမ်းပိုက်မိကြသည်။ မျိုးချစ် ဗမာ့တပ်မတော်၏ တိုက်ခိုက်မှုကို မဟာမိတ်တပ်များကပင် ချီးကျူးကြရလေသည်။

ဩဂုတ်လတွင် ဂျပန်တို့ ခြွင်းချက်မရှိ လက်နက်ချပြီးနောက် မြန်မာပြည်တိုက်ပွဲမှာ ပြီးဆုံးသွားလေသည်။ ထိုအခါ မြန်မာပြည် ဗြိတိသျှမြို့ပြအုပ်ချုပ်ရေး အရာရှိများက မျိုးချစ် ဗမာ့တပ်မတော်အပေါ် ဖိနှိပ်လိုစိတ် ရှိလာ၏။ ထိုရည်ရွယ်ချက်ကို လော့ မောင့်ဗက်တင် အပါအဝင် ဗြိတိသျှ စစ်ဖက်အရာရှိကြီးများက သဘောမတူကြပေ။

ရန်ကုန်မြို့ကို မျိုးချစ် ဗမာ့ တပ်မတော်က သိမ်းပြီးနောက် ဗိုလ်မှူးကြီး နေဝင်းသည် မေလ ၁၀ ရက်နေ့တွင် ရန်ကုန်သို့ ရောက်ရှိလာသော နိုင်ငံခြား သတင်းထောက်များကို ဖိတ်ခေါ်၍ သတင်းစာ ရှင်းလင်းပွဲ ပြုလုပ်ရာ၌ " .... ဗမာ့တပ်မတော်သည် ၁၉၄၂ ခုနှစ်က အင်္ဂလိပ်ကို

တိုက်ခိုက်ခဲ့ခြင်းမှာ ချာချီ၏ ကြေညာချက်သည် ဗမာပြည် အတွက် အကျိုးကျေးဇူး မပါရှိခဲ့၍ငြင်း၊ ဂျပန်တို့ကလည်း သူတို့နှင့် ပူးပေါင်းပါက ဗမာပြည်ကို လွတ်လပ်ရေး ပေး မည် ဟု ကတိပေး၍ငြင်း၊ ထိုကတိကိုလည်း ၁၉၄၂ ခုနှစ် ဖေဖွာရီလ ၂၁ ရက်နေ့တွင် တိုဂျိုအစိုးရက ဂျပန်ဒိုင်ယက် လွှတ်တော်တွင် အတိအလင်း ကြေညာသဖြင့်ငြင်း ထို အကြောင်းများကြောင့် အင်္ဂလိပ်ကို ခံတိုက်ခဲ့ကြောင်း။ သို့သော် ဂျပန်တို့ ဗမာပြည်ရောက်ရှိလာသောအခါ ၎င်းတို့ ကတိမတည်သဖြင့် ဂျပန်ကို ပြန်၍တိုက်ခဲ့ကြောင်း၊ တိုတို ပြောရလျှင် ကျွန်ုပ်တို့သည် လွတ်လပ်ရေးအတွက် အင်္ဂလိပ် ကိုငြင်း၊ ဂျပန်ကိုငြင်း နှစ်ကြိမ်တိုင် တိုက်ခဲ့ကြပြီ။ နောင်ကို လည်း ဗမာပြည် လွတ်လပ်ရေး ရရှိရန် အတွက် ဗမာ့တပ်မ တော်က အသက်စွန့်ရန် အသင့်ရှိနေပြီးဖြစ်ကြောင်း၊ ဗမာ့ လွတ်လပ်ရေးကို တားဆီးပိတ်ပင်သူ မှန်သမျှကို တိုက်ခိုက် ရန် ပြင်ဆင်ပြီး ဖြစ်ကြောင်း” နှင့် ပြောပြလျက် တော်လှန် ရေးအတွက် ရဲဘော်များ သွေးမြေကျခံ၍ အသက်စွန့် တိုက်ခိုက်သွားခြင်းမှာ လွတ်လပ်ရေးအတွက် ဖြစ်ကြောင်း ညွှန်ပြသွားလေသည်။

ထို့နောက် မျိုးချစ် ဗမာ့တပ်မတော်၏ ရှေ့ရေးနှင့် စပ်လျဉ်း၍ အာရှအရှေ့တောင်ပိုင်းရှိ မဟာမိတ်တပ်များ၏ သေနာပတိချုပ် လော့ လူဝီ မောင့်ဗက်တင်နှင့် ဖဆပလ ဥက္ကဋ္ဌ ဗိုလ်ချုပ် အောင်ဆန်း ဦးဆောင်သော မြန်မာကိုယ် စားလှယ် ၁၁ ဦးသည် ၁၉၄၅ ခုနှစ် စက်တင်ဘာလတွင် သီဟိုဠ်ကျွန်း ကန္ဒီမြို့သို့ သွားရောက်၍ အပြန်အလှန် ဆွေး နွေးပြီးနောက် ကန္ဒီစာချုပ်ကို ချုပ်ဆိုခဲ့ကြသည်။ ထိုစာ ချုပ်အရ မျိုးချစ် ဗမာ့တပ်မတော် တခုလုံးကို မြန်မာနိုင်ငံ စစ်တပ်အတွင်းသို့ ပူးပေါင်းကာ ကျန်းမာရေးနှင့် ပြည့်စုံ၍ ဆက်လက်အမှုထမ်းလိုသူ တပ်သား ၅,၂၀၀ နှင့်အရံ ၃,၀၀၀ ကိုငြင်း၊ တပ်မတော်ဗိုလ် ၂၀၀ နှင့် အရံ ဗိုလ် ၂၀၀ ကိုငြင်း ခန့်အပ်ရန်၊ တပ်မတော်သားများ အတွက် ရထိုက်သော အခွင့်အရေးများကိုပေးရန်အပြင် တပ်မတော်သားများနှင့် သက်ဆိုင်သော ကိစ္စအဝဝကို စုံစမ်းရန်အတွက် မဟာမိတ် ကိုယ်စားလှယ်နှင့် တပ်မတော်ကိုယ်စားလှယ်တို့ ပူးတွဲကာ အဖွဲ့ ဖွဲ့စည်းဆောင်ရွက်ရန်တို့ဖြစ်၏။

ဖက်ဆစ် ဂျပန်ကို အောင်မြင်စွာ တော်လှန် ပြီးသည့် နောက်တွင် ကိုလိုနီနယ်ချဲ့စံနစ်ကို တော်လှန်ရန် အတွက် ဗိုလ်ချုပ်အောင်ဆန်းသည် စစ်တပ်မှ ထွက်၍ ဖ ဆ ပ လ ဥက္ကဋ္ဌ အဖြစ် လွတ်လပ်ရေးကို အရယူမည်ဟု ဆုံးဖြတ် ကြွေးကြော်ပြီးလျှင် တိုင်းပြည်၏အင်အားကို စည်းရုံးလေ သည်။ ထိုအခါ တိုင်းပြည်အင်အားသည် ရှေးကထက် ပို၍ ကောင်းလာသည်။ ရှမ်း၊ ကချင်၊ ချင်း၊ ကရင်၊ ကယား အစရှိသော တောင်တန်းဒေသ တိုင်းရင်းသား များကပင် မြန်မာတိုင်းရင်းသားများနှင့် လက်တွဲ ဆောင်ရွက်မည် ဟု ဆုံးဖြတ်ကြရာ အင်အားသစ် တိုးလာလေသည်။

၁၉၄၆ ခုနှစ်တွင် အင်္ဂလိပ်အစိုးရသည် ဖ ဆ ပ လ ခေါင်း ဆောင်သော ပြည်မဒေသနှင့် တောင်တန်း ဒေသတို့၏ အင်အားကို မခံနိုင်သဖြင့် ဖ ဆ ပ လ ခေါင်းဆောင်နှင့် တောင်တန်းဒေသ ခေါင်းဆောင်တို့အား အုပ်ချုပ်ရေးအာ ဏာကို အပ်ရလေသည်။ လွတ်လပ်ရေးကို ပေးပါမည်ဟု လည်း ကတိပြုရလေသည်။ (ဖ ဆ ပ လ။ အောင်ဆန်း အက်တလီစာချုပ် — လည်းရှု။) ထို့ကြောင့် ဗိုလ်ချုပ် အောင်ဆန်းကြီးမှူးသော ဖ ဆ ပ လ အစိုးရသည် လွတ်လပ် တော့မည်ဖြစ်သော မြန်မာနိုင်ငံကို ပြည်မသား တောင် တန်းသားတို့၏ ဆန္ဒအတိုင်း မည်သို့မည်ပုံ ဖွဲ့စည်းသင့်သည် အုပ်ချုပ်သင့်သည်တို့ကို ပြည်မဒေသ၊ တောင်တန်း ဒေသ တို့မှ ပြည်သူ ကိုယ်စားလှယ်များနှင့် ဆွေးနွေးလိုသဖြင့် ၁၉၄၇ ခုနှစ်တွင် တိုင်းပြု ပြည်ပြု လွှတ်တော် အတွက် ရွေး ကောက်ပွဲကို ကျင်းပလေသည်။

ပြည်သူ အများက ယုံကြည်၍ ရွေးကောက် တင်မြှောက် လိုက်သော ပြည်မနှင့် တောင်တန်း ကိုယ်စားလှယ်အမတ် များ ပါဝင်သည့် တိုင်းပြုပြည်ပြု လွှတ်တော်အစည်းအဝေး များတွင် တိုင်းပြည်ကို ဥပဒေဖြင့်သာ အုပ်ချုပ်စေလိုသည် ဟုငြင်း၊ ရှမ်းလူမျိုးစု၊ ကရင် လူမျိုးစု၊ ကချင်လူမျိုးစု၊ ကယားလူမျိုးစုတို့သည် ပြည်နယ်အသီးအသီးဖွဲ့လျက် ပြည် မနှင့် ပေါင်း၍ ပြည်ထောင်စုနိုင်ငံ တည်ထောင်စေလိုသည် ဟု ၎င်း၊ နိုင်ငံတော် သမတကို ငါးနှစ်တကြိမ် တင်မြှောက် ခြင်းဖြင့် သမတနိုင်ငံလည်း ဖြစ်စေလိုသည် ဟုငြင်း၊ တောင် သူ လယ်သမား၊ အလုပ်သမားတို့ပါဝင်သော ပြည်ထောင်စု တိုင်းသူ ပြည်သားများ အားလုံး၏ အကျိုးအတွက် တိုင်း သူပြည်သားများ၏ ဆန္ဒအရ တိုင်းပြည်ကို အုပ်ချုပ်စေလို သည် ဟုငြင်း အများသဘောတူဆုံးဖြတ်၍ ဖွဲ့စည်းအုပ်ချုပ် ပုံ အခြေခံဥပဒေကို ရေးဆွဲကြလေသည်။ နိုင်ငံတော် အလံ၊ နိုင်ငံတော်သီချင်း၊ နိုင်ငံတော် တံဆိပ်တို့ကိုလည်း အများ သဘောတူ ဆုံးဖြတ်၍ သတ်မှတ်ကြသည်။

ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ရေးဆွဲနေသော ကာလအတွင်း ၁၉၄၇ ခုနှစ် ဇူလိုင်လတွင် ဖ ဆ ပ လ ဥက္ကဋ္ဌ ဗိုလ်ချုပ် အောင်ဆန်းနှင့် ဖ ဆ ပ လ ခေါင်းဆောင်၊ တောင်တန်းဒေသခေါင်းဆောင် အချို့တို့သည် လူမသမာ တို့၏ လက်ချက်ဖြင့် အသက်ဆုံးကြရလေသည်။ သို့ရာတွင် ဖ ဆ ပ လ ဒုတိယ ဥက္ကဋ္ဌ ဦးနုသည် ဥက္ကဋ္ဌအဖြစ် ဆောင် ရွက်၍ အခြေခံ ဥပဒေကို ဆက်လက်ရေးဆွဲစေရာ အောင် မြင် ပြီးစီးလေသည်။ ထို့နောက် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် လွတ်လပ်သော သမတ မြန်မာ နိုင်ငံကို တည်ထောင်ပြီဟု ကမ္ဘာသို့ ကြေညာလေသည်။

လွတ်လပ်ရေး ကျေညာပြီး၍ မကြာမီပင် အမျိုးသား ညီညွတ်ရေး စတင်ပြိုကွဲခဲ့သည်။ (မြန်မာနိုင်ငံရေးသမိုင်း — လည်းရှု။)နိုင်ငံရေးပါတီများစိတ်သဘောကွဲ၍ တောခိုသူက ခိုကာ အစိုးရကို ပုန်ကန် ခြားနားကြပြန်သည်။ ဗမာ့တပ်မတော်သည် သောင်းကျန်းသူတို့အား နှိမ်နင်းနိုင်သမျှ နှိမ်နင်းကာ ပြည်ထောင်စုကြီးကို ကာကွယ်ခဲ့သော်လည်း အာဏာရ ဖ ဆ ပ လ ပါတီအတွင်း သဘောကွဲပြန်သဖြင့် နိုင်ငံတွင်း အခြေအနေ ပျက်စီးယိုယွင်း လာခဲ့ရာ ၁၉၅၈ ခုနှစ်တွင် ဗိုလ်ချုပ်ကြီးနေဝင်း ခေါင်းဆောင်သော အိမ်စောင့်အစိုးရက အုပ်ချုပ်ရေး အာဏာကို လက်ခံယူကာ နိုင်ငံ၏ အခြေအနေကို ထိန်းသိမ်း ပေးခဲ့ရသည်။ ၁၉၆၀ ပြည့်နှစ်တွင် အိမ်စောင့်အစိုးရက အထွေထွေ ရွေးကောက်ပွဲများ ကျင်းပ၍ ရွေးကောက်ပွဲ၌ အနိုင်ရရှိသော ပြည်ထောင်စုပါတီအား အစိုးရဖွဲ့စေကာ အာဏာ လွှဲပြောင်းပေးခဲ့သည်။ သို့ရာတွင် ပါတီတွင်း မညီမညွတ်ဖြစ်လာသောအခါ နိုင်ငံအခြေအနေ ယိုယွင်း လာပြန်သဖြင့် ဗိုလ်ချုပ်ကြီးနေဝင်း ဦးဆောင်သော ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီသည် ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် နိုင်ငံတော်အာဏာကို သိမ်းယူ၍ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ဟူသော နိုင်ငံတည်ဆောက်ရေး လမ်းစဉ်ကို ချမှတ်ကာ အကောင်အထည် ဖော်လေသည်။ (မြန်မာ့ ဆိုရှယ်လစ်လမ်းစဉ် — လည်းရှု။)

# သမိုင်းပေးတာဝန် ကျေပြွန်စွာထမ်းဆောင်လျက်

**မြန်မာ့ တပ်မတော်သည် မြန်မာ့ အမျိုးသားလွတ်မြောက်ရေး လှုပ်ရှားမှုအတွင်း၌ ပဋိသန္ဓေတည်ခဲ့ပြီးလျှင်၊ ထိုလှုပ်ရှားမှုအတွင်းမှာပင် မွေးဖွားကြီးပြင်းလာခဲ့ရသည်။ မူရင်းအားဖြင့် စစ်ရေးအဖွဲ့အစည်းတရပ် ဖြစ်သော်လည်း၊ အမျိုးသား လွတ်လပ်ရေးကို ထိန်းသိမ်း၍၊ ဆိုရှယ်လစ် ဒီမိုကရေစီကို ထူထောင်ကာ၊ မြန်မာ့ဆိုရှယ်လစ် တော်လှန်ရေးကြီးကို ဦးဆောင်ဆင်နွှဲလျက်၊ ပြည်သူ့တပ်မတော်အဖြစ် တည်ဆောက်ယင်း၊ သမိုင်းပေးတာဝန်ကို ကျေကုန်အောင် ဆောင်ရွက်လျက်ရှိသည်။**

**မြန်မာ့ တပ်မတော်။** ။မြန်မာ့ တပ်မတော်(ဗမာ့တပ်မတော်) အကြောင်းကို တင်ပြရမည် ဆိုလျှင် ပုဂံပြည် အနော်ရထာမင်းစော လက်ထက်တွင် စစ်မက်ရေးရာအတွက် ထောင်ပုံမြို့၊ ရှစ်ရာပုံမြို့၊ လေးရာပုံမြို့ အစရှိသည့် မြို့ပြများ တည်ထောင်လိုက်ကြခြင်း အကြောင်းမှ အစပြုရပေမည်။ (မြန်မာ့ စစ်တပ်သမိုင်း — ရှု။) သို့ရာတွင် ရှည်လွန်း ဝေးလွန်းမည် စိုး၍ ဗမာ့တပ်မတော် အကြောင်းကို ပဌမ အင်္ဂလိပ်–မြန်မာ စစ်ပွဲမှ စတင် တင်ပြမည်။

အိန္ဒိယ တပြည်လုံးကို ဝါးမျိုပြီးဖြစ်သော နယ်ချဲ့မျက်နှာဖြူများသည် မြေပေါ် မြေအောက်သယံဇာတပစ္စည်းများဖြင့် အထူး ပြည့်ဝ ကုံလုံလျက်ရှိသော မြန်မာနိုင်ငံကိုလည်း ဝါးမျိုလိုက်ကြရန် ပဌမ အင်္ဂလိပ်–မြန်မာ စစ်ပွဲ (၁၈၂၄–၁၈၂၆ ခုနှစ်) မဖြစ်ပွားမီကပင် ဒေလီမြို့နှင့် ဆင်းမလားမြို့များတွင် စီမံကိန်းများရေးဆွဲပြီးဖြစ်လေသည်။ ထိုကြောင့် သူတို့သည် မြန်မာများနှင့် ရန်မဖြစ် ဖြစ်လေအောင် စစ်မဖြစ် ဖြစ်လေအောင် ကြံဆောင် ကြိုးစားကြကုန်သည်။

ရှေးဦးစွာ အာသံနယ်ဖက်တွင် ရန်စ ကြကုန်သည်။ ထိုအချိန်အခါက အာသံပြည်သည် မြန်မာ့ လက်အောက်ခံ ဖြစ်သည်။ အာသံဘုရင် စန္ဒရကန္တရှိန်မှာ ဘိုးတော်ဘုရားက နန်းတင်ထားသူ ဖြစ်သည်။ သို့ဖြစ်ရာ အင်္ဂလိပ်တို့သည် စန္ဒရကန္တရှိန်၏ အမှုး အမတ်များကို ထောင်ထား ပုန်ကန်ရန် သွေးထိုးပေးကြသည်။ ငွေကြေးများ ပေးကြသည်။ လက်နက်များပေးကြသည်။ ထိုကြောင့် ခရစ်နှစ် ၁၈၁၆ ခုတွင် အာသံ မှူးမတ်များ ထောင်ထား ပုန်ကန်ကြသောအခါ မြန်မာ့တပ်မတော်က သွားရောက် နှိမ်နင်းလိုက်ရသည်။ ထိုတပ်ကြီးတွင် စစ်သူကြီးမဟာဗန္ဓုလလည်းပါ၏။ (မဟာဗန္ဓုလ — လည်းရှု။) သို့ရာတွင်အကြီးအချုပ်ကားမဟုတ်သေး။ ထိုစစ်ပွဲတွင် မြန်မာ့တပ်မတော်က အကြီးအကျယ် အောင်နိုင်ပြီး စန္ဒရကန္တရှိန်ကို နန်းတင်ကာ တပ်ပြန်ခေါက်ခဲ့သည်။

နယ်ချဲ့ မျက်နှာဖြူများသည် ၁၈၁၈ ခုနှစ်တွင် ဒုတိယ အကြိမ် သွေးထိုးကြပြန်သည်။ သို့နှင့် အာသံမှူးမတ်များ ထောင်ထားကြပြန်သည်။ မဟာဗန္ဓုလ အပါအဝင် မြန်မာစစ်သူကြီးများက ကွပ်ကဲလျက် သွားရောက် နှိမ်နင်းကြပြန်သောအခါ အကြီးအကျယ် အောင်နိုင်ကြ၍ စန္ဒရကန္တရှိန်ကို နန်းအပ်ခဲ့ပြန်သည်။

တတိယ အကြိမ်အဖြစ် ၁၈၂၁ ခုနှစ်တွင် နယ်ချဲ့ မျက်နှာဖြူများက သွေးထိုးကြပြန်သည်။ ယခုအကြိမ်၌သော်အာသံမှူးမတ်များကိုသာ သွေးထိုးရုံ မဟုတ်၊ အာသံဘုရင် စန္ဒရကန္တရှိန်ကိုပါ သွေးထိုးလိုက်ကြသည် ။ ယခင်အခါများကအတိုင်းလည်း ငွေကြေးများနှင့်လက်နက်ခဲယမ်းမီးကျောက်များပေးကြသည်။ ထိုမျှသာမက မျက်နှာဖြူစစ်ဗိုလ်များက အုပ်ချုပ်သည့် မျက်နှာဖြူ မျက်နှာမဲ စစ်သား အမြောက်အမြားကိုလည်း ပေးကြသည်။ ထိုကြောင့် စန္ဒရကန္တရှိန်ကိုယ်တိုင် ဦးဆောင်ကာ ဘကြီးတော် မင်းကို ထောင်ထား ပြန်

သည်။ ဤအကြိမ်တွင်မူ စစ်သူကြီး မဟာဗန္ဓုလကိုယ်တိုင် ဦးစီး ဦးချုပ်ပြုကာ သွားရောက် နှိမ်နင်းသည်။ မြန်မာ့ တပ်မတော်ကား အကြီးအကျယ် အောင်ပွဲဆင်နိုင်ခဲ့၏။

နယ်ချဲ့ မျက်နှာဖြူများသည် အာသံပြည်ဖက်တွင် အရေး နိမ့်ကာ မိမိတို့၏ အကြံအစည်များ ပျက်ပြားသွားရလေ သောအခါ အိန္ဒိယ—မြန်မာ နယ်စပ်ဖြစ်သော စစ်တကောင်း နယ်ဖက်သို့ ဦးလှည့်ကြပြန်သည်။ သို့နှင့် သက္ကရာဇ် ၁၈၂၄ ခုနှစ်တွင် အင်္ဂလိပ်—မြန်မာ စစ်ပွဲ စရသည်။ ဤတွင်လည်း အနှောက်အရှက် အမျိုးမျိုး ပေးကြပြန်သည်။ စစ်သူကြီး မဟာဗန္ဓုလနှင့် မြဝတီမင်းကြီးဦးစတို့ အုပ်ချုပ် ကွပ်ကဲသည့် မြန်မာ့တပ်မတော်သည် ဂေါ်တော့ပလ္လင်တိုက်ပွဲ၊ ပန်းဝါတိုက် ပွဲနှင့် ငတ်မြစ် (နတ်မြစ်) တိုက်ပွဲတို့တွင်တိုက်ပွဲဝင်နယ်ချဲ့ မျက် နှာဖြူများကပင် အံ့သြ၊ ချီးမွမ်းရလောက်အောင် အောင်နိုင် လိုက်ကြသည်။ (အင်္ဂလိပ် – မြန်မာစစ်ပွဲများ —— ရှု။)

သို့ရာတွင် စစ်ပရိယာယ်၌ အဝါးဝပြီး ကျွမ်းကျင်ပြီး ဖြစ်ကြသော နယ်ချဲ့ မျက်နှာဖြူများသည် စစ်တကောင်း နယ်စပ်၌ မြန်မာ့ တပ်မတော်က သဲသဲမဲမဲ ဇွဲနဘဲနှင့် အောင်ပွဲများကို ဆင်နေကြစဉ် အတွင်း စစ်သင်္ဘောများ ကုန်သင်္ဘောများဖြင့် ရုတ်တရက် ရှောင်တခင် ရန်ကုန်မြို့သို့ ဝင်ကာ သိမ်းပိုက်လိုက်ကြသည်။ အငိုက်မိကြရရှာသော မြန်မာများက အပြင်းအထန် ခုခံကြသေး၏။ မရ။

သို့နှင့် စစ်တကောင်း နယ်ဖက်သို့ ချီတက် တိုက်ခိုက်ရန် အားယူ နေကြသော စစ်သူကြီး မဟာဗန္ဓုလ၏ လက် အောက်ခံ မြန်မာ့စစ်သည်တော်များသည် ရန်ကုန်မြို့သို့ ဆင်းလာကြရပြန်သည်။ သို့သော် အာသံ တိုက်ပွဲများမှ အစ ယခု အထိ တောက်လျှောက် စစ်ဆင်ခဲ့ကြရသော မဟာဗန္ဓုလ၏ တပ်မတော်သားများသည် ပင်ပန်း နွမ်း နယ်လှချေပြီ။ အထူးသဖြင့် ရွှေတိဂုံ စေတီတော်ကြီးကို 'တောင်ထိပ် ခံတပ်' အဖြစ် ရယူထားကြပြီး ဖိနပ်စီး၊ အညစ် အကြေးစွန့်၊ အိုးအိမ်တည်ဆောက်၊ အမြောက်ကြီးများကို တင်၍ လူသတ်ပွဲ ဆင်နေသော နယ်ချဲ့ မျက်နှာဖြူတို့က အဖက်ဖက်တွင် တပန်းသာလျက် ရှိနေပြီ။

မည်သို့ပင် ဖြစ်စေ အစပဌမ၌သော် မဟာဗန္ဓုလ၏ စစ် သည်တော် များသည် အောင်ပွဲများ ခံကြရသေး၏။ ကြည့်မြင်တိုင် တိုက်ပွဲများ၊ ကုက္ကိုင်းတိုက်ပွဲများတွင် မြန်မာ့ အစွမ်းကို အံ့မခန်း ပြနိုင်ကြသည်။ သို့ရာတွင် လက်နက် အရာ၌ကား အဆမတန် ကွာခြားနေမှုကြောင့် မဟာဗန္ဓုလ သည် ဓနုဖြူမြို့သို့ အင်အား ဖြည့်ရင်း ဆုတ်ခွာခဲ့ရ လေသည်။

ဤတွင် လက်နက်ချင်း ကွာခြားနေမှုကို အနည်းငယ် တင်ပြလိုသည်။ မြန်မာစစ်သည်တော်များကား သေနတ် ကို လူတိုင်း မကိုင်နိုင်ကြ။ ဓားကိုင်၊ လှံကိုင်၊ တုတ်ကိုင်



မြန်မာ့တပ်မတော်၏ ကျောထောက်နောက်ခံမှာ လုပ်ရည်ကိုင်ရည်ဖြင့် ကုံလုံကြွယ်ဝသည့် ဤစစ်သားကောင်းများပင်ဖြစ်သည်။



ဝတ်စုံဝတ်ဆင်ထားသည့် မြန်မာ့တပ်မတော် အမျိုးသမီးဗိုလ်နှင့် တပ်ကြပ်ကြီး

စသည်တို့ကလည်း ကူကြရပေသေးသည်။ ကိုင်နိုင်သူများ၏ သေနတ်များမှာလည်း ယမ်းနှင့် အုန်းဆံ ကာပတ်နှင့် ကျည်နှင့် ပစ်ရသော ကျောက်မီး သေနတ်များသာ ဖြစ်ကြရာ တခါတရံ သေနတ် တချက်ထွက်ရန် အကြိမ်ကြိမ် မောင်းတင်၍ ဖြုတ်ကြရပေသည်။ နယ်ချဲ့ မျက်နှာဖြူတို့၏ 'ရိုင်ဖယ်' သေနတ်များမှာမူကား ခေတ်မီ သေနတ်များ ဖြစ်သည့် အပြင် လှံစွပ်များကိုလည်း တပ်ဆင်ထားကြသည်။ သို့ဖြစ်ရာ အလွယ်တကူ ပစ်ရင်း ခတ်ရင်း ပင် ရန်သူကို လှံစွပ်တက်ထိုးနိုင်သည်။ မြန်မာတို့ကဲ့သို့ လှံ ဓား သုံးစရာမလို။ ထိုအပြင် အမြောက်ချင်းလည်း ကွာခြားလှပေသည်။ မြန်မာ့ အမြောက် တလက်က ပစ်လွှတ်လိုက်သော ကျည်ဆန်တဆန်သည် လူတယောက်ကို ထိမှန်လျှင် ထိုသို့ ထိမှန်သော သူကိုသာ ဒုက္ခပေးနိုင်သည်။ နယ်ချဲ့ မျက်နှာဖြူတို့၏ အမြောက်တလက်က ပစ်လွှတ်လိုက်သော ကျည်ဆန်တဆန်မှာမူကား လူကို တိုက်ရိုက် မထိမှန်စေဦး၊ လူလေးငါးယောက် အနီးသို့ ကျ၍ ပေါက်ကွဲသွားခဲ့သော် ထိုလေးငါးယောက်ကို သေစေနိုင်ပေသည်။ တဖန် ထိုသို့သော သာမန် အမြောက်များသာမက နယ်ချဲ့ အင်္ဂလိပ်တို့တွင် တုံးပျံ အမြောက်များလည်း ပါသေးသည်။ သို့ဖြစ်ရာ မယှဉ် သာအောင် ကွာခြားသော ထိုလက်နက်များကြောင့်လည်း မြန်မာများ ရှုံးနိမ့်ရခြင်း ဖြစ်ပေသည်။ ၁၈၂၅ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ဓနုဖြူခံတပ် အတွင်း၌ စစ်သူကြီး မဟာဗန္ဓုလ ကျဆုံးရခြင်း အကြောင်းမှာလည်း အထက်တွင် ပြဆိုခဲ့ပြီးဖြစ်သော အမြောက်ဆန် တဆန်သည် သူ့အနီးတွင် ပေါက်ကွဲသွားခြင်းကြောင့် ဖြစ်သည်။

မဟာဗန္ဓုလ ကျဆုံးပြီ ဆိုသည်နှင့် တပြိုင်နက်လည်း မဟာဗန္ဓုလ၏ တပ်ကြီး ပျက်ရချေတော့သည်။ မဟာဗန္ဓုလ၏ တပ်ကြီး ပျက်ပြီ ဆိုသည်နှင့် တပြိုင်နက်လည်း ပဌမ အင်္ဂလိပ်–မြန်မာစစ်ပွဲကြီး ပြီးဆုံးပြီဟု ဆိုနိုင်သည်။

သို့ရာတွင် ထိုသို့ လက်နက်ချင်း မမျှ၍ ရှုံးပင် ရှုံးကြရငြားလည်း မြန်မာကို ကမ္ဘာက သိရပြီ။ မြန်မာကို ကမ္ဘာက ချီးမွမ်းရပြီ။ ထိုပဌမ အင်္ဂလိပ်–မြန်မာ စစ်ပွဲနှင့် စပ်လျဉ်း၍ ချီးမွမ်းကြသူများအနက် မျက်နှာဖြူ အမျိုးသမီး မစ္စ တက်နစ်ဆင် ဂျက်စီက "မြန်မာနိုင်ငံ အကြောင်း" ဟု ခေါင်းစဉ် တပ်ထားသည့် သူ့စာအုပ်တွင် အောက်ပါ မှတ်ချက်ဖြင့် နိဂုံးချုပ်ထားသည်။

"ကျွန်ုပ်တို့ (အင်္ဂလိပ်) ဖက်မှ စည်းကမ်း အရာနှင့် လက်နက်အရာ ဤနှစ်ဖြာတို့တွင် 'သာ' နေသည့် နည်းတူ မြန်မာတို့ဖက်မှာလည်း ဂုဏ်ယူစရာ အချက် နှစ်ချက် ရှိနေပေသေးသည်။ ထိုသို့ ဂုဏ်ယူစရာ အချက်နှစ်ချက်မှာ မြန်မာတို့၏ အံ့မခန်းနိုင်လောက်သော သတ္တိနှင့် ပြောမကုန်နိုင်လောက်သော ထထကြွကြွ လှုံ့လ ဝီရိယရှိမှုတို့ပင် ဖြစ်သတည်း။"

ခရစ် ၁၈၅၂ ခုနှစ်တွင် ဖြစ်ပွားသော ဒုတိယ အင်္ဂလိပ်–မြန်မာ စစ်ပွဲတွင်လည်း မြန်မာများသည် သတ္တိ အရာတွင် သာနေကြပါလျက်နှင့် လက်နက်ချင်း ကွာခြားနေမှုကြောင့် အညှံ့ခံလိုက်ကြရပြန်လေသည်။

တတိယ အင်္ဂလိပ်–မြန်မာစစ်ပွဲ၏ အစဖြစ်သော ၁၈၈၅ ခုနှစ်တွင်မူကား အင်အား ကြီးမားသော နယ်ချဲ့မျက်နှာဖြူတို့သည် စစ်သင်္ဘောများဖြင့် ဧရာဝတီ မြစ်ကြောင်းအတိုင်း ချီတက်လာကြကာ သီပေါဘုရင်ကို ကြက်ငှက်ကလေးများ ဖမ်းသကဲ့သို့ အလွယ်တကူပင် ဖမ်းဆီးယူငင်သွားကြသည်။ ထိုသည့်နောက်ပိုင်းတွင်မှ ရုတ်တရက်အားဖြင့် အံ့အားသင့်ကြက်သေသေနေကြရသော မြန်မာ တမျိုးသားလုံးသည် အုံကြွ တော်လှန်ကြကုန်သည်။ ခုနစ်နှစ် ခုနစ်မိုး တိုင်တိုင်ကြာ၏။ ပုဂံမှ ဗိုလ်ချိုသည်ငင်း၊ ပုပ္ပါးမှ ဗိုလ်နက်ကျော်သည်ငင်း၊ ဝန်းသိုမှ စော်ဘွားကြီး ဦးအောင်မြတ်သည်ငင်း၊ ရွှေဘိုမှ ထိပ်တင်မှတ်သည်ငင်း၊ ကျောက်ဆည်မှ ဗိုလ်သာ

ကျန်သည်ရင်း၊ ဆင်ဖြူကျွန်းမှဗိုလ်ဥတ္တမသည်ရင်း၊ ဝဲလောင်မှ ဗိုလ်ရာညွန့်သည်ရင်း၊ ကျွန်းခင်းကြီးမှ ဗိုလ်လှကျော်သည်ရင်း၊ မင်းတုန်းမှ ဗိုလ်ရွှဲသည်ရင်း၊ ဇီးပင်ကြီးမှ မြင်စိုင်းမင်းသားသည်ရင်း၊ ရှိမ္မကားမှ ဗိုလ်ရိုင်သည်ရင်း၊ နတ်မောက်မှ ဗိုလ်မင်းရောင်သည်ရင်း၊ ရဲရဲတောက် မြန်မာ့ တော်လှန်ရေး ခေါင်းဆောင်ကြီးများ ထိုစဉ်က မြန်မာ့တပ်မတော်၏ ဦးစီး ဦးချုပ်များဖြစ်ကြသည်။

ထိုမျှသာမက နယ်ချဲ့ မျက်နှာဖြူများ လက်အောက်ခံ အောက်မြန်မာပြည်တွင် ကရင် အမျိုးသားများ၊ မွန်အမျိုးသားများ၊ ရခိုင်အမျိုးသားများ စသည်တို့ကရင်း၊ ရှမ်းပြည်တွင် ရှမ်းအမျိုးသားများကရင်း၊ အထက်မြန်မာပြည်တွင် ကချင်အမျိုးသားများ၊ချင်းအမျိုးသားများ၊လူရှေ (လူရှိုင်း) အမျိုးသားများ စသည်တို့ကရင်း အကြီးအကျယ် အပြင်းအထန်ပင် တော်လှန်ကြကုန်သည်။ သို့ရာတွင် လက်နက်ချင်းကလည်း မမျှ၊ မြန်မာ့ကံဇာတာကလည်း ညှိုးနေခိုက်ဖြစ်သဖြင့် အမျိုးလိုက် တော်လှန်ကြပါငြားလည်း မအောင်မြင်နိုင်ရှာကြ။ (မြန်မာ့ တော်လှန်ရေး — လည်းရှု။)

ဤသို့ အားဖြင့် မြန်မာ့လွတ်လပ်ရေးကြီးကို လုံးဝဆုံးရတော့သည်။

သည့်နောက်ပိုင်းတွင် မူကား ထိုကဲ့သို့ လုံးဝ ဆုံးရှုံးခဲ့ရသော လွတ်လပ်ရေးကို မရအရ တစတစ ကြိုးပမ်းခဲ့ကြ၏။ ဝိုင်၊အမ်၊ ဘီ၊ အေ အသင်းများသည်ရင်း၊ ဂျီ၊ စီ၊ ဘီ၊ အေ အသင်းကြီးသည်ရင်း၊ ကျောင်းသား သပိတ်များသည်ရင်း၊ ၁၉၃၀ ပြည့်နှစ်တွင် ဆရာစံ ခေါင်းဆောင်သည့် တောင်သူ လယ်သမားများ၏ တော်လှန်ရေးကြီးသည်ရင်း၊ ၁၉၃၈ ခုနှစ်တွင် သခင် ဘိုးလှကြီး ခေါင်းဆောင်ကာ '၁၃၀၀ ပြည့်နှစ် အရေးတော်ပုံ' ဟု မော်ကွန်းတွင်ရစ်သည့် ရေနံမြေမှ အလုပ်သမားလှုပ်ရှားမှုကြီးသည်ရင်း၊ တို့ဗမာ အစည်းအရုံးသည်ရင်း၊ ဗမာ့ထွက်ရပ်ဂိုဏ်းသည်ရင်း၊ ဗမာ့တော်လှန်ရေး ပါတီသည်ရင်း ဗမာ့လွတ်လပ်ရေး ကြိုးပမ်းမှုသမိုင်း၏ မေ့မရနိုင်သော မှတ်တိုင်ကြီးများ ဖြစ်ကြပေသည်။ (ဂျီစီဘီအေ။ တို့ဗမာအစည်းရုံး။ မြန်မာနိုင်ငံရေးသမိုင်း — လည်းရှု။)

သို့နှင့် ၁၉၄၀ ပြည့်နှစ်တွင် လက်ရှိ မြန်မာ့ တပ်မတော်၏ သမိုင်းအစသို့ ရောက်ပြီဟု ဆိုနိုင်သည်။

ထိုနှစ်တွင် တို့ဗမာ အစည်းအရုံး၏ အထွေထွေ အတွင်းရေးမှူး ဖြစ်သော သခင် အောင်ဆန်းသည် ဟသ်ာတခရိုင်၊ ဒေါင့်ကြီးရွာတွင် နယ်ချဲ့ မျက်နှာဖြူများက တောင်တန်း



မြန်မာအမျိုးသမီးတို့သည် ယောကျ်ားများနှင့် ယှင်ပေါင်တန်းကာ မြန်မာ့တပ်မတော်တွင် ဝင်ရောက် အမှုထမ်းလျက် ရှိကြပေပြီ။



မြန်မာ့တပ်မတော်တွင် ကျား မ မရွေး တန်းတူရည်တူ လက်တွဲကာ တာဝန်များကို ထမ်းဆောင်လျက် ရှိကြသည်။

ဒေသများကို ဖိနှိပ်ချုပ်ချယ်ထားခြင်း အကြောင်းနှင့် စပ်လျဉ်း၍ ဟောပြောလိုက်သည့်အတွက် ဟသ်ာတ ခရိုင်ရာဇဝတ်ဝန်က လူဖမ်း ဝရမ်းထုတ်လိုက်သည်။ ထိုကြောင့် သခင်အောင်ဆန်းသည် 'မြေအောက်' ၌ ရုပ်ဖျောက်နေရရာ 'ဗမာ့ တော်လှန်ရေး ပါတီ' ဝင်များနှင့် မြန်မာ့လွတ်လပ်ရေး ရရာ ရကြောင်း နည်းလမ်းများကို လျှို့ဝှက်စွာ တိုင်ပင်ဆွေးနွေးကြသည်။ နောက်ဆုံး၌ သခင်အောင်ဆန်းကို နိုင်ငံခြားသို့ စေလွှတ်ပြီးလျှင် ရနိုင်မည့် မည်သည့် "နိုင်ငံခြားအကူအညီ" ကို မဆို ရယူရန် ဆုံးဖြတ်လိုက်ကြသည်။ သို့နှင့် သခင်အောင်ဆန်းသည် ထိုနှစ် ဩဂုတ်လ ၈ ရက်နေ့တွင် တရုပ်အမျိုးသားကဲ့သို့ ရုပ်ဖျောက် ဝတ်ဆင်ကာ 'ဟိုင်လီ' သင်္ဘောဖြင့် နိုင်ငံခြားသို့ ထွက်ခွာ သွားခဲ့သည်။ (အောင်ဆန်း၊ ဗိုလ်ချုပ် — လည်းရှု။)

ရှေးဦးစွာတွင် တရုပ်တို့၏ အကူအညီ ရလိုရငြားဖြင့် သခင်အောင်ဆန်းသည် တရုပ်နိုင်ငံ တောင်ပိုင်း ကမ်းခြေရှိ အမွိုင်မြို့တွင် ဆင်းသည်။ သို့ရာတွင် နှစ်လကျော်မျှ ယောင်ချာချာ နေရပြီးလျှင် နိုဝင်ဘာလဆန်းတွင်မှ ဂျပန် စစ်ဖက်အရာရှိ တဦးနှင့် ဆက်သွယ်မိကာ ဂျပန်နိုင်ငံ တိုကျိုမြို့သို့ ထိုလ ၁၂ ရက်နေ့တွင် လေယာဉ်ပျံဖြင့် ရောက်ရှိသွားလေသည်။

"ဟာနေဒါ" လေယာဉ်ပျံကွင်းတွင် ကြိုနေသူကား နောက်နောင်တွင် ဗမာ့တပ်မတော်နှင့် ဗမာ့ လွတ်လပ်ရေးကို အထူး အားပေး ကူညီမည့် မဇ္စတာ မီနာမိ (ခေါ်) ကာနယ်ဆူဇူကီး (ခေါ်) "ဗိုလ်မိုးကြိုး" ပင် ဖြစ်သည်။ ထိုကာနယ်ဆူဇူကီး၏ အကူအညီဖြင့်ပင် သခင်အောင်ဆန်းသည် ဂျပန် စစ်ဖက် အရာရှိများနှင့် တွေ့ဆုံဆွေးနွေးခွင့် ရကာ မြန်မာ့ လွတ်လပ်ရေးအတွက် လမ်းစရှာရသည်။ ထိုနောက် ၁၉၄၁ ခုနှစ် မတ်လအတွင်း မြန်မာပြည်သို့ လျှို့ဝှက် ရုပ်ဖျောက် ပြန်လာခဲ့ပြီးလျှင် "ဗမာ့တော်လှန်ရေး ပါတီ" ဝင်များနှင့် တွေ့ဆုံ၍ ဂျပန်တို့၏ အကူအညီများ၊ ကတိကဝတ်များ၊ မြန်မာပြည်ကို ဝင်ရောက် တိုက်ခိုက်ရေးများ၊ ပြည်တွင်း လှုံ့ဆော်မှုများ၊ စည်းရုံးမှုများ၊ အထူးသဖြင့် ထိုလွတ်လပ်ရေး တိုက်ပွဲ အတွက် မြန်မာ လူငယ်တစုကို စစ်ရေး လေ့ကျင့်မှုပေးရန် အစီအစဉ်များ စသည်တို့ကို သခင်အောင်ဆန်းက ချပြသည်။ "ဗမာ့တော်လှန်ရေးပါတီ" ဝင်များကလည်း သဘောတူညီကြ၏။ သို့နှင့် 'ရဲဘော်သုံးကျိပ်' ဟု နောင်တွင်မည့် မြန်မာလူငယ်တစုသည် လေးသုတ်ခွဲကာ တသုတ်ပြီးတသုတ် ဂျပန်နိုင်ငံသို့ လျှို့ဝှက်စွာ ထွက်ခွာသွားကြသည်။ နောက် ထိုရဲဘော် သုံးကျိပ်သည် ဟိုင်နန်ကျွန်းတွင်၎င်း၊ တိုင်းဝမ်ကျွန်း

(ဖော်မိုးဆား) တွင်၎င်း ငါးလခန့်မျှ စစ်ပညာများကို မနားမနေ အပင်အပန်း အဆင်းရဲခံကာ ကြိုးစား လေ့ကျင့်ကြကုန်သည်။ (ရဲဘော်သုံးကျိပ် — လည်းရှု။)

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဂျပန်တို့သည် စစ်မကြေညာဘဲ အမေရိကန်ပိုင် ပုလဲဆိပ်ကမ်း (ပါးလဟာဗာ) ကို လေယာဉ်ပျံများဖြင့် ဗုံးကြဲ တိုက်ခိုက်လိုက်သည်မှအစ အမေရိကန်တို့လည်း စစ်ထဲသို့ ဝင်လာကြရသည်။ ကမ္ဘာ့ အရှေ့ပိုင်းတွင် သို့စစ်ဖြစ်သည်နှင့် တပြိုင်နက် စစ်ရေး လေ့ကျင့်နေကြသော ရဲဘော်သုံးကျိပ်သည် ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့သို့ အမြန်သွားကြကာ ထိုလ ၂၆ ရက်နေ့တွင် "ဗမာ့ လွတ်လပ်ရေးကို မရမချင်း အသက်ပင် သေသေ အရေပင်ခန်းခန်း မခွဲဘမ်း မခွာတမ်း လုံးပန်းတိုက်ခိုက်ကြမည်" ဟု လက်မောင်းသွေးများကို ဖောက်၍ သစ္စာရေ သောက်လိုက်ကြကုန်သည်။ ထိုအပြင် ထိုနေ့တွင်ပင်လည်း "ဘီ၊ အိုင်၊ အေ" ခေါ် "ဗမာ့ လွတ်လပ်ရေး တပ်မတော်" ကြီးကို ဖွဲ့စည်းလိုက်ကြသည်။ ထိုတပ်မတော်ကြီးတွင် ဝင်ရောက်ကြသူများကား ရှေးယခင်ကပင် နယ်ချဲ့မျက်နှာဖြူများကို စိတ်အနာကြီး နာ၍ ယိုးဒယားနိုင်ငံသို့ တိမ်းရှောင်သွားကြပြီးလျှင် အိုးအိမ် ထူထောင်လျက် ရှိကြသော မြန်မာများ၊ နောက်မှ ရောက်ကြသော မြန်မာများ၊ မြန်မာတို့ကို ညီရင်းအစ်ကိုတမျှ ချစ်ခင် လိုလားကြသော ယိုးဒယားများ၊ ရှမ်းယိုးဒယားများ၊ ရှမ်းတရုပ်များ၊ ရှမ်းဗမာများ အစရှိသည်တို့ ဖြစ်ကြသည်။ ထိုစဉ်က ဗမာ့ လွတ်လပ်ရေး တပ်မတော်ကြီး၏ အင်အားမှာ တထောင့်ငါးရာမျှလောက်သာ ရှိသေး၏။

"ဗိုလ်တေဇ" ခေါ် ဗိုလ်ချုပ် အောင်ဆန်း ဦးစီးသည့် ထိုဗမာ့လွတ်လပ်ရေး တပ်မတော်ကြီးသည် ၁၉၄၂ ခုနှစ် စတွင် ဂျပန် အင်ပီးရီးယယ် တပ်မတော်ကြီးနှင့် အတူ စစ်သုံးကြောင်း ဖြန့်ကာ ယိုးဒယား မြန်မာ နယ်စပ်ရှိ မတ်စောက်သော တောင်ကြီးများ၊ နက်ရှိုင်းသော ချောက်ကြီးများကို ဖြတ်ကျော်၍ မြန်မာပြည်တွင်းသို့ ဝင်ခဲ့သည်။ ရေး၊ မြိတ်၊ ထားဝယ်နှင့် မော်လမြိုင်မြို့တို့ကို အပြီးအပိုင် စီးနိုင် သိမ်းနိုင်သည်။ ဗမာ့ လွတ်လပ်ရေး တပ်မတော်ကြီး၏ အလံတော် အောက်သို့ ဝင်ရောက်လာကြသည့် မျိုးချစ်ပုဂ္ဂိုလ်များသည်လည်း ဒီရေအလား တနေ့တခြားပင် တိုးတက် များပြားလာခဲ့သည်။ သို့ရာတွင် ဟိုင်နန်ကျွန်းနှင့် တိုင်းဝမ်ကျွန်းတို့တွင် စစ်ရေး လေ့ကျင့်စဉ်ကပင် ဂျပန်များ အပေါ် စိတ်ပျက်လက်စ ရှိခဲ့ကြရသော ရဲဘော်သုံးကျိပ်တို့သည် ပို၍ပင် စိတ်မချမ်းမြေ့စရာ၊ စိတ်ထိခိုက်စရာ အကြောင်းများ ဆင့်ကာ ဆက်ကာ ပေါ်ပေါက်လာပြန်သည်။ အထူးသဖြင့် ဂျပန်တို့သည် ဗမာ့ လွတ်လပ်ရေး တပ်မတော်ကြီးနှင့် လက်တွဲ၍ ချီတက်လာရာတွင် တနင်္သာရီတိုင်းကို ရပြီးသောအခါ၊ မော်လမြိုင်မြို့ကို သိမ်းပြီးသောအခါ ဗမာ့ လွတ်လပ်ရေးကို ကျေညာပါမည်ဟု ကတိကဝတ်ပြုခဲ့ကြကုန်သည်။ ယခုသော် တနင်္သာရီတိုင်းကိုလည်း ရပြီးပေပြီ၊ မော်လမြိုင်မြို့ကိုလည်း သိမ်းပြီးပေပြီ၊ သို့ရာတွင် လွတ်လပ်ရေးကို မကျေညာရုံသာမက ပါးရိုက်၊ နားရိုက် စသည်ဖြင့် ဆက်ဆံရေး အဆင်မပြေမှုများ ဖြစ်ပွားလာခဲ့သည်။ မြန်မာစစ်သားများနှင့် ဂျပန် စစ်သားများ၊ ဂျပန်စစ်သားများနှင့် မြန်မာ လူထုသည် ကင်းစ ကွာစ ကွေ့စ ပြုလာသည်။ မြန်မာများကို လွတ်လပ်ရေး ပေးပါမည်ဟုဆိုသော ဂျပန်များ၊ အရှေ့တောင် အာရှတိုက်၏ "သာတူညီမျှရေး" ဟု ကြွေးကြော်လျက်ရှိကြသော ဂျပန်များသည် မြန်မာများ စိတ်နာလာရအောင် လုပ်ဆောင်ကြပေပြီ။

မည်သို့ပင်ဖြစ်စေ လွတ်လပ်ရေးကြီးကိုသာ အာသာပြင်းပြလျက် ရှိကြသော မြန်မာများသည် သည်းညည်းခံအောင့်အည်းကာ စောင့်စည်းစရာ ရှိသော တာဝန် အရပ်ရပ်ကို ကျိတ်လျက် မိုတ်လျက် စောင့်စည်းကြကုန်သည်။

သို့နှင့် မတ်လ ၈ ရက်နေ့တွင် ဗမာ့လွတ်လပ်ရေး တပ်မတော်ကြီးသည် ရန်ကုန်မြို့ကို သိမ်းပိုက်လိုက်ကြသည်။ ထိုအချိန်အခါတွင် လူပေါင်း တထောင့်ငါးရာမျှဖြင့် စတင်တည်ဆောက်ခဲ့ကြသော ဗမာ့လွတ်လပ်ရေး တပ်မတော်ကြီးသည် သုံးလကျော် လေးလမျှ အတွင်း လွတ်လပ်ရေးအတွက် အသက်ပေးလှူမည်ဟု အဓိဋ္ဌာန်ပြုထားပြီး ဖြစ်ကြသော ဘီ အိုင် အေ တပ်သားပေါင်း နှစ်သောင်းခန့် အထိ တိုးတက်၍ လာခဲ့ပြီ။

သို့ရာတွင် ထိုအချိန်အခါ အထိပင် ဂျပန်များကား မြန်မာ့ လွတ်လပ်ရေးကို မကျေညာကြသေး။ မကျေညာရုံမျှသာမက မြန်မာများ လိုလား တောင့်တနေကြသည့် "လွတ်လပ်ရေး" ဟူသော စကားသည်ပင်လျှင် မြန်မာများ၏ မျိုးချစ်စိတ်ကို လှုံ့ဆော် တက်ကြွစေသည်ဟု အထင်ရှိကာ "မြန်မာများလည်း လွတ်လပ်ရေး ရတော့မည့် အတူတူ ဗမာ့ လွတ်လပ်ရေး တပ်မတော် ခေါ် ဘီ၊ အိုင်၊ အေ တပ်မတော် အမည်မှ ဗမာ့ ကာကွယ်ရေး တပ်မတော် ခေါ် ဘီ၊ ဒီ၊ အေ တပ်မတော် အမည်သို့ ပြောင်းလိုက်လျှင် ကောင်းမည် ထင်ပါသည်" ဟု တဖက်လှည့် ဆိုလာပြန် လေသည်။ ထို့ကြောင့် ထိုနှစ်ဩဂုတ်လအတွင်း "ဗမာ့ လွတ်လပ်ရေးတပ်မတော်" (ဘီ၊ အိုင်၊ အေ)ကို ရုပ်သိမ်းကာ "ဗမာ့ ကာကွယ်ရေး တပ်မတော်" (ဘီ၊ ဒီ၊ အေ) ကို ပြန်လည်ဖွဲ့စည်းလိုက်ရသည်။ ထိုဘီ၊ ဒီ၊ အေနှင့် အတူလည်း ခြေလျင်တပ်ရင်း (၁)၊ ခြေလျင်တပ်ရင်း (၂) နှင့် ခြေလျင်တပ်ရင်း (၃) တို့အပြင် စစ်ဦးစီး ဌာနချုပ်၊ စစ်ရုံးနှင့် မင်္ဂလာဒုံမှ စစ်တက္ကသိုလ်တို့ ပေါက်ဖွားလာကြသည်။

"ဘီ၊ ဒီ၊ အေ"ဟု ပြန်လည်ဖွဲ့စည်းပြီး၍ တနှစ်ခန့် အကြာ ဖြစ်သော ၁၉၄၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ဂျပန်များ ပေးသည့် "လွတ်လပ်ရေး"ကို မြန်မာများရကြသည်။ ထိုအခါ ဗိုလ်ချုပ် အောင်ဆန်းသည် ကာကွယ်ရေး ဝန်ကြီး ဖြစ်လာပြီးလျှင် စစ်ဝန်ကြီးရုံးကို ဖွဲ့စည်းလိုက်လေသည်။ စစ်တပ်များကို အုပ်ချုပ်ရန်အတွက်မူ "စစ်ဦးစီးချုပ်ဌာန" ဟု သီးသန့် ဖွဲ့စည်းပြီးလျှင် ဗိုလ်မှူးကြီးနေဝင်း (ယခု စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး နေဝင်း) အား စစ်ဦးစီး ချုပ် အဖြစ် တာဝန်ပေးအပ်သည်။ တပ်များကိုလည်း တိုးချဲ့ ဖွဲ့စည်းလိုက်ကြသည်။ ထိုအချိန်က တိုးချဲ့ ဖွဲ့စည်း လိုက်ကြသော တပ်များကား ခြေလျင်တပ်ရင်း (၄)၊ ခြေလျင်တပ်ရင်း(၅)၊ ခြေလျင်တပ်ရင်း(၆)၊ ခြေလျင်တပ်ရင်း (၇)၊ စက်မှုလက်မှု တပ်ရင်း (၁)၊ စက်မှုလက်မှု တပ်ရင်း (၂)၊ စက်အမြောက်တပ်ရင်း(၁)၊ အမြောက်ကြီးတပ်ရင်း (၁)၊ သယ်ယူပို့ဆောင်ရေးတပ်ရင်း (၁)၊ မော်တော်ယာဉ် တပ်ရင်း (၁) တို့ ဖြစ်ကြသည်။

မင်္ဂလာဒုံတွင်လည်း "ဗိုလ်သင်တန်းကျောင်း" ကို ဖွင့် လှစ်လိုက်လေသည်။ ဒုတိယ အပတ်ပြီးသည်အထိ ဂျပန် များက ဦးစီးကြ၏။ တတိယ အပတ်မှ ပဉ္စမ အပတ်အထိ မူ မြန်မာအရာရှိများက ဦးစီး သင်ကြားပေးကြသည်။ သင် တန်း တက်ခွင့်ရကြသော ဗိုလ်လောင်းများ အထဲမှလည်း အချို့ကို ဂျပန်နိုင်ငံသို့ စစ်ပညာတော်သင်များ အဖြစ် သုံးကြိမ်ထိုင်တိုင် စေလွှတ်နိုင်ခဲ့သည်။

ထိုခေတ် စစ်ဆင်ရေးများ အကြောင်းနှင့် စပ်လျဉ်း၍ လည်း အနည်းငယ် တင်ပြလိုသေးသည်။ အကြမ်းမျဉ်း အားဖြင့် စစ်ဆင်ရေးများကို အောက်ပါအတိုင်း အောင် မြင်စွာ ပြုလုပ်နိုင်ခဲ့ကြသည်။

(က) ခရစ် ၁၉၄၂ ခုနှစ်တွင် ခြေလျင်တပ်ရင်း (၁)နှင့် ခြေလျင် တပ်ရင်း(၃) တို့ကို ရခိုင်တိုင်းတွင် တာဝန် ယူစေသည်။

(ခ) နောက် ခြေလျင်တပ်ရင်း (၃) ကို ရခိုင်မှ ရွှေဘို၊ မြစ် ကြီးနားဖက်သို့ ရွှေ့ပြောင်းလိုက်ကာ ဂျင်နရယ် ဝင်း ဂိတ်တပ်များကို ရွှေဘိုမှ ဖြတ်၍ မီးရထားလမ်းကို အနှောက်အရှက် မပေးနိုင်ရန် တာဝန်ယူစေသည်။

(ဂ) ခြေလျင်တပ်ရင်း (၁) ကိုလည်း ကျောက်ဖြူ၊ သံတွဲ မြို့များမှ တဖန် အထက်ချင်းတွင်းသို့ ပြောင်းရွှေ့ လိုက်ပြန်သည်။

(ဃ) စက်မှုလက်မှု တပ်ရင်း (၁) ကမူ အင်းတော်မှ



စစ်မြေပြင် အမြောက်တပ်သားများ လေ့ကျင့်စဉ်



မြန်မာ့တပ်မတော်တွင် ခေတ်မှီ ဗာတော အိပ်(ချ) ၂၁ အမျိုးအစား ဟယ်လီကော့ပတား လေယာဉ်များကို အသုံးပြုလျက်ရှိသည်။

တီးတိန်၊ ဖလမ်းအထိ လမ်းသစ်ဖောက်လုပ်ရေး တာဝန်ယူရသည်။

(င) ခြေလျင်တပ်ရင်း (၄) သည်လည်း ခြေလျင်တပ်ရင်း (၃) နှင့် တွဲဖက်ကာ ဂျင်နရယ်ဝင်းဂိတ်၏ တပ်များကို အပြင်းအထန် တိုက်ခိုက်ကြရသည်။

(စ) ခြေလျင်တပ်ရင်း (၇) ကမူ ကွပ်ခိုင်ဖက်တွင် တာဝန်ယူရသည်။

(ဆ) နောက် စက်အမြောက်တပ်ရင်းနှင့် အမြောက်ကြီး တပ်ရင်းတို့မှာမူကား နိုင်ငံတော် နေရာ အနှံ့အပြားတွင် ရန်သူလေယာဉ်ပျံများကို ပစ်ခတ် ချေမှုန်းရေး တာဝန်ယူကြရသည်။

ဤသို့လျှင် ဗမာ့တပ်မတော်သည် လွတ်လပ်ရေးကြီးကို မျှော်ကိုး၍ အမျိုးမျိုးသော ဒုက္ခဆင်းရဲများကို ခံနေရခိုက် ဂျပန်များသည် ပါးရိုက်၊ နားရိုက်၊ နေပူလှမ်း၊ လက်သဲခွာ၊ ကျဉ်စက်တို့၊ လုံ့စွပ်ထိုး စသည်ဖြင့် တိုး၍ ဆိုး၍လာခဲ့သည်။ မြန်မာများ မခံမရပ်နိုင်ကြတော့။ သို့နှင့် တော်လှန်ရေး အစီအစဉ်များမှာ တစတစ ထုထယ် ကြီးမားလာရသည်။

ခရစ် ၁၉၄၃ ခုနှစ် နောက်ပိုင်းတွင် မဟာမိတ်တို့နှင့် အဆက်အသွယ် ရခဲ့ကြ၏။ ထိုကြောင့် တော်လှန်ရေး အစီအစဉ်များကို စတင် ဆောင်ရွက်ကြရာတွင် ရှေးဦး ပဌမ စည်းလုံးနိုင်ရေး ပြင်ဆင်နိုင်ရေးအတွက် (၁) သရက်မြို့တွင် 'အနောက်တိုင်း' ကို ဖွင့်သည်။ (၂) နောက်မန္တလေး မြို့တွင်လည်း 'အနောက်မြောက်တိုင်း' ကို ဖွင့်သည်။ အထက်မြန်မာပြည်အတွင်းရှိ တပ်များကို အုပ်ချုပ် စည်းရုံး ရသည်။ တိုးချဲ့ထားသော ခြေလျင်တပ်များ အပြင် လေ့ကျင့်ရေး တပ်ရင်း (၁) မှ (၄) အထိလည်း တိုးတက် ချဲ့ထွင်လိုက်သေးသည်။

နိုင်ငံရေး စည်းရုံးမှုကြီးတရပ် အနေနှင့်သော် ခရစ် ၁၉၄၄ ခုနှစ် ဩဂုတ်လတွင် ဗိုလ်ချုပ်အောင်ဆန်းနှင့် အပေါင်းပါ တစုတို့က ခေါင်းဆောင်လျက် "ဖက်ဆစ်တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ချုပ်" ကို ဖွဲ့စည်းလိုက်ကြသည်။ ထိုအဖွဲ့တွင်ပါဝင်ခဲ့ကြသော နိုင်ငံရေးအသင်းအဖွဲ့များမှာ ဆိုရှယ်လစ်ပါတီ၊ ကွန်မြူနစ်ပါတီ၊ လူငယ်များ အစည်းအရုံး၊ ဗမာ့တပ်မတော်၊ ကရင်၊ ကချင်၊ ချင်း၊ ရှမ်း၊ ရခိုင် ခေါင်းဆောင်များ၊ သံဃာတော်များ အစရှိသည်တို့ ဖြစ်ကြသည်။ (ဖ ဆ ပ လ — လည်းရှု။)

ဂျပန် တော်လှန်ရေး အတွက် အရှိန်ယူစ ပြုနေကြပေပြီ။

ထိုအတောအတွင်း ယခင်က အစပျိုးခဲ့သော အစီအစဉ်

များ အပေါ်တွင် နောက်ဆုံး အစီအစဉ် တရပ် အနေဖြင့်လည်း အောက်ပါအတိုင်း ဗမာ့တပ်မတော် အင်အားကို ခွဲဖြန့် ထားလိုက်ကြသည်။

(က) **အထက် မြန်မာပြည်တိုင်း။** ။တိုင်းမှူးမှာ ဗိုလ်မှူး ဗထူး။ အထက် မြန်မာပြည်အတွင်းရှိ တပ်များကို အုပ်ချုပ်ကာ စစ်ကြောင်း ဖွင့်ရန်။

(ခ) **ရှေ့တန်း—စစ်ဌာနချုပ်။** ။ရှေ့တန်း စစ်ဌာနချုပ် စစ်ကြောင်းကို ဗိုလ်မှူးကြီး ဇေယျ ဦးစီး၍ စစ်ဌာနချုပ်ရုံးအဖွဲ့နှင့် စစ်ဝန်ကြီးရုံး အဖွဲ့ အားလုံး စုပေါင်း၍ သရက်စခန်းမှ မင်းတုန်းစခန်းသို့ ချီတက်ရန်။

(ဂ) **အောက် မြန်မာပြည်မှ တိုင်း ၇ တိုင်း**

(၁) **တိုင်းအမှတ်—၁။** ။တိုင်း အမှတ် ၁ စစ်ကြောင်းကို ဗိုလ်မှူး မောင်မောင် ဦးစီး၍ သာယာဝတီ၊ ပေါင်းတည် စစ်ကြောင်းသို့ ချီတက်ရန်။ ခြေလျင် တပ်ရင်း ၄ သည် တိုင်းအမှတ် ၁ နှင့် ပူးပေါင်းကာ လိုက်ပါ ချီတက်တိုက်ခိုက်ရန်။

(၂) **တိုင်းအမှတ် — ၂။** ။တိုင်းအမှတ် ၂ စစ်ကြောင်းကို ဗိုလ်မှူးကြီး နေဝင်း ဦးစီး၍ ဖျာပုံမြစ်ဝကျွန်းပေါ် စစ်ကြောင်းသို့ ချီတက်ရန်။

(၃) **တိုင်းအမှတ်—၃။** ။တိုင်းအမှတ် ၃ စစ်ကြောင်းကို ဗိုလ်မှူးကြီး စောကြာဒိုး ဦးစီး၍ မအူပင် မြစ်ဝကျွန်းပေါ် စစ်ကြောင်းသို့ ချီတက်ရန်။

(၄) **တိုင်းအမှတ်—၄။** ။တိုင်းအမှတ် ၄ စစ်ကြောင်းကို ဗိုလ်မှူးကျော်ဇော ဦးစီး၍ ပဲခူးစခန်းမှ ရန်ကုန်ကို ခုခံ တိုက်ခိုက်ရန်။

(၅) **တိုင်းအမှတ်— ၅။** ။တိုင်းအမှတ် ၅ စစ်ကြောင်းကို ဗိုလ်ကြီးတင်ထွန်း ဦးစီး၍ တနင်္သာရီတိုင်း ထားဝယ် စစ်ကြောင်းသို့ ချီတက်ရန်။

(၆) **တိုင်းအမှတ်—၆။** ။တိုင်း အမှတ် ၆ စစ်ကြောင်းကို ဗိုလ်မှူး ရဲထွဋ် ဦးစီး၍ ရထားလမ်းတလျှောက် ပျဉ်းမနား၊ မိတ္ထီလာ စစ်ကြောင်းသို့ ချီတက်ရန်။

(၇) **တိုင်းအမှတ်—၇။** ။တိုင်းအမှတ် ၇ စစ်ကြောင်းကို ဗိုလ်မှူးအောင် ဦးစီး၍ သရက်မှသည် မင်းဘူး စစ်ကြောင်းတိုင်အောင် တာဝန်ခံ အုပ်ချုပ် တိုက်ခိုက်ရန်။ "စစ်သေနာပတိ



သံချပ်ကာ တင့်ကား ချီတက်နေစဉ်



စစ်သည်တော်တဦး လေ့ကျင့်နေစဉ်

ချုပ်က ရှေ့တန်း စစ်ဌာနချုပ်နှင့် အတူ မင်းတုန်းဖက်သို့ လိုက်ပါ ချီတက်တိုက်ခိုက်မည်။ တပ်မတော် တခုလုံးကို အထူး ဆက်သားများ စေလွှတ် အုပ်ချုပ်ကာ စစ်ဆင်ရေး ကိစ္စ အဝဝ ကို စီစဉ်မည်။"

ဤအစီအစဉ် အတိုင်း ခရစ် ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် ဂျပန်ကို စတင် တော်လှန်ကြကုန်သည်။ ထိုတော်လှန်ရေးကြီးအတွင်း တိုင်းပြည်နှင့် လူမျိုး အတွက် အသက်နှင့် လဲသွားကြရှာသူများလည်း အမြောက်အမြား ပင် ရှိခဲ့ကြ၏။ ခြေ၊ လက်၊ မျက်စိ စသည်တို့ကို စွန့်လွှတ် ပေးလှူခဲ့ကြသူများလည်း အမြောက်အမြားပင် ရှိခဲ့ကြ ၏။ သေကံမရောက် သက်မပျောက်သဖြင့် တိုင်းပြည်နှင့် လူမျိုးအတွက် ဆက်လက်ထမ်းဆောင်ခွင့် ရရှိနေကြသူများ လည်း အမြောက်အမြားပင် ရှိနေကြ၏။ (မြန်မာ့တော်လှန်ရေး — လည်းရှု။)

သို့နှင့် တော်လှန်ရေး စချိန်မှအစပြု၍ "ပြည်သူ့ တပ်မတော်" ခေါ် "ဘီ၊ အင်၊ အေ" ဟု အမည်ပြောင်းလိုက်သော ဗမာ့ အောင်တပ်မတော်ကြီး၏ အံ့မခန်းနိုင်လောက်သော စွမ်းရည် သတ္တိကြောင့်၎င်း၊ ရဟန်း သံဃာတော်မြတ်များမှ အစ ကလေးအရွယ် လူမမယ်များအထိ ပျို-အို-ကျား-မ မရွေး မြန်မာလူထု တရပ်လုံး၏ မေ့မရနိုင်လောက်အောင် အုံကြွ ပူးပေါင်း ဆောင်ရွက်ချက်ကြောင့်၎င်း ဖက်ဆစ် ဂျပန်များသည် အပြေးအလွှားပင် ဆုတ်ခွာခဲ့ရင်း ပျက်သုန်းကြရရှာကုန်သည်။

ထိုကြောင့်ပင်လျှင်လည်း တော်လှန်ရေး စ၍ တလသာသာ ဖြစ်သော ခရစ် ၁၉၄၅ ခုနှစ် မေလ ၁ ရက်နေ့တွင် ဗိုလ်မှူးကြီး နေဝင်း ခေါင်းဆောင်သော ဗမာ့တပ်ဖွဲ့ကြီးသည် မဟာမိတ်များ မရောက်နိုင်မီပင် ရန်ကုန်မြို့တော်ကြီးကိုဝင်ရောက်သိမ်းပိုက်လိုက်ကာ မြန်မာ့ အောင်လံတော်ကို စိုက်ထူနိုင်ခဲ့သည်။ မဟာမိတ် တပ်ဦးကား ထိုလ ၃ ရက်နေ့ကျမှ ဝင်ရောက်နိုင်ရှာသည်။

ဖက်ဆစ် ဂျပန်ကို တော်လှန်လိုက်ပြီးသည့်နောက် "ပြည်သူ့ တပ်မတော်" ခေါ် "ဘီ၊ အင်၊ အေ" သည် "မျိုးချစ် ဗမာ့တပ်မတော်"ခေါ် "ပဲ၊ဘီ၊အက်(ဖ)" ဟူသော အမည်ကို ခံယူလိုက်လေသည်။

ထို "မျိုးချစ် ဗမာ့ တပ်မတော်" ၏ ရွေ့ရေးနှင့် စပ်လျဉ်း၍သော် အာရှ အရှေ့တောင်ပိုင်းရှိ မဟာမိတ် တပ်များ၏ သေနာပတိချုပ် ဗိုလ်ချုပ်ကြီး လော့ လူဝီမောင့်ဗက်တင်၏ ဖိတ်မန္တက ပြုချက်အရ ဗိုလ်ချုပ် အောင်ဆန်း ကိုယ်တိုင် ထိုနှစ် စက်တင်ဘာလ ၄ ရက်နေ့တွင် သီဟိုဠ်ကျွန်း ကန္ဒီမြို့၌ ကျင်းပသော အစည်းအဝေးသို့ တက်ရောက်ကာ တင်းတင်းမာမာပင် အရေးဆိုခဲ့သည်။ ထိုကြောင့်လည်း တပ်မတော်ကြီး တိုးချဲ့ရေး အစီအစဉ်များနှင့် စပ်လျဉ်း၍ အခွင့်အရေးများ ရရှိခဲ့၏။ သို့နှင့် ရှေးဦးစွာ ထိုနှစ် အောက်တိုဘာလ အတွင်း မျိုးချစ် ဗမာ့ တပ်မတော်မှ အရာရှိ၊ အကြပ် တပ်သားများကို ခွင့်သုံးလ ပေးလိုက်သည်။ နောက်သုံးလ စေ့၍ ခရစ် ၁၉၄၆ ခုနှစ် ဇန္နဝါရီလသို့ ရောက်သော အခါတွင်မူ "မျိုးချစ် ဗမာ့ တပ်မတော်" ကြီး ဟူသော အမည်ကို ဖျက်သိမ်း၍ မျိုးချစ် တပ်မတော်မှ အရာရှိ၊ အကြပ်၊ တပ်သားများနှင့်ပင် သေနတ်ကိုင် တပ်ရင်း ၃၊ ၄ နှင့် ၅ တို့ကို ဖွဲ့စည်း ဖွင့်လှစ်လိုက်လေသည်။

သို့နှင့် ခရစ် ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့တွင် "အောင်ဆန်း–အက်တလီ" စာချုပ်ကို ချုပ်ဆိုသည်။ ထိုနှစ် ဩဂုတ်လ ၂၉ ရက်နေ့တွင် "လက်ျာ–ဖရီးမင်း" စာချုပ်ကို ချုပ်ဆိုသည်။ ထိုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် "နု–အက်တလီ" စာချုပ်ကို ချုပ်ဆိုသည်။ နောက်နှစ်ဖြစ်သော ခရစ် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံတော်သည် "အချုပ်အချာ အာဏာပိုင် သမတနိုင်ငံတော်" အဖြစ်သို့ ရောက်ရှိလာခဲ့သည်။ (အောင်ဆန်း–အက်တလီ စာချုပ်။ လက်ျာ–ဖရီးမင်း စာချုပ်။ နု–အက်တလီ စာချုပ် — လည်းရှု။)

ဤသို့လျှင် ခရစ် ၁၈၈၆ ခုနှစ် နှစ်ဦးမှ အစ၊ စတင် တော်လှန်ခဲ့ကြသော တော်လှန်ရေး သမိုင်းသည် ခရစ် ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် မြန်မာ တမျိုးသားလုံးက ရှိသမျှသော ခွန်အား စိတ်ဓာတ် စသည်တို့ကို စုပေါင်း ရုံးစည်းကာ တညီတညွတ်တည်း တော်လှန်လိုက်ကြခြင်း အားဖြင့် လွတ်လပ်သော မြန်မာနိုင်ငံတော်၏ သမိုင်း အစသို့ ရောက်ရှိလာရသည်။

ထို ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့ "တော်လှန်ရေး" တွင် ဗမာ့ တပ်မတော်သားများကား ပြည်သူလူထု၏ တပ်ဦးတွင် တခန်းတကဏ္ဍ အဖြစ် စွမ်းစွမ်းတမံ ပါဝင်နိုင်ခွင့် ရရှိခဲ့ကြရကား ထိုဗမာ့ တပ်မတော်အတွက် မမေ့အပ် မမေ့ထိုက်နိုင်လောက်အောင် ထူးကဲ မွန်မြတ်သော နေ့ ဖြစ်သဖြင့်လည်း ခရစ် ၁၉၅၄ ခုနှစ် မတ်လ ၂၇ ရက်



မြန်မာ့ရေပြင်တလွှားကို စောင့်ရှောက်လျက်ရှိသည့် ရေတပ်မတော်

နေ့မှ အစပြု၍ "တော်လှန်ရေးနေ့" ကို "ဗမာ့ တပ်မတော်နေ့" ဟူ၍ပင် ဗမာ့ တပ်မတော်သားများ အဖို့ လေးစားစွာ သတ်မှတ်ခဲ့လေသည်။ ဦးဘသောင်း

**တပ်မတော် (ရေတပ်)** ။ ။၁၉၃၇ ခုနှစ်၌ မြန်မာပြည်နှင့် အိန္ဒိယပြည် ခွဲရေး ပြုလုပ်ပြီးသည့် နောက်ပိုင်းတွင် မြန်မာပြည် ကမ်းရိုးတန်းနှင့် ပင်လယ်ပြင်ကို ကာကွယ်ရေးမှာ မြန်မာပြည်၏ တာဝန် ဖြစ်လာသည်။ ထိုကာကွယ်ရေး တာဝန်ကို ထမ်းဆောင်နိုင်ရေးအတွက် ဗမာ့ အရံ ရေတပ်မတော် တခု တည်ထောင်ရန် ထိုစဉ်က မြန်မာပြည်ကို အုပ်ချုပ်ခဲ့သော ဗြိတိသျှ အစိုးရက ဆုံးဖြတ်ချက် ချမှတ်ခဲ့သည်။ သို့သော်လည်း တပ်ဖွဲ့ရန် အာဏာပိုင်ဖြစ်သော ဘုရင်ခံတွင် ကြည်းတပ်နှင့် လေတပ် ဖွဲ့စည်းရန်သာ အခွင့်အာဏာရှိ၍ ရေတပ် ဖွဲ့စည်းရန် အခွင့်အာဏာ မရှိသဖြင့် ရေတပ် ဖွဲ့စည်းရန် နှောင့်နှေးခဲ့ရသည်။

၁၉၄၀ ပြည့်နှစ်တွင် ဖွဲ့စည်းရန်နှင့် ဘဏ္ဍာရေး သုံးစွဲရန် ခွင့်ပြုချက်များ ရရှိခဲ့သဖြင့် ဗမာ့ အရံ ရေတပ်မတော်ကို ဖွဲ့စည်းခဲ့သည်။ စတင် ဖွဲ့စည်းချိန်တွင် ခွင့်ပြု အင်အားမှာ အရာရှိ ၁၃ဂ ယောက်နှင့် စစ်သည် ၁၀၀၀ ဖြစ်သည်။ စတင် ဖွဲ့စည်းချိန်၌ စုဆောင်းရရှိသော အင်အားတွင် မြန်မာများ၊ မြန်မာ အင်္ဂလိပ် ကပြားများနှင့် ကရင်အမျိုးသားများ အများစု အဖြစ် ပါဝင်သော်လည်း စုပေါင်း စီစစ်ပါက ဘာသာ ရှစ်မျိုး ကိုးကွယ်သော တိုင်းရင်းသားလူမျိုးများ ၁၂ မျိုး ပါဝင်ခဲ့ကြောင်း သိရှိခဲ့ရသည်။

ဗမာ့ အရံ ရေတပ်မတော် စတင် ဖွဲ့စည်းချိန်တွင် ရန်ကုန်မြို့၌ ပဌမဆုံး ဆောက်လုပ်လျက် ရှိသော တိုက်ရေယာဉ် အမှတ် ၁၁၀၄ နှင့် နောက် ထပ်မံဆောက်လုပ်သော တိုက်ရေယာဉ် အမှတ် ၁၁၀၀၊ ၁၁၀၂၊ ၁၁၀၃ တို့မှာ ပြီးစီးခြင်း မရှိသေးသဖြင့် ဆွဲသင်္ဘော "ဆိုးမကြီး" နှင့် အခြားအစိုးရ မော်တော်ရေယာဉ် သုံးစင်းကို လက်နက် တပ်ဆင်ပြီးလျှင် တိုက်ရေယာဉ် အဖြစ် အသုံးပြုခဲ့ရလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်ပွားလာသည်တွင် ဗမာ့ အရံ ရေတပ်မတော်သည် ဆောက်လုပ်ပြီးဖြစ်သော တိုက်ရေယာဉ် အမှတ် ၁၁၀၄၊ ၁၁၀၀၊ ၁၁၀၂ နှင့် ၁၁၀၃ တို့အပြင် အခြား အစိုးရ ရေယာဉ်များဖြင့် တနင်္သာရီ ကမ်းရိုးတန်း စစ်ဆင်ရေးတွင် ပါဝင်ခဲ့သည်။ ၁၉၄၂ ခုနှစ် မတ်လ ၇ ရက်နေ့တွင် ရန်ကုန်မြို့မှ စစ်တွေမြို့သို့ ဆုတ်ခွာပြီးလျှင်၊ ၁၉၄၂ ခုနှစ် မေလ ၁၀ ရက်နေ့တွင် အိန္ဒိယပြည် ကာလကတ္တားမြို့သို့ ဆုတ်ခွာရသည်။ ၁၉၄၃ ခုနှစ် ဩဂုတ်လတွင် ဗမာ့ အရံ ရေတပ်မတော် ဌာနချုပ်ကို ကာလကတ္တားမြို့မှ ပင်ဒါပင်မြို့သို့ ပြောင်းရွှေ့ ဖွင့်လှစ်ခဲ့သည်။

ထိုအတွင်း ဂျပန်များ မြန်မာပြည်ကို သိမ်းယူပြီးနောက်၊ ၁၉၄၃ ခုနှစ်ခန့်တွင် ဗမာ့ အရံ ရေတပ်မတော်မှ မြန်မာပြည်တွင် ကျန်ခဲ့သူများနှင့် မျိုးချစ် လူငယ်များ စုပေါင်း၍ ရောဝတီ ကုမ္ပဏီမှ ကျန်ခဲ့သော သင်္ဘောငယ်ငါးစင်းဖြင့် ဗမာ့လွတ်လပ်ရေး ရေတပ်မတော် ဖွဲ့စည်းကာ ဧရာဝတီ မြစ်ဝကျွန်း ပေါ် တလျှောက်တွင် ဗမာ့ ကာကွယ်ရေးတပ်မတော်နှင့်ပူးတွဲတာဝန် ထမ်းဆောင်ခဲ့သည်။ ဤအပိုင်းကား မထင်မရှား ဆောင်ရွက်ခဲ့သော အပိုင်းဖြစ်သည်။

အိန္ဒိယပြည်သို့ ဆုတ်ခွာသွားရသော ဗမာ့ အရံ ရေတပ်မတော်သည် ဒုတိယ ကမ္ဘာစစ်အတွင်း မြန်မာပြည်ကို ပြန်လည် သိမ်းပိုက်ရာတွင် တိုက်ပွဲ ပေါင်း မြောက်မြားစွာ၌ ပါဝင်ခဲ့ပြီးလျှင် ၁၉၄၅ ခုနှစ် ဇန်နဝါရီလ ၇ ရက်နေ့တွင် စစ်တွေမြို့ကို သိမ်းပိုက်ရာ၌ ပါဝင်ခဲ့သည်။ မြန်မာပြည်ကို မဟာမိတ်များ ပြန်လည် သိမ်းပိုက်ပြီးနောက် ဗမာ့အရံ ရေတပ်မတော် ဌာနချုပ်ကို ရန်ကုန်မြို့သို့ ပြန်လည် ရွှေ့ပြောင်း ဖွင့်လှစ်ခဲ့သည်။

၁၉၄၇ ခုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင် ဗြိတိသျှ အစိုးရက မြန်မာအစိုးရသို့ အာဏာ လွှဲပြောင်းပေးအပ်ပြီးလျှင် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာပြည် လွတ်လပ်ရေး ရပြီးသည်မှစ၍ ဗမာ့ ရေတပ်မတော် ဟူသော အမည်ဖြင့် လွတ်လပ်သော တိုင်းပြည်၏ တပ်မတော် တရပ် အဖြစ် တည်ရှိခဲ့သည်။

၁၉၅၇ ခုနှစ်တွင် ဗမာ့ ရေတပ်မတော်၊ ဗမာ့ တပ်မတော်၊ မြန်မာ့လေတပ်မတော် ဟူသော တပ်မတော် သုံးရပ် ပူးပေါင်းရေးမူအရ တပ်မတော် (ရေတပ်) ဟု အမည် ပြောင်းလဲခဲ့သည်။

**တပ်မတော် (လေတပ်)** ။ ။ဒုတိယ ကမ္ဘာစစ်ကြီး စတင်ဖြစ်ပွားခဲ့၍ အင်္ဂလိပ် စစ်တပ်များသည် ဒန်းကတ် စစ်မြေပြင်မှ ဆုတ်ခွာခဲ့ရသည့် အချိန်တွင် အင်္ဂလိပ် အစိုးရသည် ကမ္ဘာ အရပ်ရပ်တွင် နေထိုင်လျက် ရှိကြသော အင်္ဂလိပ် လူမျိုးများအား ကြည်း ရေ လေတပ်များတွင် ဝင်ရောက်လေ့ကျင့် အမှုထမ်းကြရန် ညွှန်ကြားချက်များ ထုတ်ပြန်ခဲ့သည်။ ထိုအချိန်က မြန်မာပြည်သည် အင်္ဂလိပ် လက်အောက်ခံ ကိုလိုနီ တိုင်းပြည် ဖြစ်ခဲ့သည့် အလျောက်၊ မြန်မာပြည်ကို အုပ်ချုပ်လျက် ရှိသော အင်္ဂလိပ် ဘုရင်ခံသည် အဆိုပါ ညွှန်ကြားချက်အရ မြန်မာပြည်တွင် နေထိုင်လျက် ရှိကြသော အင်္ဂလိပ် လူမျိုး အများအပြားကို အရာရှိများအဖြစ် ခန့်အပ်ပြီးလျှင် စစ်တပ်များတွင် အမှုထမ်းစေခဲ့သည်။ ထိုသို့ ဆောင်ရွက်ရာတွင် ရေတပ်နှင့် လေတပ်များ မရှိသေးသဖြင့် ကြည်းတပ်များ၌သာ အမှုထမ်းစေခဲ့သည်။

ထိုနောက် အင်္ဂလိပ် ဘုရင်ခံသည် ရေတပ်နှင့် လေတပ်များ စတင် တည်ထောင်ရန်နှင့် အင်္ဂလိပ် လူမျိုး မဟုတ်သူများကို ရေတပ်၊ လေတပ်များတွင် ဝင်ရောက် အမှုထမ်းခွင့်ပြုရန် စီစဉ် ဆောင်ရွက်ခဲ့ရာ၊ ၁၉၄၀ ပြည့်နှစ် စက်တင်




မြန်မာ့တပ်မတော် (လေတပ်)သည် အမှုတော်ကို ရှပ်ရှပ်ချွန်ချွန် ထမ်းဆောင်လျက်ရှိသည်။

ဘာလ ၁၉ ရက်နေ့တွင် မြန်မာပြည် အပျော်တမ်း လေကြောင်း တပ်ဖွဲ့ ဖွဲ့စည်းကြောင်း ထုတ်ပြန် ကျေညာခဲ့လေသည်။ မျှားမကြာမီ ယင်းတပ်ဖွဲ့ကို မြန်မာပြည် အပျော်တမ်း လေတပ်ဟု အမည်ပြောင်းခဲ့သည်။

အထက်ဖော်ပြပါ မြန်မာပြည် အပျော်တမ်း လေတပ်မှာ အင်္ဂလိပ် အစိုးရ၏ စီမံကိန်းအရ အင်္ဂလိပ် ဘုရင်ခံ၏ အစီအစဉ်များဖြင့် ဖွဲ့စည်း တည်ထောင်ခဲ့ခြင်း ဖြစ်သည်။ မြန်မာပြည်မှ အင်္ဂလိပ်များ ဆုတ်ခွာသွားကြသောအခါ ယင်းတပ်သည် အိန္ဒိယပြည်သို့ ပြောင်းရွှေ့သွားခဲ့သည်။

ဒုတိယ ကမ္ဘာစစ်ကြီး ပြီးဆုံးခဲ့ပြီးနောက် အမျိုးသား ခေါင်းဆောင်ကြီး ဗိုလ်ချုပ် အောင်ဆန်းသည် အနာဂတ် အမျိုးသား လေတပ်မတော် ဖွဲ့စည်း တည်ထောင်ရန် စိတ်ဆန္ဒ ပြင်းပြစွာ ရှိခဲ့သည်နှင့်အညီ အမျိုးသား လေတပ်မတော် ဖွဲ့စည်း တည်ထောင်နိုင်ရေး အတွက် အထူး လေ့လာကြိုးစား အားထုတ် စီမံ ဆောင်ရွက်ခဲ့သည်တွင် ယခင် အပျော်တမ်း လေတပ် အမှုထမ်းများနှင့် ဗမာ့တပ်မတော် ဂျပန်နိုင်ငံ လေတပ် ပညာတော်သင်များအား ခေါ်ယူ တွေ့ဆုံ ဆွေးနွေးပြီးလျှင် တာဝန်ပေးအပ်ခဲ့သည်။ ၁၉၄၆ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်နေ့တွင် လေတပ်ဖွဲ့စည်းပုံ မူဝါဒများကို အမျိုးသား ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်းထံ တင်ပြခဲ့ကြသည်။

အမျိုးသား ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်းသည် ၁၉၄၇ ခုနှစ် ဇန်နဝါရီလ ၂၄ ရက်နေ့တွင် (အင်္ဂလန်ပြည် ရောက်ရှိနေစဉ် အတွင်း) ဗြိတိသျှ ကာကွယ်ရေး ဝန်ကြီးနှင့် တွေ့ဆုံပြီးလျှင် မြန်မာ့တပ်မတော်အား အကူအညီပေးရေး ကိစ္စများကို ဆွေးနွေးခဲ့ရာ လေတပ် အဆင့် လေးဆင့် ခွဲခြားပြီးသော် လေးနှစ် အတွင်း ဖွဲ့စည်း တည်ထောင်ရန် ဆုံးဖြတ်ချက်များ ချမှတ်ခဲ့သည်။ ၁၉၄၇ ခုနှစ် ဧပြီလ ၂၆ ရက်နေ့တွင် မြန်မာ့ အပျော်တမ်း လေတပ်ဖွဲ့စည်းရန် အမိန့်ထုတ်ပြန်ကျေညာခဲ့ပြီးလျှင် ယင်းအမိန့်အရ မြန်မာ့ အပျော်တမ်း လေတပ်ကို စတင် ဖွဲ့စည်း တည်ထောင်ခဲ့သည်။ အမျိုးသား ခေါင်းဆောင်ကြီး ဗိုလ်ချုပ် အောင်ဆန်း၏ အမြော်အမြင် ကြီးမားမှု၊ စိတ်ဆန္ဒ ပြင်းပြမှုများဖြင့် ယနေ့ တပ်မတော် (လေတပ်) အဖြစ် ထွန်းပေါက်ဖြစ်ပေါ်လာမည့် အမြတော အခြေခံ လေတပ် အဖွဲ့အစည်းကို မွေးထုတ်ခဲ့ခြင်းပင် ဖြစ်သည်။ ၁၉၄၇ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် အဆိုပါ မြန်မာ့ အပျော်တမ်း လေတပ်ကို အမြဲတမ်း လေတပ်အဖြစ်သို့ ပြောင်းလဲ ဖွဲ့စည်းရန် အမိန့် ထုတ်ပြန် ကျေညာခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်း၏ ကာကွယ်ရေး စီမံကိန်းများအရ ၁၉၄၇ ခုနှစ် ဧပြီလမှစတင်ဖွဲ့စည်းတည်ထောင်ခဲ့သော လေတပ်သည် ယခုအချိန်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တပ်မတော် (လေတပ်) အဖြစ် တည်ရှိနေပေသည်။

**မြန်မာ ကလေး ကစားနည်း။** ။ကမ္ဘာ့ အရပ်ရပ်ရှိ ကလေးများတွင် လူမျိုးအလိုက် ကလေးကစားနည်းများ

ရှိသကဲ့သို့ မြန်မာ ကလေးများ၌လည်း ကစားနည်းများ ရှိကြလေသည်။ ထိုကလေးကစားနည်းများအနက် ကလေးများ အကြိုက်ဆုံး ကစားနည်းအချို့ကို ဖော်ပြ လိုက်ပေသည်။ ယင်းတို့မှာ –

(၁) ရွှေစွန်ညို ကစားနည်း
(၂) ဘီးရောင်းတမ်း ကစားနည်း
(၃) ညောင်ပင် တစ္ဆေ ကစားနည်းနှင့်
(၄) မြို့တခါးကြီး ကစားနည်းတို့ဖြစ်သည်။

## (၁) ရွှေစွန်ညို ကစားနည်း

ရွှေစွန်ညို ကစားရာတွင် ခေါင်းဆောင် လုပ်သူ၏ ခါးတွင် ဝတ်ထားသော လုံချည်နှင့် ခါးကြားတွင် အခြားကစားသူ၏ လက်ချောင်းများကိုသွင်း၍ ကိုင်ထားရသည်။ သူ့နောက်တွင်လည်း အခြားကစားသူ တဦးက အလားတူ ကိုင်ထားလေသည်။ ထိုနည်းအတိုင်း ခေါင်းဆောင် လုပ်သူ၏ နောက်ဖက်တွင် ကလေးများသည် တယောက်၏ လုံချည်နှင့် ခါးကြားတွင် တယောက်၏ လက်ချောင်းကလေးများကို သွင်းကာ ကိုင်ထားကြလေသည်။ ကစားသူ ကလေးတယောက်က ရွှေစွန်ညိုအဖြစ်ကစားရ၍ သူက ခေါင်းဆောင်လုပ်သူ၏နောက်ဆုံးတွင်ရှိနေသူ မထွေးကို မိအောင် ဖမ်းရလေသည်။ ခေါင်းဆောင်ဖြစ်သူကလည်း သူ၏ လက်နှစ်ဖက်ကို ဆန့်ထုတ်ပြီးလျှင် နောက်ဆုံးတွင်ရှိနေသူ မထွေးအား မမိစေရန် ကာဆီးပေးရလေသည်။

ကစားပွဲအစတွင် ရွှေစွန်ညို လုပ်သူနှင့် မထွေး၏ ရှေ့ဖက်ရှိ ခေါင်းဆောင်လုပ်သူတို့သည် အမေးအဖြေများ ပြုလုပ်ကြရလေသည်။ ပြုလုပ်ကြပုံမှာ–

ခေါင်းဆောင် – ရွှေစွန်ညို ဘာကို လိုလို့ ဝဲပါတယ်
ရွှေစွန်ညို – မထွေး လိုလို့ ဝဲလာတယ်
ခေါင်းဆောင် – မထွေး မပါ တို့ချည်းလာ
ရွှေစွန်ညို – ပါပါရဲ့သား နောက်က ထား
ခေါင်းဆောင် – မထွေး အသား ခါးလှတယ်
ရွှေစွန်ညို – ပင်လယ်ရေနှင့် ဆေးပါမယ်
ခေါင်းဆောင် – ပင်လယ် ရေ ခန်းပြီ
ရွှေစွန်ညို – မြစ်ရေနှင့် ဆေးပါမယ်
ခေါင်းဆောင် – မြစ်ရေ ခန်းပြီ
ရွှေစွန်ညို – ချောင်းရေနှင့် ဆေးပါမယ်
ခေါင်းဆောင် – ချောင်းရေ ခန်းပြီ
ရွှေစွန်ညို – ဆန်ဆေးရေနှင့် ဆေးပါမယ်
ခေါင်းဆောင် – ဆန်ဆေးရေ တို့မပေး
ရွှေစွန်ညို – မထွေး လွတ်အောင်ပြေး

ဟု ဆိုသောအခါတွင် စွန်များဝဲသကဲ့သို့ ဗယ်မှညာ၊ ညာမှ ဗယ်သို့ ကိုယ်ကိုတိမ်းငဲ့၍ လက်နှစ်ဖက် ဆန့်တန်းပြီးလျှင် မထွေးကိုမိရန် ကြိုးစားရလေသည်။ ခေါင်းဆောင် လုပ်သူကလည်း အထက်တွင်ဆိုခဲ့သည့်အတိုင်း သူ၏ လက်များကို ဆန့်တန်းပြီးလျှင် မထွေးကို ရွှေစွန်ညို မမိစေရန် ကာကွယ်ပေးရလေသည်။

ကစားရာတွင် ကလေးရှစ်ယောက်မှ ဆဲ့ငါးယောက်အထိ ကစားလေ့ ရှိကြသည်။ ရွှေစွန်ညို လုပ်သူမှာ များသောအားဖြင့် ယောကျ်ားကလေး ဖြစ်လေ့ ရှိသည်။ ခေါင်းဆောင်လုပ်သူသည် ကစားသူများတွင် များသောအားဖြင့် အကြီးဆုံးဖြစ်လေ့ရှိသည်။ အမှန်မှာ ရွှေစွန်ညိုသည် မထွေးကို မိခဲလေသည်။ ထိုနည်းဖြင့် ကစားသူများ မောလာသည့်တိုင်အောင် ကစားလေ့ ရှိကြလေသည်။

## (၂) ဘီးရောင်းတမ်း ကစားနည်း

ဘီးရောင်းတမ်းကစားကြရာတွင် ရွှေစွန်ညို ကစားရာမှာကဲ့သို့ ကစားသူ ကလေးများ မများလှချေ။ ကစားရာတွင် ရွှေစွန်ညို ကစားခြင်းမှာကဲ့သို့ပင် ခေါင်းဆောင်၏ နောက်တွင် တယောက်ပြီး တယောက် စီရပ်သွားရလေသည်။ ကစားပွဲ စလျှင်စခြင်း ဖြစ်စေ၊ အမေးအဖြေပြုလုပ်ကြရာ၌ တဝက်လောက်သို့ ရောက်သောအခါ၌ဖြစ်စေ ကစားသော ကလေးများသည် သူတို့၏ ခြေထောက်များကို တချောင်းနှင့် တချောင်း ကပ်၍ မထားကြဘဲ ခွာလိုက်ကြပြီးလျှင် လုံချည်များကို ဒူးဆစ်အပေါ် သို့ ရောက်ရှိသွားသည်အထိ ခွာထားသော ခြေနှစ်ချောင်း၏ အလယ်မှ ကိုင်၍ မ တင်ထားလိုက်ကြလေသည်။

ဘီးရောင်းသူနှင့် ခေါင်းဆောင် လုပ်သူတို့က အမေးအဖြေများကို နားလည် ထားကြရလေသည်။

ဘီးရောင်းသူက သူ၏ လက်တဖက်နှင့် ဖြစ်စေ၊ လက်နှစ်ဖက်နှင့် ဖြစ်စေ တုတ်တချောင်းကိုင်၊ တုတ်ကဲ့သို့သော ပစ္စည်းတခုခုကိုင်၊ ကိုင်၍ သူ၏ ခေါင်းပေါ် တွင် တင်ထားရသည်။ ထိုနောက် ဘီး၊ ဘီး ဟု အော်ကာ ခေါင်းဆောင်၏ ရှေ့သို့သွားရသည်။ ထိုအခါ –

ခေါင်းဆောင် – ဘာဘီးလဲ
ဘီးရောင်းသူ – ရွှေဘီး
ခေါင်းဆောင် – ရွှေစော်နံ ပြန်လိုက်အုံး

ထိုအခါ ဘီးသည်က လှည့်သွားပြီးလျှင် တဖန်ပြန်လာကာ

ဘီးရောင်းသူ – ဘီး၊ ဘီး
ခေါင်းဆောင် – ဘာဘီးလဲ
ဘီးရောင်းသူ – ငွေဘီး
ခေါင်းဆောင် – ငွေစော်နံ ပြန်လိုက်အုံး

ဘီးရောင်းသူသည် လှည့်သွားပြီးလျှင် တဖန်ပြန်လာကာ

ဘီးရောင်းသူ – ဘီး၊ ဘီး

ခေါင်းဆောင် — ဘာဘီးလဲ
ဘီးရောင်းသူ — သနပ်ခါး ဘီး
ခေါင်းဆောင် — အစစ်လား
ဘီးရောင်းသူ — အစစ်ဘဲ
ခေါင်းဆောင် — အဆစ်ပေး

ဘီးရောင်းသူက ကစားသူတိုင်းကို ဘီးလိုက်၍ ပြရသည်။ ကစားသူတိုင်းကလည်း ဘီး လာပြသော အခါတွင် တံထွေးကို ထွေးလိုက်ရသည်။ ထိုနောက် ဘီးရောင်းသူက ဘီးကို ခေါင်းဆောင် လုပ်သူအား ပေးလိုက် ရသည်။ သို့မဟုတ် လျှင်လည်း ဘီးရောင်းသူက ကစားသူတိုင်းကို ဘီးလိုက်၍ မပြတော့ဘဲ၊ ခေါင်းဆောင်လုပ်သူကို ဘီး တိုက်ရိုက် ပေးလိုက်နိုင်သည်။ ခေါင်းဆောင်လုပ်သူက သူ့နောက် ရှိသူများကို တဆင့် ဘီးကို ပြပေးသည်။ ထိုအခါ ကစားသူများက တဖက်သို့ လှည့်၍ တံထွေးထွေးလိုက်ရသည်။ ထိုနည်းဖြင့် ဆင့်ကဲ ဆင့်ကဲ ဘီးသည် ခေါင်းဆောင်လုပ်သူထံသို့ ပြန်ရောက်သွားသော အခါတွင် ခေါင်းဆောင်လုပ်သူက ဘီးကို သူ၏ ခြေထောက် နှစ်ချောင်းကြားမှ နောက်ဆုံး လူ၏ ခြေထောက်ကြား ရောက်သည်အထိ ပစ်လိုက်လေသည်။ ထိုနောက် ဘီးသည်က ဘီးဖိုးကို တောင်းခံရာ —

ဘီးရောင်းသူ — ဘီးဖိုးပေး
ခေါင်းဆောင် — နောက်လူ တောင်း

ထိုနည်း အတိုင်း နောက်ဆုံးရှိ ကစားသူထံသို့ ရောက်သွားသော အခါတွင် ထိုနောက်ဆုံးလူက ရှေ့လူ တောင်း ဟု ပြောလိုက်လေသည်။ ထိုနည်းအတိုင်း ဆင့်ကဲ ဆင့်ကဲ တောင်းခံရာ ခေါင်းဆောင်ထံသို့ ပြန်ရောက် သွားသော အခါတွင် —

ခေါင်းဆောင် — မိုးပေါ်မှာ တောင်း
ဘီးရောင်းသူ — နတ်သမီး တွန်းချတယ်
ခေါင်းဆောင် — ညောင်ပင်အောက်မှာသွားတောင်း
ဘီးရောင်းသူ — ပရွက်ဆိတ် ကိုက်လွှတ်တယ်
ဘီးရောင်းသူ — နင်တို့နောက်ကဘာတွေလဲ
ခေါင်းဆောင် — ခွေးကလေးတွေ
ဘီးရောင်းသူ — အူပြစမ်း

ခေါင်းဆောင်နှင့် တကွ ကစားသူအားလုံး

အူး....အူး....
ဘီးရောင်းသူ — ငါ့ တကောင် ပေး
ခေါင်းဆောင် — ဘာလုပ်ဖို့လဲ
ဘီးရောင်းသူ — ကစားဖို့

ထိုအခါ ခေါင်းဆောင်လုပ်သူက သူ၏လက်များကို ဆန့်တန်းပြီးလျှင် ဘီးရောင်းသူကနောက်ကလူများကိုဖမ်း၍မမိအောင် ကာကွယ်ပေးသည်။ ဘီးရောင်းသူကလည်း ခေါင်းဆောင်၏နောက်ဖက်တွင် ရှိသူ တဦးဦးကို မိစေရန် ဗယ်နှင့်ညာပြောင်း၍ လိုက်ဖမ်းသည်။ မိသူသည် ဘီးသည် လုပ်ရ၍ ကစားပွဲကို အစမှ ပြန်၍ ကစားကြလေသည်။

အထက်ဖော်ပြပါ ဘီးရောင်းတမ်းကစားနည်းတွင် တဒေသနှင့်တဒေသ မတူဘဲ အနည်းငယ် ကွဲလွဲချက်ကလေးများ ရှိတတ်သည်။ သို့သော် အခြေခံတွင်မူ မထူးခြားလှချေ။

ဘီးရောင်းသူ — ဘီး၊ ဘီး
ခေါင်းဆောင် — ဘာဘီးလဲ
ဘီးရောင်းသူ — ဝါးဘီး
ခေါင်းဆောင် — ငါးစော်နံ ပြန်ပါအုံး

ယခင်နည်း အတိုင်း ဘီးသည်လုပ်သူက လှည့်၍ တဖန် ပြန်လာကာ

ဘီးရောင်းသူ — ဘီး ဘီး
ခေါင်းဆောင် — ဘာဘီးလဲ
ဘီးရောင်းသူ — လိပ်ခွံဘီး
ခေါင်းဆောင် — လိပ်စော်နံ ပြန်ပါအုံး

ထိုနောက် ဘီးရောင်းသူက စိန်ဘီး ဟု ဆိုပြန်သည်။ ထိုနည်းအတိုင်း ဘီးတမျိုးပြီးတမျိုး ပြောင်းလဲပြောဆိုပြီး၍ နောက်ဆုံး သနပ်ခါးဘီးဟု ဆိုသောအခါတွင် —



အမျိုးသမီးကလေးများ ပျော်ရွှင်စွာ ဖန်ခုန်ကစားကြစဉ်

ခေါင်းဆောင် – စစ်ရဲ့လား
ဘီးရောင်းသူ – အစစ်ဘဲ
ခေါင်းဆောင် – အဆစ်နည်းနည်း ထည့်ပါအုံး

ကစားသူတိုင်းက တံထွေးထွေးပြီး၍ သူတို့၏ခြေထောက်များကို တခုနှင့်တခု ခွာပြီးလျှင် လုံချည်များကိုမ၍ တင်ပြီးသောအခါတွင် ခေါင်းဆောင် လုပ်သူက သည်ဟာ ထိတဲ့လူ အနူ ဟူ၍ ဆိုပြီးနောက် ဘီးကို ခြေထောက်များ အကြားမှ နောက်ဖက်သို့ပစ်လိုက်လေသည်။ ထိုနောက် ဘီးရောင်းသူက ဘီးဖိုးကို တောင်းခံလေသည်။

ထိုအခါ ခေါင်းဆောင် လုပ်သူက မိုးပေါ်မှာ တောင်းဟူ၍ ပြောရာ –

ဘီးရောင်းသူ – တောင်းမရဘူး
ခေါင်းဆောင် – သိကြားမင်းဆီ တောင်း
ဘီးရောင်းသူ – မပေးဘူး
ခေါင်းဆောင် – နတ်ပြည်တောင်း
ဘီးရောင်းသူ – နတ်ပြည်က အမြင့်ကြီး လိမ့်ကျမှာ ကြောက်တယ်
ခေါင်းဆောင် – ဘုန်းကြီးကျောင်းမှာ သွားတောင်း
ဘီးရောင်းသူ – ခွေးတွေ လိုက်ကိုက်တယ်
ခေါင်းဆောင် – ညောင်ပင်က ရုက္ခစိုး ဆီ သွားတောင်း
ဘီးရောင်းသူ – ညောင်ပင် အောက်က ပရွက်ဆိတ်တွေ ကိုက်တယ်
ခေါင်းဆောင် – နောက်က မယ်ထွေးလေးရယူတော့

ထိုသို့ ဆိုပြီးလျှင် မယ်ထွေးကိုမမိစေရန် လက်နှစ်ဖက်ကို ဆန့်တန်း၍ ကာကွယ်ပေးလေသည်။ ဘီးရောင်းသူကလည်း မယ်ထွေးကို မိအောင် လိုက်ဖမ်းလေသည်။

နောက်ဖက်ရှိ မယ်ထွေးကို မိလျှင် မယ်ထွေးက ဘီးရောင်းသူအဖြစ် ဆက်၍ ကစားကြလေသည်။

## (၃) ညောင်ပင်တစ္ဆေ ကစားနည်း

ကစားသူ များလျှင် များသည့် အလျောက်နှင့် နည်းလျှင် နည်းသည့်အလျောက် စက်ဝိုင်းပုံ အကြမ်းစားကို မြေကြီးပေါ်တွင် ကစားသူများက ကြီးကြီး ရေးဆွဲလိုက်သည်။ ထိုနောက် စက်ဝိုင်း၏ အချင်းကိုလည်း ရေးဆွဲလိုက်သည်။ စည်းဝိုင်း၏ အပြင်တွင် ညောင်ပင်တစ္ဆေ လုပ်သူက နေရသည်။ စက်ဝိုင်းအတွင်းတွင် မယ်ထွေးလုပ်သူက နေရသည်။ မယ်ထွေးလုပ်သူသည် ကစားသူများတွင် အငယ်ဆုံး ဖြစ်လိုမှ ဖြစ်ပေလိမ့်မည်။ ကျန်ကစားသူများက မယ်ထွေးလုပ်သူကို ကျောပေးပြီးလျှင် စက်ဝိုင်းအပြင်ဖက်ကို မျက်နှာမူထားကြသည်။ စက်ဝိုင်းအတွင်းရှိ ကစားသူတိုင်းသည် ညောင်ပင်တစ္ဆေ လုပ်သူနှင့် အခြားကစားသူများ၏ အမေးအဖြေများကိုသာ နားလည်ကြလျှင် နားလည်သည့် ကလေးတိုင်းက ဝင်၍ ဆိုနိုင်လေသည်။ အမေး အဖြေ ပြုလုပ်ကြရာတွင် –

ကစားသူများ – ညောင်ပင်တစ္ဆေ
ညောင်ပင်တစ္ဆေလုပ်သူ – ဝေလေလေ
ကစားသူများ – နင် ဘယ်ကိုင်းမှာ နေ
ညောင်ပင်တစ္ဆေလုပ်သူ – ညောင်ကိုင်းမှာ နေ
ကစားသူများ – နင် ဘာသီးစား
ညောင်ပင်တစ္ဆေလုပ်သူ – ညောင်သီးစား
ကစားသူများ – နင် ဘာကွမ်း စား
ညောင်ပင်တစ္ဆေလုပ်သူ – ညောင် ကွမ်းစား
ကစားသူများ – နင် ဘာထမင်း စား
ညောင်ပင်တစ္ဆေလုပ်သူ – ညောင် ထမင်းစား
ကစားသူများ – နင် ဘာဟင်းစား
ညောင်ပင်တစ္ဆေလုပ်သူ – ညောင် ဟင်းစား
ကစားသူများ – နင် ဘာရေသောက်
ညောင်ပင်တစ္ဆေလုပ်သူ – ညောင် ရေသောက်
ကစားသူများ – နင် ဘာကွမ်းသီး စား
ညောင်ပင်တစ္ဆေလုပ်သူ – ညောင်ကွမ်းသီးစား
ကစားသူများ – ညောင်ပင် တစ္ဆေ နင်ထမင်းစားပြီးပြီလား
ညောင်ပင်တစ္ဆေလုပ်သူ – မစားရ သေးဘူး၊ ဘာဟင်းချက်သလဲ
ကစားသူများ – ကြက်သားဟင်းချက်တယ်
ညောင်ပင်တစ္ဆေလုပ်သူ – ငါ့တခွက်ပေး
ကစားသူများ – ဘာလုပ်ဖို့
ညောင်ပင်တစ္ဆေလုပ်သူ – ငါစားဖို့
ကစားသူများ – မပေးနိုင်ဘူး၊ မယ်ထွေးလေး ရလျှင် ယူတော့

ထိုသို့ ဆိုပြီးကြသောအခါတွင် မယ်ထွေးသည် အလယ်၌နေ၍ အခြား ကစားသူများက မယ်ထွေး ဘေးပတ်လည်တွင် စည်းကို မထိမိစေဘဲ ကခုန်ကြပြီးလျှင် ညောင်ပင်တစ္ဆေကို လက်ညှိုးထိုး၍ ပြောင်လှောင် ကြလေသည်။ ညောင်ပင်တစ္ဆေ လုပ်သူကလည်း မယ်ထွေးကို စည်းဝိုင်း၏ အပြင်သို့ ဆွဲထုတ်နိုင်ရန် ဟိုဖက် သည်ဖက်လှည့်၍ လိုက်လေသည်။ တယောက်ယောက် လဲသောအခါ ညောင်ပင်တစ္ဆေက မယ်ထွေးကို ဝင်၍ဆွဲယူလေသည်။ ကစားသူများကလည်း မယ်ထွေးကိုစည်းဝိုင်းအလယ်တွင်သာ ရှိနေစေရန် ဆွဲယူကြလေသည်။ နောက်ဆုံးတွင် ညောင်ပင်တစ္ဆေက မယ်ထွေးကို တစိတ်တဒေသအားဖြင့် စည်းကို ကျော်အောင် ဆွဲယူနိုင်လျှင် မယ်ထွေးက ညောင်ပင်တစ္ဆေ လုပ်၍ ကစားပွဲကို အစမှ ပြန်ကစားကြလေသည်။

## (၄) မြို့တံခါးကြီး ကစားနည်း

ကစားသူများ အနက် ကလေးနှစ်ယောက်သည် မျက်နှာချင်းဆိုင် ရပ်လျက် သူတို့၏ လက်နှစ်ဖက်ကို လက်ချောင်းများ ကြားတွင် ထည့်၍ ဆက်ကာ တန်းထားကြ ပြီးလျှင် အောက်ဖက်သို့ နှိမ့်ချထားကြသည်။ လက်တန်းသည် တံခါးဖြစ်သည်။ လူဝင်သောအခါ လက်တန်း တံခါးကို ဖွင့်ဟန် မြှောက်ပေးရသည်။

ကျန်ကစားသူများသည် တယောက်၏ နောက်တွင် တယောက် ရှိနေကြသည်။ ခါးရှိ လုံချည်ကို ဖြစ်စေ၊ အင်္ကျီစကိုဖြစ်စေ ကိုင်ကာ တွဲထားကြလေသည်။ ထိုသို့ အတန်းလိုက် ရှိနေကြသော ကစားသူများအနက် ဆိုတတ်သူတိုင်းက အောက်ပါအတိုင်း ပြောဆိုကြလေသည်။

မြို့တံခါးကြီး ဖွင့်ပေးပါ

လက်ဆက်ထားသည့်ကလေးနှစ်ယောက် — ဘယ်မင်း အိမ်ကလဲ

အတန်းရှိကစားသူများ — ဆင်ထိန်းအိမ်ကဘဲ

ကလေး နှစ်ယောက် — ဆင်စော်နံ ပြန်လေဦးတော့

လူတွဲသည် ပြန်သွား၍ လှည့်လာပြီးလျှင် — မြို့တံခါးကြီး ဖွင့်ပေးပါ

ကလေးနှစ်ယောက် — ဘယ်မင်း အိမ်ကလဲ

အတန်းရှိကစားသူများ — မြင်းထိန်းအိမ်ကဘဲ

ကလေးနှစ်ယောက် —မြင်းစော်နံပြန်လေဦးတော့

တွဲထားကြသော ကလေးများသည် ယခင်ကကဲ့သို့ပင် လှည့်ထွက်သွား၍ ပြန်လှည့်လာကြပြီးလျှင် အထက် ဖော်ပြပါအတိုင်းပင် တံခါးဖွင့်ရန် အော်၍ ပြောကြလေသည်။ လက်ဆက်ထားသော ကလေးနှစ်ယောက်ကလည်း ရှေးနည်းအတိုင်း ပြန်မေးလေသည်။ အတန်းရှိ ကလေးများကလည်း မိမိတို့ စိတ်ကူးရထားသည့်အိမ်ကို ပြောပြကြလေသည်။ ကလေး နှစ်ယောက်ကလည်း သူတို့ သဘောမကျသေးလျှင် လူတွဲပြောသည့် တိရစ္ဆာန်တမျိုးမျိုး၏ အမည်နှင့် နံပြန်လေဦးတော့ဟု ပြော၍ လွှတ်လေသည်။ နောက်ဆုံး သူတို့ သဘောကျသည့်အိမ်၊ ပုံပမာအားဖြင့် သဌေးကြီးအိမ်ကဘဲဟု ပြောသောအခါတွင် လက်ဆက်ထားသော ကလေးနှစ်ယောက်က အေး အေး ဟု ပြောဆိုကာ အီး....ဟု ဆို၍ သူတို့လက်များကို တံခါးဖွင့်ပေးသကဲ့သို့ မြှောက်ပေးလိုက်ကြလေသည်။ ထိုအခါ လူတွဲက မြှောက်ထားသော လက်များအောက်မှ ဝင်၍ ထင်းကလေး ခွေပါရစေအုံး ဟုဆိုကာ ထွက်သွားသည်။ နောက်တခေါက် ဝင်သောအခါတွင် ဟင်းရွက်ကလေး ခူးပါရစေအုံး ဟု ဆိုကာ ထွက်သွားပြီးလျှင် နောက်တခေါက် ဝင်သောအခါတွင် ရေကလေး ခပ်ပါရစေအုံး စသည်ဖြင့် အမျိုးမျိုးကိုပြော၍ မြှောက်ထားသော လက်နှစ်ဖက်၏အောက်မှ ဝင်သွားကြလေသည်။ နောက်ဆုံး အခေါက်တွင်မူ မိုးချုပ်ပြီ မြို့တွင်းဝင်ကြစို့ဟု ဆို၍ ဝင်သောအခါ လက်ဆက်ထားသော ကလေးနှစ်ယောက်က သူတို့၏ လက်များကို မြှောက်မပေးတော့ဘဲ ချထားကြသဖြင့် လူတွဲက မြို့တံခါးကြီး ပိတ်ပြီလား ဖွင့်ပါ ဟု ဆိုလေသည်။

ကလေးနှစ်ယောက်က လေးချက်ကျော်သော် ပိတ်ပါသော်ဟု ပြော၍ လက်များကိုမြှောက်ဘဲထားကြလျှင် လူတွဲကနောက်ဆုံးလူနော် ယူတော့တော်ဟု ဆိုကြသောအခါ တံခါးစောင့်များအဖြစ်နှင့် ကစားသူနှစ်ဦးက ဩော် ဩော် ဟု ဆိုပြီးနောက် အေးဟု ဆိုကြပြီးလျှင် တံခါးကို ဖွင့်ပေးသည့်ပမာ သူတို့၏ လက်များကို မြှောက်လိုက် ကြလေသည်။ နောက်ဆုံးကစားသူ ဝင်မိသောအခါတွင် တံခါးစောင့်များအဖြစ် ကစားသူနှစ်ဦးက မြှောက်ထားသော လက်ကွင်းဖြင့် စွပ်ဖမ်းလိုက်ရသည်။ ဖမ်း၍မမိလျှင် အစမှ ပြန်ကစားရသည်။ ဖမ်းမိလျှင် မိသူနှင့်တကွ တံခါးပိတ်သံ ဂြိတ်ဂြိတ် ဆို၍ ထိုင်ရသည်။ အတန်းလိုက် ရှိနေကြသော ကစားသူများက စုရုံး လာကြပြီးလျှင် သုံးယောက်အား ဝိုင်း၍ ထိုင်ချလိုက်ကြလေသည်။ ထိုနောက် ဝိုင်းနေကြသူများက တို့လူ ဘယ်ကရပါတယ် ဟု မေးလိုက်ကြသောအခါ တံခါးစောင့်အဖြစ် ကစားသူနှစ်ဦးက ထန်းပင်အောက်က ရပါတယ်ဟု ပြန်၍ ဖြေလိုက်ကြသည်။ ထိုအခါ ကျန်ကစားသူများက ထန်းသီး သီးချိန် တို့လူချိန် တို့လူ ဘယ်ကရပါတယ်ဟု ပြန်၍ မေးကြပြန်သည်။ ထိုနည်း တဖန်မေးပြန်၍ အပင်တမျိုးပြီးလျှင် တမျိုး၏ အောက်က ရပါတယ် ဟု ပြန်၍ဖြေကြသောအခါ ထိုပြောသောအပင်၏ နောက်က သီးချိန်တို့လူချိန် တို့လူဘယ်က ရပါတယ်ဟုဆက်ကာမေးပြန်သည်။ နောက်ဆုံးတွင် တံခါးစောင့်အဖြစ် ကစားသူ နှစ်ဦးက မိထားသူအား ရေတိမ်သလား၊ နက်သလား ဟုမေးရာ၊ အဖမ်းခံရသူက ရေတိမ်သည်ဟု ဖြေလျှင် သူတို့၏လက်များကို အောက်သို့ နှိမ့်ချလိုက်ပြီးလျှင် မိထားသူအား ထွက်သွားစေသည်။ ရေနက်သည်ဟု ဖြေမိလျှင် သူတို့၏ လက်များကို မြှောက်ထား ကြပြီးလျှင် မိနေသူအား ခုန်၍ ထွက်စေသည်။ ထိုနောက် ကစားပွဲကို အသစ်စ၍ ကစားကြပြန်သည်။

အချို့ ဒေသတွင် တိုက်တံခါးကြီး ဖွင့်ပါအုံးဟုပြောကြရာ တံခါးစောင့်များက ဘယ်မင်းအိမ်ကတုံးဟု ပြန်၍ မေးကြရာ စစ်ကဲအိမ်ကဟု ဖြေလျှင် စစ်ကဲစော် နံလှတယ် ဟုပြောရလေသည်။

ထို့ပြင် အချို့ဒေသ၌ နောက်ဆုံးဝင်သည့် အလှည့်တွင် တို့နောက်က လက်ဖက်ထုပ်အုပ် ရယူတော့ဟုလည်း ဆိုတတ်ကြသည်။



ကျန်းမာရေးနှင့် ညီညွတ်သော မြန်မာ့ရိုးရာ ထုပ်စည်းတိုး ကစားနည်းကို စံနစ်တကျ ကစားနေကြစဉ်

လိပ်ဥဝှက်တမ်း ကစားနည်းကိုလည်း မြန်မာကလေးများ နှစ်သက် ကြလေသည်။ ထိုကစားနည်းတွင် ကစား သူများ က မြေကြီးပေါ်တွင် စည်းဝိုင်းကြီး တဝိုင်းကို တုတ်တချောင်းဖြင့် ခြစ်လိုက်ပြီးလျှင် အလယ်တွင် တဖန် စည်းဝိုင်း သေးသေး တခုကို ဆွဲ၍ ထိုစည်းဝိုင်းကလေး အတွင်း၌ ခဲလုံး လေးငါးလုံးခန့်ကို လိပ်ဥများအဖြစ် ထားပြီးလျှင် လိပ်အဖြစ်နှင့် ကစားသူက ဆောင့်ကြောင့် ထိုင်၍ သူ၏ ခြေနှစ်ဖက်ကြားတွင် ထို ခဲလုံးများကို ထားရလေသည်။ ပြီးလျှင် ကျန်ကစားသူများက စည်းဝိုင်းကြီး အပြင်တွင် ဝိုင်း၍ ရပ်ကြပြီးလျှင် လိပ်ထီးလား လိပ်မလား ဟုမေးကြလေသည်။ လိပ်မ ဟုဖြေမိလျှင် ကစားသူများက လိပ်ဥများကို လုကြသောအခါတွင် လိပ်မလုပ်သူသည် သူ၏ ခြေထောက်များဖြင့်သာ လိပ်ဥများကို ကာကွယ်နိုင်တော့လေသည်။ သ၏ လက်များကို အသုံးမပြုနိုင်တော့ချေ။ လိပ်ထီးဟု ဖြေမိလျှင် သူ၏လက်များကို အသုံးပြုနိုင်ပြီးလျှင် ခြေထောက်များကိုမူ အသုံးမပြုနိုင်ချေ။

အခြားကစားသူများက စည်းဝိုင်းအပြင်မှ နေ၍ လုကြဟေ့ဟု တယောက်က အော်လိုက်သည်နှင့် တပြိုင်နက် လိပ်ဥအဖြစ် ထားသော ခဲလုံးများကို စည်း၏ပြင်ပမှ နေ၍ ကစားသူများက လုကြလေသည်။ ထိုသို လုနေကြစဉ်နှင့် လိပ်ဥများ ရှိနေစဉ်၌ ကစားသူ တယောက်ယောက်ကို လိပ်လုပ်သူ၏ ခြေထောက်နှင့် ဖြစ်စေ၊ လက်နှင့်ဖြစ်စေ ထိမိလျှင် အထိခံရသူက လိပ်အဖြစ်နှင့် စ၍ ကစား ကြရလေသည်။ အကယ်၍ လိပ်ဥများကို အားလုံးလုယူနိုင်လျှင် လိပ်လုပ်သူက မတ်တတ် ရပ်လိုက်ရသည်။ ထိုအခါ ကစားသူများအနက် တယောက်ယောက်က လိပ်လုပ်သူ၏ မျက်စိများကို မမြင်စေရန် အဝတ်တခုနှင့် ပတ်၍ ချည်ပေးလိုက်သည် ။ ကျန်တယောက်ယောက်က လိပ်ဥများကိုအနီးအနားရှိ တနေရာရာတွင် ဝှက်ထားလိုက်လေသည်။ ပြီးသော အခါတွင် မျက်စိများတွင် စည်းထားသော အဝတ်ကို ဖယ်ရှားလိုက်၍ လိပ်လုပ်သူအား ဝိုင်းလိုက်ကြပြီးလျှင် လက်ခုပ်များ တီး၍ ဖြစ်စေ၊ က၍ဖြစ်စေ လိပ်ဥပျောက်လို့ လိပ်မရှာ၊ သူ့ခမျာ ငိုမဲ့ ငိုမဲ့ ဟုဆိုကြကာ နောက်ပြောင်လေသည်။ လိပ်လုပ်သူကလည်း လိပ်ဥများကို ဝှက်ထားမည်ဟု ထင်ရသော နေရာများတွင် လိုက်ရှာလေသည်။ လိပ်ဥများကို ပြန်တွေ့သောအခါတွင် လိပ်လုပ်သူက တွေ့ပြီ သည်မှာ စည်းဝိုင်းထဲဝင်ဟု အော်ပြောလေသည်။ ထိုအခါ ကစားသူများသည် စည်းဝိုင်းအတွင်းသို့ ဝင်ကြ၍ တယောက်လက်ကို တယောက်က ကိုင်ကာ ဝိုင်း၍ မတ်တတ် ရပ်နေကြလေသည်။ စည်းဝိုင်း၏အပြင်ရှိ လိပ်လုပ်သူက လိပ်ဥများကို လက်တဖက်တွင် ကိုင်၍ ကျန်လက်တဖက်ဖြင့် စည်းဝိုင်းအတွင်းရှိကစားသူတယောက်ယောက်ကို သူ၏ ခြေထောက်များ အပြင်ရောက်သည်အထိ ဆွဲထုတ်ရလေသည်။ စည်းဝိုင်းအတွင်းရှိ ကစားသူများကလည်း သူတို့၏လူ အပြင်သို့ ပါမသွားစေရန် ဝိုင်း၍ ဆွဲထားကြလေသည်။ သို့သော် တယောက်ယောက်သာ လဲလျှင် အဆွဲခံရသူသည် စည်းဝိုင်းအပြင်သို့ ပါသွားလေ့ ရှိလေသည်။ ထိုအခါ လိပ်လုပ်သူက ဆွဲထုတ်မိပြီ သူ့ကို ဟု အော်ပြောသော အခါတွင် အခြားကစားသူများက ခဲလုံးနှင့်တို့ ဟူ၍ ပြန် အော်ကြလေသည်။ ထိုအခါ ခဲလုံးနှင့် သူ့အား ပခုံးတွင်ဖြစ်စေ၊ ကျောတွင်ဖြစ်စေ တို့လိုက်ရသည်။ ထိုအတွင်း အဆွဲခံရသူ စည်းဝိုင်းအပြင်သို့ ရောက်မသွား စေရန် ကြိုးစားကြလေသည်။ စည်းဝိုင်း၏ အပြင်သို့ ခြေထောက်များ ရောက်သွားသူသည် နောက်တလှည့် ကစားသောအခါတွင် လိပ်လုပ်ရလေသည်။

လိပ်စ၍ လုပ်သူသည် များသောအားဖြင့် အကြီးဆုံး ကလေး ဖြစ်လေ့ ရှိသည်။ ထိုသို့ ပဌမ စ၍ လုပ်မည့်သူ မပေါ်ပေါက်လျှင် ကစားမည့်သူများ ဝိုင်းဖွဲ့၍ ထိုင်ကြပြီးလျှင် ခဲလုံးများဖြင့် မြေကြီးတွင် ချက်ကျကျ ရိုက်ကာ လိပ်ဥပျောက်လို့ လိပ်မရှာ သူ့ခမျာ ငိုမဲ့ ငိုမဲ့ ဟူ၍ သံပြိုင် ဆိုကြလေသည်။ ထိုသို့ သံပြိုင်ဆိုကြရာ၌ အသံနောက်ကျနေသူသည် ပဌမ စ၍ လိပ်လုပ်ရလေသည်။

## မစာရ ကစားနည်း

ထိုကစားနည်းတွင် စည်းဝိုင်းတခုကို တုတ်တချောင်းဖြင့် ဆွဲလိုက်ကြသည်။ ထိုနောက် မျဉ်းကြောင်း လေးကြောင်း ကန့်လန့်ဖြတ်ထားသည့် လမ်းကြောင်း တခုကို စည်းဝိုင်းနှင့် ထိပ်တိုက် ဆွဲကြသည်။ ပြီးလျှင် တယောက်မှလွဲ၍ ကျန်ကစားသူများ အားလုံးသည် စည်းဝိုင်းကြီး အတွင်း၌ နေကြသည်။ ကျန်တယောက်က လမ်းကြောင်း အတိုင်း တကွက်စီနင်းယင်း ဒုံးဒုံးဟု ဆိုကာ လျှောက်လာလေသည်။ ထိုအခါ ကစားသူများက ဘယ်သူလဲဟု မေးလိုက်ကြရာ ဒုံးဒုံးဟုဆိုသူက မစာရဟု ပြန်ဖြေလေသည်။ ထိုအခါ စည်းဝိုင်းအတွင်းနေ ကစားသူများက ဘယ်သွားမလို့လဲဟု မေးကြရာ မစာရက ပွဲသွားမယ်လို့ဟု ဖြေလေသည်။ ထိုအခါ ကစားသူများက တို့လဲလိုက်မယ် ဟု ပြောကြသောအခါ မစာရ လုပ်သူက မလိုက်နဲ့ ကျားတွေ ဆင်တွေ ပေါတယ်ဟူ၍ ဖြေလေသည်။ ထိုနောက် ကိုက်ကိုက် သေသေ လိုက်ခဲ့ဟု ဆိုပြီးမှ ဒုံးဒုံးဟု ဆို၍ ကျန်နှစ်ကွက်ကို လှမ်းနင်းလိုက်ပြီးလျှင် စည်းဝိုင်း တလျှောက်တွင် ပြေး၍ စည်းဝိုင်းတွင်းရှိ ကစားသူတယောက်ယောက်ကို အပြင်သို့ မရောက်ရောက်အောင် ဆွဲထုတ်လေသည်။ စည်းဝိုင်းတွင်းရှိ ကစားသူများကလည်း သူတို့၏လူ စည်းဝိုင်းအပြင်သို့ ရောက်မသွားစေရန် ဝိုင်း၍ ကူဆွဲကြလေ

သည်။ထိုသို့ ကူဆွဲနေကြစဉ် မစာရ၊မစာရဟု မပြတ်အော်ဟစ်ကာ ကစားကြလေသည်။ စည်းဝိုင်းအပြင်သို့ ရောက်သွားသူသည် နောက်တလှည့်တွင် မစာရအဖြစ် ကစားရလေသည်။

## ညောင်ရေအိုးစင် ကစားနည်း

ထိုကစားနည်းတွင်ကစားသူအနည်းဆုံးသုံးယောက်လိုသည်။ငါးယောက်ထက်လည်းမပိုရချေ။ ကစားသောအခါ ကစားသူနှစ်ယောက်က တယောက်၏ လက်ချောင်းများဖြင့် တယောက်၏ လက်မောင်းကို တတောင်ဆစ်အောက်ဖက်တွင် ဆုပ်ကိုင်ထားကြရသည်။သုံးယောက်သာ ကစားလျှင် ကျန်တယောက်က ထိုသို့လက်ယှက်ထားသည့်အပေါ်တွင် ထိုင်ရသည်။ ထိုနောက် ထိုင်နေသောကစားသူမှ အပကျန်ကစားသူနှစ်ယောက်က ညောင်ရေအိုးစင်ပန်းအိုးစင်၊ ညောင်ရေအိုးစင် ပန်းအိုးစင် ဟူ၍ အော်ဆိုကြပြီးလျှင် သူတို့၏ ယှက်ထားသော လက်များကို လွှဲပေးကြလေသည်။ နောက်ဆုံးတွင် ညောင်ရေအိုး ခါးတောင်းကျိုက်လိုက်ဟုဆိုကာ သူတို့၏ လက်များကို ဖြုတ်လိုက်ကြသဖြင့် ထိုင်လျက် ပါလာသူသည် အောက်သို့ ကျသွားလေသည်။ ထိုသို့ အောက်ကျ သွားရာမှ ထပြီးလျှင် ကစားသူနှစ်ဦးအား လိုက်၍ ဖမ်းရသည်။ အမိခံရသူသည် နောက်တလှည့်၌ ညောင်ရေအိုး လုပ်ရလေသည်။

## စိန်ပြေးတမ်း ကစားနည်း

ထိုကစားနည်းတွင် ကစားသူအရေအတွက် မကန့်သတ်ဘဲ ကစားနိုင်လေသည်။ ပဌမ စ၍ လိုက်သူ၏ အမည်က မောင်မောင် ဖြစ်လျှင် ကစားသူများက မောင်မောင်လေးရေ စိန်၊ ထမင်းစားလို့မြိန် ဟု အထပ်ထပ်ဆိုပြီးသော် ထိုကလေး လိုက်သည်ကို ရှောင်ကာ ရှားကာ လွတ်အောင်ပြေးကြ လေသည်။ လွတ်အောင် မပြေးနိုင်ဟု ထင်လျှင် ဆောင့်ကြောင့်ထိုင်လိုက်က သူ့အား မလိုက်နိုင်တော့ချေ။ လိုက်ဖမ်းသူ၏လက်ဖြင့် အတို့ခံရသူသည် နောက်တလှည့်တွင် လိုက်၍ ဖမ်းရလေသည်။

မြန်မာကလေးများ ကစားကြရာတွင် များသောအားဖြင့် တဦးနှင့်တဦး နားလည်မှုဖြင့် အစတွင် လိုက်သူ၊ သို့မဟုတ် မစာရ လုပ်သူ၊ သို့မဟုတ် မယ်ထွေးလုပ်သူက လုပ်လေ့ ရှိကြသည်။ တခါတရံတွင် ထိုသို့ မပြုလုပ်နိုင်ခဲ့သော် ကစားသူများအားလုံး ဝိုင်းဖွဲ့၍ထိုင်ကြပြီးလျှင်၊ သို့မဟုတ် ရပ်နေကြပြီးလျှင် တယောက်ယောက်က တယောက်စီကို လက်ညှိုးထိုးကာ ငါးပိတလက်၊ ဆားတလက်၊ ရေနံအိုး ခါးတောင်းကျိုက်လိုက် ဟူ၍ လက်ျာရစ်လှည့်ကာ ရေတွက်ရာတွင် လိုက်ဆိုသည့် စကားလုံး ကျရာလူကို စ၍ လုပ်စေသည်။ သို့မဟုတ်လျှင် စီးပုံသုံးအိမ်၊ တို့ကိုမှိန်၊ လွှမ်းစိန်ကယ်ဘုံပြေး ဟူ၍ ရေတွက်ကြသည်။

အခြား နည်းတနည်းမှာ ကလေးများ ဝိုင်း၍ ရပ်ကြပြီးလျှင် လက်များကို ဆက်ထားကြသည်။ ထိုနောက် ပြောင်နောင်နောင်ပဗေ ပေးဂျိ ဟုဆို၍ လက်များကိုဖြုတ်လိုက်ကြပြီးလျှင် လက်ဝါးပေါ်တွင် ကျန်လက်တဖက်ကို တင်လိုက်ကြသည်။ ထိုသို့ တင်ကြရာတွင် လက်ဝါးလှန်၍ တင်သူကလည်းရှိသည်။ မှောက်၍ တင်သူလည်းရှိရာ မှောက်၍တင်သူနည်းလျှင် ထိုလူများကို ဖယ်၍ ကျန်လူများကသာ ဆက်၍ ရွေးကအတိုင်း ပြုလုပ်ကြပြန်သည်။ နှစ်ဦးတည်း ကျန်သောအခါတွင် ဖယ်နေရသူ တယောက်က ဝင်ကူ၍ လုပ်ပေးရသည်။ သုံးဦးအနက် နှစ်ဦးက လက်ထားပုံချင်းတူလျှင် ကျန်လူက စ၍ လိုက်ရလေသည်။

ထုပ်စည်းတိုး (ထုပ်ဆီးတမ်း) ကစားနည်းကိုလည်းမြန်မာနိုင်ငံ၌လူကြိုက်များသည်။ကစားရာတွင်ယောကျ်ားကလေးနှင့် မိန်းကလေး တွဲ၍ ကစားနိုင်သည်။ ခြောက်ယောက်၊ ရှစ်ယောက်၊ ၁၀ ယောက်နှင့် ၁၂ ယောက် စသည်လည်း ကစားနိုင်သည်။ ခြောက်ယောက် ကစားလျှင် တဖက်တွင် သုံးယောက်ကျစီ ခွဲ၍ ကစားကြသည်။ ရှစ်ယောက်၊ သို့မဟုတ် ၁၀ ယောက်၊ သို့မဟုတ် ၁၂ ယောက် ကစားလျှင် လေးယောက်စီ၊သို့မဟုတ် ငါးယောက်စီ၊သို့မဟုတ် ခြောက်ယောက်စီ အသီးအသီး အညီအမျှ ခွဲ၍ ကစားကြရသည်။

ကစားရာတွင် မြေကြီးပေါ်တွင် တုတ်တချောင်းဖြင့်ဖြစ်စေ၊ ရေဖြင့် လောင်းချ၍ ဖြစ်စေ၊ ပြာဖြူး၍ ဖြစ်စေ ကစားသော မြေ၏ အနေအထားကို လိုက်၍ စည်းများ တားပြီးလျှင် ကစားကြလေသည်။

ထုပ်စည်းကို ကစားသူများလျှင် များသလို စည်းပိုတား၍ ကစားကြလေသည်။

ပုံတွင် ပြထားသော စည်းအရ ကလေး ၁၀ ယောက် ကစားနိုင်သည်။ ကလေး ၁၀ ယောက်သည် (ယောကျ်ားကလေးနှင့် မိန်းကလေး ရောရ၍လည်း) တဖက်လျှင် ငါးယောက်စီခွဲ၍ ကစားနိုင်လေသည်။

ကစားကြသော အခါတွင် အကြီးဆုံး ကလေးများက ထိပ်စည်းဖြစ်သော ''က''တွင် ကစားလေ့ ရှိကြသည်။ ထိုထိပ်စည်း''က''တွင်ကစားသူသည်များသောအားဖြင့်''စ'' နှင့်''ဆ''စည်းများကိုလည်း ထိန်းသိမ်းပေးရသည်။

စတင် ကစားရာတွင် ပဌမဦးစွာ တိုးရသည့်ဖက်မှစ၍ ''က''စည်းကို လွန်ကာ ''ခ'' စည်းသို့ ရောက်အောင် ကြိုးစားရသည်။ ''ခ''၊ ''ဂ''၊ ''ဃ'' နှင့် ''င'' စည်းများတွင်လည်း စောင့်သူများ ရှိသည်။ ''က''မှ ''င'' အထိ ဘေးစည်းနှင့်''ဇ''မှ''ဈ''အထိဘေးစည်းကိုကျော်၍မထွက်စေရချေ။ ကျော်မိလျှင် ထမင်းရည်ပူ လောင်သည်ဟု ဆိုပြီး




လျှင် အရှုံးပေးရလေသည်။ အရှုံးပေးရသည် ဆိုသည်မှာ ထုပ်စည်းများကိုစောင့်ရခြင်း ဖြစ်သည်။ "င" စည်းကို လွန်အောင်တိုးပြီးသောအခါတွင် ထိုစည်းကိုပင် ပြန်၍ တိုးပြီးလျှင် တဖန်"ဃ" "ဂ" "ခ" နှင့် "က" စည်းများကိုလည်း ကျော်လွန်အောင် တိုးထွက်ရလေသည်။ ကျော်လွန်အောင် ဆိုသည်မှာ ထိုစည်းများ၌ စောင့်နေသူများ၏ အထိကို မခံရဘဲ ကျော်လွန်အောင် တိုးနိုင်ခြင်းကို ဆိုလိုသည်။

ကစားသူများလျှင် "စ" စည်းတွင် ကစားသူတယောက်က သီးခြား စောင့်ပေးရလေသည်။ မြန်မာနိုင်ငံတွင် လသာသော ညဉ့်များ၌ ထိုထုပ်ဆီးတမ်းကစားနည်းမျိုးကို ကစားလေ့ ရှိကြသည်။ တိုးရသည့် ဖက်မှ တယောက်ယောက်သည် "က" စည်းမှ "င" စည်းကို ကျော်၍တဖန် "င" စည်းမှ "ဃ" "ဂ" "ခ" နှင့် "က" စည်းများကို ဦးစွာ ကျော်လွန်အောင် တိုးနိုင်သော် အောင်ထူပြီဟု အော်ပြောပြီးလျှင် ထိုပွဲတွင် အနိုင်ရသဖြင့် တဖန် ပြန်၍ ထုပ်များကို တိုးနိုင်ခွင့် ရရှိပြန်သည်။

အောင်ထူခါ နီးတွင် မိမိဖက်မှ တဦးဦးသည် စည်းကို တိုးသွားစဉ် စည်းကို ထိန်းသိမ်းနေသူ၏ အထိကို ခံရလျှင် ရှုံးသဖြင့် စည်းများကို စောင့်ပေးရသည်။

ကြက်ဖခွပ်တမ်း ကစားခြင်းကိုလည်း မြန်မာ ကလေးများ နှစ်ခြိုက်ကြလေသည်။

ကစားရာတွင် အရေအတွက်ကို မကန့်သတ်ချေ။ ကစားသူများသည် ရပ်နေကြပြီးလျှင် ခြေတဖက်ကို တလှည့်စီ မြှောက်ပြီးလျှင် —

ကြက်ဖ တိန်ညင် တောကိုင်
မောင်ရင်လာ လေးနှင့်ပစ်
မပစ်ပါနှင့် မောင်ရင်ရယ်
ကြက်တက် စူးပမယ်
ဗယ်ဖက်က စူးစူး
ညာဖက်က စူးစူး
ခွပ်လိုက်ကြစို့ သူငယ်ချင်း
အောက်အစ်အစ် အွတ်

ဟူ၍ သံပြိုင်သီဆိုကြသည်။ နောက်ဆုံး စကားလုံး ဖြစ်သော အွတ်ဆိုသည့်စကားလုံးသို့ ရောက်သော အခါတွင် အားလုံး ဆောင့်ကြောင့် ထိုင်လိုက်ကြပြီးသော် ခြေတဖက်ကို တလှည့်စီ ရှေ့သို့ ထိုးလိုက် ပြန်သိမ်းလိုက် လုပ်ပြီးလျှင် အခြား တဖက်ကိုလည်း ရှေ့သို့တိုးလိုက် ပြန်၍သိမ်းလိုက် လုပ်ကာ ကစားကြသည်။ လက်များကိုမူ ခါးတွင်ထောက်ထားလေ့ရှိကြသည်။ ထိုသို့ ခွပ်နေကြစဉ်တွင် ကြက်သွန်ဖြူ၊ ခုနစ်တက် နင်နှင့်ငါနှင့် တချက်ချက် ဟူ၍ လက်ညှိုးကလေးများကို ထောင်ကြပြီးလျှင် လက်ညှိုးချင်းကို ထိအောင် လုပ်ပေးကြလေသည်။ ထိုသို့ ကြက်ခွပ်ကြသည်မှာ တစုံတယောက်က မောပန်းသဖြင့် မခွပ်နိုင်တော့သည် အထိ ဖြစ်သည်။

တခါတရံတွင် ကလေးများ စု၍ တဖက်စီတွင် လူဦးရေ ချင်း တူအောင် နှစ်ဖက်ခွဲပြီးလျှင် တယောက်ချင်းကို ယှဉ်ပြိုင်၍ ခွပ်စေကြသည်။

ထိုသို့ တဖက်စီမှ တယောက်ချင်း ယှဉ်ပြိုင်ကြသောအခါတွင် အားလုံးက ဝိုင်းဖွဲ့ကာ

ငါတို့ဖက်က နိုင် နိုင်
ရွှေဖလားနှင့် ကြက်သား ကိုင်
သူတို့ဖက်က ရှုံးရှုံး
ကြေးဖလားနှင့် ကြက်သားတုံး

ဟူ၍ သီဆိုလေ့ ရှိကြလေသည်။ ထိုသို့ လူခွဲ၍ ကစားကာ တဦးချင်း ယှဉ်ပြိုင်ရာ၌ အနိုင်များသည့်ဖက်မှ အနိုင်ရရှိလေသည်။ တခါတရံတွင် တယောက်တည်းက ဆက်၍ လာပြိုင်သမျှကို မလျှော့တမ်း ခွပ်လေ့ရှိသည်ကိုလည်း တွေ့ရလေသည်။

ထိုပြင် ပေါ်လာသည်မှာ များစွာ မကြာလှသေးဟု ထင်ရသော အင်္ဂလိပ်ကြက်ဖ ခွပ်တမ်း ကစားနည်းကိုလည်း မြန်မာကလေးများ နှစ်ခြိုက်စွာကစားကြသည်ကို တွေ့နိုင်သေးသည်။

ထိုကစားနည်းတွင် ကစားသူများသည် ရပ်၍ နေကြပြီးမှ အင်္ဂလိပ် ကြက်ဖ၊ ဗိုလ်ကြက်ဖ၊ အင်္ဂလိပ် ကြက်ဖ၊ ဗိုလ်ကြက်ဖ ဟုဆိုကာ ခုန်ကြယင်း ခြေတဖက်စီကို တလှည့်စီ ရှေ့သို့ ထိုးထုတ်ကြလေသည်။

ဖန်ခုန်တမ်း ကစားခြင်းကိုလည်း မြန်မာ ကလေးများ ကစားလေ့ ရှိကြသည်။ ဤကစားနည်းတွင် မိန်းကလေး

များချည်းသာ ကစားလေ့ ရှိကြလေသည်။ ကစားရာတွင် ဦးစွာ၌ မိန်းကလေး နှစ်ဦးက မြေကြီးပေါ်တွင် မျက်နှာချင်းဆိုင် ထိုင်ကြရပြီးမှ ခြေထောက်များကို ဆင်းထားကြပြီးလျှင် ခြေဖဝါးချင်း ထိသည် အထိ ပြင်၍ ထိုင်ကြသည်။ ထိုနောက် ခြေထောက်တဖက်၏ ခြေချောင်းကလေးများ ပေါ်တွင် အခြား ခြေထောက်တဖက်၏ ဖနောင့်ကို တင်လိုက်ပြီးလျှင် အခြားတယောက်ကလည်း သူ၏ခြေထောက်၏ ဖနောင့်ကို ပဌမ ကစားသူ၏ ဒုတိယ ခြေထောက်၏ ခြေဖျားများပေါ်တွင် တင်လိုက်သည်။ ပြီးလျှင် နောက်ခြေတဖက်၏ ဖနောင့်ကိုပါ ပဌမ ခြေထောက်၏ ခြေချောင်းများပေါ်တွင် တင်လိုက်ပြန်သည်။ ထိုသို့ ခြေဖဝါးလေးခု တခုပေါ် တခု တင်ထားသည်ကို ကစားသူ တယောက်က လွှတ်အောင် ခုန်ရလေသည်။ ထိုသို့ ခုန်လိုက်ရာတွင် လွှတ်လျှင် မျက်နှာချင်းဆိုင် ထိုင်နေသော ကစားသူ နှစ်ဦးအနက် တဦးက သူ၏ လက်ကိုတင်လိုက်ပြီးလျှင် လက်မကို ခြေမပေါ်တွင် တင်၍ အပေါ်သို့ မြှောက်၍ ထွာထားလိုက်လေသည်။ ပြီးလျှင် ခုန်သူကို အခုန်ခိုင်းသည်။ ခုန်ရာ၌ လွှတ်လျှင် နောက်တဖန် ကျန်လက်တဖက်ကို ပဌမ လက်တဖက်ကဲ့သို့ ထွာထားပြန်သည်။ ပြီးလျှင် ခုန်စေပြန်သည်။ ထိုအချိန်၌လည်း လွှတ်သေးလျှင် အခြားတယောက်၏ လက်ကို ထွာစေပြီးလျှင် အခုန်ခိုင်းပြန်သည်။ ထိုအချိန်၌လည်း လွှတ်အောင် ခုန်နိုင်သေးလျှင် အခြား လက်တဖက်ဖြင့် ထွာ ထားပြန်သည်။ ပြီးလျှင် ခုန်စေပြန်သည်။ လွှတ်အောင်မခုန်နိုင်လျှင် ထိုသူသည် ထိုင်သူအဖြစ် ဆောင်ရွက်ရသည်။ မျက်နှာချင်းဆိုင်နှစ်ယောက်၏ ခြေလေးဖက်နှင့် လေးထွာကို လွှတ်အောင် ခုန်နိုင်လျှင် ဘေးမှ ကစားသူ တယောက်က ထိုင်နေသူ နှစ်ယောက်အနက် တယောက်အနီး ဘေးတွင် ဝင်ထိုင်လိုက်ပြီးလျှင် ကူ၍ ထွာပေးရလေသည်။ ထိုနှစ်ထွာကိုပင် လွှတ်အောင် ခုန်နိုင်လျှင် အခြားကစားသူ တဦးက ပထမ ဝင်ကူသူနှင့် မျက်နှာချင်းဆိုင်ဖက်ရှိ ကစားသူ၏ ဘေးတွင် ဝင်ထိုင်လိုက်ပြီးလျှင် သူ၏ အထွာများဖြင့် ကူ၍ မြင့်စေလေသည်။ လွှတ်အောင် မခုန်နိုင် သူက ခြေထောက်များကို ဆင့်၍ ပေးခြင်းဖြင့် တလှည့်စီ ကစားသွားနိုင်လေသည်။

ထိုသို့ အမြင့်ခုန်နိုင်သော အခါတွင် မျက်နှာချင်းဆိုင် ထိုင်နေသော ကစားသူ နှစ်ဦးသည် သူတို့၏ ခြေထောက်များကို ကားလိုက် ကြလေသည်။ ထိုအခါ ခြေထောက် လေးချောင်းသည် လေးထောင့်နီးပါး ဖြစ်နေလေသည်။ ထိုသို့ ဖြစ်နေသည့် ကွက်လပ်အတွင်းသို့ ခုန်သူ၏ ခြေထောက်တဖက်ကို ထားပြီးလျှင် ကျန်တဖက်ကို အပြင်တွင် ထားလေသည်။ ထိုနောက် ခုန်ပြီးလျှင် ခြေထောက်ချင်းကို လဲလိုက် ရလေသည်။ တခါတရံတွင် ထိုသို့ မခုန်ဘဲ ခြေထောက် လေးချောင်းကြောင့် ဖြစ်ပေါ်နေသော လေးထောင့်နီးပါးကို အတွင်းသို့ ခြေထောက် မကျစေဘဲ လွှတ်အောင် ခုန်ရလေသည်။ ပဌမနည်းဖြင့် ခြေထောက် တဖက်စီကို တလှည့်စီ အတွင်းနှင့်အပြင်သို့ ကျအောင် ခုန်စဉ်တွင် မူးစေ့၊ မတ်စေ့၊ ကျပ်ပြား၊ ဒင်္ဂါး၊ မုံ့ဝယ်စား၊ ဗိုက်ကား၊ သေလိုက် ဟူ၍ တခါခုန်လျှင် တမျိုးစီ ဆိုသွားလေ့ရှိသည်။

ဇယ်တောက်ခြင်းကိုလည်း မြန်မာ ကလေးများ နှစ်ခြိုက်ကြလေသည်။ ဇယ်အဖြစ် ဩဇာစေ့ မန်ကျည်းစေ့စသည်တို့ကို အသုံးပြုလေ့ရှိကြသည်။ ကစားသူများလျှင် ထည့်၍ ကစားသည့် ဩဇာစေ့၏ အရေအတွက်ကို လျှော့၍ ထည့်ကြလေသည်။ ဇယ်တောက်ခြင်းကို ဝါသနာပါသူများများ ရှိပြီးလျှင် နေရာလွတ် ကျယ်ကျယ်သာရှိလျှင် အုန်းမှုတ်ခွက် တခုကို မြေကြီးတွင် မြှုပ်ထားပြီးသော် ထိုအုန်းမှုတ်ခွက် အနီးအနားတွင် ရှင်းထားလေ့ ရှိကြသည်။ စကားစပ်မိသောအခါတွင်မှ ကစားကြလျှင်မူ တွင်းတတွင်းကို တုတ်တချောင်းဖြင့် တူးလေ့ ရှိကြသည်။ မြေပျော့လျှင် လက်ဖြင့်ပင် တွင်းဖြစ်လာအောင် ယက်ပေးကြလေသည်။ တခါတရံတွင် တွင်းကိုပင်မတူးကြတော့ဘဲ သာမန်အားဖြင့် တွင်းအမှတ်အသားပြုလုပ်ကစားကြလေသည်။ ပြီးလျှင် ထိုတွင်း၊ သို့မဟုတ် တွင်းအမှတ်အသား ပြုလုပ်ထားသော နေရာ၏ ဘေးတွင် လက်ဝါးကို ဖြန့်ခံထားပြီးလျှင် ဇယ်စေ့များကို လက်ဝါးနှင့် ထိအောင် ပစ်လိုက်ရသည်။ တွင်းထဲသို့ကား ဇယ်စေ့များကို မဝင်စေရပေ။ ပြီးလျှင် အပိုင်ကစားသူ တဦးဦးက တွင်းထဲသို့ ဇယ်စေ့များကို ဝင်အောင် တောက်နိုင်ရန် ခဲယဉ်းမည် ဟုထင်ရသော ဇယ်စေ့တစေ့ကို ရွေးချယ်၍ အတောက် ခိုင်းလေသည်။ ထိုအခါ ဇယ်တောက်သူက ထိုပြလိုက်သည့် ဇယ်ကို တွင်းထဲသို့ ဝင်အောင် လက်မနှင့် လက်ညှိုးကို အသုံးပြု၍ဖြစ်စေ၊ လက်တချောင်းတည်းကိုပင် အသုံး ပြု၍ ဖြစ်စေ တောက်ရသည်။ တွင်းထဲသို့ ထိုဇယ်ဝင်သွားလျှင် နောက် သူကြိုက်သည့် ဇယ်ကို တွင်းထဲသို့ တောက်၍ သွင်းနိုင်လေသည်။ တွင်းထဲသို့ မဝင်လျှင် သူ ရှုံး၍ အခြား တယောက်က တောက်ရလေသည်။ တွင်းထဲသို့ ဇယ်ကုန်သည် အထိ တောက်သွင်း ရလေသည်။ ဇယ်ကုန်သော် ပြန်၍ စုကြပြီးလျှင် တဖန်ကစားကြပြန်သည်။

ဇယ်ခုတ်တမ်းလည်း မြန်မာကလေးများ ကစားလေ့ရှိကြလေသည်။ တတ်နိုင်က ဇယ်အဖြစ် တလက်မ၏ ရှစ်ပုံသုံးပုံရှိသော ကျောက်စရစ်ခဲများကို အသုံးပြုကြ လေသည်။ ဇယ်ခုနစ်စေ့ ရှိသည်။ စ၍ ကစားသူကို ရွေးရာတွင် များသောအားဖြင့် အချင်းချင်း သဘောတူသူကို ရွေးချယ်လေ့ ရှိကြသော်လည်း တခါတရံတွင်မူ ထိုဇယ်ခုနစ်လုံးကို အပေါ်သို့ တပေမျှ မြင့်သည်အထိ မြှောက်၍ ကျလာ

သော ဇယ်အားလုံးကို လက်ဖမိုးပေါ်တွင် တင်စေရသည်။ ပြီးလျှင် တဖန် ပြန်မြှောက်၍ ဇယ်အားလုံးကို မိအောင် ဖမ်းယူရလေသည်။ ထိုသို့ ဇယ်များ မကျအောင် ပြုလုပ်နိုင်သူကို စ၍ ကစားစေသည်။

ပဌမ စ၍ ကစားသော အခါတွင် ဇယ်ခြောက်လုံးကို ရှင်းလင်း ထားသည့် မြေကြီးပေါ်တွင် ဖြန့်လိုက်ရသည်။ ပြီးလျှင် ကျန်သည့်ဇယ်တလုံးကိုအပေါ်သို့ တပေမျှမြှောက်ကာ ထိုဇယ် အောက်သို့မကျမီ အောက်ရှိ ဇယ်တလုံးကို ကောက်၍ အောက်သို့ကျလာသော ဇယ်ကို မြေကြီးပေါ်သို့ မကျမီ မိအောင် ဖမ်းယူရလေသည်။ ထိုသို့ ဖမ်းယူပြီးလျှင် လက်ထဲရှိ ဇယ်နှစ်လုံးအနက် တလုံးကို လက်တဖက်သို့ ပြောင်း၍ ယူလိုက်ကာ တဖန် ဇယ်တလုံးကို ရှေးနည်း အတိုင်း အပေါ်သို့မြှောက်၍ အောက်ရှိဇယ်တလုံးကိုကောက်ပြီးလျှင် ထိုကျလာသည့် ဇယ်ကို ဖမ်းယူရလေသည်။ ထိုသို့ အောက်ရှိ ဇယ်တလုံးကို ကောက်ယူစဉ် အခြား ဇယ်ကို မထိစေရချေ။ ထိလျှင် အရှုံးပေးရလေသည်။

ထိုသို့ ဇယ်တလုံးစီကို ကောက်ယူ၍ ပြီးလျှင် ဒုတိယ အကြိမ်တွင် ဇယ်နှစ်လုံးစီကို ကောက်ယူရလေသည်။ ဇယ်နှစ်လုံးစီကို ကောက်ယူပြီးသော အခါတွင် ဇယ်နှစ်လုံးကို တကြိမ်တွင် ကောက်ယူ၍ နောက်တကြိမ်တွင် ဇယ်လေးလုံးကို ကောက်ယူ ရလေသည်။ ထိုသို့ ကောက်ယူနိုင်ပြန်လျှင် ဇယ်ငါးလုံးကို တကြိမ်တွင် ကောက်ယူ၍ နောက်တကြိမ်တွင် ဇယ်တလုံးကို ကောက်ယူရလေသည်။ ထိုနောက် ဇယ်ခြောက်လုံးကို တကြိမ်တည်းနှင့် ကောက်ယူရလေသည်။ ထိုသို့ကောက်ယူနိုင်လျှင် ဇယ်သုံးလုံးကိုဖယ်၍ ကျန်ဇယ်လေးလုံးကို တလုံးအား အပေါ်သို့မြှောက်၍ ကျန် သုံးလုံးကို မြေကြီးပေါ်တွင် လက်တဖက်တည်းနှင့် စုထားပြီးလျှင် မြှောက်လိုက်သော ဇယ် မြေကြီးပေါ်သို့ မကျမီ မြေကြီးပေါ်၌ စုထားပြီးဖြစ်သည့် ဇယ်သုံးလုံးကို ကောက်ယူပြီးလျှင် မြှောက်လိုက်သော ဇယ်ကို မိအောင် ဖမ်းယူရလေသည်။ ထိုနည်းအတိုင်း သုံးကြိမ် ဇယ်မကျအောင် ဖမ်းယူရလေသည်။

ဇယ် ကောက်ယူရာတွင် အခြားဇယ်တလုံးကို ထိ၍ ဖယ်ပေးရသည် ဖြစ်စေ၊ အောက်သို့ ပြန်ကျလာသော အခါ ဇယ်ကို မိအောင် မဖမ်းနိုင်၍ ဖယ်ပေးရသည် ဖြစ်စေ ထိုကစားသူ၏ အလှည့်သို့ ပြန်ရောက်လာသော အခါတွင် အစမှပင် ပြန်၍ စလုပ်ရလေသည်။

မခြင်ထောင် ကစားခြင်းကိုလည်း မြန်မာကလေးများ ကစားလေ့ ရှိကြ၏။ အထူးသဖြင့် ငယ်ရွယ်သော ကလေးများက နှစ်ခြိုက် ကြလေသည်။ ကစားရာတွင် ကလေးခြောက်ယောက်မှ ဆဲနှစ်ယောက် အထိ ကစားနိုင်လေသည်။ ကစားသူများက လက်များကိုဆက်ထားကြပြီးလျှင် ဝိုင်းထား ကြသည်။ အရွယ်အကြီးဆုံး၊ သို့မဟုတ် ကစားတတ်သည့် ကလေးက အလယ်တွင် ရပ်နေပြီးလျှင် မခြင်ထောင် ဘယ်လောက် ပေးရတယ် ဟုအော်ကာ မေးလိုက်သောအခါ အားလုံးကဝိုင်း၍ ငါးမူးပဲတင်းပေးရတယ်ဟု ပြန်အော်ပြောလိုက်ကြသည်။ ထိုအခါ အလယ်တွင် နေသူက ဘယ်လောက် ရှည်သလဲ ဟုအော်၍ မေးလိုက်သော အခါ လက်များကိုဆက်ထားကြသော ကလေးများက ဟောသည်လောက်ကြီး ရှည်တယ်ဟူ၍ အော်ပြောကြပြီးလျှင် သူတို့၏ လက်ကလေးများကို ဆန့်နိုင်သမျှ ဆန့်လိုက်ကြလေသည်။ ဘယ်လောက် ကျဉ်းသလဲဟု အော်၍ မေးလိုက်ပြန်သော အခါတွင် သည်လောက် ကလေး ကျဉ်းတယ် ဟူ၍ အော်ပြောလိုက်ကြပြီးလျှင် သူတို့၏ လက်ကလေးများကို ကျုံ့လိုက်ကြလေသည်။ ထိုနောက်မှ နေမြဲအတိုင်း ပြန်၍ နေကြလေသည်။ ပြီးလျှင် အလယ်၌နေသူက ငါ့ကို ရောင်းပါကွယ်ဟုပြောလိုက်ရာ မေမေ ဆူလိမ့်မယ် ဟူ၍ အားလုံးက ဝိုင်းအော်ကြလေသည်။ ထိုအခါ အလယ်၌ရှိသူက မေမေဆူလျှင် ငါ့ဆီလာခဲ့ဟု ပြောလိုက်ပြီးလျှင် ဝိုင်းကြီး ပတ်ပတ် ဒူဝေဝေ ဝိုင်းကြီးပတ်ပတ် ဒူဝေဝေ ဟူ၍ ဆိုကာ လှည့်ပတ်၍ ပြေးလေ့ရှိကြလေသည်။ များသောအားဖြင့် လကျာရစ် လှည့်လေ့ရှိကြသည်။ ထိုသို့ လှည့်ပတ်၍ ပြေးကြရာတွင် ဝိုင်းပြုတ်၍ မသွားမခြင်း ပြေးကြလေသည်။

တူတူပုန်းတမ်း ကစားခြင်းကိုလည်း မြန်မာကလေးများက လွန်စွာ နှစ်ခြိုက်ကြလေသည်။ ကစားရာတွင် လိုက်ရှာရမည့် ကလေးကို နှီးဆီခွက်တခုကို ဖြစ်စေ၊ အခြား ပစ္စည်းတခုကို ဖြစ်စေ တော်တော်ဝေးရာသို့ လွှင့်ပစ်လိုက်ပြီးလျှင် လိုက်၍ ကောက်စေသည်။ ထိုသို့ ပစ္စည်းကို ပြေး၍ကောက်နေစဉ် အခြားကစားသည့် ကလေးများက သင့်တော်သည့် ချောင်ကြို ချောင်ကြားများတွင် ဝင်၍ ပုန်း နေကြလေသည်။ နှီးဆီခွက်လိုက်ကောက်ပြီးလျှင် ပြန်ရောက်လာသော ကလေးသည် ပုန်းနေသော ကလေးများကို လိုက်၍ ရှာရလေသည်။ တွေ့အောင် မရှာနိုင်လျှင် ပန်းပေးပြီဟု အော်ပြောလိုက်ရ၍၊ ထိုအခါ ပုန်းနေကြသောကလေးများသည် ထွက်လာကြပြီးလျှင် ထိုကလေးကိုပင် ပြန်၍ လိုက်အရှာခိုင်းကြပြန်သည်။ အကယ်၍ နှီးဆီခွက်ကို ပြေးကောက်၍ ပြန်လာသော ကလေးသည် ကလေး တယောက်ယောက်ကိုသာ တွေ့အောင် ရှာနိုင်လျှင်၊ ဥပမာ အနေဖြင့် "မောင်စိန် တွေ့ပြီဟေ့" ဟုဆိုကာ မြေကြီးပေါ်တွင် သူကောက်ယူလာသည့် နှီးဆီခွက်ဖြင့် သုံးချက်ခေါက်၍ အော်ပြောလိုက်လျှင် ကျန်ကလေးများသည် ပုန်းနေသည့်နေရာ အသီးအသီးမှ ထွက်လာကြကာ ပဌမ စ၍ အတွေ့ခံရသူကို လိုက်အရှာခိုင်းကြပြန်သည်။ ထိုနည်းဖြင့် ပျော်ရွှင်စွာ ကစားကြလေသည်။

**မြန်မာကလေးချော့ကဗျာများ။** ။နွဲ့ဆိုး ဆိုးလျက် တအာအာ တအီအီ ကန်ကျောက် ငိုမြည်နေသော မိမိတို့၏ ရင်သွေး နုနယ်ကွေးလွေး ကလေးသူငယ်တို့အား သာယာ ငြိမ့်ငြောင်းသော အသံ၌ အာရုံစိုက်၍ အိပ်ပျော်စေရန် မိခင် တို့သည် သီချင်းဆို၍ သိပ်ကြရသည်။ ငယ်ရာမှ ကြီးခဲ့သော ကျွန်ုပ်တို့သည် မိမိတို့ကိုယ်တိုင် မိခင်က သီချင်း ဆိုသိပ်၍ အိပ်ပျော် ခဲ့သည်ကို မမှတ်မိခဲ့ကြစေကာမူ ရင်သွေးငယ်တို့ အိပ်ပျော်စေရန် သားသည်မိခင်တို့က တေးဆို၍ သိပ်ခဲ့ကြရ သည်ကိုကား၊ မိမိတို့တသက်လျာတွင် မြင်ဘူး၊တွေ့ဘူး၊ကြား ဘူး ရှိကြပေလိမ့်မည်။ ကလေးတို့ အိပ်ပျော်စေရန် ချော့ သိပ်ယင်း၊ သို့မဟုတ် ပုခက်လွှဲသိပ်ယင်း သီဆိုကြသောသီ ချင်းများ ဖြစ်ကြ၍၊ ယင်းတေးကဗျာစုတို့ကို ကလေးချော့ ကဗျာ၊ သို့မဟုတ် သားချော့ကဗျာ၊ သို့မဟုတ် ပုခက်လွှဲ ကဗျာဟု ခေါ်ဆိုခဲ့ကြလေသည်။

ကမ္ဘာပေါ်ရှိ လူမျိုး အသီးအသီးတို့၌ လူမျိုး အလိုက် ကလေးချော့ကဗျာများ ရှိကြသည်ချည်း ဖြစ်ရာ၊ ထိုကလေး ချော့ကဗျာများသည် တေးဂီတပေါ်ဦးစအခါကပင် ရှိနေခဲ့ မည်ဟု ယူဆရန် ရှိ၍၊ အချို့ကမူ 'တေးကဗျာ အစ၊ ကလေး ချော့က' ဟုပင် ဆိုကြသည်။ နေရာဒေသနှင့် ဓလေ့ ထုံးစံ အလိုက် စပ်ဆိုကြခြင်းဖြစ်၍၊ အကြောင်းခြင်းရာနှင့် တေး သွားစသည်တို့၌ ကွဲပြားမှု ရှိစေကာမူ၊ ယေဘုယျအားဖြင့် ကလေးချော့တေးကဗျာတို့ကို အေးငြိမ့်သာယာသောတေး သွားမျိုးဖြင့် စပ်ဆိုလေ့ ရှိကြပြီးလျှင်၊ ခက်ခဲနက်နဲသော စကားလုံးများ မပါဘဲ၊ ကလေးများ၏ ပတ်ဝန်းကျင်၌ တွေ့ လွယ်၊ မြင်လွယ်၊ သဘောပေါက်လွယ် နိုင်သော အကြောင်း ခြင်းရာတို့ကိုသာ တေးသား စကားလုံးများ အဖြစ် သုံးနှုန်း ထားလေ့ ရှိကြလေသည်။

မြန်မာတို့၏ ယဉ်ကျေးမှုဆိုင်ရာ ကဗျာ လက်ာတို့၌ ထိုက လေးချော့ကဗျာစုတို့ကို ချောင်း၊ကျူးချင်း၊ လွှဲချင်းဟူသော အမည်များဖြင့် ခေါ်ဝေါ်ကြ၍၊ ထီးသုံး နန်းသုံး မဟာ ဂီတဆိုင်ရာ သီချင်းစု၌မူ၊ ထိုကလေးချော့ သီချင်းများကို 'ပိမ္ဗာသားကျူး' ဟူ၍၎င်း၊ 'ပိမ္ဗာလွှဲချင်း' ဟူ၍၎င်း၊ 'ယဉ် တော်ချင်း' ဟူ၍၎င်း ခေါ်ဆိုကြလေသည်။ အရပ် အသုံး အနှုန်းအားဖြင့်မူ ယင်းတို့ကို သားချော့သီချင်းများ ဟူ၍ ၎င်း၊ ကလေးချော့ သီချင်းများဟူ၍၎င်း သာမန်အားဖြင့် ခေါ်ဝေါ်သုံးစွဲကြ၍ ထယ်ဝါခန့်ညားသော အမည်နာမ မရ ကြရသည့်ပြင် အရေးအရာ ထားခြင်းလည်း မခံခဲ့ရပေရာ၊ အရပ်သုံး ကလေးချော့ ကဗျာများ၏ နောက်ကြောင်း သမိုင်းသည် မထင်မရှား ရှိခဲ့လေသည်။

ထီးသုံး နန်းသုံး ကလေးချော့ကဗျာစုသည် အရပ်သုံး ကလေးချော့ ကဗျာများထက် အရေးအရာ ရောက်ခဲ့သည်။ အဖွဲ့ အနွဲ့ တို့သည်လည်း ထီးသံနန်းသံ ပါပါ စပ်ဆိုထားပြီး လျှင် အယဉ်အနု အသုံးအနှုန်း အသိုင်းအဝိုင်းများဖြင့် အ လင်္ကာတန်ဆာဆင်မှုများလည်း များပြားသည်။ မင်းတို့ ထုံးတမ်း မင်းခမ်းတော်ဆိုင်ရာတို့တွင် သားတော်သမီးတော် များ ဖွားမြင်တော်မူ၍၊ မြပုခက်တင် မင်္ဂလာကျင်းပသည့် အခါ၊ အမတ်စာဆို ပညာရှိတို့က 'ချောင်း' ကဗျာ လင်္ကာ များကို ရေးသားဆက်သွင်း၍ ဝေါကြီးမှူး၊ ပျော့ကြီးမှူး စာ ဆိုတော်များက ဖတ်လျှောက်သီဆို၍ ရွှေနားတော်သွင်းကြ ရသည်။ ထိုချောင်းများသည်ကား သားတော် သမီးတော်နှင့် ယင်းတို့၏ ဆွေတော် မျိုးတော် ဘိုးစဉ် ဘောင်ဆက်တို့၏ ဘုန်းလက်ရုံး တန်ခိုးတေဇာတို့ကို ဖွဲ့ဆို၍ ဇာတိမာန်ကို လှုံ့ ဆော်ပေးသော အဖွဲ့အနွဲ့များဖြစ်သည်။(ချောင်း — လည်း ရှု။) ထိုချောင်းများမှတပါး အထိန်းတော် အချီတော်တို့က သားတော် သမီးတော်များအား မြပုခက်တွင်တင်၍ ယဉ် ကျူးပြီးလျှင် ချော့မော့ရသော တေးကဗျာများကို 'ကျူး ချင်း'၊ 'လွှဲချင်း'၊ 'ယဉ်တော်ချင်း' ဟု ခေါ်ဆိုကြ၍၊ အောက်ပါတို့သည် ထို အဖွဲ့အနွဲ့မျိုး၏ နမူနာပုံစံများ ဖြစ် ကြလေသည်။

### ကျူးချင်း

ဘေ့ဂဗ္ဗနာ၊ သဗ္ဗာကြော့ဦး၊ မြတ်ထွတ်ဖူးကို၊ ထိပ် ဦးချွေသ၊ တင်ဆက်ပမည်၊ ပဉ္စမသင်္ဂါယနာတင်၊ နတ်ရှင် ရှင့်ဘိုး၊ တည်ထောင်စိုးပေသည့်၊ မှောင် မျိုးနှိမ်လှင့် ပြည်ရန်လုံ။

### လွှဲချင်း (ယဉ်တော်ချင်း)

အေးကျူးသံချိုညှင်းတယ်ကိုလေ။ အေးကျူး သံ ချိုညှင်း၊ ဆင်စွယ်လေ ဝန်းယှက်၊ ယဉ် မြပုခက် ကယ်နှင့် လေး။ အိုမစက်ကယ်ပါလို့၊ နွဲ့ကာ နွဲ့ကာ ငို၊ စက်ပါဆို မောင်ဒွေး၊ စက်တော့လေး။

ရွှေနန်းစဉ်လာ မဟာဂီတ စာရင်း၌ သားချော့ဆိုင်ရာ ပတ်ပျိုး၊ ယိုးဒယား၊ မွန်သံ စသော သီချင်းများလည်း ရှိ သေးသည်။ ယခု 'တွင်းသိင်္ဂါပတ်ပျိုး' ဟူသော အမည်ဖြင့် ထင်ရှားသော 'သိင်္ဂါရွှေရောင်' အစချီပတ်ပျိုးသည် ပုဂံ ထိပ်ထား၏ မြပုခက်တင် မင်္ဂလာတွင် ပြင်စည်မင်းသား ရေးသားဆက်သွင်းသော ပိမ္ဗာလွှဲချင်း ပတ်ပျိုး တပုဒ်ဖြစ် သည်။ မြဝတီ မင်းကြီး၏ 'ရွှေဘုန်းသမ္ဘာရှိန်လေတည့်မှ နေနှုန်းအသမ္ဘိန်' အစချီသော ပတ်ပျိုးသည်လည်း အိမ်နောင် ဇာတ်တွင်အိမ်နောင်မင်းသား၏ကျူးချင်းပတ်ပျိုးဖြစ်သည်။ ဝက်မစွတ်မြို့စား မင်းကြီးမင်းထင် မဟာစည်သူ ရေးသည့် 'မန်းအောင်မြေခင်း' အစချီပတ်ပျိုး၊ 'စိန်ခြူးအုံ မှုံညာရွှေ' အစချီ ယိုးဒယားသီချင်းတို့သည်လည်း ယဉ်တော်ချင်း များဖြစ်ကြလေသည်။ ထိုပြင် ပြင်စည်မင်းသား၏ 'စိန်မြရံ

ခြယ်’ အစချီနှင့် ‘သောင်းကျေး ဒီပါဘွေ’ အစချီ မွန်သံနှစ်ပုဒ်တို့သည်လည်း ပိမ္မာသားလွှဲချင်း ဟူသော အမည်ဖြင့် ဂီတနယ်တွင် ထင်ရှားကြလေသည်။

ယင်းသို့ ထီးသုံးနန်းသုံးသားချော့သီချင်းတို့သည် ချောင်း၊ လွှဲချင်း၊ ကျူးချင်းစသည်ဖြင့် ထယ်ဝါခန့်ညားသော အမည်နာမတို့ဖြင့် ထင်ရှားနာမည်ကြီးလျက်၊ အရပ်သုံး ကလေးချော့ သီချင်းတို့သည်မူ မျက်နှာငယ် ခဲ့ကြသည်။ ထိုသို့ ခြားနားကြရခြင်းမှာ တော်ဝင်မင်းသုံး ကလေးချော့ သီချင်းတို့သည် ထင်ရှားသော စာဆိုပညာရှိ၊ ကဝိအမော်တို့က ရွှေဘုံနိဒါန်း မင်းခမ်းတော်ဆိုင်ရာ လင်္ကာမှု၊ အနုအယဉ်၊ တော်ဝင်မင်းသုံး စကားလုံးတို့ဖြင့် ထီးသံနန်းသံ ဆန်ဆန်ဖြင့် ဖွဲ့နွဲ့ထားသော ကဗျာစုများ ဖြစ်ကြ၍ ထီးသုံးနန်းသုံး ဖြစ်ကြသည်။ အရပ်သုံး သားချော့ သီချင်းများသည်မူ ရွာသူတို့ အသုံးအနှုန်း ရိုးသားသော စကားလုံးတို့ဖြင့် ထီးသံ နန်းသံ မပါ၊ အလင်္ကာ ဟူသော အဆင်တန်ဆာ အဖွဲ့အနွဲ့ မရှိ၊ ပကတိမူလ သဘာဝအတိုင်း၊ အသိုင်းအဝိုင်း အမြောက်အပင့်တို့မှ ကင်းလွတ်စွာ ဖွဲ့နွဲ့ထားသော ကဗျာစုများ ဖြစ်ကြသောကြောင့် မထင်ပေါ် ခဲ့ရခြင်း ဖြစ်လေသည်။

ထိုသို့ ထီးသုံးနှင့် အရပ်သုံး သားချော့ သီချင်းများ၏ ခြားနားပုံကို ရှေးဦးစွာဆင်ခြင်မိသူမှာ လှိုင်ထိပ်ခေါင်တင် ဟု ကဗျာဝင်တွင် ထင်ပေါ် ကျော်ကြားသော ကနောင်မင်းသား၏ ကြင်ယာတော် မိဖုရား ဖြစ်လေသည်။ (လှိုင်ထိပ်ခေါင်တင် — လည်းရှု။)

လှိုင်မင်းသမီးသည် ကန်းဘောင်မင်း၏ အနောက်နန်းမိဖုရား မမြကလေး၏ သမီးတော် ဖြစ်၍၊ မမြကလေးသည် သာရဝေါ် ပဲ့နင်း ပုံချီနှင့် မယ်အိတို့၏သမီး အရပ်သူ ဖြစ်ခဲ့လေသည်။ ထိုကြောင့်ပင် လှိုင်ထိပ်ထားသည် ထီးရိပ် နန်းရိပ်အောက်တွင် ကြီးပြင်းလာခဲ့ရစေကာမူ၊ အရပ်သူ ဖြစ်ခဲ့သော မယ်တော်သည် အရပ်သားချော့ သီချင်းများဖြင့် ရံဖန်ရံခါ သမီးတော်ကလေးကို ချော့မော့နှစ်သိမ့်ခဲ့ပေမည်။ ထိုကြောင့် လှိုင်မင်းသမီးသည် ထိုသီချင်း အချို့ကို မှတ်မိတန်သလောက်မှတ်မိနေပေလိမ့်မည်။မင်းသမီးကလေးကိုယ်တော်တိုင်ကလည်း တော်ဝင်နန်းသုံး သားချော့သီချင်းများနှင့် အရပ်သုံးသီချင်းများ၏ ခြားနားမှုကို ရိပ်စားမိပြီးလျှင်၊ အရပ်သုံး ကလေးချော့ သီချင်းများသည် အမြောက်အပင့် အဖွဲ့အနွဲ့ မပါသော်လည်း၊ သာယာနာပျော်ဖွယ် ရှိကာ၊ နှစ်လိုဖွယ်ရာ ကောင်းပုံကို ပိုင်းခြားသိမြင်ခဲ့ဟန် တူပေသည်။ ထိုကြောင့် မိမိတွင် ထန်းတပင်မင်းသားဟူသော သားတော်ကလေးဖွားမြင်တော်မူ၍၊မြပုခက်တင်မင်္ဂလာဆင်ယင်ကျင်းပသည့် အခါ၊ အထိန်းတော် အချီတော်တို့က သီဆိုပြီးလျှင် ရွှေနားတော်သွင်းရန် ‘ရွှေဗျိုင်းညို’၊ ‘ကြောင်ဖားရယ် မြီးတံတို’၊ ‘ဟီးလေးပေါက်ပင်’ ဟူသော အရပ်သုံး သားချော့ သီချင်းသုံးပုဒ်ကို ထီးသုံးနန်းသုံး လွှဲချင်း၊ ကျူးချင်း၊ ယဉ်တော်ချင်းတို့နှင့် တတန်းစားတည်း ထားနိုင်၍ ထီးသုံး နန်းသုံး ဘဝသို့ ရောက်အောင် ရွှေဘုံနိဒါန်း မင်းခမ်း ဆိုင်ရာ အလင်္ကာ ဂုဏ်တို့ဖြင့် အသိုင်းအဝန်း ဖွဲ့ကာ တန်ဆာဆင်ပြီးလျှင် ‘ရေယမုန်’ အစချီသော ပိမ္မာလွှဲချင်း ပတ်ပျိုး တပုဒ်အဖြစ် ကိုယ်တော်တိုင် ရေးစပ် ဖွဲ့နွဲ့ သီကုံးခဲ့လေသည်။

ထိုပတ်ပျိုး အတွင်း၌ ထည့်သွင်း သုံးစွဲခဲ့သော အရပ်သုံး သားချော့ သီချင်း သုံးပုဒ်အနက်၊ ‘ရွှေဗျိုင်းညို၊ ရေကန်ရိုး၊ ထိုးတဲ့ငါးရှင်၊ ကျောင်းအောက်ကို ဝင်တယ်လေမှ၊ မကြီးငယ် ရွှေစာသင်’ ဟူသော သီချင်းကို ထီးသုံး တော်ဝင် ဖြစ်အောင် အောက်ပါအတိုင်း တန်ဆာ ဆင်လိုက်လေသည်။

‘ရေယမုန်၊ အမှုန်သီတာတိုင်းသို့လေ။ ။ငှက်လိမ္မာ၊ မကြာခေါင်စေ ခိုင်းမယ်ပလေး။ ။တောင်ဝိုင်းစုံလွှင့်၊ မြင့်တိမ်ယံဘွေ။ ရေယဉ်စီးပါတဲ့၊ မြစ်ကြီးငယ်သောင်ခြေ။ ။ ရွှေ ရွှေ ရွှေရောင်သား။ငွေငွေ ငွေရောင်သား။ ။မြရေယဉ်မှော်ပင်ကြား၊ မြူးစံတဲ့ငါး။ လေးမယ်ခင် နတ်သွင်ထား၊ ဘုန်းမယ်ရှိ့ သား။ နှုတ်ဖျား ဝါဝါ၊ ပန်းလှာငယ်ရွှေသွေး၊ချီကာယူလို့ပေး။ ကိုယ်မွေးတဲ့ သိင်္ဂါ၊ ဖြူစွာငွေသွေး၊ ကျောင်းဝင်ခဲ့လေး။ ရွှေဘုံသူ ကလေးတို့၊ ချီအေးသံသာ၊ စုံဆယ်လီရှိရှင် ညောင်းတယ်လေး၊ တောင်းယူခဲ့ပါ’ ဟူ၍ ဖွဲ့ဆိုလိုက်ရာ၊ ရေယမုန်၊ အမှုန်သီတာတိုင်း ဟူသော ရေအယဉ်တို့ တသွင်သွင် စီးဆင်းနေသည့် မြစ်ချောင်းများရှိရာ အရပ်သို့ မယ်မယ့် သားတော်အား ပေးရန် ငါးကောက်ဖို့ရာ ဗျိုင်းအလိမ္မာ ကလေးကို မယ်မယ် ထိပ်ခေါင်တင်က မကြာမီစေလွှတ်လိုက်မည်။ ဗျိုင်း အလိမ္မာကလေးသည် တောင်ပံနှစ်ဖက်ကို ဝိုင်းနေလေအောင် စုံခတ်၍၊ ကောင်းကင် ခရီးဖြင့် ငွေသဲသောင်ပြင်သို့ အလျင်အမြန် သွားပါလေ။ သဲသောင်ခုံသို့ ရောက်လျှင်၊ စိမ်းလန်းသော မှော်ပင်များ၏ အကြား၊ ကြည်လင်သော ရေပြင်အောက်၌ ကူးခတ် သွားလာနေကြသော ရွှေအရောင် ရွှေအဆင်းရှိသည့် ငါးကလေးများအား ငွေအရောင် ငွေအဆင်းရှိသော ဗျိုင်းအလိမ္မာကလေးက နှုတ်သီး ဝါဝါကလေးအကြားတွင် ကိုက်ချီယူ၍ ဆောင်လာပြီးလျှင်၊ ပန်းလှာပန်းချပ်တမျှ နုနယ်သော ခေါင်ထိပ်ထား၏ရွှေသွေး သားတော်ကလေးကို ပေးရန် ကျောင်းအောက်သို့ ဝင်လှည့်ပါ။ ငါးကလေးကိုချီ၍ ကျောင်းအောက်သို့ဝင်လာသော ဗျိုင်းအလိမ္မာကလေးထံမှ မင်္ဂလာဇေယျ ရွှေဘုံမြို့သူ အထိန်းတော် အချီတော်တို့က ဗျိုင်းကလေးအား ချော့မော့၍ ငါးကို တောင်းယူခဲ့ကြပါဟူ၍ ဆိုလိုရင်း ဖြစ်ပေသည်။

ထိုနောက် ‘ကြောင်ဖားကြီးရယ်တဲ့.... မြီးတံတို၊ အဆီကို စားပါလို့၊ အသားကိုမျှ၊ ကြောင်အိုပေမြေး၊ ကိုက်လိမ့်မယ်

လေး'ဟူသော သီချင်းကို အောက်ပါအတိုင်း ထီးသံ နန်းသံပါအောင် ဖွဲ့နွဲ့လိုက်ပြန်သည်။

'...နွဲ့နွဲ့မာန်ကိုးယယ်နှင့်၊ အို ဆိုးလိုက်တာ။ မြမျက်ရည် ဂေါ်ဇင်ညှာက၊ ငိုရှာလုနီး။ မေ့မောင်ကြီးရယ်တဲ့ စိန်ကြိုးသွယ်၊ ဟာ....တိတ်ပကွယ်၊ ကြောင်ညိုဖားယယ်လေး၊ စားတတ်လှတယ်' ဟု ဖွဲ့နွဲ့ထားသည်။ ဆိုလိုရင်းမှာ ဂေါ်သဇင်အညှာကဲ့သို့ နုနယ်လှသော သားတော်သည် မယ်မယ်အားနွဲ့ဆိုးဆိုးပြီးလျှင်၊ မျက်ရည်ပေါက် ကြီးများ ကျလုနီး ငိုနေပြန်လေပြီ။ စိန်ကြိုးသွယ်ကဲ့သို့ ရှုချင်ဖွယ် ကောင်းသော သားတော်မောင် အငိုမတိတ်ပါက ကြောင်ညိုဖားကြီးလာ၍ ကိုက်စားပေလိမ့်မည် ဟူသတည်း။

'ဟီးလေးရယ်တဲ့ ပေါက်ပင်၊ ရေပေါ် လွှမ်းပါတဲ့၊ ကန်စွန်းပင်၊ နေဝင်ခါနီး၊ ကန်စွန်းသီး' ဟူသော အရပ်သုံး သီချင်းကို ထီးသုံး နန်းသုံး ဆန်လေအောင် အဆင့်အတန်းမြှင့်၍ စပ်ဆိုလိုက်ပုံမှာ –

'.... ရေပေါ်မှာ လွှမ်းပါတဲ့၊ ကန်စွန်းနွယ်။ ဒေါင်းဖလ်ဝါ ရောင်စုံကွယ်တော့၊ ခိုင်ရွှေနွယ်သီး၊ ဇမ္ဗူရည်ထီးမှာတဲ့၊ အငြိုးတော်ပြေ၊ ယိုလေး သံသာ၊ စိန်ရိုးညှာ လှမယ်လေး၊ နွဲ့ဟန်လို့သာ' ဟူ၍ ဖြစ်သည်။ နေဝင်သည်ကို (ဒေါင်း ဖလ်ဝါ ရောင်စုံကွယ်တော့)ဟူ၍၎င်း၊ ကန်စွန်းသီးကို(ခိုင်ရွှေနွယ်သီး) ဟူ၍၎င်း ထီးသံ နန်းသံ ပါပါ သုံးနှုန်းထားလေသည်။ ထိုအပိုဒ်တွင် စိန်ရိုးစိန်ရွက် အခက်အညှာနှင့် တူသော သားတော်မောင် အငြိုးတော်ပြေစေရန် မယ်မယ်က 'ဟီးလေးပေါက်ပင်' သီချင်းဖြင့် ယိုယီးလေးယီး ဆိုပြီးလျှင် မြပုခက်ကို လွှဲ၍ သိပ်ပါမည်၊ မယ်မယ့်သားတော်ကလေးသည် အိပ်ပါလေတော့ ဟူသော အဓိပ္ပါယ်ဖြင့် ဖွဲ့နွဲ့ထားလေသည်။

ယင်းသို့ဖြင့် အရပ်သုံး သားချော့ သီချင်း သုံးပုဒ်သည် လှိုင်ထိပ်ထား၏ ကဗျာဉာဏ်ကြောင့် ရွှေနန်းစဉ်လာ မဟာဂီတစာရင်းဝင် 'ပိမ္မာလှဲ့ချင်း ပတ်ပျိုး' ဟူသော ထယ်ဝါ ခန့်ညားသည့်အမည်နာမကို ခံယူရသည့် ထီးသုံးနန်းသုံး ယောဉ်တော်ချင်း သီချင်းတပုဒ် ဖြစ်လာခဲ့လေသည်။

မြန်မာ သားချော့ကဗျာ အများအပြားရှိပေရာ၊ အထက်တွင် ဆိုခဲ့သည့် အတိုင်း အရပ်သုံး ကဗျာများသည် အရေးအရာ ထားခြင်း မခံခဲ့ရသည့်အတွက်၊ မည်သည့် ကဗျာသည် မည်သည့် ခေတ်က ပေါ်ထွက်ခဲ့သည်၊ မည်သည့် ကဗျာသည် အစောဆုံး ပေါ်ထွက်ခဲ့သည်ဟူ၍ ယင်းတို့၏ နောက်ကြောင်း သမိုင်းကို ပိုင်းခြား ခန့်မှန်း ပြနိုင်ရန် ခဲယဉ်းပေသည်။ 'ရေယမုန်' ပတ်ပျိုးပါ အရပ်သုံး ကလေးချော့ကဗျာ သုံးပုဒ်သာလျှင် လှိုင်မင်းသမီး၏ ကျေးဇူးကြောင့် ကုန်းဘောင်ခေတ်ပေါ် သီချင်းများတွင် ပါဝင် ခဲ့လေမည်ဟု ခန့်မှန်းရပေသည်။

ရှေးခေတ် အရပ်သုံး ကလေးချော့ သီချင်းအများအပြား ရှိခဲ့သည့်အနက်

'လူကလေးရယ်ငို၊ ခိုဖမ်းလို့ပေး။ ခိုဖြူခိုပြာ နက်ကယ် ဖမ်းခက်လှသေး'။ ။

ဟူသော သီချင်းသည် အသုံးများသော သီချင်းတပုဒ် ဖြစ်ခဲ့၍၊ မြန်မာကလေးသူငယ် များစွာတို့သည် မိခင်၊ အဒေါ်၊ မိကြီး၊ မိထွေးတို့၏ ထိုသီချင်း သီဆိုသံကို နားစိုက်ကာ နှစ်သိမ့် ကြည်နူးစွာဖြင့် အိပ်ပျော်ခဲ့ကြပေသည်။

ထိုအတူ 'လူကလေးရဲ့ ချော့စရာ။ မိတ္ထိလာ ကန်တော်အောက်က၊ ဖား ကောက်ခဲ့ပါ။ ဖားပါလျှင် တကောင် ပေးပါ့။ မျက်လုံးရယ် ကြောင်တောင်တောင်နှင့် ဖား ကောင်ကသေး။

ဟူသော သားချော့သီချင်းတွင် ကလေးများ စိတ်ဝင်စားသော 'ဖား' ကို ဖွဲ့ဆိုထားခဲ့၍ လူသိများသော သားချော့ သီချင်းတပုဒ် ဖြစ်သည်။

ထိုပြင် 'ရွှေလမှာ ယုန်ဝပ်လို့၊ ဆန်ဖွပ်သည့် အဖိုးအို။ ဟော ကြည့်ပါဆို။ ဆိုသာဆို၊ ပိုမိုသည့် စကား။ ကလေး အငိုတိတ်အောင်၊ အရိပ်အရောင် ပြတယ်၊ ဖိုးလ နတ်သား။'

ဟူသော ကလေးချော့ကဗျာသည်လည်း ကလေးများစွာတို့ စိတ်ဝင်စားသော သီချင်းတပုဒ်ဖြစ်သည်။ သီချင်းတွင် ပါသော လထဲ၌ ဝပ်နေသည့် ယုန်ကလေးနှင့် လထဲတွင် ဆန်ဖွပ်နေသောအဖိုးအိုတို့ကို ကလေးများစွာတို့သည် စိတ်ကူးဖြင့် တွေးကြည့်မိကြလေသည်။

ကလေးချော့ တေးကဗျာ များကို အခြား တေးကဗျာ များလောက် စပ်ဆို သီကုံးမှု မများခဲ့သဖြင့် ရှေးကလေးချော့ သီချင်းများတွင် နောက်ထပ် တိုးပွားမှု အလွန်နည်းခဲ့လေသည်။ ဒုတိယ ကမ္ဘာစစ်မတိုင်မီ ကာလက၊ ကဗျာစာဆို မင်းသုဝဏ်သည် 'မောင်ခွေးဘို့' ဟူသော အမည်ဖြင့် ကလေးသူငယ်များ အတွက် နှစ်လိုဖွယ်ရာ ကောင်းသော တေးကဗျာစုကို စပ်ဆို သီကုံးခဲ့သည့် အနက် ပုခက်လွှဲ သားချော့ သီချင်း တပုဒ်လည်း ပါဝင်သည်။ ထိုသီချင်းတွင် ကလေး၏ ပတ်ဝန်းကျင်၌ ရှိနေသော ငှက်ကလေးများ၊ ပန်းကလေးများ၊ နေမင်း၊ လမင်း၊ မိုး၊ လေ၊ ချောင်းရေ စသော သဘာဝ၏ အခြင်းအရာအခြေအနေများကို ကလေးတို့၏ နား၌ ယဉ်ပါး၍ ကလေးတို့နှင့် နီးစပ်အောင် အောက်ပါ အတိုင်း ထည့်သွင်း စပ်ဆိုထားလေသည်။

**ပုခက်လွှဲသီချင်း**

မုန်တိုင်းကထန်၊ ချောင်းကလျှံ၊
ဝဲသံကကြွေး၊ လှိုင်းကဖွေး၊
ရည်းလေလေ့၊ ရည်းလေလေး။

မိုးပေါက်ကနာ၊ ဖြုတ်ကလာ၊
လမ်းတာကဝေး၊ လေကအေး၊
ရည်းလေလေ့၊ ရည်းလေလေး။ ။
ဖော်ချင်းတို့ရေ၊ တို့တတွေ၊
လော်လေအပြေး၊ ယက်ဖွေးဖွေး၊
ရည်းလေလေ့၊ ရည်းလေလေး။ ။
နေမင်း ဖန်ဝါ၊ ယွန်းတော့ရှာ၊
အိပ်ပါ လူလေး၊ မေ့ရင်သွေး၊
ရည်းလေလေ့၊ ရည်းလေလေး။ ။
ငှက်မငှက်ဖို၊ သိုက်မြုံခို၊
သံချိုမကြွေး၊ အိပ်ပြီလေး၊
ရည်းလေလေ့၊ ရည်းလေလေး။ ။
ယန့်မထုံ၊ ပန်းဝတ်မှုံ၊
ပန်းငုံမှာကွေး၊ အိပ်ပြီလေး၊
ရည်းလေလေ့၊ ရည်းလေလေး။ ။
လမင်းသော်တာ၊ ရောင်ခြည်ဖြာ၊
အိပ်ပါလူလေး၊ မေ့ရင်သွေး၊
ရည်းလေလေ့၊ ရည်းလေလေး။ ။

မြန်မာလူမျိုးတို့တွင် သာမက၊ ပြည်ထောင်စုဖွား တိုင်းရင်းသား လူမျိုးအသီးအသီးတို့၌လည်း သားချော့ သီချင်း၊ သို့မဟုတ် ကလေးချော့ ပုခက်လွှဲ သီချင်းတို့ ရှိကြသည်ဖြစ်ရာ၊ အချို့တိုင်းရင်းသား လူမျိုးတို့၏ ကလေးချော့ သီချင်းများတွင် ယင်းတို့၏အနေအထိုင် ဓလေ့ စရိုက်များကိုလည်း ထည့်သွင်း စပ်ဆိုထားသည်။

ရခိုင် ပုခက်လွှဲ သီချင်းတို့တွင် ယင်းသို့ ထည့်သွင်း စပ်ဆိုထားသည်ကို အောက်ပါ နမူနာ တပုဒ်တွင် ကြည့်ပါလေ။

### သားလှယောင်

အဘိုးသျှင်ရက်၊ နှီးပုခက်။
အဘာပြင်၊ သျှော်ကြိုးခက်။
အဘောင်သျှင်ရို့၊ လင်းညှီလက်။
အထက်ကောခြင်ဆင်၊ ယောင်စောင်းပြင်။
အမင်လွှဲ၊ ယိုင်းကြိုးငင်။
သားသျှင်ဇုဝေ၊ အိပ်ပါမေ။
လေည်း ယင်ယင် .... ဧ။
ဇုဝေဝေ .... လေ။ ။

ထိုပုခက်လွှဲ သီချင်း၏ အဓိပ္ပါယ်မှာ သားမောင် အိပ်ရန် နှီးပုခက်ကို အဖိုး ကိုယ်တိုင် ရက်လုပ်၍၊ အဖကိုယ်တိုင် လျှော်ကြိုးဖြင့် ခက်ပြီးလျှင် အိမ်ခန်း အဝင်ဝ အထက်ခြင် တိုင်၌ ချည်၍ ပုခက်ဆင်ပေးရာသည်။ အဖွားကမူ သားမောင်အိပ်ရာကို သပ်ရပ်စွာ ပြင်ဆင် ပေး၍ အမိက သားမောင်အား ပုခက်တွင်း၌ ထည့်ကာ တေးဆို၍ သိပ်ပါမည်။

အိပ်ပါလေတော့လေ။ ယိုယီးလေး ....ဟူ၍ ဖြစ်ပေသည်။ သားကလေး မျက်ရှုအတွက် အဖိုးအဖွား အမိအဖတို့က ချစ်ခင်မြတ်နိုးစွာဖြင့် ဝိုင်းအုံယုယလျက် လုပ်ကိုင် ပေးကြပုံကို သရုပ်ဖော်ထားလေရာ၊ ရခိုင်မိသားစု၏ အနေအထိုင် စရိုက် ဓလေ့ကလေးများကိုပါ တစေ့တစောင်း လေ့လာ အကဲခတ်နိုင်ကြပေသည်။

ရှေး မွန်ကလေးချော့သီချင်းများတွင် အောက်ဖော်ပြပါ သီချင်းတပုဒ်သည် မွန်ဒ၊ မွန်ည၊ မွန်ဒိုင် ဟူသော မွန် သုံးမျိုးတို့အနက်၊ မွန်ဒလူမျိုးတို့သည် မြန်မာနိုင်ငံ အောက်ပိုင်းသို့ မည်ကဲ့သို့ရောက်ရှိလာပုံ စပ်ဆိုထားသဖြင့် မွန်လူမျိုးများ၏ မူလဘူတနှင့်စပ်လျဉ်း၍ စဉ်းစားဆင်ခြင်ဖွယ် အချက်များလည်း ပါသည်။

### မွန်ဒ သားချော့သီချင်း

ဟီလေ ယောလေ ပိုင်ကရိမ်ဂေါတေ ဒေစရဲးမွန် စန်ပီစွယ် ဒွန်ကော (မ်) ရမွန်ဒဲ့ ဒေစ အဟောမ် ဟေ့မွဲကော့နိုင်း မဒဲ စိုက်ခရာ ဝိပါကကောမ် တကော့ခမ္ဘိုင် တနော (မ်) တုံမ်ရဲး ဇယ်ကောပ် ကျပ်ပ်ကလုန်ရွန်းကွန်း။

အဓိပ္ပါယ်မှာ သားချစ်မောင် (အိန္ဒိယနိုင်ငံ)ကိုရိမန်ဒယ် ကမ်းရိုးတန်း ဒေသ၊ ဂိုဒါဝရီ မြစ်ဝှမ်းသည် ငါတို့ မွန်ဒလူမျိုး၏ မူလဌာနဖြစ်သည်။ ရှေးဝိပါက အကြောင်း မလှခဲ့၍ ငါတို့သည် ငါတို့၏ အရှင်သခင် ဘုရင်မင်းမြတ်ကို ခွဲခွာခဲ့ရ၍ (ဗင်္ဂလား ပင်လယ်အော်ကို ကျော်ဖြတ်ကာ) မြန်မာ နိုင်ငံ အောက်ပိုင်း ဇယားနယ် (တနင်္သာရီ) တကော့ ခမ္ဘိုင်ခေါ် ဘီလူးကျွန်းသို့ ရောက်ခဲ့ရလေသည်ဟူ၍ ပေတည်း။

အောက်ပါ ရှမ်းသားချော့ တေးတပုဒ်တွင် မြန်မာသားချော့ တေးတပုဒ်ကဲ့သို့ လထဲတွင် ဆန်ဖွပ်နေသော အဖိုးအိုအကြောင်းကို ထည့်သွင်း စပ်ဆိုထားလေသည်။

### ရှမ်း သားချော့သီချင်း

အင် .... အင်း ....၊
လိန်လိုင်း လုပ်ငေါ်ဆောင်၊
လိုင်းထောင် နာ ကွန်းဟောင်း၊
နွမ်း .... နွမ်း ....။
ပူထောက်အွမ်ကွန်းလျို၊
ရစ်တန် ဆတ်ခေါဟျိုတ်ခေါက်၊
နွမ်း .... နွမ်း .... အင်း .... အင်း။ ။

### (မြန်မာဘာသာပြန်)

အို .... အိုး ....။
ရွှေလရောင်ထိုး၊ အိမ်ခေါင်မိုး၊
ထိုးလာပါနဲ့ မျက်နှာပေါ်၊

သားလေး နိုးမယ်နော်။
အိပ်ပျော်ကာစ၊ သားသားလေး၊
နိုးမှာစိုးလှသေး။
အဖိုးအို တကိုယ်တည်း၊
ဆန်ဖွပ်ကာ တေးဆိုညည်း၊
အိပ်ပါ လူလေး၊ မယ့်ရင်သွေး။ ။

ကရင် အမျိုးသား ကလေးချော့ ကဗျာများတွင်လည်း မိမိ၏ ရင်သွေး သားငယ် အပေါ် မိခင်၏ ကြီးမားသော စေတနာ မေတ္တာထားရှိပုံတို့ကို သရုပ်ဖော်ထားသည်။ မိခင်သည် မိမိသားငယ်၏ ပုခက်ကြိုးကို ရွှေကြိုး သံကြိုးဖြင့်ပင် ဆင်လိုပုံ၊ မိခင်၏ မေတ္တာ ကြီးမားလှသဖြင့် ပျားသကာရည်ကဲ့သို့ ချိုမြိန်သော နို့ရည်စီးဆင်းရပုံ၊ သားငယ်အား ပြုစု ယုယ ချစ်၍မဝနိုင်ပုံကို အောက်ပါ ပုခက်လွှဲသီချင်းတပုဒ်အားဖြင့် သဘော ပေါက်နိုင်ကြပေသည်။

### မိုထိုးဝအမိုး

၁။ မီးလဲစုအူး အူးအပူး
စုအူးအူးအပလီမေထူး
မီးလဲစုအူးအူးအသ
စုအူးအူးအပလီမေထ
၂။ မီးလဲစုပူးမိုအူးအူး
မိုအယ်နားဖုလဲ့ဖုသူး
မီးလဲစုပူးမိုထိုးဝ
မိုအယ်နားနား မိုအယ်နား
၃။ မီးလဲစုပူးမိုယယ်ယော
မိုအယ်အောအော မိုအယ်အော
မိုအယ်အောအော မိုအယ်အော
မိုမာယော်ကွဲ အောကွဲစော
၄။ မိုအယ်ဝဲဝဲမိုအယ်ဝဲ
မိုမာယောကွဲ ဒိုကနဲ
မိုလူအဖိုး ထိုစီကလို
မိုလူကွာ ဒေ့ါအကတို
၅။ မိုလူအဖိုးထိုစီကွဲယ်
မိုလူကွာ ဒေ့ါအကမဲယ်
မိုလူဖိုးဆိမိုလူကဲ
ဖိုးဆိလူကေးမိုတကဲ
မီးအူးအူး မီးအော်အော်အူး

### (မြန်မာဘာသာပြန်)

၁။ ပုခက်ထဲသိပ်၊ အိပ်ပါလေ၊
ရွှေကြိုးနှင့်ဆင်၊ ပုခက်ယဉ်
မေမေလွှဲသိပ်၊ အိပ်ပါလေ၊
သံကြိုးနှင့်ဆင်၊ ပုခက်ယဉ်။
၂။ ပုခက်ထက်ဝယ်၊ မေသိပ်မယ်၊
အိပ်ပါတော့လား၊ မေ့ချစ်သား၊
ပုခက်ကြိုးကို၊ ကိုင်ကာဆွဲ၊
မေမေကိုယ်တိုင်၊ ထိုင်ကာလွှဲ။
၃။ မေမေ့မေတ္တာ၊ ကြီးမားပါ၊
ချိုအေးနို့ရည်၊ ပျားသကာ၊
တိုက်ကျွေး ယုယ၊ ပုခက်ထဲ၊
သားကို သိပ်၍၊ မေမေလွှဲ။
၄။ သားလှသည်းချာ၊ အဖိုးရာ၊
မေ့မေတ္တာရည်၊ စီးဆင်းလာ၊
ငယ်မှ ကြီးတိုင်၊ ချစ်မငြီး၊
စောင့်ရှောက် ပြုစု၊ ပေးခဲ့ပြီး။
၅။ ငှက်ငယ်ပမာ၊ မေ့သည်းချာ၊
ကြည်နူးယုယ၊ ပိုက်ထွေးကာ၊
သားကို မေမေ၊ ပြုစုထား၊
သားကမေ့လို၊ ချစ်မှာလား၊
အိပ်ပါတော့လေး....မေ့ရင်သွေး။

ကလေးချော့ သီချင်းများသည် ကမ္ဘာပေါ်ရှိလူမျိုးတိုင်း လူမျိုးတိုင်း အဖို့ မရှိးနိုင်သော တေးကဗျာများ ဖြစ်ကြသည်။ ခေတ်အမျိုးမျိုး ပြောင်း၍ တေးသီချင်း အမျိုးမျိုးတို့ ဆန်းသစ်ခဲ့သော်လည်း ကလေးငယ်များကို ချော့သိပ်ရာ၌ ကျွန်ုပ်တို့၏ အဖိုးအဖွားအမိအဖတို့သည်လည်း သမရိုးကျ ကလေးချော့ သီချင်းများကို ဆိုညည်းခဲ့ကြ၍၊ ကျွန်ုပ်တို့သည်လည်း ကျွန်ုပ်တို့၏ သားမြေးများအား ချော့သိပ်ရန် ထိုသီချင်းများကိုပင် ဆိုညည်းကြပေလိမ့်ဦးမည်သာတည်း။

**မြန်မာကာလပေါ်ဝတ္ထုများ။** ။မြန်မာ စာပေသမိုင်းတွင် မြန်မာ ကာလပေါ်ဝတ္ထုဟု ခေါ်ဆိုသော စာပေမျိုးသည် လွန်ခဲ့သော အနှစ် ၅၀ ကျော်ခန့်က စ၍ ပေါ်ထွန်းလာသည်ဟု ဆိုကြသည်။ ရှေးအခါက မြန်မာနိုင်ငံတွင် ဇာတ်ဝတ္ထုများ ရှိခဲ့သည်။ ကာလပေါ် ဝတ္ထုသည် လူ့အကြောင်း လောကအကြောင်းကို ဇာတ်လမ်း ဇာတ်ကွက် ဆင်၍ စကားပြေဖြင့် ဖွဲ့ဆိုသော စာပေမျိုး ဖြစ်သည်။

တဆဲ့ကိုး ရာစုနှစ် အလယ်ပိုင်း လောက်မှ စ၍ အောက်မြန်မာပြည်၌ စီးပွားရေးဖက်တွင် ပြောင်းလဲတိုးတက်မှုများ ရှိလာသည်။ မြန်မာ့ဆန်ကို နိုင်ငံခြားသို့ ရောင်းချရသဖြင့် စီးပွားရေး တိုးတက်လာသည်။ ပညာရေးတွင် ခေတ်ကာလအလျောက် လောကဓာတ်ကျောင်းဟု ခေါ်ကြသော စာသင်ကျောင်းများ ပေါ်လာကြသည်။ စာပေ ယဉ်ကျေးမှုဖက်တွင် ပုံနှိပ်စက်များ အတော်အသင့်ရှိလာ၍ ပျို့၊ ရတု၊ ချင်း၊ မော်ကွန်းတို့ကို ပြန်၍ ပုံနှိပ်ထုတ်ဝေလာကြသည်။

အနောက်တိုင်း စာပေယဉ်ကျေးမှုသည် တစတစ ရောက်လာရာ အနောက်တိုင်း စာပေတို့ကို ဖတ်ရှု လေ့လာသူများလည်း တစတစ များလာသည်။ ထိုမျှသာ မကသေး၊ ၁၇၇၃ ခုနှစ် မတိုင်မီကပင် ဒဗျူရှေ့တူးဆန်ဒီ ဆိုသူသည် အီစွပ်ပုံပြင် (ဤစုပ်၏ ဒဏ္ဍာရီစာ) ကို ဂရိဘာသာမှ မြန်မာဘာသာသို့ ပြန်ဆိုရေးသား၍ ပုံနှိပ် ထုတ်ဝေခဲ့သည်။ ၁၈၈၉ ခုနှစ်၌ မူဟမ္မက် ရှံရှုဒင်ခေါ် မောင်ဘိုးခင်သည် ဟာတင်တာယီ ဝတ္ထုတော်ကြီးကိုငှင်း၊ ၁၈၉၆ ခုနှစ်တွင် အဖွဲ့ဒူရာမန်က ပသီပုံပြင် ဝတ္ထုကြီးကိုငှင်း၊ ၁၉၀၂ ခုနှစ်တွင် ဦးဘိုးဇော်က အင်္ဂလိပ်ကာလပေါ်ဝတ္ထု ရော်ဗင်ဆန်ကရူးဆိုးကိုငှင်း အသီးအသီး ဘာသာပြန်ဆို ထုတ်ဝေခဲ့ကြသည်။ ယင်းသို့သော အခြေ အနေများသည် မြန်မာကာလပေါ် ဝတ္ထုများ ပေါ်ပေါက်ရေးသို့ ပို့ဆောင်ပေးကြသကဲ့သို့ ဖြစ်သည်။ ထိုနောက် ရွှေနေတဦး ဖြစ်သူ ဂျိမ်းဦးလှကျော်သည် ပြင်သစ်ဝတ္ထုရေး ဆရာကြီး အယ်လက်ဇန္ဒာ ဒျူးမား၏ အင်္ဂလိပ်ဘာသာပြန် ပြင်သစ်ဝတ္ထုတပုဒ်ဖြစ်သော ကောင့် အော့ မွန်တီ ခရစ္စတို ဝတ္ထုကို မှီး၍ မြန်မာ့ ထုံးတမ်းဓလေ့နှင့် ဆီလျော်အောင် ပြုပြင်ရေးသားသော မောင်ရင်မောင်-မမယ်မ ဝတ္ထုကို ၁၉၀၄ ခုနှစ်တွင် ပုံနှိပ် ထုတ်ဝေခဲ့သည်။ ထိုအခါမှ စ၍ မြန်မာကာလပေါ် ဝတ္ထု စတင်ပေါက်ဖွားခဲ့သည် ဟု ယူဆကြသည်။ (မောင်ရင်မောင်-မမယ်မ ဝတ္ထု။ လှကျော်၊ ဂျိမ်း — ရှု။)

မောင်ရင်မောင်-မမယ်မ ဝတ္ထုသည် ဥရောပ ဝတ္ထုကို မှီးထားသောကြောင့် ဇာတ်လမ်း ဇာတ်ကွက်များသည် အနောက်တိုင်း ပုံစံဝင်သော်လည်း အရေးအသားမှာမူ ကုန်းဘောင်ခေတ် အရေးအသားမျိုးဖြစ်သည်။ ထိုခေတ်က မြန်မာစာဖတ် ပရိသတ်သည် ထိုဝတ္ထုကို တကယ့်အဖြစ်အပျက်တခုဟု မှတ်ယူကြကာ မောင်ရင်မောင်နှင့် မမယ်မတို့၏ ထူးခြားသော အချစ်ဇာတ်လမ်းကို စွဲစွဲလမ်းလမ်း ဖြစ်ခဲ့ကြလေသည်။

မောင်ရင်မောင်-မမယ်မ ဝတ္ထုကို စာဖတ် ပရိသတ်က လက်ခံအားပေးလာသော အခါ မူလ ပဌမ ဟံသာဝတီ ပုံနှိပ်တိုက်ရှင် မစ္စတာ ရစ်ပလီသည် ဝန်စာရေးဟောင်း ဦးကြီးအား ကာလပေါ်ဝတ္ထုမျိုးကို ရေးသား စေခဲ့ရာ ၁၉၀၄ ခုနှစ် အတွင်း၌ပင် ချဉ်ပေါင်ရွက်သည် မောင်မှိုင်း ဝတ္ထု ပေါ်ပေါက် လာလေသည်။ (မောင်မှိုင်းဝတ္ထု၊ ချဉ်ပေါင်ရွက်သည် — ရှု။)

မောင်မှိုင်း ဝတ္ထုသည် မောင်ရင်မောင်-မမယ်မ ဝတ္ထုကဲ့သို့ နိုင်ငံခြား ဝတ္ထုကို မမှီးဘဲ ကိုယ်ပိုင်ဉာဏ်ဖြင့် ရေးသားသော ဝတ္ထု ဖြစ်သဖြင့် ပဌမဆုံး မြန်မာကာလပေါ် ဝတ္ထု ဖြစ်သည် ဟုဆိုနိုင်သည်။ သို့သော် ဝတ္ထု အဆင့်အတန်းအားဖြင့် မမြင့်လှသေး ဟု ယူဆကြသည်။ အရေးအသားမှာ ထိုခေတ်က အပြောအဟော ကွက်စိတ်သဘောမျိုးလည်း ပါသည်။ ဇာတ်လမ်းသည် ဤသို့ဖြစ်သည်။ ချဉ်ပေါင်ရွက်သည် မောင်မှိုင်းသည် မြို့တကာ ရွာတကာသို့ လှည့်လည်လိမ်ကောက်ပုံကို ဝတ္ထုဇာတ်ကြောင်းခံထားသည်။ ဦးကြီးသည် ထိုဝတ္ထုကို ခပ်ပေါ့ပေါ့ ဖတ်၍ ပျော်ရွှင်ရရုံသာ သဘောထားကာ ရေးသား ထားသလောဟု စဉ်းစားဖွယ်ရာ ရှိသည်။ သို့သော် လူလိမ် လူကောက် လူညံ့ လူပလီတို့၏ ကိုယ်နှုတ် နှလုံး အမူအရာတို့ကိုမူ တင်ပြနိုင်ခဲ့သည်။ ထိုဝတ္ထုသည် ထိုခေတ်က အလွန် လူကြိုက်များသော ဝတ္ထုတပုဒ် ဖြစ်ခဲ့သည်။ ထိုကြောင့် အခြားသူများကလည်း မောင်မှိုင်းဝတ္ထုဆံဆံ ကာလပေါ် ဝတ္ထုများကို ရေးသား လာကြသည်။ ဦးကြီးကိုယ်တိုင်လည်း မောင်မှိုင်းဝတ္ထု အပြင် စိန်ကလေး၊ မြကလေး စသော ဝတ္ထုများကိုလည်း ရေးသားခဲ့သည်။

မောင်မှိုင်း ဝတ္ထု ပေါ်ထွက်ပြီးနောက် ကာလပေါ်ဝတ္ထု အမြောက်အမြား ရေးသား ထုတ်ဝေကြသည့်အနက် ထူးခြားသော ဝတ္ထုတပုဒ်သည် ၁၉၀၇ ခုနှစ်တွင် မောင်ဘသင် ဆိုသူ ရေးသားသော မောင်တာနေ ဝတ္ထု ဖြစ်သည်။ ပဌမတွဲ၊ ဒုတိယတွဲ ဟူ၍ နှစ်ပိုင်း ရေးသားထုတ်ဝေခဲ့သည်။ မောင်မှိုင်းဝတ္ထုနှင့် မတူသော ထူးခြားချက်မှာ ထိုဝတ္ထုတွင် ရာဇဝင် ဗဟုသုတ၊ အမျိုးသမီး အမျိုးသားတို့ သိရှိမှတ်သားအပ်သော အချက်အလက်များ၊ သမင်္ဂလာ၊ ဒုမင်္ဂလာ ကျင်းပပုံ စသော လောကီရေးရာ အချက်အလက်များကိုပါ ထည့်သွင်းထားရာ ဗဟုသုတ ဟင်းလေးအိုးကြီးသဖွယ်ဖြစ်သည်။ ထိုဝတ္ထုသည်လည်း လူကြိုက်များ၍ ခေတ်စားခဲ့လေသည်။ (မောင်တာနေ ဝတ္ထု — ရှု။)

ကာလပေါ် ဝတ္ထုအနေဖြင့် အဆင့်အတန်း ကောင်းသော ဝတ္ထုသည် ချဉ်ပေါင်ရွက်သည် မောင်မှိုင်း ပေါ်ပြီး၍ ၁၀ နှစ်ခန့် အကြာတွင်ပေါ်ထွက်လာသည်။ ထိုဝတ္ထုသည် ၁၉၁၄ ခုနှစ်၌ ပဌမအကြိမ် ထုတ်ဝေသော ရွှေပြည်စိုး ဝတ္ထု ဖြစ်၍ ရာဇဝတ် ဝန်ထောက် တဦးဖြစ်သူ ဦးလတ်က ရေးသားသည်။ (လတ်၊ ဦး — ရှု။) ဦးလတ်သည် အင်္ဂလိပ် မြန်မာ နှစ်ဘာသာလုံး၌ ကျွမ်းကျင်သူဖြစ်သည်။ အင်္ဂလိပ် ဝတ္ထု ကောင်းများနှင့် အကျွမ်းတဝင် ရှိခဲ့သူဖြစ်သည်။ ထိုကြောင့် အင်္ဂလိပ်ဝတ္ထုကောင်းတို့၏ သဘောသည် အားသစ် အင်သစ်အဖြစ်ဖြင့် ဦးလတ်၏ ကလောင်မှတဆင့် မျက်မှောက်ခေတ် မြန်မာစာပေနယ်ထဲသို့ ဝင်လာခဲ့သည် ဟု ယူဆဖွယ်ဖြစ်သည်။ သို့ရာတွင် ဦးလတ်သည် အင်္ဂလိပ်ဝတ္ထုများကို ပုံတူကူး၍ ပေးခဲ့ခြင်း မဟုတ်ပေ။ ဦးလတ် နှစ်သက်သော အင်္ဂလိပ် ဝတ္ထုရေးဆရာကြီး ဆာ ဝေါလတာ စကော့နှင့် လော့ လစ်တန်တို့သည် အင်္ဂလိပ်ဘဝကို လေ့လာ၍ အင်္ဂလိပ်ဘဝကို သတိပြုသကဲ့သို့ ဦးလတ်သည်လည်း မြန်မာ့ဘဝ

ကို လေ့လာ၍ မြန်မာ့ဘဝကို သတိပြုပြီးလျှင် ရေးသားခဲ့သည်။ လိုရင်းဆိုရလျှင် ဦးလတ်သည် အင်္ဂလိပ်ဝတ္ထု သဘောကိုသာ ယူ၍ မြန်မာတို့ လက်ခံနိုင်အောင် မြန်မာ့ပုံသဏ္ဍာန်ကို ဖန်တီးခဲ့သူ ဖြစ်သည်။

ဦးလတ်၏ အဆင့်အတန်းကောင်းသော အခြား ဝတ္ထုတပုဒ်မှာ စပယ်ပင် ဝတ္ထု ဖြစ်သည်။ ရွှေပြည်စိုး ဝတ္ထု၌ မောင်မောင်စိုးနှင့် ခင်ခင်ထားတို့၏ အကြောင်းသည် ပင်မဇာတ်လမ်း ဖြစ်၍ ဗိလတ်ပြန် ဝတ်လို မောင်သောင်းဖေနှင့် ရွှေနေ မောင်ကိတ္တိတို့ အကြောင်းသည် ဇာတ်လမ်း လက်တက်ဖြစ်သည်။ စိုးနှင့် ထားတို့ အကြောင်းသည် နှစ်သက်စရာ၊ လွမ်းစရာ သက်သက်မျှသာဖြစ်သည်။ မောင်သောင်းဖေနှင့် မောင်ကိတ္တိတို့ အကြောင်းတွင် ဦးလတ်၏ ဘဝသုံးသပ်မှု၊ ဘဝ သိမြင်မှုတို့ကို တွေ့ရသည်။ စပယ်ပင် ဝတ္ထုတွင် ရွှေဖီနှင့် သီဩတို့ အကြောင်းကို ပင်မဇာတ်လမ်း၌ ထည့်ကာ သနားစရာ၊ လွမ်းစရာဖြစ်အောင် ဖွဲ့နွဲ့ထားသည်။ ဇာတ်လမ်း လက်တက်တွင် ပါသော ဦးလောစံ၊ ကိုစံဖဲနှင့် ကိုချိန်တို့ အကြောင်း၌ ဦးလတ်သည် သူ့ခေတ်က ရန်ကုန်ပတ်ဝန်းကျင်ကို လေ့လာသုံးသပ်၍ ရေးထားခဲ့လေသလော ဟု တွေးဆဖွယ်ရှိသည်။ ဦးလတ်သည် ဖော်ပြပါ ဝတ္ထု နှစ်ပုဒ်အပြင် တနန်းပျော် ရင်သွေးတော်၊ သုံးဘုံအမည်ရှိသော ဝတ္ထုများကိုလည်း ရေးသားခဲ့သေးသည် ဟု သိရသည်။

ရွှေပြည်စိုးနှင့် စပယ်ပင် ဝတ္ထု တို့အပြင် အခြားအဆင့်အတန်း ကောင်းသော ကာလပေါ် ဝတ္ထုတပုဒ်မှာ ၁၉၁၅ ခုနှစ်တွင် ထုတ်ဝေသော မစ္စတာ မောင်မှိုင်း အမည်ခံ ဆရာကြီး ဦးလွန်း၏ မှာတော်ပုံ ဝတ္ထု ဖြစ်သည်။ (လွန်း၊ ဦး — ရှု။) မှာတော်ပုံ ဝတ္ထုသည်လည်း လူ့သဘာဝနှင့် ပတ်ဝန်းကျင်ကို လေ့လာသုံးသပ်၍ ရေးထားသောဝတ္ထု ဖြစ်သည်။ ထိုဝတ္ထုတွင် ဇာတ်လိုက်များ ဖြစ်ကြသော ကိုပေါ၊ ခင်အုံ၊ ဦးကျော်ဒွေး၊ ဆရာအေးတို့သည် ဆရာကြီး၏မေတ္တာ၊ ကရုဏာ၊ ဟာသတို့မှ ပေါက်ဖွားလာသော အဖွဲ့များဖြစ်လေသည်။ ဆရာကြီးသည် အထက်အညာ ဒေသ၌ မိမိ တွေ့ခဲ့ဘူးသော လူတစုကို မှတ်သား လေ့လာရေးသား ထားလေသလော ဟု တွေးစရာ ဖြစ်ပေသည်။

ကာလပေါ်ဝတ္ထုခေတ်ဦးပိုင်းတွင် ရွှေပြည်စိုး၊ စပယ်ပင်၊ မှာတော်ပုံ ဝတ္ထု တို့သည် စံမှီ ဝတ္ထုများ ဖြစ်ကြသည်။ နောင်အခါ ကာလပေါ် ဝတ္ထု အမြောက်အမြားကို ရေးသားထုတ်ဝေလာကြရာ အရေးအသား စကားလုံး အသုံးအနှုန်း လုပ်ပယ်ဉ်နုသော အဖွဲ့အနွဲ့ကို အသားပေးသောဝတ္ထုများ၊ ချစ်ခန်း ကြိုက်ခန်းတို့ကိုသာ အလေးထားသော စိတ်ကူးယဉ် ဝတ္ထုများ၏ အရေအတွက်က ပိုမို များပြားလာသည်။သို့ရာတွင် ထိုခေတ်ဦး၌ ထူးခြားသောဝတ္ထုများသည် မန္တလေး မောင်ခင်မောင် အမည်ကို ခံယူ၍ ရေးသားလေ့ရှိသော လယ်တီပဏ္ဍိတ ဦးမောင်ကြီး၏ ဇာတိသွေး ဇာတိမာန်ကို လှုံ့ဆော်ပေးသည့် တပင်ရွှေထီး ဝတ္ထုနှင့် နတ်ရှင်နောင် ဝတ္ထုများ ဖြစ်ကြလေသည်။ (မောင်ကြီး၊ ဦး၊ လယ်တီပဏ္ဍိတ — ရှု။)

ပဌမကမ္ဘာ စစ်ကြီး (၁၉၁၄ – ၁၉၁၈) အပြီးလောက်တွင် လုံးထပ်နဘေ သုံးခြင်း၊ ရှုမြော်ခင်းများကို အကျယ်ချဲ့ရေးခြင်း၊ ကဗျာများ ရေးစပ်၍ ထည့်ခြင်းတို့ ပါဝင်သော ထိုခေတ်၏ ဝတ္ထုအရေးအသား စနစ်ကို တခေတ်ပြောင်းခဲ့သော ဝတ္ထုရေးဆရာကြီး ပီမိုးနင်း ပေါ်ပေါက်ခဲ့လေသည်။ (ပီမိုးနင်း — ရှု။) ဆရာကြီးသည် စကား အဖွဲ့အနွဲ့မများစေဘဲ၊ တိုတိုနှင့် လိုရင်း ရောက်အောင် ရှင်းလင်း ပြတ်သားသော စကားပြေ အရေးအသားမျိုးကို ရေးသည်။ နေရီရီဝတ္ထု၊ နေညိုညို ဝတ္ထု၊ ပွဲစားကြီး သားအဖနှင့် မြမြ ဝတ္ထု၊ သနားစရာ ဝတ္ထုတို့သည် ဇာတ်လမ်း ဇာတ်ကွက် အချိတ်အဆက် ကောင်းသော ဝတ္ထုများ ဖြစ်သည်။ ဆုံးမစာထက် လူ့သဘာဝကို သရုပ်ဖော်ပြသော စံနစ်ဖက်သို့ လိုက်ခဲ့သည်။ ( နေရီရီဝတ္ထု — လည်းရှု။ )

ပဌမ ကမ္ဘာစစ်အတွင်း မြန်မာကျောင်းဆရာကြီး ဦးမောင်မောင် ထုတ်ဝေသော မြန်မာ့ မဂ္ဂဇိန်နှင့် ဦးရွှေကြူး ထုတ်ဝေသော မြန်မာ့ အလင်း မဂ္ဂဇင်းတို့ အပြင် စစ်ပြီးခေတ်တွင် သူရိယမဂ္ဂဇင်း၊ ပညာ့အလင်း မဂ္ဂဇင်း၊ ဒဂုန်မဂ္ဂဇင်း၊ ကဝိမျက်မှန် မဂ္ဂဇင်းကြီးများ အထင်အရှားပေါ်ထွက်လာကြရာ ဝတ္ထုရှည်၊ ဝတ္ထုတိုများ ရေးသားကြသော ဆရာကြီး ဆရာငယ်တို့လည်း အမြောက်အမြား ပေါ်လာကြသည်။ ယခင်က များသောအားဖြင့် ဝတ္ထု တပုဒ်ကို စာတအုပ်ဖြင့် အဆုံးမသတ်ဘဲ၊ ပဌမတွဲ၊ ဒုတိယတွဲ စသဖြင့် ပိုင်းခြား၍ ထုတ်ဝေလေ့ရှိသည်။ ထိုခေတ်မဂ္ဂဇင်းများတွင်မူ ဝတ္ထုရှည်၊ ဝတ္ထုတိုများကို အစအဆုံး ထည့်သွင်းဖော်ပြကြသည်။ဝတ္ထုအမျိုးအစားများမှာလည်း နန်းတွင်းရေးရာ ရာဇဝင်ဝတ္ထု၊ ပင်ကိုယ်ရေးဝတ္ထုနှင့် နိုင်ငံခြားဝတ္ထုများကို မှီးသော ဝတ္ထုမျိုးတို့ဖြစ်ကြသည်။ ထိုမဂ္ဂဇင်းကြီးများတွင် ရေးသားခဲ့ကြ၍ ယနေ့အထိ ထင်ရှားကြသော စာရေးဆရာကြီးများမှာ ရွှေဥဒေါင်း၊ ဇေယျ၊ ညာဏ၊ ဒဂုန်နတ်ရှင်၊ ဒဂုန် ရွှေမျှား၊ ဒဂုန်ခင်ခင်လေး တို့ဖြစ်ကြသည်။

နိုင်ငံခြား ဝတ္ထုများကို မှီး၍ ၎င်း၊ ဘာသာပြန်၍၎င်း ကာလပေါ်ဝတ္ထု စာပေ၌ တိုင်းပြည်က စိတ်ဝင်စားလာကြအောင် ရေးသားရာ၌ ဆရာကြီး ရွှေဥဒေါင်း၏ လက်ရာသည် ပီရိသပ်ရပ်၍ ရှင်းလင်း ပြတ်သားသည်။ ဆာ အာသာ ကိုနင်ဒွိုင်း၏ ‘ရှားလော့ဟုမ်း’ စုံထောက် ဝတ္ထုကြီးသည် မြန်မာ စုံထောက်ဝိဇ္ဇာ ဦးစံရှားဝတ္ထု အဖြစ် အလွန်ကျော်ကြား လူကြိုက်များခဲ့သည်။ ထိုပြင် ရူပနန္ဒီနှင့် ရတနာပုံ တို့သည်လည်း ကျော်စောကြပေသည်။

ဇေယျ၊ ညာဏ၊ ဒဂုန်နတ်ရှင်တို့သည် နောင်အခါ ဝတ္ထုအရေးအသား ဖက်မှ သုတပဒေသာ၊ စာပဒေသာ ဆောင်းပါးများ အရေးအသားဖက်သို့ပြောင်းသွားကြသည်။ ဒဂုန်ခင်ခင်လေးသည် ဒုတိယကမ္ဘာစစ်ပြီး ခေတ်အထိ ဝတ္ထုများ ဆောင်းပါးများကို ရေးသားခဲ့ရာ ထိုခေတ်တွင် ပေါ်ထွက်ခဲ့သော စာဆိုတော် နန်းတွင်း ဝတ္ထုကြီးသည် ထင်ရှားကျော်ကြားသော ဝတ္ထုကောင်းကြီးတပုဒ် ဖြစ်လေသည်။

၁၉၃၀ ပြည့်နှစ် ပတ်ဝန်းကျင်တဝိုက်တွင် စာပေလောက၌ ထူးခြားချက် နှစ်ရပ် ရှိလာသည်။ ထိုထူးခြားချက်နှစ်ရပ်မှာ (၁) စာဖတ် ပရိသတ် တိုးတက်များပြား လာ၍ ဝတ္ထုရေးသူ ဦးရေလည်း တိုးပွားလာခြင်း၊ (၂) မြန်မာ့ဘဝ၊ လူ့ဘဝ ဝေဖန်ချက်များ ပါသော ဝတ္ထုမျိုး ထွက်ပေါ်လာခြင်း ဖြစ်သည်။

၁၉၃၁ ခုနှစ် အလွန်လောက်တွင် ရန်ကုန် တက္ကသိုလ်လောက၌ ခေတ်စမ်းစာပေ ကြိုးပမ်းမှုတရပ်ကို ပြုလာကြသည်။ ခေတ်စမ်းစာပေ ပြုစုသူ လူငယ်တစုသည် ပုဂံခေတ်ကျောက်စာများ၌ ရေးသားသော ရိုးရိုးလွယ်လွယ်နှင့် အဓိပ္ပါယ် ရှင်းလင်းပြတ် သားသည့် စာပေအရေးအသားမျိုးဖြင့် ဂန္ထလောကမဂ္ဂဇင်းတွင် အစပြု၍ ဝတ္ထုဆောင်းပါးများကို ရေးသားလာကြသည်။ ထို ခေတ်စမ်းစာပေအုပ်စုတွင် သိပ္ပံမောင်ဝ (အိုင်စီအက် ဦးစိန်တင်) သည်လည်း တဦး အပါအဝင် ဖြစ်သည်။ (စိန်တင်၊ ဦး — လည်းရှု။) သိပ္ပံ မောင်ဝ၏ ဝတ္ထုတိုများတွင် ဇာတ်လမ်း ဟူ၍ ပေါ်ပေါ် လွင်လွင် ရှိသည် ဟု မဆိုနိုင်သော်လည်း လူ့အရေး၊ လူ့ကိစ္စတခု၌ ဇာတ်လိုက်သည် မည်သို့ မည်ပုံ တွေးကြံပြောဆို ပြုမူသည်တို့ကို တင်ပြရာ၌ သဘာဝ ကျ၍ နှစ်လိုဖွယ်ရာ ကောင်းပေသည်။

ဂန္ထလောက မဂ္ဂဇင်း၌ ဘာသာပြန် ဝတ္ထုများ၊ ပြဇာတ်များကို ရေးသား၍ နာမည်ကျော်ကြားလာသူ တဦးမှာ သခင်ဘသောင်း ဖြစ်သည်။ အင်္ဂလိပ် ဝတ္ထုရေး ဆရာကြီး တောမတ် ဟာဒီ၏ ဂန္ထဝင်ဝတ္ထုကြီးတပုဒ် ဖြစ်သော တက် (စ) ကို မှီး၍ ရေးသားသည့် ပန်းသာ မစာဥ ဝတ္ထုကြီးသည် သခင်ဘသောင်း၏ အပြောင်မြောက်ဆုံးသော လက်ရာ တပုဒ် ဖြစ်လေသည်။

ထိုခေတ်တွင် ပေါ်ပေါက် လာခဲ့သော ကာလပေါ် ဝတ္ထုများအနက် ဇဝန၏ ဟာသဝတ္ထု ဖြစ်သော ကောလိပ်ကျောင်းသား ဝတ္ထုသည် အထူး ထင်ရှားသည်။ ဇဝနသည် ရန်ကုန် ကောလိပ်ကျောင်းသား ကျောင်းသူတို့၏ ဘဝနှင့် ရှင်မြူးဖွယ်ရာ အတွေ့အကြုံတို့ကို ပိုင်ပိုင်နိုင်နိုင် တင်ပြနိုင်သဖြင့် တဟုန်ထိုး နာမည် တက်ခဲ့လေသည်။

ထိုခေတ်အတွင်း၌ပင် နောင်အခါ ဦးသိန်းဖေမြင့် အမည်တွင်လာသော စာရေးဆရာ ဦးသိန်းဖေသည် အမျိုးသားပြဿနာများ၊ လူမှုရေး ပြဿနာများကို တင်ပြသော ဝတ္ထုများကို ရေးသားသည်။ ကျော်စောသော ဝတ္ထုများမှာ တက်ဘုန်းကြီး ဝတ္ထု၊ ထိုခေတ်က မင်းတိုင်ပင်အမတ်များကို ဝေဖန်သော မင်းတိုင်ပင်ဝတ္ထု၊ ကာလသား ရောဂါ ပြဿနာကို တင်ပြဝေဖန်သည့် တက်ခေတ်နတ်ဆိုး ဝတ္ထုကြီးများ ဖြစ်ကြ၍ ထိုခေတ်က အလွန်ကျော်ကြားခဲ့ပေသည်။

၁၉၃၅–၃၆ ခုနှစ်များတွင် စာရေးဆရာ မောင်ထင်သည် ကိုဒေါင်းဝတ္ထုတိုများတွင် မြန်မာကျေးရွာ၏ အသွင်အပြင်နှင့် မြန်မာကျေးရွာ၏ ဓလေ့ထုံးစံတို့ကို နောက်ခံ ထား၍ မြန်မာရွာသားတဦး၏ သဘာဝ ကို ဖွဲ့ခဲ့သည်။

လူ့ဘဝ၊ မြန်မာ့ဘဝကို ဝေဖန်သုံးသပ်သော ဝတ္ထုများ ပေါ်ထွက်နေစဉ် နိုင်ငံရေးနှင့် အချစ်ရေးကို ပူးပေါင်း၍ ဇာတ်လမ်း ဇာတ်ကွက် ဆင်ပြီးလျှင် မျိုးချစ်စိတ်ကို လှုံ့ဆော်ပေးသော ဝတ္ထုမျိုး၊ မြန်မာအမျိုးသားများ၏ ချွတ်ယွင်းချက်များ ပြုပြင်ရေး ဝတ္ထုမျိုးကို စာရေးဆရာကြီး မဟာဆွေသည် အများဆုံး ရေးသားခဲ့သည်။ (မဟာဆွေ — လည်းရှု။) သူပုန်ကြီး၊ သူပုန်အိမ်နှင့် ဒို့မေမေဝတ္ထုကြီးများသည် အလွန်ကျော်ကြားခဲ့သည်။ ဆရာကြီး မဟာဆွေ၏ စာပေလက်ရာ အသွင်မြောက်ဆုံး ဝတ္ထုကြီးမှာ စာဆိုတော် နဝဒေးကြီး၏ အတ္ထုပ္ပတ္တိဖြစ်သော စစ်ထွက်သူ ဖြစ်လေသည်။ မဟာဆွေအပြင် ထိုခေတ်က ကျော်စောခဲ့သော ဆရာကြီးနှစ်ဦးမှာ မြမျိုးလွင်နှင့် ရွှေစကြာတို့ ဖြစ်သည်။ မြမျိုးလွင်၏ ဝတ္ထုများသည် စကားအချီအချ ပြောဆိုကြပုံကို ရေးပြရာတွင် ခြိမ်းကျူးဘွယ် ဖြစ်သည်။ ရွှေစကြာ၏ ဝတ္ထုများသည် နန်းတွင်းရေးများကို ဇာတ်ကြောင်းခံသော ရာဇဝင် အချစ်ဝတ္ထုများ ဖြစ်သည်။ ထိုပြင် စာရေးဆရာ ရန်အောင်သည်လည်း မြန်မာဆံဆံ အတွေးအခေါ်တို့ဖြင့် အညာသား ဝတ္ထုများကို ရေးသားခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းတွင် ဝတ္ထု၊ ဆောင်းပါး၊ စာအုပ်စာတမ်းများ အထွက် နည်းပါးခဲ့သည်။ စစ်ပြီးခေတ်တွင်မူ စစ်အတွေ့အကြုံ ဝတ္ထုများ အတော်များများ ပေါ်ထွက်ခဲ့ရာ စစ်မတိုင်မီခေတ်က ကိုဒေါင်းဝတ္ထုတိုများဖြင့် ကျော်ကြား ခဲ့သော မောင်ထင်သည် စစ်၏ဒဏ်ကို အလူးအလဲခံရသော မြန်မာတောင်သူလယ်သမားတို့၏ဘဝ သရုပ်ဖော် ငဘဝတ္ထုကြီးကို ရေးခဲ့သည်။ ထိုဝတ္ထုသည် ဂျပန်ခေတ်၏ ခေတ်ကြေးမုံ ဝတ္ထု တပုဒ်လည်း ဖြစ်သည်။ မောင်ထင်သည် လောကကြီး၏ အမြီးအမောက် မတည့်သော သဘော၊ ခြိမ်းမွမ်းခြေကျောက် သဘောတို့ကို ရေးရာ၌ အာဝဇ္ဇန်း ရှင်ရှင်ဖြင့် ပြောင်မြောက်စွာ ရေးစွမ်းနိုင်လေသည်။

အခြားထင်ရှားသောဝတ္ထုကြီးများမှာ စစ်ခေတ်အတွင်း မြန်မာ နိုင်ငံရေးသမိုင်းနှင့် ဖြစ်ရပ်များကို အရေးအသား

ပြောင်မြောက်စွာဖြင့် တင်ပြသော ဦးသိန်းဖေမြင့်၏ လမ်းစပေါ်ပြီ ဝတ္ထု၊ အရှေ့က နေဝန်းထွက်သည့် ပမာ ဝတ္ထုကြီးများ ဖြစ်ကြသည်။ စစ်ပြီးစခေတ်တွင် စစ်ဝတ္ထုများ ခေတ်စားခဲ့သည်။ ထိုပြင် နိုင်ငံခြား ဝတ္ထုများကို မှီး၍ ရေးသားသည့် ဝတ္ထုများ၊ ဆီလျော်အောင် ဘာသာပြန်ဆိုထားသော ဝတ္ထုများလည်း အမြောက်အမြား ထွက်ပေါ်ခဲ့လေသည်။ ထိုခေတ်တွင် လူကြိုက်များသော စာရေးဆရာများအနက်၊ စာရေးဆရာ တင့်တယ်သည် ဇာတ်လမ်း အချိတ်အဆက်ကောင်းသော ဝတ္ထုများကို ရေးခဲ့သည်။ ထိုခေတ်၌ပင် အိမ်ထောင်ရေး ပြဿနာများကို တင်ပြ၍ ထိမိသော စကားလုံးတို့ဖြင့် အချေအတင် စကားပြောခန်းများကို ထည့်သွင်းရေးသားတတ်သော သာခု၊ လူမှုရေးကိစ္စတို့ကို မိမိ၏ရှုထောင့်မှ မြင်သည့် အတိုင်း သရုပ်ပါပါ စေ့စပ်သေချာစွာ တင်ပြတတ်သော ဂျာနယ်ကျော် မမလေး၊ မြန်မာတို့၏ ကျေးရွာဘဝနှင့် ပုံပြင်ရေး၌ အာရုံထားသော မင်းအောင်နှင့် ဆင်ဖြူကျွန်း အောင်သိန်း၊ ရှုပ်ထွေးပွေလီသော လောကဇာတ်ခုံကို ကန့်လန့်ကာကြားမှ နေ၍ ကြည့်ရသဖြင့် ဇာတ်ခုံ၏ရှေ့ပိုင်း၊ နောက်ပိုင်းနှစ်ရပ်လုံးမှ တွေ့မြင်ရသည်တို့ကို ထိမိစွာ သရုပ်ဖော်နိုင်စွမ်းရှိသော ခင်နှင်းယု၊ မျက်မှောက်ခေတ် လူနေမှု စံနစ်နှင့် စပ်လျဉ်း၍ စဉ်းစားဖွယ်ဖြစ်အောင် ရေးတတ်ကြသော ဗန်းမော် တင်အောင်၊ ဒဂုန်တာရာ၊ အောင်လင်း၊ ခင်ဆွေဦး စသူတို့သည်လည်း လူကြိုက်များသော စာရေးဆရာများ ဖြစ်ကြလေသည်။

နောက်ပိုင်း ဟာသ ဝတ္ထုများဖက်တွင် သော်တာဆွေသည် ထင်ရှား လာသည်။ သော်တာဆွေသည် မူလက ခပ်ပေါ့ပေါ့ဟာသဝတ္ထုများကို ရေးသားခဲ့ရာမှ နောက်ပိုင်းတွင် မိမိ၏ ဘဝအတွေ့အကြုံများကို အကြောင်းပြုပြီးလျှင် လေးနက်သော အတွေးအခေါ်များ ပါရှိသည့် ဝတ္ထုများကို ရေးသားလေသည်။

မျက်မှောက်ခေတ် မြန်မာကာလပေါ် ဝတ္ထုများ၏ အဆင့်အတန်းသည် မြင့်မားနေပြီဟု မဆိုသာသော်လည်း နိုင်ငံခြား ဝတ္ထုများကို ဆီလျော်အောင် ပြုပြင်ရေးသားသည့် အဆင့်မှ လူ့ဘဝ၊ လူ့လောက အတွေ့အကြုံတို့ကို သရုပ်ဖော်နိုင်သော ပင်ကိုယ်ရေး ဝတ္ထု အဆင့်အတန်းသို့ တက်လှမ်း လာကြပေပြီဟု ဆိုနိုင်ပေသည်။ ထိုပြင် မြန်မာကာလပေါ် ဝတ္ထု၏ နှစ်ငါးဆယ် သက်တမ်းတွင် စာရေးဆရာ ဦးရေသည်လည်း အလွန် များပြားလာသည်ကို တွေ့ရလေသည်။

**မြန်မာကုမ္ပဏီအသင်းများ။** ။မြန်မာ့ လွတ်လပ်ရေးကြိုးပမ်းမှုတွင် မြန်မာကုမ္ပဏီ အသင်းများ၏ ဆောင်ရွက်မှုများကို ချန်ခဲ့၍မဖြစ်ချေ။ ကုမ္ပဏီအသင်းဟူသည်မှာ ဂျီစီဘီအေခေါ် မြန်မာအသင်းချုပ်ကြီး ကောင်းစားစဉ် ခေတ်က အမျိုးသမီးများ ဝံသာနုလုပ်ငန်းကို ဆောင်ရွက်ရန် ဖွဲ့စည်းကြသော အမျိုးသမီးအသင်းများ ဖြစ်သည်။

ကမ္ဘာပေါ်ရှိ အမျိုးသမီးများတွင် အလွတ်လပ်ဆုံးနှင့် အခွင့် အရေး အရဆုံးဟု ထင်ရှားသော မြန်မာ အမျိုးသမီးများသည် ပဌမကမ္ဘာစစ်အပြီးတွင် အမျိုးသားများနှင့် ဒိုးတူပေါင်ဖက် အသင်းအပင်းများ ဖွဲ့စည်းကာ အမျိုး၊ ပညာ၊ ဘာသာ၊ သာသနာ ဖွံ့ဖြိုးရေးအတွက် ဆောင်ရွက်ကြသည်။ ယင်းအသင်းများကို ကုမ္ပဏီအသင်းဟုခေါ်၍ ယင်းအသင်းဝင်များကို ကုမ္ပဏီများဟု ခေါ်ကြသည်။ မြို့ရော နယ်ပါ ကုမ္ပဏီအသင်းပေါင်း မြောက်မြားစွာရှိသည့် အနက် ဗုဒ္ဓဘာသာကလျာဏယုဝ ကုမ္ပဏီအသင်း၊ မြန်မာ မိန်းမများအသင်း၊ ဒါန သုခအသင်း၊ မြန်မာအမျိုးသမီး နေရှင်နယ်ကောင်စီ စသောအသင်းကြီးများသည် ထင်ရှားသော အသင်းကြီးများ ဖြစ်ကြသည်။

**ဗုဒ္ဓဘာသာ ကလျာဏယုဝ ကုမ္ပဏီအသင်း။** ။၁၉၂၀ ပြည့်နှစ်ခန့်က စတင်တည်ထောင်သည်ဟုဆိုသည်။ အချို့က ယင်းအသင်းကို ပုသိမ်မြို့၌ စတင်တည်ထောင်သည်ဟု ဆို၍ အချို့ကမူ ရန်ကုန်မြို့၌ စတင် တည်ထောင်သည်ဟု ဆိုကြသည်။ အမျိုး၊ ပညာ၊ ဘာသာ၊ သာသနာ ဖွံ့ဖြိုးရေးကို အဓိကထား၍ ဖွဲ့စည်းခဲ့သည်။ အသင်းဝင်များသည် နိုင်ငံရေးကို ထိထိရောက်ရောက် မဆောင်ရွက်နိုင်ကြသဖြင့် အခြား အသင်းတခု ဖွဲ့စည်းကြရာတွင် ယင်းအသင်းသည် မကြာမီ မေးမှိန် သွားလေသည်။

**မြန်မာ မိန်းမများ အသင်း။** ။အချို့က မြန်မာ မိန်းမများအသင်းသည် အမျိုးသမီးများ၏ ပဌမဆုံးတည်ထောင်သော အသင်းဟု ဆို၍ အချို့ကမူ ဗုဒ္ဓဘာသာ ကလျာဏယုဝ ကုမ္ပဏီအသင်းသည် နိုင်ငံရေးကို ထိရောက်စွာမဆောင်ရွက်နိုင်သဖြင့် မြန်မာ မိန်းမများ အသင်းဟူ၍ အသင်းတသင်း တည်ထောင်သည်ဟု ဆိုကြသည်။ အသင်းတည်ထောင်ခြင်း၏အကြောင်းရင်းကိုမူ အသင်း စည်းမျဉ်းဥပဒေစာအုပ်နိဒါန်းတွင် အောက်ပါအတိုင်း တွေ့ရှိရသည်။

"ဤကမ္ဘာဘဒ္ဒ သတ္တလောကဘုံကြီး၌ ဆုံစည်းနေထိုင်ကြသော သတ္တဝါဟူသမျှတို့၏ မူလဘူတ ပကတူပလမ်းမှန်ကျမ်းဂန် စာပေတို့၌ ပါရှိသည်မှာ ဣတ္ထိ ပုရိသ မိန်းမယောကျ်ား နှစ်ပါးသော ပုဂ္ဂိုလ်တို့သည် အဟိုမဆ ကမ္ဘာပေါ်ဦးစကပင် အကြင်သို့သော မိန်းမတို့မှာ ရှေးဦးစွာ ဖြစ်ထွန်းပေါ်လာရကား၊ အဆိုပါ မိန်းမတို့သည် ဤသတ္တလောကကြီး၏ အရှင် မိခင်အစစ် ဖြစ်ပေသည်တကားဟု စကားနိဒါန်း လူတမ်းမော်ကွန်း ပေါ်ထွန်းခဲ့ပေကြောင်း၊ ၎င်းသတ္တဝါဟူသမျှတို့၏ မူလအပင် မိခင် ဖြစ်ကြသူ မိန်းမတို့သည် ကာလဒေသ သမယအလျောက်၊ နောက်နောက်လွန်ခဲ့ပြီး

သော အခါ လွန်စွာ ခေတ်ရှိခဲ့ကြသဖြင့်၊ မဇ္ဈိမဒေသဟု ခေါ်ခဲ့ကြသော အိန္ဒိယနိုင်ငံတော်ကြီးမှာ မဟာမာယာဒေဝီ မဟေသီဟု ရှေးညီထွတ်ဖျား တမွတ်ထားရသော အရှင်မိဖုရားကြီး၏ သားတော် အကျော်တစော အဟောဝတ ဂေါတမ တည်းဟူသော လောကသင်းကျစ် ဘုရားဖြစ်တော်မူစဉ် အခါ ယသော်ဓရာ ခေမာ ဥပ္ပလဝဏ်စသော အမွန်အချွန် အလွန်မြင့်မြတ်လှသော ဧတဒဂ်ဝင် အရှင်ရဟန္တာမိန်းမမြတ်တို့ အပြင်၊ အကြင် ဝိသာခါ ခုဇ္ဇုတ္တရာ နန္ဒမာတာ စသော လူမိန်းမတို့သည်လည်း လောကမှ ထွက်ခွာ၍ လောကုတ္တရာ မဏ္ဍိုင် နိဗ္ဗာန်မြိုင်၌ ရှစ်ခိုင်သော မဂ်ပန်း ဖိုလ်ပန်း တို့ကို ဆင်မြန်းတော်မူဘူးကြပြီလည်း တကြောင်း၊ ရှေးဟောင်း ပုဂံရာဇဝင်နှင့် အင်းဝရာဇဝင်တို့တွင် အလွန်ပင် ထင်ရှားကျော်ကြားခဲ့သည့် မိဖုရားကြီး ဘွားစော ဘိုမယ် အသွယ်သွယ်သော မိန်းမ အပေါင်းတို့မှာ ကန်တော်မင်းကျောင်း မေတ္တာစာ၏ အထောက်အထား 'ယောကျ်ား အားနှင့် ယူသော်မရ၊ မိန်းမအားနှင့် ယူသော်ရ၏' ဟု ပြသညွှန်ကြားသည်နှင့် အညီ၊ ဤမြန်မာပြည်ကြီး၏ အကျိုးများကို တိုးပွားရာ တိုးပွားကြောင်း ကောင်းကောင်းကြီး ဆောင်ရွက်သည်ပိုး ခဲ့ကြပေကြောင်း၊ ထိုအဆိုပါ ဒေသနာ အစုအစဉ်နှင့် ရာဇဝင်ပုံပြင်တို့၌ ဂုဏ်ထင်ကျော်ကြား ခဲ့ကြဘူးသော မိန်းမထူး မိန်းမမြတ်တို့၏ အတ္ထုပ္ပတ်ထုံးဟောင်းတို့ကို အကြောင်းအကျိုး ကောင်းနိုးရာရာ လိုက်နာသမှု သတိပြုသည့်ပြင်၊ ယခုအခါ ကမ္ဘာတွင် ပဌမတန်းဟု ခြိမ့်မွှမ်းခြိမ်းကျူး အထူးပြောဆိုကြရသော ဥရောပ နိုင်ငံ အင်္ဂလန်ပြည်သူ ပြင်သစ်ပြည်သူ ဂျာမနီပြည်သူ အမေရိကန် ပြည်သူ မိန်းမအချင်းချင်းတို့သည် ပေါင်းသင်းညီညာ ကောင်းစွာ ဆောင်ရွက်ကြသောအားဖြင့် ယောကျ်ားများနည်းတူ ပြုမူတွင်ကျယ် ကြသည်များကို မျက်ဝါးထင်ထင် တွေ့မြင်ကြားသိရသည်နှင့် အညီ၊ ဤ မြန်မာပြည်၏ မြို့တော်ဖြစ်သော ရန်ကုန်မြို့မတွင် မြန်မာဝေါဟာ ကောဇာသက္ကရာဇ် ၁၂၈၀ ပြည့်နှစ် ဆန်းသစ်တပေါင်း ချိန်ကောင်းခါ၌ (ဗုဒ္ဓသာသနာတော် သက္ကရာဇ် ၂၄၆၂ ခု) မြန်မာ မိန်းမများအသင်းကို အရင်းမူလ အစစွာဖွဲ့စည်းတည်ထောင် အောင်မြင်ထမြောက်ပါကြောင်း”ဟူ၍ ဖြစ်သည်။

အထက်ပါ မြန်မာမိန်းမများအသင်းကို နေ့ခင် မြေအရေးပိုင်ကတော်ဖြစ်သော ဒေါ်စု၊ နေ့ခင် တရားလွှတ်တော်ချုပ်တရားဝန်ကြီးချုပ်ကတော်ဖြစ်သော ဒေါ်စောတင်၊ ရှုံးဖိနပ်ကုမ္ပဏီပိုင်ရှင် ဦးဘကြူးကတော် ဒေါ်စောခင်၊ ကုန်သည်ဒေါ်ဖွားသစ်၊ ဒီးဒုတ် ဦးဘချို၏ဇနီး ဒေါ်လှမေ၊ ဦးသင်းမောင်ဇနီး ဒေါ်တင်၊ ဆရာဦးဘသိန်း၏ဇနီး ဒေါ်ငွေး၊ ဒေါ်ငွေရင်၊ ဒေါ်ငွေရှင်နှင့် မော်တင်ဈေးမှ ဒေါ်မြမေ စသော အမျိုးသမီးကြီးများက ဦးစီး၍ ကော်မီတီ ၂၀ ကျော်ဖြင့် တည်ထောင်ကြသည်။ အသင်း၏ ပဌမဆုံး ဥက္ကဋ္ဌမှာ ဒေါ်စု ဖြစ်၍ အတွင်းရေးမှူးမှာ ဒေါ်ဖွားသစ် ဖြစ်သည်။ ထိုအချိန်က အသင်းဝင် ဦးရေမှာ ၃၀၀ ခန့်ရှိသည်။ နယ်များ၌လည်း အလားတူ သီးခြားအသင်းများ ရှိသည်။

အသင်း၏ ရည်ရွယ်ချက်မှာ (၁) မြန်မာ မိန်းမများ၏ အကျိုးကို သည်ပိုးရွက်ဆောင် ကာကွယ် စောင့်ရှောက်ရန်၊ အထူးသဖြင့် အသင်းသူတို့အတွက် ဆောင်ရွက်ခြင်း၊ ပညာဗဟုသုတ အပြုအမူ အခြေအနေများ တနေ့တခြား ကြီးပွားတိုးမြင့်လာရန် အားပေးဆောင်ရွက်ရန်၊ (၂) မြန်မာ လူမျိုးအားလုံးတို့နှင့် သက်ဆိုင်သော အကြောင်းကိစ္စတစုံတရာ ပေါ်ပေါက် လာခဲ့လျှင် အသင်းက ကူညီအားပေးသင့်က အားပေးရန်တို့ ဖြစ်သည်။

မြန်မာ မိန်းမများအသင်း၏ အဓိကဆောင်ရွက်ချက်များမှာ အသင်းတိုက်၌ အသင်းသူတို့ အသုံးပြု ဖတ်ရှုကြရန် စာဖတ်ရုံတခု ဖွင့်လှစ်ထားခြင်း၊ မြန်မာအမျိုးသမီးများ လူမျိုးခြား ယောကျ်ားများကို လက်မထပ်ဘဲ ဗုဒ္ဓဘာသာ မြန်မာအချင်းချင်းသာ လက်ထပ်ရန် နှိုးဆော်ခြင်း၊ ဗုဒ္ဓဘာသာ မြန်မာအချင်းချင်း ကူညီယိုင်းပင်းရန် ဟောပြောခြင်း၊ ဗုဒ္ဓဘာသာစာပေပရိယတ္တိပြန့်ပွားထွန်းကားရန် ရွက်ဆောင်ခြင်း၊ အမျိုးသား ပညာရေးကျောင်းကိစ္စများ ကူညီဆောင်ရွက်ပေးခြင်း၊ မြန်မာပြည်ဖြစ် အထည်များကို ဝတ်ဆင်ရန် တိုက်တွန်းခြင်းများ ပြုကြသည်။ အသင်း၏ ရှေးဦး ရည်ရွယ်ချက်မှာ ကုသိုလ်ရေးနှင့် ချေတာရေး ဖြစ်သော်လည်း မကင်းရာ မကင်းကြောင်း ဖြစ်သည်က တကြောင်း၊ အလားတူ အမျိုးသားများ၏ ဝိုင်အမ်ဘီအေ အသင်းကလည်း နိုင်ငံရေးကို ကိုယ်ထိလက်ရောက် ဆောင်ရွက် နေကြသည် ဖြစ်သည်က တကြောင်း၊ မြန်မာ အမျိုးသမီးများ ကိုယ်တိုင်ကလည်း ဝံသာနုနှင့် နိုင်ငံရေးစိတ် ဝင်လာသည်က တကြောင်း တို့ကြောင့် နိုင်ငံရေးကိုပါ ဝင်ရောက်စွက်ဖက် လုပ်ကိုင် ကြသည်။ဂျီစီဘီအေခေါ် မြန်မာအသင်းချုပ်ကြီးနှင့်ဆက်သွယ်ထားပြီး ဖြစ်သဖြင့်လည်း ဂျီစီဘီအေ အသင်းကြီးက ချမှတ်သောလုပ်ငန်းစဉ်များအတိုင်း ဆောင်ရွက်လျက်ရှိကြသည်။ ဂျီစီဘီအေ အသင်းကြီး၏ မြန်မာပြည်လုံးဆိုင်ရာ ကွန်ဖရင့်များ ကျင်းပသည့် အခါ မြန်မာ မိန်းမများအသင်းမှ ကိုယ်စားလှယ် လွှတ်ခွင့်ရ၍ အမျိုးသမီးများနှင့် သက်ဆိုင်သော အဆိုများ တင်သွင်း ကြသည်။ ပဲခူးမြို့၌ ကျင်းပသော ဂျီ စီ ဘီအေကွန်ဖရင့်သို့ မြန်မာမိန်းမများ ကိုယ်စားလှယ်တော် အဖြစ် ဒေါ်စောတင် တက်ရောက်၍ မြန်မာ အမျိုးသမီးများသည် မျူနီစီပယ်လူကြီး၊ ဥပဒေပြုမင်းတိုင်ပင်အမတ် စသည်တို့ အဖြစ် ပါဝင်သင့်ကြောင်း အဆိုတင်သွင်းရာမှ အစ အမျိုးသမီးများ မျူနီစီပယ်နှင့် ဥပဒေပြုလွှတ်တော် ရွေးကောက်ပွဲများသို့ ပါဝင် ယှဉ်ပြိုင်အရွေးခံခွင့် ရကြသည်။ ထို

ပြင် မြန်မာ မိန်းမများအသင်း၏ ဆောင်ရွက်မှုကြောင့် ခေတ်ရထား မီးရထားစသည်တို့၌ မိန်းမများချည်း သန့်သန့် စီးနိုင်ရန် မိန်းမခန်း သီးသန့် ထားပေးသည်အထိ အခွင့် အရေး ရခဲ့သည်။ (ဂျီစီဘီအေ — လည်းရှု။)

မြန်မာ အမျိုးသမီးများသည် မြန်မာပြည်ဖြစ် အထည် များကိုသာ ဝတ်ဆင် အားပေး ကြရန် အသင်းကြီးက လှုံ့ ဆော်ခဲ့ရုံမက အသင်းဝင်တိုင်းသည် အသင်း အစည်းအဝေး တက်သည့်အခါ၊ ဂျီ စီ ဘီ အေကွန်ဖရင့် တက်သည့်အခါနှင့် သာရေး နာရေး ကိစ္စများ သွားလာသည့်အခါ ပင်နီ အင်္ကျီ၊ ယောထမီနှင့် ဒေါင်းပုဝါကို ဝတ်ဆင် ခြုံလွှမ်းကြသည်။

၁၉၃၂ ခုနှစ်ခန့်တွင် မြန်မာနိုင်ငံရေး လောက၌ တွဲရေး ခွဲရေးပြဿနာများ ပေါ်ပေါက်လာသောအခါ ခွဲရေးလိုလား သူက ခွဲရေးဖက်မှ ဆောင်ရွက်၍ တွဲရေးလိုလားသူက တွဲရေး ဖက်မှ ဆောင်ရွက်ကြရာမှအစ အမျိုး၊ ဘာသာ၊ သာသနာ၊ ပညာရေးကို ထထကြွကြွ စည်းစည်းလုံးလုံး ဆောင်ရွက်ခဲ့ သော မြန်မာမိန်းမများ အသင်း၏ လုပ်ငန်းစဉ်လည်း ခေတ္တ ရပ်ဆိုင်းသွားရာမှ တဖြည်းဖြည်း လုံးဝ ကွယ်ပျောက်သွားခဲ့ ရလေသည်။

**ဒါနသုခအသင်း။** ။ဤအသင်းသည် ကုသိုလ်ရေးကို အဓိ ကထား၍ ဆောင်ရွက်သောအသင်းဖြစ်သော်လည်း မကြာမီ နိုင်ငံရေးတွင်ဝင်ရောက်ဆောင်ရွက်သည်။ဒါနသုခအသင်း၏ ဥက္ကဋ္ဌမှာ ဒေါ်ကြင်အိမ်ဖြစ်၍ အကျိုးဆောင် ဒေါ်လှခင် ဖြစ်သည်။ ယင်းအသင်းကို မကြာမီ ဝံသာနု ကုမ္ပဏီအသင်း ဟု မှည့်ခေါ်၍ ဝံသာနုအသင်းများနှင့် တွဲဖက်ဆောင်ရွက် သည်။ ရန်ကုန်မြို့ပေါ်တွင် ဝံသာနုကုမ္ပဏီအသင်း ကိုးသင်း ရှိ၍ ယင်းတို့ကို ပဌမယူနီယံ၊ ဒုတိယ ယူနီယံစသည်ဖြင့် ခေါ် ကြသည်။ ရန်ကုန်မြို့ပေါ်မှ ကုမ္ပဏီအသင်းများအပြင် နယ် အသီးအသီးတွင်လည်း ကုမ္ပဏီ အသင်းများ အနှံ့အပြား ရှိလေသည်။ ကုမ္ပဏီများသည် နိုင်ငံရေးကို ရွက်ဆောင်ရာ တွင် အထူး စိတ်အားထက်သန်ကြသည်။ အင်္ဂလိပ် လက် အောက်ခံကျွန်ဘဝကို စက်ဆုပ်ကြောင်းပြရန် ခေါင်း၌ ပတ် ထားသော လိပ်ခွံဘီးများကိုပင် ဂျီ စီ ဘီ အေ ပေါင်းတည် ကွန်ဖရင့်၌ ချိုးပစ်ကြသည်။ ကုမ္ပဏီများသည် ထိုအချိန်က နိုင်ငံရေး လှုပ်ရှားမှုမှန်သမျှတွင် ပါဝင် ကူညီတတ်ကြသည်။ ဦးဥတ္တမ အဖမ်းခံရသဖြင့် ဘုရင်မ ပန်းခြံ (ယခု ဗန္ဓုလပန်း ခြံ) တွင် လူထုစည်းဝေးပွဲကျင်းပရာ ကုမ္ပဏီများတက်ရောက် ကြသည်။ ပုလိပ်မင်းကြီးက စည်းဝေးပွဲ မလုပ်ရန် တားမြစ် သော်လည်း လူစုမခွဲဘဲ အစည်းအဝေး တက်မြဲတက်ကာ အာဏာ ဖီဆန်နေကြသဖြင့် မြင်းတပ်နှင့် အတင်းတိုက်၍ လူစုခွဲခဲ့ရသည်။ ထိုစဉ်အခါက ကုမ္ပဏီများသည် ရဟန်း တော်များနှင့် ယောကျ်ားများ ထွက်ပြေးကြသော်လည်း မပြေးဘဲ တောင့်ခံနေသောကြောင့် မြင်းနင်းမိ၍ ခြေပြတ် သူပြတ်၊ ဒဏ်ရာရသူရနှင့် အမျိုးမျိုး အနာတရ ဖြစ်ကုန်ကြ သည်။ ကုမ္ပဏီများသည် အထူးစိတ်ဓာတ် ထက်သန်ကြ၍ အလွန်စွန့်စားသူများ အဖြစ် ထင်ရှားသည်။ စည်းစည်း လုံးလုံး ညီညီညွတ်ညွတ်နှင့် ကိစ္စဟူသမျှကို ဆောင်ရွက်ကြ သဖြင့် နိုင်ငံတဝန်းလုံးတွင် ထင်ရှားသည်။ သို့ရာတွင် မကြာ မီ တွဲရေး ခွဲရေး ပြဿနာကြောင့် နိုင်ငံရေးအသင်းအဖွဲ့များ ကွဲကြရာတွင် ကုမ္ပဏီအသင်းများလည်း ကွဲကြ၍ တဖြည်း ဖြည်း မှေးမှိန်လာခဲ့ရသည်။

**မြန်မာ အမျိုးသမီး နေရှင်နယ် ကောင်စီ။** ။ကုမ္ပဏီ အသင်းများ မှေးမှိန်သွားပြီးနောက် အမျိုးသမီးအဖွဲ့ ဟူ၍ မည်မည်ရရမရှိသဖြင့် ၁၉၃၁ ခုနှစ်တွင် အင်္ဂလန်ပြည်၌ ကျင်း ပသော မျက်နှာစုံညီအစည်းအဝေး မကျင်းပမီ မြန်မာအမျိုး သမီး နေရှင်နယ်ကောင်စီကို ဖွဲ့စည်းလိုက်ကြသည်။ အသင်း ဥက္ကဋ္ဌမှာ မင်းကြီးကတော် ဒေါ်မြမေဖြစ်၍ အကျိုးဆောင် မှာ ပညာအုပ် ဒေါ်မြရွှေဖြစ်သည်။ လန်ဒန်မြို့တွင် ကျင်းပ သော မျက်နှာစုံညီ အစည်းအဝေးသို့ အမျိုးသမီးကိုယ်စား လှယ်အဖြစ် ပြည်ထဲရေးဝန်ကြီး ဦးမေအောင်၏သမီး ဒေါ်မြ စိန်ကို ယင်းအသင်းမှ ရွေးချယ်စေလွှတ်ခဲ့သည်။ အသင်း၏ ဆောင်ရွက်ချက်များမှာ နိုင်ငံခြားသတင်းစာများ၌ မြန်မာ အမျိုးသမီးများအကြောင်း ထိခိုက်နစ်နာလောက်အောင် ရေးသားသည်ကို တွေ့ရှိက ကန့်ကွက်ခြင်း၊ အမျိုးသမီးများ နှင့် သက်ဆိုင်သော ကိစ္စများကို ဝင်ရောက်ဆောင်ရွက်ပေး ခြင်းများ ဖြစ်သည်။ အသင်းဝင်များမှာ ဆာပေါ်ထွန်း ဇနီး မစ္စက်ပေါ်ထွန်းခေါ် ဒေါ်သန်းတင်၊ ဦးထွန်းညို ဇနီး ဒေါ်မမခင်၊ ဒေါ်မြစိန်၊ ဒေါ်စန်း၊ ဒေါ်မြရွှေ စသော အစိုးရ အရာရှိဇနီး သားသမီးများ၊ ဥစ္စာပစ္စည်း ပြည့်ဝ၍ အစိုးရနှင့် မကင်းသူများ ဖြစ်ရကား၊ ယင်းအသင်းသည် နိုင်ငံရေးကို အလျင်း မလုပ်ဆောင်ကြချေ။ အရပ်သူများ နှင့်လည်း ဆက်ဆံမှုနည်းသည်။ ကလေးပြပွဲ၊ ကျန်းမာရေးပြပွဲ စသည့် မြို့ရွာနှင့် စပ်လျဉ်းသော လုပ်ငန်းများကို ရံဖန်ရံခါ ကူညီ လုပ်ဆောင်ကြ၏။ သီးသန့် နေထိုင်လုပ်ကိုင်ကြသဖြင့် ရပ် ရွာရှိ ကုမ္ပဏီများက အကူအညီ မပေးဘဲနေခဲ့ရာ၊ ယင်း အသင်းကြီး သည်လည်း ကြီးပွားသင့်သလောက် မကြီး ပွားခဲ့ချေ။

**မြန်မာ ဂီတ။** ။မြန်မာ့ ယဉ်ကျေးမှု သမိုင်းကို လေ့လာ ကြည့်လျှင် မြန်မာဂီတသည် လွန်ခဲ့သော နှစ်ပေါင်း ၁,၅၀၀ လောက်မှ စ၍ ဖြစ်ပေါ်ခဲ့သည် ဟု ယူဆနိုင်လေသည်။ ခရစ်နှစ် ၈၀၂ ခုလောက်က ရေးခဲ့သော တရုပ်လူမျိုးတို့ ၏ မှတ်တမ်းတစောင် အရ မြန်မာတူရိယာနှင့် သီချင်းတို့ သည် ထိုခေတ်တွင် ပြေပြစ် ကောင်းမွန်နေကြပြီ ဟု သိရ လေသည်။

အနောက် တိုင်းသားတို့၏ နားတွင် မြန်မာဂီတသည် တမျိုးတမည် ဖြစ်နေ၍ ရုတ်တရက် နားမလည်နိုင်ပေ။ မြန်မာ ဂီတသည် အနောက်တိုင်း ဂီတကဲ့သို့ အသံတို့ကို စံနစ်တကျ ပေါင်းစပ်ထားသည်ထက် အလိုအလျောက်ဖြစ်သော အသံတို့ကို အဆက်အစပ်မဲ့စွာ ဖက်စပ်ထားသကဲ့သို့လည်း ထင်မှတ်ဖွယ်ရာ ရှိသည်။ သို့သော် သေချာစွာ ဂရုပြု၍ နားထောင်လျှင်မူကား မြန်မာဂီတသည် အဆင့်အတန်းမြင့်သော ဂီတဖြစ်ကြောင်း ရိပ်စားနိုင်ပေသည်။

မြန်မာဂီတတွင် သံစဉ် ခုနစ်မျိုးရှိသည်။ ယင်းတို့သည် တသံနှင့် တသံ မတူကြဘဲ အနိမ့် အမြင့် ရှိကြရာ ထိုသို့ ခြားနားခြင်းကို အကြီးအသေး၊ အကျအတက်၊ အောက် အထက်ဟု အမျိုးမျိုး ခေါ်ဝေါ်သည်။ သံစဉ်များကို အတီးအမှုတ် တူရိယာသံတို့၏ သံစဉ်အတိုင်း ရေတွက်ခေါ်ဝေါ်ကြရာ တခုသော အသံကို '၁' ဟု သမုတ်လိုက်လျှင် ထို '၁' သံမှ လက်ဝဲအောက်ဖက်သို့ ပြန်လိုက်လျှင် ၁-၂-၃-၄-၅-၆-၇-၁ ဟူ၍၎င်း၊ ထို '၁' သံမှ လက်ျာအထက်သို့ ဆန်လိုက်လျှင် ၁-၇-၆-၅-၄-၃-၂-၁ ဟူ၍၎င်း အစီအစဉ် ရှိသည်။ စောင်းကိုအခြေပြု၍ ထိုအသံခုနစ်မျိုးတို့ကို ခေါ်ဝေါ်သော ဝေါဟာရတို့မှာ ညှင်းလုံး၊ ခြောက်သွယ်ညွန့်၊ မြင်စိုင်း၊ အောက်ပြန်၊ ပြည်တော်ပြန်၊ ဒူရကာဒွေး၊ ပုလဲဟူ၍ ဖြစ်ကြသည်။ (စောင်း — လည်းရှု။) ဆိုခဲ့သည့်အတိုင်း အထက်သံအောက်သံ ဟူ၍၎င်း၊ ဗယ်သံ (ဝဲသံ)၊ ညာသံ (ယာသံ) ဟူ၍၎င်း ရှိကြရာ၊ အထက်နှစ်ပေါက်မှ အောက်နှစ်ပေါက်သံ အထိ ရှစ်လုံးတွဲဖြစ်လေသည်။ ဗယ်သံ၊ ညာသံ ဟူသည်မှာ ပတ္တလား၊ စန္ဒရား စသော တူရိယာများကို ကြည့်လျှင် ဗယ်ဖက်သို့ တိုး၍ တီးသွားပါက အသံသည် နိမ့်၍ ပျော့သွားသည်။ ညာဖက်သို့ တိုးသွားလျှင် အသံသည် မြင့်၍ စူးသွားသည်။ တေးဂီတကို တီးမှုတ်ရာ၌ နိမ့်သော အသံချည်း ဆိုက ပျော့လွန်းသည်။ မြင့်သော အသံချည်းဆိုက မာလွန်းသည်။ ထိုကြောင့် မပျော့မမာ အသံသာသာ ရစေရန် ညာဖက်က တီးတိုင်း ဗယ်ဖက်ကပါ လိုက်၍ တီးပေးရသည်။ ယင်းသို့ ဗယ်သံနှင့် ညာသံကို တပြိုင်တည်း တီးပေးခြင်းဖြင့် သာယာနာပျော်ဖွယ်ကောင်းသော ဂီတသံ ဖြစ်အောင် သံစုံညှိခြင်း ဟူ၍ ပေါ်ပေါက်ခဲ့ရလေသည်။

သံစဉ်များကို တပေါက်သံ၊ နှစ်ပေါက်သံ စသည်ဖြင့် ခေါ်ဝေါ်ကြခြင်းမှာ အမှုတ်သံစုံ တူရိယာများ ဖြစ်ကြသော နှဲနှင့် ပြွေတို့၌ ပါသည့် အပေါက်များကို အစွဲ ပြု၍ ခေါ်ကြခြင်း ဖြစ်သည်။ (နှဲနှင့် ပြွေ — လည်းရှု။) ပတ်သံ၊ ကြေးသံ၊ မောင်းသံတို့ကို နှဲကြီး၏ အသံများဖြင့် ညှိထားသည် ။ ထိုကြောင့် ယင်းတို့ကို တီးခတ်ရာ၌လည်း နှဲ၏သံစဉ်များကို ခေါ်ဝေါ်သုံးနှုန်းသည့်အတိုင်း လေးပေါက်သံ၊ ငါးပေါက်သံ စသည်ဖြင့် ခေါ်ဝေါ် သုံးနှုန်းကြလေသည်။

ဂီတသံစဉ်တို့၏ ပရိယာယ် အားဖြင့် အသံတမျိုးလျှင် ခုနစ်မျိုး ပြောင်းနိုင်သည်။ ပုံစံအားဖြင့် မူတည်သံကို တပေါက် ထားလျှင် ကျန်အသံများသည် ၂-၃-၄-၅-၆-၇ ဟု အစဉ်အတိုင်း ရှိကြသည်။ သို့သော် နှစ်ပေါက်သံကို မူတည်သံ ထားလျှင် သုံးပေါက်သံသည် လေးပေါက်၊ လေးပေါက်သံသည် ငါးပေါက်၊ ငါးပေါက်သံသည် ခြောက်ပေါက်၊ ခြောက်ပေါက်သံသည် ခုနစ်ပေါက်၊ ခုနစ်ပေါက်သံသည် တပေါက်သံ ဟူ၍ အစဉ်အတိုင်း ပြောင်းသွားသည်။ အသံခုနစ်မျိုး အနက် မည်သည့်အသံကို မဆို မူတည်သံ ထားနိုင်ရာ ကျန်အသံခြောက်သံတို့သည် ဆိုခဲ့သည့်နည်းအတိုင်း




**မြန်မာဂီတတွင် အမြတ်တနိုးသုံးသော တူရိယာမှာ စောင်းကောက် ဖြစ်သည်။ ရှေးမြန်မာတူရိယာများအနက် စောင်းဖြင့် တီးသော စောင်းတီးကွက်သည် အထင်ရှားဆုံးနှင့် အခန့်ညားဆုံး ဖြစ်သည်။**

အသံပြောင်းသွားကြသည်။ တနည်းအားဖြင့် ဆိုရလျှင် မူတည်သံကို လိုက်၍ တပေါက်သံသည် 'နှစ်' လည်း ဖြစ်နိုင်သည်။ 'သုံး' လည်း ဖြစ်နိုင်သည်။ 'လေး' လည်း ဖြစ်နိုင်သည်။ 'ငါး' လည်း ဖြစ်နိုင်သည်။ ထိုကြောင့် အသံတသံလျှင် ခုနစ်မျိုး ပြောင်းသွားနိုင်၍ သံစဉ်ခုနစ်ပါးသည် အသံ ၄၉ မျိုး ပြားနိုင်သည်ကို အစွဲပြုကာ၊ မဃဒေဝလင်္ကာသစ်၌ 'ပေါင်းရိုး ညီးညံ၊ ခုနစ်သံတွင်၊ အသံ ခုနစ်မျိုး၊ လေးဆဲ့ကိုးတည့်' ဟု ဖော်ပြထားသည်။ ရှေးဂီတပညာရှင်တို့သည် သံစဉ်တို့၏ ပရိယာယ်ကို နောင်လာ နောက်သားများ နားလည် သဘောပေါက်စေရန် သံစဉ် ခုနစ်မျိုးကို စုံအောင် လည်သော "ဘုန်းတော်တေဇာ ဝေဖြာမိုးလို့ ထွင့်ရာဇိန်...." အစချီသည့် ခုနစ်သံလည်ကြိုး ဟု တီထွင်စပ်ဆိုခဲ့ကြလေသည်။

မြန်မာ ဂီတကို သီဆိုတီးမှုတ်ကြသူများသည် 'တျာ၊ တော၊ တျော'ဟူသော မိတ်ဖက်သံများကို သိနားလည်ထား

ကြရပေသည်။ သံစဉ်ခုနစ်မျိုးအနက် အဆင်ပြေရာ နှစ်သက်ရာ အသံတခုကို မူတည်သံ ပြုနိုင်ရာ ထိုမူတည်သံကို တျာသံဟုခေါ် သည်။ တျာ၊ တေ၊ တျောသံစဉ်တို့ တွဲဖက်ပုံမှာ တခုသော မူတည်သံကို တျာ ဟုခေါ်လိုက်လျှင် ထိုတျာသံ၏ လက်ဝဲအောက်ဖက် တပေါက်ကြီးသံသည် တေ ဖြစ်သည်။တျာသံမှအောက်ဖက်လေးလုံးတွဲ(နှစ်လုံးခြား) စတုတ္ထအသံသည် တျော ဖြစ်လေသည်။ ပုံစံအားဖြင့် တပေါက်သံသည် တျာ ဖြစ်လျှင် ထိုအသံမှ အောက်သို့ ပြန်သော် နှစ်ပေါက်သံသည် တေဖြစ်၍ လေးပေါက်သံသည် တျော ဖြစ်သည်။ အထက်သို့ ဆန်သည့်အခါတွင်မူ အကယ်၍ တပေါက်သံသည် တျောဖြစ်လျှင် ထိုအသံမှ ခြောက်ပေါက်သံသည် တေဖြစ်၍၊ ငါးပေါက်သံသည် တျာ ဖြစ်လေသည်။ ယင်းစံနစ်အတိုင်း အသံတခုကိုသိလျှင် ထိုအသံ၏ အထက် အောက်ရှိ နိမ့်သံ၊ မြင့်သံတို့ကို တွက်စစ်သိရှိနိုင်ပေသည်။

ပုံစံအားဖြင့် တပေါက်သံ တျာ ဖြစ်လျှင် နှစ်ပေါက်သံ တေ ဖြစ်၍ လေးပေါက်သံ တျော ဖြစ်သည်။

တပေါက်သံ တေ ဖြစ်မူ ခုနစ်ပေါက်သံ တျာ ဖြစ်၍ သုံးပေါက်သံ တျော ဖြစ်သည်။

တပေါက်သံ တျော ဖြစ်မူ၊ ငါးပေါက်သံ တျာ ဖြစ်၍ ခြောက်ပေါက်သံ တေ ဖြစ်လေသည်။

သံစဉ်များ အနက် နှစ်သက်ရာကို တျာသံပြုနိုင်သဖြင့် သံစဉ်ခုနစ်မျိုးလုံးတို့သည် တျာသံများ ဖြစ်နိုင်ကြသည်။ အကြောင်းအားလျော်စွာ တေ၊ တျော တို့လည်း ခုနစ်သံစလုံး ဖြစ်နိုင်သည်။ ထိုသို့ အသံတမျိုးကို တျာ၊ တေ၊ တျော သုံးမျိုးပြား၍ ကျန်သော အသံခြောက်မျိုးနှင့် မိတ်ဖက်သံများ ဖြစ်ကာ ဆက်စပ်လေသည်။

သံစဉ်တို့တွင် အနိမ့်၊ အမြင့်၊ အထက်သံ၊ အောက်သံ၊ ဗယ်သံ၊ ညာသံ ဟူ၍ ရှိကြောင်း ဖော်ပြခဲ့ပြီ။ အနိမ့်အမြင့်သံတို့သည် တခုနှင့်တခု ရှစ်လုံးတွဲများ ဖြစ်ကြသည်။ တေသံသည် တျာ၏ အောက် တပေါက်နိမ့်သံ ဖြစ်သည်။ တျာသည် တပေါက်သံ ဖြစ်လျှင် ယင်း၏ အောက်တပေါက်ဖြစ်သော နှစ်ပေါက်သံသည် တေ ဖြစ်သည်။ အထက် တေ နှစ်ပေါက်သံသည် အောက်တေနှစ်ပေါက် သံမှ ရှစ်လုံးတွဲ ဖြစ်ရာ တျာ တပေါက်သံမှ အထက် တေ နှစ်ပေါက် သံ အထိ (၁-၇-၆-၅-၄-၃-၂) ခုနစ်သံရှိသည်။ မူတည်သော တျာသံမှ အထက်တေသံသို့ ရောက်အောင် သံဆိုတီးမှုတ်ခြင်းကို အထက်သို့ ခုနစ်သံတက်သည်ဟု ခေါ် ဆိုလေသည်။

တျောနှင့် တျာမှာ လေးလုံးတွဲ ဖြစ်သည်။ တျောသည် တပေါက်သံ ဖြစ်လျှင် ယင်းမှ အထက်သို့ လေးခုမြောက် (၁-၇-၆-၅) ငါးပေါက်သံသည် တပေါက် တျော၏ အထက် တျာသံ ဖြစ်သည်။ အောက် တျာသံမှာ တပေါက် တျော၏ အောက်ဖက်သို့ ပြန်လိုက်လျှင် (၁-၂-၃-၄-၅) ငါးခုမြောက် ဖြစ်သော ငါးပေါက်သံသည် တပေါက် တျော၏ အောက်တျာသံ ဖြစ်လေသည်။

သံစဉ်တို့ကို လေ့လာကြည့်လျှင် ပဌမသော် မြန်မာဂီတ သံစဉ်တွင် လေးစိတ်တစိတ်သံ (ဝါ) တမတ်သံ၊ ထိုနောက် ထိုထက် အလုမ်းပိုနီးသော အသံတို့ ရှိနေသည်ဟု ထင်ရလေသည်။အမှန်မှာ မြန်မာဂီတသံစဉ်သည် အနောက်တိုင်းဂီတသံစဉ်မျိုးပင် ဖြစ်လေသည်။ ကွဲလွဲချက်ကား စတုတ္ထ အလုမ်း ဖြစ်သော ငါးပေါက်သံနှင့် သတ္တမအလုမ်း ဖြစ်သော တေ သံတို့သည် 'ကြားနေသံ' များ ဖြစ်၍ အသံဆင်းပုံ တက်ပုံ မတူခြင်း ဖြစ်လေသည်။

ရှေးဟောင်း မြန်မာတူရိယာများကို တီထွင်စဉ် အခါက မပြုခဲ့သော အချက်တခုမှာ ရှစ်လုံးသံစဉ်၌ ကြားသံ ပါနိုင်အောင် မပြုခဲ့ခြင်း ဖြစ်သည်။ သို့ရာတွင် မြန်မာဂီတသည် တျာမှ တျောသို့ ကူးနိုင်သော စွမ်းရည်ကား ရှိသည်။ ပမာအားဖြင့် အနောက်တိုင်း အခေါ် ဖြစ်သော စီ မေဂျာမှ ဂျီ မေဂျာသို့ ကူးနိုင်ခြင်း ဖြစ်သည်။ ထိုပြင် တျာမှ ငါးပေါက်သို့လည်း အခါမရွေး ကူးနိုင်လေသည်။ပမာအားဖြင့် စီ မေဂျာမှ အက်ဖ မေဂျာသို့ ကူးနိုင်ခြင်း ဖြစ်သည်။ သို့ရာတွင် မြန်မာတို့၏ ဂီတ၌ (အက်ဖ ရှပ်) ငါးပေါက်ခွဲသံ၊ သို့မဟုတ် (ဘီဖလက်) သုံးပေါက်ခွဲသံ ဟူ၍ မရှိချေ။ ထို ကြောင့် မြန်မာတို့သည် (အက်ဖ) ငါးပေါက်ကို ငါးပေါက်နှင့် ငါးပေါက်ခွဲတို့၏ အလယ်ဗဟို၌ဌင်း၊ (ဘီ) နှစ်ပေါက်ကို သုံးပေါက်ခွဲနှင့်နှစ်ပေါက်တို့၏ အလယ်ဗဟို၌ဌင်း ဖြတ်၍ ထားကြလေသည်။

မြန်မာဂီတတွင် ဆဲ့နှစ်သံစဉ် ဟူ၍ မရှိချေ။ ထိုနောက် အခြေခံအားဖြင့် အနောက်တိုင်း ဂီတနှင့် မတူသော အချက်တခု ရှိသေးသည်။ ထိုအချက်သည် ယခုအခါ၌ မြန်မာဂီတတွင် ပမာဏအားဖြင့် တပြေးတည်း တည်နေသော အနံနှင့် အလျားတို့သာ ရှိ၍ အထု မရှိခြင်းဖြစ်သည်။ အနောက်တိုင်း ဂီတ၌ကား ဟာမိုနီခေါ် သံစုံညီညွတ်မှု အင်္ဂါရပ် တိုးတက်ခဲ့ပြီ ဖြစ်သဖြင့် အထု ရှိနေပြီ ဖြစ်လေသည်။ တဖန် မြန်မာတူရိယာများသည် ဟာမိုနီ အကျိုး သက်ရောက်မှုကို ချိန်၍ ပြုလုပ်သော တူရိယာမျိုး မဟုတ်ချေ။ ထိုကြောင့် မြန်မာဂီတသည် အထုနယ်ဖက်သို့ တက်လှမ်းခြင်း မပြုနိုင်ဘဲ၊ တီးကွက်သက်သက် ဖြစ်သော အနံအလျားနယ်အတွင်း ၌သာ တိုးတက်ခြင်း ရှိခဲ့လေသည်။ အနောက်တိုင်းသားတို့သည် ဂီတကို နားထောင်သော အခါ သံစုံအထု၏ အရသာကို ခံစား ကြလေသည်။ မြန်မာတို့သည် ဂီတကို နားထောင်သော အခါ တီးကွက် အနံ အလျား၏ အရသာကို ခံစားကြလေသည်။ မြန်မာတို့သည် မယ်လိုဒီခေါ် တေးသွားကို အရေးပေးလေ့ ရှိသည်။ မြန်မာတို့ တီး

သော ပုံသည်ပင်လျှင် တေးသွားကို လိုက်၍ တီးတတ်သည်။ မြန်မာဆိုင်းဝိုင်းကို တီးမှုတ်ရာတွင် မြန်မာပတ်ဝိုင်းသည် အဖေးအမ အခြေအရံ အဖြစ်ဖြင့်သာမက တေးသွားကို လိုက်၍လည်း တီးကွက် ဆင်လေသည်။

မြန်မာဘာသာ စကားသည် စကားတလုံး၌ ဂရုသံ၊ လဟုသံ ထား၍ ပြောသော စကားမျိုး မဟုတ်ချေ။ ဝိသဇ္ဇနီသံ အောက်မြစ်သံ ထည့်၍ ၎င်း၊ မထည့်ဘဲ၎င်း ပြောသော စကားမျိုး ဖြစ်သည်။ အင်္ဂလိပ် စကားသည် စကားတလုံး၌ ဂရု လဟုကို အလေးပြု၍၎င်း၊ ဝါကျပါ စကားလုံးတို့ကို အလေးပြု၍၎င်း ပြောသော စကားမျိုး ဖြစ်သည်။ မြန်မာကဗျာ အစပ်သည်လည်း ဂရု လဟုထက် ကာရန်ကို သုံး၍ ရေးရသော အစပ်မျိုး ဖြစ်လေသည်။ ထို့ကြောင့် မြန်မာ ကဗျာကို ရွတ်ဆိုသောအခါ အရပ်အဆိုင်း မှန်မှန်ထား၍ ရွတ်ဆိုနိုင်မှုသည် အလွန်အရေးကြီးလေသည်။ ထိုနည်းတူစွာ မြန်မာသီချင်းကို သီဆိုရာ၌လည်း အရပ်အဆိုင်း မှန်မှန်ဖြင့် သီဆိုနိုင်မှုသည် အလွန်အရေးကြီးလေသည်။ တနည်းဆိုသော် သီဆိုသူသည် စည်းဝါးကိုက်အောင် သီဆိုတတ်ရလေသည်။ ထိုအချက်ကို ထောက်၍ မြန်မာတို့၏ နာရီ စည်းဝါး စံနစ်သည်လည်း မြန်မာဘာသာ စကား၏ သဘောကို လိုက်၍ ဖြစ်ပေါ်လာသည်ဟု ဆိုနိုင်လေသည်။

မြန်မာနာရီတွင် စည်းနှစ်မျိုး ရှိသည်။ တချက်စည်း၊ နှစ်ချက်စည်း ဟုခေါ်သည်။ သီချင်းတပုဒ်တွင် နာရီစည်းသည် တမျိုးတည်း ဖြစ်ဖို့ မလိုချေ။ တချက်စည်းမှ နှစ်ချက်စည်းသို့ သော်၎င်း၊ နှစ်ချက်စည်းမှ တချက်စည်းသို့ သော်၎င်း သီချင်းသွားကို လိုက်၍ ပြောင်းစရာရှိလျှင် ပြောင်းနိုင်သည်။ တနည်းဆိုသော် မြန်စရာ ရှိလျှင် မြန်နိုင်၍ နှေးစရာရှိလျှင် နှေးနိုင်သည်။ သို့ရာတွင် နာရီစည်းလွတ်၍ ကား သီဆိုတီးမှုတ်ခြင်းမပြုရချေ။ မြန်မာဂီတတွင် တချက်စည်း၊ နှစ်ချက်စည်း ဖြစ်သော ဒုန်းကိုက် စတုရန်း နာရီကိုသာ သုံးသည်။ အနောက်တိုင်း ဂီတ၌ သုံးသော သုံးချိုး၊ လေးချိုး၊ ခြောက်ချိုး ဖြစ်သည့် တြိဂံနာရီကို မသုံးချေ။

မြန်မာ တူရိယာ အမျိုးမျိုး ရှိသည့် အနက် စောင်းကောက်သည် မြန်မာတို့ အမြတ်တနိုး သုံးသော တူရိယာ ဖြစ်သည်။ မြန်မာဆိုင်း ဟူ၍လည်း ရှိသည်။ ဆိုင်းတွင် ပတ်ဝိုင်း ပါသည်။ ကြေးဝိုင်း ပါသည်။ ပတ်မကြီး ပါသည်။ နှဲ၊ ပြွေ၊ လင်းကွင်း၊ ဝါးလက်ခုတ်တို့ ပါသည်။ ဆိုင်းကို ဇာတ်ပွဲကရာ၌၎င်း၊ နတ်ပွဲ ကရာ၌၎င်း၊ ပျော်မှု ရွှင်မှုဆိုင်ရာ အခြားပွဲများ၌၎င်း အသုံးပြုသည်။မြန်မာတို့၏ ဓလေ့ ဘာသာ ဂီတမျိုးလည်း ရှိသည်။ ထိုဂီတမျိုးတွင် ပုံအမျိုးမျိုးကို သုံးသည်။ ဒိုးပတ်၊ အိုးစည်၊ ပုံကြီး၊ ဗြော စသည်တို့ဖြစ်သည်။ ဒိုးပတ်၊ အိုးစည်တို့ကို အလှူခံ ထွက်သည့် အခါ၌၎င်း၊ ရှင်လောင်း လှည့်သည့်အခါ၌၎င်း ပျော်ပျော်ပါးပါး တီးမှုတ် တတ်ကြသည်။ ခပ်သွက်သွက် တီးသည့်အခါ ဘေးလူများ၌ပင် ကချင်ခုန်ချင်စိတ် ပေါက်စေနိုင်သည်။ ပုံကြီးကို လယ်တော၌ သုံးသည်။ ကောက်စိုက်သမများ ကောက်စိုက်ကြစဉ် ပုံကြီးသံဖြင့် ဖျော်ဖြေတတ်သည်။ ပုံကြီးသံသည် မိုးဟိန်းသံနှင့် တူ၍ လယ်တော၌ မင်းမူသော ဂီတသံ ဖြစ်သည်။ ဗြောကို ရှင်ပြုပွဲ အလှူပွဲတို့၌ တီးသည်။

မဟာဂီတ ဟုခေါ်သော ရှေးသီချင်းကြီးများလည်း ရှိသေးသည်။ ရှေးသီချင်းကြီးများသည် ဒိုးပတ်၊ အိုးစည်၊ ပုံကြီး၊ ဗြော စသော ဓလေ့ဘာသာ ဂီတထက် ပို၍ဆန်းကြယ်သည်။ မဟာဂီတတွင် ယေဘုယျအားဖြင့် ကြိုး၊ ဘွဲ့၊ သီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယား၊ မွန် ဟူ၍ ခြောက်မျိုး ခွဲထားလေ့ ရှိသည်။ အချို့ သီချင်းကြီးများသည် မယ်ဘွဲ့၊ မောင်ဘွဲ့၊ အလွမ်းဘွဲ့များ ဖြစ်သည်။ အချို့သည် တောဘွဲ့၊ တောင်ဘွဲ့၊ ရာသီဘွဲ့များ ဖြစ်သည်။ အချို့သည် ဘုန်းတော်ဘွဲ့၊ မင်းခမ်း မင်းနားဘွဲ့၊ မြို့ဘွဲ့၊ ကန်ဘွဲ့များ ဖြစ်သည်။

မြန်မာတို့၏ ဂီတသမိုင်းတွင် ထင်ရှားသော မှတ်တိုင် တခု ရှိခဲ့လေသည်။ ထိုမှတ်တိုင်သည် ကမ္ဘာသုံးနှစ် (ခရစ်) ၁၇၆၇ ခုနှစ်တွင် ယိုးဒယားကို အင်းဝ ဆင်ဖြူရှင် အောင်မြင်ခြင်း ဖြစ်လေသည်။ ယိုးဒယားကို အောင်မြင်၍ နေပြည်တော်သို့ ပြန်လာသောအခါ သုံ့ပန်းများတွင် ယိုးဒယား အတွင်းတော် သဘင်သည်တို့လည်း ပါလာကြသည်။ ထိုသဘင်ပညာသည်တို့ကြောင့် မြန်မာ သဘင်ပညာသည် ရှေးကထက် ပို၍ ကြွယ်ဝ လာရလေသည်။ ရှိဟောင်း မြန်မာသဘင်ပညာတွင် အကသစ်၊ အဆိုသစ်၊ အတီးသစ်တို့ တိုးလာကြသည်။ ရာမ၊ အီနောင်၊ သခ်ပတ္တ စသော ဇာတ်သစ်များ တိုးလာကြသည်။ မြန်မာတို့သည် ယိုးဒယားတို့ကို လက်နက် လက်ရုံးဖြင့် အောင်မြင်သည် မှန်သော်လည်း ယိုးဒယားတို့သည် မြန်မာတို့ကို သဘင်ပညာဖြင့် အောင်မြင်လေသည်ဟု ဆိုနိုင်ပေသည်။

မျက်မှောက်ခေတ်တွင် အနောက်တိုင်း ဂီတသည် ရေဒီယိုမှ၎င်း၊ ရုပ်ရှင်မှ၎င်း အပျံ့ အနှံ့ ရောဝင်လာသည်မှာ အထင်အရှား ဖြစ်လေသည်။ ယခုအခါ၌ အနောက်တိုင်း ဂီတ အရောဝင် များနေပြီဟု ဆိုရချေမည်။ သို့ရာတွင် အနောက်တိုင်း ဂီတကို သဘောကျသူတို့လည်း အမြောက်အမြားပင် ရှိလေသည်။

မြန်မာတူရိယာ၌ တိကျမှု မရှိသောကြောင့် သဘောမကျ အားမရဟု ဆိုသူလည်း ရှိကောင်း ရှိမည်။ သို့ရာတွင် အနောက်တိုင်း တူရိယာ၌ တိကျမှု ရှိသောကြောင့် အနောက်တိုင်း အတီးသမားသည် တိကျမှု၏ ဩဇာကို နာခံသူ၊ (ဝါ) တိကျမှု လက်ပါးစေ ဖြစ်နေပြီဟု ဆိုရပေမည်။ မြန်မာတူရိယာ၌ တိကျမှုမရှိ။ မရှိသောကြောင့် မြန်မာ အတီးသမားသည် တူရိယာကို ခိုင်းချင်တိုင်း ခိုင်းနိုင်လေ

သည်။ ခိုင်းချင်တိုင်း ခိုင်းနိုင်လျှင် မိမိ၏ ကိုယ်ပိုင်ကျွမ်းကျင်မှုကို လွတ်လွတ်လပ်လပ် ဖော်ပြ နိုင်ခွင့် ရသကဲ့သို့ ဖြစ်၍ ကျွမ်းကျင်လျှင် ကျွမ်းကျင်သလောက် ယဉ်နိုင်၊ နှုနိုင်၊ နွဲ့နိုင်၊ ခန့်နိုင်၊ သန့်နိုင်လေသည်။ ထိုအပြင် မြန်မာ အတီးသမားသည် ဂီတသင်္ကေတကို မကြည့်ဘဲ အလွတ်တီးတတ်လေသည်။အလွတ်တီးတတ်သော မြန်မာအတီးသမားသည် တခါတီးလျှင် တမျိုးတီးမည် ဖြစ်ရာ၊ တီးသည့်အခါတိုင်း ကိုယ်ပိုင် ဂီတသတ္တိကို တင်းပြည့် ကျပ်ပြည့် ဖော်ပြနိုင်မည်သာ ဖြစ်လေသည်။

အချို့က အနောက်တိုင်း ဆိုင်းဝိုင်း (အော်ခက်စတြာ တီးဝိုင်း)ကို ခြိမ်းမွမ်း၍ မြန်မာဆိုင်းဝိုင်းကို အပြစ်တင်တတ်ကြလေသည်။ အနောက်တိုင်းဆိုင်းဝိုင်းတွင် အတီးသမားများသည် သူနေရာနှင့်သူ မတီးဘဲ၊ မမှုတ်ဘဲ မနေရ၊ ရပ်မနေရ၊ စည်းကမ်းအတိုင်း တီးမှုတ်ကြရသည်။ ဤအချက်ကို ခြိမ်းမွမ်းကြလေသည်။ မြန်မာ ဆိုင်းဝိုင်းတွင် အတီးသမားတဦးသည် တီးမှုတ်နေယင်း မိမိ၏တူရိယာကို ခေတ္တရပ်ထား၍ ရသည်။ ဤအချက်ကိုမကြိုက်၊ စည်းကမ်း မရှိဟု အပြစ်တင်ချင်ကြသည်။ ပမာအားဖြင့် စိန်ဗေဒါသည် ဝိုင်းနှင့် တီးမှုတ်နေယင်း ရုတ်တရက် ပတ်လုံး တလုံး အသံတိမ်သွားသဖြင့် ပတ်တီးရပ်၍ ပတ်စာပြင် အသံညှိနေသော အခါသည်းမခံနိုင် ဖြစ်ကြလေသည်။ စင်စစ်မှာ မြန်မာဆိုင်းဝိုင်းတွင် တူရိယာ တခုခုသည် ခေတ္တ အတီးရပ်နေသဖြင့် ဝိုင်းလည်း မပျက်၊ အရသာလည်း မပျက်၊ အရေးလည်း မကြီးချေ။ ထိုပြင် အနောက်တိုင်း ဂီတတွင် ဟာမိုနီသည် အဓိကဖြစ်သဖြင့် တီးသံမှုတ်သံတို့သည် ညီညီညာညာ ချိတက်သွားဘိသကဲ့သို့ သံစုံညီမှ ဖြစ်သည်ဟုရင်း၊ မြန်မာဂီတတွင် တီးသံ မှုတ်သံတို့ကို ရောနှော၍ အရသာဖော်ထားသော သဘောရှိသည်ဟုရင်း သတိပြုမိဖို့လိုသည်။ အနောက်တိုင်းသားတို့သည် သံစုံ ဟာမိုနီ အရသာကို ကြိုက်ကြသည်။ ဤအချက်ကိုလည်း ထည့်၍စဉ်းစားသင့်သည်။ အနောက်တိုင်း ဂီတတွင် ဟာမိုနီသည် အရေးကြီးသည်။ ထိုကြောင့် တီးသံမှုတ်သံတို့သည် လုံးပေါင်းထားသော သမာသ သဘော ဖြစ်သည်။ မြန်မာ ဂီတတွင် ဟာမိုနီသည် အရေးမကြီး၊ ထိုကြောင့် တီးသံ မှုတ်သံတို့သည် ရောထားသော မိဿက သဘော ဖြစ်သည်။ ဤအချက်ကိုလည်း ထည့်၍ စဉ်းစားရမည်သာ ဖြစ်လေသည်။



တနေရာတည်းတွင် ထိုင်၍ တီးမှုတ်ရသော မြန်မာဂီတသံစုံဝိုင်းမှာ ဆိုင်းဝိုင်းဖြစ်သည်။ ဆိုင်းကို ဇာတ်ပွဲကရာ၌ရင်း၊ နတ်ပွဲကရာ၌ရင်း၊ ပျော်မှုရွှင်မှုဆိုင်ရာ အခြားပွဲများ၌ရင်း အသုံးပြုလေ့ ရှိသည်။

မြန်မာတို့၏ ဂီတပညာသည် စိတ်ကူးဉာဏ် ရှိသလောက် ကွန့်ချင်တိုင်း ကွန့်နိုင်သော ပညာ ဖြစ်လေသည်။ ထို့ကြောင့် အနောက်တိုင်း ဂျပ် စ တီးလုံးနှင့် အနောက်တိုင်း ကာလပေါ် သီချင်းတို့၏ လွှမ်းမိုးခြင်းကို ခံယူရန်မလိုချေ။ စင်စစ် မြန်မာတို့၏ ဂီတလောကတွင် မြန်မာ ပီသသော ကာလပေါ် သီချင်းကောင်း အမြောက်အမြား ပေါ်ထွက်လျက် ရှိလေသည်။

ရှေးဟောင်း မြန်မာ ဂီတသည် အိန္ဒိယပြည်သားတို့၏ ရှေးဟောင်း ဂူဂျရတ် ပန်းချီလက်ရာကဲ့သို့၎င်း၊ ခမာ (ယခုခေတ် ကမ္ဘောဇ) တို့၏ ရှေးဟောင်း ကျောက်တန်ဆောင်း ဗိသုကာလက်ရာကဲ့သို့၎င်း၊ တရုပ်လူမျိုးတို့၏ ရှေးဟောင်း ကြွေထည်လက်ရာကဲ့သို့၎င်း ထိန်းသိမ်းထားအပ်သော အနုပညာ ဖြစ်လေသည်။ မြန်မာလည်း မဟုတ်၊ အနောက်တိုင်းလည်း မဟုတ်သော စကောစက ဂီတကို မျှော်မှန်းတမ်းတသာယာနေမည့် အစား၊ အရိုးမှန် အစဉ်မှန် ဖြစ်သော မိမိရှေးဟောင်း ဂီတကို ပြန်လည်လေ့လာခြင်း၊ ထိန်းသိမ်းခြင်း ပြုသင့်ကြလေသည်။

**မြန်မာစာပေ။ ။ပုဂံခေတ်စာပေ။ ။**မြန်မာစာပေ၏ အစမူလသည် ပုဂံခေတ်စာပေဖြစ်၍ ကျောက်စာအရေးအသား ထွန်းကားသည်ကိုတွေ့ရ၏။ (ပုဂံကျောက်စာ—ရှု။) ကျောက်စာကို လေ့လာခြင်းဖြင့် မြန်မာစာပေပေါက်ဖွားစအချိန်က အခြင်းအရာများကို သိနိုင်၏။ ကျောက်စာများသည် လွန်ခဲ့သော နှစ်ပေါင်း ၇၀၀ ကျော် ပုဂံကောင်းစားသည့် ခေတ်က ထွန်းကားခဲ့လေသည်။ ဘုရားကျောင်းကန် စေတီပုထိုး စသော ကုသိုလ်များ ပြုတိုင်း လှူဒါန်းခဲ့သည့် အကြောင်းအရာနှင့် သက်ဆိုင်သမျှကို ကျောက်စာများတွင် ရေးထိုးလေ့ ရှိကြ၏။ ထိုပုဂံခေတ် ကုသိုလ်ရှင်တို့သည် ကုသိုလ်ကောင်းမှုကို ပြုပြီးသောအခါ လှူသောပစ္စည်း အကြောင်းနှင့်တကွ အမျှဝေခြင်း၊ ဆုတောင်းခြင်း၊ ဖျက်ဆီးသူကို ကျိန်စာတိုက်ခြင်းတို့ကို ကျောက်တိုင်ကျောက်ပြားများပေါ်တွင် မှတ်တမ်းတင်ခဲ့ကြသည်။

တွေ့ရသမျှသော ပုဂံခေတ် ကျောက်စာများထဲတွင် ရှေးအကျဆုံးဟု ယူဆခန့်မှန်းရသော ကျောက်စာသည်မြစေတီကျောက်စာ ခေါ် ကူပြောက်ကြီးဘုရား ကျောက်စာဖြစ်၍ အရေးအသား စကားအထားအသိုမှာ ပြေပြစ်ခြင်း မရှိလှချေ။ စာလုံးပေါင်းတို့မှာလည်း အဦးအဖျား ဖြစ်သည်နှင့်အညီ တသမတ်တည်း ရေးထိုးထားသည်ကိုမတွေ့ရချေ။ ကျောက်စာတချပ်တည်း၌ပင် စာလုံးပေါင်းချင်း မတူ ကွဲပြား ခြားနားသည်ကို တွေ့ရ၏။ မြေစမ်းခရမ်းပျိုး ဆိုသကဲ့သို့ ကနဦး တီထွင် ရေးသားရခြင်းကြောင့် ဤသို့သော အပြစ်များကို တွေ့ရသည်ဟု ဆိုရပေမည်။ ထိုအပြစ်များကို ဖယ်ရှားကြည့်လျှင် အဖိုးတန်သောအချက်များကို တွေ့မြင်ရမည် ဖြစ်ပေသည်။

မြစေတီ ကျောက်စာ၏ မျက်နှာလေးဖက်တွင် ပါဠိ၊ မြန်မာ၊ မွန်၊ ပျူ ဟူသော ဘာသာလေးမျိုးနှင့် တမျက်နှာစီ ကျောက်စာ အသီးအသီး ရေးထိုးခဲ့သည်ကို တွေ့ရ၏။ (မြစေတီကျောက်စာ — လည်းရှု။) ထို့ကြောင့် ပုဂံခေတ်တွင် မြန်မာစာပေသာမဟုတ်၊ ပါဠိ၊ မွန်၊ ပျူ စသော စာပေကြီးများ ထွန်းကားလျက် ရှိကြောင်းကို သက်သေအထောက်အထားကောင်း ရရှိလေသည်။

ဘာသာခြား စာပေနှင့် အယူဝါဒများသည် အကလေးအရွယ် မြန်မာစာပေ၌ မည်မျှ လွှမ်းမိုးနေသနည်းဟူမူ 'ရှိ' (ရှရီ ဟုဖတ်ပါ)ဟူသော ဟိန္ဒူလူမျိုးတို့၏ မင်္ဂလာစကား၊ နမောဗုဒ္ဓါယ ဟူသော မြန်မာလူမျိုးတို့၏ မင်္ဂလာစကားတို့ဖြင့် နှစ်ခု ပေါင်းစပ်ကာ ဆုမွန်ကောင်း တောင်း၍ ကျောက်စာကို အစချီ ရေးသားထားသည်ကို ကြည့်ခြင်းဖြင့် သိနိုင်လေသည်။ ကျောက်စာ ရေးထိုးရာတွင် သာသနာရေးကိစ္စ ဖြစ်သည့်အလျောက် သာသနာနှစ်ကို အသုံးပြုထားသည်ကို တွေ့ရလေရာ သာသနာတော်ကို မည်မျှလေးစားကြောင်း သိသာနိုင်၏။

မြန်မာ နိုင်ငံတွင် ကျောက်စာအများ တွေ့ရှိ ရသောကြောင့် နိုင်ငံသမိုင်းကို ရေးသားရာ၌ စိတ်ချ ယုံကြည်လောက်သော အထောက်အထား များစွာကို ရနိုင်ခဲ့လေသည်။ မြစေတီ ကျောက်စာတွင် ကျန်စစ်သားမင်း၏ နန်းတက် သက္ကရာဇ်နှင့် နတ်ရွာစံ သက္ကရာဇ်တို့ကို ဖော်ပြထားသဖြင့် အချို့အချို့သော ရာဇဝင်မှတ်တမ်းများကို ပြုပြင်ယူနိုင်စွမ်းခဲ့၏။ မြစေတီကျောက်စာသည် မြန်မာ စာပေ၏ အစပျိုးစလက်ရာဖြစ်သဖြင့် ယင်းကျောက်စာ၏ အရေးအသားကို လေ့လာလျှင် မြန်မာစာပေ၏ မြေစမ်းခရမ်းပျိုးချိန်က အခြေအနေကို သိရှိနိုင်လေသည်။စာအရေးအသား၌ ဝါကျတို အများကို သုံးကြ၏။ လိုရင်းအဓိပ္ပါယ်ပေါ် လွင်ရုံသာ ဖြစ်၍ စာလုံးပေါင်းနှင့် စကား အသုံးအနှုန်းမှာ မတိကျသေးချေ။ အခြား ဘာသာစာပေများလည်း ထွန်းကားလျက်ရှိသောကြောင့် မြန်မာစာပေသည်တိုးတက်သင့်သလောက် မတိုးတက်ဘဲရှိခဲ့ရာ ပုဂံခေတ် ပညာရှင်များ၏ မဆုတ်မနစ်သော လုံ့လ ဇွဲသတ္တိကြောင့် လေ့ကျင့်ဖန်များသဖြင့်သာ တစထက်တစ စည်ပင်ပြန့်ပွား လာလေသည်။

ပုဂံခေတ် စာပေသမိုင်း၌ မဖော်ပြလျှင် မဖြစ်သည့် စာပေမှတ်တမ်းဝင်ကျောက်စာတခုကား သျှင်ဒိသာပါမောက္ခ ကျောက်စာ ဖြစ်၏။ ယင်းကို မြစေတီကျောက်စာ ရေးထိုးပြီး၍ အနှစ် နှစ်ရာနီးပါးခန့်ကြာမှ ပုဂံမြို့ မင်္ဂလာစေတီတော်အနီး၌ ရေးထိုး၏။ထိုကျောက်စာသည် စာပေအရေးအသားအတွက်သာ ထင်ရှားသည် မဟုတ်၊ ထိုခေတ်က

ပြည်တွင်းရေးအနေအထောင့်အယှက်များရှိပုံ၊မြန်မာရဟန်းတော်များ တိုင်းပြည်ရေးနှင့် စပ်လျဉ်း၍ ဆောင်ရွက်ကြပုံတို့ကို မှတ်တမ်း တင်ထားသော ကျောက်စာ ဖြစ်၏။ (ဒိသာပြမုက်၊ သျှင် — လည်းရှု။)

ပုဂံ ကျောက်စာခေတ် စာပေ အရေး အသား များ၌ လက်ာထက် စကားပြေ အရေးအသားက ပိုများကြောင်း တွေ့ရ၏။ ဤသို့ လက်ာကို မရေးဘဲ စကားပြေကိုသာ ရေးခြင်းမှာ လက်ာ မရေးတတ်၍ကား မဟုတ်တန်ရာ။ ရေးတတ်သူများ ရှိပေမည်။ အဘယ်ကြောင့် ဆိုသော် ပရိမ္မ ထီးလှိုင်ရှင်ဘုရား ကျောက်စာ၌ ကာရန်ကို ယူ၍ ရေးသားသော စာကြောင်းကို တွေ့ရ၏။ 'ဥဿာလမည် တန်လိုင်ပြည်ကိုဝ် နည်နည်ညက်ညက် ဖျက်ချေပြီရှယ်' ဟူ၍ ၎င်း၊ နားတောင်းတပ် ဘုရား ကျောက်စာ၌ 'အမျိဝ်ခုနစ်ဆက် ညက်ညက်ပြုန်တီ ပျက်စီစေသော'ဟူ၍၎င်း တွေ့ရှိရ၏။ သို့သော် ရေးကျသော မြန်မာများသည် မြန်မာစာ အရေးအသား အစိုးအညွှာက် ပေါက်စအခါဖြစ်၍ စကားပြေကိုသာ ကျင်ကျင်လျှင်လျှင်ရှိအောင် ရေးသားလိုသည်က တကြောင်း၊ လက်ာမှာ ဂီတသဘော နှောနေသဖြင့် ဗုဒ္ဓဝါဒနှင့် ဆန့်ကျင်နေမည် စိုးသည်က တကြောင်းတို့ကြောင့် ကာရန်များ မကွန့်ခဲ့ခြင်း ဖြစ်တန်ရာ၏။ ကဗျာလက်ာတို့ကို ကျောက်စာများတွင် သီးခြား ရေးထိုးထားခြင်းမရှိသည်မှန်သော်လည်း 'သိုးကလေ ။ ပုပ္ပါးနတ်တောင်၊ အခေါင် မြင့်ဖျား၊ စုံတောပြား၌' အစ ချီသော လက်ာသည်၎င်း၊ အနန္တသူရိယ အမတ်၏ 'သူတည်းတယောက်' အမျက်ဖြေလက်ာသည်၎င်း၊ ကျစွာမင်းလက်ထက်တွင် ပေါ်ဟန်တူသော မြကန်သာ လက်ာသည်၎င်း ထင်ရှားလျက်ရှိ၏။ (အနန္တသူရိယ အမတ် — လည်းရှု။) မည်သို့ပင်ဖြစ်စေ ကျောက်စာခေတ်ကား အဆင့်အတန်း မနိမ့်လှချေ။ ကျောက်စာ အရေးအသားများ ရှိခဲ့သောကြောင့်သာ ကျွန်ုပ်တို့ ယခုခေတ် မြန်မာစာ အရေးအသားသည် တည်တံ့ခိုင်မြဲခဲ့သည်ဟု ဆိုရပေမည်။ တခေတ်မှ တခေတ်သို့ တဆင့်ထက် တဆင့် တိုးတက်အောင် ပြုပြင်ကြရသည်မှာ ဓမ္မတာပေတည်း။

**ပင်းယခေတ် စာပေ။** ။သက္ကရာဇ် ၆၆၀ ပြည့်နှစ် လောက်မှ စ၍ ပုဂံပြည်ကြီး၌ ပြည်တွင်းရေး အရှုပ်အထွေးများ တဖြည်းဖြည်း ပေါ်ပေါက်လာလေရာ နောက်ဆုံး၌ ပုဂံပြည်ကြီး တိမ်းယိမ်းကာ ရှမ်းညီနောင် သုံးဦးတို့သည် မြင်စိုင်း၊ ပင်းယနှင့် စစ်ကိုင်း၊ ဤသုံးမြို့၌ ထီးနန်း စိုက်ထူကြလေသည်။ ယင်းသို့ ပုဂံပြည်ကြီး ပျက်စီးသည်မှ အင်းဝခေတ်ကြီး မထွန်းကားမီ ကာလကို ပင်းယခေတ်ဟု စာပေသမိုင်းတွင် သတ်မှတ်ကြ၏။ အချိန်ကာလအားဖြင့် နှစ်ပေါင်း ၆၀ ကျော်မျှ ဖြစ်၏။

ပင်းယခေတ် စာပေ အဆင့်အတန်းသည် ပုဂံခေတ် အဆင့်အတန်းထက် တိုးတက်လာသည်ဟု ဆိုရပေမည်။ အဘယ်ကြောင့်ဆိုသော် ပုဂံခေတ်တွင် မတွေ့ရသော စာမျိုးများကို ဤပင်းယခေတ်တွင် တွေ့ရ ခြင်းကြောင့် ဖြစ်သည်။ အထူးသဖြင့် ပင်းယခေတ်၌ ပေါ်သော ဆန်းသစ်သည့် စာပေများမှာ တျာဖွဲ့များ၊ ကာချင်းများနှင့် ရတုများဖြစ်၏။ ( ကာချင်း ။ တျာချင်း — လည်းရှု။) ထိုသို့ ကာရန်အစပ်အဟပ်နှင့် ဆွဲငင်ရွတ်ဆိုရသော စာမျိုးကို တွေ့ရခြင်းဖြင့် ဂီတဖက်၌ လိုက်စားလာကြောင်း ထင်ရှားလေသည်။

ကာချင်းမှာ ကာ ကရာတွင် သီဆိုရသော သီချင်းတမျိုးဖြစ်သည်။ ကာ ကသည် ဆိုသည်မှာ ဗန်းခုံးယက်ကဲ့သို့ ခပ်ဝိုင်းဝိုင်း ပုံသဏ္ဌာန်ရှိသော ကာကို မြှောက်ထောင် ပင့်တင် ကခြင်းတမျိုးဖြစ်၏။ ကရာတွင် အတူကသူတို့က သစ်သားဓား၊ သစ်သားလှံတို့ဖြင့် ထိုးခုတ်သည်ကို မထိ မခိုက်ရအောင် ကာကွယ်၍ က ရသော အက ဖြစ်ရကား စစ်ရေးစစ်ရာ လေ့ကျင့်မှု တရပ်ပင် ဖြစ်လေသည်။ ဤကာ ကမှုသည် အလွန် နှစ်သက်ပျော်ရွှင်ဖွယ် ကောင်းသော လေ့လာမှုဖြစ်၍ သက္ကရာဇ် ၆၇၄ ခုနှစ်တွင် ပင်းယ၌ နန်းတက်သော သီဟသူမင်း ခေတ်က ဝတ်ပုံစားပုံ အပြုအမူ အနေအထားတို့ကို 'ခါးပတ်တော်မှာ ရွှေခြည်စုံ၊ မှိုင်းလုံး ရွှေဝတ်လုံ၊ မလုံသာချမ်းဧ' အစရှိသည်ဖြင့် ကာချင်းတွင် ဖွဲ့နွဲ့ရေးသားသည်ကို တွေ့ရသည်။ မြင်စိုင်း ငါးစီးရှင် ကိုယ်တော်တိုင် ကာချင်းများကို ရေးသားခဲ့သည် ဟု အဆိုရှိလေသည်။

ကာချင်း အပြင် သက္ကရာဇ် ၇၀၀ ကျော်လောက်တွင် 'ရတု' ဟူသည့် လေးလုံးစပ်အဖွဲ့ကို စတုရင်္ဂဗလ အမတ်ကြီး ရေးသားထားသည်ကို တွေ့ရ၏။ အမတ်ကြီး၏ ရတုသည် လောကအကြောင်းနှင့်မသက်ဆိုင်၊ ဓမ္မကြောင်းသက်သက်ဖြစ်၍၊ မိမိ သိလိုသော မြတ်စွာဘုရား တရားတော်နှင့်သက်ဆိုင်သည့် အမေးပုစ္ဆာများကို ဆူးတွင်းပစ် ဆရာတော်ထံ ရေးဆက် မေးမြန်းခြင်းဖြစ်၏။ (စတုရင်္ဂဗလ အမတ် ။ ဆူးတွင်းပစ် ဆရာတော် — လည်းရှု။)

'ရွှေဘဝါးတော်အောက်၊ ကျွန်၏ လျှောက်ဖြင့်၊ မလျှောက်ဝံ့ဝံ့၊ လျှောက်ဝံ့ဝံ့တည့်၊ ကြောက်ရွံ့လျက်ပင်၊ စက်ရွှေစင်ကို၊ ထိပ်ပြင်ပန်နှယ်၊ ဆင်စမွယ်လျက်၊ နိကာယ်လုံးစုံ၊ ကျမ်းသုံးပုံဝယ်' အစချီကာ ရတုသုံးပိုဒ် စလုံးတွင် နက်နဲလှသော အဘိဓမ္မာတရားဆိုင်ရာ ပါဠိပါဌ်သားများကို ခက်ရာခက်ဆစ် စကားလုံးများဖြင့် ရေးသား မေးမြန်းခြင်းကို ထောက်က ပင်းယခေတ် မြန်မာစာပေသည် ပုဂံခေတ် မြန်မာ စာပေထက် အဆင့်အတန်း တိုးတက်မြင့်မားလာကြောင်း သိရ၏။

ဤသို့ဖြင့် ပင်းယခေတ်တွင် တျာချင်း၊ ကာချင်း၊ ရတု စသော စာပေ အဖွဲ့အနွဲ့မျိုး ထွန်းကားသည့်ပြင် ကျောက်

စာ အရေးအသားများလည်း မတိမ်ကောသေးချေ။ သက္ကရာဇ် ၇၀၂ ခုနှစ် ဥဇနာမင်း လက်ထက်တွင် ကူတည်၍ မြေလှူကြောင်းကို ကျောက်ထက်အက္ခရာ တင်ထားခဲ့၏။ တဖန် ၇၂၁ ခုနှစ် ကျော်စွာငယ် လက်ထက်တွင် ဘုရားကျောင်းများကို တည်ထားဆောက်လုပ်၍ လယ်မြေများလှူကြောင်း ကျောက်စာ ရေးထိုးခဲ့လေသည်။ ပင်းယခေတ် ကျောက်စာများသည် ပုဂံခေတ်ကျောက်စာများကဲ့သို့ စေတီပုထိုးများ၌ မြေလှူကြောင်း၊ ကျေးကျွန် လှူကြောင်း စသည်တို့မှာ အကြောင်းအရာအားဖြင့် တူညီနေသော်လည်း ဝါကျ အထားအသို ကောင်းခြင်း၊ နာမဝိသေသနပုဒ်များ ဆင့်ကဲ သုံးထားခြင်းတို့မှာ ပုဂံခေတ်ထက်များစွာ တိုးတက်သည်ကို တွေ့ရပေသည်။

လင်္ကာ ဟူသော အရေးအသားသည်လည်း ဤပင်းယခေတ်တွင် ပေါ်ပေါက်ကောင်း ပေါ်ပေါက် ပေလိမ့်မည်။ ရတုလောက် ခက်ခဲသော စာမျိုးကို ဖွဲ့ဆိုနိုင်ပါလျှင် လင်္ကာကို ဖွဲ့ခဲ့မည်မှာ ယုံမှားဖွယ်ရာ မရှိချေ။ သို့သော် ထိုခေတ်ထိုအချိန်က မြန်မာစာကို အရေးတယူဂရုစိုက် သိမ်းဆည်းမှုနည်းပါးသောကြောင့်လင်္ကာအရေးအသားစာတမ်းမှတ်စုဟောင်းများ ရှာဖွေမရ ဖြစ်ခဲ့သည်ဟု ခန့်မှန်းရ၏။ ခေတ်တခုလုံးကိုခြုံကြည့်ပါက တိုတောင်းလှစွာသောအချိန်အတွင်း မြန်မာစာပေ အရေးအသားသည် ပုဂံခေတ်ကထက်များစွာ တိုးတက်လာသည်ဟု ဆိုရပေမည်။

**အင်းဝခေတ် စာပေ။** ။ပင်းယခေတ် လွန်မြောက်ပြီးနောက် သက္ကရာဇ် ၇၂၆ ခုနှစ်တွင် သတိုးမင်းဖျားသည် အင်းဝရွှေနန်းကို တည်ထောင်တော် မူလေသည်။ ထိုသို့တည်ထောင်သည့် အချိန်မှစ၍ အင်းဝပြည်ကြီး ပျက်သည့်အချိန် သက္ကရာဇ် ၉၀၀ ခန့်အတွင်းကို အင်းဝခေတ်ဟု စာပေလောကတွင် သတ်မှတ်ထား၏။

ထိုအင်းဝခေတ်၌ ရဟန်းပညာရှိ လူပညာရှိ ပါဝင်သော စာဆို ပညာရှင်များသည် ပျို့၊ လင်္ကာ၊ ဧချင်း၊ မော်ကွန်း၊ ရတု၊ မေတ္တာစာတို့ကို ပြုစု ပျိုးထောင်ခဲ့ကြ၏။ (ပျို့။ လင်္ကာ။ ဧချင်း။ မော်ကွန်း။ ရတု။ မေတ္တာစာ — လည်းရှု။) မြန်မာစာပေ စည်ပင် ပြန့်ပွားရန်အတွက် ပုဂံခေတ်က ချုံနွယ် ပိတ်ပေါင်းတို့ကို ခုတ်ထွင်ခဲ့၍ ပင်းယခေတ်၌ လမ်းကြောင်း ထွင်ခဲ့ရာတွင် အင်းဝခေတ်၌ သဲဖြူခင်း ရာဇမတ်ကာသော အခြေသို့ မြန်မာစာပေ၏ အဆင့်အတန်းသည် ရောက်ခဲ့လေပြီ။ ဤသို့ တိုးတက်ခဲ့ရသည်မှာ အင်းဝခေတ် ရဟန်းစာဆိုများ၏ ကျေးဇူးနှင့် မကင်း ခဲ့ချေ။ ရဟန်း စာဆိုများသည် ဘုရားဟော ဇာတ် နိပါတ်များကို မှီး၍ ပျို့ အများအပြား ရေးသား ခဲ့ကြ၏။ ထိုကြောင့် အင်းဝခေတ်ကို ပျို့ခေတ် ဟု နှောင်းလူတို့ အသိအမှတ်ပြုကြသည်။

ရဟန်းတော်များသည် ဗုဒ္ဓအယူဝါဒ၏ အသက်သွေးခဲဖြစ်သော ပါဠိကျမ်းဂန် ဒေသနာတော်များကို အချိန်ရှိသရွေ့ မွေ့လျော်စွာ ဆည်းပူးလေ့လာခဲ့၍ မိမိတို့ သိရှိသမျှသော တရားအဆီအနှစ်တို့ကို အမျိုးလေးပါးတို့ လွယ်ကူစွာ သိစိမ့်သောငှာ ပျို့အစောင်စောင်ကို ရေးသားစီကုံးခြင်းဖြင့် ပေးဝေ ဖြန့်ချိခဲ့၏။ (ပျို့ — လည်းရှု။) ထိုခေတ်က ပေါ်ထွက်ခဲ့သော ပျို့ကဗျာများသည် စာပေ အဆင့် အတန်းတွင် ပဌမတန်းစားများအဖြစ် ယခုတိုင် တည်ရှိနေရကား နှောင်း ပညာရှင်တို့သည် ထိုခေတ်က စာပေအဆင့်အတန်းကို ကျော်လွန်၍ ရေးသား စီကုံးခြင်းငှာ မစွမ်းနိုင်ကြချေ။ ဤသို့ဖြင့် စာပေလောကတွင် အင်းဝခေတ်၏ ပျို့စာပေသည် အထူးပင် ဖူးပွင့်ဝေဆာခဲ့သည်ဟု ဆိုရပေမည်။ ထိုခေတ်က စာပေသည် စိတင်လောက်အောင် ထူးခြားကောင်းမွန်ခဲ့ရခြင်း၏ အကြောင်းရင်းမှာ မြန်မာဘုရင်မင်းမြတ်တို့ ကိုယ်တော်တိုင်ကပင် စာဆိုများကို အားပေးချီးမြှောက်ခြင်း၊ ဥာဏ်ရည်ချင်း ယှဉ်ပြိုင်သာအောင် အခြေအနေကို ဖန်တီးပေးခြင်း၊ နန်းတွင်း အမျိုးသမီး စာဆိုများ ထွန်းကားလာအောင် အခွင့်အရေး ပေးခြင်းတို့ကြောင့် ဖြစ်ပေသည်။

သက္ကရာဇ် ၈၀၀ ပြည့်နှစ်တွင် တောင်တွင်းကြီး မြို့၌ ထူးခြားစွာ ပေါ်ပေါက်လာသော တဘောင်အရ ‘ပေလေးပင်၊ ရှင်လေးပါး’အပါအဝင် ရှင်ဥတ္တမကျော်နှင့် ရှင်မဟာသီလဝံသတို့သည် အင်းဝခေတ်၏ ရဟန်းစာဆိုများတွင် ထိပ်သီးစာဆို ပုဂ္ဂိုလ်ကျော်များ ဖြစ်ကြ၏။ (ဥတ္တမကျော်၊ ရှင်။ မဟာသီလဝံသ၊ ရှင် — လည်းရှု။)

ထိုပုဂ္ဂိုလ်ကျော် နှစ်ပါး အပြင် ဒုတိယမင်းခေါင် လက်ထက်တော်၌ စာဆိုအကျော်ရှင်မဟာရဋ္ဌသာရ ဆရာတော်လည်း ရှိပေသေး၏။ (မဟာရဋ္ဌသာရ၊ ရှင် — လည်းရှု။) ရှင်မဟာ သီလဝံသနှင့် ရှင်မဟာရဋ္ဌသာရ စာဆိုကျော် နှစ်ပါးသည် နေပြည်တော်ရွှေနန်းထက်၌ အပြိုင်စာဆိုသူများ ဖြစ်ကြ၏။ ဘုရင်မင်းမြတ် ကိုယ်တော်တိုင်ကပင် အားပေးချီးမြှောက်တော် မူရကား ထိုရဟန်းစာဆိုကျော်နှစ်ပါး၏ ပြုစုပျိုးထောင်မှုကြောင့် မြန်မာစာပေသည် သိသိသာသာ တိုးတက် ကြီးပွားလာလေသည်။ ပါရမီတော်ခန်း ပျို့၊ ဆုတောင်းခန်းပျို့၊ စတုဓမ္မသာရ ကိုးခန်းပျို့၊ သံဝရပျို့တို့သည် ထိုစာဆိုကျော်ကြီးများ၏ မှတ်ကျောက်ခံ လက်ရာများပေတည်း။

ထိုစာဆိုကျော်ကြီးများ အပြင် ဂါထာ ခြောက်ဆယ် စာဆို အရှင် ရှင်အုံးညို၊ လောကသာရ ဆုံးမစာ ပျို့ စာဆို အရှင် ကန်တော်မင်းကျောင်း ဆရာတော်၊ ဘုံခန်း၊ ငရဲခန်း၊ မဃ္ဃစိုးခန်း ပျို့စာဆိုအရှင် ရှင်အဂ္ဂသမာဓိစသော ကျေးဇူးရှင် စာဆိုကျော်များလည်း ရှိသေး၏။ (အုံးညို၊

ရှင်။ ကန်တော်မင်းကျောင်း ဆရာတော်။ အဂ္ဂသမာဓိ၊ ရှင် — လည်းရှိ။)

ထိုရဟန်း ပုဂ္ဂိုလ်တို့နှင့် ခေတ်ပြိုင် ပေါ်ထွက်လာသော လူပုဂ္ဂိုလ်များမှာ ရှင်သူရဲနှင့် ရှင်ထွေးညိုတို့ ဖြစ်ကြ၏။ ထိုစာဆိုရှင်တို့၏ ကဗျာ အဖွဲ့အနွဲ့များသည် ရဟန်းပုဂ္ဂိုလ်များ၏ အဆင့်အတန်းကို မမှီမကမ်း နိုင်သော်ငြားလည်း၊ လူပုဂ္ဂိုလ်ထဲမှ ရှေးဦးစွာ အားပေး ပြုစုသူများ ဖြစ်ကြသည်။ ထိုပုဂ္ဂိုလ်ကြီးများက ရှေ့ဆောင်လမ်းပြ ပြုသောကြောင့် နှောင်းခေတ်များတွင် ထိုသူတို့ကဲ့သို့ စာပေလိုက်စား ပြုစုသူအများ ပေါ်ပေါက်ခြင်း ဖြစ်ပေသည်။ အင်းဝခေတ်တွင် မြန်မာစာပေသည် တရှိန်ထိုး စည်ပင် ပြန့်ပွားလာ၏။ ရဟန်း စာဆိုများ၊ လူစာဆိုများအပြင် နန်းတွင်း အမျိုးသမီးစာဆိုများလည်း ထွန်းကားခဲ့၏။ စာဆို မိပြုနှင့် စာဆို မိညိုတို့သည် ကိုယ်ရည်သွေးရတုများကို ရေးကာ မြန်မာစာပေလောကကိုမြှင့်တင်ခဲ့ကြ၏။ (ညိုမိ။ပြုမိ — လည်းရှိ။) အင်းဝခေတ်ကို ပျို့ခေတ်ဟု ခေါ်ကြသည့်နည်းတူ မော်ကွန်းအများ ထွန်းကားသော ခေတ် ဖြစ်သောကြောင့်လည်း မော်ကွန်းတံခွန်စိုက်ခေတ် ဟု မှတ်တမ်းတင်ထိုက်လေသည်။ ရှင် မဟာရဋ္ဌသာရ စီကုံးခဲ့သော ပုံတောင်နိုင်မော်ကွန်း၊မိတ္ထီလာကန်တော်ဘွဲ့မော်ကွန်း၊တန်တားဦးတည် မင်္ဂလာစေတီမော်ကွန်းတို့သည်၎င်း၊ရှင်မဟာသီလဝံသ ပြုစုခဲ့သော သျှီသျှားကန်တော်ဘွဲ့ မော်ကွန်း၊ ရွှေနန်းတည် မော်ကွန်း၊ တန်တားဦးတည် မင်္ဂလာစေတီမော်ကွန်းတို့သည်၎င်း အင်းငခေတ်တွင် တံခွန်စိုက် မော်ကွန်းကြီးများ ဖြစ်လေသည်။ ပျို့နှင့် မော်ကွန်း အပြင် တောလားရတု၊ မောင်ဘွဲ့ မယ်ဘွဲ့ ရတု၊ ဧချင်း စသော အဖွဲ့အနွဲ့များလည်း ထင်ရှား ပေါ်ထွက်ခဲ့သေး၏။ သို့ဖြင့် အင်းဝခေတ်သည် စာပေတွင် ပြောင်မြောက်သော ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ်တို့ ထွန်းကား၍ ပဋ္ဌမတန်းစား စာကြီးပေကြီးများ ထွန်းကားသောခေတ် ဖြစ်သည်။

ထိုပြင် ဘုရင့်ရင်သွေးတော်များကို ပခက်တင် မင်္ဂလာရင်ရာ၌ ဘုရင်၏ ဘုန်းတော်ကို ခြီးကျူးဖွဲ့ဆို၍ အေးဆေးသိမ်မွေ့စွာ သီကျူးရသည့် ဧချင်း ဟူသော ကဗျာ တမျိုးလည်း ထိုခေတ်တွင် ပေါ်ထွန်းခဲ့သည်။ ရခိုင်အမတ်အဒူမင်းညို၏ ရခိုင်မင်းသမီး ဧချင်းနှင့် ရှင်သူရဲ၏ သခင်ထွေး ဧချင်းတို့သည် ဧချင်းစု၏ ရှေ့ပြေး သာဓကများ ဖြစ်သည်။ (အဒူမင်းညို — ရှိ။) ထိုမှတပါး ရှင်မဟာသီလဝံသ၏ ပါရာယနဝတ္ထု၊ ရာဇဝင်ကျော်နှင့် သုတပည့်ရှင်ဥတ္တမဂျော်၏ နဝရတ် ပျို့တို့လည်း ထွန်းကားခဲ့ပေသည်။

**တောင်ငူခေတ် စာပေ။** ။ရတုနှင့် ဧချင်း တံခွန်စိုက်ခေတ် ဟု ခေါ်ဆိုထိုက်သော တောင်ငူ ခေတ်သည် သက္ကရာဇ် ၈၅၀ မှ ၉၅၀ အထိ အနှစ် ၁၀၀ နီးပါးခန့် အစွန့်ရှည်လေသည်။ ထိုခေတ် တလျှောက်လုံး၌ တိုင်းပြည် ငြိမ်သက်ပိပြားသည်ဟူ၍ မရှိ၊ မကြာခဏ စစ်ရေး မက်ရေးများ ဖြစ်ပွားနေခဲ့ရာ တိုင်းသူပြည်သားတို့သည် အဘယ်မှာလျှင် ရဲစိတ် ရဲမာန် ရဲသွေးများ မတက်ကြွဘဲ နေနိုင်တော့အံ့နည်း။ တိုင်းပြည်ကို ချစ်သောစိတ်၊ ဘုရင်ကိုမြတ်နိုးသော စိတ်တို့သည် ထိုခေတ် ထိုအခါက လူတို့၏ စိတ်တွင် မည်မျှ ကိန်းအောင်းနေသည်ကို သူတို့ ထားရစ်ခဲ့သော စာပေများက သက်သေထူလျက် ရှိပေသည်။ ထို့ကြောင့် အယူဝါဒရေးကို အရေးပေး ဖွဲ့ဆိုခဲ့သော ပျို့နှင့် မော်ကွန်း ကဗျာခေတ်သည် မှေးမှိန်ခဲ့၍ ဇာတိမာန် တက်ကြွစေမည့် ဧချင်းများ အစဉ် တစိုက် ထွက်ပေါ်လာခြင်း ဖြစ်၏။ ဧချင်း စာဆိုများသည် ဧချင်းဘွဲ့ခံ မင်းသားငယ် မင်းသမီးငယ်တို့၏ ဘိုးလောင်းတော် ဘေးလောင်းတော်တို့မှ စ၍ ခမည်းတော် တိုင်အောင် ရန်အပေါင်းကို နှိမ်နင်းအောင်မြင်ကာ နိုင်ငံတော်ကို အုပ်စိုးနိုင်ခဲ့ပုံတို့ကို ခြီးကျူးထောမနာခဲ့ကြလေသည်။ ထိုသို့ ရေးသားလှုံဆော်ပေးမှုသည် ဘုရင့်ရင်သွေးတော် မင်းသားငယ် မင်းသမီးငယ်တို့ကို ဇာတိမာန် တဖွားဖွား တက်ကြွစေပြီးလျှင် မိမိတို့ တိုင်းပြည်ကို ချစ်စေရန်၎င်း၊ အမျိုးကို ခင်စေရန်၎င်း အထောက်အပံ့ ဖြစ်စေ၏။ ထို့ကြောင့် အင်းဝပြည်ကြီး ပျက်စီး၍ အကွဲကွဲအပြားပြားဖြစ်ရသော်လည်း တောင်ငူဖက်မှ ဇာတိသွေးကို ဝို့ဝို့စားစား ပြကာ တောင်ငူ ခေတ်ကို နှစ်ပေါင်းတရာခန့်တာရှည်အောင် တည်ဆောက်နိုင်ခဲ့သည်ဟု ယူဆဖွယ်ရာ ဖြစ်သည်။

အင်းဝခေတ်၌ တိုင်းပြည် အေးချမ်း သာယာသောကြောင့် ဘုရားတရားနှင့်ပျော်မွေ့နိုင်ကြသဖြင့်တကြောင်း၊ စာဆိုတို့သည်လည်း အထူးသဖြင့် ရဟန်းပုဂ္ဂိုလ်များ ဖြစ်သည်က တကြောင်းတို့ကြောင့် ဓမ္မကြောင်းနွယ်သော ပျို့ ကဗျာ လင်္ကာ မော်ကွန်းများပေါ် ထွန်းပြီးလျှင် တရားနှင့် မမွေ့ နိုင်ဘဲ ဘေးနှင့် တွေ့နေရသော တောင်ငူခေတ်၌ကား ဧချင်း တည်း ဟူသော ဇာတိမာန် လှုံဆော်ပေးသော စာများသာ အလျှောက် ဘာသာ ပေါ်ပေါက် လာရပေသည်။ (ဧချင်း — လည်းရှိ။) အခါအားလျော်စွာ ထွန်းကားလာရသောစာမျိုး ဖြစ်သဖြင့်လည်း များစွာ အကျိုးထူး ပေးစွမ်းနိုင်ပေသည်။ မြန်မာဘုရင်များ ဘုန်းမီး တန်ဆောင် တောက်ပြောင်စဉ်အခါက တန်ခိုး တေဇာတော်မည်မျှ ထွန်းတောက်ခဲ့သည်များကို ယခုခေတ်လူများ ဂုဏ်ယူဖွယ်ရာ ကျန်ခဲ့သည်မှာ ထိုဧချင်းစာဆိုများ၏ ကျေးဇူးပင် ဖြစ်၏။ မင်းတရားရွှေထီး ဧချင်း၊ မင်းတရား မယ်တော် ဧချင်း၊ ယိုးဒယားမိဖုရား ဧချင်း၊ မင်းရဲနရာ ဧချင်း၊ မင်းရဲဒိဗ္ဗဧချင်း စသော ဧချင်းကြီးများသည် တောင်ငူခေတ်၏ မှတ်ကျောက်ခံ ဧချင်းကြီးများ ဖြစ်ပေသည်။

တောင်ငူခေတ် စာပေ၏ အထူး မှတ်သားဖွယ် ထူးခြားချက်တခုကား ထိုခေတ်စာဆိုတို့သည် မိမိတို့၏ ချောင်းများတွင် တောင်ငူမြို့ဘွဲ့ကို များစွာ ခြီးကျူး၍ ဖွဲ့နွဲ့ကြသည်ကို တွေ့ရ၏။ မြို့ဘွဲ့များတွင်လည်း မြို့တော်၏ သာယာပုံ၊ ခမ်းနားပုံ၊ ဆဲ့နှစ်ရာသီပွဲတော်များ ကျင်းပပုံတို့ကို ထည့်သွင်းစပ်ဆိုလေ့ ရှိကြသည်မှာ တောင်ငူခေတ် စာပေ၏ ထူးခြားချက်တခုပင် ဖြစ်၏။

ချောင်း အဖွဲ့အနွဲ့သာ မကသေး၊ ရတု အရေး အသားသည်လည်း တောင်ငူခေတ်က အထူး ထွန်းကားလေသည်။ တောင်ငူခေတ်ပေါ် ရတုများကို ဖတ်ရလျှင် ရတုတံခွန်စိုက် တောင်ငူဘုရင် နတ်သျှင်နောင် မင်းနှင့်တကွ သူ့ရှေ့ပြေးနောက်လိုက် စာဆိုပုဂ္ဂိုလ်များကို မဖော်ပြဘဲ မနေနိုင်ချေ။ နဝဒေးကြီး၏ မတုပနိုင်သောဘုရားတိုင်ရတုများ၊ နတ်သျှင်ကိုယ်တော်၏ စိတ်တင်လောက်သည့် မောင်ဘွဲ့ မယ်ဘွဲ့ ရတုများ၊ စစ်ချီရတုများနှင့် ရှင်သံခို၏ အလွမ်းဖွဲ့ ရတုများသည် တောင်ငူခေတ် စာပေကို အမွှမ်းတင် တန်ဆာဆင်ကြ၏။ (နဝဒေး။ နတ်သျှင်နောင်။ သံခို၊ ရှင် — လည်းရှု။) စာဖွဲ့သည့် ပုဂ္ဂိုလ်များသည် လူငယ်လူလတ်များ ဖြစ်သဖြင့် တကြောင်း၊ နန်းတွင်း ကြီးပြင်းရသူများ ဖြစ်သည်က တကြောင်းတို့ကြောင့် သုံးနှုန်းထားသည့် စကားလုံးများမှာ မဟာဆန်၏။ နုစရာရှိလျှင် လဲ့ဝါတမျှနုနိုင်၍ ယဉ်စရာရှိလျှင် မဒီခင်တမျှ ယဉ်နိုင်ကြပေသည်။ ပုဂ္ဂိုလ်များမှာဗီဇသတ္တိကပင် ပါရမီထူးလာသူများ ဖြစ်သည့်အပေါ်တွင် နတ်သျှင်နောင် ကဲ့သို့သော အချစ်စိတ် ထက်သန်သည့် မင်းသားအဖို့ဆိုလျှင် ရတု စာပေမျိုး ဖွဲ့ရန် အလွန် အဆင်ပြေလျက်ရှိပေ၏။ ဘုရားတိုင်၊ စစ်ချီ၊ မယ်ဘွဲ့ မောင်ဘွဲ့ ရတုများ၌ နတ်သျှင်နောင်၏ စိတ်ကူးစိတ်သန်း အသုံးအနှုန်း စကားလုံးတို့မှာ သူ၏ အတွင်း အဇ္ဈတ္တ မေတ္တာဓာတ်က လှုံ့ဆော်မှုကြောင့် ပေါ်ထွက်လာရခြင်း ဖြစ်၍ အခြားရတုဆရာများကဲ့သို့ လွမ်းယောင်ဆွေးယောင် ချစ်ယောင် ကြိုက်ယောင် အယောင်ဆောင်သော စကားလုံးများ မဟုတ်ချေ။ နတ်သျှင်နောင်၏ စာသားများမှာ အူထဲ အသဲထဲ နှလုံးထဲမှ လှိုက်လှဲစွာ ဖြစ်ပေါ်လာသဖြင့် အောင့်အဉ်း သည်းခံခြင်းငှာ မတတ်နိုင်မှုကြောင့် အဇ္ဈတ္တရင်တွင်းမှ ဗဟိဒ္ဓ နှုတ်ပြင်ပသို့ တရှေ့ရှေ့တိုးဝှေ့ထွက်ဆင်းလာရသော စကားလုံးများ ဖြစ်၏။ ထိုစကားလုံးတို့ဖြင့် အစွမ်းကုန် ဖွဲ့နွဲ့ထားလေရာ နတ်သျှင်နောင်၏အဖွဲ့အနွဲ့များမှာ သူမတူအောင် ကောင်းမွန် ခန့်ညားလေတော့သည်။ ပင်တိုင်စံ ဓာတုကလျာကလည်း စာအနုကဗျာ ဖွဲ့လောက်အောင် ယမင်းအလှ ဖြစ်နေပြန်၊ နတ်သျှင်နောင်ကလည်း ကြင်ပိုင်ရန် ဗျာထူကြွယ်နေရသူ ဖြစ်ပြန်၊ ဤသို့ နှစ်ဦးနှစ်ဝ အကြောင်းကံက ရတုကောင်းရတုမှန် စာစောင်တဖွဲ့ဖြစ်အောင် ဖန်တီးပေးသကဲ့သို့ဖြစ်ရကား တောင်ငူခေတ်၏စာပေသည် မြေတောင်မြှောက်ပေးခြင်း ခံရသည်နှင့် များစွာ တူနေတော့၏။

တောင်ငူ ခေတ်တွင် နတ်သျှင်နောင်၏ အချစ်ရတု အလွမ်းရတုများသာ ခေတ်စားသည် မဟုတ်၊ နဝဒေးကြီး၏ ဘုရားတိုင် စစ်ချီရတုများလည်း ခေတ်မှီ ပဌမတန်းစားများ ဖြစ်၏။ အခြား ရတုဆရာများနှင့် မတူသည့် နဝဒေးအဖွဲ့အနွဲ့မှာ ဘုရားတိုင် ရတုများတွင် ဘုရား၏ သမိုင်းကို ထည့်သွင်း ဖွဲ့နွဲ့လေ့ ရှိခြင်းပင် ဖြစ်သည်။ ဤသို့ မဖွဲ့စဘူးထူးကဲသည့် အဖွဲ့မျိုး၊ ပြောင်မြောက်လှသည့် စကားလုံး၊ ထင်းလှသည့် စိတ်ကူးတို့ဖြင့် တန်ဆာ ဆင်ထားသော တောင်ငူခေတ် ရတုများကြောင့် ထိုခေတ်သည် ရတုခေတ်ဟုပင် မှတ်တမ်းတင်ခြင်း ခံရလေသည်။ နတ်သျှင်နောင်၊ နဝဒေး၊ ရှင်သူရဲတို့အပြင် အခြားကျော်ကြားသော စာဆိုပုဂ္ဂိုလ်များမှာ မင်းတရားရွှေထီး ချောင်းစာဆို လှော်ကား ၃၀၀၀ မူး၊ ဆံထုံး ထုံးနည်း ၅၅ မျိုး အကြောင်း အန်ချင်းစာဆို ရဝေရှင်ထွေး၊ မင်းရဲနရာ ချောင်းစာဆို မင်းဇေယျ ရန္တမိတ်၊ ဗညားဒလ၊ မဟာပညာကျော် စသော ပုဂ္ဂိုလ်များပင် ဖြစ်ကြလေသည်။ (လှော်ကား ၃၀၀၀ မူး၊ ရဝေရှင်ထွေး။ မင်းဇေယျရန္တမိတ်။ ဗညားဒလ။ မဟာပညာကျော် — လည်းရှု။)

**ညောင်ရမ်းခေတ်။** ။သက္ကရာဇ် ၈၈၈ ခုနှစ်တွင် အင်းဝပြည်ကြီး ပျက်စီးခဲ့ရသဖြင့် အင်းဝခေတ် စာဆို ပုဂ္ဂိုလ်ကျော် ထေရ်အရှင်များနှင့် တကွ မူးမတ်ပြည်သူတို့ပါ ပြေးမိ ပြေးရာ ခိုမိခိုရာ ပြေးခို နေကြရ၏။ ထိုအခါမှ စ၍ မြန်မာ စာပေသည် တိမ်မြုပ်လုလု ဖြစ်နေလေသည်။ တဖန် သက္ကရာဇ် ၉၅၉ ခုနှစ်လောက် ရောက်သော အခါ လူမျိုးနှင့် စာပေကို မြင့်တင်ကယ်မမည့် ညောင်ရမ်း မင်းတရားကြီးသည် အကွဲကွဲအပြားပြား ဖြစ်နေသော မြန်မာနိုင်ငံတော်ကို စုရုံး သိမ်းဆည်း၍ အင်းဝပြည်ကြီးကို အသစ်တဖန် ထပ်မံဖန်ဆင်းတော်မူပြန်၏။ ထိုသို့ ညောင်ရမ်းမင်းတရားကြီး ပြန်လည်တည်ထောင်သော ဒုတိယ အင်းဝခေတ်ကြီးကို ညောင်ရမ်းမင်းတရားကြီး၏ အဆက်အနွယ်များသာ ဆက်ခံစိုးစံကြသောကြောင့် ညောင်ရမ်းခေတ်ဟု ခေါ်တွင်လေသည်။ စာဆိုလောကကြီးနှင့် တကွ တိုင်းပြည်ကြီးပါ အစစ အရာရာ ပြန်လည်ထူထောင် နေရသော အချိန် ဖြစ်သောကြောင့် မြန်မာစာပေသည် အစိုအညှောက် စိမ်းဖတ်ဖတ်နှင့်သာ ထွက်ပြူလာနိုင်၏။

အခက်အခဲပေါင်း အမျိုးစုံ ကြားမှ စာပေ အစို့ အညှောက် ကလေး မထွက်ဝံ့ ထွက်ဝံ့နှင့် ဇွတ်ရုန်းကန်လျက် ထွက်လာရသော ညောင်ရမ်းခေတ် စာပေသည် စကားပြေ ထွန်းကားသောခေတ် ဖြစ်လာလေသည်။

ညောင်ရမ်းခေတ် စာပေကို လေ့လာလျှင် အင်းဝခေတ်ကကဲ့သို့ ရဟန်းစာဆို ပုဂ္ဂိုလ်အများ ပြန်လည်ထွန်းကားလာသည်ကို တွေ့ရ၏။ အင်းဝခေတ်အတွင်း သာသနာတော်ကြီး ထိန်ဝါလင်းစဉ် မထေရ်ရှင်များ၏ ဉာဏ်ရောင်ကလည်း ရှိန်ဝါကွန့်မြူးခဲ့၏။ သို့သော် တောင်ငူခေတ်သို့ ရောက်သော အခါ စစ်ရေး ရှုပ်ထွေးလွန်းသဖြင့် ရဟန်းတော်များ အသာဆိတ်ဆိတ် နေခဲ့၍ စစ်သားစာဆို လူပုဂ္ဂိုလ်များ တခေတ် ထကြ၏။ သို့ဖြင့် ညောင်ရမ်းခေတ်သို့ တဖန်ရောက်ပြန်သော် ရဟန်းစာဆိုများ ထွန်းကားပြန်လေသည်။ အင်းဝခေတ်တွင် 'ပေလေးပင် ရှင်လေးပါး' ပေါ်ပေါက်သကဲ့သို့ မြန်မာစာပေ သမိုင်း တလျှောက်တွင် ညောင်ရမ်းခေတ်တွင်လည်း ကျော်ကြီး လေးဆူ ရှိခဲ့လေသည်။ ကျော်ကြီးလေးဆူတို့ကား

(၁) ပုဂံ သဒ္ဒနီတိ ဆရာတော် ရှင်အဂ္ဂဝံသ
(၂) စစ်ကိုင်း ရှင်အရိယဝံသ ဆရာတော်
(၃) အင်းဝ ရှင်ဝရာဘိသင်္ဃနာထ ဆရာတော်
(၄) တောင်ဖီလာ ဆရာတော် ရှင်မုနိန္ဒဃောသ

တို့ဖြစ်လေသည်။ (ဆရာတော်များ။ တောင်ဖီလာ ဆရာတော် — လည်းရှု။)

ထိုကျော်ကြီးလေးဆူတွင် ပါဝင်သော ဝရာဘိသင်္ဃနာထ ဆရာတော်သည် ပါဠိ သင်္ကရိုက်ကျမ်းများတွင် နှံ့စပ်၍ မ တလုံးကျေသော ပုဂ္ဂိုလ်ကျော်ဟု ထင်ရှားလင့်ကစား ကျမ်းများစွာ မပြုစုခဲ့ချေ။ အသီတိနိပါတ်တော်လာ မဟာသုတသောမဇာတ်ကိုသာ အိမ်ဖွဲ့၍ မဏိကုဏ္ဍလဝတ္ထုကျမ်းကို ရေးသားခဲ့၏။ ထိုကျမ်းသည် အစီအစဉ် အလွန်ကျ၍ ခမ်းနားလှသဖြင့် စကားပြေကျမ်းများတွင် ပဌမတန်းစား ကျမ်းကြီးဖြစ်ရာ ဆရာတော်၏ ဉာဏ်ကို ဤကျမ်းတစောင်ဖြင့်ပင် သိဒ္ဓိတင် အကဲခတ်နိုင်လေသည်။

တောင်ဖီလာ ဆရာတော်ကား ဝေဿန္တရာပျို့ဟောင်း၊ ယသဝဍ္ဎနကျမ်းစသည်တို့ကို ရေးသားတော်မူ၏။မနုသာရ ဓမ္မသတ်ကို မနုရာဇာ အမတ်နှင့် ညှိနှိုင်းပြင်ဆင်တော်မူသည်။ ထိုခေတ်က စာပေ အရေးအသားကို လေ့လာသော် ဝါကျရှည်ကြီးများ အသုံးပြုသည်ကို တွေ့ရ၏။ သို့သော် စကားမှာ ရှင်းလင်း ပြတ်သား၍ အဓိပ္ပါယ် ပေါ်လွင်သောကြောင့် ဝါကျရှည်သော်လည်း အဓိပ္ပါယ်ရှင်းလင်း ပြတ်သားသည်။ ရှေးကျသော အသုံးအနှုန်းများကို ပယ်၍ ခေတ်သုံးစကားများကိုသာ သုံးသဖြင့် နားလည်လွယ်လေသည်။

ထိုရဟန်း ပုဂ္ဂိုလ်များ အပြင် ရှင်ကရဝိက၊ ဦးကုလား၊ ဝန်ကြီး ပဒေသရာဇာ စသော စာဆိုများသည် ဤညောင်ရမ်းခေတ်တွင် ကျော်ကြားသည့် စာဆိုတော်များ ဖြစ်၏။ ဦးကုလား ရေးသားသော မဟာရာဇဝင်ကြီးသည် ယနေ့တိုင် ရာဇဝင် ဆရာတို့ လက်မလွှတ်နိုင်သော ကျမ်းကြီးဖြစ်၍ ပဒေသရာဇာ၏ ပျို့များ၊ တျာချင်းများ၊ ပြဇာတ်များသည်လည်း မတိမ်ကောနိုင်သည့် စာပေတို့ ဖြစ်သည်။ (ကရဝိက၊ ရှင်။ ကုလား၊ ဦး။ ပဒေသရာဇာ — လည်းရှု။)

ညောင်ရမ်းခေတ် စာပေ အဆင့်အတန်းသည် အင်းဝခေတ်ကို မမှီဟု ဆိုရပေမည်။ အင်းဝခေတ်တွင် ထွန်းကားခဲ့သော ပျို့အရေးအသားသည် တောင်ငူခေတ်တွင် အတန်ပင် တိမ်ငုပ်သွားသော်လည်း ညောင်ရမ်းခေတ်တွင် အနည်းငယ် ပြန်၍ ရေးကြသည်ကို တွေ့ရ၏။ သို့ရာတွင် အင်းဝခေတ်က အရေးအသားကို မမှီချေ။ ညောင်ရမ်းခေတ်တွင် ထူးခြားသော စာပေမှာ စကားပြေ၊ ပြဇာတ်၊ လူးတား ကဗျာများနှင့် အမေးတော်ပုံကျမ်း၊ တျာချင်းတို့ ဖြစ်၏။ ဤစာပေမျိုးသည် လက်ာရတုတို့လောက် ကျော်ကြားခြင်း မရှိချေ။ စာဆို ပုဂ္ဂိုလ်များသည် တိုင်းရေး ပြည်ရေး၊ ရှုပ်ထွေးမှုကြောင့် စိတ်မအေးနိုင်ဘဲ စာဖွဲ့လိုစိတ် ကုန်နေရာ အားသစ်ကာ ကြိုးကြိုးစားစား စာပေအားပေးသည့် သဘောဖြင့် ရေးလိုက်ရသဖြင့် ဤမျှ အဆင့်အတန်းသာ ရောက်ခြင်း ဖြစ်၏။ ညောင်ရမ်းခေတ် စာပေကို ပြန်လည်ပျိုးထောင်သူတို့ထဲတွင် ဝန်ကြီး ပဒေသရာဇာကို အထူးခြီးကျူးထိုက်၏။ ဝန်ကြီးပဒေသရာဇာသည် ညောင်ရမ်းခေတ်၏ အခက်အခဲမျိုးစုံကို ကျော်ကာ နင်းကာ တပ်ပျက်ဗိုလ်သဖွယ် စာဆိုခေတ်ပျက်ကြီးကို တည်ဆောက်ခဲ့ရလေသည်။ ပျို့ မြောက်မြားစွာကိုလည်း ရေးသားခဲ့၏။ အခြားသူများ မရေးသားခဲ့သော ပြဇာတ်မျိုးကိုလည်း ပြုစုရေးသားခဲ့၏။ သီချင်းကြီး၊ သီချင်းခံ၊ နတ်သံ၊ ဇာတ်ချင်းတို့ဖြင့်လည်း ဂီတ ကဗျာကို အားပေးခဲ့လေသည်။

ဤသို့ အင်းဝစာဆို လောကကြီးကို ညောင်ရမ်းခေတ် စာဆိုများက မဆုတ်မနစ်သော ဇွဲသတ္တိဖြင့် အသစ်တဖန် အသက်သွင်းလာခဲ့ရာမှ သက္ကရာဇ် ၁၁၁၃ ခုနှစ် ဟံသာဝတီ ရောက် မင်းတရားကြီးလက်ထက်တွင် ညောင်ရမ်း စာပေခေတ်သည် ပျက်စီးရပြန် လေ၏။ သို့ရာတွင် အင်းဝစာပေခေတ်ကြီး ပျက်စီးစဉ်က ကဲ့သို့ ဆယ်မရနိုင်လောက်အောင် မပျက်စီးလှသဖြင့် နောက်တဖန် ပြန်လည် ထူထောင်သည့် ကုန်းဘောင်ခေတ် စာပေကို ဤညောင်ရမ်းခေတ် စာပေသည် လွန်စွာ အထောက်အပံ့ ဖြစ်စေခဲ့လေသည်။

**ကုန်းဘောင်ခေတ် ပဌမပိုင်း။** ။သက္ကရာဇ် ၁၁၁၃ ခုနှစ်တွင် ညောင်ရမ်းဆက်၏ အင်းဝပြည်ကြီး ပျက်စီး တိမ်းယိမ်းသွားပြီးနောက် မကြာမီပင် မုဆိုးဘိုရွာမှ ဦးအောင်ဇေယျသည် သက္ကရာဇ် ၁၁၁၅ ခုနှစ်တွင် အလောင်းမင်းတရားကြီး ဟူသော ဘွဲ့ကို ခံယူကာ ရတနာသိင်္ဃ ကုန်းဘောင် ရွှေမြို့တော်၌ ကြငှန်းသစ် ဖွင့်တော်မူလေသည်။ ထိုသက္ကရာဇ် ၁၁၁၅ ခုနှစ်မှစ၍ ဇေဋ္ဌကူးမင်း နတ်ရွာစံ

တော်မူသော သက္ကရာဇ် ၁၁၄၃ ခုနှစ် အထိ အချိန်ကာလကို ကုန်းဘောင်ခေတ် ပဌမပိုင်း ဟု ပိုင်းခြားနိုင်ပေသည်။

ညောင်ရမ်းခေတ်တွင် ပြန်လည် ပြုစု ပျိုးထောင်ခဲ့ရသော မြန်မာစာပေ ပင်မကြီးသည် အလောင်းမင်းတရားကြီး လက်ထက်တော်သို့ ရောက်သောအခါ ပွင့်သီးဝေဆာ ခက်လက်ဖြာ၍ တင့်တယ်လာသည်ကို တွေ့ရလေသည်။ ဤအခြေသို့ ရောက်လာအောင် အလောင်းမင်းတရားကြီးသည် စာဆိုပုဂ္ဂိုလ်များကို အမြဲတစေ နှိုးဆော် ချီးမြှင့် မြှောက်စားခဲ့၏။

ကုန်းဘောင်ခေတ် ပဌမပိုင်း၌ ပေါ်ပေါက် ထွန်းကားကြသည့် စာဆိုတော်များတွင် ရဟန်း ပုဂ္ဂိုလ် နည်းပါး၍ လူပုဂ္ဂိုလ်က များလေသည်။ ရဟန်း ပုဂ္ဂိုလ် တပါးနှစ်ပါး လောက်သာ ထွန်းကား၍ ထိုပုဂ္ဂိုလ်တို့ ပြုစုသော စာပေများသည်လည်း အထူးတလည် မှတ်တမ်းတင်ရလောက်အောင် ကောင်းမွန်သည်ဟု မဆိုနိုင်ချေ။ အတုလ ဆရာတော်သည် အလောင်း မင်းတရားကြီး လက်ထက်တွင် ပေါ်ထွန်းသော စာဆို ပုဂ္ဂိုလ်ဖြစ်သည်။ ဆရာတော်သည် မုဆိုးဘိုရွာက မြင်းရည်တက် အဖွဲ့ဝင် လူရည်ချွန် ခြောက်ကျိပ်ရှစ်ယောက်တို့၏ စွမ်းရည်သတ္တိကို ဥဒါန်း တွင်ရစ်အောင် ရဲတင်း ဟူသော ကဗျာအဖွဲ့တမျိုးကို တီထွင်ဖွဲ့ဆိုခဲ့၏။ ထိုရဲတင်းအဖွဲ့သည် ဝီရ ရသနှင့်ပြည့်စုံသော်လည်း ပျို့၊ မော်ကွန်း၊ ချေင်း အဖွဲ့ကဲ့သို့ လေးနက်ခမ်းနားခြင်း မရှိချေ။ လောကုတ္တရာ အကြောင်းနှင့်လည်း မဆိုင်ချေ။ သို့ဖြင့် မြန်မာစာပေ လောကတွင် အထူးတလည် မှတ်တမ်းတင်ရလောက်အောင် ကောင်းသည်ဟု မဆိုနိုင်။ ထိုကြောင့် ကုန်းဘောင်ခေတ် ပဌမပိုင်း၌ ရဟန်းပညာရှိ ပုဂ္ဂိုလ်တပါးနှစ်ပါး ပေါ်လာငြားလည်း အင်းဝခေတ် ရဟန်း စာဆိုများလောက် မထူးချွန်ကြချေ။ လူစာဆိုများသာ ကျော်ကြားခဲ့လေသည်။ မနုဝဏ္ဏနာ ဓမ္မသတ်ကျမ်းကို စီရင်သော ဝဏ္ဏဓမ္မကျော်ထင်နှင့် စေဠ္ဌကူးမင်း ရွှေနန်းတော်သွင်း ၉ ချင်းဆရာ ဦးဖျော်တို့သည် ကုန်းဘောင်ခေတ် ပဌမပိုင်း၌ ထင်ရှားသော လူပုဂ္ဂိုလ်များ ဖြစ်ကြ၏။ (ဖျော်၊ ဦး၊ ပလိပ်စား — လည်းရှု။)

အခြား ထင်ရှားသော စာဆိုများမှာ စိန္တကျော်သူ ဦးဩ၊ လက်ဝဲနော်ရထာ ဦးမြတ်သာနေ၊ လက်ဝဲသုန္ဒရ ဦးမြတ်စံ၊ ရွှေတောင်နန္ဒသူ၊ ရွှေတောင်နန္ဒမိတ်၊ အတွင်းဝန် ဦးညိုနှင့် အမျိုးသမီး နန်းတွင်း စာဆို စေဠ္ဌကူးမင်း၏ မိဖုရားကြီး ရှင်မင်းတို့ဖြစ်ကြ၏။ (ဩ၊ ဦး၊ စိန္တကျော်သူ။ လက်ဝဲနော်ရထာ။ လက်ဝဲသုန္ဒရ။ ရွှေတောင် နန္ဒသူ။ ရွှေတောင် နန္ဒမိတ်။ မင်း၊ ရှင် — ရှု။) သက္ကရာဇ် ၁၁၃၇ ခုနှစ်၌ နန်းတက်သော စေဠ္ဌကူးမင်း ကိုယ်တော်တိုင်ပင် တေးထပ်များကို စပ်ဆိုခဲ့သည် ဟုဆိုလေသည်။

စိန္တကျော်သူ ဦးဩ စီရင်သော ကဝိလက္ခဏာ သတ်ပုံသစ်မှာ ကုန်းဘောင်ခေတ်၏ စာပေ မှတ်ကျောက်သဖွယ် အလွန် အဖိုးတန်လှလေသည်။ ထိုသတ်ပုံကျမ်းကို ယခုတိုင် စာပေ လိုက်စားသူတိုင်း လက်မလွှတ်နိုင်ကြချေ။

ကုန်းဘောင်ခေတ်တွင် ပေါ်ပေါက် လာသော စာပေများမှာ အရေးအသား အမျိုးစုံလှသည်။ ညောင်ရမ်းခေတ်က တိမ်မြုပ်ခဲ့သော ပျို့အဖွဲ့အနွဲ့များလည်း ပြန်လည် အသက်ဝင်လာသည်ကို တွေ့ရသည်။ သို့ရာတွင် ထိုပျို့များကို ခြုံကြည့်သော် ပဌမ အင်းဝခေတ်က ပေါ်ပေါက်ခဲ့သော ပျို့များ၏ အဆင့် အတန်းကို မမှီဘဲ ဒုတိယ တန်းစား လောက်သာ ရှိသည်ကို တွေ့ရသည်။ စိန္တကျော်သူ ဦးဩ ရေးသားဖွဲ့ဆိုသော ဩဝါဒထူး ပျို့သည် အင်းဝခေတ် ရှင်မဟာရဋ္ဌသာရရေးသားသော ဂမ္ဘီသာရပျို့၊ ကန်တော်မင်းကျောင်း ဆရာတော် ရေးသားသော လောကသာရ ပျို့ တို့ကို မမှီချေ။ လက်ဝဲသုန္ဒရ ဦးမြတ်စံ၊ တွင်းသင်း တိုက်ဝန် မဟာ စည်သူတို့ ရေးသားသော ပျို့ တို့သည်လည်း ပျို့ အရေးအသားတွင် တံခွန်စိုက်သော အင်းဝ ခေတ်က ပျို့များကို မမှီချေ။

ချေင်း အဖွဲ့အနွဲ့တွင်ကား ချေင်း အရေးအသား ခေတ်စားခဲ့သော တောင်ငူခေတ်၊ ညောင်ရမ်းခေတ် ချေင်းတို့ထက် ကုန်းဘောင်ခေတ် ချေင်းက အဆင့်အတန်း မြင့်သည်ဟု ဆိုနိုင်သည်။ ပလိပ်ရွာစား ဦးဖျော် ဖွဲ့ဆိုသော စေဠ္ဌကူးမင်း ရွှေနန်းတော်သွင်းသည် ရာဇဝင်ကျမ်းဖြစ်သည် ဟုလည်း ဆိုနိုင်သည်။ သတ်ပုံကျမ်း ဖြစ်သည်ဟုလည်း ဆိုနိုင်သည်။ ဤမျှလောက် ကောင်းမွန် ခမ်းနားသည်။ အထင်အရှား တွေ့မြင် မှတ်သားရသော ချေင်းပေါင်း လေးဆယ်ကျော် ငါးဆယ်နီးပါး အနက်တွင် ဤစေဠ္ဌကူးမင်း ရွှေနန်းတော်သွင်း ဟုလည်း ခေါ်သော ပလိပ်စား ချေင်းသည် ပဌမတန်းစားချေင်းဖြစ်လေသည်။ ကုန်းဘောင်ခေတ်တွင် ပေါ်ပေါက်သော ထိုချေင်းတစောင်တည်းကိုပင် မည်သည့် ခေတ်ပေါ် ချေင်းကမျှ မပြိုင်နိုင်အောင် ရှိလေသည်။ ထိုကြောင့် ဤချေင်းကို ကုန်းဘောင်ခေတ်၏ ထူးခြားသော မှတ်တိုင်ကြီးအဖြစ် အသိအမှတ် ပြုကြလေသည်။

ထို့ပြင်တဝ ညောင်ရမ်းခေတ်က မျိုးစေ့ ချရှိသာ ချခဲ့သော ရကန် အဖွဲ့အနွဲ့သည် ကုန်းဘောင်ခေတ်တွင် အပင်ပေါက် အညှောက်ထွက်စ ပြုသည်ဟု ဆိုရပေမည်။ ညောင်ရမ်းခေတ်က ရကန်အရေးအသား စသည်ဟု ခန့်မှန်းရသော်လည်း ရကန်ဟောင်းများကို အထင်အရှား မတွေ့ရသေးချေ။ ကုန်းဘောင်ခေတ်တွင်သာ ရွှေတောင် နန္ဒသူ ဖွဲ့ဆိုသော ငွေတောင်ရကန်ကို ပဌမဆုံး အထင်အရှား တွေ့ရှိရလေသည်။ မွေ့နွန်း ရကန်ကိုလည်း ရွှေတောင် နန္ဒသူပင် ရေးသားခဲ့လေသည်။ ထိုရကန် နှစ်စောင်သည်

ပဌမ တန်းစား ရကန်ကြီးများ မဟုတ်သော် ငြားလည်း သစ်ဆန်းသောအဖွဲ့အနွဲ့နှင့် ဟာသဥာဏ်ကွန့်မြူးထားသဖြင့် ကုန်းဘောင်ခေတ် ပဌမပိုင်းတွင် တသီးတခြား မှတ်တမ်းတင်ထားထိုက်လှပေသည်။ (ရကန် — လည်းရှု။)

တေးထပ်နှင့် လေးဆစ်တို့သည်လည်း ကုန်းဘောင်ခေတ်တွင်ပင် စတင် ပေါ်ပေါက်သည်ဟု ဆိုရပေမည်။ ထိုအဖွဲ့အဆိုမျိုးမှာ ညောင်ရမ်းခေတ်က အနည်းအကျဉ်းရေးသားခဲ့သည်ဆိုသော်လည်း မျိုးစေ့ချရုံလောက်သာဖြစ်ပေမည်။ ကုန်းဘောင်ခေတ် ပဌမပိုင်းကျမှ အပွင့်ဝေဆာလာသည်ကို တွေ့ရသည်။ဤခေတ်၌ တေးထပ်နှင့်လေးဆစ်ကို ရေးသားခဲ့သူမှာ မိဖုရားကြီး ရှင်မင်းဖြစ်လေသည်။ (တေးထပ်။ လေးချိုး — လည်းရှု။)

တိုင်းသစ် ပြည်သစ် တည်ထောင်ရာ၌ တရား အဆုံးအဖြတ် ဓမ္မသတ်ကျမ်းများ လက်ဝယ် ထားရှိရမည် ဖြစ်ရာ ကုန်းဘောင်မင်းများ၏ လိုလ ဥဿုံဟကြောင့် ဓမ္မသတ်ကျမ်းကြီးများ ပေါ်ထွက်လာခဲ့ရ လေသည်။ ထိုဓမ္မသတ်ကျမ်းကြီးများသည် မြန်မာ့ယဉ်ကျေးမှုနှင့် မြန်မာ့အုပ်ချုပ်ပုံ စည်းမျဉ်း ဥပဒေများကို ဖော်ပြသည့်အလျောက် ကုန်းဘောင်ခေတ်၏ အဖိုးတန် အမွေစုကြီးများ ဖြစ်သည် ဟု ဆိုနိုင်ပေသည်။

ကုန်းဘောင်ခေတ်၏ ထူးခြားစွာ ပေါ်ထွက် လာသော စာပေ တရပ်ကား ရတနာ့ ကြေးမုံ နန်းတွင်းဝတ္ထုကြီး ဖြစ်သည်။ (ရတနာ့ကြေးမုံဝတ္ထု — လည်းရှု။) အင်းဝခေတ်၌ ရှင်မဟာသီလဝံသ ရေးသားသော ပါရာယန ဝတ္ထုကဲ့သို့ ဓမ္မကြောင်းလည်း မနွယ်၊ ဇာတ်သဘင် ကပြရန်လည်း မရည်ရွယ်၊ ဖတ်ရှုဖွယ်ရာ သက်သက် ရေးသားသော ဝတ္ထုဖြစ်သဖြင့် ဤဝတ္ထုမျိုးမှာ ထိုခေတ်ကမှ စတင် ပေါ်ပေါက်သည် ဟုဆိုရပေမည်။ ယခု ကာလပေါ် ဝတ္ထုတို့၏ မျိုးစေ့ချရာခေတ် ဟူ၍လည်း ကုန်းဘောင်ခေတ် ပဌမပိုင်းကို ခေါ်ဆိုရပေမည်။

ယင်းသို့ တေးထပ်၊ ရကန်၊ သတ်ပုံကျမ်း၊ မေ့သတ်ကျမ်း၊ ဝတ္ထု စသည်ဖြင့် ဆန်းသစ်သော အဖွဲ့အနွဲ့ အရေးအသားများ ပေါ်ပေါက် ထွန်းကားလာရခြင်းမှာ ဘုရင်မင်းမြတ်များကိုယ်တိုင်က စာပေကို လိုက်စား၍ ကျမ်းတတ်ပုဂ္ဂိုလ်များအားလည်း ချီးမြှင့် ထောက်ပံ့ အားပေးမှုကြောင့်ပင် ဖြစ်လေသည်။

**ကုန်းဘောင်ခေတ် ဒုတိယပိုင်း။** ။အမရပူရ မြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၁၄၄ ခုနှစ်မှ စ၍ သီပေါမင်းတရား ပါတော်မူသည့် သက္ကရာဇ် ၁၂၄၇ ခုနှစ်အထိ အနှစ်တရာခန့် အချိန်ကာလကို ကုန်းဘောင်ခေတ် ဒုတိယပိုင်း ဟု ပိုင်းခြားသင့်ပေသည်။ ဤခေတ်ကာလမှာ အင်းဝခေတ်ကဲ့သို့ ပျို့ သက်သက် ထွန်းကားသော ခေတ်လည်း မဟုတ်၊ တောင်ငူခေတ်ကဲ့သို့ ရတု တံခွန်စိုက် ခေတ်လည်း မဟုတ်၊ ပျို့ရတုနှင့်တကွ ဧဒင်၊ ဆေးကျမ်း၊ ဘွဲ့၊ ကြိုး၊ ပတ်ပျိုး၊ ယိုးဒယား၊ ပြဇာတ်၊ တရား စာ စသည်တို့ဖြင့် ရောပြွမ်းထွန်းကားသောခေတ် ဖြစ်လေရကား စာပေ အသီးအပွင့်တို့ စွင့်စွင့်ကြွားကြွား ထင်ရှားစွာ သီးပွင့်ကြသော စာပေပဒေသာ ခေတ်ကြီးဟု ခေါ်ဆိုနိုင်ပေသည်။ စာပေ ပြုစုပျိုးထောင်ကြကုန်သော ရဟန်းပညာရှိ၊ လူပညာရှိတို့ကလည်း မိမိတို့၏ လက်စွမ်း ဥာဏ်စကို အထူးပြကြသဖြင့် ထိုသူတို့ ဖွဲ့ဆိုရေးသားကြသော ပျို့ကဗျာများသည် ပဌမတန်းစား ပျို့ကဗျာများ ဟု မဆိုနိုင်စေကာမူ အင်းဝခေတ် စာဆိုကျော်ပုဂ္ဂိုလ်များ၏ ကဗျာအဆင့်အတန်း နီးပါး ရောက်ရှိနေသည်ကိုမူ လက်ခံနိုင်ဖွယ်ရာ ရှိပေသည်။

ဤခေတ်တွင် ယိုးဒယား၊ တရုပ်၊ အိန္ဒိယ၊ အင်္ဂလန်၊ ပြင်သစ်၊ ဣတလီစသော နိုင်ငံခြားများနှင့် ပိုမို ရင်းနှီးဆက်ဆံခဲ့ရသဖြင့် မျက်စိ ပွင့်လင်းလာ၍ ကမ္ဘာ့ယဉ်ကျေးမှုများကို နည်းယူကာ တိုးတက် ကြံဆောင်နိုင်ခဲ့လေသည်။ ယိုးဒယား နိုင်ငံနှင့် အဆက်အသွယ် ရှိခဲ့ခြင်းဖြင့် ယိုးဒယားသီချင်းများ မြန်မာနိုင်ငံ၌ ပြန့်ပွားလာလေသည်။ ထိုကြောင့် မြန်မာစာပေ ပင်မကြီးတွင် အကိုင်းတကိုင်း ဖြာထွက်လာသည် ဟု ဆိုနိုင်ပေသည်။ ထိုအကိုင်းကို စည်ပင်ဖွံ့ဖြိုးအောင် မြဝတီဝန်ကြီး အစရှိသော ဂီတစာဆို ပုဂ္ဂိုလ်များက အထူး ကြိုးပမ်းဆောင်ရွက်ကြ၏။ မြဝတီဝန်ကြီးဦးစသည် ယိုးဒယားသံဖြင့် ရှိသော တေးသွားများကိုင်း၊ ပဿျူးတေးသွားများကိုင်း မြန်မာမှု ပြုခဲ့လေသည်။ (စ၊ ဦး၊ မြဝတီဝန်ကြီး — ရှု။) ထိုပြင် ဆင်ဖြူရှင်မင်းတရားကြီးသည် ယိုးဒယားနိုင်ငံသို့ စစ်ချီတက်၍ အောင်မြင်ခဲ့စဉ်က ယိုးဒယား ကခြေသည်များကို ခေါ်ဆောင် လာခဲ့၏။ ထိုမှ ရရှိသော ယိုးဒယား ဂီတမျိုးစေ့ကို ဥယျာဉ်မှူးကောင်းများ ဖြစ်သည့် မြဝတီဝန်ကြီး အစရှိသော ဂီတစာဆိုကြီးများက မလျော့သော လုံ့လဖြင့် စိုက်ပျိုးခဲ့ကြ၏။ ထိုကြောင့် ဂီတသဘင်ဖက်တွင် မြန်မာများ ခေတ်သစ် ထူထောင်နိုင်ကြပေသည်။ ဂီတကဗျာ သီချင်းများသည် မြဝတီဝန်ကြီး ကဲ့သို့သော ကျွမ်းကျင်သည့် ဂီတဥယျာဉ်မှူးများ ညောင်ရမ်းခေတ်၌ မပေါ်ပေါက်ခဲ့သဖြင့် အသီး အပွင့်ကောင်းများဖြင့် မဝေဆာ နိုင်ခဲ့ချေ။ ဘိုးတော်ဘုရားနှင့် ဘကြီးတော် ဘုရားတို့ လက်ထက် ကုန်းဘောင်ခေတ် ဒုတိယပိုင်းသို့ ရောက်မှသာ ဂီတသီချင်းများ ထူးထူးခြားခြား သားနား ကောင်းမွန်လာလေသည်။

စာပဒေသာခေတ်ဟု ခေါ်ဆိုထိုက်သော ဤကုန်းဘောင်ခေတ် ဒုတိယပိုင်းသည် ဂီတသဘင် ပညာသာ ထွန်းကားသည် မဟုတ်၊ မော်ကွန်းများ အစီအကုံး အနှုန်းအဖွဲ့သည်

လည်း များစွာ ထွန်းကား လေသည်။ ဝက်မစွတ်မြို့စား နဝဒေး တဦးတည်းကပင် မော်ကွန်း စောင်ရေ အများ အပြား ရေးသားပြုစုခဲ့လေသည်။ (နဝဒေး — ရှု။) ကင်းဝန် မင်းကြီး၊ စလေ ဦးပုည စသော စာဆိုကျော်တို့ကလည်း မော်ကွန်းများကို ရေးသားကြလေသည်။ ဤကုန်းဘောင် ခေတ်၏ မော်ကွန်း အရေးအသားများသည် အင်းဝခေတ် အဖွဲ့အနွဲ့များ၏ အဆင့်အတန်းသို့ မရောက်တတ်သေး ဟု ဆိုရစေကာမူ မနိမ့်ကျလှချေ။ ထိုပြင် မှတ်တမ်းတင် မော်ကွန်း အရေအတွက်မှာ အခြားခေတ်များထက် သာလွန် လေသည်။ ထို့ကြောင့် ထိုခေတ်ကာလကို မော်ကွန်းခေတ် ကြီး ဟူ၍လည်း ခေါ်ဆိုထိုက်ပေသည်။ (ကင်းဝန်မင်းကြီး။ ပုည၊ ဦး။ စလေ — လည်းရှု။)

ဤခေတ်ကြီးသည် ရဟန်း ပညာရှိ၊ လူပညာရှိတို့ အသီး အသီး လက်စွမ်းပြရာ ခေတ်ကြီးလည်း ဖြစ်၏။ ရာမရကန် ဦးတိုး၊ ဝက်မစွတ်မြို့စား နဝဒေး၊ မြဝတီ ဝန်ကြီး ဦးစ၊ ပြဇာတ် ဆရာ ဦးကြင်ဥ၊ စလေ ဦးပုည၊ ကင်းဝန်မင်းကြီး၊ ယောအတွင်းဝန် ဦးဘိုးလှိုင် စသော ပုဂ္ဂိုလ်ကြီးများသည် လူပုဂ္ဂိုလ်များ ဖက်တွင် ဦးစီးခေါင်းဆောင် ဖြစ်သကဲ့သို့ မောင်းထောင် သာသနာပိုင်၊ မင်းပူးဆရာတော် ဦးသြဘာ သ၊ မုံ့ရွေးဆရာတော်၊ မန်လည် ဆရာတော်နှင့် လယ်တီ ဆရာတော် အစရှိသည်တို့လည်း ရဟန်းပုဂ္ဂိုလ် စာဆိုကျော် များ၏ ဦးစီးခေါင်းဆောင်များ ဖြစ်ကြသည် (ကြင်ဥ၊ ဦး။ ဘိုးလှိုင်၊ ဦး။ မောင်းထောင် ဆရာတော်များ။ မင်းပူး ဦးသြဘာသ။ မုံ့ရွေးဆရာတော်။ မန်လည် ဆရာတော်။ လယ်တီဆရာတော် — လည်းရှု။) ဆရာတော်ဘုရားကြီး များ စီရင်ရေးသားခဲ့သော ဆုံးမစာ၊ မေတ္တာစာ၊ ပျို့ လင်္ကာ ကျမ်းစာများသည် အမျိုးလေးပါးတို့ နည်းယူဖွယ် လိုက် နာဖွယ် ကောင်းလှသော စာအမြုတေများ ဖြစ်လေသည်။

မောင်းထောင် သာသနာပိုင် ဆရာတော်သည် ဂန္ထန္တရ နှံ့စပ်သည်။ သက္ကတ ဘာသာလည်း တတ်ကျွမ်းတော်မူ သည်။ နဝဒီပ၊ သီဟဠဒီပအစရှိသော အရပ်များက ဆောင် ယူလာသည့် သဒ္ဒါကျမ်း၊ ဗျာကရိုဏ်းကျမ်း၊ ဓာတ်ကျမ်း၊ အလင်္ကာကျမ်း၊ အဘိဓာန်ကျမ်း၊ ဗေဒင်ကျမ်း၊ ဆေးကျမ်း အစ ရှိသည့် ကျမ်းပေါင်း ၁၁ မျိုး စောင်ရေ ၂၅၃ အနက် သာသနာပိုင် ဆရာတော်သည် ကျမ်းပေါင်း ၂၃ ကို အနက် မြန်မာပြန်သည်။

မင်းပူး ဆရာတော် ဦးသြဘာသကား လင်္ကာ စကားပြေ နှစ်ထွေ ရော၍ ရေးသားအပ်သော ဇာတ်တော်ကြီးများ နှင့်ပင် ထူးချွန် ကျော်ကြားခဲ့လေသည်။ မုံ့ရွေး ဆရာတော် ဘုရားကြီးကလည်း ထုံးဟောင်းသာဓကများနှင့် တကွ ၅၅၀ ဇာတ်နိပါတ်တော်များမှ ကောက်နုတ်ချက် ထုံးတမ်း သက် သေများ၊ ရာဇဝင်မှ နည်းယူမှတ်သားလောက်သော သာ ဓကများကို ထည့်သွင်း၍ အမျိုး လေးပါးတို့အား ဆုံးမ ဩဝါဒပေးရန် 'ရာဇောဝါဒ' ခေါ်သော မုံ့ရွေး မေတ္တာစာ တစောင် ရေးခဲ့လေသည်။ ယင်းကား အလွန်နက်နဲသော ဆုံးမစာ မေတ္တာစာကြီးပင် ဖြစ်လေသည်။ မန်လည် ဆရာ တော် ဘုရားကြီးကလည်း မဃဒေဝ လင်္ကာသစ်ကြီး တ စောင်တည်းဖြင့် မဟာသုတကာရီ အမည်နှင့် လိုက်လျော အောင် လူတို့အား ဗဟုသုတပေး၍ ဆုံးမခဲ့လေသည်။ လယ်တီ ဆရာတော်ဘုရားကြီးသည် သေရည် သေရက် မသောက်စားရန်၊ သတ္တဝါများအပေါ် ညှာတာ သနားရန်၊ အကုသိုလ်တို့ကို ရှောင်ကြဉ်ရန် မေတ္တာစာမြောက်မြားစွာ ရေး၍ ဩဝါဒ ပေးခဲ့သည်။ ထိုရဟန်းပုဂ္ဂိုလ် စာဆိုကျော် တို့သည် ဂန္ထန္တရ ဗဟုသုတ၊ ဘာသန္တရ ဗဟုသုတ စသည် တို့ဖြင့် လွန်စွာပြည့်စုံတော်မူလှသဖြင့် ဆရာတော် ဘုရားတို့ စီရင်ရေးသားခဲ့သော ကဗျာ လင်္ကာ ကျမ်းစာ စသည်တို့ သည် လောကီ လောကုတ္တရာ နှစ်ဖြာအတွက် အဖိုးတန် စာအမြုတေကြီးများ ဟု ခေါ်ဆိုရပေမည်။

ထိုခေတ်တွင် အမျိုးသမီး စာဆိုတော် အမြောက်အမြား ပေါ်ထွက်သည်ကိုလည်း တွေ့ရလေသည်။ အနောက်နန်း မိဖုရား မမြကလေးနှင့် သမီးတော် လှိုင်ထိပ်ခေါင်တင်တို့ သည် အမျိုးသမီး စာဆိုများဖက်တွင် ပဌမတန်းစား စာဆို များဖြစ်၍ ယောကျ်ားစာဆိုများနှင့် ယှဉ်ပေါင်တန်း လိုက် နိုင်ခဲ့ကြ၏။ (မြကလေး၊ မ၊ အနောက်နန်း။ လှိုင်ထိပ် ခေါင်တင် — လည်းရှု။) အမျိုးသမီးစာဆိုများ၏ အဖွဲ့အနွဲ့ များသည် ယဉ်လှ နုလှ၏။ ဇာတိအားဖြင့် မိန်းမသားများ ဖြစ်ကြသည့်အပြင် နန်းတွင်းသူများလည်း ဖြစ်ကြသော ကြောင့် အနုအယဉ်တွင် တုမယှဉ်နိုင်အောင် ကောင်းမွန် လှ၏။ ထိုမျှပင် မကသေး အမျိုးသား စာဆိုများ ဖွဲ့နွဲ့ခြင်း မရှိခဲ့သေးသော အဲ၊ အန်၊ ဘောလယ် စသော အဖွဲ့ဆန်း များကို အမျိုးသမီးစာဆိုများက စတင် တီထွင် ဖွဲ့နွဲ့ခဲ့သဖြင့် ပိုမို ချီးကျူးထိုက်လှ၏။ နန်းတွင်းသူ စာဆိုများသည် အပျော်ဖတ်ရန် သက်သက် ရည်ရွယ်ချက်ဖြင့် နန်းတွင်း ဇာတ်တော်ကြီးများကိုလည်း ပြုစုခဲ့ကြ၏။ အနောက်နန်း မိဖုရားနှင့် သမီးတော်တို့သည် ဣန္ဒာဝံသ စသော နန်းတွင်း ဇာတ်တော်ကြီးများကို တခမ်းတနား ဖတ်ရှု၍ မငြီးနိုင် အောင် ရေးသားနိုင်ခဲ့လေသည်။ ဤသို့ အမျိုးသမီး စာဆို များဖက်မှ ဆန်းသစ်သော စာနုစာယဉ် မြောက်မြားစွာ ပေါ်ထွက်လာနိုင်သဖြင့် ကုန်းဘောင်ခေတ် ဒုတိယပိုင်း သည် အထူးတင့်တယ် ဂုဏ်ယူဖွယ် ကောင်းလှသည်။

ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် နန်းတွင်း ဇာတ် တော်ကြီးများသာမက ရိုးရိုး ဇာတ်သဘင်များလည်း ထွန်း ကားလာသည်ကို တွေ့ရ၏။ ဤသို့ သဘင်ပွဲလမ်းများ ထွန်း ကား ပေါ်ပေါက် လာခြင်းသည် တေးဂီတ သီချင်းများ

ထွန်းကားမှု အပေါ်၌ များစွာ တည်နေ၏။ ကုန်းဘောင် ခေတ်မှာ ဂီတသီချင်းများ အထွန်းကားဆုံးသော အချိန် ဖြစ်၍ ထိုဂီတကို မှီးကာ ဇာတ်ပွဲများ တပါတည်း ပေါ် ပေါက်လာလေသည်။ ရုပ်စုံ စင်တော်ကြီးများလည်း ထို ခေတ်တွင် စတင် ပေါ်ပေါက်ခဲ့လေသည်။ ယင်းသို့ စင် တင်၍ ကပြရန် ရုပ်သေး သဘင်များ၊ ဇာတ်ပွဲများ ပေါ် ပေါက်လာသည်နှင့်အတူ ပြဇာတ်အရေးအသားများ ထွန်း ကား ခေတ်စားလာလေသည်။ ပြဇာတ်များမှာ ညဥ့်လုံး ပေါက် ကပြရန် ဖြစ်၍ ပြဇာတ်တိုကလေးများကို စတင် ရေးသားကြလေသည်။ ရှေးခေတ်များက အီနောင်၊ ရာမ စသော နန်းတွင်း ပြဇာတ်ကြီးများ ပေါ်ပေါက်ခဲ့သော် လည်း လွန်စွာ ရှည်လျားငြီးငွေ့ဖွယ် ကောင်းသောကြောင့် ဇာတ်ပွဲ ကပြ ခင်းကျင်းရန် မသင့်လျော်လှချေ။ ထို ကြောင့် တညဥ့်တွင်းနှင့် ဇာတ်ကွက်လည်၍ ဇာတ်ခန်းဆုံး သည်အထိ ကပြနိုင်ရန် ဒေဝကုမ္မန်၊ ပါပဟိန် စသော ဒဏ္ဍာရီ ပြဇာတ်တိုကလေးများကို ဦးကြင်ဥက တီထွင်ရေး သားခဲ့လေသည်။ ထိုပြဇာတ်များမှာ ဆရာကြီးဦးကြင်ဥ၏ ထင်ရှားသော ပြဇာတ်များ ဖြစ်၏။ စလေ ဦးပုညကလည်း ဇာတ်နိပါတ် မဟာဝင်တို့ကို မှီး၍ ဝေဿန္တရာ၊ ရေသည်၊ ဝိဇယ စသော ပြဇာတ်များကို ညဥ့်လုံးပေါက် ကပြရန် ရေးသားခဲ့သည်။ ယင်းသို့ဖြစ်၍ ကုန်းဘောင်ခေတ် ဒုတိယ ပိုင်းကို ပြဇာတ်ခေတ်ဟုလည်း ခေါ်ဆိုနိုင်ပေသည်။

ကုန်းဘောင်ခေတ် ဒုတိယပိုင်း၌ မေတ္တာစာ အရေး အသားသည်လည်း တမူ ထူးခြားကာ များစွာ ခေတ်စား၍ လာလေသည်။ ရှေးအခါက မေတ္တာစာများကို များသော အားဖြင့် ဘုရင်မင်းမြတ်တို့သို့ တင်သွင်း ခဲ့ကြသော်လည်း ကုန်းဘောင်ခေတ်သို့ ရောက်သောအခါ မေတ္တာစာ အရေး အသားကို ဆွေမျိုးမိတ်ဆွေတို့ အချင်းချင်း ကမ်းလှမ်းပေး ပို့သော စာအဖြစ် အသုံး ပြုလာကြလေသည်။ စလေ ဦးပုညသည် မေတ္တာစာရေးရာတွင် ခေါင်က နာမည်ထွက်ခဲ့ သူ ဖြစ်သည်။ မုံရွေး ဆရာတော်၊ ကျည်းကန် ရှင်ကြီး၊ ရှင်ဥက္ကံသမာလာ၊ ကင်းဝန်မင်းကြီး၊ လယ်တီ ဆရာတော် တို့သည်လည်း မေတ္တာစာ အမြောက်အမြား ရေးသားခဲ့ကြ ၏။ ယင်းသို့ ပင်ကိုယ်ဉာဏ် ထုတ်၍ ရေးသားသော ပျို့ ကဗျာများသာ ထွန်းကားသည်မဟုတ်။ ပိဋကတ်တော်လာ ပါဠိကျမ်းဂန်များနှင့် သက္ကတဘာသာရေး ဗေဒင်ကျမ်း စ သည်တို့ကို ဆရာတော်များက မြန်မာပြန်ဆိုရေးသားမှုမှာ များစွာ အားရဖွယ်ရာ ရှိလှလေသည်။ ထို့ကြောင့် ဤ ကုန်းဘောင်ခေတ် ဒုတိယပိုင်းကို မြန်မာပြန်ခေတ် ဟူ၍ လည်း ခေါ်ဆိုထိုက်ပေသည်။

ယင်းသို့လျှင် လင်္ကာ၊ စကားပြေ စသော အဖွဲ့အမျိုးမျိုး တို့ဖြင့် တန်ဆာဆင်အပ်သော စာပေပဒေသာ ကုန်းဘောင် ခေတ်ကြီးသည် ကျွမ်းကျင်သူ ပညာရှင် စာဆိုကျော်တို့၏ ဂုဏ်ကျေးဇူးကြောင့် မြန်မာ စာပေသမိုင်းတွင် ကြွားကြွား ဝင့်ဝင့် လန်းလန်းတင့်လျက် တည်ရှိနိုင်ခဲ့လေသည်။

**မျိုးခြားခေတ်နှင့် လွတ်လပ်ပြီးခေတ်စာပေ။** ။ကောဇာ သက္ကရာဇ် ၁၂၄၇ ခုနှစ် တန်ဆောင်မုန်း လပြည့်ကျော် ၈ ရက်နေ့တွင် မြန်မာနိုင်ငံတဝန်းလုံး အင်္ဂလိပ် နယ်ချဲ့တို့၏ လက်အောက်သို့ ကျရောက်ခဲ့ရသည်မှ အစ၊ ယနေ့ အထိ တည်ရှိသော စာပေကို မျိုးခြားခေတ် စာပေနှင့် လွတ်လပ် ရေး ရပြီးနောက်တွင် လွတ်လပ်ပြီးခေတ် စာပေဟု အမည် ပေးသင့်ပေသည်။

ယင်းသို့ ထီးကျိုး စည်ပေါက်ရသည့် ခေတ်တွင် မြန်မာ စာပေ လောကသည် ရှေး ယခင်ခေတ်များကဲ့သို့ အရှိန် အဝါ တိုးတက်နေမည်ကား မဟုတ်ချေ။ ခေတ်အဆက် ဆက်က စာဆိုပညာရှိကြီးများ၏ မလျော့သော လုံ့လ၊ စွဲမြဲသော ဝီရိယဖြင့် ပြုစုပျိုးထောင်ခဲ့သော စာပေပင်မကြီး သည် အသီးအပွင့်တို့ဖြင့် ဝေဆာ မြိုင်ဆိုင် တင့်တယ် လာ ရာမှ မျိုးခြားလက်အောက်သို့ အရောက်တွင် သွေ့ခြောက် ညှိုးနွမ်းသွားဖွယ်ရာ ရှိ၏။ သို့ရာတွင် စာပေလောက၌ မှတ်တမ်းတင် ချီးကျူးထိုက်သော ပညာရှိကြီးများ၏ ကြိုး ပမ်းမှုကြောင့် သွေ့ခြောက်လှဆဲဆဲ မြန်မာစာပေ ပင်မကြီး သည် အသွင်သစ် အဆင်ဆန်းဖြင့် ဝေဆာ ရှင်လန်းလာပြန် လေသည်။

နှစ်ပေါင်း အစိတ်ကျော် သုံးဆယ်နီးပါး အင်္ဂလိပ်စာ သည် ရေပန်းစားလျက် မြန်မာစာသည် တိမ်ကော ပျောက် ကွယ်လုမတတ် ရှိနေရာမှ ဝိုင်၊ အမ်၊ ဘီ၊ အေ ခေါ် ဗုဒ္ဓ ဘာသာ ကလျာဏယုဝ အသင်းကြီးကြောင့် မြန်မာစာပေ ပင်မကြီးသည် ပြန်လည် အသက်ဝင်လာလေသည်။ ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းကြီးကို ၁၉၀၆ ခုနှစ်တွင် ဦးဘဘေ၊ ဦးလှဖေ၊ ဦးမောင်ကြီး၊ ဦးစိန်လှအောင်၊ ဒေါက်တာ ဘရင် အစရှိသော ပုဂ္ဂိုလ်ကြီးများက ဦးစီး၍ တည်ထောင်ခဲ့လေ သည်။ (ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း — ရှု။) ထို အသင်းကြီးသည် ၁၉၁၁ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့ညတွင် တည်ထောင်ခဲ့သော သူရိယသတင်းစာကို ကြွေးကြော်သံ အဖြစ် ပြည်သူလူထု၏ ဟစ်တိုင်အဖြစ် အသုံးပြုလေသည်။

ယခင် ခေတ်ဟောင်း မြန်မာစာပေ အရေးအသားမှာ များသောအားဖြင့် ကဗျာ လင်္ကာတို့ဖြင့် တန်ဆာ ဆင် လျက် ရှိ၏။ စကားပြေ အရေးအသားကား အလွန် အား နည်းနေသည်ကို တွေ့ရ၏။ တောတောင် ရေမြေ သဘာဝ အလှအပတို့ကို၎င်း၊ မယ်ဖွဲ့ မောင်ဖွဲ့ အလွမ်းဖွဲ့ အချိုက်ဖွဲ့ တို့ကို၎င်း၊ ဇာတ်နိပါတ်တော်များလာ ပျို့လင်္ကာတို့ကို၎င်း သာယာ ငြိမ့်ညောင်းစွာ ဖွဲ့ဆိုခဲ့ကြသော်လည်း၊ မျိုးခြား လက်အောက်တွင်မူ ထိုပျော်ရွှင်မှုသာယာမှုတို့ကို ဂရုမထား

နိုင်တော့ချေ။ လွတ်လပ်ရေး ရရှိရန်ကိုသာ လှော်ချိုင့်ငှက်ပမာ အာသာ ပြင်းပြနေသည့် ဝိုင်၊ အမ်၊ ဘီ၊ အေ ခေတ် စာပေသမားများသည် အနုအယဉ် စာပေများကို လက်လွှတ်လျက် ညီညွတ်ရေး၊ ဇာတိမာန် ဇာတိသွေး တက်ကြွရေးတို့ကို အရေးပေးသော စာများကို သူရိယ သတင်းစာမှ တဆင့် တိုင်းပြည်လူထုသို့ တွင်တွင်ကြီး ဖြန့်ချိလျက် နေကြ၏။ အမျိုးကို စာပေဖြင့် မြှင့်တင်ပေးသော ပုဂ္ဂိုလ်တို့အထဲတွင် မစ္စတာ မောင်မှိုင်း အမည်ခံ လွတ်လပ်ပြီးခေတ်တွင် အလင်္ကာကျော်စွာ ဘွဲ့ရ ဆရာကြီး ဦးလွန်းသည် အထူး မှတ်တမ်းတင်ထိုက်သော ပုဂ္ဂိုလ်ကြီး ဖြစ်ပေသည်။ (လွန်း၊ ဦး — လည်းရှု။)

၁၉၂၀ ပြည့်နှစ်တွင် ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းများကို စုစည်းလျက် ဂျီ၊ စီ၊ ဘီ၊ အေ (ဗုဒ္ဓဘာသာ မြန်မာအသင်းချုပ်) အဖြစ် ဖွဲ့စည်းကာ ပညာရေး၊ စီးပွားရေး၊ ကြီးပွားရေး၊ စာရိတ္တ မြှင့်တင်ရေး စသည်တို့ကို ဆောင်ရွက်ကြလေသည်။ (ဂျီ၊ စီ၊ ဘီ၊ အေ — လည်းရှု။) သူရိယ သတင်းစာကိုလည်း စာပေမြှင့်တင်ရာ ဌာနကြီးတခု အဖြစ် အသုံးပြုကြ၏။ ထို ၁၉၂၀ ပြည့်နှစ်၊ ကောဇာသက္ကရာဇ် ၁၂၈၂ ခုနှစ် တန်ဆောင်မုန်း လပြည့်ကျော် ၁၀ ရက်နေ့တွင် အင်္ဂလိပ် အစိုးရတို့ အဓမ္မပြဋ္ဌာန်းလိုက်သော ရန်ကုန် ယူနီဗာစီတီ အက်ဥပဒေကို ကန့်ကွက်သည့် အနေနှင့် ရန်ကုန်ကောလိပ်နှင့် ယုဒသန်ကောလိပ် ကျောင်းသားကြီးများသည် တက္ကသိုလ်ကျွန်ပညာကိုသပိတ်မှောက်ကြလေသည်။ ဤသပိတ်မှောက်မှုကြီးသည် မြန်မာပြည် ပညာရေးအဆင့်အတန်းနှင့် မြန်မာစာပေ အဆင့်အတန်းကို မြှင့်တင်ပေးခဲ့၏။ မြန်မာပြည် တဝန်းလုံးတွင် မြန်မာစာကို အားပေးသော အမျိုးသား ကျောင်းကြီးများ ပေါ်ပေါက် စေခဲ့သည်သာမက ရန်ကုန်မြို့ ဗဟန်းရပ်ကွက်တွင် အမျိုးသား ကောလိပ်ကြီးတခု တည်ထောင် နိုင်ခဲ့လေသည်။

ထိုနောက် မျိုးချစ်စိတ် ထက်သန်လှသော သခင် အမည်ခံ လူငယ်လူရွယ်များသည် ၁၉၃၀ ပြည့်နှစ်တွင် တို့ဗမာ အစည်းအရုံးကြီးကို တည်ထောင်ကာ မျိုးချစ်စိတ် ထက်သန်ရေး၊ စာပေမြှင့်တင်ရေးတို့ကို အင်တိုက် အားတိုက် ဆောင်ရွက် လေသည်။ (တို့ဗမာ အစည်းအရုံး — လည်းရှု။)စာပေ မြှင့်တင်ရေး၌ အထူးသဖြင့် ဘာသာခြား စာပေမှ မြန်မာ ပြန်ဆိုရေးသားမှုကို ထိထိရောက်ရောက် လုပ်ကိုင် ဆောင်ရွက်ကြလေသည်။ မြန်မာ ပြန်ဆိုရေးသားခြင်းမှာ ယခုမှသာ ပေါ်ပေါက်လာသည်မဟုတ်၊ ကုန်းဘောင်ခေတ် ဒုတိယပိုင်း အစအဦးလောက်ကပင် အင်ရှိ အားရှိ ပေါ်ပေါက် ခဲ့ပြီး ဖြစ်လေသည်။ ထိုစဉ်က အိမ်နီးချင်း နိုင်ငံများက စာပေကို မြန်မာပြန်ဆိုခြင်း ဖြစ်သော်လည်း တို့ဗမာ အစည်းအရုံးခေတ်တွင်မူ ကမ္ဘာ့ စာပေ အများပါဝင်သော အင်္ဂလိပ်ဘာသာမှ မြန်မာပြန်ဆိုခြင်း ဖြစ်၏။ သခင် ဘသောင်း၊ သခင်သိန်းမောင် အစရှိသော တို့ဗမာ အစည်းအရုံး ခေါင်းဆောင်များသည် မြန်မာ ပြန်ဆိုရေးသားမှု၌ ဦးတည်ခေါင်းဆောင်သော လူငယ် လူရွယ်များ အဖြစ် မှတ်တမ်းတင်ရပေမည်။

ယင်းသို့ ကမ္ဘာ့ စာပေများကို မြန်မာ ပြန်ဆိုခြင်းဖြင့် မြန်မာစာပေလောကကို တဖက်တလမ်းမှ မြှင့်တင် ပေးနေကြသည့် နည်းတူ ရှေးပညာရှိများ စီရင်ပြုစုခဲ့သော စာဟောင်း ပေဟောင်းများကို ရှာဖွေ စုဆောင်း ဖြန့်ချိရန် ကြိုးစားလျက်ရှိသော အသင်းကြီး တခုကိုလည်း တွေ့ရ၏။ ထိုအသင်းကြီးမှာ ၁၉၁၀ ပြည့်နှစ် မတ်လ ၂၉ ရက်နေ့တွင် နိုင်ငံရေး လုံးဝမဖက် ဝိဇ္ဇာသိပ္ပံ ပညာရပ်များနှင့် စာပေတိုးတက်မှု သက်သက်ကိုသာ အဓိက ရည်ရွယ်ချက်ဖြင့် မစ္စတာ ဖာနီဗယ်၊ ဦးမေအောင်အစရှိသော ပုဂ္ဂိုလ်ကြီးများ တည်ထောင်ခဲ့သော မြန်မာနိုင်ငံ သုတေသန အသင်းကြီး ဖြစ်လေသည်။ (မြန်မာနိုင်ငံ သုတေသနအသင်း။ ဖာနီဗယ်၊ ဒေါက်တာ ဂျေ၊ အက်(စ)။ မေအောင်၊ ဦး — ရှု။)စာပေနှင့် သက်ဆိုင်သော ဟောပြောပွဲများ၊ ဆွေးနွေးပွဲများကို ပြုလုပ်ခဲ့ကြ၏။ ထိုသုတေသနအသင်းကြီး၏ ကျေးဇူးကြောင့် တိမ်မြုပ်လုဆဲဆဲ ဖြစ်နေသော ရှေးဟောင်း မြန်မာစာပေသည် တဖန် ဆန်းသစ်လာပေသည်။ ထိုအသင်းကြီးတွင် နှစ်ပေါင်း များစွာ ရာထူး အမျိုးမျိုး၌ ပါဝင်ဆောင်ရွက်လျက် မြန်မာစာပေ လောကကို ခြိမ်းမြှင့် ထူထောင်သော ပုဂ္ဂိုလ်ကြီး တဦးကား ရန်ကုန်တက္ကသိုလ် ကျောင်းအုပ်ကြီးဟောင်း ပါမောက္ခ ဦးဖေမောင်တင် ဖြစ်ပေသည်။

မစ္စတာ ဖာနီဗယ်၏ အကြံပေးချက် အရ ၁၉၂၄ ခုနှစ်တွင် မြန်မာနိုင်ငံ ပညာပြန့်ပွားရေး အသင်းကြီး ပေါ်ပေါက်လာပြန်သည်။ အင်္ဂလိပ် မြန်မာ နှစ်ဘာသာဖြင့် လစဉ် ထုတ်ဝေသော 'ဂန္ထလောက' စာစောင်သည် ထိုအသင်း၏ ကြွေးကြော်သံ ဖြစ်၏။ ထိုစာစောင်တွင် နိုင်ငံရေး ပညာ၊ ဘောဂဗေဒ ပညာနှင့် ခေတ်ဟောင်း စာပေ၊ ခေတ်သစ် စာပေများကို ရေးသားထုတ်ဝေလိုက်ရာ မြန်မာစာပေလောကသည် အတန်ပင် တင့်ရှန်းလာလေသည်။ အထူးသဖြင့် ခေတ်စမ်းကဗျာနှင့် ခေတ်စမ်းစာပေများကို ဤအသင်းကြီးက မွေးထုတ်ပေးလိုက်သည်ဟု ဆိုနိုင်ပေသည်။

ခေတ်စမ်း ကဗျာနှင့် ခေတ်စမ်း စာပေ များတွင် ဦးဦးဖျားဖျား ပါဝင်ကြသူများမှာ သိပ္ပံမောင်ဝ (ဦးစိန်တင်)၊ တက္ကသိုလ် မောင်သန့်စင် (ဦးအေးမောင်)၊ ဇော်ဂျီ(ဦးသိန်းဟန်)၊ မင်းသုဝဏ်(ဦးဝန်)၊ ကုသ (ဦးတိုးအောင်)စသူတို့ ဖြစ်ကြ၏။ (စိန် တင်၊ ဦး။ — ရှု။)ခေတ်စမ်းကဗျာနှင့်စာပေကို စတင် မျိုးစေ့ချရသည်မှာ လှယ်ယောင်နှင့်ခက်၊ တိမ်ယောင်နှင့် နက်လှ၏။ အချို့သော ပညာရှင်များက

ခေတ်စမ်း သမားများကို မြန်မာ စာပေ အဖျက်သမား များဟု အပြင်းအထန် ဝေဖန်ကြသော်လည်း ခေတ်စမ်း သမားတို့၏ မလျှော့သော လုံ့လကြောင့် ခေတ်စမ်း ကဗျာ နှင့် စာပေမှာ နက်ကျယ်ရှိုင်းဝှမ်းလာပြီးလျှင် လူကြိုက်များ လာလေသည်။ ထိုခေတ်စမ်း သမားများ၏ ကောင်းမှု ကြောင့်ပင်လျှင် ယခုခေတ် မြန်မာစာသည် တည်တံ့ ခိုင်မြဲ လာသည်ဟု ဆိုရပေမည်။

ဤသို့ သစ်ဆန်း ပွင့်လန်းသော မြန်မာစာပေခေတ် တဖန် ထွန်းပေါ်လာအောင် အားပေး မြှင့်တင် အကြံပေး ဆော်သြသူတို့တွင် မစ္စတာ ဖာနီဗယ်၊ မစ္စတာ တော်စိန်ခို၊ မစ္စတာ လုစ၊ ဦးဖေမောင်တင် စသော စာပေပညာရှိကြီး များလည်း ပါဝင်သည်။ (တော်စိန်ခို — ရှု။) မစ္စတာ ဖာနီ ဗယ်သည် အိန္ဒိယ ပင်စင်ညဉ်ခံ ဝန်ထမ်းတဦး ဖြစ်၍ မြန်မာ လူငယ်များအတွက် ပညာရေး ထူထောင်ရန် အထူးကြိုးပမ်း သူ ဖြစ်၏။ မစ္စတာ တော်စိန်ခိုမှာ မြန်မာစာပေကို မြတ်နိုး သော တရုပ်အမျိုးသားတဦး ဖြစ်လျက် သာသနာပိုင် ခန့်ထားရေးကိစ္စ၊ ပဌမပြန် စာမေးပွဲ၌ သီလရှင်များ ဝင် ရောက်ဖြေဆိုခွင့် ပြုရန် ကိစ္စ၊ တက္ကသိုလ်၌ မြန်မာစာပေကို သီးခြား ဘာသာရပ်တခု အနေဖြင့် သင်ကြားရန် ကိစ္စ၊ ရှေးဟောင်းစာပေနှင့် သမိုင်းကို ဖော်ရေးကိစ္စတို့ကို ဆောင် ရွက်ခဲ့လေသည်။ မစ္စတာ လုစမှာ ရန်ကုန်တက္ကသိုလ် ကမ္ဘာ့ အရှေ့ဖျား ရာဇဝင် ပါမောက္ခတဦး ဖြစ်ခဲ့သည့်ပြင် ရှေး ဟောင်း မြန်မာ စာပေနှင့် ကျောက်စာများကို အထူးလေ့ လာကာ မြန်မာ စာပေလောကကို ထိရောက်စွာ မြှင့်တင် ခဲ့သော ပုဂ္ဂိုလ်တဦး ဖြစ်ပေသည်။

ဤသို့ တဖက်မှ ရှေးဟောင်း မြန်မာ စာပေများကို အမြတ်တနိုး ဆည်းပူး ပြုစုနေစဉ် တို့ဗမာ အစည်းအရုံးဝင် သခင်လူငယ်များ ပျိုးထောင်ခဲ့သော စာပေလောကသည် အတန်ပင် သန်စွမ်း ကြီးထွား လာသည်ကို တွေ့ရ၏။ ဒုတိယ ကမ္ဘာ စစ်ကြီး ဖြစ်ပွားခါနီးတွင် သခင်နု၊ ဗမာ့ ခေတ် ဦးအုန်းခင်၊ မြန်မာ့အလင်း ဦးတင် စသော လူ ငယ်များ စုပေါင်းကာ နဂါးနီ စာအုပ်အသင်းကို တည် ထောင်ကြ၏။ ထိုအသင်းမှ မြန်မာပြန်ဆို ထုတ်ဝေသော အထူးသဖြင့် နိုင်ငံရေး စာအုပ် စာတမ်းများကို မျိုးချစ် လူငယ်များသည် အားပါးတရ ဖတ်ရှု လေ့လာကြ၏။ ထိုနဂါးနီ စာပေ ခေတ်တွင် မြန်မာပြန်ဆိုမှု၌ စကားသစ် စကားဆန်းများ ကြွယ်ဝတိုးပွားလာလေသည်။

ယင်းသို့ မြန်မာစာပေ အရေးအသားသည် ဆန်းသစ်စွာ အရှိန်ယူ၍ ကောင်းနေစဉ် ဒုတိယ ကမ္ဘာစစ်မီးကြီး ဟုန်း ဟုန်း တောက်လာသောအခါ မြန်မာ စာပေသည် အတန် ငယ် ရပ်တန့်သွားသကဲ့သို့ ရှိနေလေသည်။ သို့ရာတွင် တနိုင် ငံလုံး လွတ်လပ်ရေး စိတ်ဓာတ်များ လျှမ်းလျှမ်းတောက် ဖြစ်ပေါ် နေချိန် ဖြစ်ရကား နိုင်ငံရေးနှင့် တော်လှန်ရေး ကို အားပေးသော စာပေများ ပေါ်ပေါက်လာရန် ဖန်တီး ပေးသကဲ့သို့ ဖြစ်လာလေသည်။ မြန်မာစာပေနှင့် စပ်လျဉ်း ၍ စစ်အတွင်း မှတ်သားဖွယ်ကောင်းသော မှတ်တိုင် တခု သည်ကား ကောဇာသက္ကရာဇ် ၁၃၀၆ ခုနှစ် နတ်တော်လ ဆန်း ၁ ရက်နေ့ကို အစိုးရနှင့် ပြည်သူတို့က ပဌမ ဆုံးသော စာဆိုတော်နေ့ကြီး အဖြစ် သတ်မှတ် နိုင်ခြင်းပင် ဖြစ်ပေ သည်။ နတ်တော်လဆန်း ၁ ရက်နေ့ကို စာဆိုတော်နေ့ အဖြစ် သတ်မှတ်ကြသည်မှာ ရှေးမြန်မာဘုရင်များ လက် ထက်ကလည်း နတ်တော်လတွင် စာဆိုပညာရှိကြီးတို့အား ဆုလပ် ချီးမြှောက်စမြဲ ဖြစ်သောကြောင့်ပင်။ ထိုနှစ်မှစ၍ မြန်မာနိုင်ငံ စာရေးဆရာ အသင်း၏ လုံ့လပယောဂကြောင့် တနှစ်တကြိမ် စာဆိုပညာရှိကြီးများအား ကန်တော့ပူဇော် သည့် စာဆိုတော်နေ့သည် တည်မြဲလျက် ရှိလေသည်။ (စာ ဆိုတော်နေ့ — လည်းရှု။)

သီပေါ မင်းတရားကြီး ပါတော်မူပြီးသည့် နောက်တ ခေတ်တွင် ကာလပေါ် ဝတ္ထု အရေးအသားများ အထူး ပေါ်ထွက်ခဲ့လေသည်။ ခေတ်ဟောင်း မြန်မာစာပေသမိုင်း ကို လေ့လာလျှင် ဇာတ်နိပါတ်များကို မှီငြမ်းမပြုဘဲ စိတ် ကူးဉာဏ် သက်သက်ဖြင့် ရေးသားခဲ့သော ဝတ္ထုမျိုးမှာ ကုန်းဘောင်ခေတ်ဦး၌ ပေါ်ပေါက်လာသော ရတနာ့ကြေး မုံ ဝတ္ထုကို အထီးတည်း တွေ့ရမည် ဖြစ်၏။ ထိုအချိန်မှ စ၍ လွန်ခဲ့သည့် နှစ်ပေါင်း ၅၀ ခန့်အတွင်း ကာလပေါ် ဝတ္ထု သဘော သက်ရောက်သော ဝတ္ထုအရေးအသားကို မတွေ့ရချေ။ ၁၉၀၂ ခုနှစ်တွင် ဦးဘိုးဇော် ပြန်ဆိုသော ရော်ဗင်ဆန် ကရူးဆိုးနှင့် ၁၉၀၄ ခုနှစ်တွင် ကောင့်အော့ မွန်တီကရစ္စတို ဝတ္ထုကို မှီငြမ်းပြုသော ဂျိမ်းလှကျော်၏ မောင်ရင်မောင် မမယ်မ ဝတ္ထုတို့ ပေါ်ပေါက်ခဲ့၏။ ထို ဝတ္ထုနှင့်မရှေးမနှောင်း၌ပင် ချဉ်ပေါင်ရွက်သည် မောင်မှိုင်း ဝတ္ထု၊ မောင်တာနေ‌ာဝတ္ထု၊ စိန်ကလေး ဝတ္ထု၊ ဘိအေ မောင်ဘသန်း ဝတ္ထု၊ စပယ်ပင်ဝတ္ထုနှင့် ရွှေပြည်စိုးဝတ္ထု စသည်တို့ ပေါ်ခဲ့၏။ (မောင်ရင်မောင် မမယ်မ ဝတ္ထု မောင်မှိုင်း ဝတ္ထု၊ ချဉ်ပေါင်ရွက်သည်။ မောင်တာနေ‌ာ ဝတ္ထု။ မြန်မာ ကာလပေါ် ဝတ္ထုများ —. ရှု။) ထိုနောက် မစ္စတာ မောင်မှိုင်း၏ မာတော်ပုံဝတ္ထု၊ လယ်တီ ပဏ္ဍိတ ဦးမောင်ကြီး၏ ရာဇဝင် ဝတ္ထုတော်ကြီးများ၊ ပီမိုးနင်း၏ ကာလပေါ် ဝတ္ထုများ ပေါ်လာလေသည်။ ထိုခေတ် အတွင်း၌ပင် မဂ္ဂဇင်းများ၊ ဂျာနယ်များ စသည်တို့ အ ဆက်မပြတ် ထွက်ပေါ် လာလေသည်။ (မောင်ကြီး၊ ဦး၊ လယ်တီပဏ္ဍိတ။ ပီမိုးနင်း — လည်းရှု။)

ဝတ္ထုများ ထွန်းကားလာသည်နှင့် အမျှ မြန်မာ ပြန်ဆိုမှု သည်လည်း ခေတ်စားလာလေသည်။ ဒုတိယကမ္ဘာစစ်ကြီး

ဖြစ်၍ နဂါးနီအသင်းကြီး ပျက်စီးခဲ့သော်လည်း ဗိုလ်ချုပ်အောင်ဆန်း၏ ပြန်လည် ထူထောင်ရေး စီမံကိန်း အရ ဘာသာခြား စာပေများကို မြန်မာဘာသာသို့ရင်း၊ မြန်မာ စာပေများကို နိုင်ငံခြား ဘာသာသို့ရင်း ပြန်ဆိုဖြန့်ချိရန် အတွက် ၁၉၄၇ ခုနှစ်တွင် မြန်မာနိုင်ငံ ဘာသာပြန် စာပေ အသင်းကို တည်ထောင် လိုက်လေသည်။ (မြန်မာ နိုင်ငံ ဘာသာပြန် စာပေအသင်း — လည်းရှု။) ထိုအသင်းကြီး သည် မြန်မာပြန်ဆိုရေး သက်သက်ကိုသာ အားပေးသည် မဟုတ်ဘဲ၊ တနှစ်အတွင်းထွက်ပေါ်လာသော မြန်မာစာပေ များကို အကောင်းဆုံး ကာလပေါ် ဝတ္ထုဆု၊ သုတပဒေသာဆု စသည်ဖြင့် စာပေဗိမာန်ဆုများ ချီးမြှင့်ကာ မြန်မာ စာပေ အရေးအသားကို မြှင့်တင်ခဲ့လေသည်။ ထိုမှတပါး လည်း မြန်မာ့စွယ်စုံကျမ်းကြီးများကိုရင်း၊ လူထု သိပ္ပံကျမ်း ကြီးများကိုရင်း၊ စာစဉ် အမျိုးမျိုးကိုရင်း ဖြန့်ချိလျက် ရှိရာ မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်းဟု ခေါ်တွင်ခဲ့ သော စာပေဗိမာန်သည် စာပေရိပ်မြုံကြီး တခု ဖြစ်ပေ သည်။ ဤသို့ဖြင့် မျိုးခြားခေတ်နှင့် လွတ်လပ်ရေးရပြီး ခေတ် မြန်မာစာပေကို ခြုံ၍ကြည့်လျှင် ရှေးခေတ်ဟောင်း များနှင့် မတူ၊ တမူထူးခြားစွာ ဆန်းသစ် ပေါ်ထွန်းနေသည် ဟု ဆိုနိုင်ပေသည်။

**မြန်မာဆေးပညာ။** ။မြန်မာဆေးပညာကို မရေးသားမီ ရှေးဦးစွာမဇ္ဈိမဒေသဆေးပညာကိုရေးသားရန်ဖြစ်သည်။ ဆေးပညာမှာ လူတို့တတ်သိအပ်သော အတတ်ပညာ တဆဲ့ ရှစ်ရပ်တွင် တပါး အပါအဝင် ဖြစ်သည်။ ယင်းဆေးပညာမှာ အကြောင်းမဲ့ ဖြစ်ပေါ်လာသည် မဟုတ်၊ လူတို့၌ အနာ ရောဂါ ဖြစ်ပေါ်လာသောအခါ ပျောက်ကင်းရန် နည်းလမ်း ကို ရှာဖွေသောကြောင့် ဖြစ်ပေါ် လာခြင်း ဖြစ်သည်။ ထို ဆေးပညာကို လူသားများသာ တတ်မြောက်သည်မဟုတ်။ တိရစ္ဆာန်များလည်း သဘာဝ အလျောက် တတ်မြောက်ကြ သည်။ ကြောင်ကို မြွေကိုက်လျှင် ပျောက်စေတတ်သော ဆေးပင်ကို ရှာ၍ စားခြင်း၊ ခွေးများအစာမကြေလျှင် မြက် ပင်ကို စား၍ အန်ပစ်ခြင်း၊ စားကောင်းသော အစာ၊ မစား ကောင်းသော အစာတို့ကို သိခြင်း စသည်တို့ကား သာဓက များ ဖြစ်ကြသည်။

ကမ္ဘာဦးအစ မဟာသမ္မတမင်း လက်ထက်မှ စ၍ သုဇာ တမင်း လက်ထက်တိုင်အောင် လူတို့သည် လောဘ၊ ဒေါသ စသော အကုသိုလ်တရား နည်းပါးခြင်း၊ ရာသီဥတု ညီညွတ် ခြင်း၊ အစာအာဟာရ ကောင်းမွန်ခြင်းတို့ကြောင့် အနာ ရောဂါ မရှိ၊ ကျန်းမာကြသည်။ သတ္တဝါတို့၌ ဖြစ်ပေါ်မြဲ ဓမ္မတာဖြစ်သော (၁) စားချိန်သောက်ချိန်သို့ ရောက်သော အခါ အစာရေစာ ဆာလောင်မွတ်သိပ်ခြင်း၊ (၂) တစုံတခု သော ဝတ္ထုပစ္စည်းကို လိုချင်တောင့်တခြင်း၊ (၃) အသက် အရွယ်ကြီးရင့် အိုမင်းခြင်း၊ ဤအနာရောဂါ သုံးပါးသာ ရှိ လေသည်။

သုဇာတမင်း၏ သားတော် ဥက္ကာကရာဇ်မင်းကြီး လက် ထက်သို့ ရောက်သောအခါ၊ မင်းဆရာ ပုဏ္ဏားတို့သည် သတ္တ ဝါတို့ကို သတ်ဖြတ်၍ ယဇ်ပူဇော်လျှင် နတ်ရွာသုဂတိရောက် ကြောင်း ဖြစ်သည်ဟု မဟုတ်မတရား လိမ်လည်လှည့်ဖြား၍ လျှောက်ထားကြရာ၊ မင်းကြီးသည် ယုံကြည်တော်မူသဖြင့် သတ္တဝါတို့ကို သတ်ဖြတ်၍ ယဇ်ပူဇော်စေပြီးလျှင် သတ္တဝါ တို့အသားကို စားကြ၏။ ထိုအခါ လူတို့၌ အနာမျိုး ၉၆ ပါး၊ ၉၈ ပါးတို့သည် ဖြစ်ပေါ်လာကြ၏။ (ယဇ်ပူဇော်ခြင်း။ အနာမျိုး ၉၆ ပါး — လည်းရှု။) ထိုအခါမှစ၍ အနာရော ဂါတို့ကိုကုသရန် ဆေးပညာဖြစ်ပေါ်လာ၏ဟု ယူဆဖွယ် ရှိ သည်။ ဆေးပညာ ဖြစ်ပေါ်လာသော်လည်း တိုးတက်ခြင်း မရှိသေး၊ ဆေးမြီးတိုပညာလောက်သာ ဖြစ်ဟန်ရှိသည်။

နောက်အနာမျိုး ၉၆ ပါး၊ ၉၈ ပါးအပြင်၊ အနာရောဂါ အမျိုးမျိုး တိုးပွားလာသောအခါ၊ ကျန်းမာရေးအတွက် အလွန် အရေးကြီးလာရကား၊ မဇ္ဈိမဒေသ၌ အမတသာဂရ ရသေ့၊ဓာနွန္တရီ ရသေ့၊ စရက ရသေ့ စသော ရသေ့ပညာရှိတို့ သည် အမတသာဂရဆေးကျမ်း၊ သုဿုတဆေးကျမ်း၊ စရက သံဟိတဆေးကျမ်း၊ စိကိစ္ဆာနာဂဇ္ဇုနိရဆေးကျမ်း စသော ဆေးကျမ်းပေါင်း များစွာတို့ကို ရေးသား စီရင်ကြသည်။ ထိုဆေးကျမ်းတို့တွင် စိကိစ္ဆာနာဂဇ္ဇုနိရဆေးကျမ်း၌ပြုစား နည်းကို ဆန်းဆန်းကြယ်ကြယ် ပြသည်ဟု အဆိုရှိသဖြင့် ပယောဂပညာ မှော်ပညာနှင့် စပ်ဆိုင်သော ဆေးကျမ်း များလည်း ပါဝင်ကြောင်း ထင်ရှားသည်။ ထိုဆေးကျမ်း များကို တပည့်များအားလည်း သင်ကြားချပို့ကြသည်။ ထို အခါမှ စ၍ မဇ္ဈိမဒေသ၌ ဆေးပညာသည် တစတစ တိုး တက်လာသည်။ ဆေးကျမ်းများလည်း ကမ္ဘာပေါ်ရှိ တိုင်း နိုင်ငံအရပ်ရပ်သို့ တစတစ ပျံ့နှံ့သွားသည်။ ထိုစဉ်ကပင် မြန်မာနိုင်ငံသို့လည်း ရောက်လာဖွယ် ရှိသည်။ ယင်းဆေး ပညာသည် ဆေးကုရာ၌ 'ရာသီမနိုင် ဆေးမကိုင်နှင့်' ဆိုသည့် အတိုင်း ရာသီဥတုကိုပြဆိုသော ဗေဒင်ပညာနှင့်လည်း သက် ဆိုင်လျက် ရှိသည်။ (ဗေဒင် — လည်းရှု။)

မြတ်စွာဘုရား လက်ထက်တော် အခါ ရာဇဂြိုဟ်ပြည် ဆရာဇီဝကသည် ဆေးပညာ၌ ပါရဂူရောက် တတ်မြောက် လိမ်မာ၏။ တနေ့သောအခါ သာကေတပြည် သဋ္ဌေး ကတော် တဦး၏ ခုနစ်နှစ်စွဲကပ်နေသော ဦးယည်းခေါင်း ခဲနာကို ထောပတ်နှင့် စီမံထားသော ဆေးအနည်းငယ် တကြိမ်နှာနှပ်ရုံမျှဖြင့် ပျောက်ကင်းချမ်းသာသည်။ ဗိမ္ဗိသာ ရမင်းကြီး၏ မြင်းသရိုက်နာကို လက်သည်းပေါ်တွင် တင်ယူ လာသော ဆေးအနည်းငယ် တကြိမ် သုတ်လိမ်းရုံမျှဖြင့်

ပျောက်ကင်း ချမ်းသာသည်။ ရာဇဂြိုဟ်ပြည် မဟာသာလ သဌေးတဦး၏ ခုနစ်နှစ် စွဲကပ်နေသော ဦးယည်းခေါင်းခဲ နာကို မေ့ဆေးပေး၍ ဦးခေါင်းရေကို ခွာပြီးလျှင် ပိုးနှစ်ကောင်ကို ထုတ်ပစ်သဖြင့် ပျောက်ကင်း ချမ်းသာသည်။ ဗာရာဏသီပြည် သဌေးသား တဦး၏ အူထုံးသော အနာကို မေ့ဆေးပေး၍ ဝမ်းကို ခွဲပြီးလျှင် ထုံးနေသော အူကို ဖြေသဖြင့် ပျောက်ကင်းချမ်းသာသည်။

မြတ်စွာဘုရားလည်း ရဟန်းတော်များ ကျန်းမာရေး အတွက် နိဿယလေးပါးကို ခွင့်ပြုရာတွင် နွားကျင်ငယ်ရည်ဖြင့် စိမ်အပ်သော ဆီးဖြူ သျှိသျှား ဖန်ခါး ဆေးကိုငှင်း၊ ဝိနည်း မဟာဝါပါဠိ ဘေသဇ္ဇက္ခန္ဓက၌ ဖြစ်ပေါ်လာသော အနာနှင့် သင့်လျော်သော ဆေးများကိုငှင်း ခွင့်ပြုတော်မူသည်။ ဤသာဓကများကို ထောက်၍ ထိုစဉ်အခါက ဆေးပညာမည်မျှ လောက် တိုးတက်ကြီးပွားလာသည်ကို သိနိုင်သည်။ (ဤကား မဇ္ဈိမဒေသ ဆေးပညာတည်း။)

နောက်အခါ မဇ္ဈိမဒေသမှ ဆေးကျမ်းပေါင်း များစွာနှင့် ဆေးဆရာ များစွာတို့ မြန်မာနိုင်ငံသို့ တစတစ ပျံ့နှံ့လာခဲ့ရာ၊ အောက်ပိုင်း၌ သထုံခေတ်၊ အထက်ပိုင်း၌ တကောင်းခေတ်မှ စ၍ သရေခေတ္တရာခေတ်၊ ပုဂံခေတ်၊ စစ်ကိုင်း ပင်းယခေတ်၊ အင်းဝခေတ်၊ ကုန်းဘောင်ခေတ် တိုင်အောင် ဆေးပညာသည် ခေတ်အားလျော်စွာ တိုးတက် ထွန်းကားခဲ့သည်။ ထို့ကြောင့် မြန်မာ ဆေးပညာသည် သထုံခေတ်၊ တကောင်းခေတ် လောက်ကစ၍ ထွန်းကား လာကြောင်း ထင်ရှားသည်။

မဟာ ရာဇဝင်ကြီး ပဌမတွဲ၌ ပဥ္စာတကောင်း ပြည်ကို တည်ထောင်တော်မူသော သတိုးဇမ္ဗူဒီပဓဇရာဇာသည် သုခမိန်ပညာရှိ မှူးတော် မတ်တော်၊ လက်ဝဲ၊ လက်ယာ၊ အမှုထမ်း အရာထမ်း၊ ဆင်သည်၊ မြင်းသည်၊ ခြေသည်၊ သဌေးသူကြွယ်၊ ပုဏ္ဏား၊ ဟူးရား၊ ဆေးသမား၊ လက်သမားတို့အား တထောင်ခြောက်ဆယ်သော အမည်ဘွဲ့ပုံတို့ကို ပေးတော်မူသည်ဆိုသော စကားကို ထောက်၍ငှင်း၊

သရေခေတ္တရာပြည် တေပါးမင်းအား ပိဋကတ် ဗေဒင်တို့ကို တတ်မြောက်အောင် သင်ပေး၏ ဆိုသော စကားကို ထောက်၍ငှင်း၊

သရေခေတ္တရာပြည် ဘေရိန္ဒမင်းသည် တက္ကသိုလ်ပြည်သို့ သွား၍ ပညာသင်ကြားသောကြောင့် ဆေးဝါး မန္တရား ဗေဒင်တတ်လှစွာ၏ ဆိုသော စကားကို ထောက်၍ငှင်း၊

ပုဂံပြည် နော်ရထာမင်း လက်ထက် ဟူးရားဖြူ ဟူးရားညိုတို့ကား ဗေဒင် ပညာနှင့် ဆေးပညာတို့ကို တတ်မြောက်သော ဗေဒင်ဆရာ ဆေးဆရာများ ဖြစ်သည်ကို ထောက်၍ငှင်း၊ နော်ရထာမင်း မိဖုရား စောမွန်လှ၏ နားဥ္ဇောင်းတွင် မွေ့တော်မြတ် ကိန်းဝပ်တော်မူသဖြင့် ရောင်တော် တောက်ထွန်း နေသည်ကို မိဖုရားမောင်းမတို့ မြင်လျှင် ဇော်ဂနီစုန်းဖြစ်ကြောင်း လျှောက်ထားသည်ဆိုသော စကားကိုထောက်၍ငှင်း၊ နော်ရထာမင်းသည် သထုံပြည် မနုဟာမင်းကို စစ်နိုင်၍ မနုဟာမင်း သားမယားနှင့်တကွ ဓာတ်တော်မွေတော် ပိဋကတ်တော် စသည်တို့ကို ပုဂံပြည်သို့ ဆောင်ယူ လာသောအခါ ဆင်ဆေးသမား၊ မြင်းဆေးသမားများ ပါလာသည် ဆိုသော စကားကို ထောက်၍ငှင်း၊

သာသနာလင်္ကာရစာ၌လည်း ဟံသာဝတီပြည် ရာမာဓိပတိ (ဓမ္မစေတီ)မင်းသည် ပိဋကတ်၊ ဗေဒင်၊ ဝိဒက်၊ ဗျာကရုဏ်း၊ ဆန်း၊ အလင်္ကာ၊ ဟူးရား၊ ဂဏန်းကျမ်း၊ ဆေးကျမ်းအားဖြင့် ဗဟုသုတများစွာရှိ၏ ဆိုသော စကားကို ထောက်၍ငှင်း၊

ပင်းယပြည် ဆင်ဖြူလေးစီးရှင် ကျော်စွာမင်း လက်ထက် စတုရင်္ဂဗလအမတ်ကြီးသည် ပိဋကတ်နှင့်တကွ သက္ကတကျမ်းများကို ကျွမ်းကျင်တတ်မြောက်ကြောင်း ဆိုသော စကားကို ထောက်၍ငှင်း၊

အင်းဝပြည် သာလွန် မင်းတရားကြီး လက်ထက် ဘားမဲ့ဆရာတော် စသော မွန်ဘုန်းကြီးတို့ လူမှုရေးရာ၊ ဗေဒင်၊ ဆေးမှု၊ အင်း၊ အိုင်၊ ယတြာ၊ လိမ်မာတတ်ကျွမ်းကြ၏ ဆိုသော စကားကို ထောက်၍ငှင်း၊

အင်းဝပြည် သာလွန် မင်းတရားကြီးလက်ထက် တောင်ဘီလာ ဆရာတော်သည် လောကီလောကုတ္တရာ ကျမ်းများစွာကို စီရင်ရေးသားရာတွင် ဆေးဖက်ဆိုင်ရာ ဒွါဒသရာသီဓာတ်ကျမ်း၊ ကွန်ခြာဓာတ်ကျမ်း၊ သမ္ဗန္ဓဓာတ်ကျမ်း၊ ကွန်ခြာဆေးကျမ်း၊ ကမ္မဇရုပ်ကျမ်း၊ အဌဓာတုကိန်း ဥပဒေကျမ်း၊ မဟာနရီ ဓာတ်ကျမ်းများ စီရင် ရေးသားသည်ကို ထောက်၍ငှင်း၊

ကုန်းဘောင်ခေတ် တောင်တွင်း ဆရာတော် ခင်ကြီးဖျော်သည် လောကီလောကုတ္တရာ ကျမ်းအများကို စီရင် ရေးသားရာတွင် ဆေးဖက်ဆိုင်ရာဒွါဒသရာသီကျမ်း၊ အာဒိကပ္ပကျမ်း၊ ဓာတ်ကျမ်း၊ ဆနဝုတိဆေးကျမ်း၊ အသီတိဓာတ်ကျမ်းများ စီရင်ရေးသားသည်ကို ထောက်၍ငှင်း၊

ကုန်းဘောင်ခေတ် ပဌမ မောင်းထောင် သာသနာပိုင် ဆရာတော်သည် လောကီလောကုတ္တရာ ကျမ်းများစွာကို စီရင်ရေးသားရာတွင် ၁၁၄၇ ခုနှစ် နိုင်ငံအရပ်ရပ်မှ ရောက်လာသော ကျမ်းမျိုးပေါင်း တဆဲ့တမျိုး၊ စောင်ရေပေါင်း ၂၅၀ ကျော်တို့မှ မြန်မာပြန်ဆိုအပ်သော ဒြဗျဂုဏ်း နိဿယ၊ သာရကောမုဒီ နိဿယ၊ ဩသဓ ရတနာကရ နိဿယ၊ သရရတုကထနနိဿယ၊ ဓာတုပြသံသနိဿယ၊ကုန်းဘောင်ခေတ်ကုန်ဆုံးသည်တိုင်အောင် နောက်နောက်ဆရာများရေးသားအပ်သော ဘေသဇ္ဇမဥ္ဇူသာ ဆေးကျမ်း၊ မာဝေနိဒါန်ဆေးကျမ်း၊ ဘာဝပ္ပကာသ ဆေးကျမ်း၊ ဓာတုဝိဘာဂဒီပနီ၊ ဓာတုဝိတ္ထာရဒီပနီ၊ ဥတုဘောဇနသင်္ဂဟကျမ်း စသော ဆေးကျမ်း

များနှင့် မြန်မာနိုင်ငံဖြစ် ဆေးကျမ်းပေါင်းကိုးဆယ်ကျော်တို့ကို ထောက်၍ရင်း မဇ္ဈိမဒေသ ဆေးပညာမှ ဆင်းသက်လာသော မြန်မာဆေးပညာသည် တခေတ်ထက် တခေတ် တိုးတက်ကြီးပွား ထွန်းကားလာသည်မှာ မျက်မြင် ဒိဋ္ဌ ဖြစ်၍ မည်သူမျှ မငြင်းနိုင်ပေ။

မြန်မာဆေးပညာ ဆိုရာ၌လည်း ဓာတ်၊ ပိဋကော ဆေးပညာသာမဟုတ်၊ နက္ခတ်၊ ဗေဒင်၊ ပယောဂ၊ မှော်၊ အင်း၊ အိုင်၊ ခါးလှည့်၊ လက်ဖွဲ့၊ ဂါထာ၊ မန္တန်၊ မန္တရား၊ ဆေးဝါး၊ အင်္ဂါယတ်စသော ဂန္ဓာရီဆိုင်ရာ ဝိဇ္ဇာဆိုင်ရာ ပညာရပ်များနှင့် မြတ်စွာဘုရား ဟောကြားတော်မူအပ်သော ဒေသနာတော် ပရိတ်တရားတော်များလည်း ပါဝင်သည်။

မြန်မာ ဆေးပညာအရ ဆေးဆရာများသည် အနာရောဂါ အမျိုးမျိုးတို့ကို ကုသရာ၌ (၁) အနာရောဂါ စွဲကပ်နေသော ခန္ဓာကိုယ်၊ (၂) ရာသီဥတု၊ ဤနှစ်ပါးကို ကြည့်ရှုနှိုင်းချိန်၍ ကုသကြသည်။ ထိုနှစ်ပါးတို့တွင် ခန္ဓာကိုယ်ဖက်က ကြည့်လျှင် ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ သည်းခြေ၊ အာဟာရ၊ အာကာသ ဤဓာတ်ကြီး ခုနစ်ပါးကိုရင်း၊ အရည်၊ အသွေး၊ အသား၊ အဆီ၊ အရိုး၊ ခြင်ဆီ၊ သုက်၊ ဤဓာတ်ကြီး ခုနစ်ပါးကိုရင်း၊ ပထဝီဓာတ်နှစ်ဆယ်၊ အာပေါဓာတ်တဆဲ့နှစ်ပါး၊ တေဇောဓာတ်လေးပါး၊ ဝါယောဓာတ်ခြောက်ပါး၊ ဤလေးဆဲ့နှစ် ကောဋ္ဌာသကိုရင်း၊ ဗာလ၊ မဇ္ဈိမ၊ ဝုဒ္ဓ၊ ဤအရွယ်သုံးပါးကိုရင်း၊ ပိန်သောသူ၊ အလတ်ဖြစ်သောသူ၊ ဝသောသူ၊ ဤလူသုံးပါးကိုရင်း ကြည့်ရှုနှိုင်းချိန်၍ ကုသကြသည်။

ဥတုဖက်က ကြည့်လျှင်လည်း တနှစ်အတွင်း ဒက္ခိဏယာဉ်၊ ဥတ္တရာယာဉ်၊ ဤအယာဉ်နှစ်ပါးကိုရင်း၊ဟေမန္တဥတု၊ ဂိမ္ဟန္တဥတု၊ ဝဿန္တဥတု၊ ဤဥတုကြီးသုံးပါးကိုရင်း၊ ဟေမန္တဥတု၊ သိသိရဥတု၊ဝသန္တဥတု၊ဂိမှဥတု၊ ဿောနဥတု၊သရဒဥတု၊ ဤဥတုငယ် ခြောက်ပါးကိုရင်း၊ မိဿ၊ ပြိဿ၊ မေထုန်၊ ကာရကဋ်၊ သိဟ်၊ ကန်၊ တူ၊ ဗြိစ္ဆာ၊ ဓနု၊ မကာရ၊ ကုံ၊ မိန်၊ ဤတဆဲ့နှစ် ရာသီကိုရင်း၊ ရက်ပေါင်း သုံးရာ ခြောက်ဆယ် ငါးရက်၊ ရက်ပေါင်း သုံးရာ ခြောက်ဆယ် ခြောက်ရက်ကိုရင်း၊ တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေ၊ ဤခုနစ်နေ့ကိုရင်း၊ နေ့၊ ညဉ့် ဤနှစ်ပါးကိုရင်း၊ စိစွတ်သော အနုပ၊ ခြောက်ကပ်သော ဇင်္ဂလ၊ နှစ်မျိုး ဆက်ဆံသော သာဓာရဏ၊ ဤအရပ်သုံးပါးကိုရင်း ကြည့်ရှုနှိုင်းချိန်၍ ကုသကြသည်။

စွဲကပ်နေသော အနာရောဂါကို ခွဲခြားရာ၌ ခန္ဓာကိုယ်ကိုရင်း၊ ဥတုကိုရင်း ကြည့်ရှု၍ သလိပ်၊ သည်းခြေ၊ လေ ဒေါသသုံးပါးတို့တွင် သလိပ်ကြောင့် ဖြစ်သည်၊ သည်းခြေကြောင့်ဖြစ်သည်၊ လေကြောင့် ဖြစ်သည်၊ ဒေါသနှစ်ပါးကြောင့် ဖြစ်သည်၊ ဒေါသသုံးပါးကြောင့် ဖြစ်သည် (ဤနေရာ၌ ဒေါသတပါးတည်း ဖြစ်လျှင် ပြတက်၊ နှစ်ပါးဖြစ်လျှင် ဒွေးဝန်း၊ သုံးပါးဖြစ်လျှင် သန္နိပါတ်ခေါ် သည်။)၊ ကံ၊စိတ်၊ဥတု၊ အာဟာရ အကြောင်း လေးပါးတို့တွင် ကံကြောင့် ဖြစ်သည်၊ စိတ်ကြောင့်ဖြစ်သည်၊ ဥတုကြောင့်ဖြစ်သည်၊ အာဟာရကြောင့် ဖြစ်သည်၊ အအေး အပူ နှစ်ပါးတို့တွင် အအေးကြောင့် ဖြစ်သည်၊ အပူကြောင့် ဖြစ်သည်၊ အတက်အသက် နှစ်ပါးတို့တွင် အတက် ဖြစ်သည်၊ အသက် ဖြစ်သည်၊ စုန်းပယောဂ၊ နတ်ပယောဂ နှစ်ပါးတို့တွင် စုန်းပယောဂဖြစ်သည်၊ နတ် ပယောဂဖြစ်သည် စသည်ဖြင့် ခွဲခြား၍ ကုသကြသည်။

ဆေးနှင့် အစာကို စီမံရာ၌ အချို၊ အဆိမ့်၊ အချဉ်၊ အငန်၊ အခါး၊ အစပ်၊ အဖန် ရသခြောက်ပါးကို တပါး တပါး၌ ရသ၊ ဝိပါက၊ ဂုဏ်၊ ကိစ္စ၊ သတ္တိ၊ ဤငါးပါးကို စိစစ်၍၊ ဤဆေးသည် ဤအစာသည် သလိပ်ကို နိုင်သည်၊ သည်းခြေကို နိုင်သည်၊ လေကို နိုင်သည်၊ ဒွေးဝန်းကို နိုင်သည်၊ သန္နိပါတ်ကို နိုင်သည်၊ အအေးကို နိုင်သည်၊ အပူကို နိုင်သည်၊ အတက်ကို နိုင်သည်၊ အသက်ကိုနိုင်သည်စသည်ဖြင့်စိစစ်၍စီမံကြသည်။

ဆေးကုသရာ၌ အချုပ် အားဖြင့် သလိပ်ကြောင့် ဖြစ်သော အနာကို သလိပ်ကို နိုင်အောင်၊ သည်းခြေကြောင့် ဖြစ်သောအနာကို သည်းခြေကို နိုင်အောင်၊ လေကြောင့် ဖြစ်သော အနာကို လေကို နိုင်အောင်၊ ဒေါသနှစ်ပါးကြောင့် ဖြစ်သော အနာကို ဒေါသနှစ်ပါးကို နိုင်အောင်၊ ဒေါသသုံးပါးကြောင့် ဖြစ်သော အနာကို ဒေါသသုံးပါးကို နိုင်အောင် ကုသကြသည်။ ကံကြောင့် ဖြစ်သော အနာကို ဆေးမကုကောင်း။ စိတ်ကြောင့် ဖြစ်သော အနာကို စိတ်ကို ပြုပြင်လာအောင်၊ ဥတုကြောင့် ဖြစ်သော အနာကို ဥတု ညီညွတ်လာအောင်၊ အာဟာရကြောင့် ဖြစ်သော အနာကို အာဟာရ ညီညွတ်လာအောင်၊ အအေးကြောင့် ဖြစ်သော အနာကို ပူလာအောင်၊ အပူကြောင့် ဖြစ်သော အနာကို အေးလာအောင်၊ တက်၍ဖြစ်သော အနာကို သက်လာအောင်၊ သက်၍ ဖြစ်သော အနာကို တက်လာအောင် ကုသကြသည်။ ဆေးနှင့် အစာပေးရာ၌လည်း အရွယ်သုံးပါးသို့ လိုက်၍ရင်း၊ လူသုံးပါးသို့ လိုက်၍ရင်း သင့်လျော်အောင် ပေးကြသည်။ အထူးအားဖြင့် စုန်းကဝေ ဖမ်းစားသော (ပူးစားသော) ပယောဂနာနှင့် ဘီလူးနတ်ဆိုး၊ ဘုတ်၊ ပြိတ္တာ၊ သူရဲ၊ တစ္ဆေ ဖမ်းစားသော (ပူးစားသော ) ပယောဂနာ၌ နတ်ဆေး ပယောဂဆေးဖြင့်၎င်း၊ မှော်ပညာဖြင့်၎င်း၊ အင်း၊ အိုင်၊ ခါးလှည့်၊ လက်ဖွဲ့၊ ဂါထာ၊ မန္တန်၊ မန္တရားတို့ဖြင့်၎င်း၊ မြတ်စွာဘုရား၏ ပရိတ်ဒေသနာတော်ဖြင့်၎င်း ကုသကြသည်။ (ပယောဂနာကို အချို့က အယုံအကြည် မရှိကြ။ မရှိကြသော်လည်း အနာမျိုး ၉၆ ပါး၊ ၉၇ ပါး၌၎င်း၊ ငိနည်းဒေသနာတော်၌၎င်း ပြဆိုအပ်သော အပမာရအနာကား စုန်းနတ်ဖမ်းစားသော ပယောဂနာ ဖြစ်သည်။)

ကုန်းဘောင်ခေတ် နောက်ပိုင်းသို့ ရောက်သော အခါ မြန်မာ ဆေးဆရာတို့သည် ရသေ့ ဆေးကျမ်းများ၌ လာသော နည်းလမ်းများဖြင့်ပင် ကုသကြသည်။ ပိဋကတ်တော်၌ ကျွမ်းကျင် လိမ်မာသော ဆေးဆရာတို့သည် 'သီတေန ပိ ရုပ္ပတိ၊ ဥဏှေနပိ ရုပ္ပတိ' ဟူသော မြတ်စွာဘုရား၏ ဒေသနာကို နည်းမှီး၍ အသိဉာဏ်ပွင့်လင်းကာ၊ အနာရောဂါ မည်မျှပင် အမျိုးအမည် ထွေပြားများနေသော်လည်း၊ အနာရောဂါဆိုသည်မှာ ခန္ဓာကိုယ်၌ ရှိသော အမာခံ ဓာတ်ကြီးလေးပါးနှင့် ရုပ်တရားတို့ ဖောက်ပြန် ပြောင်းလွဲခြင်းသာ ဖြစ်သည်။ ယင်းဖောက်ပြန်ပြောင်းလွဲခြင်းလည်း သီတ အအေး၊ ဥဏှ အပူ၊ ဤအကြောင်း နှစ်ပါးကြောင့် ဖြစ်ရသည်။ ထိုကြောင့် ရသေ့ ဆေးကျမ်းများ၌ လာသော နည်းနှင့် ဒေသနာတော်၌ လာသောနည်းတို့ကို ပေါင်းစပ်နှိုင်းချိန်လျက် အောက်ပါအတိုင်း အနာရောဂါတို့ကို အကျဉ်းချုပ် စုစည်းကာ ကုကြသည်။

(၁) သီတပကတိ သီတအဓိကနာ (၁)သီတပကတိ ဥဏှအဓိကနာဟူ၍ အအေးနာနှစ်ပါး၊ (၁) ဥဏှပကတိ ဥဏှအဓိကနာ၊ (၂) ဥဏှပကတိ သီတအဓိကနာ ဟူ၍ အပူနာနှစ်ပါး၊ ဤအနာလေးပါးကို ခွဲခြားသတ်မှတ်၍ ကုသကြသည်။ နောက်တဖန် (၁) သင်္ဂဟိတနာ(၂) ဗြူဟနနာ (၃)ပတ္ထရနနာဟူ၍ အအေးနာ သုံးပါး၊ (၁) ကက္ခဋနာ (၂) ဝိတ္ထမ္ဘိတနာ (၃) ပရိဿဝနာဟူ၍ အပူနာ သုံးပါး၊ ဤအနာခြောက်ပါးကို ခွဲခြား သတ်မှတ်၍ ကုသကြသည်။ အထူးအားဖြင့် မင်းတုန်းမင်း လက်ထက် မြန်မာ ဆေးပညာကား ထိပ်တန်းသို့ ရောက်အောင် တိုးတက်ကြီးပွားလာသည်။

အင်္ဂလိပ် ခေတ်သို့ရောက်၍ အနောက်နိုင်ငံ ဆေးပညာကို တတ်မြောက်သော ဆရာဝန်များ ပေါ်လာကြသောအခါ၊ နှစ်ပေါင်းများစွာက ဘုရင်မင်းမြတ်နှင့် နိုင်ငံသူ နိုင်ငံသားများ၏ ကျန်းမာရေးအတွက် တာဝန်ခံ၍ ကုသလာသော မြန်မာဆေးဆရာများကို အစိုးရက အသိအမှတ်မပြုသည့်အတွက် အချို့ နိုင်ငံသူနိုင်ငံသားတို့က တဖြည်းဖြည်း အထင်အမြင် သေးလာကြသည်။ အယုံအကြည် နည်းလာကြသည်။ အပြစ်ပြောလာကြသည်။ ယုံကြည်သူများကား မြန်မာဆေးဆရာ များကိုသာ အားကိုး အားထား ပြုလျက် ကုသစေကြသည်။ သို့သော်လည်း ခြီးမြှောက်သော မင်းမရှိသဖြင့် မြန်မာဆေးပညာသည် တဖြည်းဖြည်း ကျဆင်းလာတော့သည်။ ဂိုဏ်းအမျိုးမျိုးလည်း ပေါ်ပေါက်လာတော့သည်။ထိုဂိုဏ်းတို့တွင် တောင်သာဂိုဏ်းသည် အထင်ရှားဆုံး ဖြစ်လာသည်။ ယခင် အနာခြောက်မျိုး ခွဲခြားသတ်မှတ်၍ ကုသသောနည်းကား တောင်သာဂိုဏ်းနည်းပင် ဖြစ်သည်။ မြန်မာဆေးပညာ ကျဆင်းလာသည်ဆိုသော်လည်း ထူးခြားချက်တရပ်မှာ အချို့နေရာ၌ ဆရာဝန်များထက် သာလွန်ခြင်းပင် ဖြစ်သည်။ ဆေးရုံမှာပျောက်ကင်းချမ်းသာအောင် မကုသနိုင်၍ ဆင်းလာသော နာတာရှည် လူနာများနှင့် ဆရာဝန်များက မုချသေလိမ့်မည် ဆုံးဖြတ်ထားသော လူနာများကို မြန်မာ ဆေးဆရာများ ကုသကြရာ အချို့ လူနာများ ပျောက်ကင်းချမ်းသာ နေသည်ကို မျက်မြင်ကိုယ်တွေ့ ဖြစ်ကြသည့်အတွက် အလွန်အံ့ဩမိကြသည်။

၁၉၂၈ ခုနှစ်သို့ ရောက်သောအခါ ပညာရေး အမတ်ချုပ်ကြီး ဦးဘရင်သည် မိမိကိုယ်တိုင်လည်း ဆေးဆရာဝန် ဖြစ်သည့်အားလျော်စွာ တိုင်းရင်းမြန်မာ ဆေးပညာကို စံနစ်တကျ ခြီးမြှောက်လိုသော ဆန္ဒဖြင့် အငြိမ်းစား အိုင်အမ်အက် (စ) လက်ဖတင်နင်ကာနယ် ဦးဘခက် အကြီးဥက္ကဋ္ဌ၊ အနောက် နိုင်ငံ ဆေးပညာတတ် မြန်မာ ဆရာဝန် သုံးဦး၊ တိုင်းရင်း မြန်မာ ဆေးပညာတတ် ဆရာကြီး ခြောက်ဦးတို့ အား တိုင်းရင်းသား ဆေးပညာ စည်းစံနစ်ကို စုံစမ်းသော ကော်မီတီ တရပ် ဖွဲ့စည်းခဲ့၏။ ထိုကော်မီတီသည် တိုင်းရင်း မြန်မာ ဆေးပညာစည်းစံနစ်ကို နိုင်ငံတော်ရှိ ဆေးဆရာကြီး များထံ စုံစမ်းစစ်ဆေး၍ အစီရင်ခံစာ တင်သွင်းခဲ့သည်။

ယင်းအစီရင်ခံစာ၌ မြန်မာဆေးပညာအကြောင်း စုံလင်စွာအစီရင်ခံထားသည့်အတွက် အလွန်မှတ်သားဖွယ်ကောင်းသည်။အကျဉ်းချုပ်အားဖြင့် မြန်မာဆေးပညာသည် အိန္ဒိယ အာယုဗ္ဗေဒဆေးပညာမှ ဆင်းသက်လာသည်။ အာယုဗ္ဗေဒ ဆေးပညာသည် လွန်ခဲ့သောနှစ်ပေါင်းများစွာက(တနည်း) ခရစ်တော် မပေါ်မီ နှစ်ပေါင်း ၆၀၀ ကျော်က စတင်ဖြစ်ပေါ်လာခဲ့သည်။ ဆေးပညာတို့၏ အရင်းခံ အခြေအမြစ်တခု ဖြစ်သည့် အနောက်နိုင်ငံ ဆေးပညာတတ် ဆရာဝန်များသည်ပင် မိမိတို့ မနိုင်နင်းသော နာတာရှည်လူနာများ အတွက်၎င်း၊ အိမ်သူ အိမ်သားများအတွက်၎င်း အာယုဗ္ဗေဒ ဆေးဆရာကြီးများကို ပင့်ခေါ်၍ ကုသကြရသည်။ ထိုပြင် မြန်မာ ဆေးပညာ၌ အဘိဓမ္မာ (သို့မဟုတ်)ဓာတ်၊ ပိဋကော၊ ပယောဂ၊ ဗေဒင်ပညာများလည်း ပါရှိသည်။ ယင်းပညာများကို မပျောက်မပျက် တိုးတက်ကြီးပွားလာရန် အစိုးရက မြန်မာဆေးပညာအဖွဲ့ချုပ်ကို ဖွဲ့စည်း အုပ်ချုပ်စေလျက် မြန်မာဆေးကျောင်းများ ကောလိပ် ကျောင်းများ ဖွင့်ပေးခြင်း၊ အောင်မြင်သူတို့အား အောင်လက်မှတ် ပေးခြင်း၊ ဆေးရုံ ဆောက်ပေးခြင်း စသည်ဖြင့် စံနစ်တကျ ကူညီထောက်ပံ့ရန် စုံလင်စွာ အစီရင်ခံထားသည်။ ထိုသို့ အစီရင်ခံထားသော်လည်း အင်္ဂလိပ်အစိုးရသည် အစီရင် ခံစာ အရ မြန်မာဆေးပညာကို တိုးတက် ကြီးပွားအောင် အကောင်အထည် ဖော်ခြင်းမရှိ၊ တခေတ်လုံး ဇာတ်မြှုပ်လာခဲ့သည်။

ဒုတိယ ကမ္ဘာစစ်ကြီး ပြီးဆုံး၍ လွတ်လပ်ရေး ရရှိပြီးနောက်၊ ၁၉၅၂ ခုနှစ်သို့ရောက်သောအခါ ယခင် အင်္ဂလိပ်ခေတ်က တိုင်းရင်းသား ဆေးပညာစည်းစံနစ်ကို စုံစမ်း

သော ကော်မီတီ အစီရင်ခံစာကို အကောင်အထည် ဖော်သော အနေဖြင့် ကျဆင်း နေသော တိုင်းရင်းမြန်မာ ဆေးပညာကို စံနစ်တကျ မြှင့်တင်ရန် ရည်ရွယ်လျက် ကျန်းမာရေးဌာနညွှန်ကြားရေးဝန် ဦးမောင်ကလေး ဥက္ကဋ္ဌ၊ သခင်ကိုယ်တော်မှိုင်း ဒုတိယဥက္ကဋ္ဌ၊ အင်းစိန်ခရိုင် ဆရာဝန်ကြီး ဦးဝဏ္ဏ အကျိုးဆောင်နှင့် တိုင်းရင်းမြန်မာ ဆေးဆရာကြီး ၁၂ ဦးတို့အား ရွေးပြေး ကော်မီတီအဖြစ် ခန့်အပ်သည်။ ယင်းကော်မီတီက တိုင်းရင်းမြန်မာ ဆေးပညာမြှင့်တင်ရေး စီမံကိန်းများနှင့် တိုင်းရင်းမြန်မာ ဆေးဆရာအဖွဲ့ အက်ဥပဒေများကို ရေးသား၍ အကြံပေးသည်။ အစိုးရက ကော်မီတီ၏ စီမံကိန်းအရ ၁၉၅၃ ခုနှစ်တွင် ရန်ကုန်မြို့၌ တိုင်းရင်းမြန်မာ အခမဲ့ ဆေးကုဌာနကိုးခုနှင့် မန္တလေးမြို့၌ တိုင်းရင်းမြန်မာ အခမဲ့ ဆေးကုဌာန ကိုးခု၊ ပေါင်း ၁၈ ဌာန ဖွင့်လှစ်ကာ တိုင်းရင်းမြန်မာ ဆေးဆရာကြီးတို့အား ဆေးမှူးကြီးများအဖြစ် ခန့်ထား၍၊ နိုင်ငံသူ နိုင်ငံသားတို့၏ ကျန်းမာရေးအတွက် တာဝန်ပေးလျက် ကုသစေသည်။

၁၉၅၄ ခုနှစ်တွင် တိုင်းရင်းမြန်မာ ဆေးဆရာ အဖွဲ့ အက်ဥပဒေကို လွှတ်တော်နှစ်ရပ်က ပြဋ္ဌာန်းအတည်ပြုကြသည်။ ထိုနောက် ရွေးပြေးကော်မီတီကို ဖျက်သိမ်းပြီးလျှင် အက်ဥပဒေအရ တိုင်းရင်းမြန်မာဆေးဆရာ အဖွဲ့ကို ဖွဲ့စည်း၍ စီမံအုပ်ချုပ်ကာ တိုင်းရင်းမြန်မာ ဆေးပညာကို စံနစ်တကျ မြှင့်တင်လျက် ရှိသည်။ နည်းဥပဒေများကို ရေးသားလျက် အဆင့်ဆင့် ပြဋ္ဌာန်း အတည်ပြုကြသည်။ ၁၉၅၅ ခုနှစ်မှစ၍ ၁၉၆၁ ခုနှစ် မေလအထိ ပြည်ထောင်စု မြန်မာ နိုင်ငံတော်အတွင်းရှိ တိုင်းရင်းမြန်မာ ဆေးဆရာတို့ကို (၁) ဓာတ်(၂) ပိဋကော (၃) ပယောဂ (၄) နက္ခတ် ဗေဒင်၊ ဤလေးဘာသာကို ပိုင်းခြားသတ်မှတ်လျက် မှတ်ပုံတင်ခဲ့ရာ၊ ယခု အခါ မှတ်ပုံတင်ပြီး ဆေးဆရာပေါင်း ၂၀,၉၀၀ ဖြစ်သည်။ (ဤကား မြန်မာ့ဆေးပညာတည်း။)

ဤသို့လျှင် အစိုးရက နိုင်ငံခြား ဆေးပညာတတ်များ နည်းတူ အားပေး ချီးမြှောက်လျက် တိုင်းရင်း မြန်မာဆေးဆရာများကလည်း ကြီးပွား တိုးတက်စေလိုသော စေတနာကောင်းဖြင့် အားကြိုးမာန်တက် ဆောင်ရွက် သွားပါလျှင် မြန်မာ ဆေးပညာသည် ယခု လက်ရှိ ကမ္ဘာ့ဆေးပညာနှင့် ယှဉ်ပေါင်တန်း ချီတက်လျက် တိုင်းရင်းသားများအား အကျိုးဖြစ်ထွန်းနိုင်စေလိမ့်မည်ဟု မြော်လင့်ရပေသည်။

ဦးကြီးဖေ

**မြန်မာ ဇာတ်မင်းသမီးများ။** ။မြန်မာ ဇာတ်ပွဲတွင် ဇာတ်ဆောင် အမျိုးသမီး ပညာသည်ကို ဇာတ်မင်းသမီး ဟုခေါ်သည်။ ဇာတ်မင်းသမီး လုပ်သူသည် အမျိုးသမီးပိုင်း ဆိုင်ရာ ကကြိုးကကွက်များကို နိုင်နင်းစွာ တတ်ကျွမ်းရလေသည်။ ထိုအပြင် မင်းသမီးကောင်း တလက် ဖြစ်လိုလျှင် “ပိုး၊ မွေး၊ ခေါ်၊ မြှော်၊ အောင်၊ ဇော်၊ လု၊ ဘ၊ ရှူး၊ အ၊ သေ၊ ပစ်” ဟူသော မင်းသမီးတို့ တတ်အပ်သည့် ပညာ ၁၂ ရပ်ကိုလည်း တကယ်တတ်ရသည်ဟု နာမည်ကျော် ရုပ်သေး မင်းသမီးကြီး ဆရာပုက ဆိုသည်။

(၁) ပိုး—ဟူရာ၌ မင်းသမီးပင် ဖြစ်လင့်ကစား အချို့ဇာတ်များတွင် “ကိန်းက ဖောက်ထိုးတယ်မှရှင် မိန်းမနောက်ပိုး” လုပ်ရတတ်သည် ဖြစ်သဖြင့် မိန်းမတန်မဲ့ ယောက်ျားကို စ၍ ပိုးခန်းကြုံလာလျှင် သဘာဝကျကျ တကယ့် အဖြစ်အစစ်နှင့် တူအောင် ပိုးတတ်ရသည်။

(၂) မွေး—ဟူရာ၌ အလောင်းတော် ဖွားတော်မူခန်းမှ အစ ဇာတ်နှင့် ဆိုင်ရာ မင်းသမီးလုပ်သူ သားဖွားရ၊ မျက်နှာမြင်ရသည့် အခန်းများကိုလည်း လိုအပ်သလို ကတတ်ရသည်။ မင်းသမီး လုပ်သူသည် အပျိုစစ်စစ်ပင် ဖြစ်လင့်ကစား မိန်းမတို့ ဓမ္မတာ ကိုးလလွယ်၍ ဆယ်လမွေးသည့် မိခင်တဦးအတိုင်း သရုပ်ပါပါ မွေးတတ်ဖို့ လိုသည်။

(၃) ခေါ်—ဆိုသည်မှာ ဇာတ်ပွဲတို့၏ အစဉ်အလာအတိုင်း လင်ကို ခေါ်နည်း၊ သားကို ခေါ်နည်း၊ ကျေးကျွန်ကို ခေါ်နည်း၊ အရှင်သခင်ကို ခေါ်နည်း စသည်ဖြင့် ထုံးတမ်းစဉ်လာနှင့်အညီ ခေါ်တတ် ပြောတတ်ဖို့ လိုသည်။ ပုံစံအားဖြင့် လင်ကို ခေါ်ရာ၌ “သပြေရွက်စည်၊ မြရည်ရောင်ဖိတ်၊ တသောင်းထိပ်မှ၊ ဖြူရိပ်စကြာ၊ ဖြန့်မိုးကာရ၊ ဒီပါတိုင်းလုံးရှင် မောင်မောင်ဘုရား....” စသည့် အခေါ်မျိုးဖြင့် ခေါ်ရခြင်းကို ဆိုလိုသည်။

(၄) မြှော်—ဆိုသည်မှာ ရည်းစားမြှော်၊ လင်မြှော်၊ သားမြှော်ခန်းများတွင် တကယ်တမ်း မြှော်တတ်ရန် လိုသည်။ ပညာပါသော ရည်းစားမြှော်၊ လင်မြှော်များမှာ ကျေးကိုစေ၍ မြှော်ခြင်း၊ ဘုရားကို တိုင်၍ မြှော်ခြင်း၊ ကျေးသားနှင့် စကားခွန်းတုံ့လှယ်၍ မြှော်ခြင်းတို့ ဖြစ်သည်။ မင်းသမီး၏ လွမ်းယူ တမ်းတပုံကို ပွဲကြည့် ပရိသတ်၏ စိတ်၌ တကယ်ပင်ထင်မှတ်လာအောင် မြှော်တတ်ရလေသည်။

(၅) အောင်—ဆိုသည်မှာ စစ်ကိုင်း ကျောက်ပန်း ကန်ကြီးကုန်း ရာဇဝင် ဖြစ်သော ဆားတောင်သူ အောင်ဖြူဇာတ်ကို ခင်းလျှင် နိုင်နင်းစွာ ကပြနိုင်ရမည့် အရည်အသွေးဖြစ်သည်။ အောင်ဖြူဇာတ်မှာ ပရိယာယ် အလှန် များပြီးလျှင် မင်းသမီး၏ အလွမ်းများလှသော ဇာတ်ထုပ် ဖြစ်သည်။ ဤလိုဇာတ်မျိုးကို တော်တော့် မင်းသမီး ဇာတ်မလိုက်နိုင်၊ မကနိုင်ပေ။

(၆) ဇော်—ဟူသည်မှာ ရှိရာဇာတ်ကို ကပြရသဖြင့် မင်းသမီး ဇော်ဂျီဖြစ်ရသည့် ဇာတ်လမ်းမျိုးနှင့် ကြုံခဲ့သော် ဇော်ဂျီအဖြစ်နှင့် ကတတ် ပြောတတ် ပြုမူတတ်ဖို့ အသင့်ရှိရပေမည်။

(၇) လု–ဆိုသည်မှာ လင်လုခန်း၊ သားလုခန်းများတွင် နိုင်နင်းဖို့ လိုသည်။ သစ္စာထား နှစ်ပါးသွားခန်းတွင် လင်လုခန်းမျိုးသာ မက ဇာတ်ကွက်နှင့် အညီ လူယောင်ဆောင်ထားသည့် ဘီလူးမနှင့် လင်လုရခြင်းမျိုးကိုပါ ဆိုသည်။ ယင်းအခါ၌ မိမိသည် လင်သားအပေါ် မည်သို့ ကြင်နာခဲ့သည်၊ ယုယခဲ့သည်၊ အနာခံ၍ ချစ်ရည်လူးခဲ့သည်၊ ချစ်တုံ့တင်ခဲ့သည်များကို ပွဲကြည့်ပရိသတ်စိတ်၌ အကွင်းကွင်းနှင့် ပေါ်အောင် ပြောဆိုတတ်ရ၍၊ သားလုခန်း၌လည်း မိခင်တယောက်၏ သားအပေါ် သန့်စင် မွန်မြတ်သော မေတ္တာရေစင်ဖြင့် ချစ်ခင်သဒ္ဓါ မြတ်နိုးစွာ ကျွေးမွေး သုတ်သင်ခဲ့ပုံများ၊ သားအတွက် ရတက်မအေး သောက စိုက်ခဲ့ပုံများကို တကယ့် သားသည်မအေတယောက်ကဲ့သို့ စိကာပတ်ကုံး ပြောကြားတတ်ရလေသည်။

(၈) ဘ–ဟူသည်မှာ အချို့ဇာတ်များ၌ မင်းသမီး ရေကန်တွင် ရေချိုးမှား၍ အစွယ်ပြူးပြူး ဘီလူး ဖြစ်သွားသည့် အခန်း ပါတတ်သည်။ ထိုအခါ ဘီလူးခန်းကို မင်းသမီး လုပ်သူသည် နိုင်နင်းစွာ ကပြနိုင်ရလေသည်။

(၉) ရှူး–ဟူသည်မှာ ဇာတ်ကွက်နှင့် အညီ အကြောင်းတခုခုကြောင့် ရှူးသွပ်ရသည့်အခါ၌ တကယ့်အရူးနှင့် တူအောင် ရှူးတတ်ဖို့ လိုသည်။ ဤလို အခန်းမျိုးကို ရုပ်သေး မင်းသမီး ဆရာပု၊ ဒေါ်ထွေးလေးနှင့် ထားဝယ်ပြန် ဒေါ်စိန်ခင်တို့သာလျှင် နိုင်နိုင်နင်းနင်း ကနိုင်၍၊ အရူးခန်း ကောင်းသည်ဟု ကျော်ကြားလေသည်။ ဒေါ်ထွေးလေး ပဋာစာရီဇာတ်ကို ကပြရာ၌ အရူးခန်းကို ပရိသတ်က မေ့မရအောင်ဖြစ်ရသည်ဟု ဆိုလေသည်။ (ထွေးလေး၊ ဒေါ်။ ပု၊ ဆရာ — လည်း ရှု။)

(၁၀) အ–ဟူသည်မှာ စုန်းပူးစား၍ဖြစ်စေ၊ နတ်တိုက်၍ဖြစ်စေ၊ ဝဋ်ကြွေးမှာကြောင့်ဖြစ်စေ မင်းသမီးသည် အကောင်းပကတိက အ သွားရသည့် ဇာတ်လမ်းမျိုး ကပြရသည့်အခါ ဘာတခွန်းမျှ မပြောနိုင်တော့ဘဲ၊ ခြေနှင့် လက်နှင့် ပြ၍ မျက်နှာက အမူအရာ အမျိုးမျိုး ထုတ်ဖော်သည်တွင် ပရိသတ်က နားလည်ပြီး ရင်ထုမနာနှင့် မျက်ရည်မဆည်နိုင် ဖြစ်လာအောင် ကပြတတ်ရသည်။

(၁၁) သေ–ဟူရာ၌ မင်းသမီး သေရသည့် အခန်းများလည်း ဇာတ်လမ်းတွင် ပါတတ်သေးရာ၊ မင်းသမီးက မသေတတ်လျှင် ဇာတ်နာသင့်ပါလျက် မနာဘဲ ပွဲကြည့်ပရိသတ် အူကြောင်ကြောင် ဖြစ်ကုန်ပြီးလျှင် တညဥ့်လုံး သယ်လာသမျှ သဲရေကျ ဖြစ်ရတတ်သည်။ ဆရာပု၊ ဒေါ်ထွေးလေးနှင့် ထားဝယ်ပြန် ဒေါ်စိန်ခင်တို့သည် အသေ ကောင်းလှသည်ဟု ဆိုသည်။ မင်းသမီးလုပ်သူ အသေတတ်သည့်အခါ၌ ဇာတ်ခုံပေါ်က ဇာတ်သူ ဇာတ်သားများပင် စိတ်ထိခိုက်လာပြီးလျှင် မျက်ရည်ကျရလေသည်။



တော်သုံး မင်းသမီးကြီး ယင်းတော်မလေး

(၁၂) ပစ်–ဟူရာ၌ သားပစ် သမီးပစ် စွန့်ပစ်ရသော ဇာတ်မျိုး၌ ပစ်တတ်ရန် လိုခြင်းကို ဆိုလိုသည်။ ပစ်ရာ၌လည်း အသေပစ် အရှင်ပစ် ဟူ၍ ရှိ၏။ ပုံစံအားဖြင့် မိဖုရားကို နောက်သိမ်းမည့် ဘုရင်က အလျင်သွေး မကျန်ရအောင် သားသမီးကို စွန့်ပစ်ချေ ဟုဆိုသည့်အခါ၌ သားကို အရှင်လတ်လတ် စွန့်ပစ်ရသည့် အခန်းမျိုး၊ သားသေ၍ စွန့်ပစ်ရသည့် အခန်းမျိုး၌ ဇာတ်လိုက်တတ်ဖို့ လိုလေသည်။

မန္တလေး မြို့တည်နန်းတည် မင်းတုန်းမင်းတရားနှင့် သီပေါမင်းတရားတို့ ခေတ်တွင် နန်းတွင်း အိမ်နောင်ဇာတ်၊ ရာမဇာတ် စသည်တို့ကို ကပြခဲ့စဉ်က အိမ်နောင် နန်းတွင်း ဇာတ်တော်ကြီးတွင် အထူး နာမည်ကျော်ကြား လူကြိုက်များလှသော တော်သုံး မင်းသမီးကြီး ယင်းတော်မလေးသည် အရေးပါ အရာရောက်ဆုံး ဖြစ်သူ ပွတ်စပါး မင်းသမီး အခန်းမှ နိုင်နင်းစွာ အမှုထမ်းနိုင်လေသည်။ နာမည်ရင်းမှာ မလေး ဖြစ်ရာ၊ ယင်းတော်မြို့သူ ဖြစ်၍ ယင်းတော်မလေး ဟုတွင်သည်။ အချို့ကလည်း ယင်းတော်မြို့ကို အပိုင်စားရ၍ ယင်းတော်မလေး ခေါ်တွင်သည် ဟုဆိုသည်။ (ယင်းတော်မလေး — ရှု။)

ယင်းတော်မလေးသည် မင်းသမီးဘဝ ခေတ်ကောင်းစဉ်က အဆင်းအင်္ဂါ လှပပြီးလျှင် ကန့်ကရ ပျော့ပျော့ပျောင်းပျောင်းရှိ၍၊ တေးကြီး ဘွဲ့ကြီး ပတ်ပျိုး ယိုးဒယားစသည် တို့ကို နိုင်နင်းစွာ သီဆိုနိုင်သည်။ နန်းတော်သူများအီနောင် ဦးစံတုတ်ကို သဘောကျကြသလို၊ နန်းတော်သားမှူးသားမတ်သား မင်းယောကျ်ား အရာရှိပိုင်းကလည်း ယင်းတော်မလေးကို စွဲလမ်းခုံမင်ကြလေသည်။ သို့သော် ယင်းတော်မလေး၏ ပညာအမွေကို ခံယူခဲ့သော မင်းသမီး ဟူ၍ကား မရှိဟုဆိုလေသည်။

ယင်းတော်မလေးနှင့် မရွေးမနှောင်းပင် ဇာတ်တော်ကြီးဝင် ဆင်ခိုးမကလေး ဟူ၍ အဆိုအက နှစ်ဌာနဌ် နာမည် ကျော်ကြားသော အမျိုးသမီး ဇာတ်သဘင်သည်ကြီး တယောက် ထွန်းကားခဲ့သည်။ ဆင်ခိုးမကလေးသည်တောင်တွင်းကြီးမြို့သူ ဖြစ်၍ ငယ်မည်မှာ မရွှေမြှင် ဖြစ်၏။ ကိုယ်လုံးကိုယ်ပေါက် သေးသေး သွယ်သွယ်နှင့် ညိုစိမ့်စိမ့်ရှိ၍ ချောမောလှပ ယဉ်ကျေးသည်။ ငယ်စဉ်ကပင် အကတတ်မြောက်ပြီးလျှင် မြေဝိုင်းခေတ် ဇာတ်မင်းသမီးဖြစ်ခဲ့ရာ၊ ပဌမ အိမ်ထောင်သည် ခင်ပွန်းနှင့် သားနှစ်ယောက်ရှိခဲ့ပြီးနောက် ရနောင်မင်းသားက ကောက်ယူ ဆင်နှင့်တင်၍ခေါ်စေသောကြောင့် ဆင်ခိုးမကလေး ဟု တွင်သည်။ (ဆင်ခိုးမကလေး—ရှု။) ရနောင်မင်းသား မှုပြစ်မကင်း၍ရာဇဝတ်တော် သင့်ပြီးနောက်တွင် သီပေါမင်း၏ မိဖုရားခေါင်ကြီးက ချစ်မြတ်နိုး၍ ယိုးဒယားဇာတ်ကြီး အတီးအကတို့ကို အသင်ခိုင်းသဖြင့် ယိုးဒယားရာမ ဆရာဦးဖိုးမြထံတွင် သုံးနှစ် သင်ယူခဲ့ရလေသည်။ ဆင်ခိုးမကလေးသည်အဆိုအက ပညာတွင် ပိုင်ပိုင်နိုင်နိုင် ရှိ၍ လက်ညှိုးထိုးကရာ၌အလွန် ယဉ်ကျေး၏။ အထူးသဖြင့် 'ခရာသံ' ဒိုးပတ်အကအလွန်ကောင်းသည် ဟုဆိုလေသည်။

ယင်းတော်မလေး၊ ဆင်ခိုးမကလေးတို့နှင့် မရွေးမနှောင်းပေါ်ပေါက်ခဲ့သော ဒေါ်ကွမ်းငုံနှင့် ကိန္နရာပျံတို့သည်လည်းထင်ရှားသော ဇာတ်မင်းသမီးများ ဖြစ်၏။ ယင်းတော်မလေးနှင့် ဆင်ခိုးမကလေးတို့ နှစ်ဦး ဆုံဖူးသွားကြွေ၊ ပါးရေမတွန့်ခင်ကလေးတွင် ဗျာပါဆံကလေး တခါခါနှင့် ဖျတ်လပ်စွာ ပေါ်ပေါက်လာသူကား နောက်ပေါက် မင်းသမီးကလေး မထွေးလေး ဖြစ်သည်။ (ထွေးလေး၊ ဒေါ် — ရှု။) ငယ်မည်မှာ ခင်ထွေးဖြစ်၍ ၁၁ နှစ်အရွယ်ကပင် အဆိုအကပညာကို လေ့လာခဲ့ရာ အသက်အရွယ် ကြီးလာသည်နှင့်အမျှ သဘင်ရည်ဝကာ ကျော်စောထင်ရှားသော ဇာတ်မင်းသမီးကြီး တဦး ဖြစ်လာသည်။ ဒေါ်ထွေးလေးသည်လက်ညှိုးကလေးကို ကိုက်၍ မူကာ ကတတ်သည် ဟုဆိုသည်။ မင်းသမီးကဲအလွန်ပါ၍ မင်းသမီးမှင်အလွန်ကောင်းသူ ဖြစ်သည်။ ငယ်စဉ်က ထူးချွန်ခဲ့သော ကကြိုးမှာ ကိန္နရာကနှင့် အရုပ်ကြိုးကများ ဖြစ်၏။ ဒေါ်ထွေးလေး၏ ကိန္နရာကမျိုးကို မည်သူမျှ မကတတ်ကြတော့ ဟုဆိုသည်။ သီချင်းဆိုရာ၌လည်း မေးဝဲမေးရိုက် တို့တွင် ဒေါ်ထွေးလေးကိုမှီအောင်လိုက်နိုင်သူ မရှိ ဟုလည်း ဆိုလေသည်။

နောက်ပေါက် ဇာတ်မင်းသမီးများထဲတွင် မထွေးလေးထံမှ ပညာဆည်းပူး တပည့်ခံသူ များ၍၊ နိုင်ငံကျော် မင်းသမီးများ ဖြစ်လာကြသည်။ အမေထွေး တပည့် မဟုတ်လျှင် မင်းသမီးအရာ မဝင်သလောက် အထင်သေးကြလေသည်။ ဒေါ်ထွေးလေးသည် အသက် ၁၂ နှစ်သမီးက အသက် ၆၀ နားအထိ သဘင်ပညာနှင့် အသက်မွေး၍ သွားရာ၌ မင်းသား ဦးဘိုးကွန်းနှင့် အနှစ် ၂၀ လောက် တွဲကခဲ့ရာဦးဘိုးကွန်းနှင့် အကြောင်းပါခဲ့သည်။ ဦးဘိုးကွန်း ကွယ်လွန်ပြီးနောက် အီကင်းဦးမောင်ကြီးနှင့် တွဲကခဲ့၍ ဦးမောင်ကြီးနှင့် လက်ဆက်ခဲ့သည်။ သို့သော် မင်းသား ဦးဘိုးကွန်းနှင့်တွဲ၍ က သွားသည့် အချိန်သည် ဒေါ်ထွေးလေးအဖို့ အကျော်ဆုံး ကာလ၊ ငွေအရဆုံး ကာလ၊ နာမည်အကြီးဆုံးကာလ ဖြစ်ဟန် ရှိလေသည်။ ဒေါ်ထွေးလေးနှင့် တခေတ်တည်း ပေါ်ခဲ့သော ဇာတ်မင်းသမီးများမှာ ဒေါ်စိန်မေ၊ဒေါ်စံရှား၊ ဒေါ်ဇော်ရိုက် စသူတို့ ဖြစ်၏။ အီကင်း ဦးမောင်ကြီးသည် ရုပ်သေးစင်မှ ဆင်းပြီးနောက် မြေဝိုင်းဇာတ်တွင်ဝင်ရောက် ကပြခဲ့ရာ၌ ဒေါ်ထွေးလေးနှင့် မတွဲမီ အဆိုပါမင်းသမီးများနှင့် တွဲဖက် ကပြခဲ့လေသည်။

မထွေးလေး ခေါ် အမေထွေးခေတ်နောက်တွင် ကျော်စော ထင်ရှားလာခဲ့ကြသော ဇာတ်မင်းသမီးကြီးများကားဒေါ်စိန်နက်၊ဒေါ်ငွေဘော်၊ဒေါ်စိန်ထား၊ဒေါ်စိန်ညွှာ၊ဒေါ်စိန်ဖော့၊ဒေါ်စိန်ကျော့၊ဒေါ်စိန်ညွန့် စသူတို့ ဖြစ်ကြသည်။

ဒေါ်စိန်နက်သည် နာမည်ကျော် ဇာတ်မင်းသား ဆရာမှန်းနှင့် တွဲဖက်ကပြခဲ့သော နာမည်ကျော် ဇာတ်မင်းသမီးဖြစ်သည်။ ရှေးခေတ် ပန်းပင်စိုက် မြေဝိုင်းခေတ်တွင် ညဥ့်ဦးယံ၌ ယိုးဒယား လေးပွင့်ဆိုင် ကရလေရာ၊ ဒေါ်စိန်နက်၏ခြေဟန်လက်ဟန်ကို ကြည့်ပြီးလျှင် ကပြကြရသည် ဟုဆိုသည်။ဒေါ်ငွေဘော်သည် ဇာတ်မင်းသား ဦးစိန်ဘွနှင့်တွဲဖက်ကပြ၍ နာမည်ရ မင်းသမီးတလက် ဖြစ်၏။ ဒေါ်စိန်ထားသည် ထိုခေတ်က "ဇာတ်မင်းသမီး အလှတွင် မစိန်ထား" ဟူ၍ပင် ကျော်ကြားခဲ့သူ ဖြစ်သည်။ ဒေါ်စိန်ညွှာမှာမူ ရုပ်နှင့် မျက်နှာပေး ကောင်းသည် ဟုကျော်ကြားခဲ့လေသည်။ ဒေါ်စိန်ဖော့နှင့် ဒေါ်စိန်ကျော့တို့သည်လည်း နာမည်ကျော် ဇာတ်မင်းသမီးများ ဖြစ်၏။ ဒေါ်စိန်ညွန့်သည် ဇာတ်မင်းသား မျောက်-ဦးစစ်တွေ၏ ဇနီးဖြစ်၍ ဇနီး ခင်ပွန်း နှစ်ဦးလုံးပင် နာမည်ရ မင်းသား၊ မင်းသမီးများ ဖြစ်သည်။ ဒေါ်စိန်ညွန့်သည် အောက်မထွေးလေး ဟူ၍ပင် နာမည်ရခဲ့လေသည်။

ယောက်ျားမင်းသမီး ဦးအောင်ဗလသည် ဋ္ဌတ္တိယဇာတ်ဝင် မဟုတ်သော်လည်း မိန်းမဟန် အမူအရာ အခွဲ၊ အနွဲ့၊ အလှည့်၊ အဟိုက်တို့၌ မိန်းမမင်းသမီးတို့ပင် လိုက်မမှီအောင် ရှိရသည်။ ကကြိုး၊ တုပ်ကြိုး ကလေ့ရှိသည်။ စန္ဒီ ခေါ် မန္တလေးဒိုး ကကြိုးကို အောင်ဗလပင် ထွင်သည် ဟုဆိုသည်။ နောက် နာမည် ထွက်လာမှ မထွေးလေး၏ ကပုံကို ယူသော်လည်း အဆင်တူ၏။ ခြေမတူ ဖြစ်နေသည် ဟုလည်း ဆိုလေသည်။ ဇာတ်ကပြရာတွင် အရပ်သဘောအတိုင်း ပြောလေ့ဆိုလေ့ရှိသည်။ သို့သော် ဇာတ်ထုပ်ဇာတ်ကွက်စာကို လက်မလွှတ်ပေ။ မင်းထင်မယ်မှန်၊ ထိလပ်ပိုးအုံ၊ ဘုံမယ်တက်ခါး၊ ကာကဝလ္လိယ၊ ဝိဇယ စသော ဇာတ်ထုပ်များကို ကပြရာတွင် သရုပ်ပေါ်အောင်၊ ဇာတ်နာအောင် စီးစီးနင်းနင်း ကပြတတ်လေသည်။ (အောင်ဗလ — ရှု။) ဦးဘိုးစိန်နှင့် အောင်ဗလ တွဲကသော နှစ်၊ ဦးစိန်ကတုံးနှင့် အောင်ဗလ တွဲကသော နှစ်များတွင် ဇာတ်ပွဲ ကြည့်ရသည်မှာ စွယ်စုံကောင်း ဖြစ်သည်ဟု ပြောစမှတ် ပြုကြလေသည်။

ဦးဘိုးစိန်နှင့် ပဌမဆုံး တွဲဖက်မင်းသမီး အဖြစ် နာမည်ကျော်ခဲ့သူမှာ ဒေါ်ငွေစိန် ဖြစ်သည်။ "ဘိုးစိန်–ငွေစိန်" ဟု အမြဲပင် ခွဲမရအောင် အမည်ချင်း ပူးပေါင်းခေါ်ဝေါ်ခဲ့ကြသည်။ ဘိုးစိန်–ငွေစိန်တို့သည် အရွယ် ငယ်စဉ် ကပင် သစ္စာထား နှစ်ပါးသွားတွင် လူတိုင်း ကြိုက်ခဲ့ကြသည်။ ဒေါ်ငွေစိန်သည် ကျိုက်လတ်မြို့ဇာတိ၊ ဇာတ်မျိုးဇာတ်နွယ် ဖြစ်သည်။ ဒေါ်ငွေစိန်၏မိခင်သည် ဇာတ်မင်းသမီးကြီး ဗမာမသိုင်းခို့ ဟူ၍ ကျော်ကြားခဲ့သည့် ဒေါ်သွယ် ဆိုသူ ဖြစ်၍ ဖခင်သည် ဇာတ်မင်းသား ဦးညာခိုင် ဆိုသူ ဖြစ်လေသည်။ ဒေါ်ငွေစိန်တွင် ငွေရီ၊ ညိုညို၊ ကျင်ဥ၊ ရင်နု ဟူ၍ ညီမ လေးယောက် ရှိသေးရာ အားလုံးပင် နာမည်ကျော် ဇာတ်မင်းသမီးများ ဖြစ်ကြသည်။ ထို့ပြင် သူတို့အားလုံးပင် ဦးဘိုးစိန်နှင့် ဆက်ကာဆက်ကာ တွဲကခဲ့ကြ၍ နာမည်ရခဲ့ကြသည်ချည်း ဖြစ်လေသည်။ ဒေါ်ငွေစိန်တို့ ညီအစ်မ ငါးယောက်တွင် ဒေါ်ငွေစိန်နှင့် ဒေါ်ကျင်ဥတို့သာ သဘင်သက် တာရှည်ခဲ့၏။ ဒေါ်ကျင်ဥသည် မင်းသမီးဘဝတွင် အနေ ကြာခဲ့၍၊ သူ၏သီချင်းများလည်း အတော် ခေတ်စားခဲ့၏။ များသောအားဖြင့် ဦးဘိုးစိန်နှင့် တွဲဖက် ကပြခဲ့သောအချိန်က များလေသည်။ ဒေါ်ငွေစိန်တို့နှင့် မရှေးမနှောင်းပင် တို့တေးဆံတောက် မငွေသင် ခေါ် နာမည်ရ ဇာတ်မင်းသမီးတဦး ထွက်ပေါ်ခဲ့သေးသည်။ အမျိုးသမီးများချည်း ပါဝင်သော ဇာတ်အဖွဲ့ကို ဦးစီး ကပြခဲ့၏။ ဒေါ်ငွေသင်သည် ဆိုင်းဆရာကြီး အလက်ာကျော်စွာ ဦးဟံပ၏ ဇနီးဖြစ်၍ သမီးဖြစ်သူ ပလိုတီယာ မသိန်းသည်လည်း နာမည်ကျော် ဇာတ်မင်းသမီးတဦးဖြစ်လေသည်။




ဒေါ်ငွေစိန် (ထိုင်နေသူ) နှင့် ဒေါ်ငွေရီ (ရပ်နေသူ)



ဒေါ်စိန်ဥ

ဇာတ်မင်းသမီး ဒေါ်စိန်မြိုင်သည် ဦးဘိုးစိန်၏ အစ်မရင်း ဖြစ်သည်။ ဇာတ်သဘင်သည်တို့ တတ်အပ်သော ပညာနှင့် ပြည့်ဝ၍ သဘင်ဝါ ရင့်လှသည်။ အရွယ်ကြီးသောအခါ မယ်တော်အခန်း၊ သဌေးကတော်ကြီးအခန်း စသည်တို့မှ အလွမ်းအဆွေးကို ထိထိမိမိ သယ်နိုင်သော သတ္တိ ရှိသည်။ ဆိုင်းဆရာ အလင်္ကာကျော်စွာ ဦးဘမောင်သည် ဒေါ်စိန်မြိုင် ၏သား ဖြစ်၍၊ နိုင်ငံကျော် ရွှာစား ဆရာစိမ့်သည် ဦးဘ မောင်၏ ဖခင်၊ ဒေါ်စိန်မြိုင်၏ ခင်ပွန်း ဖြစ်လေသည်။

ဇာတ်မင်းသမီး ဒေါ်စိန်ဥသည် ကျိုက်ထိုသူဇာတိဖြစ်၏။ မင်းသမီး ဒေါ်ငွေစိန်နှင့် ဦးဘိုးစိန်တို့ ဇာတ်ခေါင်းကွဲပြီး နောက်တွင် ဒုတိယ ဆက်လက်တွဲကသော ခေါင်းဆောင် ဇာတ်မင်းသမီး ဖြစ်သည်။ ဒေါ်စိန်ဥသည် ဒေါ်ငွေစိန်နှင့် ပခုံးချင်း ယှဉ်နိုင်သော ဇာတ်ခေါင်းဆောင် မင်းသမီးလည်း ဖြစ်၍ အလွမ်း၊ အဆွေး၊ ဇာတ်အိမ် ဇာတ်ကွက် အသယ် အယူ နိုင်နင်းလှလေသည်။ ဦးဘိုးစိန်နှင့် တွဲကယင်းပင် ဦးဘိုးစိန်နှင့် အကြောင်းပါခဲ့သည်။ ထိုနောက် နှစ်အတော် ကြာ ကွဲနေပြီးမှ ဒေါ်စိန်ဥနှင့် ပြန်တွဲကကြပြန်ရာ "စိန်ဥဖြင့် အပိန်တခုအဖတ်တင်၊ မျှောက်မြင်ယင် ကျုပ်အလွဲ နစ်သူမို့ အုတ်ခဲနဲ့ ပစ်ချင်၊ ဘိုးစိန်ဟာ အရိုးပိန်မရယ်လို့၊ အဲဒီတုန်းက ပစ်သွားသရှင်...." ဟူသော သီချင်းနှင့် ညတိုင်း ကတိုင်း ရန်တွေ့သည်။ ဦးဘိုးစိန်ကလည်း မျက်နှာရှူး တိုက်နှူး ပြန်သည်။ ပွဲကြည့်ပရိသတ်တို့ တသဲသဲနှင့် နားကွဲမတတ် သြဘာ ပေးကြလေသည်။

မင်းသားများကဲ့သို့ ကတ္တီပါ ဖောင်းဗီ၊ ပိုးပုဆိုး ခါး တောင်းကြိုက် ဝတ်ဆင်၍ ဓားကစားပြရာတွင် အလွန် တော်သော မင်းသမီးမှာ ဒေါ်ကျော်ဗလ ဖြစ်သည်။ ဒေါ် ကျော်ဗလသည် လူရွှင်တော် ဦးပဒုမ္မာ၊ ဒေါ်ဖြူတို့၏သမီး မန္တလေးမြို့သူ ဖြစ်သည်။ အမည်ရင်းမှာ မအေး ဖြစ်၏။ အလွမ်းနိုင်သော မင်းသမီးတဦး ဖြစ်သည့်ပြင် မင်းသမီး ယောကျ်ားယောင် ဆောင်ရသော အခန်းများတွင် ကျွမ်း ကျင်လှသည်ဟု ဆိုလေသည်။ ဇာတ်မင်းသမီး ဒေါ်ကျော် ဗလသည် နာမည်ကျော် ဇာတ်မင်းသား ဦးစိန်ကတုံးနှင့် လည်း တွဲဖက် ကပြဘူးလေသည်။

ဦးစိန်ကတုံးနှင့် တွဲဖက် ကပြခဲ့၍ နာမည်ကျော်ကြားခဲ့ သော ဇာတ်မင်းသမီးများမှာ မန္တလေး ဦးကြွင်း၏ သမီး (ဦးစိန်ကတုံး၏ ပဌမ ဇနီး) ဒေါ်စမ်းကြည်၊ ဒေါ်စိန်နွဲ့၊ ဒေါ်သိန်းညွန့်၊ ဒေါ်မြညွန့်၊ ဒေါ်စိန်ချစ်၊ ဒေါ်သြဘာစိန် စသူ တို့ဖြစ်သည်။ ဒေါ်မြညွန့်မှာ ဦးစိန်ကတုံး၏ တပည့် မင်း သမီးတဦး ဖြစ်၍ အကကောင်းသဖြင့် ကျော်ကြားသည်။ ကြည့်မြင်တိုင် ဈေးကလေးရပ်သူ ဒေါ်စိန်ချစ်သည် မူလက ဇာတ်ကလေးမင်းသမီး ဖြစ်သည်။ ဦးစိန်ကတုံးဇာတ်တွင် ဝင်၍ က စက၊ မပြောရဲ မဆိုရဲ မကရဲ ဖြစ်နေရာ၊ ဇာတ်ဆရာ ဦးစိန်ကတုံးက ငါ၏ အရိပ်အခြည်ကို ကြည့်၊ ငါစကားခင်း ပေးတာ လိုက်၊ ငါ ကပုံကြည့်၊ ရဲရဲက ရဲရဲဆို၊ ရဲရဲပြော ဟု သုံးနှစ်ကျော်လေးနှစ် သင်ပြယင်း ကပြခဲ့ရာ တနှစ်ထက် တနှစ် ပညာရည် ပြည့်ဝခဲ့ပြီးလျှင် လူကြိုက်များလာသော ဇာတ်မင်းသမီးတဦး ဖြစ်လေသည်။

ဦးစိန်ကတုံးနှင့် တွဲဖက် ကပြခဲ့သော ဒေါ်သြဘာစိန် သည်လည်း နာမည်ကျော် မင်းသမီး တဦး ဖြစ်၏။ တွံတေး ဇာတိ ငယ်မည် မစိန် ဖြစ်၍ မင်းသမီး တွံတေး ဆံတောက် မငွေသင်ထံတွင်၎င်း၊ ကြည့်မြင်တိုင် ရေတွင်းကုန်း ဆရာ ဥာဏ်ထံတွင်၎င်း သဘင်ပညာကို သင်ကြားခဲ့သည်။ ထို နောက် ပသီ မြညွန့်နှင့် တွဲဖက် ကပြခဲ့၍ အငြိမ့်မင်းသမီး အဖြစ်လည်း ကပြခဲ့သည်။ အငြိမ့်မင်းသမီးအဖြစ် ကပြနေ ရာမှ တဖန် မင်းသား ဦးစိန်အုပ်နှင့် တွဲကခဲ့ ပြန်သည်။ အသက် ၁၆ နှစ် အရွယ်တွင် ဦးစိန်ကတုံး၏ ဇာတ်အဖွဲ့တွင် ပါဝင် ကပြခဲ့ရာ အသက် ၃၀ ကျမှပင် ထိုဇာတ်မှ ထွက်ခဲ့ ၏။ ထိုစဉ်က ဒေါ်သြဘာစိန်သည် အသက်အရွယ် ငယ် သော်လည်း အနုသဘင် ပညာအရာတွင် ရှေ့တန်းမှ နေနိုင် သောကြောင့် ဦးစိန်ကတုံးမှ အစ ဇာတ်သူဇာတ်သားများ က အရေးပေးခြင်း ခံရလေသည်။ ဦးစိန်ကတုံး ဇာတ်မှ ထွက်ပြီးနောက်တွင် ဇာတ်မင်းသား ဦးကျော်မြသောင်းနှင့်



ဒေါ်ကျော်ဗလ

ရင်း၊ မင်္ဂလာ ဦးအောင်ဘညိုနှင့်ရင်း၊ မင်္ဂလာ ဦးအောင်မောင်းနှင့်ရင်း တွဲဖက် ကပြခဲ့လေသည်။ ထိုနောက်တွင် ခင်ပွန်းသည် ဖြစ်သူ ဇာတ်မင်းသား ဦးလွန်းမောင်နှင့် အတူ ကိုယ်ပိုင်ဇာတ်ထောင်ကာ ကပြနေခဲ့ရာမှ ဦးဘိုးစိန်၏ ဇာတ်အဖွဲ့တွင် ပါဝင် ကပြခဲ့ရပြန်လေသည်။ ထိုအခါ ဦးလွန်းမောင်က ဇာတ်ဆောင်မင်းသားကြီး အဖြစ်ရင်း၊ ဒေါ်ဩဘာစိန်က ဇာတ်ဆောင် မင်းသမီးကြီး အဖြစ်ရင်း ကပြ



ဒေါ်ဩဘာစိန်

ခဲ့၏။ ထိုအတွင်း ခင်ပွန်းသည် ဦးလွန်းမောင် ကွယ်လွန်သွား၍ ဦးဘိုးစိန်ဇာတ်မှ ထွက်ကာ အနားယူခဲ့သော်လည်း မနေသာသောကြောင့် အမယ်ကြီးအို အောင်စိန် ဇာတ်အဖွဲ့တွင် တနှစ် ပါဝင် ကပြခဲ့ရသေးသည်။ ထိုနောက်တွင် ကား သဘင်အလုပ်မှ အနားယူလိုက်လေသည်။

ဒေးဒရဲ ကညင်ကုန်း ဇာတိ အိုးစည် ဒေါ်အေးစိန်သည် ရောင်တစောင်း ဆံမြိတ်ကွင်းထုံး၊ လည်ထောင် ပါလည်ကွေး၊ လက်ကြပ်ဆင်၍၊ ကတ္တီပါ ဖောင်းဗီခံ၊ လွန်းပုဆိုးခါးတောင်းကြိုက်၍ အိုးစည် အကနှင့် လူကြိုက်များသည်။ မျက်နှာချိုနှင့် ရုပ်ချော ပျော့ပျောင်းသူ ဖြစ်၏။ ရုတ်တရက် နာမည်ကြီးလာကာ လူကြိုက်များလာသော်လည်း သဘင်သက် မရှည်လှပေ။



အလုံ ဒေါ်စိန်တင်

ဇာတ်မင်းသမီးကြီး အလုံ စိန်တင်သည် ကမာကဆစ်သူ ဖြစ်သော်လည်း ရန်ကုန်အလုံရပ်တွင် နေသဖြင့် အလုံစိန်တင် ဟု ခေါ်တွင်ခဲ့လေသည်။ ဇာတ်ကခြင်းဖြင့် သုံးနှစ်လောက်သာ ကြာသော်လည်း ဇာတ်ထုပ်အတော်များများ ဓာတ်ပြားသွင်းခဲ့ဘူးသည်ဟု ဆိုလေသည်။

ပုဇွန်တောင် စက်ဆန်းသူ နဂါးမ ဒေါ်မြနှစ်သည် မင်းသမီးအဖြစ် ကျော်ကြားလာစဉ်က ဆံတောက်ချနှင့် ဝဝတုတ်တုတ်ကလေး ဖြစ်၏။ ဣသိန္ဒရသေ့ဇာတ်တွင် နာမည်ကြီးသည့်ရသေ့ ဈာန်လျှောအောင် ပြုရသော အခန်းမှာ မမြနှစ်၏ ရုပ်နှင့် နှုတ်ကို ပွဲကြည့်ပရိသတ်တို့ အထူး သဘောကျကြ၏။ နဂါးမ မမြနှစ်ဟု အမည်တွင်ခဲ့ခြင်းမှာ ဘူရိဒတ်ဇာတ် ကပြသောအခါ နဂါးခေါင်းဆောင်း၍ ကပြရသည်က အစ နဂါးမ မမြနှစ် ဟုခေါ်ကြခြင်း ဖြစ်သည် ဟုဆို၏။

ယိုးဒယားသိန်းမေ ခေါ် ဒေါ်သိန်းမေသည် မဟာဂီတဝင် သီချင်းမှန်သမျှ အံကျစည်းကျ နွဲ့နွဲ့လျလျ သီဆိုတတ်သူ ဖြစ်သည်။ ရုပ်ရည် ပြေပြစ်ချောမောသည်။ အသံ သာယာသည်။ အက ညက်သည်။ ဦးဘိုးစိန်၏ ဇာတ်အဖွဲ့တွင် ပါဝင် ကပြခဲ့ရာ၊ အရွယ်ကြီးသောအခါ ယိမ်းခေါင်းဆောင်၊ ယိမ်းဆရာအဖြစ်နှင့် တပင်တိုင် မင်းသမီး အကများကိုသာ ကပြလေသည်။ ဒေါ်သိန်းမေသည် သံလျင်မြို့နယ် ပုဂံတောင်ရွာ ဇာတိ ဖြစ်၏။

ဇာတ်မင်းသမီး ဒေါ်ကျင်ယုံသည် ရန်ကုန်ဇာတိ ဖြစ်၍ ငယ်စဉ်က သေးသေးကွေးကွေးနှင့် ယဉ်စစ ဖြစ်၏။ မင်းသား အဝတ်အစားဖြင့် ကပြရသည်က များသည်။ မင်းသမီးအဖြစ် ကပြ၍ နှစ်နှစ် သုံးနှစ်ခန့် အကြာ နာမည်ထွက်စတွင် ဇာတ်မင်းသား ဦးဘိုးစိန်နှင့် အကြောင်းပါသဖြင့် ဇာတ်စင်ပေါ်သို့ မတက်ရတော့ဘဲ သားသည်အမေ အဖြစ်နှင့် နေယင်းက ဇာတ်အိမ် ဇာတ်ကွက်များတွင် ဖြည့်စွက် သင်ကြားပေးခြင်းဖြင့် တဖက်တလမ်း အကူအညီပေးခဲ့ရလေသည်။ နာမည်ကျော် ဇာတ်မင်းသားများဖြစ်ကြသော ကနက်စိန်၊ စိန်ကြိုင်နှင့် တသက်စိန်တို့၏ မိခင်ဖြစ်သည်။

နာမည်ကျော် ဂီတစာဆို နန်းတော်ရှေ့ ဆရာတင် ပဌမဆုံး ရေးစပ်သည့် "မယ်အေးလေးက ပို့တဲ့မေတ္တာ၊ အပြည့်ပြည့် အရွှာရွှာ မလစ်ခဲ့ပါဘူး၊ ရောက်သမျှ မြို့ရွာ ချစ်ကြပါသတဲ့ အသစ်ကလေးမို့ ကြာမှုပါတာ" ဟူသော သီချင်းကို သီဆို၍ မေးထိုးပြီး မျက်စကို ဗယ်တဖက် ညာတဖက်၊ တဖက်စီ ပစ်၍ ကပြခဲ့သဖြင့် နာမည်ရလာခဲ့သော ယုဇနအေးစိန်သည် မူလက အငြိမ့်မင်းသမီး ဖြစ်၏။ နောင်အခါ



လေဘာတီ ဒေါ်ခင်ညွန့်

ဇာတ်မင်းသမီး အဖြစ်နှင့် နာမည်ကြီး ဇာတ်မင်းသားများနှင့် တွဲကခဲ့သည်။ နောက်ဆုံးအချိန်တွင်မှ ဇာတ်မင်းသား ဦးဘိုးစိန်ကြီးနှင့် တွဲကခဲ့ရာ၊ ထိုအချိန်တွင် နှစ်ယောက်စလုံး အသက်အရွယ် ထောက်လာပြီ ဖြစ်၍ နှစ်ပါးသွား သစ္စာထား သီချင်းများကို ဖေတော့ မောင်တော့တွေ မပါစေဘဲ တရားဓမ္မ လေသံပြောင်း၍ စပ်ဆို ကပြခဲ့ကြလေသည်။ ဒေါ်အေးစိန်သည် ဇာတ်သဘင် မျိုးရိုးမှ ဆင်းသက်လာသူ မဟုတ်သော်လည်း နာမည်ရမင်းသမီးတလက် ဖြစ်သည်။

ရန်ကုန်မြို့ ပန်တျာကျောင်းတွင် အဆိုနည်းပြဆရာမကြီး အဖြစ် ဆောင်ရွက်ခဲ့သူ ဒေါ်ဒေလီညွန့်သည် တံတားမြို့နယ် ကျိုက်သလဲရွာ ဇာတိ ဖြစ်၍ ငယ်မည် မသန့်စင် ဟုခေါ်သည်။ ငယ်စဉ်ကပင် အရွယ်နှင့် မလိုက်အောင် ဂီတဖက်တွင် ဝါသနာအထုံ ကြီးလှသောကြောင့် အသက် ကိုးနှစ်အရွယ်တွင် ဇာတ်ထဲသို့ လိုက်ခဲ့သည်။ ထိုအခါက ရွှေခြေကျင်း မသန့်စင် အမည်ဖြင့် ကပြခဲ့ရာ၊ ရွှေခြေကျင်း မသန့်စင် အမည်သည် ရေပန်းစားခဲ့၏။ ၁၅ နှစ်အရွယ်တွင် မင်းသား လူပြက် ဦးဇာကျယ်ကြီးနှင့် တွဲ၍ ကခဲ့ရသည်။ ထိုစဉ်က မြေဝိုင်း ပန်းပင်စိုက် ကပြရသော ခေတ်ဖြစ်၍ ရွှေ



ဒေါ်ကေသလိပ်စိန်



ပလိုတီယာ ဒေါ်သိန်း (ထိုင်နေသူ)

ခြေကျင်း မသန့်စင်သည် အိန္ဒိယပြည် နယူးဒေလီမြို့တော်သို့ပင် သွားရောက် ကပြခဲ့ဘူး၏။ ဒေလီမြို့မှ ပြန်ရောက်သောအခါ ရွှေခြေကျင်း မသန့်စင် အမည်ကို ဖျောက်၍ ဒေလီညွန့် အမည်ဖြင့် ဇာတ်ကခဲ့လေသည်။ အငြိမ့်များ ပေါ်စခေတ်တွင် အငြိမ့်ခေါင်းဆောင် မင်းသမီးအဖြစ် ကူးပြောင်း ကပြခဲ့ရာ ကျော်ကြားလေသည်။ ဒေါ်ဒေလီညွန့်သည် အဝေးရောက်မင်း ဦးအောင်ကြီး၊ စောင်းမိကျောင်း ဆရာ ဦးအုံးပွင့်၊ ဒေဝဣန္ဒာ ဦးမောင်မောင်ကြီး၊ ဆရာတာ၊ ဆရာလွှာ စသူတို့ထံတွင် ဂီတသီချင်းကြီး ပညာရပ်များကို ရယူခဲ့သည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီခေတ်နှင့် စစ်ပြီးခေတ်တို့တွင် မြန်မာ့အသံလွှင့်ဌာနမှ သီချင်းကြီးပိုင်းတွင် အသံ လွှင့်ခဲ့လေသည်။

မြခြေကျင်း မငွေမှိုင်သည် ဇာတိအားဖြင့် ကြည့်မြင်တိုင်သူ ဖြစ်သော်လည်း မန္တလေးတွင် ကြီး၍ သူတသက်လုံး မန္တလေးတွင် နေသွားပြီးလျှင် မန္တလေးတွင် ခေါင်းချသွားလေသည်။ (မြခြေကျင်း မငွေမှိုင် — ရှု။) ဒေါ်ငွေမှိုင်၏ ကသက် အနှစ် ၃၀ နီးပါးတွင် ဇာတ်မင်းသမီး အဖြစ်နှင့်ချည်း က၍ နှစ်နှစ်ကျော်မျှသာ အငြိမ့်မင်းသမီးအဖြစ် ကပြခဲ့သည်။ ဇာတ်မင်းသမီး လုပ်သည့်အခါ ဦးဘိုးစိန်နှင့်လည်း တွဲဘူးသည်။ သူ့ဇာတ် သူထောင်၍လည်း ကသည်။ ဒေါ်ငွေမှိုင်သည် သူကိုယ်တိုင်က ဇာတ်သဘင်ပညာတွင် အရည်အချင်း ပြည့်ဝသည်ကတကြောင်း၊ ဇာတ်ကို ဦးစီး၍ ကနိုင်သည့် မင်းသမီး ဖြစ်သည်ကတကြောင်း၊ ယောကျ်ားတွေကသူ့ကို အင်မတန် စွဲမက် နှစ်သက်လှသည်က တကြောင်းတို့ကြောင့် သူ့ဇာတ်တွင် သူနှင့် တွဲကရသည့် မင်းသားသည် မည်သည့်အခါတွင်မျှ မပေါ်တော့ဘဲ အလိုလိုနေယင်း မှုပ်သွားရသည် ဟုဆိုသည်။ ဒေါ်ငွေမှိုင်သည် ဦးဘိုးစိန်နှင့်၎င်း၊ ဒုတိယ ဘိုးစိန်နှင့်၎င်း၊ မင်းသား အောင်စည်ဗလနှင့်၎င်း၊ မင်းသားဘလှိုင်နှင့်၎င်း တွဲကခဲ့သည်။ ဒေါ်ငွေမှိုင်၏ ဇာတ်သဘင်သက်၌ အကျော်ဆုံး အချိန်မှာ အသက် ၃၀ ခန့် အရွယ်ကောင်းတွင် မင်းသားဘလှိုင်နှင့် တွဲ၍ ရွှာစား စိန်ဗေဒါ၏ ဆိုင်းနှင့် ကစဉ်က ဖြစ်လေသည်။ ဒေါ်ငွေမှိုင်၏ အသံမှာ ပင်ကိုယ်အားဖြင့် အသံကောင်းလှသည် ဟု ပြောနိုင်သည့် ပဌမတန်းစား အသံမျိုး မဟုတ်သော်လည်း သီချင်းဆိုသည့်အခါ၌ သံဟောက် သံဟဲ ကောင်းသည်။ ပြတ်ပြတ်သားသား ဆိုနိုင်သည်။ အာခေါင်အာရင်း ရှင်း



ဒဂုန် ဒေါ်ခင်လှကြည်

စွာ သီဆိုနိုင်သည့် မင်းသမီးဖြစ်၍ သီချင်းဆိုရာတွင် အထူးသဖြင့် ခြေဆင်းအဆို ကောင်းသောကြောင့် ခြေဆင်းကို ရှည်ရှည် စပ်၍ ပေးကြရသည်။ ဒေါ်ငွေမြိုင်သည် အကကို မင်းသားကရော မင်းသမီးကပါ ပိုင်ပိုင်နိုင်နိုင် ကတတ်သည်။ ကသည့်အခါ ခြေဆစ်လက်ဆစ် အလွန်ကျိုးသူဖြစ်၏။ ဒေါ်ငွေမြိုင်သည် ဇာတ်စီးခေါင်းဆောင် မင်းသမီးကြီး ဘဝနှင့်



ဟံသာဝတီ ဒေါ်သန်းကြည်

သူဇာတ်သူထောင်၍ ကယင်း မင်းသား မင်းသမီး အများဆုံး မွေးထုတ်ခဲ့သည်။ ယင်းတို့ အထဲတွင် အကျော်ဆုံးမှာ မင်းသား ရွှေမန်းတင်မောင်နှင့် မင်းသမီး ရတနာပုံခင်ကြည်တို့ဖြစ်လေသည်။

ပဲခူးမယ်ကျော့ ဆိုသော မင်းသမီးကြီးသည်လည်း နာမည်ကျော် မင်းသမီးတဦး ဖြစ်၍ ဒေါ်ငွေမြိုင်ကဲ့သို့ သဘင်ဝါရင့်သူ ဖြစ်သည်။ ထိုအတူ လေဘာတီ ဒေါ်ခင်ညွန့်သည်လည်း သဘင်ဝါရင့်သည့် မင်းသမီးကြီးတဦး ဖြစ်သည်။ ဦးဘိုးစိန်၏ ဇာတ်အဖွဲ့တွင် ကာလအတန်ကြာ ပါဝင် ကပြခဲ့ဘူးလေသည်။



ဇာတ်မင်းသမီး ကောလိပ်စိန်၏ အမည်ရင်းမှာ မမြလှင် ဖြစ်သည်။ (မြလှင်၊ မ၊ ကောလိပ်စိန် — ရှု။) ဒေါ်ကောလိပ်စိန်သည် ဦးဘိုးစိန်နှင့် တွဲခဲ့သမျှသော မင်းသမီးများအနက် ဦးဘိုးစိန် အားအကိုးဆုံး လက်ကသုံးတောင်ဝှေး မင်းသမီး ဖြစ်သည်ဟု ဆိုနိုင်လေသည်။ ရှေးယခင်က ဘိုးစိန် - အောင်ဗလ၊ ဘိုးစိန် - ငွေစိန်ဟူ၍ အမည်များ ဒွန်တွဲ ကျော်ကြားခဲ့ပြီးနောက်တွင် ဦးဘိုးစိန်သည် မြောက်မြားစွာသော မင်းသမီးတို့နှင့်တွဲခဲ့သော်လည်း ဒေါ်ကောလိပ်စိန်နှင့် တွဲ၍ ကသောအခါတွင်မှ ဘိုးစိန် - ကောလိပ်စိန် ဟူ၍ အမည်များ ဒွန်တွဲ ကျော်ကြားခဲ့ပြန်လေသည်။ ရုပ်ရည်ကိုယ်လုံးကိုယ်ပေါက် အဆင်ပြေ၍ အသံဝါအသံကောင်း အပြောကောင်း အဆိုကောင်းဖြစ်သောကြောင့် ကောလိပ်စိန်ကို ပရိသတ်တို့ အသဲစွဲ ကြိုက်ကြသည်။ အကတွင် ဦးဘိုးစိန်၏ ကဟန်များကို ထက်ကြပ်မကွာ လိုက်နိုင်သဖြင့် ၂၅ နှစ်အရွယ်တွင် ဦးဘိုးစိန် မျက်နှာလွဲနိုင်လောက်အောင် အရည်အချင်း ပြည့်လာသည်။ ဦးဘိုးစိန်အဖို့ ကောလိပ်စိန်မှာ မရှိမဖြစ်သော မင်းသမီးဘဝသို့ ရောက်လာသည်ဟု ဆိုလေသည်။ ထိုမှတပါး အထိုက်အလျောက် ထင်ပေါ် ကျော်ကြားခဲ့သော ဇာတ်မင်းသမီးများမှာ ပုဏ္ဏမဒေါ်ငွေစိန်၊ ဒေါ်ညွန့်ရီ၊ နေရှင်နယ် ဒေါ်ခင်ပု၊ ယုဝတီ ဒေါ်ခင်ညွန့်၊ ဒေါ်စိန်မေ၊ ဟံသာဝတီ ဒေါ်သန်းကြည်၊ ပလိုတီယာ ဒေါ်သိန်း၊ ဒဂုန် ခင်လှကြည်၊ ပဲခူးမြ၊ ဒေါ်ဗလပြန်၊ မြသန်းရင်၊ စိန်ဟန်တင်၊ အောင်သန်းတင်၊ စိန်လေဒီ၊ စိန်လှကြည်၊ ဥသြရွှေ၊ ခင်စန်းတင် စသူတို့ဖြစ်လေသည်။

**မြန်မာ ဇာတ်မင်းသားများ။** ။ကုန်းဘောင်ခေတ်တွင် ဘိုးတော်ဘုရား၏ သားတော် အိမ်ရှေ့မင်းသည် ဆင်ဖြူရှင်မင်းတရားလက်ထက် ဂျမ်းပြည်၊ ယွန်းပြည်တို့မှ ပါလာသော အီနောင်၊ ရာမ၊ သင်္ခပတ္တ၊ ကေသာသီရိ ဒဏ္ဍာရီဇာတ်များကို ဂျမ်းသံခံ ယွန်းသံခံတို့၏ အကူအညီဖြင့် သက္ကရာဇ် ၁၁၅၁ ခုနှစ်တွင် မြန်မာပြန်ဆိုစေသည်။ ထိုနောက် မြန်မာပညာရှိများကို ပင့်ခေါ် စုရုံးစေ၍ ထိုဘာသာပြန် ဒဏ္ဍာရီများကို နန်းတွင်း ဇာတ်တော်ကြီးများအဖြစ် ခင်းကျင်းကပြနိုင်အောင် မြန်မာတို့နှင့် သင့်လျော်သော ဇာတ်လမ်းဇာတ်ကွက်များ ထုတ်ကာ၊ ကဗျာ လင်္ကာ သီချင်းများကို ရေးစပ် ဖွဲ့ဆိုစေတော်မူလေသည်။

ဤသို့ဖြင့် နန်းတွင်းဇာတ်တော်ကြီးများ ပေါ်ထွက်ခဲ့ရာ သုံ့ပန်းအဖြစ် ပါလာသော ယိုးဒယား ဇာတ်သားများက မြန်မာဘုရင် နန်းတွင်း၌သာ ယိုးဒယား အတီးအဆိုအကတို့နှင့် မူမပျက် ကပြကြလေသည်။ ထိုစဉ်က ဣန္ဒာဝုဓဇာတ် (အီနောင်ဇာတ်) ကပြရာ၌ ယိုးဒယား ဇာတ်မင်းသား (မြန်မာနာမည်) မောင်လှိုင်းသည် လူကြိုက်

များသော ပဌမ အိနောင် ဖြစ်သည် ဟုသိရ၏။ ကရာ၌ ယက်အိတ်စွပ် လက်သည်းတပ်လျက် လက်ဝါးကိုမှောက်လှန် ကွေးဆန့်ပြု၍ ကပြရာ လက်အိတ်သည် တဖျပ်ဖျပ် မြည်၍ စည်းချက်ကျကျနှင့် ကြည့်မဝ ဖြစ်လှသည် ဟုဆိုသည်။ မောင်လှိုင်းသည် ကိုယ်သွယ်သွယ်၊ ရင်အုံချီလျက်၊ ခါးသေးကာ တင်ပါးကြွမောက်၍ ခြေတံလက်တံလည်း သွယ်ပြီးလျှင် ပျော့ပျောင်း၏။ အသား ဝါ၍ ဆံပင် နက်မှောင်ရုံမက ကောင်းလည်း ကောင်းသည်။ မျက်နှာ လုံးကာ နှာတံပေါ်၍ မျက်ခုန်းကောင်းသည်။ သွားလာပုံ ယဉ်နွဲ့သည်။ ထိုင်ပုံ နေပုံ၊ ပြောပုံ ဆိုပုံ၊ ပြုံးရွှင်ပုံတို့တွင် အလွန်တရာ ဟန်မူပါသည်။ အင်းဝ နန်းတွင်းသူများ နှစ်သက်ကြသဖြင့် မောင်မောင်လှိုင်း ဟုရင်း၊ အချို့က မောင်မောင် ဟုရင်း ခေါ်ဝေါ်ကြသည့်ပြင် မောင်လှိုင်း သွားပုံလာပုံ၊ နေပုံ၊ ထိုင်ပုံ၊ ပြောပုံ၊ ပြုံးပုံ၊ ဦးခေါင်းငဲ့ပုံ စသည်များကိုပင် အတုယူကြသည်ဟု ဆိုလေသည်။

အိနောင် မောင်လှိုင်း မရှိသည့်နောက်တွင် ဇာတ်မျိုး ဇာတ်နွယ်မှ ထွန်းကား ပေါ်ပေါက်လာသော မောင်ဘိုး ဆိုသူသည် အိနောင် ဆက်လုပ်ရလေသည်။

ရာမဇာတ် ကပြရာ၌မူ သုံ့ပန်းအဖြစ် ပါလာသူ ဆရာမြသည် ပဌမဆုံး ရာမမင်းသားအဖြစ် ကပြခဲ့သူ ဖြစ်၏။ ဆရာမြ မရှိသည့်နောက်တွင် မောင်ဘိုးဝေ ဆိုသူက ၎င်း၊ ထို့နောက်တွင် မောင်ဘိုး ဆိုသူကရင်း အသီးအသီး ရာမမင်းသားအဖြစ် ကပြခဲ့ကြလေသည်။

မင်းတုန်းဘုရင်နှင့် သီပေါဘုရင်တို့ လက်ထက်၌ အိနောင် မင်းသား အခန်းမှ ပါဝင် ကပြရသူမှာ ဇာတ်မင်းသား ဦးစံတုတ်(ဆေးနီ ဦးစံတုတ်)ဖြစ်သည်။ အိနောင် ဦးစံတုတ် ဟူ၍ပင် ကျော်စောသည်။ ဦးစံတုတ်သည် ယိုးဒယား ဇာတ်ကြီး အတီး၊ အက၊ အဆိုတို့၌ သူတထူးထက် ဝိဇ္ဇာခိုရ် နေသူဖြစ်သည်။ ကပြရာ၌ မတ်တတ်ရပ်ယင်းမှ ဘေးသို့ နောက်ပြန် စောင်းငဲ့ညွတ်၍ ကရာ သရဖူနှင့် မြေထိ၍ ကပြပုံလည်း အလွန် ညက်သည်။ ဦးစံတုတ်နောက်၌ ဦးစိန်အုပ် တဦးသာ ထိုသို့ ကပြနိုင်သည်ဟု ဆိုကြလေသည်။ (စံတုတ်၊ ဦး (အိနောင်) — ရှု။)

ကုန်းဘောင် ခေတ်၌ လူထုပိုင် မြန်မာအက စစ်စစ်တို့သည် တောလက် ကျေးရွာများ၌ ပေါက်ပွားထွန်းကားခဲ့သည်။ နန်းတွင်းဇာတ်တို့မှာ ရှင်ဘုရင်ပိုင်ဖြစ်၍နေရာ ထိုအချိန်က လူထုနှင့် နီးစပ်ခွင့် မရခဲ့ပေ။ လူထုရပ်ကွက်တွင် ပုံရှည်ပုံတိုတို့ ပေါ်ပေါက်ခေတ်စားခဲ့ရာ မြန်မာ တောင်သူလယ်သမားတို့ ကောက်စိုက်ရာတွင် ပျော်ပျော်ရွှင်ရွှင် စည်စည်ကားကား ဖြစ်စေရန် ပုံကြီးသီချင်း၊ ပုံကြီးအကတို့ ပေါ်ခဲ့၏။ ဒိုးပတ် ခေါ် ပုံတို ကပြရာ၌ အသုံးပြုသော တူရိယာတို့မှာ နှဲ၊ လင်းကွင်း၊ ပုံတိုနှင့် ဝါးလက်ခုပ် တို့ဖြစ်သည်။ မင်းသားမှာ ပုံတိုကို လွယ်၍ တီး က ကသည်။ ပုံတိုကို တိုရှိသာ အလှ တီး၍ အကကို များများ က၏။ မင်းသား၏ အဝတ်အစားမှာ ထိုင်မသိမ်းအင်္ကျီ၊ ပုဆိုး ဒူးဖုံး ဝတ်၍ ကြက်မြီး ခါးတောင်းကျိုက် ဖြစ်သည်။ သီချင်း၊ အတီးနှင့် အကတို့မှာ ခပ်ယိုင်ယိုင် ဖြစ်သည်။

ထိုစဉ်က ဒိုးပတ်အကတွင် ပုံမောင်ကျန်ပေါ် ဆိုသူသည် နာမည်ကြီး မင်းသား ဖြစ်၏။ အကြောင်းမှာ သူ၏ ဒိုးပတ် အကကို ပရိသတ်က အလွန်သဘောကျသည်။ ကြာကြာလည်း ကြည့်လိုသည်။ ထိုကြောင့် အကနှင့် အဆိုကို ချဲ့ထွင်ရသည်။ အရယ်အရွှမ်း အဆိုအငိုတို့ကို ချဲ့ထွင်ရလေသည်။ တစတစနှင့် ဇာတ်ကွက်ကလေးများ ထည့်၍ ကယင်းက ဇာတ်ဘဝအသွင်သို့ ရောက်ရှိလာခဲ့လေသည်။

ပုံမောင်ကျန်ပေါ်နှင့် မရှေးမနှောင်း နာမည်ထွက်သောသူလည်း ရှိသေးရာ၊ ထိုသူမှာ ကိုလန်းဖြစ်၍ ပြောကို လွယ်တီး တီးယင်းက အာဝဇ္ဇန်းရွှင်ရွှင်ဖြင့် အပြောကောင်း အကကောင်းသဖြင့် ပြောကိုလန်းဟု တွင်လေသည်။ မြို့ရွာသုံး မြေဝိုင်းဇာတ်ကလေးများ၏ အဦးအစ မင်းသားများမှာ ပုံမောင်ကျန်ပေါ်နှင့် ပြောကိုလန်းတို့ ဖြစ်သည် ဟုဆိုနိုင်လေသည်။

မြေဝိုင်းဇာတ် အဆင်အပြင်မှာ ကွင်းကျယ်ကျယ် မြေတလင်းပြောင်ပြောင်တွင် နေရာယူပြီးလျှင် သုံးပုံနှစ်ပုံကို ကပြရန် သတ်မှတ်၍ သုံးပုံတပုံကို ဝိုင်းတော်တီးများအတွက် သတ်မှတ်ထားသည်။ ကွင်းအလယ်တွင် သပြေခက်နှင့် ဆံနှစ်ရာသီပင်မှ အကိုင်းတို့ကို ပူးတွဲ စိုက်ထူထားပြီးလျှင် ဘေးတဖက်တချက်တွင် ရင်ခေါင်းခန့် မြင့်သည့် မီးတိုင်များ စိုက်ထူထားလေ့ ရှိသည်။ မီးတိုင် အနည်းဆုံး နှစ်တိုင် စိုက်၍ ကလေ့ရှိကြသည်။ မီးတိုင်မှာ ဝါးပိုးဝါးတလုံးကို ထိပ်မှ ခွဲစိတ်ပြီးလျှင် ရေနံချေးနှင့် ခြည်မြှင်မြိတ်ဆာပြတ်များ ထည့်ထားသည့် အင်တိုတလုံးကို ဝါးဖျားတွင် ညှပ်၍ ထွန်းလေ့ ရှိသည်။

ဦးစွာ၌ ဆိုင်းတခြမ်း၊ ကြေးဝိုင်းတခြမ်း တပ်ဆင်ထားသည့် လခြမ်းဆိုင်းကို အသုံးပြုကြပြီးလျှင် ထိုဆိုင်းနှင့်ပင် မြေဝိုင်း ပန်းပင်လယ် ဇာတ်ကို မိုးလင်း ကပြကြသည်။ နောက် ဆိုင်းဝိုင်းနှင့်ကြေးဝိုင်းတို့ပေါ် လာပြီးလျှင် ဇာတ်တီးဝိုင်း တိုးချဲ့လာသည်နှင့် အမျှ ထည်ဝါ ခမ်းနားစေရန် ဆိုင်းဝိုင်း၏ ကျောဖက်တွင် ဂဠုန်၊ နဂါး၊ မြင်း၊ ဆင်၊ ကျား၊ ရသေ့၊ ကိန္နရာ၊ နတ်သမီး၊ နတ်သား၊ သိကြား၊ မျောက်၊ ဂုမ္ဘာန်၊ ဘီလူး၊ နန်းထိုင်ဘီလူး၊ ဣန္ဒဇိတ်ဘီလူးခေါင်းများကို တန်းထိုး၍ ချိတ်ဆွဲထားတတ်သည်။ ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ဖျာများ ခင်း၍ ကပြလာကြပြီးလျှင်၊ ဖန်ကတော့တွင် ဖယောင်းတိုင် ထွန်း၍ တီးသည့် ဆိုင်းဝိုင်းကြီးများ ပေါ်ပေါက်လာသည်။ ဇာတ်သား၊ ဇာတ်သမ

တို့မှာ အတီးသမားများ နောက်ပိုင်းတွင် ဝဲ ယာ ခွဲခြား၍ ဖိုးလိမ်း ပြင်ဆင် ကြရလေသည်။ ဇာတ်ကမည့် နေရာတွင် ဆိုင်းဝိုင်းကြီးနှင့် အနီးကပ်၍ ဇာတ်သေတ္တာတခု ထား သည်။ ယင်းဇာတ်သေတ္တာမှာ ရှင်ဘုရင်ထိုင်လျှင် နန်း တော် ဖြစ်ရသည်။ ရသေ့ရဟန်းထိုင်လျှင် ကျောင်းသင်္ခမ်း ဖြစ်ရသည်။ သဌေးကြီးထိုင်လျှင် ရေမ အုတ်တိုက်ကြီး ဖြစ် သည်။ မင်းသမီးထိုင်လျှင် တပင်တိုင်နန်း ဖြစ်၍၊ သိကြား မင်း ထွက်သောအခါ ဝေဇယန္တာ နတ်နန်းကြီး ဖြစ်သွား လေသည်။ ပွဲကြည့်သူများသည် ဇာတ်သေတ္တာကိုပင် ကပြ သူတို့ ပုံသဏ္ဍာန် ပြလိုရာကို ယုံယုံကြည်ကြည် စွဲလမ်း ထင် မှတ်ထားကြသည်။ မင်းသမီး မင်းသားများ မြစ်ကူး ပင် လယ်ကူးရမည့် ဇာတ်ကွက်ဆိုလျှင် လူပြက် တယောက် ယောက်၏ ခေါင်းမှ ပုဝါကို ဖြန့်ပြီးလျှင် အလျားလိုက် လူပြက်နှစ်ယောက် တဖက်တချက် ကိုင်သည်။ ဇာတ်လမ်း အရ ပုဝါစ အလယ်က မင်းသမီး မင်းသား နှစ်ယောက်လုံး သော်၎င်း၊ တယောက်ယောက်သော်၎င်း မတ်တတ်ရပ်ပြီး လျှင် ကုလားသီချင်း၊ သို့မဟုတ် လှေတော်သံများကို သီဆို ကာ ကကွင်းကို လှည့်ပတ် ကပြလျှင် ပွဲကြည့်သူတို့က လှေ သင်္ဘောဖြင့် မြစ်ပြင်ကျယ်၊ ပင်လယ်ကူးနေသည်ဟု နား



ဟံမာရာ ဦးညွန့်

လည်ကြသည်။ ဤတွင် လေမုန်တိုင်း မိ၍ သင်္ဘောလှေပျက် ဒုက္ခရောက်ခန်း ဆိုလျှင် ဆိုင်းက အယိုင် တီးပေး၍၊ လူပြက် နှင့် မင်းသား မင်းသမီးတို့က ကယ်ပါ ယူပါ အော်ဟစ်ကာ ပုဝါကို ရှေ့နောက် ယိမ်းယိုင် ဝှေ့ရမ်းလျက် တယောက် တကွဲ ဟိုပြေး သည်ပြေး လူစုခွဲ၊ လှဲအိပ်သူက အိပ်လိုက်ကြ ပြီးလျှင် ဆိုင်းအတီး ရပ်သော် ငိုချင်း၊ အပြော စသည် တို့ကို ဆိုကာ ဇာတ်ကွက်အတိုင်း ဆို ပြော ကပြသွားလေသည်။ ပရိသတ်ကား ယုံကြည်မှုတခုကို ရှေ့ဝယ်တင်လျက် မျက် ရည်စက်လက်နှင့် ငိုသူငို၊ နှပ်ညှစ်သူက ညှစ်နှင့် လွှမ်းလက်စ မသိမ်းနိုင်အောင် ရှိရလေသည်။

ထိုမှတဆင့် ရေနံချေးမီးခွက် အစား လသာမှန်အိမ်များ ထွန်းခြင်း၊ ဇာတ်ခုံ ထိုးခြင်း၊ ထီးကား၊ နန်းကား၊ တော ကား၊ တောင်ကားများ ဆင်ယင်ခြင်းတို့ကို ပြုလာသည်။ ဇာတ်ခုံ ဇာတ်ကားများကို စတင်သုံးသူသည် ရန်ကုန်မြို့မှ မင်းသား ဦးကျော်ဇံ ခေါ် ဦးဘကျော် ဖြစ်သည် ဟုဆို လေသည်။

မြေဝိုင်းခေတ်တွင် ထင်ရှားသော ဇာတ်မင်းသားများ မှာ ဦးမြဒင်၊ ဦးကျီးညို၊ ဆရာမှန်း၊ ဦးဘိုးကွန်း၊ ဦးစိန္တာ၊ ဦးဘအို၊ ဦးစိန်ထိုက်၊ ဦးဘိုးမြစ် စသူတို့ ဖြစ်သည်။ ဦးဘိုး ကွန်းသည် နာမည်ကျော်ဇာတ်မင်းသမီးကြီး ဒေါ်ထွေးလေး ၏ ခင်ပွန်းဖြစ်၍ ဒေါ်ထွေးလေးနှင့်ပင် အနှစ် ၂၀ လောက် တွဲ၍ ကသွားလေသည်။ ဦးဘိုးကွန်း၊ ဒေါ်ထွေးလေးတို့ သည် ဇာတ်ခုံထိုး၍လည်း ကပြခဲ့ရာ၊ ကားလိပ် ခြောက်ခု၊ မြို့ရိုးကားတခုနှင့် လသာမှန်အိမ်များ ထွန်း၍ ကပြခဲ့သည် ဟုဆိုသည်။ (ထွေးလေး၊ ဒေါ် —လည်းရှု။)

မြေဝိုင်းခေတ်တွင် မင်းသားများ ဝတ်စားဆင်ယင်ပုံမှာ ဗလာပုဆိုး၊ ကြက်မြီး ခါးတောင်းကျိုက်၊ ကိုယ်မှာ ထိုင် မသိမ်း ချွေးခံမပါဘဲ ဝတ်သည်။ ရင်အုံနှင့် လည်တိုင်မှာ ဆေးအနီ ရှိသည်။ ရွှေခြည်ထိုး လည်ချာ၊ လက်မှာ လက် ပတ် ရွှေခြည်ထိုး လက်ကောက်ဝတ်တွင် ပတ်စီးထားသည်။ ခါးတောင် ဒူးဖုံး ရှေ့ဖုံး ပါသည်။ ဆံပင်ကို ထိပ်လယ်မှာ မန်းရောင် ခေါ် နှစ်ပတ်ရစ် ရောင် ထုံးသည်။ ပုဝါ ရှမ်း ပေါင်း ပေါင်းသည်။ လေးကောက်ကို ကိုင်သည်။ လေး ကောက် ထမ်းခြင်း၊ ယူခြင်း၊ ညွှန်ခြင်း၊ လှည့်ပတ်ခြင်းတို့ တွင် ခြေလှမ်းမမှားစေရဘဲ အကွက်ကျကျ ကတတ်ရလေ သည်။ သစ္စာထားနှစ်ပါးသွားတွင် ပုဝါတလှမ်း၊ ယပ်တောင် တကမ်းတကွာ ကပြကြသည်။ မင်းသားသည် ယခုခေတ် လို ကသည်မဟုတ်ဘဲ ဟန်မျှလောက် ပြုလုပ်၍ သီချင်းဆို ပြီးလျှင် မင်းသမီးကသာ ကလေသည်။ မင်းသားသည် များသောအားဖြင့် လက်ပိုက်၍နေသည်။ မင်းသမီးသည် လည်း ဗျာပါဆံ ပါးရိုက်နှင့် သိမ်မွေ့စွာ ကပြသည်။ မောင် နှင့် နှမ၊ သားနှင့်အမိ ကြည့်ရှုနိုင်လေသည်။

ဇာတ်မင်းသား ဦးဘိုးကွန်းသည် သဘင်ပညာတွင် အလွန် ပြည့်ဝ အထက်တန်းကျသူ ဖြစ်၍ ဒေါ်ထွေးလေးကို ဇာတ်လိုက် ဇာတ်ဆောင်ကောင်းအောင် သွန်သင်နိုင်စွမ်းသည် ဟုဆို၏။ ဦးဘိုးကွန်းသည် မန္တလေးအရှေ့ဖက်ရှိ ကျောက်မီးရွာသား ဖြစ်သည်။ ရုပ်လှသူလည်း မဟုတ်ဘဲ၊ အသားညိုညိုနှင့် ကျောက်ပေါက်မာများ ရှိသူလည်း ဖြစ်သည်။ ထိုကြောင့် သူ့ရုပ်ရည်နှင့် လိုက်ဖက်လှသော မင်းကုသဇာတ်၊ ပဋ္ဌာ ဒါသဇာတ်မျိုးကို ကပြတတ်၏။ ဦးဘိုးကွန်းတို့ ခေတ်က မင်းသားသည် ယခုခေတ်လို ကသည် မဟုတ်၊ ဟန်မျှလောက်ပြုလုပ်၍ သီချင်းဆိုပြီးလျှင် များသောအားဖြင့် လက်ပိုက်၍ နေသည်။ မင်းသမီးကသာလျှင် ကလေသည်။ ထိုကြောင့် ဦးဘိုးကွန်းကို အကကောင်း မင်းသားဟု ပြောမဖြစ်သည့် အပြင်၊ ဦးဘိုးကွန်းသည် လက်ပိုက်မင်းသား ဟူ၍ပင် နာမည်ရခဲ့လေသည်။ သို့သော် ခုန်လား ပေါက်လား မကသည်က လွဲ၍ ဇာတ်ဆောင်ရာ၊ ဇာတ်လိုက်ရာ၊ ဇာတ်ကိုသယ်ရာတွင်ကား ဦးဘိုးကွန်းသည် အပြော၊ အဆို၊ အငိုများ၌ တကယ်တော်သူ ဖြစ်လေသည်။ ဦးဘိုးကွန်းသည် အဆိုသမား ဖြစ်၍၊ စောင်းတီးလည်း ကောင်းလေသည်။နောင်တခေတ်တွင် ထင်ရှားကျော်ကြားခဲ့သော ဘိုးစိန်နှင့် အောင်ဗလတို့ကို ကလေးအရွယ်ကစ၍ ဦးဘိုးကွန်း၊ ဒေါ်ထွေးလေးတို့က သင်ပေးခဲ့သည်ဟု ဆိုလေသည်။

ဦးဘိုးကွန်းနှင့် ဒေါ်ထွေးလေးတို့ တွဲ၍ ကသည့်အခါ နာမည်ကျော်ကြား လူကြိုက်များလာပြီးလျှင် အနှစ် ၂၀ လောက် တွဲ၍ ကသွားကြရသည်။ ထိုနောက် ဦးဘိုးကွန်းသည် ပွဲကယင်း ငါးသိုင်းချောင်း လေးမျက်နှာဖက်တွင် ဖျား၍ အနိစ္စရောက်လေသည်။

ဦးဘိုးကွန်း ကွယ်လွန်ပြီးနောက်တွင် ဒေါ်ထွေးလေးသည် အီကင်း ဦးမောင်ကြီးနှင့် တွဲကသည်။ အီကင်း ဦးမောင်ကြီးသည် မန္တလေးမြို့ အီကင်းရပ်သား ဖြစ်၍ ငယ်ရွယ်စဉ်က လယ်ယာကိုင်းကျွန်း လုပ်ကိုင်ခဲ့သဖြင့် "လယ်ကြား ·မောင်ကြီး" ဟုနာမည်တွင်ပြီးမှ ရုပ်သေးမင်းသမီး ဆရာပုထံ ပညာဆည်းပူး၍ ရုပ်သေးမင်းသား အီကင်း မောင်ကြီး အမည်ဖြင့် ဆရာပုစင်တွင် ဆရာပုနှင့် တွဲခဲ့သည်။ ထိုနောက် ရုပ်သေးစင်မှ ဆင်းပြီးလျှင် မြေဝိုင်းဇာတ်တွင် ဝင်၍ ကပြသည်။ အီကင်း ဦးမောင်ကြီးသည် ဦးဘိုးကွန်း၏ တပည့်ရင်းလည်း ဖြစ်သည်။ ရုပ်ချော၍ ဖြူဖြူခန့်ခန့်ကြီးဖြစ်၏။သို့သော် သဘင်ပညာမှာကား ဦးဘိုးကွန်းကဲ့သို့ မတော်လှပေ။ အီကင်း ဦးမောင်ကြီးသည် အသံတိမ်သဖြင့် အဆိုတွင် ရက်ရှည်ဆက်၍ မဆိုနိုင်သော်လည်း အပြောမှာ ယဉ်ကျေးလှသည် ဟုဆို၏။ ပွဲကြည့်သူများကမူ အီကင်းဦးမောင်ကြီးနှင့် တွဲသည့်အခါ ဒေါ်ထွေးလေးသည် ပို၍ ကောင်းသေးသည် ဟုဆိုကြသည်။ ထိုသို့ တွဲကယင်း သူတို့နှစ်ဦး အကြောင်းပါကြသည်။ အီကင်း ဦးမောင်ကြီးသည် ၁၂၈၁ ခုနှစ်၌ စဉ့်ကိုင်မှ ပွဲကအပြန် ငှက်ဖျားမိ၍ ကွယ်လွန်သွားလေသည်။

မြေဝိုင်းဇာတ်မင်းသား ဆရာမွန်းသည် ဇာတိ ရွှေဘိုမြို့သား ဖြစ်၍၊ အောက်နယ်ရှိ ဇာတ်မင်းသားများထဲတွင် ဣန္ဒြေအရှိဆုံး ဟုဆိုရပေမည်။ ခန့်ညားထယ်ဝါ၍ ခေါင်းပေါင်း ပေါင်းပုံ နေထိုင်စားသောက်ပုံ ပြောဆို ရွတ်ဖတ်ပုံတို့မှာလည်း သိက္ခာရှိလှသည်။ သူ၏ ရုပ်လက္ခဏာမှာ ထောင်ထောင်မားမား၊ အသားမှာ အသားဝါ၊ မျက်နှာ ပြည့်၍ ဝိုင်းသည်။ ရင်အုံနှစ်ဖက်တွင် ယိုးဒယား ဆေးနီ ရုပ်များ ထိုးထားသည်။ စကားပြော သီချင်းဆိုရာတွင် နှာသံ အနည်းငယ် ပါသည်။ ကပြရာ၌ နှစ်ပါးသွားခန်းများ ဆိုလျှင် ခန့်ညား၍ ဣန္ဒြေ ရှိသည်။ သီချင်း ဆိုရာတွင်လည်း စည်းထိပ်နင်း၍ အဝင်ဆိုလေ့ရှိသည်။ ကပြလေ့ရှိသော ဇာတ်ထုပ်များမှာလည်း ဖိုးသုံးသင်းထုံ၊ တမာကူလ၊ မောင်ပျင်း၊ မောင်လုလ္လ၊ မောင်ကဒူး၊ မောင်ပေါက်ကျိုင်းနှင့် အဘိုးအိုဇာတ်၊ နေအာဒိစ္စဇာတ်၊ ဥပက မဆာဝါဇာတ် စသည်တို့ ဖြစ်၏။ ဆရာမွန်း ကပြပုံမှာ သဏ္ဍာန်လုပ် သရုပ်တူရမည် ဆိုသည့်အတိုင်း လူဆင်းရဲ၊ လူပျင်း၊ အရူး၊ အဘိုးကြီးအို၊ ဘုန်းကြီးလူထွက် စသည်တို့ လုပ်ရာတွင် ရင်းနှီးသူများပင် ဆရာမွန်းမှန်း မသိအောင် တူလှသည် ဟုဆိုသည်။ ဆရာမွန်းသည် အသံမကောင်းလှသော်လည်း ဇာတ်ကတတ်သူဖြစ်သည် ဟုလည်း ဆိုလေသည်။ ဆရာမွန်းထံတွင် နည်းနာခံကာ သင်ကြားခဲ့သော တပည့်ရင်းများမှာ ဦးဘိုးဆိတ်၊ ဦးဘိုးထင်ကြီး၊ ဦးစိန်ထိုက်၊ ဦးဘိုးမြစ်၊ ဦးစိန်ကတုံး၊ ဦးကြေးဖြူ၊ ဦးစိန်ဘိုး စသူတို့ ဖြစ်သည်။

ဦးဘိုးဆိတ်သည် မူလက မင်းသား ဖြစ်သော်လည်း နောင်အခါ လူကြမ်းအဖြစ် ကပြလေသည်။ မင်းသား ဦးကြေးဖြူ၏ ငယ်မည်မှာ ငယ်ရွယ်စဉ်က ငိုတတ်၍ ထိုသို့ ငိုသည့်အခါ မိဖများက ကြေးစည်ကို တီးပြလျှင် ကြေးစည်သံကြားက အငိုတိတ်သည်ကို အကြောင်းပြုကာ မောင်ကြေးစည် ဟုခေါ်သည်။ နောက် ရွှေလျောပြီးလျှင် ကိုကြေးဖြူဟု အမည်တွင်လေသည်။

ဆရာမွန်းကြီး၏ တပည့်တဦးပင် ဖြစ်သော မင်းသား ဦးစိန်ဘိုးသည် အသားဝါ၊ ရုပ်ချော၊ နှာတံပေါ်၍ ကိုယ်မှာ ဆေးနီအပြည့် ရှိ၏။ ကျွမ်းထိုး အလွန်ကောင်းသော ဟူ၏။ မမ္မစေတီဇာတ် ပြရာတွင် ပဲခူး ရွှေမော်ဓောသို့ တက်၍ ရွှေအပ်နှင့် နားထွင်းမင်္ဂလာပြုလျှင် ပဲခူးဘုရင်က တပ်နှင့် ဝိုင်းဖမ်းရာ၊ ပဲခူးကုန်းမှ လိပ်ပြာကန်သို့ ခုန်ဆင်းပြေးသော အခန်း၌ တပ်သားများ ခေါင်းပေါ်မှ ကျော်၍ ကျွမ်းပစ်ထွက်ပြေးခြင်းကို ပွဲကြည့်ပရိသတ်များ နှစ်သက်ကြသည်။

မင်းသား ဦးဘိုးမြစ်သည် နိုင်ငံကျော် မင်းသားတဦးပင် ဖြစ်၏။ ဦးဘိုးမြစ်သည် ဆရာမှန်း၏ စံနစ်ကို နေပုံထိုင်ပုံ၊ ပြောပုံဆိုပုံ၊ မျက်နှာထားမှ စ၍ တသွေမလွဲ အတုခိုးယူသူ ဖြစ်လေသည်။

ညောင်တုန်းမြို့မှ ဦးဘွား၏သား မောင်သာမောင်သည် မာတင်ဇာတ်ကို အဝတ်ကလေး ကာ၍ သံစုံပြောရာမှ ဆရာမှန်းထံ နည်းခံသင်ကြားခဲ့ရာ နောင်အခါ မင်းသား မောင်မာတင် ဟုကျော်ကြားခဲ့လေသည်။

ဆရာမှန်း၏ တပည့်တဦးဖြစ်သော ဆဲ့နှစ်မျိုး ဦးဘရှင်သည် ရုပ်ရည်နှင့် အသံ ကောင်းသည်။ ဒူးကြိုး ပေါင်ကြိုး ပြည့်စုံသည်။ သရုပ်အတူ လုပ်တတ်သည်။ ရုပ်ပြောင်း ရုပ်လွှဲ ကောင်းသည်။ ဆဲ့နှစ်မျိုးခေါ်ခြင်းမှာ နတ်ကတော်က၊ ဝန်က၊ မျောက်က၊ ဇော်က၊ ရွှေစွန်ညိုက၊ အိုးစည်က၊ ဒိုးပတ်က၊ စည်တော်က စသည့် အကဆဲ့နှစ်မျိုးစုံအောင် စီကာစဉ်ကာ တခုပြီးတခု ပရိသတ် မျက်စေ့မပြတ်အောင် ကပြတတ်သောကြောင့် ဖြစ်သည်။ ဦးစိန်ကတုံး၊ ဦးဘိုးစိန်တို့ ခေတ်မထခင် ဆဲ့နှစ်မျိုး ဦးဘရှင်သည် ခေတ်စားခဲ့လေသည်။ သဘင်ဆိုင်ရာ အောက်ခြေသိမ်း တတ်မြောက်၍ ဇာတ်ကတတ်သူ ဖြစ်သည်။

ဆရာမှန်း၏တပည့်များထဲတွင် မင်းသား ဦးစိန်ထိုက်သည် တမူထူးခြားသူဖြစ်သည်။ ဦးစိန်ထိုက်သည် ညောင်ဦးသား ဖြစ်သော်လည်း ညောင်တုန်းတွင် ကြီးပြင်းလာရသူ ဖြစ်သည်။ ဥပဓိရုပ် အလွန် ချစ်ဖွယ်ကောင်းသည်။ အသံကောင်းသည်။ အဆစ်အမျက် ပြေပြစ်သည်။ ညောင်တုန်းမြို့ပေါ်ရှိ သဘင်ပညာရှင်များထံတွင် ပညာ ဆည်းပူးသင်ကြားရုံမျှ မက ဇာတ်ဆရာ ဆရာမှန်းထံတွင်လည်း ထိရောက်စွာတပည့်ခံ၍ နည်းယူသင်ကြားသည်။ အောက်နယ်တွင် မင်းသားလုပ်ကပြလေသည်။ သို့သော် သူ့အမူအရာနှင့်လည်း သင့်လျော်၍ သူ့ဝါသနာနှင့်လည်း ကိုက်ညီသော မောင်မစ္စကဇာတ်ကို အထူးတလည်ကပြတတ်သည်။ မောင်မစ္စကဇာတ်တွင် ညဉ့်ဦး၌ ယောကျ်ားဘဝနှင့် ကပြ၍ သန်ကောင်ကျော်လျှင် မိန်းမဘဝနှင့် ကပြလေသည်။ ထိုသို့ကပြရာတွင်လည်း ဟန်အမူအရာ အပြောအဆိုမှ စ၍ မိန်းမစစ်စစ် များနှင့် မခြားနားပေ။ အပလီ အခရာ တီတီတာတာ ပြောဆိုပုံတို့မှာလည်း လွန်စွာ နှစ်သက်လောက်ပေသည်။

၁၂၄၂ ခုနှစ်တွင် မန္တလေးမြို့သို့ တက်၍ ကပြခဲ့ရာ၊ ဦးစိန်ထိုက် ကပြပြောဆိုပုံများကို အမျိုးသမီးများသာမက အမျိုးသားများကပင် နှစ်သက်ကြသည်။ အချို့သော အမျိုးသမီးများကမူ ဘဲ့ဖြူလိပ် ခေါ် ကွမ်းသီးဖက် ဆေးလိပ်၏ ထိပ်တွင် ရွှေဒင်္ဂါးပိတ်၍ လက်ဆောင်ပေးကြသည်။ နောင်အခါတွင် နန်းတွင်းသူများကပါ လှုပ်ရှားလာသောကြောင့် ကြာကြာနေလျှင် ဓားနှင့် နီးရတော့မည့် ဘေးကြောင့် အောက်ပြည်သို့ စုန်ဆင်း တိမ်းရှောင်ခဲ့ရသည် ဟုဆိုသည်။

မြေဝိုင်း သစ္စာထား နှစ်ပါးသွား အကတွင် မင်းသား မင်းသမီးတို့ ပူးပူးကပ်ကပ် ဖြစ်အောင် စည်းခပ်ဆပ်ဆပ်ဖြင့် 'ပလိုက' ဟူသော ခပ်ကြမ်းကြမ်း အကကို စ၍ ထွင်သူမှာ မင်းသား ဦးစိန္တာ ဖြစ်သည် ဟုဆိုလေသည်။ ဦးစိန္တာသည် လူပုံချော၊ လူရှင်လူသွက် ဖြစ်၏။ နှစ်ချက် စည်းလေးစည်းမှန် ထုံးစံက၊ စည်းခပ်ဆပ်ဆပ်ဖြင့် ဒူးကြိုး ပေါင်ကြိုး လှုပ်ရှား ကပြသည်။ မင်းသား မင်းသမီး နီးနီးကပ်ကပ် တို့ထိသည်ကို ပရိသတ်က မြင်လိုသော ဆန္ဒ ဖြစ်ပေါ်လာရာ ဦးစိန္တာက မင်းသမီးကို သစ္စာနှံ ကြမ်းလာသည်။

ဦးစိန္တာကြီး၏ ပလိုက သီချင်းမှာ —

"ရွှေမှုံ၊ ငွေမှုံ ပန်းဝတ်ကယ် စုံသလေ၊ (ပလို–ပလို ဟု ဆိုင်းက တီး၍ မင်းသားက လှည့်ပတ် ကွေ့အောင် ကသည်။)…. ထိုလေ–မာလာ၊ မာလာ၊ သင်းပျံ့တော်တယ် လေးဟိုက်။ ။အိုရွှေကြက်ရုံးမှာလ၊ အိုငွေကြက်ရုံးမှာလ၊ ပိတုန်းတွေ ပျံတော့တယ်၊" (ဤတွင် ပတ်ဆစ်ချိုး၍ ကတော့သည်။)

ထို့ပြင် "တို့တော့မယ်တဲ့ ဆိတ်တော့မယ်၊ ဆိတ်တော့မယ် တဲ့ တို့တော့မယ် (မင်းသမီးအား သွား၍ လက်ဆွဲ၊ ပုဝါဆွဲ လုပ်သည်။) ဗယ်ခြောက်ခါ ညာကဗမ်း၊ နမ်းမိလိမ့်မယ်။ လေးတောင်ပြည့် ခန်းသာလယ်၊ ငါးတောင်ပြည့် ခန်းသာလယ်။ မောင်မောင်ရွယ်သည့် စပယ်ကုံး၊ အလိုဗျာ မင်းဘယ်သို့တုန်း" ဟူသော သစ္စာနှံ သီချင်းကို ဆိုလျက် မင်းသမီးကို ဆွဲလားငင်လား လုပ်သည်။ မင်းသမီးက တိမ်းရှောင်ပြေးလျှင် ခြေနှင့် ဆီးသည်။ လက်နှင့် ဆီးသည်။ တခါတရံ မင်းသမီးက ကြောက်လန့်၍ ငယ်သံပါအောင် အော်သည်ကို ကာလသားများက ကြိုက်ကြလေသည်။ ဦးစိန္တာတို့ခေတ်က စ၍ သစ္စာထား နှစ်ပါးသွားတွင် ပုဝါတကမ်း၊ ယပ်တောင်တလှမ်း စံနစ် တဖြည်းဖြည်း ကွယ်ပျောက်လေတော့သည်။

ရန်ကုန်မြို့ လမ်းမတော်မှ ဆိုင်းဆရာကြီး ဦးနီတိုး၏ သား ဦးကျော်ဇံ (ခေါ်) ဦးဘကျော်သည် ပတ်တီးဘဝက ဇာတ်မင်းသားဘဝသို့ ကူးပြောင်းခဲ့သည်။ ဇာတ်ခုံ ဇာတ်ကားများကို စတင် အသုံးပြုသူ ဖြစ်သည်ဟုလည်း ဆိုသည်။ ဦးကျော်ဇံသည် ဇာတ်မင်းသား ဘဝသို့ ကူးပြောင်းခဲ့သော်လည်း ပုံပန်းကသာ မင်းသားရုပ် ရသည်။ အကနှင့် အသံက စွဲမက်လောက်အောင် မပြည့်စုံသဖြင့် မင်းသားလတ်ဘဝဖြင့် ထင်ပေါ်လာသော ပုဂ္ဂိုလ်တဦး ဖြစ်လေသည်။

ဇာတ်မှာ မင်းသားနု၊ မင်းသားလတ်၊ မင်းသားကြီး ဟူ၍ သုံးမျိုး ရှိရာ မင်းသားနုမှာ နှစ်ပါးသွား သစ္စာထား၊ ကျင်းအိုင် အလှမ်းအဆွေး ဇာတ်လိုက် ဖြစ်သည်။ မင်းသား

လတ်မှာ တုတ်ထမ်း၊ ဓားထမ်း ခပ်ကြမ်းကြမ်းထဲက ဖြစ်သည်။ မင်းသားကြီးမှာ ဇာတ်အိမ်ဇာတ်ကွက်၊ ဇာတ်စီး ဇာတ်နင်း အလှမ်းအဆွေးတို့အတွက် ဖြစ်လေသည်။

ဦးကျော်ဇံသည် ဝိဋူဍူဘဇာတ်နှင့် ဗိမ္ဗိသာရ ဓားခွဲဇာတ်တို့ကို ကပြရာတွင် သဏ္ဌာန်လုပ် သရုပ်နှင့် တူသဖြင့် ပရိသတ် နှစ်ခြိုက်လေသည်။

ဇာတ်မင်းသား ဦးစိန်ကတုံးသည် မင်းသားကလေးဘဝတွင် အသံပျက်သွားရာ၊ သီချင်း ကောင်းစွာ မဆိုနိုင်သည့်အတွက် ခါးတောင်းကျိုက်မင်းသား (ဝါ) မင်းသားလတ်လုပ်၍ ဝိဋူဍူဘ၊ အင်္ဂုလိမာလ၊ ထိလပ် ပိုးအုစသည့် ဇာတ်ထုပ်များကို ကပြရာ၊ ပရိသတ် နှစ်ခြိုက်ခဲ့သည်။ (စိန်ကတုံး၊ ဦး — လည်းရှု။) နှစ်ပါးသွား သစ္စာထားတွင်လည်း ရွှေစွန်ညိုဝဲ အက၊ အိုးစည်က၊ စည်တော်တီးက၊ ဝန်က စသည့် အကမျိုးနှင့် အသောမျိုးများ ကပြသည်။ ဦးစိန်ကတုံးသည် နကိုယ်က ဒူးကြိုး ပေါင်ကြိုး ကျနခဲ့သူ ဖြစ်သည့်ပြင်၊ ထလျက်ကဖြစ်စေ၊ ထိုင်လျက်ကဖြစ်စေ ဇာတ်သေတ္တာကြီး သုံးလုံး ဆင့်၍၊ အဝတ်ဖုံးအုပ်ထားသော တောင်ပုံသဏ္ဌာန် ထိပ်မှာ ခြေတွဲလွဲ၊ တင်ပါးလွှဲ၊ မုဆိုးထိုင် စသော အကမျိုးတွင် ယိုးဒယားဟန် မပျက် စွေ့ကနဲ ခုန်လွှား ကပြသည်ကိုလည်း သဘောကျခဲ့ကြလေသည်။ ထိုအခါ ခါးတောင်းကျိုက် မင်းသားလတ် ခေတ်စားလာသဖြင့် ဇာတ်မှန်သမျှတွင် မင်းသားလတ် မပါက မဖြစ်သလောက် ရှိခဲ့သည်။ စိန်ကတုံးဟန် ဟူ၍လည်း ခေတ်စားခဲ့လေသည်။

ဇာတ်သဘင် ကပြရာတွင် ရှေ့ပိုင်း၊ နောက်ပိုင်း ဟူ၍ ရှိသည်။ တန်းလျှောက်၊ သို့မဟုတ် သစ္စာထား နှစ်ပါးသွားကို ရှေ့ပိုင်း ဟုခေါ်သည်။ နှစ်ပါးသွား သစ္စာထားပြီး၍ ဇာတ်အိမ်ဇာတ်ကွက် အလိုက် အလှမ်းအဆွေး ခေါ်သော ကျင်းအိုင် ပူခန်း ဆွေးခန်းတို့ကို နောက်ပိုင်း ဟုခေါ်သည်။ ဇာတ်မကတတ်သူကို တန်းလျှောက်မင်းသား၊ သို့မဟုတ် ရှေ့ပိုင်းမင်းသား ဟုခေါ်၍၊ ဇာတ်ကတတ်သူကို ရှေ့ပိုင်း နောက်ပိုင်း လုံသည် ဟုဆိုသည်။ အသံကောင်း၊ အဆိုကောင်း၊ ရုပ်ရည်ချောကာ အရွယ်ကောင်းနှင့် ပြည့်စုံတိုင်း ဇာတ်မကတတ်ပေ။ ထိုအတွက် ထိုသို့သော အရည်အချင်းများနှင့် ပြည့်စုံ၍ ပရိသတ် တပ်မက်ဖွယ်က တခြား၊ ဇာတ်ထုပ် ဇာတ်ကွက် အဝင်အထွက် ကျင်းအိုင်ဝပ်ခြင်း၊ လူးခြင်း၊ လိုမ့်ခြင်းက တမျိုး ဖြစ်၍ သဘောချင်း တူသော်လည်း တဘာသာစီ ဖြစ်လေသည်။

ဆားမလောက်သား ဦးစစ်တွေသည် အသံ မကောင်းသော်လည်း ဇာတ် ကတတ်သည်။ ဖခင် ဇာတ်မင်းသားဖြစ်သူ ဇာတ်ကသွားရာသို့ လိုက်ပါယင်း မိခင်ဖြစ်သူက စစ်တွေမြို့တွင် မွေးခဲ့ခြင်းကြောင့် စစ်တွေ ဟုနာမည်မှည့်သည်။ ဖခင်ဖြစ်သူ မသေမီက ငါ့သား ဇာတ်မင်းသား



စန္ဒရား ဦးဘအုန်း

လုပ်၍ အသက်မွေးမည်ဆိုလျှင် သုံးညတွင် တည မျောက်ဇာတ် ကရမည် ဟုပြောဆိုလျက် ကိုစစ်တွေ၏ ဦးခေါင်းတွင် မျောက်ခေါင်းကို စွပ်ပေးလိုက်သည် ဟုဆိုလေသည်။ ထိုသို့ မှာထားခဲ့သည့်အတိုင်း သုံးညဦ့ကလျှင် တညဦ့ မျောက်ဇာတ်ကပြလေ့ ရှိခြင်းကြောင့် “မျောက် — ကိုစစ်တွေ” ဟု ပင် တွင်ခဲ့လေသည်။ ဦးစစ်တွေသည် ခြေဆံလက်ဆံ သွယ်သည်။ ကိုယ်ဟန်ကိုယ်လက် သန့်ရှင်းသည်။ ကပြရာတွင် လက်ထား ခြေထား ယိုးဒယားဟန် ကျလွန်းသည် ဟုလည်း ဆိုလေသည်။

ဦးစစ်တွေကဲ့သို့ပင် မင်းသား ဆံ့နှစ်မျိုး ဦးဘရှင်သည်လည်း ဇာတ် ကတတ်သူ ဖြစ်၍၊ ဆရာမှန်းကြီးနှင့် မင်းသား ဦးဘချောတို့သည်လည်း အသံ မကောင်းကြသော်လည်း ဇာတ် ကတတ်သူများ ဖြစ်ကြသည်။ ထိုနည်းတူစွာ မင်းသား ရာပြတ် ခေါ် ဦးမောင်ကလေးသည် အသံလည်း မကောင်း၊ ဇာတ်မင်းသား ဆိုလောက်အောင် ရုပ်အဆင်း မရှိ၊ ထိုသို့ဖြစ်စေကာမူ ရုပ်ဆင်းလှသော မင်းသား၊ အသံကောင်းသော မင်းသား၊ အကကောင်းသော မင်းသားများနှင့် ဇာတ်လတ်ကလေးချင်း တန်းတူ ယှဉ်ပြိုင် ကပြကြလျှင် ရာပြတ် ဦးမောင်ကလေးက နိုင်သည်။ ပွဲကြည့် ပရိသတ်ကို ထိန်းနိုင်သည်။ ဇာတ်အိမ်ဇာတ်ကွက် ရေရေလည်လည် ဖြစ်အောင် ကပြတတ်ခြင်း၊ တနည်းဆိုရလျှင် ဇာတ်ကတတ်ခြင်းကြောင့် ထိုသို့ ထိန်းသိမ်းနိုင်ခြင်း ဖြစ်သည်။

ဦးဘိုးသာ ဆိုသော ဇာတ်မင်းသားသည် သုံးညခွဲကလျှင် တညခွဲ ကျေးဇာတ် ပါရသည်။ ကျေးယောင်ဆောင်၍ ပင်တိုင်နန်းသို့ သွားခန်းကို လူကြိုက်များ၏။ ကျေးခေါင်းဆောင်း၍ ကျေးတောင်ပံ ကျေးမြီးများ တပ်ဆင်ကာ ဝဲပုံ ပျံပုံ၊ စောင်းငဲ့ကြည့်ပုံ၊ နောက်ပြန်ကြည့်ပုံ၊ တောင်ပံခတ်ပုံ၊ တောင်ပံဆန့်ပုံတို့ကို ပရိသတ် နှစ်သက်ကြသဖြင့် ကျေးလုပ်ကောင်းသော ဦးဘိုးသာသည် ကျေး ဦးဘိုးသာ ဟုကျော်ကြားလေသည်။

ဇာတ်မင်းသား ဦးသင်းသည် မင်းသားလတ် အဖြစ် ကပြရာ ရေကန်တွင် ရေချိုး၍ ကျားဖြစ်သော ဇာတ်ကို လူကြိုက်များသည်။ ကျားအဝတ်အစားကို ဝတ်ဆင်၍ ကန်တက် ကန်ဆင်း၊ ခုန်လွှားပုံ၊ ရှေ့ကျွမ်းနောက်ကျွမ်း ထိုးပုံ၊ ကျား သန်းပုံ၊ ကျား လျက်ပုံ စသည်တို့မှာ ကျား၏အမူအရာ ပြည့်စုံ၍ ကျားသဏ္ဍာန်နှင့်လည်း တူလှလေသည်။ သာ၍ ကောင်းသည်မှာ ကျားကိုက်ခန်းတွင် ဖြစ်သည်။ လူကောင်ကို ချောင်းမြောင်းပုံ၊ ခုပ်ပုံ၊ အုပ်ပုံ၊ ကိုက်ပုံ ဟန်အမူအရာ ကောင်းမွန်သည့်အပြင်၊ လူကို ကိုက်ချီလျက် ဆွဲစားပုံ၊ ရှေ့ကျွမ်း နောက်ကျွမ်းပစ်ရာတွင် ပေါ့ပေါ့ရွရွ ကလေးဖြင့် နေရာတွင် သေဝပ်စွာ ပြန်ကျပုံတို့မှာ ကျားရေ ဗောင်းဗီ၊ ကျားရေအင်္ကျီ ဝတ်ဆင်ကာ ကျားခေါင်း ဆောင်းထား၍ သူ၏ဟန်ပန်ကို မြင်ရသဖြင့် တကယ့်ကျားဟုထင်မှတ်ဖွယ်ရာ ဖြစ်လေသည်။ ဦးသင်းသည် ဦးစွာ ပဋ္ဌမ ကျားလုပ်ရာတွင် သူမတူအောင် ကောင်းသည့်အတွက် ကျား ဦးသင်း ဟုနာမည်ရခဲ့လေသည်။

ဇာတ်မင်းသား ဦးဆင်သည် ရုပ်ဆင်းအင်္ဂါနှင့် ပြည့်စုံသည်။ ငယ်ရွယ်စဉ်က မင်းသားနု အဖြစ် ကပြခဲ့၍၊ ကြီးသောအခါ မင်းသားကြီး အဖြစ်နှင့် လုံ ဦးဆင် ဟုကျော်ကြားလေသည်။ နန်းထိုင် မင်းသားကြီး၊ အိမ်ရှေ့မင်းသား လုပ်၍ ရှေ့တော်တွင် ရာဇဝတ်သင့်သူကို ငေါက်ငမ်း ကြိမ်းမောင်းလျက် ဒေါသအလျောက် မချုပ်တီးနိုင်ဘဲ၊ ရုတ်တရက် လှံတော်ကို ကောက်၍ ထိုးလိုက်ရာ ပရိသတ်က 'ဟယ်' ဟုတုန်လှုပ်သွားရလေသည်။ အကြောင်းမှာ ရှေ့တော်တွင် လက်ရှက်လျက် ဝပ်၍ ခစားနေရာဌ လက်နှစ်ဖက်ကြားဝယ် လှံသွားကျခြင်း၊ ထိုင်၍နေခိုက်မှာ နားနှင့်ပခုံးစပ်ကြားသို့ လှံဝင်သွား၍ နောက်သို့ ထွက်ခြင်း၊ တခါတရံ နဖူးကို တည့်တည့်ထိုးရာ နဖူးပြင်နှင့် လှံဖျား မထိတထိ ဖြစ်သော်လည်း ခံရသူက အမယ်လေးဘုရား့ဟု ဆိုပြီးလျှင် သရုပ်တူအောင် နောက်သို့ ပက်လက်လှန်ချလိုက်ခြင်းတို့ကြောင့် ဖြစ်လေသည်။

ဇာတ်မင်းသား ဦးစိန်အုပ်သည် ရုပ်သေးမှ ဇာတ်သို့ ကူးပြောင်းလာသူ (ဝါ) အမြင့်မှ အနိမ့်သို့ ဆင်းလာသူ ဖြစ်သည်။ ဦးဘိုးကွန်း၊ ဦးညိုကြီး၊ ရွှေဝဏ်ဦးတင့်၊ ဦးစိန်ခို စသူတို့လည်း အမြင့်မှ အနိမ့်သို့ ဆင်းလာသူများ ဖြစ်ကြသည်။ ဦးစိန်အုပ်သည် မူလက ရုပ်သေးမင်းသား ဖြစ်၍ ထိုနောက်တွင် ယောကျ်ား ဇာတ်မင်းသမီး၊ဇာတ်မင်းသား၊ မင်းသားကြီး စသည်ဖြင့် သဘင်ပညာ မြှင့်တင်ပေးခဲ့သည်။ (စိန်အုပ်၊ ဦး — လည်းရှု။) ဦးစိန်အုပ်သည် မင်းသား သန့်သန့် ဖြစ်၍ အလွန်ကောင်းကြီး မဟုတ်ပေ။ သို့သော် ဦးဘိုးကွန်း ဒေါ်ထွေးလေး၊ အီနောင် ဦးစံတုတ်၊ လူကြမ်း ဦးကြွင်း စသော သဘင်ပညာတွင် စံတင်ရသူများနှင့် ကပြခဲ့ယင်း သဘင်ပညာ ပြည့်ဝခဲ့၏။ အီနောင် ဦးစံတုတ်၏ ယိုးဒယားဇာတ်ကြီး အတီး အက အဆိုတို့ကို အတော်ရမိလိုက်လေသည်။ အထူးသဖြင့် ဦးစံတုတ် ကပြပုံမျိုးကို ဦးစံတုတ်နောက် ဦးစိန်အုပ် တဦးသာ ကပြနိုင်ကြောင်း ပြောကြလေသည်။

ဦးစိန်ခို၏ အမည်ရင်းမှာ ဦးအောင်ခို ဖြစ်၏။ သဘင်ပညာ လုံးဝ မရှိသေးဘဲ အစိမ်းသက်သက် ဖြစ်သည့် ဦးအောင်ခိုကို မင်းသားတလက် အရေးတကြီးအလိုရှိနေသော နာမည်ကျော် ရုပ်သေးမင်းသမီးကြီး ဆရာပုက စက်ချုပ်



ဇီကွက် ဦးဖေသက်

စားနေရာမှ ခေါ်ယူ သွန်သင်ပြသပြီးလျှင် စိန်ခို ဟုအမည်မပြောင်း၍ မင်းသားအဖြစ် ကပြစေရာ နာမည် ကျော်ကြားလာသည်။ ဦးစိန်ခိုသည် သီချင်းဆိုရာတွင် အသံကောင်းပြီးလျှင် စကားပြောရာ၌ ညင်သာသည်။ ရုပ်လှသူလည်းဖြစ်၏။ ဦးစိန်ခိုသည် နောင်အခါ ရုပ်သေးမှ ထွက်၍ ဦးဘိုးစိန်၏ ဇာတ်ထဲတွင် ပါဝင် ကပြခဲ့ရာ၊ ဒုတိယမင်းသား အဖြစ်ကပြရသောကြောင့် အရည်အရောင် တိုးပြောင်း၍ မလာဘဲ တဆင့် အလျော့ခံရသည့်အဖြစ်သို့ပင် ရောက်သွားရသည် ဟုဆိုလေသည်။

ဦးစိန်အုပ်ကဲ့သို့ပင် ယိုးဒယား အတီး၊ အက၊ အဆိုတတ်ကျွမ်းသူမှာ ဇာတ်မင်းသား ဦးစံရှား ဖြစ်သည် ဟုဆိုသည်။ ထိုခေတ်က ဇာတ်မင်းသားများသည် တလ ၁၀၀ိ ရလျှင် အတော် အဆင့်အတန်း မြင့်သည် ဟုဆိုရလေရာ၊ ထိုစဉ်က ထိုသို့ တလ ၁၀၀ိ စားရသော ဇာတ်မင်းသားများမှာ ဦးဘိုးထင်၊ ဦးကြေးဖြူ၊ ဦးစံရှား၊ စပယ်တင် ဦးမှူး၊ ဦးကျော်ဇံ၊ ဦးကျော်ရန်၊ စန္ဒရားဦးဘအုန်း၊ ဟံမာရာ ဦးညွန့် စသည်တို့ ဖြစ်၏။ ထိုခေတ်က ဦးဘိုးကွန်း ဒေါ်ထွေးလေး၊ ဆရာမွန်း၊ ဦးစိန်ကတုံး၊ ဦးဘိုးစိန်၊ ဦးစစ်တွေ စသည့် ဇာတ်မင်းသားများသည် မိမိဇာတ်ကို မိမိ ထောင်ကြလေသည်။

ပဌမ ကမ္ဘာစစ်ကြီးခေတ်မှ စတင်၍ မြန်မာဇာတ်ပွဲများ တိုးတက်လာသည်။ ဇာတ်ထုပ်များကို ခင်းကျင်းရာ၌ ဒဏ္ဍာရီချည်းသာ မဟုတ်တော့ပေ။ ယခင်က ဂိုဏ်းမလွတ်မည် စိုး၍တကြောင်း၊ တာဝန်ကြီး၍ တကြောင်း ပကပြဘဲ ထားခဲ့သော နိပါတ်တော်များကိုပါ ခင်းကျင်း ပြသလာသည်။ ပြနည်း ပြကွက်များကိုလည်း တစထက်တစ အဆန်းထွင်လာကြသည်။ အိပ်မက်ခန်း၊ ညခင်းချိန်၊ ကောင်းကင်ပျံ၊ တောတောင် သမုဒ္ဒရာများကို ထိုးကား၊ ခေါက်ကား၊ မီးရောင် အမျိုးမျိုး ထိုးကာ ပြသလာကြသည်။

မြန်မာဇာတ်ပွဲ အခင်းအကျင်းကို နိုင်ငံခြားသားများပင် လေးစားလောက်အောင် ခမ်းခမ်းနားနား ရှိစေရန် အဆင့်အတန်း မြှင့်တင်ခဲ့သူများကား ဦးဘိုးစိန်နှင့် ဦးစိန်ကတုံး တို့ဖြစ်သည်။ (ဘိုးစိန်၊ ဦး — လည်းရှု။) သူတို့၏ ဇာတ်အဖွဲ့များကား မြန်မာဇာတ်ပွဲ လောကတွင် အထင်ရှားဆုံး အကြီးကျယ်ဆုံး ဖြစ်လေသည်။ ကိုယ်ပိုင် ရှက်ထည်ရုံ ခေတ်မီးစက်များသာမက ဇာတ်ကရိယာပစ္စည်းများဖြင့် ရေဝတီ မြစ်ရိုးတလျှောက်နှင့် မီးရထားလမ်း တလျှောက် မြို့ကြီးမြို့ငယ်တို့၌ လှည့်လည် ကပြခဲ့သည်။ ဦးဘိုးစိန်ကမူ ကိုယ်ပိုင် မီးသင်္ဘော၊ အထူးမီးရထားတို့ကိုပင် သုံးခဲ့လေသည်။ ဦးဘိုးစိန်နှင့် ဦးစိန်ကတုံးတို့သည် မြန်မာ့သဘင်ကို အကတွင်သာမက အပြတွင်လည်း တိုးတက်၍ အဆင့်အတန်းမြင့်အောင် ဆောင်ရွက်ခဲ့ကြလေသည်။





ဦးကြီးရွှေ (အပေါ်) ဦးကြီးငွေ (အောက်)



ဦးအောင်မောင်း



ဦးတက်ခေတ်စိန်



ဦးတောကျော်



ဦးရွှေကျိုးညို



ဦးအောင်ငြိမ်း

ဦးဘိုးစိန်ကား ထူးခြားသော သဘင်ပညာ ပါရမီရှင် တဦး ဖြစ်သည်။ ရုပ်ချော အသံကောင်းပြီးလျှင် အဆိုပိုင် အကနိုင်သူ ဖြစ်သည်။ ဇာတ်ခုံ အခင်းအကျင်း ခန့်ငြား ထယ်ဝါအောင် ထွင်ခဲ့သည်သာမက ဆိုဟန်ကဟန်များကို လည်း ဆန်းသစ် တီထွင်ခဲ့သည်။ မြန်မာ့သဘင်ပညာကို တိုးချဲ့ပေးခဲ့သည်။ ဦးဘိုးစိန်သည် မြန်မာသဘင်လောကဌ် ကာလရှည်ကြာစွာ ထွန်းလင်းတောက်ပခဲ့၍ မြန်မာ ဇာတ် သဘင်ကို တခေတ်ထွင်ခဲ့သူ ဟူ၍ ဆိုလောက်ပေသည်။

ဦးဘိုးစိန်နှင့် ခေတ်ပြိုင် ထင်ရှားကျော်ကြားခဲ့သော ဦးစိန်ကတုံးသည် သဘင်သက် ဦးဘိုးစိန်လောက် တာ မရှည်ခဲ့ပေ။ ပင်ကိုယ်က ခြေတံလက်တံ ရှည်သဖြင့် ခြေ ကပ်ကပ် လက်ကပ်ကပ် ကပြရာ တမူထူးခြားကာ၊ စိန်ကတုံး အက ဟူ၍ တဘာသာ စံပြုထားရသည်။ ယိုးဒယား ဟန် မပျက် အထိုင်အကျ ကောင်းသည်။ မင်းသားလတ် အက ကို အထူးသဖြင့် နိုင်နင်းသည်။ ဦးစိန်ကတုံး၏ ပဒုမာကြာ ဖူးထဲမှ ယိုးဒယား အက၊ မီးစလွယ်သိုင်း အကများကို ပရိ သတ်က အထူး နှစ်ခြိုက်စွဲလမ်းကြသည်။

ထိုခေတ်က ဦးဘိုးစိန်၊ ဦးစိန်ကတုံးတို့ကဲ့သို့ လျှမ်းလျှမ်း တောက် မပတ်သော်လည်း အထိုက်အလျောက် ကျော် ကြားခဲ့သောဇာတ်မင်းသားများမှာ ဟံမာရာဦးညွန့်၊စန္ဒရား ဦးဘအုန်း၊ဦးစိန်မျက်ခုံး၊ ဘာဂျာဦးဘအေး၊ ဦးစပယ်တင်၊ ဇီကွက် ဦးဖေသက်၊ ဆောင်တော်ကူး ဦးအေးဖေ၊ သရဲ ဦး အောင်စိန်၊အမယ်ကြီးအို ဦးအောင်စိန်၊ ဦးကတုံးရွှေ၊ ပသီ ဦးမြညွန့်၊ ဦးကျော်မြသောင်း၊ ဦးဘလှိုင်၊ ဦးကျော်မြဟန်၊ စာတော်ပြန် ဦးရွှေဗုဓ်၊ ဦးအောင်ငြိမ်း၊ ဦးအောင်မောင်း၊ ဦးချစ်စိန်၊ ဦးအောင်ဘညို၊ ဦးကြီးရွှေ၊ ဦးကြီးငွေ၊ ဦးရွှေ ကျီးညို၊ဦးတောကျော်၊ရတနာပုံ ဦးစိန်မြသွင်၊ဦးမြတလေး၊ ဦးရွှေဒေါင်းညို၊ ဦးတက်ခေတ်စိန်၊ ရွှေမန်း ဦးတင်မောင်၊ ဦးစိန်အောင်မင်း စသူတို့ဖြစ်လေသည်။ ဤသို့ ဇာတ်မင်း သား အများအပြား ပေါ်ထွက်ခဲ့ရာ ပမာအားဖြင့် ဦးချို ရှိသူက ဦးချိုကို အားကိုးသကဲ့သို့၎င်း၊ အစွယ်ရှိသူက အစွယ် ကို အားကိုးသကဲ့သို့၎င်း၊ လက်သည်းခြေသည်း ရှိသူက လက်သည်း ခြေသည်းကို အားကိုးသကဲ့သို့၎င်း နှစ်ပါးသွား တန်းလျှောက် အဆိုအက သန့်စွမ်းသူက အဆိုအကကို အားကိုး အားထားပြု၍ ကပြကြသည်။ သဘင် အခေါ် ရှေ့ပိုင်းကောင်းသည် ဟုဆိုသည်။ အမဲ့အရွဲ့ ရှုသံရှိက်သံ၊ ကရုဏာရသဖြစ်အောင် ငိုနိုင်သူက ထိုအစွမ်းကို အားပြု၍ ကပြကြသည်။ သဘင်အခေါ် နောက်ပိုင်းကောင်းသည် ဟု ဆို၏။ အပြောကောင်းသူကလည်း ငါပြောလျှင် ပရိသတ် စွဲရမည်ဟု အားပြု ကပြသည်။ ရုပ်ခွဲ နာမ်ခွဲ ကောင်းသူ ကလည်း ရုပ်ခွဲနာမ်ခွဲကိုအားပြု၍ ကပြကြသည်။ ထိုသို့ မိမိ နိုင်နင်း ကျွမ်းကျင်သော အခန်းကို အားပြု၍၊ တနည်းဆိုရ သော် တခုကောင်းပညာကို အားကိုးအားထားပြု၍ ကပြ သော ဇာတ်မင်းသားတို့လည်း များပြားလှလေသည်။

ဒုတိယကမ္ဘာစစ်ကြို ကာလတွင် ရွှေမန်း ဦးတင်မောင် နာမည် တရှိန်ထိုး မြင့်တက်လာသည်။ လက်ဝဲသုန္ဒရ ဇာတ် ထုပ်ကို ခင်းကျင်း ပြသရာဌ် အလွန် သဘာဝကျသည်။ ရှေ့ပိုင်းတွင် ဂီတအက ပြဇာတ်ဖြင့် သရုပ်ဖော်ထားသော ပြခန်း ပြကွက်ဆန်းများကို ခမ်းနားစွာ တင်ပြသည်။ ဆလိုက် မီးမောင်းကြီးများကို ခေတ်မှီစွာ သုံး၍ ခင်းကျင်း ပြသသည်။ ရွှေမန်းဦးတင်မောင်သည် အသံနှင့် အပြော ကောင်းခြင်း၊ အဝတ်အစားနှင့် အခင်းအကျင်းထယ်ဝါခန့် ငြား၍သဘာဝကျခြင်းတို့ကြောင့်နာမည်ကျော်ကြားသည်။

စစ်ပြီးခေတ်တွင် ရွှေမန်း ဦးတင်မောင်နှင့် ရိုးဆွဲလိုက် လာသူမှာ ဦးစိန်အောင်မင်း ဖြစ်သည်။ ဦးစိန်အောင်မင်း သည် ရုပ်ရည် သန့်ပြန့်သူ ဖြစ်၍ အပြော၊ အဆို၊ အငိုတို့တွင် ဦးဘိုးစိန်ကို စံပြုလေသည်။ နာမည်ကျော် ဂီတစာဆို နန်းတော်ရှေ့ ဆရာတင်၏ သား ရွှေနန်းတင်သည်လည်း စစ် ပြီးခေတ် မြန်မာဇာတ်သဘင်လောကတွင် ထင်ရှားသည်။

ဦးဘိုးစိန်၏သားများဖြစ်ကြသော ကနက်စိန်၊ စိန်ကြိုင် နှင့် တသက်စိန်တို့သည် ဖခင်ဖြစ်သူ၏ သဘင့်အစဉ်အလာ ကို ဆက်ခံကာ ဖခင်၏ သဘင်ပညာ မတိမ်ကောစေရန် စိန်မဟာသဘင်အဖွဲ့ကြီးကိုဆက်လက်ကပြနေကြလေသည်။

မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးသည့်နောက်တွင် ရန်ကုန်မြို့နှင့် မန္တလေးမြို့များ၌ ပန်တျာကျောင်းများ ဖွင့်လှစ်ကာ သင်ကြားပေးခဲ့ရာ အလားအလာ ရှိသော ဇာတ်မင်းသားများ ပေါ်ထွက်ခဲ့သည်။ ယင်းတို့အနက် ပန်တျာမြသိန်းနှင့် ပန်တျာ ကြည်လင်တို့မှာ ထင်ရှားလေသည်။

**မြန်မာ ဇာတ်သဘင်။** ။မြန်မာ နိုင်ငံတွင် ဆဲ့နှစ်လ ဆဲ့နှစ်ရာသီအတွက် အမျိုးသားပွဲတော် ဆဲ့နှစ်မျိုး ရှိသည်။ ရှေးခေတ်အခါက ဆဲ့နှစ်ရာသီပွဲတော်ကို မင်း မိဖုရား နှစ်ပါး အမှူးပြုလျက် ကျင်းပကြသည်။ (ဆဲ့နှစ်ရာသီပွဲတော်များ — လည်းရှု။) မြန်မာတိုင်းရင်းသားတို့သည် ကလေး ကင်ပွန်းတပ်ခြင်း ကဲ့သို့သော လူမှုရေးကိစ္စတို့၌ဎင်း၊ ရှင်ပြုခြင်း ကဲ့သို့သော အယူဝါဒရေးကိစ္စတို့၌ဎင်း သီဆိုတီးမှုတ် ကခုန်မှုကို ပြုမြဲဖြစ်လေသည်။ ယခုခေတ်တိုင်းရင်းသားတို့၏ သီဆိုတီးမှုတ် ကခုန်မှု သဘင်ပညာသည် မြန်မာနိုင်ငံတွင် လွန်ခဲ့သော နှစ်ပေါင်း ၁,၅၀၀ ခန့်မှစ၍ ဆင်းသက် ပေါက်ပွားလာသော ပညာ ဖြစ်သည်ဟု ဆိုသည်။

မြန်မာ တိုင်းရင်းသားတို့၏ ဘဝသည် ယခုတိုင်စပါးစိုက်ပျိုးခြင်းနှင့် ဆက်စပ်လျက် ရှိလေသည်။ စပါးစိုက်ပျိုးခြင်းကို အကြောင်းပြု၍ ကောက်စိုက်ချိန်၌ဎင်း၊ စပါးရိတ်သိမ်းချိန်၌ဎင်း ပျော်ပွဲ ရွှင်ပွဲများကို ကျင်းပကြပေမည်။ ဤနည်းအားဖြင့် မြန်မာတို့၏ သီဆိုတီးမှုတ် ကခုန်မှု သဘင်ပညာသည် စပါးစိုက်ပျိုးခြင်း၌ အမြစ်တွယ်၍ ထွန်းကားသည်ဟု ယူဆရလေသည်။

မြန်မာနိုင်ငံ၌ ဗုဒ္ဓသာသနာ မထွန်းကားမီ အခါက ရှေးမြန်မာတို့သည် နတ်များကို ကိုးကွယ်ကြသည်။ နတ်ကို ပူဇော်ပသကြရာ၌ သက်ဆိုင်ရာ နတ်အကြောင်း သီဆိုတီးမှုတ်ခြင်း၊ သက်ဆိုင်ရာ နတ်ဟန် နတ်အမူအရာတို့၏ သရုပ်ပြ အကအခုန်တို့ကို ကခုန်ခြင်းတို့သည် ရှိကြရပေမည်။ ဤနည်းအားဖြင့်လည်း မြန်မာတို့၏ သဘင်ပညာသည် ထွန်းကားလာသည် ဟုယူဆရလေသည်။

ထိုနောက် မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာတော် ရောက်ရှိလာရာ မြန်မာ တိုင်းရင်းသားတို့သည် ဗုဒ္ဓသာသနာတော်နှင့် ဆက်စပ်လျက်ရှိသော ပွဲတော်များကို ကျင်းပ ကြပေမည်။ ကဆုန် ညောင်ရေသွန်းခြင်း၊ သိတင်းကျွတ် မီးထွန်းပွဲကျင်းပခြင်း၊ ရှင်ပြုခြင်း၊ ဘုရားတည်ခြင်း၊ ဘုရားပွဲကျင်းပခြင်း စသည်တို့ကို ယခုတိုင် ပြုလုပ် ကျင်းပလျက် ရှိကြသည်။ ထို သာသနာရေးဆိုင်ရာ ကိစ္စတို့နှင့် သင့်တော်သော သီဆိုတီးမှုတ် ကခုန်မှုတို့သည်လည်း ရှိကြပေမည်။ ဤနည်း အားဖြင့်လည်း မြန်မာတို့၏ သဘင်ပညာသည် ထွန်းကားလာသည်ဟု ယူဆရလေသည်။

တဖန် မြန်မာနိုင်ငံ၌ ရှေးမင်းတို့သည် အနည်းဆုံး တနှစ်တကြိမ် လက်ဆောင်တော် ကန်တော့ပွဲ ကျင်းပတတ်ကြလေသည်။ ထိုသို့ မင်းများ ထွက်တော်မူသော မင်းခမ်းမင်းနား၌လည်း သက်ဆိုင်ရာ ခန့်ညားသော သီဆိုတီးမှုတ် ကခုန်ခြင်းတို့ကို ပြုကြပေမည်။ ဤနည်းအားဖြင့်လည်း မြန်မာတို့၏ သဘင်ပညာသည် ထွန်းကားလာသည်ဟုယူဆရလေသည်။

ထို့ကြောင့် မြန်မာတို့၏ သဘင်ပညာသည် အထက်က ဆိုခဲ့သော အကြောင်း လေးရပ်တွင် အခြေစိုက်၍ ခေတ်အလျောက် ကြီးပွားတိုးတက်လာခဲ့ရာ မျက်မှောက်ခေတ် အခြေအနေအထိ ခေတ် အပိုင်းအခြားဖြင့် လေ့လာရသော်



ဦးဘိုးစိန် နှစ်ပါးသွား ကဟန်

သထုံခေတ်၊ သရေခေတ္တရာခေတ်၊ ပုဂံခေတ်၊ အင်းဝခေတ်၊ ကုန်းဘောင်ခေတ်၊ နှောင်းခေတ် ဟူ၍ ခေတ်ခြောက်ခု ပိုင်းခြား လေ့လာနိုင်ပေသည်။

**သထုံခေတ်** (ငါးရာစုနှစ်မှ ၁၁ ရာစုနှစ်အထိ)။ ။မြန်မာ သဘင်ပညာသည် ငါးရာစုနှစ်မှ စ၍ မြန်မာနိုင်ငံ အောက်ပိုင်းတွင် သထုံမြို့၊ ပဲခူးမြို့ ဖြစ်သော မွန်တို့၏ ဒေသ၌ရှင်း၊ မြန်မာနိုင်ငံ အလယ်ပိုင်းတွင် သရေခေတ္တရာမြို့ ဖြစ်သော ပျူတို့၏ ဒေသ၌ရှင်း ထွန်းကားခဲ့လေသည်။ ထိုခေတ်တွင် ဗုဒ္ဓသာသနာတော်နှင့်တကွ ရှေးအိန္ဒိယယဉ်ကျေးမှုတို့သည် ထိုမြို့များသို့ ရောက်ရှိကြပြီး ဖြစ်လေသည်။

သထုံမြို့၊ ပဲခူးမြို့ ပတ်လည်တဝိုက်၌ ကမ္ပည်း ကျောက်စာဌာနမှ တူးဖော်ရရှိသော စဉ့်ကွင်းတို့တွင် သီဆိုတီးမှုတ် ကခုန်ဟန် အမူအရာတို့ကို အထင်အရှား မြင်နိုင်သည်။ များသော အားဖြင့် ငြင်းမှုတ်သူ၊ စည်တီးသူ၊ စည်းဆုပ်တီးသူတို့၏ အမူအရာများကို မြင်နိုင်သည်။ ယခုခေတ် ဒိုးပတ်အတီးအက အမူအရာများကို တွေ့ရသောကြောင့် ထိုအခါက ပွဲလမ်းသဘင်တို့၌ အရုပ်သူ အရုပ်သားများ လှည့်လည်သီဆို ကခုန်သော အလေ့ ထွန်းကားခဲ့ပြီဟု ယူဆနိုင်လေသည်။

ထိုခေတ်လောက်တွင် အိန္ဒိယတိုင်းသား ကုန်သည်များသည် သင်္ဘောဆိပ်မြို့များ ဖြစ်ကြသော သထုံ၊ ပဲခူး၊ သံလျင်တို့သို့ ရောက်ကြသဖြင့် ရာမာယဏဇာတ်ကို မိမိတို့နှင့်တပါတည်း ယူဆောင်ခဲ့မည်ဟု ခန့်မှန်း ရသည်။ အဘယ်ကြောင့်ဆိုသော် ပဲခူး၊သံလျင်တဝိုက်တွင် တူးဖော်ရရှိသော စဉ့်ကွင်းများ၌ ဘီလူးကပ်ချီဟန် အရုပ်များကို တွေ့ရှိရသည်။ ထိုအရုပ်များသည် ရာမမင်း၏ ဟနုမန်စစ်တပ်နှင့် ဒသဂီရိဘီလူးတပ် စစ်ထိုးဟန်ဖြစ်မည် ဟုယူဆရလေသည်။

**သရေခေတ္တရာခေတ်** (ငါးရာစုနှစ်မှ ကိုးရာစုနှစ်အထိ)။ ။ ရှစ်ရာစုခေတ်တွင် ပျူယဉ်ကျေးမှု အဖွဲ့တခုသည် တရုပ်နိုင်ငံ၏ နေပြည်တော်သို့ ရောက်ခဲ့ကြောင်း ရေးမှတ်ထားသော တရုပ်မှတ်တမ်းများရှိသည်။ ထိုမှတ်တမ်းများ အရ ပျူတို့၏ တီးမှုတ်မျိုးတို့မှာ ကြေးဖြင့် ပြုလုပ်သော တူရိယာမျိုး၊ ခရုသင်း စသော အရာဝတ္ထုဖြင့် ပြုလုပ်သော တူရိယာမျိုး၊ ကြိုးတပ် တူရိယာမျိုး၊ ဝါးဖြင့်ပြုလုပ်သော တူရိယာမျိုး၊ သားရေဖြင့် ပြုလုပ်သော တူရိယာမျိုး၊ ဆင်စွယ်ဖြင့် ပြုလုပ်သော တူရိယာမျိုး၊ ဗူးသီးဖြင့် ပြုလုပ်သော တူရိယာမျိုး၊ ဦးချိုစသော တူရိယာမျိုးတို့ ဖြစ်ကြလေသည်။ (ပျူလူမျိုး — လည်းရှု။)

အကအခုန် ဖက်၌လည်း နှစ်ယောက်တွဲ အက၊ လေးယောက်တွဲ အက၊ ခြောက်ယောက်တွဲ အက၊ ရှစ်ယောက်တွဲ အက၊ ဆယ်ယောက်တွဲ အက စသည်ဖြင့် အကမျိုး စုံလေသည်။ ကခြေသည်များကလည်း ပန်းနုရောင် ခါးဝတ်၊ ပန်းနုရောင် တပက်၊ ကျောက်စီ လက်ကောက်၊ လက်ကြပ်တို့ကို ဆင်ယင်၍ ရွှေမကိုဋ်၊ ရွှေစည်းပုံတို့ကို ဆောင်းကြသည်။ ကပုံမှာ ခရုသင်းကို မှုတ်လိုက်သောအခါ ဦးခေါင်းတို့ကို တညီ တညာတည်း ဘယ်ညာ ယိမ်းနွဲ့လျက်ရှင်း၊ မောင်းကို တီးလိုက်သောအခါ ခြေလက်တို့ကို တပြိုင်တည်း မြှောက်ချီလျက်ရှင်း ကကြသည်ဟု ဆိုသည်။ သီဆိုသော သီချင်းတဆဲ့နှစ်မျိုး ရှိကြောင်းလည်း မှတ်တမ်း၌ပါရှိသည်။

ထို ပျူ အတီးအမှုတ်မျိုး၊ ပျူ အကမျိုး၊ ပျူသီချင်းမျိုးတို့ကို ထောက်ခြင်းအားဖြင့် ထိုအခါက မြန်မာနိုင်ငံ၏ သဘင်ပညာသည် အဆင့်အတန်း မြင့်နေကြောင်း သိသာလေသည်။ အထူးသဖြင့် ယိမ်းဟန် အကမျိုးသည်ရှင်း၊ နန်းတွင်း အငြိမ့်အဆိုမျိုး ဖြစ်သော ကြိုးကြီး၊ ဘွဲ့ကြီးများသည်ရှင်း ထွန်းကားနေကြောင်း သိသာလေသည်။

**ပုဂံခေတ်** (ကိုးရာစုနှစ်မှ ၁၃ ရာစုနှစ်အထိ)။ ။၁၁ ရာစုနှစ်ခန့်တွင် သထုံနှင့် သရေခေတ္တရာတို့သည် ညှိုးမှိန်၍ပုဂံမြို့ ထွန်းကား လာလေသည်။ အနော်ရထာမင်းစောသည် ပုဂံမြို့ကို အခြေပြုကာ သထုံ၊ သရေခေတ္တရာတို့ကို မိမိ၏ နိုင်ငံတော်နှင့် ပေါင်းရုံး စုစည်း၍ ပုဂံခေတ် မြန်မာနိုင်ငံတော်ကို တည်ထောင် လေသည်။ မင်းကြီးသည် နတ်ကိုးကွယ်ခြင်း၊ နဂါးကိုးကွယ်ခြင်းတို့ကို နှိပ်ကွပ်၍ ထေရဝါဒ ဗုဒ္ဓ သာသနာ ထွန်းကားလာအောင် ဆောင်ရွက် ပြုစုရာ အောင်မြင်လေသည်။ ထိုအခါ သထုံရှိ ယဉ်ကျေးမှု၊ သရေခေတ္တရာရှိ ယဉ်ကျေးမှုတို့သည် ပုဂံသို့ ရောက်ရှိလာသဖြင့် မွန်တူရိယာ၊ မွန် သီချင်း၊ မွန်အကနှင့် ပျူတူရိယာ၊ ပျူသီချင်း၊ပျူယိမ်းအကတို့သည်လည်းပုဂံ၌ထွန်းကားလာသည်။

အနော်ရထာမင်း လွန်တော်မူပြီးနောက် ကျန်စစ်သားမင်းကြီး ထီးနန်းအသစ် တည်ဆောက်တော် မူသောအခါ နန်းတည် အခမ်းအနား၌ ပျူနှင့် မွန်တို့၏ အတီးအမှုတ် အကအခုန်များ ပါသည်ဟု မင်းကြီး၏နန်းတည် ကျောက်စာ၌ အတိအလင်း ရေးမှတ်ခဲ့လေသည်။ ပျူ၊ မွန်၊ မြန်မာ တို့သည် ဓလေ့ထုံးစံနှင့် ပညာတို့ကို တဦးထံမှ တဦး သင်ယူ လက်ခံပြီးလျှင် ကာလ ကြာမြင့်သော် ထိုလူမျိုး သုံးမျိုး တို့၏ ဓလေ့ထုံးစံနှင့် ပညာတို့သည် ရောနှောပေါင်းစပ်လာကာ ပုဂံခေတ်ယဉ်ကျေးမှု ဟူ၍ တသီးတခြား ပေါ်ပေါက် လာသည် ဟုဆိုနိုင်လေသည်။

ပုဂံခေတ်တွင် ဗုဒ္ဓသာသနာတော် ထွန်းတောက်သည်နှင့် အမျှ ကူ ဘုရား တန်ဆောင်း အမြောက်အမြား တည်ကြလေသည်။ ထိုကူဘုရားများအား လယ်မြေ ပစ္စည်းတို့ကိုလည်း လှူဒါန်းကြောင်း ကျောက်စာများ၌ ပါရှိသည်။ ထိုကျောက်စာများ၌ စည်သည်၊ ပသာသည်၊ ခွက်ခွင်းသည်၊ ပန်တျာ၊ ကခြေသဘင် ဟူသော ဝေါဟာရများကို တွေ့ရသည်။ ထိုအချက်ကို ထောက်၍ ထိုအခါက ဘုရား



ဇာတ်ထုပ်မကမီ ရှေ့ပိုင်းတွင် ဖျော်ဖြေလေ့ရှိသော ယိမ်းအမျိုးမျိုးအနက် နှစ်ပါးသွား ယိမ်း၏ ကဟန်

ပုထိုး ပူဇော်ပွဲများ၌ ထိုတူရိယာမျိုးတို့ကို တီးမှုတ်လျက် ကပွဲ ခုန်ပွဲများဖြင့် ပူဇော်ခဲ့ကြမည် ဟု ယူဆနိုင်သည်။ ဤကဲ့သို့ ပူဇော်သော အလေ့သည် ယခုခေတ်တိုင်အောင် သီဟိုဠ်၌ ရှိသည်။ ပုဂံခေတ်တွင် ပုဂံနှင့် သီဟိုဠ်တို့ ဆက်ဆံမှု ရှိခဲ့ရာ ပုဂံခေတ် အကမျိုးသည် သီဟိုဠ်အကမျိုး ဖြစ်သည် ဟု ယူဆနိုင်သည်။

တဖန် ပုဂံမြို့ အာနန္ဒာဘုရားတွင် ဗုဒ္ဓဝင် အခန်းခန်းတို့ကို ဖော်ပြထားသော ပန်းတမော့ ကျောက်ပုံ တချို့၌ ကခုန်နေဟန် အမူအရာများကို မြင်နိုင်သည်။ ကူဘုရား နံရံများ ရှိ အချို့သော ရှေးပန်းချီကားများ၌လည်း ဒိုးပတ် အတီး အကမျိုး တီးဟန် ကဟန်တို့ကိုငှင်း၊ ယခုအခါ ယိုးဒယား အက ဟုခေါ် နေကြသော ကဟန်ကိုငှင်း မြင်နိုင်သည်။ ၁၆ ရာစုခေတ်သို့ ရောက်ခါမှ မြန်မာတို့က ယိုးဒယားကို အောင်ပြီးလျှင် အနုပညာသည်များကို ခေါ်ဆောင် ခဲ့ကြသည်။ ထိုပြင် ပုဂံခေတ်သည် ယိုးဒယားနိုင်ငံ တည်သည့်ခေတ်ထက် စောသည် ဖြစ်ခြင်းကြောင့် ယိုးဒယားအကဟု ယခုအခါ ခေါ်ဆိုလျက် ရှိသော မြန်မာကဟန် အချို့တို့သည် ရှေးရိုး မြန်မာအက အစစ်ဖြစ်သည် ဟုဆိုထိုက်လေသည်။

အင်းဝမင်း ဖြစ်သော အနောက်ဖက်လွန်မင်း လက်ထက်က ပုဂံမြို့ ဓမ္မရာဇိက ဘုရားပွဲတော် ကျင်းပသည့်အကြောင်း ဖွဲ့ဆိုရေးသားခဲ့သော လင်္ကာ အလိုအရ ဘုရားဖူးများအနက် လုံမပျိုတို့သည် သာယာစွာ သီဆို၍ စောင်း၊ ငြင်း၊ မိကျောင်း၊ စည်းဆုပ်၊ လက်ခုပ် တီးလာကြကြောင်း၊ လုလင်ပျိုတို့ကလည်း ပုံမောင်း၊ ပြွေ၊ နှဲ တီးမှုတ်လာကြကြောင်း သိသာလေသည်။ ထိုကြောင့် ပုဂံမင်းများလက်ထက်ကလည်း ဓမ္မရာဇိကဘုရားပွဲ၌ ထိုအတိုင်း သီဆိုတီးမှုတ် ကခုန်ကြသည် ဟု ယူဆနိုင်လေသည်။

အင်းဝခေတ်တွင် တောကျေးလက်များ၌ နတ်ပွဲများ ကျင်းပကြောင်း၊ ထိုနတ်ပွဲများတွင် ငြင်းမှုတ်ခြင်း၊ စည်းဆုပ်တီးခြင်း၊ နတ်အကမျိုး ကခြင်းတို့ ရှိကြောင်း ရာဇဝင်၌ ဆိုထားလေသည်။ ပုဂံခေတ်၌ ကျင်းပသော နတ်ပွဲများတွင်လည်း ထိုအမူအရာ အတိုင်းပင် ဖြစ်မည်ဟု ဆိုနိုင်လေသည်။

ဤသို့ဖြင့် ပျူ သဘင်ပညာ၊ မွန် သဘင်ပညာ၊ မြန်မာ သဘင်ပညာ တို့သည် ပုဂံခေတ်တွင် ရောနှော ပေါင်းစပ်ကာ ပုဂံခေတ် သဘင်ပညာ ဟူ၍ တသီးတခြား ဖြစ်ပေါ်လာဟန် တူလေသည်။ ထို သဘင်ပညာသည် ပုဂံထီးနန်း၌ငှင်း၊ တဆဲ့နှစ်ရာသီ ဘုရားပွဲများ၌ငှင်း၊ တောကျေးလက် နတ်ပွဲနှင့် စိုက်ခင်း ပျိုးခင်းများ၌ငှင်း ထွန်းကားလျက်ရှိမည် ဖြစ်လေသည်။

**အင်းဝခေတ်** (၁၄ ရာစုနှစ်မှ ၁၈ ရာစုနှစ်အထိ)။ ။ ပုဂံနိုင်ငံတော်ကြီးသည် ၁၃ ရာစုခေတ်တွင် မွန်ဂိုစစ်ဘုရင် ကူဗလိုင်ခန်၏ ရန်ကြောင့် ပျက်စီးရလေသည်။ ပုဂံ ပျက်၍ မြင်စိုင်း၊ စစ်ကိုင်း၊ ပင်းယ၊ အင်းဝမြို့များ ထွန်းကားလာသည်။ ထိုခေတ်တွင် ပုဂံသဘင်ပညာ၌ ရှမ်းသဘင်ပညာ ရောစပ်လာလျက် အင်းဝ သဘင်ပညာ ဟူ၍ တသီးတခြား ဖြစ်ပေါ်လာသည် ဟုဆိုနိုင်သည်။ အင်းဝခေတ်သည် ၁၄ ရာစုနှစ်ခန့်မှ ၁၈ ရာစုနှစ်အထိ နှစ်ပေါင်းငါးရာကျော်မျှရှည်သည်။ ဤခေတ်တွင် မြန်မာတို့၏ စာပေအရေးအသား အနုနန်း အဖွဲ့ တိုးတက်၍ ကဗျာလင်္ကာ ထွန်းကားသည်။ တဖန် ထိုအင်းဝခေတ်တွင် ဟံသာဝတီ ဆင်ဖြူရှင် ဘုရင့်နောင် ကျော်ထင်နော်ရထာသည် ယိုးဒယားကို အောင်တော်မူ၍ ယိုးဒယားမှ သဘင်သည်များကို ဟံသာဝတီသို့ ယူဆောင်ခဲ့လေသည်။ ဤနည်းဖြင့်ယိုးဒယားသဘင်ပညာသည်လည်းမြန်မာနိုင်ငံသို့ရောက်ရှိလာသည်ဟုဆိုနိုင်သည်။

အင်းဝခေတ်မှာ မြန်မာစာပေသမိုင်းတွင် မော်ကွန်းထိုးရမည့် စာပေများပေါ် ထွန်းခဲ့လေသည်။ နဝဒေး၊ နတ်သျှင်နောင်၊ ဝန်ကြီးပဒေသရာဇာတို့သည် ထင်ရှားသော စာပေပညာကျော်များဖြစ်သည်။ နဝဒေးနှင့် နတ်သျှင်နောင်တို့သည် ရတုများကို ရေးခဲ့၍ ဝန်ကြီး ပဒေသရာဇာသည်

ကြိုးသီချင်း၊ သီချင်းခံ၊ တျာချင်း၊ နတ်သံ၊ အဲချင်း၊ နတ်ယိုင်သံနှင့် မဏိကက်ဇာတ်တို့ကို ရေးခဲ့လေသည်။ ရတု၊ ကြိုးသီချင်း၊ သီချင်းခံ စသည်တို့ကို မင်းခမ်း မင်းနားဌှင်း၊ နန်းတွင်း အငြိမ့်များဌှင်း သီဆို တီးမှုတ် ကခုန်ဖွယ်ရာ ရှိလေသည်။ ထိုပြင် မဏိကက် နန်းတွင်း ဇာတ်ကြီးကို နန်းတွင်း ပွဲကြည့်ဆောင်တွင် တခမ်းတနား ကပြနိုင်သည်ကို ထောက်ခြင်းအားဖြင့် မြေဝိုင်းဇာတ် ခင်းကျင်း ပြသခြင်းသည် ထိုနန်းတွင်းဇာတ် မတိုင်မီကပင် ရှိခဲ့ပြီ ဟုယူဆနိုင်လေသည်။ ထင်ရှားသော အငြိမ့်တူရိယာများမှာ စောင်း၊ ငြင်း၊ နှဲ၊ ပတ်တို့ဖြစ်သည်။ အင်းဝမင်း ဖြစ်သော အနောက်ဖက်လွန်မင်းသည် တောင်ငူကို အောင်တော်မူသော အခါ တောင်ငူမင်း နတ်သျှင်နောင်ထံမှ စောင်းတတ်သူ၊ ငြင်းတတ်သူ၊ နှဲတတ်သူ၊ ပတ် တတ်သူတို့ကို အင်းဝသို့ ခေါ်ဆောင်ခဲ့လေသည်။

အင်းဝခေတ်၌ ပတ်ဆိုင်း၊ ကြေးဝိုင်း၊ ပတ္တလား တူရိယာမျိုးတို့ကို အသုံး ပြုလာပြီ ဖြစ်ကြောင်း သိရသည်။ ဝန်ကြီးပဒေသရာဇာ လက်ထက်မှစ၍ သီဆို တီးမှုတ်ကြသော ၃၇ မင်း နတ်သံ အဲချင်းများနှင့် နတ်ပွဲများ ခင်းကျင်းပုံကို ဘိုးတော်ဘုရား လက်ထက်၌ မှတ်တမ်း တင်ထားကြသည်တွင် သက်ဆိုင်ရာ နတ်နှင့် ဆီလျော်အောင် ပတ်ဝန်း၊ ကြေးနှဲတို့ကို တီးမှုတ်ပေးရကြောင်း ပါရှိလေသည်။ တောင်ငူနတ်သျှင်နောင်၏ ထီးနန်းတွင် ထိုအခါက စောင်း၊ ငြင်း၊ နှဲ၊ ပတ်သာတို့ကိုသာ အသုံး ပြုနေစဉ်၊ ရခိုင်ဖက်၌ကား ပတ္တလားကိုပါ အသုံး ပြုနေကြောင်း သိရသည်။

အင်းဝခေတ်၌ အကပညာလည်း တိုးတက်သည်ဟု ဆိုနိုင်လေသည်။ မဏိကက် ကဲ့သို့သော နန်းတွင်း ဇာတ်ကို ခင်းကျင်းရာ၌ငှင်း၊ ၃၇ မင်း နတ်ပွဲတို့ကို ကရာ၌ငှင်း ကကြိုးကပန် အစုံအလင်ရှိရမည် ဖြစ်၍ အကပညာဖက်၌လည်း တိုးတက်ပြည့်စုံလျက် ရှိမည် ဟုယူဆရလေသည်။

**ကုန်းဘောင်ခေတ်** (၁၈ ရာစုနှစ်မှ ၁၉ ရာစုနှစ် အထိ)။ ။ ကုန်းဘောင်ခေတ်သည် အလောင်း မင်းတရားကြီးမှ သီပေါမင်းအထိ နှစ်ပေါင်း ၁၀၀ ကျော် ကြာမြင့်သော ခေတ် ဖြစ်သည်။ ထိုခေတ်တွင် မြန်မာ့ သဘင်ပညာသည် အထူး စည်ကား တိုးပွားလာလေသည်။ ထိုခေတ်တွင် တိုင်းတပါး သဘင်ပညာတို့ မြန်မာ့ထီးနန်းသို့ ရောက်လာ၍ ထိုပညာတို့ကို မြန်မာပညာရှိများ လေ့လာ ကြသည်။ မင်းတို့သည် သဘင်ပညာကို အားပေးသည်။ တီထွင် ကြံစည်တတ်သော ပညာရှိ အများအပြား ပေါ်ပေါက်သည်။ တိုင်းရင်းသား သဘင်ပညာချင်း ဖလှယ်ကြသည်။

၁၇၆၇ ခုနှစ်တွင် အလောင်း မင်းတရားကြီး၏ သားတော် ဆင်ဖြူရှင် မင်းတရားကြီးသည် ဇင်းမယ်၊ လင်းဇင်း၊ အယုဒ္ဓယတို့ကို အောင်တော်မူရာ ယိုးဒယား သဘင်ပညာ



ရတနာဂီရိစံ သီပေါမင်း ရွှေတော်၌ စိန်ဗေဒါနှင့် အဖွဲ့သားများ ကပြအသုံးတော်ခံစဉ်

သည်များသည်၎င်း၊ ဂျွမ်းပြည်၊ ယွန်းပြည်တို့မှ အရပ်ရပ် ဒဏ္ဍာရီ ပုံပြင်များသည်၎င်း အင်းဝသို့ ပါလာသည်ဟု ဆိုလေသည်။

ထိုခေတ်၌ တရုပ်နိုင်ငံမှ သံ တို့ ရောက်ရှိ၍ တရုပ် ဂီတသံကို မြန်မာတို့ ကြားကြ ရသည်။ မြန်မာ အမြောက်တပ်တွင် ဗရင်ဂျီတို့ ဝင်ရောက် အမှုထမ်း၍ နေပြည်တော် ရပ်ကွက် တခုခု၌ တစုတဝန်း နေထိုင်ကြလေသည်။ ဗရင်ဂျီ ဘုရားရှိခိုးကျောင်းကို ဆောက်လုပ်ကိုးကွယ်ကြသည်။ ထိုအခါ ဘုရားရှိခိုးကျောင်း၌ သီဆိုသော ဓမ္မသီချင်းသံများကို မြန်မာတို့ ကြားကြရသည်။ မြင်းတပ်သား မဏိပူရ ကသည်း လူမျိုးတို့၏ ဂီတသံကိုလည်း ကြားကြရသည်။ တခါတရံ ကသည်းတို့ ရာမာယဏ ဇာတ် ခင်းသည်ကိုပင် မြင်ကြရမည် ဖြစ်လေသည်။

ထိုစဉ်က အင်းဝ နေပြည်တော်တွင် တရုပ်များ နေထိုင်လျက်ရှိရာ တရုပ် ပွဲလမ်းသဘင် အခါများ၌ လက်လျှိုကပြရသော တရုပ် ရုပ်သေးပွဲများကို မြန်မာတို့ မြင်ကြရမည်ဖြစ်သည်။ ဘကြီးတော်ဘုရား လက်ထက်၌ မြဝတီဝန်ကြီး ဦးစနှင့် သဘင်ဝန် ဦးသော်တို့က ထိုလက်လျှို တရုပ် ရုပ်သေး သဘောကိုယူ၍ မြန်မာ ကြိုးဆွဲ ရုပ်သေးသဘင်ကို ကြံစည် တီထွင်ကြသည် ဟု အမှတ်အသား ရှိလေသည်။ ရုပ်သေး ပေါ်လာခြင်းသည် မြန်မာသဘင်ပညာ သမိုင်းတွင် အထူး တိုးတက်ချက်တခု ဖြစ်ပေသည်။ ဇာတ်သဘင် ရုပ်သေးသဘင် တိုးတက်လာသောကြောင့် ခင်းကျင်းပြသရန်အတွက် ဦးကြင်ဥ၊ ဦးပုညတို့က ပြဇာတ်များကို ပြုစုရေးသား ခဲ့ကြလေသည်။

မြန်မာ့သဘင်ကိုအားပေးသော မင်းနှစ်ပါးမှာ ဘိုးတော်မင်းတရားကြီး၏ သားတော် အိမ်ရှေ့မင်းနှင့် ဘကြီးတော်ဘုရားတို့ ဖြစ်သည်။ အိမ်ရှေ့မင်းသည် ဂျွမ်းပြည်၊ ယွန်းပြည်တို့မှ ပါလာသော အီနောင်၊ ရာမ၊ သခ်ပတ္တာ၊ ကေသာသီရိ ဒဏ္ဍာရီ ဇာတ်များကို မြန်မာပြန်ဆိုစေပြီးနောက် မြန်မာတို့နှင့် သင့်လျော်သော ဇာတ်ကွက်ဇာတ်လမ်းများ၊ ကဗျာ လင်္ကာ ဇာတ်ချင်းများကို ရေးစပ် ဖွဲ့ဆိုစေသည်။ ထိုသို့ ရေးသား ပြုစုကြရာတွင် မိဖုရား (ဟောင်း) သခင် မင်းမိ၊ ပြင်စည်မင်းသား၊ မြဝတီမင်းကြီး ဦးစ၊ ရာမရကန် ဦးတိုး စသော ပညာရှိများ ပါဝင်ကြသည်။

ဘကြီးတော် ဘုရားသည်လည်း ခမည်းတော် အိမ်ရှေ့မင်းကဲ့သို့ပင် မြန်မာသဘင်ပညာကို အားပေးတော်မူသည်။ ခမည်းတော် အိမ်ရှေ့မင်း လက်ထက်က မပြီးမပြတ် ရှိနေသေးသော အီနောင် နန်းတွင်းဇာတ်ကို မြဝတီဝန်ကြီး ဦးစအား အပြီးတိုင် ဆက်လက် ရေးသားစေသည်။ ထိုမင်းလက်ထက်တွင် မင်း၏ ဆန္ဒအရ ရုပ်သေးသဘင် ပေါ်လာရသည် ဟုဆိုသည်။ (ရုပ်သေး — လည်းရှု။)

ကုန်းဘောင် ခေတ်တွင် သဘင်ပညာ၌ တီထွင်ကြံစည်မှုများစွာ ပေါ်ပေါက်ခဲ့လေသည်။ အကမျိုးတွင် စာမရီပွဲ၊ ကိန္နရာဖိုမ ကပွဲ၊ အငြိမ့် မိန်းမတို့ လွဲရိုက်ကပွဲ၊ မျက်လှည့်ပွဲ အစရှိသည်တို့ ထွန်းကားလျက် ရှိလေသည်။ ဂီတအဆိုနှင့် အတီးအမှုတ်ဖက်တွင်လည်း အထူးသဖြင့် မြဝတီဝန်ကြီး ဦးစ၊ ပြင်စည်မင်းသား၊ လှိုင်ထိပ်ခေါင်တင် မင်းသမီးတို့ သည် ထင်ရှားလေသည်။

ထိုခေတ်၌ပင် စည်တော်သံ အတီးအက၊ ပုံကြီးသံ အတီးအက၊ အိုးစည်သံ အတီးအက၊ ဒိုးပတ်သံ အတီးအက၊ ဗြောသံ အတီးအကတို့ ပေါ်ပေါက်လာလေသည်။ ထိုနောက် လေ့တော်သံ အတီးအမှုတ်၊ ဗျိုင်းတောင် အတီးအမှုတ်တို့လည်း ပေါ်ပေါက် လာလေသည်။ ပုံကြီး၊ အိုးစည်၊ ဒိုးပတ်၊ ဗြော အတီးအကတို့သည် ကုန်းဘောင်ခေတ် ဦးတွင် တောင်သူလယ်သမားတို့၏ ဘဝနှင့် ဆက်စပ် ဖြစ်ပေါ်လာသော အတီးအကများ ဖြစ်တန်ရာသော်လည်း နောင်အခါ၌ ထိုအတီးအကတို့သည် ထီးသုံး နန်းသုံး ဖြစ်လာလေသည်။

ထို့ပြင် သာယာဝတီမင်း လက်ထက်၌ ထားဝယ်ဖက်မှ ဒိန်းသံ သီချင်း၊ မွန်သံ မြန်မာသီချင်း၊ ကရင် ဩသံ မြန်မာ သီချင်းများ ပေါ်လာကြလေသည်။ ပြင်စည် မင်းသားကြီးသည် မွန်သံ မြန်မာသီချင်းများကို ဖွဲ့ဆို၍ ရွှေနားတော် သွင်းခဲ့လေသည်။ ဤသို့လျှင် မြန်မာ သဘင်ပညာသည် ကုန်းဘောင်ခေတ်တွင် အထူး စည်ကား တိုးပွား လာလေသည်။ (မွန်သီချင်း — လည်းရှု။)

**နှောင်းခေတ်**။ ။နှောင်းခေတ် ဆိုသည်မှာ သီပေါမင်း လက်ထက်မှ စတင် ဖြစ်ထွန်းလာသော ခေတ်ကို ဆိုလိုသည်။ ထိုခေတ်ကို ပဌမပိုင်းနှင့် ဒုတိယပိုင်း ဟူ၍ နှစ်ပိုင်း ခွဲ၍ လေ့လာသင့်လေသည်။ ထိုခေတ် ပဌမပိုင်း၌ ဇာတ်သဘင်၊ ရုပ်သေးသဘင်တို့ ဇာတ်ခင်းကျင်းပုံ ဆန်းသစ်လာသည်ဟု ဆိုနိုင်သည်။ ရှေးအခါက နန်းတွင်းဇာတ်များနှင့် ပြဇာတ်များကို ဖတ်ရှု ထောက်ချင့်ခြင်းအားဖြင့် ကပြရာတွင် ညဥ့်ဦးယံခန်း ပြီးလျှင် ဇာတ်လမ်း ဖော်၍ ကပြကြကြောင်း သိသာသည်။ ယခုတွင်မူ ညဥ့်ဦးယံခန်း ပြီးလျှင် နှစ်ပါးသွားခန်းကို ထည့်လာကြသည် ဟုဆိုသည်။ နှစ်ပါးသွားခန်းတွင် လူရွှင်တော် ပါလာသည်။ နိပ်စက်ခန်း၌ လူကြမ်း ပါလာသည်။ ထို့ကြောင့် နှစ်ပါးသွား မင်းသား မင်းသမီးများအတွက် သီချင်းသံ အဆန်း၊ ကကြိုး ကကွက် အဆန်းများ ပေါ်လာရလေသည်။ ထို့ပြင် ပရိသတ် ရယ်မောရအောင် လူရွှင်တော်များ ပေါ်လာရသည်။ တဖန် နိပ်စက်ခန်းအတွက် ဒွေးချိုး လေးဆစ် ငိုချင်းသံများလည်း ပေါ်လာရသည်။ ရုပ်သေး သဘင်ဖက်တွင် ဆရာပု၊ ဦးဖူးညိုတို့သည်၎င်း၊ ဇာတ်သဘင်ဖက်တွင် မထွေးလေး၊

**အောင်ဗလ၊** ဦးဘိုးစိန်၊ ဦးစိန်ကတုံးတို့သည်၎င်း ထူးခြားသော သဘင်ပညာသည်များဖြစ်သည်။ (မြန်မာ့ဇာတ်မင်းသမီးများ။မြန်မာ့ဇာတ်မင်းသားများ — လည်းရှု။)

ရှေးက ဇာတ်ခင်း ကပြရာ၌ မြေဝိုင်းတွင် ပန်းပင် စိုက်၍ ထိုပန်းပင်ကို လှည့်ပတ် ကပြကြရသည်။ ထိုခေတ် ပဉ္စမပိုင်းသို့ ရောက်သောအခါ ဇာတ်ခုံထိုးခြင်း၊ ထီးကားနန်းကား တောကား တောင်ကား ဆင်ယင်ခြင်း ပေါ်လာသည်။ ဇာတ်ခုံ ဇာတ်ကားတို့ကိုစ၍ သုံးသူမှာ ရန်ကုန်မြို့ မင်းသားဦးကျော်ဇံ ဖြစ်ကြောင်း သဘင်ဝန်ဦးနု မှတ်တမ်း အရ သိရလေသည်။

တဖန် ထိုခေတ်၌ပင် ထိုင်ဆိုအငြိမ့်မှ ထ၍ ကပြသော အငြိမ့် အဖြစ်သို့ ပြောင်းလဲလာသည်။ ထိုခေတ် မတိုင်မီက အငြိမ့် ဆိုသည်မှာ အဆိုနှင့် အတီး သက်သက် ဖြစ်၍၊ နန်းတော်ထဲ၌ တေးကြီး ဘွဲ့ကြီးများ သီဆိုပြီးလျှင် စောင်းငြင်း မိကျောင်း ပတ္တလားတို့ကို တီးမှုတ်ကြရသည်။ နောင်အခါ၌ မြန်မာနိုင်ငံ အောက်ပိုင်း ရန်ကုန်မြို့၊ မော်လမြိုင်မြို့တို့တွင် အရပ်ထဲ၌လည်း ထိုင်ဆိုအငြိမ့်ဝိုင်းများ ရှိသည် ဟု သိရသည်။ ၁၉၄၀ ပြည့်နှစ် သိတင်းကျွတ်လထုတ် သူရိယ မဂ္ဂဇင်းတွင် ဆရာနု ရေးသော သဘင်ဝန်မှတ်တမ်း၌ မော်လမြိုင်မြို့ မစိန်ငုံ၏ အငြိမ့်သည် ရန်ကုန်မြို့သို့ ပဌမဦးစွာ ရောက်ရှိလာ၍ ပုဇွန်တောင်တွင် ကပြကြောင်းဖော်ပြထားသည်။ (မြန်မာ့ အငြိမ့်မင်းသမီးများ — လည်းရှု။)

နှောင်းခေတ် ဒုတိယပိုင်းတွင် မြန်မာတို့၏ သဘင်ပညာသည် လှုပ်ရှား ပြောင်းလဲလျက်ပင် ရှိလေသည်။ မျက်မှောက်ခေတ်တွင် မြန်မာဆိုင်း၊ တေးဂီတနှင့်အကပညာတို့ကို မြန်မာနိုင်ငံအစိုးရက အထူးအရေးယူ၍ အားပေးလျက်ရှိသည်။ ယဉ်ကျေးမှု ဝန်ကြီး ဌာနဟူ၍ ဝန်ကြီးဌာနထားရှိပြီးလျှင်၊ အကအဆို အတီးအမှုတ်ကျောင်းများ ဖွင့်ပေးခြင်း၊ ရှေး မြန်မာ့သီချင်းကြီးများ မူကောင်းမူမှန်ရအောင် ပညာရှင်များ အဖွဲ့တခုကို ဖွဲ့စည်း၍ ဆောင်ရွက်ပေးခြင်း၊ ပြိုင်ပွဲများ ကျင်းပပေးခြင်းအားဖြင့် မြန်မာတို့သဘင်ပညာကို ကြီးပွားတိုးတက်အောင် အားပေး ကူညီလျက် ရှိလေသည်။ တဖန် ပြည်ထောင်စု ယဉ်ကျေးမှု ပြပွဲပြိုင်ပွဲများကို နှစ်စဉ်ကျင်းပသည် ဖြစ်ရာ၊ တိုင်းရင်းသား သဘင်ပညာချင်း ဖလှယ်နိုင်ခွင့်ကိုလည်း ရလာကြပြီ ဖြစ်သည်။

မျက်မှောက်ခေတ်တွင် မြန်မာနိုင်ငံသည် အနောက်နိုင်ငံများနှင့် ဆက်ဆံမှု များပြား လာသဖြင့် မြန်မာ သဘင်၌ နိုင်ငံခြား အမှုအရာများ ပါဝင်လာလေသည်။ သီဆို တီးမှုတ်သံ၊ ကဟန်တို့တွင် အနောက်တိုင်း အသံ၊ အနောက်တိုင်း ကဟန်တို့ကို အသုံးပြုလာကြသည်ကိုလည်း တွေ့ရှိရသည်။ ပုံစံအားဖြင့် အနောက်တိုင်း 'ဗယ်လေ' အကကို အတုယူ၍ နာမည်ကျော် ဇာတ်မင်းသားများ ဖြစ်သော ကနက်စိန်၊ ရွှေမန်း တင်မောင်၊ စိန်အောင်မင်းတို့က အဆိုမပါ အတီးအက သက်သက်ဖြင့် ဇာတ်ကွက် သရုပ်ဖော်ကနည်းသည်လည်း မြန်မာ သဘင်ပညာ၌ ဆန်းသစ်လာခြင်းပင် ဖြစ်သည် ဟု ဆိုနိုင်လေသည်။ ခေတ်ဟူသည် တည်ငြိမ်မနေဘဲ လှုပ်ရှား ပြောင်းလဲလျက် ရှိသည်သာဖြစ်ရာ မြန်မာ့သဘင်ပညာသည်လည်း ခေတ်နှင့် လျော်အောင် လှုပ်ရှားလျက် ပြောင်းလဲလျက် ရှိမည် ဖြစ်လေသည်။

# ငြိမ်းချမ်းစွာ အတူယှဉ်တွဲ နေထိုင်ရေး

**မြန်မာ-တရုပ် နယ်နိမိတ်ပြဿနာမှာ ရာဇဝင်တလျှောက်တွင် အခြေအမြစ် တည်လာသော အရှုပ်အထွေးများနှင့် အပြည့်အနှက် ဖြစ်ခဲ့ပေသည်။ သို့သော်လည်း နှစ်ဦးနှစ်ဖက်လုံးသော အစိုးရများက ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေး မူကြီးငါးချက်ကို မျက်ခြည်မပြတ်စေဘဲ ချစ်ကြည်ရေးကို လက်ကိုင်ပြုလျက် သည်းခံမှုစိတ်၊ တရားမျှတမှုကို ရှေးရှုသောစိတ်တို့ဖြင့် ရင်ဆိုင်လာရသော ပြဿနာ အသီးအသီးကို စိတ်ရှည်လက်ရှည် အကြေအလည်ဆွေးနွေးစေ့စပ်၍ ညှိနှိုင်း ဖြေရှင်းခဲ့ကြသည်။**

**မြန်မာ-တရုပ် နယ်နိမိတ် သတ်မှတ်ရေး။** ။ မြန်မာနိုင်ငံသမိုင်းကို လေ့လာမည်ဆိုလျှင် မြန်မာတို့၏ အချုပ်အချာ အာဏာပျံ့နှံ့ရာနယ်သည် စိုးမိုးအုပ်ချုပ် မင်းလုပ်သော ဘုရင်ကေရာဇ်တို့၏ နှလုံးရည်၊ လက်ရုံးရည်ကို လိုက်၍ ကျယ်သွားသော အခါလည်း ရှိသည်။ ကျဉ်းသွားသော အခါလည်း ရှိသည်။ ဤသို့ဖြင့် ပိုင်နက်နယ်မြေ အကျယ်အဝန်း ပြောင်းလဲမှုများ အခါအခါ ရှိခဲ့စေကာမူလည်း အိမ်နီးချင်းနိုင်ငံများနှင့် နယ်နိမိတ်ကို အတိအကျသတ်မှတ်ပိုင်းခြားခြင်းကို မည်သည့်အခါကမျှ ပြုလုပ်ခြင်း မရှိခဲ့ကြချေ။

အထက်တွင် ဖော်ပြခဲ့သည့် အတိုင်းပင် မြန်မာနိုင်ငံနှင့် မြန်မာနိုင်ငံ၏ အရှေ့ဖက် အိမ်နီးချင်း တဦး ဖြစ်သော တရုပ်နိုင်ငံ၏နယ်နိမိတ်မှာလည်း သမိုင်းတလျှောက်လုံးတွင် မည်သည့် အခါကမျှ ပြတ်ပြတ်သားသား မရှိခဲ့ချေ။ ဤအခြေအနေမှာ ၁၈၈၆ ခုနှစ်တွင် ဗြိတိသျှတို့က မြန်မာနိုင်ငံ အထက်ပိုင်းကို သိမ်းပိုက်သည့်အချိန်၌ တွေ့ရှိရသော အခြေအနေပင် ဖြစ်ပေသည်။

၁၈၈၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် ဗြိတိသျှအစိုးရက ကြေညာချက် တစောင် ထုတ်ပြန်ပြီးလျှင် ယခင်က သီပေါ



နယ်ခြား သတ်မှတ်ရာ ကျောက်တိုင်၏ အရေးကြီးဆုံး ပင်မ သံငုတ်ကို ဦးစွာ စိုက်ထူရသည်။

ဘုရင် စိုးမိုးအုပ်ချုပ်သော နယ်မြေများကို ဗြိတိသျှ အစိုးရပိုင် နယ်ပယ်၏ တစိတ်တဒေသအဖြစ် သွတ်သွင်းလိုက်လေသည်။ ဗြိတိသျှ အစိုးရက မြန်မာဘုရင်ထံမှ ဆက်ခံသိမ်းပိုက်သော နယ်မြေမှာ အရှေ့မြောက်ဖက်၊ မြောက်ဖက်၊ အနောက်မြောက်ဖက်နှင့် အနောက်ဖက်တွင် အဆက်ဆက် သွယ်တန်းသော တောင်ကြီးများ ဝန်းဝိုက်ထားသည့် ဧရာဝတီမြစ်ဝှမ်း ဒေသတခုလုံးပင် ဖြစ်ပေသည်။

၁၈၈၆ ခုနှစ်တွင် အထက် မြန်မာနိုင်ငံကို ဗြိတိသျှတို့က သိမ်းပိုက်လိုက်ခြင်းဖြင့် ဗြိတိသျှ အချုပ်အချာ အာဏာ ပျံ့နှံ့ရာ နယ်ပယ် အရှေ့ဖက် နယ်နိမိတ်သည် တရုပ်နိုင်ငံနှင့် ဆက်စပ်သွားခဲ့ပေသည်။ ထိုကြောင့် ဗြိတိသျှ အစိုးရက အရှေ့ဖက်တွင် မြန်မာတို့၏ သြဇာအာဏာ ပျံ့နှံ့ရာ နယ်ပယ်သည် မည်မျှကျယ်ဝန်းသည်။ သို့မဟုတ် မြန်မာနိုင်ငံနှင့် တရုပ်နိုင်ငံသည် မည်သို့သော နယ်နိမိတ်ဖြင့် ပိုင်းခြားတည်ရှိသည် ဟူသော အချက်ကို မဆိုင်းမင့် စုံစမ်းရှာဖွေရန် လိုအင်ဆန္ဒ ပြင်းပြစွာ ရှိခဲ့ကြပေသည်။

အကြောင်းအားလျော်စွာ ၁၈၈၆ ခုနှစ် ဇူလိုင်လ ၂၄ ရက်နေ့တွင် မြန်မာနိုင်ငံနှင့် တိဗက်နိုင်ငံဆိုင်ရာ စာချုပ်တခုကို ဗြိတိသျှအစိုးရနှင့် တရုပ်အစိုးရတို့ ချုပ်ဆိုခဲ့ကြလေသည်။ ထိုစာချုပ်၏ အပိုဒ် ၃ တွင် မြန်မာ-တရုပ် နယ်နိမိတ်ကို နယ်နိမိတ်သတ်မှတ်ရေး ကော်မရှင်အဖွဲ့ တဖွဲ့က သတ်မှတ်ရန် သဘော တူခဲ့ကြလေသည်။ ဤသည်မှာ ဗြိတိသျှအစိုးရ လက်ထက်တွင် မြန်မာ-တရုပ် နယ်နိမိတ် သတ်မှတ်ရေးကိစ္စကို နိဒါန်းပျိုးလိုက်ခြင်းပင် ဖြစ်ပေသည်။ ထိုစဉ်က ဗြိတိသျှအစိုးရတို့ သိမ်းပိုက်ဆက်ခံသော မြန်မာဘုရင်ပိုင် နယ်ပယ်သည် မည်သည့်နေရာဒေသအထိ ရောက်ရှိသည် ဟူသော အချက်မှာ အတိအကျ သတ်မှတ်ပြဋ္ဌာန်းရန် များစွာ ခက်ခဲသော ကိစ္စတရပ် ဖြစ်ပေသည်။ ထို့ပြင် နှစ်နိုင်ငံစပ်ကြားရှိ မြေပြင်အနေအထားကို တိုင်းထွာမှတ်သားခြင်း မပြုရသေးသဖြင့်လည်း ဗြိတိသျှ အစိုးရတို့ လိုလားသည့်အတိုင်း နှစ်နိုင်ငံ နယ်နိမိတ်ကို သိပ္ပံနည်းကျကျ ပိုင်းခြား မှတ်သားဖော်ပြရန် ခက်ခဲလျက် ရှိပေသည်။

ထိုကြောင့် နောက် ခြောက်နှစ် (ခရစ် ၁၈၈၇–၁၈၉၃) အတွင်း၌ ဗြိတိသျှအစိုးရတို့က မြန်မာဘုရင်နှင့် တရုပ်ဘုရင်တို့၏ သြဇာအာဏာအကျယ်ပြန့်ဆုံး ရောက်ရှိရာနေရာများကို သိရှိရန်အတွက်၎င်း၊ ထိုနေရာဒေသတို့နှင့်စပ်လျဉ်းသော ဗဟုသုတများ တိုးတက် စုဆောင်း ရရှိရန်အတွက်၎င်း သုတေသန ပြုခြင်း၊ လေ့လာခြင်း၊ နယ်မြေ ထောက်လှမ်းခြင်း၊ စုံစမ်းရေး အဖွဲ့များ စေလွှတ်ခြင်း အစရှိသော ကိစ္စများကို အဆက်မပြတ် ပြုလုပ်ခဲ့ကြလေသည်။

ဤသို့ အားထုတ် လုပ်ကိုင်ကြခြင်းဖြင့် မြန်မာ-တရုပ် နယ်နိမိတ် အပိုင်းအခြားတို့ တည်ရှိနေပုံကို အတော်အတန် တိတိကျကျ သိရှိလာကြပြီးသည့်နောက်တွင် ၁၈၈၆ ခုနှစ် ဇူလိုင်လ ၂၄ ရက်နေ့တွင် ချုပ်ဆိုခဲ့ကြသော စာချုပ် အပိုဒ် ၃ ပါ ပြဋ္ဌာန်းချက်များကို အကောင်အထည် ဖော်ပြပေးသော စာချုပ်တရပ်ကို ၁၈၉၄ ခုနှစ် မတ်လ ၁ ရက်နေ့တွင် ဗြိတိသျှနှင့် တရုပ်အစိုးရတို့ ချုပ်ဆိုခဲ့ကြလေသည်။ ဤစာချုပ်မှာ မြန်မာ-တရုပ် နယ်နိမိတ်ကို မြောက်ဖက် လတ္တီတွဒ် ၂၅°၃၅′ ရှိ မနန်းဘုံ၊ သို့မဟုတ် တောင်ထိပ်ချွန်းမှ နမ့်လမြစ်နှင့် မဲခေါင်မြစ်တို့ ဆုံရာ နေရာအထိ သတ်မှတ်ဖော်ပြလိုက်ခြင်းပင် ဖြစ်ပေသည်။ တောင် ထိပ်ချွန်းမှ မြောက်ဖက်သို့ သွယ်တန်းသော မြန်မာ-တရုပ် နယ်နိမိတ် အစိတ်အပိုင်းနှင့် စပ်လျဉ်း၍ မူကား ထိုအရပ်ဒေသ၏ မြေပြင် အနေအထားနှင့် အခြေအနေ များကို ပိုမိုတိကျစွာ သိရှိရသည့်အခါတွင်မှ သတ်မှတ်ရန် နှစ်ဦး နှစ်ဖက် သဘောတူကြလေသည်။

၁၈၉၄ ခုနှစ် စာချုပ်တွင် သတ်မှတ်ဖော်ပြသော မြန်မာ-တရုပ် နယ်နိမိတ်ကြောင်းကို ဗြိတိသျှ အစိုးရနှင့် တရုပ်အစိုးရတို့၏ ကိုယ်စားလှယ်များ ပါဝင်သော ပူးတွဲ ကော်မရှင် အဖွဲ့တဖွဲ့က သုံးနှစ်အတွင်း မြေပြင်တွင် တိုင်းထွာသတ်မှတ်ရန် ပြဋ္ဌာန်း ခဲ့ကြလေသည်။ သို့သော် ထိုကိစ္စကို

မဆောင်ရွက်ကြသေးမီ ၁၈၉၄ ခုနှစ် စာချုပ်ပါ အပိုဒ်တပိုဒ်နှင့် စပ်လျဉ်း၍ နှစ်ဖက် အငြင်းပွားလာသဖြင့် ဗြိတိသျှအစိုးရနှင့် တရုပ်အစိုးရတို့ ပြန်လည် ဆွေးနွေး ပြောဆိုကြရပြီးလျှင် ၁၈၉၇ ခုနှစ် ဖေဖွာရီလ ၄ ရက်နေ့တွင် ၁၈၉၄ ခုနှစ်စာချုပ်ကို ပြင်ဆင်သော သဘောတူစာချုပ် တရပ်ကို ချုပ်ဆိုခဲ့ကြလေသည်။ ဤစာချုပ်အရ အင်္ဂလိပ်တို့က ဆီးမားနယ်၊ ကိုးကန်နယ်တို့ကို ပြန်လည် ရရှိလိုက်သည့်အပြင် နမ့်ဝမ် နယ်မြေကိုလည်း အငှား သဘောဖြင့် ရယူလိုက်သဖြင့် ၁၈၉၄ ခုနှစ် စာချုပ်တွင် မြောက်ဖက် လတ္တီတွဒ် ၂၅ ၃၅' မှ မဲခေါင်မြစ်အထိ နယ်နိမိတ်ကြောင်း သတ်မှတ်ဖော်ပြချက်ကို ပြင်ဆင်ရေးသားခဲ့ရပေသည်။

ထိုမှ နောက်တွင် ၁၈၉၇ ခုနှစ် စာချုပ်၌ သတ်မှတ်ဖော်ပြသော နယ်နိမိတ်ကြောင်းကို သုံးနှစ်အတွင်း အကောင်အထည် ဖော်ရန် တရုပ်-ဗြိတိသျှ ပူးတွဲ ကော်မရှင်အဖွဲ့တဖွဲ့က လုပ်ကိုင် ဆောင်ရွက်ခဲ့လေသည်။ ပူးတွဲကော်မရှင်အဖွဲ့သည် ပဌမနှစ် (ခရစ် ၁၈၉၇–၉၈) တွင် မြောက်ဖက်လတ္တီတွဒ် ၂၅ ၃၅' ရှိ တောင်ထိပ်ချွန်းမှ တောင်ဖက်သို့ တာပိန်မြစ်အထိ နယ်နိမိတ် အစိတ်အပိုင်းကို နယ်နိမိတ်ကျောက်ပုံပေါင်း ၃၉ ပုံ တည်ထား၍ သတ်မှတ်ခဲ့ပြီးလျှင် ဒုတိယနှစ်(ခရစ် ၁၈၉၈–၉၉)တွင်တာပိန်မြစ်မှတောင်ဖက်သို့ နမ့်တင်မြစ်အထိ အစိတ်အပိုင်းကို နယ်နိမိတ်ကျောက်ပုံပေါင်း ၉၇ ပုံ တည်ထား၍ သတ်မှတ်ခဲ့သည့်အပြင် နမ့်ခမြစ်မှ မဲခေါင်မြစ်အထိ ကျိုင်းတုံနယ်နှင့် ဆိုင်သော နယ်နိမိတ်အစိတ်အပိုင်းကို ကျောက်ပုံပေါင်း ၆၂ ပုံ တည်ထား၍ သတ်မှတ်ခဲ့လေသည်။ နမ့်ကင်မြစ်မှ နမ့်ခမြစ်အထိ အစိတ်အပိုင်းမှာ ဝနယ်နှင့် ဆိုင်သော နယ်နိမိတ်ကြောင်း ဖြစ်လေသည်။ ဤအစိတ်အပိုင်းကို ပူးတွဲကော်မရှင်အဖွဲ့က တတိယနှစ် (ခရစ် ၁၈၉၉–၁၉၀၀) တွင် တိုင်းထွာသတ်မှတ်ရန် ကြိုးစားခဲ့သော်လည်း ပြီးပြတ်အောင်မြင်ခြင်း မရှိခဲ့ပေ။

၁၈၉၇ ခုနှစ် သဘောတူ စာချုပ်တွင် သတ်မှတ်ဖော်ပြသော နယ်နိမိတ် အစိတ်အပိုင်းကို အထက်ပါ အတိုင်း မြေပြင်တွင် သတ်မှတ်ပြီးစီးသောအခါ မြောက်ဖက် လတ္တီတွဒ် ၂၅ ၃၅' (တောင်ထိပ်ချွန်း) မှ မြောက်ဖက်ရှိ နယ်နိမိတ်ကြောင်း သတ်မှန်ရန်ကိစ္စကို ဗြိတိသျှတို့က အာရုံပြုကြပြန်လေသည်။ အမှန်စင်စစ် ၁၈၉၄ ခုနှစ် စာချုပ်ကို လက်မှတ် မထိုးမီကပင် တောင်ထိပ်ချွန်း၏ မြောက်ဖက် နယ်နိမိတ်ကို သတ်မှတ်ရန် ဗြိတိသျှနှင့် တရုပ်အစိုးရတို့က ကြိုးစားခဲ့ကြပေသည်။ ဤဒေသတွင် သံလွင်မြစ်နှင့် မေခမြစ်များ စပ်ကြားရှိ ရေဝေတောင်တန်းကို မြန်မာ-တရုပ်တို့၏ သဘာဝနယ်နိမိတ် ဟူ၍ ဗြိတိသျှတို့က ယူဆခဲ့ကြသော်လည်း ထိုအယူအဆကို တရုပ်အစိုးရက လက်ခံခြင်း မပြုခဲ့ပေ။ ၁၈၉၄ ခုနှစ် စာချုပ်ကို ချုပ်ဆိုပြီးသောအခါ နှစ်ဦး နှစ်ဖက်သော အစိုးရတို့က ထိုဒေသကို အသီးအသီး စုံစမ်းခဲ့ကြလေသည်။ ဤတွင် ဗြိတိသျှတို့၏ မေခ-သံလွင် ရေဝေတောင်တန်းကို နယ်နိမိတ်အဖြစ် ယူဆသော အယူအဆမှာ ပိုမို ပြင်းထန်လာခဲ့သော်လည်း တရုပ်အစိုးရက ဖီမော်၊ ဂေါ်လန်နှင့် ကန်ဖန် အပါအဝင် ရေဝေတောင်တန်း၏အနောက်ဖက်ရှိ ဒေသများကိုတရုပ်တို့ကသာပိုင်ကြောင်း ပြောဆိုခဲ့ကြလေသည်။ ထို့ကြောင့် ၁၉၀၅ ခုနှစ်တွင် ဤဒေသကို စုံစမ်းရန် တရုပ်-ဗြိတိသျှ ပူးတွဲစုံစမ်းရေး အဖွဲ့တဖွဲ့ကို စေလွှတ်ခဲ့ကြလေသည်။ ဗြိတိသျှနှင့်တရုပ်ကိုယ်စားလှယ်များသည် တရုပ်အစိုးရ၏ ပြောဆိုချက် မှန်မမှန် သိရှိရန် ဖီမော်၊ ဂေါ်လန်၊ ကန်ဖန်ရွာများ၏ ရွာသူကြီးများနှင့် ရွာအကြီးအကဲများထံမှ သက်သေထွက်ချက်များ ရယူခဲ့ကြလေသည်။ ထိုနောက် ရရှိခဲ့သော သက်သေ ထွက်ချက်များအရ ၁၉၀၅ ခုနှစ်မှာပင် ပီကင်းမြို့ရှိ ဗြိတိသျှသံအမတ်က ဗြိတိသျှ အစိုးရ၏ ညွှန်ကြားချက် အတိုင်း တရုပ်အစိုးရ၏ တောင်းဆိုချက်ကို တလုံးတဝတည်း ဖြေရှင်းသည့် အနေနှင့် ဗြိတိသျှ အစိုးရက တရုပ်အစိုးရသို့ ဤဒေသအတွက် တနှစ်လျှင် ကျပ်ငွေ တထောင့်ငါးရာထက် မများ ပေးရန် အဆိုပြုခဲ့လေသည်။ တချက်တည်းမှာလည်း မေခ-သံလွင် ရေဝေတောင်တန်းကို နယ်နိမိတ်အဖြစ် တရုပ်အစိုးရက သဘောတူ အသိအမှတ်ပြုရန် အရေးဆိုခဲ့လေသည်။ တရုပ်အစိုးရက ဤအရေးဆိုချက်ကို ငြင်းပယ်ခဲ့လေသည်။ထိုအခါတွင် ဗြိတိသျှအစိုးရက ဤကိစ္စနှင့်စပ်လျဉ်း၍ နောက်ထပ် ဆွေးနွေးခြင်း မပြုတော့ဘဲ ဖော်ပြပါ ရေဝေတောင်တန်းအထိ နယ်မြေများကို သိမ်းပိုက်အုပ်ချုပ်ရန် မြန်မာပြည်ရှိ ဗြိတိသျှအစိုးရထံသို့ ညွှန်ကြားချက် ပို့လိုက်တော့မည် ဖြစ်ကြောင်းဖြင့် ၁၉၀၆ ခုနှစ်တွင် ဗြိတိသျှ သံအမတ်က တရုပ်အစိုးရထံသို့ အတိအလင်း ကျေညာချက် ပေးခဲ့လေသည်။

ဤသို့ အကြောင်း ကြားခဲ့စေကာမူလည်း ဗြိတိသျှအစိုးရက၁၉၁၀ ပြည့်နှစ်အထိမည်သို့မျှကိုယ်ထိလက်ရောက်ဆောင်ရွက်ခြင်း မပြုဘဲ နေခဲ့လေသည်။ ထိုနှစ်တွင် တရုပ်နိုင်ငံ အတွင်းမှ တင်ကင်နယ်၏ အကြီးအကဲ ဖြစ်သူက ဖီမော်ကို ဝင်ရောက် တိုက်ခိုက်ခဲ့လေသည်။ ထိုအပြုအမူကို ဗြိတိသျှ အစိုးရက ကန့်ကွက်ခဲ့ရာ တရုပ်အာဏာပိုင်များက တိုက်ခိုက်ခံရသော ဒေသသည် ဗြိတိသျှပိုင် မဟုတ်ကြောင်း ငြင်းဆိုခဲ့ကြလေသည်။ ဤတွင် ဗြိတိသျှတို့က နယ်ခြားစစ်တပ်တတပ် စေလွှတ်ပြီးလျှင် ၁၉၁၁ ခုနှစ် ဇန္နဝါရီလတွင် ဖီမော်ကို သိမ်းပိုက်လိုက်လေသည်။ ထိုနောက် ဗြိတိသျှအစိုးရနှင့် တရုပ်အစိုးရတို့သည် ဤဒေသနှင့် စပ်လျဉ်း၍ ထပ်မံ စေ့စပ် ဆွေးနွေး ကြပြန်လေသည်။ မေခ-သံလွင် ရေဝေတောင်တန်း အနောက်ဖက်တွင် တရုပ် အစိုးရက

ပိုင်ဆိုင်ကြောင်း တောင်းဆိုသော ဒေသအားလုံးအတွက် ငွေလျော်ကြေး ပေးရန် ဗြိတိသျှ အစိုးရက အဆိုပြုလင့် ကစား တရုပ်အစိုးရက အလျှော့မပေးဘဲ တင်းမြဲ တင်းနေ သဖြင့် ၁၉၁၁ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့တွင် ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ရွာများကို ဗြိတိသျှအစိုးရက သိမ်းယူ၍ မြန်မာနိုင်ငံ လွတ်လပ်ရေးရသည့် အချိန်အထိ စီမံအုပ်ချုပ်ခဲ့လေသည်။

မေခ-သံလွင် ရေဝေတောင်တန်း နယ်နိမိတ်ကြောင်းနှင့် စပ်လျဉ်း၍ ဗြိတိသျှအစိုးရနှင့် တရုပ်အစိုးရတို့ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ပဋိပက္ခ ဖြစ်ခဲ့ကြပြီးနောက် ၁၉၁၄ ခုနှစ်တွင် မြန်မာပြည် မြောက်ဖက်ဖျား နယ်နိမိတ်ကြောင်းကို သတ်မှတ်ခဲ့လေသည်။ ထိုသို့ သတ်မှတ်လိုက်သော စာချုပ်မှာ ၁၉၁၄ ခုနှစ် ဇူလိုင်လ ၃ ရက်နေ့တွင် ဗြိတိသျှ၊ တရုပ်နှင့် တိဗက်အစိုးရတို့ ချုပ်ဆိုခဲ့ကြသော ကွန်ဗင်ရှင်းစာချုပ်ပင် ဖြစ်လေသည်။ သုံးနိုင်ငံစာချုပ်ဟုပင် ဆိုရစေကာမူလည်း ထိုစာချုပ်ကို တရုပ်အစိုးရက လက်မှတ်ရေးထိုးခြင်း မပြုဘဲ၊ ဗြိတိသျှ အစိုးရနှင့် တိဗက်အစိုးရတို့က လက်မှတ် ရေးထိုးခဲ့ကြလေသည်။ ဗြိတိသျှအစိုးရ၏ ကိုယ်စား လက်မှတ်ရေးထိုးသူမှာ အိန္ဒိယ အစိုးရ၏ အတွင်းဝန် ဆာ အာသာ ဟင်နရီ မက်မဟွန်း ဖြစ်၍ သူ၏အမည်ကို အစွဲပြုပြီးလျှင် ယင်းစာချုပ်နှင့် ပူးတွဲသော မြေပုံတွင် သတ်မှတ်ဖော်ပြလိုက်သော မြန်မာပြည် မြောက်ဖက်စွန်း နယ်နိမိတ်ကိုလည်း "မက်မဟွန်း မျဉ်းကြောင်း" ဟူ၍ ခေါ် စမှတ် ပြုခဲ့ကြလေသည်။

၁၈၉၇ ခုနှစ် စာချုပ်အရ တောင်ထိပ်ချွန်းမှ မဲခေါင်မြစ်အထိ သွယ်တန်းသော မြန်မာ-တရုပ်နယ်နိမိတ်ကြောင်းကို မြေပြင်တွင် သတ်မှတ်ရန် တာဝန်ပေးအပ်ခြင်း ခံရသော တရုပ်-ဗြိတိသျှ ပူးတွဲကော်မရှင် အနေနှင့် နှစ်ဖက် အငြင်းပွားမှုများကြောင့် မပြီးမပြတ် ချွင်းချန် ထားခဲ့ရသော ဝနယ် နယ်နိမိတ်ကြောင်း အတွက် ဆက်လက် ဖြေရှင်း သတ်မှတ်ရန် ကိစ္စကို ဗြိတိသျှ အစိုးရနှင့် တရုပ်အစိုးရတို့သည် ၁၉၃၄ ခုနှစ်တွင်မှ ပြန်လည် ဆောင်ရွက် နိုင်ခဲ့ကြလေသည်။ ထိုနှစ်တွင် နှစ်နိုင်ငံ အစိုးရများ အချင်းချင်း ဆွေးနွေး စေ့စပ်ကြပြီးနောက် ၁၉၃၅ ခုနှစ် ဧပြီလ ၉ ရက်နေ့တွင် သဘောတူညီချက် စာများ လဲလှယ်ကြပြီးလျှင် ဝနယ် နယ်နိမိတ်စုံစမ်းရေး အတွက် တရုပ်-ဗြိတိသျှ ပူးတွဲကော်မရှင်အဖွဲ့ တဖွဲ့ကို ခန့်အပ်ခဲ့ကြလေသည်။ ထိုကော်မရှင် အဖွဲ့၏ ဥက္ကဋ္ဌမှာ ဆွစ်ဇာလန် နိုင်ငံ တပ်မတော်မှ အရာရှိတဦး ဖြစ်သူ ကာနယ် အက်ဖအိုက်စလင် ဖြစ်၍ သူ့အား အစွဲပြုကာ ကော်မရှင် အဖွဲ့ကို "အိုက်စလင် ကော်မရှင်" ဟူ၍လည်း ခေါ်တွင် ခဲ့ကြလေသည်။ နှစ်ဦး နှစ်ဖက်မှကိုယ်စားလှယ်ကြီးများ ပါဝင်သော အဆိုပါကော်မရှင်အဖွဲ့သည် မပြီးပြတ်ခဲ့သော ဝနယ် နယ်နိမိတ်ကြောင်းကို ၁၉၃၅–၃၆ နှင့် ၁၉၃၆–၃၇ ခုနှစ်များတွင် စုံစမ်း စစ်ဆေးပြီးလျှင် ထိုအဖွဲ့၏ တွေ့ရှိချက်နှင့် ထောက်ခံချက်များ ဖော်ပြပါရှိသောအစီရင်ခံစာတစောင်ကို သက်ဆိုင်ရာ နှစ်နိုင်ငံ အစိုးရများထံ တင်ပြခဲ့ပေရာ ဗြိတိသျှနှင့် တရုပ်အစိုးရတို့က ၁၉၄၁ ခုနှစ် ဇွန်လ ၁၈ ရက်နေ့တွင် အပြန်အလှန် လဲလှယ်ကြသော သဘောတူညီချက် စာများဖြင့် ဝနယ် နယ်နိမိတ်ကြောင်းကို ဖော်ပြ သတ်မှတ်ခဲ့ကြလေသည်။ ဤသဘောတူညီချက် စာများကို "၁၉၄၁ ခုနှစ် စာချုပ်" ဟူ၍၎င်း၊ ဤစာချုပ်တွင် သတ်မှတ် ဖော်ပြသော ဝနယ်ဆိုင်ရာ မြန်မာ-တရုပ် နယ်နိမိတ်ကိုလည်း "၁၉၄၁ ခုနှစ် နယ်နိမိတ်ကြောင်း" ဟူ၍၎င်း ခေါ်ဝေါ် ခဲ့ကြလေသည်။

၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာ နိုင်ငံသည် လွတ်လပ်သော အချုပ်အချာ အာဏာပိုင် နိုင်ငံ အဖြစ်သို့ ရောက်ရှိ၍၊ ၁၉၄၈ ခုနှစ် ပြည်ထောင်စု မြန်မာနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ အပိုဒ် ၂ အရ ယခင်က မြန်မာပြည်ဘုရင်ခံမှ တဆင့် ဗြိတိသျှအစိုးရ စီရင်အုပ်ချုပ်ခဲ့သော နယ်မြေ အားလုံးနှင့် ကရင်နီ (ကယား) နယ်များ ပါဝင်ကြသည့် မြန်မာနိုင်ငံ တနိုင်ငံလုံးသည်




**စာတမ်းနှင့် အမှတ်ထွင်းပြားများ ကပ်ပြီးနောက် ဗိလတ်မြေ အချောကိုင်ခြင်းဖြင့် နယ်ခြား မှတ်တိုင် ထူရသည်။**

ပြည်ထောင်စု မြန်မာနိုင်ငံတွင် ပါဝင်သောအခါ၊ ရာဇဝင် အမွေအနှစ်တခု အနေဖြင့် ဗြိတိသျှတို့ထံမှ မြန်မာနိုင်ငံက ဆက်ခံ ရရှိလိုက်သော မြန်မာ-တရုပ် နယ်နိမိတ်မှာ အထက်တွင် ရှင်းလင်း ဖော်ပြခဲ့သော ပုံစံနှင့် ဖြစ်ခဲ့ပေသည်။ အချို့သော အစိတ်အပိုင်းများမှာ စာအားဖြင့်၎င်း၊ မြေပေါ်တွင်၎င်း သတ်မှတ်ပြီး ဖြစ်သည်။ အချို့မှာ စာအားဖြင့် သတ်မှတ်ပြီးဖြစ်သော်လည်း မြေပေါ်တွင် သတ်မှတ်ခြင်း မပြုရသေးပေ။ အချို့မှာ စာအားဖြင့်လည်း မသတ်မှတ်ရသေး၊ မြေပေါ်၌လည်း မသတ်မှတ်ရသေးပေ။ ဤသို့အားဖြင့် မြန်မာ-တရုပ် နယ်နိမိတ်မှာ ပြဿနာတရပ် အဖြစ် ကြွင်းကျန်ရစ်ခဲ့ခြင်းပင် ဖြစ်ပေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရသည် ဗြိတိသျှ အစိုးရလက်ထက်က မပြီးမပြတ် ဖြစ်ခဲ့သော မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာကို လွတ်လပ်ရေး ရသည့် အချိန်က စ၍ သတိပြုမိခဲ့ပေသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေး ရစအချိန်၌ တရုပ်နိုင်ငံအစိုးရမှာ ချန်ကေရှိတ် ခေါင်းဆောင်သော တရုပ်အမျိုးသား အစိုးရပင် ဖြစ်ခဲ့လေသည်။ ထိုအချိန်က တရုပ်နိုင်ငံမှ ထုတ်ဝေဖြန့်ချိခဲ့သော မြေပုံများတွင် မြန်မာနိုင်ငံ၏ အစိတ်အပိုင်း ခပ်များများကို တရုပ်နိုင်ငံကပိုင်သည်ဟု တောင်းဆိုလိုသည့် အချက်လက္ခဏာများကို တွေ့မြင်ရပေသည်။ ၁၉၄၇ ခုနှစ်တွင် တရုပ်အမျိုးသားအစိုးရက နမ့်ဝမ် အငှားချ နယ်မြေအတွက် မြေငှား နှစ်စဉ်ကြေး ငွေတထောင်ကို လက်မခံဘဲ ငြင်းပယ်လိုက်လေသည်။ (၁၈၉၇ ခုနှစ် သဘောတူ စာချုပ်အရ ဗြိတိသျှ အစိုးရက တရုပ်အစိုးရထံမှ နမ့်ဝမ်နယ်မြေကို အမြဲတမ်း ငှားယူရရှိ၍ တနှစ်လျှင် မြေငှားခ အဖြစ် ငွေတထောင်ကျ ပေးခဲ့၏။) ဤသို့ ငြင်းဆိုလိုက်ခြင်းသည် နမ့်ဝမ်နယ်မြေ အမြဲတမ်း အငှားချထားရေး သဘောတူညီချက်ကို ပယ်ဖျက်လိုကြောင်း အကြောင်းကြားစာ ပေးသည့် သဘောသို့ သက်ရောက်ခဲ့လေသည်။ သို့သော် ထိုအခါက တရုပ်နိုင်ငံ၌ ပြည်တွင်းစစ်ကြီး ဖြစ်ပွားနေ၍ နောက်ဆုံးတွင် ချန်ကေရှိတ်၏ တရုပ်အမျိုးသားအစိုးရ ကျဆုံးသွားခဲ့သည့်အတွက် ထိုကိစ္စကို တရုပ်အစိုးရအနေနှင့် ဆက်လက်၍ ဆောင်ရွက်ခြင်း မပြုနိုင်ခဲ့ပေ။

၁၉၄၉ ခုနှစ် အောက်တိုဘာလတွင် တရုပ် အမျိုးသားအစိုးရ၏ နေရာသို့ တက်ရောက်လာသော တရုပ်ပြည်သူ့သမတနိုင်ငံ အစိုးရကလည်း မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာ တည်ရှိနေခြင်းကို သတိ ပြုမိလေသည်။ သို့သော်လည်း လက်ငင်း အရေးတကြီး ဖြေရှင်းရန် ပြည်တွင်းပြဿနာ အမြောက်အမြားနှင့် ရင်ဆိုင် နေရ၍ မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာကို ရုတ်တရက် အာရုံ မပြုနိုင်ဘဲ ငါးနှစ်ခန့် ဆိုင်းငံ့ထားခဲ့ရပေသည်။




မြန်မာ-တရုပ် ချစ်ကြည်ရေးကို သက်သေထူသည့် အချောကိုင် အတည်ပြုပြီးသော နယ်ခြား သတ်မှတ်ရေး ကျောက်တိုင်

ထိုအတော အတွင်း၌ ပြည်ထောင်စု မြန်မာ နိုင်ငံနှင့် တရုပ် ပြည်သူ့သမတနိုင်ငံတို့၏ အဆက်အသွယ်များမှာလည်း တိုးပွားလာခဲ့ပြီးလျှင် ၁၉၅၄ ခုနှစ် ဇွန်လတွင် တရုပ်ပြည်သူ့သမတနိုင်ငံ အစိုးရ ဝန်ကြီးချုပ် ချူအင်လိုင်းသည် မြန်မာနိုင်ငံသို့ အလည်အပတ် ရောက်ရှိလာပြီးလျှင် မြန်မာနိုင်ငံ အစိုးရ ဝန်ကြီးချုပ် ဦးနုနှင့် အတူ မြန်မာ-တရုပ် နှစ်နိုင်ငံတို့၏ အနာဂတ် ဆက်သွယ်ရေး ထိန်းသိမ်းပေးရန် အလို့ငှာ ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေး မူကြီး ငါးချက်ကို ပူးတွဲ ထုတ်ပြန် ကြေညာခဲ့ကြလေသည်။ ထိုမူကြီးငါးချက်သည် မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာ ဖြေရှင်းရေးတွင် အဓိက အခြေခံပင် ဖြစ်လာခဲ့လေသည်။

ထိုနှစ် (၁၉၅၄ ခုနှစ်) ဒီဇင်ဘာလမှာပင် မြန်မာ နိုင်ငံ ဝန်ကြီးချုပ် ဦးနုသည် တရုပ်ပြည်သူ့သမတနိုင်ငံသို့ အလည်အပတ် သွားရောက်ခဲ့ပြီးလျှင် တရုပ်ဝန်ကြီးချုပ် မစ္စတာ ချူအင်လိုင်းနှင့်အတူ ပူးတွဲ ကြေညာချက် တစောင်ကို ၁၉၅၄ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့တွင် ထုတ်ပြန်ခဲ့လေသည်။ ထိုကြေညာချက်တွင် နှစ်နိုင်ငံနယ်နိမိတ်ကိစ္စကို ရည်ညွှန်း၍ အောက်ပါအတိုင်း ဖော်ပြလိုက်ကြလေသည်။

"တရုပ် နိုင်ငံနှင့် မြန်မာ နိုင်ငံတို့၏ နယ်နိမိတ် သတ်မှတ်ရေးသည် မပြီးမပြတ် ဖြစ်နေသေးသဖြင့် နှစ်ပြည့်တပြည် ဆွေးနွေး ပြောဆိုရိုး ထုံးစံနှင့် အညီ

မိတ်ဆွေ ရင်းချာ ပမာ သင့်တင့်လျောက်ပတ်သော ကာလ၌ ဖြေရှင်းရန် လိုအပ်သည် ဟု ယူဆကြပါကြောင်း။"

ဤကျေညာချက်မှာ မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာ ဖြေရှင်းရေး ကိစ္စကို နိဒါန်း ဆင်ပေးလိုက်ခြင်းပင် ဖြစ်ပေသည်။ ထိုမှနောက်တွင်ကား ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရနှင့် တရုပ်ပြည်သူ့သမတနိုင်ငံ အစိုးရတို့သည် နှစ်ပေါင်း ၇၅ နှစ်ခန့် မပြီးမပြတ်ဘဲ ရှိနေခဲ့သော မြန်မာ-တရုပ်နယ်နိမိတ် ပြဿနာကို အပြီးအပြတ် ဖြေရှင်းလိုကြသောဆန္ဒနှင့် နှစ်ဦးနှစ်ဖက် စိတ်တူ သဘောတူ ကြိုးစား အားထုတ်ခဲ့ကြသည့်စခန်းသို့ ချင်းနင်း ဝင်ရောက်မိကြလေသည်။

နယ်နိမိတ် ပြဿနာမှာ ရာဇဝင်တလျှောက်တွင် အခြေအမြစ် တည်လာသော အရှုပ်အထွေးများနှင့် အပြည့်အနှက် ဖြစ်ခဲ့ပေသည်။ ထိုကြောင့်လည်း နယ်နိမိတ် ပြဿနာသည် လွယ်လွယ်ကူကူနှင့် ပြေလည် ပြီးစီးသွားနိုင်သော ပြဿနာတရပ် မဟုတ်ပေ။ သက်ဆိုင်ရာ အစိုးရ နှစ်ဦးနှစ်ဖက်လုံးတွင် နယ်မြေ ပိုင်ဆိုင်မှုနှင့် နယ်နိမိတ်ကြောင်း သွယ်တန်းပုံနှင့် စပ်လျဉ်း၍ တောင်းဆိုချက်များ ရှိခဲ့ကြလေသည်။

မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာ ပြေလည် ချောမောရေး ကိစ္စတွင် အကျုံးဝင်လာခဲ့သော ပြဿနာများမှာ —

(က) **မေခ-သံလွင် ရေဝေ တောင်တန်းနှင့် ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ပြဿနာ။** ။မေခ-သံလွင် ရေဝေ တောင်တန်းကို ဗြိတိသျှအစိုးရတို့က မြန်မာ-တရုပ် နယ်နိမိတ် အဖြစ် သတ်မှတ်ရန် ပြင်းပြစွာ ဆန္ဒရှိခဲ့ကြသည့်အတိုင်း တရုပ် အစိုးရက သဘောမတူစေကာမူ နယ်နိမိတ်အဖြစ် တဖက်သတ် သတ်မှတ်ခဲ့ကြ၏။ ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရနှင့် တရုပ် ပြည်သူ့သမတ နိုင်ငံ အစိုးရတို့ ဓွေးစပ်ပြောဆိုကြရာတွင် မြန်မာအစိုးရက မေခ-သံလွင် ရေဝေ တောင်တန်းကိုပင် နှစ်နိုင်ငံ နယ်နိမိတ်အဖြစ် သတ်မှတ်ရန် အဆိုပြုခဲ့၏။ တရုပ် အစိုးရက ဖော်ပြပါ ရေဝေ တောင်တန်း၏ အနောက်ဖက်တွင် တည်ရှိသော ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ဒေသမှာ တရုပ်နိုင်ငံက ပိုင်ဆိုင်သော နယ်မြေဖြစ်၍ တရုပ်အစိုးရသို့ လွဲပြောင်းပေးရန် တောင်းဆိုခဲ့၏။

(ခ) **နမ့်ဝမ် အငှားချ နယ်မြေနှင့် ပန်ဟုန်း၊ ပန်လောဒေသ။** ။၁၈၉၄ ခုနှစ် တရုပ်-ဗြိတိသျှ စာချုပ်နှင့် ၁၈၉၇ ခုနှစ် တရုပ်-ဗြိတိသျှ သဘောတူ စာချုပ် နှစ်ခုစလုံးမှာပင် နမ့်ဝမ် ဒေသကို တရုပ်ပိုင်ဒေသအဖြစ် အသိအမှတ် ပြုထား၏။ တခုတည်းသော ခြားနားချက်မှာ ၁၈၉၇ ခုနှစ် စာချုပ်၌ ယင်းဒေသကို ဗြိတိသျှအစိုးရက တရုပ်အစိုးရထံ အမြဲတမ်း အငှားချ နယ်မြေအဖြစ် နှစ်စဉ် မြေငှားခ ပေး၍ ရယူလိုက်ခြင်းပင် ဖြစ်ပေသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရနှင့် တရုပ်ပြည်သူ့ သမတနိုင်ငံ အစိုးရတို့ နှစ်နိုင်ငံ နယ်နိမိတ် ပြဿနာ ဖြေရှင်းကြသောအခါ နိုင်ငံတခု၏ နယ်မြေကို အခြား နိုင်ငံတခုအား အမြဲတမ်း အငှားချထားသော သဘောသည် အမျိုး အမောက် မတည့်ဘဲ မှားယွင်းနေသည့် အပြင် အချုပ်အချာ အာဏာပိုင် အဆင့်အတန်း တူညီကြသော နိုင်ငံ နှစ်နိုင်ငံအတွက်လည်း လျော်ကန် သင့်မြတ်ခြင်း မရှိသောကြောင့် ယင်းသို့ အငှားချထားခြင်းကို ပယ်ဖျက်သင့်သည် ဟု နှစ်နိုင်ငံလုံးက သဘောတူ ယူဆခဲ့ကြ၏။ သို့ရာတွင် မည်သို့ ပယ်ဖျက်သင့်သည် ဟူသော အချက်မှာကား ပြဿနာ တရပ်ပင် ဖြစ်လာခဲ့ပေသည်။ ဤနယ်မြေ အတွင်း၌ မြန်မာနိုင်ငံ အတွက် အလွန် အရေးကြီးသော လမ်းမကြီးတခု ပါဝင်နေခြင်းကြောင့် နမ့်ဝမ် နယ်မြေကို မြန်မာအစိုးရသို့ လွဲပြောင်းပေးပြီးလျှင် နမ့်ဝမ်နယ်မြေ အစား ၁၉၄၁ ခုနှစ် နယ်နိမိတ်ကြောင်း အနောက်ဖက် (မြန်မာဖက်) ရှိ ပန်ဟုန်းနှင့် ပန်လော လူမျိုးများ အုပ်ချုပ်သည့်ဒေသကို တရုပ်အစိုးရသို့ ပေးရန် တရုပ် အစိုးရက အဆိုပြုခဲ့၏။

(ဂ) **၁၉၄၁ ခုနှစ် မျဉ်းကြောင်း။** ။ဝနယ် နယ်နိမိတ် မျဉ်းကြောင်း ဟူ၍လည်း ခေါ်ဆိုသော ဤနယ်နိမိတ်ကြောင်းကို ဗြိတိသျှ အစိုးရနှင့် တရုပ် အစိုးရတို့က ၁၉၄၁ ခုနှစ် စာချုပ်ဖြင့် သတ်မှတ်ပြီး ဖြစ်ခဲ့စေကာမူလည်း ဤနယ်နိမိတ်မျဉ်းကြောင်းမှာ ဗြိတိသျှ အစိုးရတို့က ထိုအချိန်၌ အကြပ်အတည်း တွေ့နေရသော တရုပ်အစိုးရအား အတင်း လက်ခံစေခဲ့သော မျဉ်းကြောင်းဟူ၍ တရုပ်ပြည်သူ့ သမတနိုင်ငံ အစိုးရက ယူဆခဲ့၏။ ပြည်ထောင်စု မြန်မာ နိုင်ငံ အစိုးရကမူ ၁၉၄၁ ခုနှစ် မျဉ်းကြောင်းမှာ ၁၉၄၁ ခုနှစ် စာချုပ်အရ သတ်မှတ်ပြီးသား ဖြစ်၍ ထိုမျဉ်းကြောင်းကို အသိအမှတ်ပြုရန် အဆိုပြုခဲ့၏။

(ဃ) **မြန်မာ နိုင်ငံ မြောက်ဖက်ဖျား နယ်နိမိတ်ကြောင်း။** ။ဤ နယ်နိမိတ်ကြောင်းမှာ အီဇူရာဇီ တောင်ကြားလမ်းမှ အိန္ဒိယနယ်စပ်အထိ သွယ်တန်းသော အစိတ်အပိုင်းပင် ဖြစ်၏။ ဦးစွာ၌ မြန်မာဖက်မှ နယ်နိမိတ်အစိတ်အပိုင်းကို ဗြိတိသျှနှင့်တိဗက် အစိုးရတို့ လက်မှတ် ရေးထိုး ချုပ်ဆို ခဲ့ကြသော ၁၉၁၄ ခုနှစ် စာချုပ်တွင် သတ်မှတ်ဖော်ပြထားသည့်

အတိုင်း လက်ခံရန် အဆိုပြုခဲ့၏။ တရုပ် ဖက်မှ ယင်း နယ်နိမိတ်ကို အစဉ်အလာ မျဉ်းကြောင်းအတိုင်း ဖြစ်စေရန် အဆိုပြုခဲ့လေသည်။ နောက်ဆုံးတွင် မြန်မာဖက်မှ ဤ နယ်နိမိတ်ကြောင်းကို တရုန် မြစ်ဝှမ်း ဖြတ်သန်းသည့် နေရာမှလွဲ၍ အခြားနေရာ အားလုံးတွင် ရေဝေ တောင်တန်း တလျှောက် ခြွင်းချက်မရှိ သတ်မှတ်ရန် အဆိုပြုခဲ့၏။

မြန်မာ-တရုပ် နယ်နိမိတ် ကိစ္စသည် လွယ်လွယ်ကူကူနှင့် ပြီးပြေသွားခဲ့သော ကိစ္စတရပ် မဟုတ်သည်ကို အထက်တွင် ဖော်ပြခဲ့သော အချက်အလက်များက သက်သေခံလျက် ရှိကြပေသည်။ ထိုကိစ္စတွင် အကျုံးဝင်သော ပြဿနာ အသီးအသီးကို ရစ်သိုင်း လွှမ်းခြုံလာသည့် အဆိုပြုချက်၊ အပြန် အလှန် အဆိုပြုချက်များနှင့် စပ်လျဉ်း၍ နှစ်ဦး နှစ်ဖက်လုံးတွင် အခက် အခဲများ ကြုံတွေ့ခဲ့ကြရပေသည်။ မည်သို့ပင်ရှိစေကာမူ နှစ်ဦးနှစ်ဖက်လုံးသော အစိုးရများက မူကြီးငါးချက်ကို မျက်ခြည် မပြတ်စေဘဲ ချစ်ကြည်ရေးကို လက်ကိုင် ပြုလျက် သည်းခံမှုစိတ်၊ တရားမျှတမှုကို ရှေးရှု သော စိတ်တို့ဖြင့် ရင်ဆိုင်လာရသော ပြဿနာအသီးအသီး ကို စိတ်ရှည် လက်ရှည် အကြေအလည် ဆွေးနွေးစေ့စပ် ၍ ညှိနှိုင်း ဖြေရှင်းခဲ့ကြလေသည်။

မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာ ဖြေရှင်းရေးအတွက် နှစ်နိုင်ငံအစိုးရတို့ ဆွေးနွေး စေ့စပ်ကြသည်မှာ ၁၉၅၅ ခု နှစ်မှ ၁၉၆၀ ပြည့်နှစ်အထိ ငါးနှစ်ကျော် ခြောက်နှစ်ခန့် ကြာမြင့်ခဲ့လေသည်။ ထို အတောအတွင်း၌ ပြည်ထောင်စု မြန်မာနိုင်ငံဖက်တွင် ဝန်ကြီးချုပ် သုံးဦး ပြောင်းလဲခဲ့လေ သည်။ နယ်နိမိတ် ပြဿနာ ဖြေရှင်းရေး ကိစ္စသည် ဝန်ကြီး ချုပ် ဦးနုလက်ထက်တွင် အစပြုခဲ့၍ ဝန်ကြီးချုပ် ဦးဗဆွေ က ဆက်လက်ဆောင်ရွက်ပြီးလျှင် နောက်ဆုံးတွင် ဝန်ကြီး ချုပ် ဗိုလ်ချုပ်ကြီး နေဝင်း လက်ထက်တွင် အောင်မြင်ပြီး ဆုံးခဲ့လေသည်။

မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာကို ဖြေရှင်းလိုက် သော စာချုပ်မှာ ၁၉၆၀ ပြည့်နှစ် ဇန္နဝါရီလ ၂၈ ရက်နေ့ တွင် ပြည်ထောင်စု မြန်မာနိုင်ငံ ဝန်ကြီးချုပ် ဗိုလ်ချုပ်ကြီး နေဝင်းနှင့် တရုပ်ပြည်သူ့သမတနိုင်ငံ ဝန်ကြီးချုပ် ချူအင် လိုင်းတို့ ပီကင်းမြို့တွင် လက်မှတ် ရေးထိုးကြသော "ပြည် ထောင်စု မြန်မာနိုင်ငံတော် အစိုးရနှင့် တရုပ်ပြည်သူ့သမတ နိုင်ငံတော် အစိုးရတို့ ချုပ်ဆိုကြသော တရုပ်-မြန်မာ နယ်နိ မိတ် ပြဿနာနှင့် စပ်လျဉ်းသည့် သဘောတူ စာချုပ်" ပင် ဖြစ်ပေသည်။ ဤစာချုပ်တွင် အထက်၌ ရှင်းလင်းဖော်ပြခဲ့ သော ပြဿနာအငြင်းအခုန်း အသီးအသီးကို ဖြေရှင်းသော အားဖြင့် သဘောတူညီကြသည့် အချက်များမှာ အောက်ပါ အတိုင်း ဖြစ်သည်။

(က) **မြောက် ဖက် ဖျား နယ် နိ မိတ်။** ။မြန်မာ-တရုပ်-အိန္ဒိယ သုံးနိုင်ငံ နယ်နိမိတ်များ ဆုံရာ နေရာမှ အီဇူ ရာဇီ တောင်ကြားလမ်း အထိ သွယ်တန်းသော ဤနယ်နိမိတ်ကြောင်းကို တရုန်မြစ်ဝှမ်း ဖြတ်သန်း သွားရာ နေရာတွင်မှတပါး ရေဝေ တောင်တန်း တလျှောက် သတ်မှတ်ရန် သဘောတူညီကြ၏။

(ခ) **အီဇူရာဇီမှ တောင်ထိပ်ချွန်း အထိ နယ်နိမိတ်။** ။ ဖီမော်၊ ဂေါ်လန်နှင့် ကန်ဖန်ဒေသကို မြန်မာ အစိုးရ က တရုပ်နိုင်ငံသို့ ပြန်လည် ပေးအပ်ရန် သဘော တူခဲ့၏။အကြောင်းအားလျော်စွာ ဤဒေသအတွင်း ပြုလုပ်ရန် လိုအပ်သော ပြုပြင်ချက်မှတပါး ဤနယ် နိမိတ်ကြောင်းကို မေခ-သံလွင် ရေဝေတောင်တန်း အတိုင်း သတ်မှတ်ရန် သဘောတူညီကြ၏။

(ဂ) **နမ့်ဝမ် အငှားချ နယ်မြေကိစ္စ။** ။ခန့်မှန်းချေအား ဖြင့် စတုရန်း မိုင် ၈၀ ခန့်ရှိသော နမ့်ဝမ် အငှားချ နယ်မြေကို တရုပ်အစိုးရက မြန်မာအစိုးရသို့ လွှဲ ပြောင်းပေးရန် သဘောတူခဲ့၏။ နမ့်ဝမ် အငှားချ နယ်မြေနှင့် လဲလှယ်သောအားဖြင့် ၁၉၄၁ ခုနှစ် မျဉ်းကြောင်း၏ အနောက်ဖက်ရှိ ပန်ဟုန်းနှင့် ပန် လောလူမျိုးများ အုပ်ချုပ်သည့် နယ်မြေဒေသများ ကို မြန်မာအစိုးရက တရုပ်အစိုးရသို့ လွှဲပြောင်းပေး ရန် သဘောတူခဲ့၏။

(ဃ) **၁၉၄၁ ခုနှစ် မျဉ်းကြောင်း။** ။ဤသို့အားဖြင့် လည်း ခေါ်သော ဝနယ် နယ်နိမိတ် အစိတ် အပိုင်း ကို အထက်အပိုဒ် (ဂ) တွင် လိုအပ်သော ပြင်ဆင် ညှိနှိုင်းခြင်းမှ တပါး ၁၉၄၁ ခုနှစ် စာချုပ်တွင် ဖော်ပြ ထားသည့်အတိုင်း တိုင်းထွာသတ်မှတ်ကြရန်သဘော တူကြ၏။ ထို့ပြင် ၁၉၄၁ ခုနှစ် စာချုပ်အရ တရုပ် အစိုးရက ဤဒေသရှိ လူဖန် သတ္တုတွင်းများ တူး ဖော်လုပ်ကိုင်ရေးနှင့် စပ်လျဉ်း၍ ရရှိထားသော အခွင့် အရေးကို စွန့်လွှတ်ရန် သဘော တူညီခဲ့၏။

အထက်တွင် ဖော်ပြခဲ့သော သဘောတူညီချက်များ အပြင်၊ စာချုပ် ချုပ်ဆိုသော နှစ်နိုင်ငံ အစိုးရတို့က တဖက် တဖက်စီမှ ကိုယ်စားလှယ် ဦးရေ အညီအမျှ ပါဝင်သော ပူးတွဲကော်မီတီတခုကို ချက်ခြင်း ဖွဲ့စည်းရန် သဘောတူခဲ့ ကြလေသည်။ ကော်မီတီ၏ လုပ်ငန်းများမှာ ထိုစာချုပ် အရ အောက်ပါအတိုင်း ဖြစ်ပေသည်။

(၁) မြန်မာ-တရုပ် နယ်နိမိတ်၏ မြောက်ဖက်ပိုင်းတွင် တောင်ထိပ်ချွန်းမှသည် မြန်မာ-တရုပ်-အိန္ဒိယ သုံးနိုင်ငံ နယ် နိမိတ်များ ဆုံရာ မြန်မာ-တရုပ်နယ်နိမိတ်၏ အနောက်ဖက် စွန်းအထိ ရေဝေ တောင်တန်းတလျှောက် သွယ်တန်းသော မြန်မာ-တရုပ် နယ်နိမိတ် အစိတ်အပိုင်း အတိအကျ တည်

နေပုံကို သတ်မှတ်ရန်နှင့် နယ်နိမိတ် မှတ်တိုင်များ စိုက်ထူရန်။

(၂) ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ဒေသနှင့် စပ်လျဉ်း၍ မြန်မာ အစိုးရနှင့် တရုပ် အစိုးရတို့ ဆွေးနွေး စေ့စပ် ခဲ့ကြရာ၌ မြန်မာအစိုးရက အကျယ်အဝန်းအားဖြင့် ၅၉ စတုရန်းမိုင်ရှိ ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် အပါအဝင် နယ်မြေဒေသကို တရုပ်အစိုးရသို့ ပေးရန် ကမ်းလှမ်းခဲ့ရာ တရုပ်အစိုးရက ဖော်ပြပါ ၅၉ စတုရန်းမိုင် ပါဝင်၍ အကျယ်အဝန်းအားဖြင့် ၁၈၆ စတုရန်းမိုင်ခန့်ရှိသော နယ်မြေကို ပေးရန် အဆိုပြုခဲ့၏။ ခြားနားနေသော ဤအဆိုပြုချက် နှစ်ရပ်ကို အခြေခံထား၍ လွှဲပြောင်းပေးရမည့် နယ်မြေ၏ အကျယ်အဝန်းကို နှီးနှော၍ဆုံးဖြတ် သတ်မှတ်ပေးရန်။

(၃) နမ္မဝမ် အငှားချ နယ်မြေနှင့် လဲလှယ်သောအားဖြင့် မြန်မာအစိုးရက တရုပ် အစိုးရသို့ လွှဲပြောင်းပေးမည့် ပန်ဟုန်း၊ ပန်လောလူမျိုးများ အုပ်ချုပ်သော နယ်မြေမှာ ၆၂ စတုရန်းမိုင်ခန့် ရှိသည်ဟု မြန်မာဖက်မှ ပြောဆိုခဲ့၏။ တရုပ်ဖက်က ဖော်ပြပါ ၆၂ စတုရန်းမိုင် အပြင် နောက်ထပ် (ခန့်မှန်းခြေ) ကိုးစတုရန်းမိုင်ခန့် ရှိသော နယ်မြေသည်လည်း ပန်ဟုန်းလူမျိုးများ အုပ်ချုပ်သည့် နယ်မြေအတွင်း ကျရောက်ကြောင်း ပြောဆိုခဲ့၏။ ဤသို့အားဖြင့် တရုပ်ဖက်မှ တောင်းဆိုသော ကိုးစတုရန်းမိုင်ခန့်ရှိ မြေနေရာသည် ပန်ဟုန်းလူမျိုးများ အမှန် အုပ်ချုပ်သည့် နယ်မြေ ဟုတ်သည် မဟုတ်သည်ကို စုံစမ်းရန်။

(၄) အထက်တွင် ဖော်ပြထားသော နယ်နိမိတ် အစိတ်အပိုင်းများ အားလုံးနှင့် ယခင်က သတ်မှတ်ပြီး၍ နောက်ထပ် ပြင်ဆင်ညှိနှိုင်းရန် မလိုသော နယ်နိမိတ် အစိတ်အပိုင်းများတွင် နယ်နိမိတ်ကို တိုင်းထွာ၍ နယ်နိမိတ်မှတ်တိုင်များ စိုက်ထူပြီးလျှင် မြန်မာ-တရုပ် နယ်နိမိတ်တခုလုံးနှင့် ဆိုင်သော စာချုပ်တရပ် ရေးဆွဲရန်။

ဤတာဝန်များကို အကောင်အထည် ဖော်ရန် တဖက်လျှင် ကိုယ်စားလှယ် ငါးဦးစီ ပါဝင်သော "မြန်မာ-တရုပ် နယ်နိမိတ်ဆိုင်ရာ ပူးတွဲကော်မီတီ"ကို နှစ်နိုင်ငံအစိုးရများက အချိန်မလစ်ဟင်းစေဘဲ ဖွဲ့စည်း ခန့်အပ်ခဲ့ကြလေသည်။ ပူးတွဲ ကော်မီတီတွင် မြန်မာဖက်မှ ဒု-ကာကွယ်ရေး ဦးစီးချုပ် (ကြည်း) ဗိုလ်မှူးချုပ် အောင်ကြီးကို ခေါင်းဆောင်အဖြစ်ခန့်ထား၍ အဖွဲ့ဝင်များမှာ တရုပ်နိုင်ငံဆိုင်ရာ မြန်မာသံအမတ်ကြီး ဦးမောင်မောင်ကျော်ဝင်း၊ ကချင်ပြည်နယ်ဝန်ကြီး ဌာန အတွင်းဝန် ဦးရှန်လုန်း၊ နယ်ခြား ဒေသအုပ်ချုပ်ရေး အရာရှိချုပ် ဗိုလ်မှူးကြီး စောမြင့်နှင့် ရှမ်းပြည်နယ်မြောက်ပိုင်းတိုင်း၊ တိုင်းမင်းကြီး ဦးခွန်အုံးကြာတို့ ဖြစ်



မြန်မာ-တရုပ် နယ်နိမိတ် သတ်မှတ်ရေး အဖွဲ့ဝင်တို့သည် ကျောက်ဆောင် ကျောက်စောင်းများဖြင့် ပြည့်လျှမ်းသော တောင်အထပ်ထပ်နှင့် နက်ရှိုင်းသော တောအလျှိုလျှိုကိုလည်း ဖြတ်ကျော်ခဲ့ကြရသည်။

ကြပေသည်။ တရုပ်ဖက်မှ ခေါင်းဆောင်မှာ မြန်မာ နိုင်ငံဆိုင်ရာ တရုပ်သံအမတ်ဟောင်း၊ တရုပ်အစိုးရနိုင်ငံခြားရေးဌာနမှ စာချုပ်စာတမ်းများနှင့် ဥပဒေရေးရာ ဌာနခွဲ၏ ညွှန်ကြားရေးဝန် မစ္စတာ ယိုချုမ်ငင်း ဖြစ်၍၊ အဖွဲ့ဝင် များမှာ တရုပ်အစိုးရ နိုင်ငံခြားရေးဌာနမှ ပဌမ အာရှဒေသ ဌာနခွဲ၏ ဒုတိယညွှန်ကြားရေးဝန် မစ္စတာ ချန်ချိပင်း၊ ဗိုလ်မှူးကြီး ချန်ရွှေယု၊ ဒု-ဗိုလ်မှူးကြီး ချန်ရင်ပင်းနှင့် ယူနန်ပြည်ဆိုင်ရာ နိုင်ငံခြားရေးဌာနမှ ဒုတိယညွှန်ကြားရေးဝန် မစ္စတာ ဟွမ်းဖင်လင်းတို့ ဖြစ်ကြပေသည်။ ပူးတွဲကော်မီတီတွင် ပါဝင်သည့် နှစ်ဦးနှစ်ဖက်သော ကိုယ်စားလှယ် အဖွဲ့များကို နှစ်နိုင်ငံ အစိုးရများ၏ သက်ဆိုင်ရာ ဌာနအသီးအသီးမှ အရာရှိကြီးများက အကြံပေးပုဂ္ဂိုလ်များအဖြစ် ကူညီ ဆောင်ရွက်ခဲ့ကြလေသည်။

ပူးတွဲ ကော်မီတီသည် ပေးအပ်ထားသော တာဝန်များအရ မြန်မာ-တရုပ် နယ်နိမိတ်ကို တနှစ်နှင့် လေးလ လုပ်ငန်းအချိန်ပိုင်းအတွင်း မရပ်မနား လုပ်ကိုင် ဆောင်ရွက်ပြီးလျှင် မြေပြင်တွင် သတ်မှတ် နိုင်ခဲ့လေသည်။ ဤအချိန်ပိုင်း အတွင်း၌ ပူးတွဲကော်မီတီ အစည်းအဝေးကြီးများကို နှစ်နိုင်ငံ၏ မြို့တော်ကြီးများ၌ တလှည့်စီ ခုနစ်ကြိမ်တိုင်တိုင် ကျင်းပခဲ့လေသည်။ ပူးတွဲ ကော်မီတီ ပဌမ အစည်းအဝေးကြီးကို ၁၉၆၀ ပြည့်နှစ် ဇွန်လ ၂၇ ရက်နေ့မှ ဇူလိုင်လ ၅ ရက်နေ့အထိ ရန်ကုန်မြို့တွင် ကျင်းပခဲ့သည်။ ဒုတိယ အစည်းအဝေးကြီးကို ၁၉၆၀ ပြည့်နှစ် ဇူလိုင်လ ၂၅ ရက်နေ့မှ ဩဂုတ်လ ၁ ရက်နေ့ အထိ ပီကင်းမြို့တွင် ကျင်းပခဲ့သည်။ တတိယ အစည်းအဝေးကြီးကို ၁၉၆၀ ပြည့်နှစ် ဩဂုတ်လ ၂၅ ရက်နေ့မှ စက်တင်ဘာလ ၄ ရက်နေ့အထိ ရန်ကုန်မြို့တွင် ကျင်းပခဲ့သည်။ စတုတ္ထ အစည်းအဝေးကြီးကို ၁၉၆၀ ပြည့်နှစ် စက်တင်ဘာလ ၂၀ ရက်နေ့မှ အောက်တိုဘာလ ၅ ရက်နေ့အထိ ပီကင်းမြို့တွင် ကျင်းပခဲ့သည်။ ပဥ္စမအစည်းအဝေးကြီးကို ၁၉၆၀ ပြည့်နှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့မှ ၂၅ ရက်နေ့အထိ မြန်မာနိုင်ငံ မေမြို့တွင် ကျင်းပခဲ့သည်။ ဆဋ္ဌမ အစည်းအဝေးကြီးကို ၁၉၆၁ ခုနှစ် မေလ ၂ ရက်နေ့မှ ၈ ရက်နေ့အထိ ပီကင်းမြို့တွင် ကျင်းပပြီးလျှင် သတ္တမနှင့် နောက်ဆုံးအကြိမ် အစည်း အဝေးကြီးကို ၁၉၆၁ ခုနှစ် အောက်တိုဘာလ ၁၂ ရက်နေ့မှ ၁၆ ရက်နေ့အထိ ပီကင်းမြို့တွင် ကျင်းပခဲ့လေသည်။

နှစ်နိုင်ငံ နယ်နိမိတ် သတ်မှတ်ရေး လုပ်ငန်းအတွက် ကြိုတင် ပြင်ဆင်မှုများ ပြုလုပ်နေသည့် အချိန်မှာပင် ပူးတွဲကော်မီတီအတွက် အခြေအနေသစ် တရပ် ပေါ်ပေါက်လာခဲ့လေသည်။ ၁၉၆၀ ပြည့်နှစ် ဇန်နဝါရီလ ၂၈ ရက်နေ့တွင် ချုပ်ဆိုခဲ့သော နေဝင်း-ချူအင်လိုင်း သဘောတူ စာချုပ်အရ ဆိုလျှင် နှစ်နိုင်ငံနယ်နိမိတ်ကို တိုင်းထွာမှတ်သား၍ နယ်နိမိတ် မှတ်တိုင်များ စိုက်ထူခြင်းဖြင့် မြေပြင်တွင် သတ်မှတ်သည့် လုပ်ငန်း အလုံးစုံ ပြီးမြောက်သည့်နောက်တွင်မှ နယ်နိမိတ် စာချုပ်ကို နှစ်နိုင်ငံအစိုးရတို့ လက်မှတ်ရေးထိုးကြရန် ဖြစ်သော်လည်း မြန်မာ-တရုပ် နှစ်နိုင်ငံ ဝန်ကြီးချုပ်များက အဆိုပါ စာချုပ်ကို ထိုအချိန်အထိ မစောင့်ဆိုင်းမူ၍ ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလ ၁ ရက်၊ တရုပ်အမျိုးသားနေ့တွင် လက်မှတ်ရေးထိုးကြရန် သဘောတူညီလိုက်ကြလေသည်။

ပူးတွဲကော်မီတီ ပဌမ အစည်းအဝေးကြီး ကျင်းပသည့်အချိန်မှ ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလ ၁ ရက်နေ့အထိ လုပ်ငန်း ဆောင်ရွက်ရန် အချိန်မှာ လေးလလောက်သာ ရှိပေသည်။ ထိုအချိန်ပိုင်းမှာ ပူးတွဲ ကော်မီတီ၏ နယ်နိမိတ်သတ်မှတ်ရေးလုပ်ငန်းတွင် ပဌမအဆင့်ပင် ဖြစ်ခဲ့လေသည်။

ပဌမ အဆင့်တွင် နယ်နိမိတ် တိုင်းထွာ မှတ်သားခြင်းနှင့် ယာယီ နယ်နိမိတ် ကျောက်ပုံများ ချမှတ်ခြင်း လုပ်ငန်းကို ပူးတွဲ ကော်မီတီက ပူးတွဲမြေတိုင်းအဖွဲ့ နှစ်ဖွဲ့ ဖွဲ့စည်း၍ လုပ်ကိုင်ခဲ့လေသည်။ အမှတ် ၁ ပူးတွဲ မြေတိုင်းအဖွဲ့၏ လက်အောက်တွင် ပူးတွဲ မြေတိုင်းအဖွဲ့ခွဲပေါင်း ၁၂ ဖွဲ့ ထားရှိပြီးလျှင် တောင်ထိပ်ချွန်းမှ မြန်မာ-တရုပ် နယ်နိမိတ်အနောက်ဖက်စွန်းအထိ မြန်မာနိုင်ငံ၏ မြောက်ပိုင်းနယ်နိမိတ်ကို တိုင်းထွာ မှတ်သား စေခဲ့လေသည်။ အမှတ် ၂ ပူးတွဲမြေတိုင်းအဖွဲ့တွင်ကား ပူးတွဲအဖွဲ့ခွဲပေါင်း ၆ ဖွဲ့ပါဝင်ခဲ့၍၊ ထိုအဖွဲ့သည် " ၁၉၄၁ ခုနှစ် မျဉ်းကြောင်း " ခေါ် ဝနယ် နယ်နိမိတ်ကြောင်းကို တိုင်းထွာ မှတ်သားခဲ့လေသည်။

ပူးတွဲ ကော်မီတီအနေနှင့် အလုပ်ခွင်သို့ စဝင်သည့်အချိန်မှာ မိုးဦးကျ ဖြစ်၍ ပူးတွဲ မြေတိုင်းအဖွဲ့များ အနေနှင့် လုပ်ငန်း ဆောင်ရွက်ရသောအချိန်မှာ မိုးတွင်း အချိန်ကာလတွင် ဖြစ်ပေသည်။ မြေတိုင်းဌာန၊ နယ်ခြားဒေသ အုပ်ချုပ်ရေးဌာနနှင့် မြန်မာ့တပ်မတော်မှ အရာထမ်း အမှုထမ်းများ ပါဝင်သော မြေတိုင်းအဖွဲ့များ၊ ထိုမြေတိုင်းအဖွဲ့များနှင့် လိုက်ပါစောင့်ရှောက်ရသော လုံခြုံရေး အဖွဲ့များသည် နှစ်နိုင်ငံ နယ်စပ်ဒေသများတွင် မြင့်မားသော တောင်အသွယ်သွယ်၊ နက်လှသော တောအထပ်ထပ်၊ ဒလဟော ရေစီးသည့် မြစ်ချောင်း အဆင့်ဆင့်ကို ဖြတ်ကျော်ကာ ခက်ခဲလှသော ကန္တာရ ခရီးကြမ်းများကို သွားလာ၍ လုပ်ငန်း ဆောင်ရွက်ခဲ့ကြရ၏။ အချို့ နေရာဒေသများမှာ လူသူ အနေအထိုင် လုံးဝမရှိ။ သွားလမ်းလာလမ်း အလွန်ခက်ခဲသော နေရာများ ဖြစ်ကြ၏။ မိုးတွင်းအခါ ဖြစ်သောကြောင့် ငှက်ဖျားရောဂါ အစရှိသော ရောဂါဆိုးများသည်လည်း ထူပြောလှ၏။

မြန်မာ-တရုပ် နယ်နိမိတ်ကို တိုင်းထွာ သတ်မှတ်သည့်လုပ်ငန်းတွင် မြန်မာနိုင်ငံ တဖက်တည်းမှပင် ဝန်တင်လား



တောရိုင်းမြက်ရည် ဖုံးသည့် တောင်ကုန်းအထပ်ထပ်ကို ခက်ခဲစွာကျော်ဖြတ်၍ ကြိုးပမ်းခဲ့ကြရသည်။

ကောင်ရေ ၂,၄၀၀ ထက် မနည်း လုပ်သားဦးရေ ၅,၆၀၀ ထက် မနည်းသော အင်အားစုများကို အသုံးပြုခဲ့ရပေသည်။ ထိုအထည်းတွင် တပ်မတော် အရာရှိပေါင်း ၁၂၇ ယောက်၊ အကြပ်တပ်သားပေါင်း ၁,၆၅၀ ယောက်၊ နယ်ခြားဒေသအုပ်ချုပ်ရေးမှုထမ်းရာထမ်းပေါင်း ၇၄၀ ယောက်၊ အရပ်သား မြေတိုင်းအရာရှိပေါင်း ၂၀ ယောက်နှင့် အရပ်သား မြေတိုင်းအမှုထမ်းပေါင်း ၂၅၀ ယောက်တို့ မပါဝင်သေးပေ။ ဤမျှများပြားသော လူအင်အားကို အသုံးပြုခဲ့ရသည့် လုပ်ငန်းကြီးကို "ဘဘစစ်ဆင်ရေး" ဟု ခေါ်တွင်စေကာ တပ်မတော် စစ်ဆင်ရေးကြီးတခု အနေဖြင့် လုပ်ကိုင်ဆောင်ရွက်ခဲ့ကြလေသည်။

မြေတိုင်း လုပ်ငန်းများကို ဆောင်ရွက် ကြရာ၌ ပူးတွဲမြေတိုင်းအဖွဲ့ အချို့သည် မြန်မာနိုင်ငံဖက်တွင် အခြေခံထား၍ လုပ်ငန်း ဆောင်ရွက်ခဲ့ကြ၏။ အချို့မှာ တရုပ်နိုင်ငံဖက်တွင် အခြေခံထား၍ ဆောင်ရွက်ခဲ့ကြ၏။ မြန်မာနိုင်ငံဖက်တွင် အခြေခံထားကာ ဆောင်ရွက်ကြသော အဖွဲ့များကို မြန်မာဖက်မှ တာဝန်ယူရ၍ တရုပ်နိုင်ငံဖက်တွင် အခြေခံထားကာ ဆောင်ရွက်ကြသော အဖွဲ့များကို တရုပ်ဖက်က တာဝန်ယူရ၏။ ဤသို့ ဖြစ်ရသည်မှာ အချို့သော နယ်နိမိတ် အစိတ်အပိုင်းများသို့ တရုပ်နိုင်ငံဖက်မှ မပေါက်ရောက်နိုင်ဘဲ မြန်မာနိုင်ငံဖက်မှသာ ပေါက်ရောက်နိုင်၍ အချို့သော နယ်နိမိတ် အစိတ်အပိုင်းများသို့ မြန်မာဖက်မှ မပေါက်ရောက်နိုင်ဘဲ တရုပ်ဖက်မှသာ ပေါက်ရောက်နိုင်ခြင်းကြောင့် ဖြစ်၏။ ဤနည်းအားဖြင့် တရုပ်-မြန်မာ မြေတိုင်းအဖွဲ့များသည် နှစ်ဦးနှစ်ဖက် ရင်းရင်းနှီးနှီး ချစ်ကြည်စွာ ပူးပေါင်း၍ ပူးတွဲကော်မီတီမှ ချမှတ်ပေးသော တာဝန် ဝတ်တရားများကို ကျေပြွန်စွာ ဆောင်ရွက် ပေးခဲ့ကြခြင်းကြောင့် ၁၉၆၀ ပြည့်နှစ် စက်တင်ဘာလကုန်တွင် မြန်မာ-တရုပ် နယ်နိမိတ်တွင် မသတ်မှတ်ရသေးသော နယ်နိမိတ် အစိတ်အပိုင်းများ၏ အတိအကျတည်နေပုံကို တိုင်းထွာသတ်မှတ်ပြီးစီးခဲ့၍ နှစ်နိုင်ငံ အစိုးရများအဖို့ "ပြည်ထောင်စု မြန်မာနိုင်ငံတော်နှင့် တရုပ်ပြည်သူ့သမတနိုင်ငံတော်တို့ ချုပ်ဆိုကြသည့် နယ်နိမိတ်စာချုပ်" ကို လိုလားခဲ့သည့် အတိုင်း ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် လက်မှတ် ရေးထိုးနိုင်ခဲ့ကြပေသည်။

အထက် ဖော်ပြပါ နယ်နိမိတ် စာချုပ်သည် ၁၉၆၀ ပြည့်နှစ် ဇန္နဝါရီလ ၂၈ ရက်နေ့တွင် ချုပ်ဆိုခဲ့သော နယ်နိမိတ်ပြဿနာများဆိုင်ရာ သဘောတူ စာချုပ်တွင် ဖော်ပြထားသော ပြဿနာအသီးအသီးကို အပြီးအစီး ဖြေရှင်းပေးပြီးလျှင် ယခင်က မသတ်မှတ်ရသေးသော နယ်နိမိတ် အစိတ်အပိုင်းများ သွယ်တန်းပုံကိုလည်း နှစ်နိုင်ငံ သဘောတူညီထားသော မူများအတိုင်း အတိအကျ မှတ်သားဖော်ပြလိုက်လေသည်။ ဤစာချုပ်အရ နှစ်နိုင်ငံအစိုးရတို့သည် အောက်ပါအချက်များကို သဘောတူညီခဲ့ကြလေသည်။

(၁) ၅၉ စတုရန်း မိုင် ပါဝင်သော ဖီမော်၊ ဂေါ်လန်၊ ကန် ဖန်နယ်မြေကို မြန်မာအစိုးရက တရုပ်အစိုးရသို့ လွှဲပြောင်းပေးရန်။

(၂) ၈၅ စတုရန်းမိုင် ရှိသော နမ့်ဝမ် အငှားချ နယ်မြေကို တရုပ်အစိုးရက မြန်မာအစိုးရသို့ လွှဲပြောင်းပေးရန်။

(၃) နမ့်ဝမ် အငှားချ နယ်မြေနှင့် လဲလှယ်သော အားဖြင့် ပန်ဟုန်းနှင့် ပန်လောလူမျိုးများ စီရင်အုပ်ချုပ်ခွင့် အာဏာသက်ရောက်ရာ နယ်မြေ အကျယ်အဝန်း ၇၃ စတုရန်းမိုင် ရှိ၍ ၁၉၄၁ ခုနှစ် နယ်နိမိတ်ကြောင်း အနောက်ဖက်တွင် တည်သော ပန်ဟုန်း-ပန်လော နယ်မြေကို မြန်မာအစိုးရက တရုပ်အစိုးရသို့ လွှဲပြောင်းပေးရန်။

(၄) ၁၉၄၁ ခုနှစ် နယ်နိမိတ်ကြောင်းကို တိုင်းထွာမှတ်သားရာ၌ ထိုနယ်နိမိတ် ကြောင်းသည် ကျေးရွာအချို့ကို ဖြတ်သန်းသွားသည်ကို ပူးတွဲကော်မီတီက တွေ့ရှိခဲ့၍ ပြုပြင်ပြောင်းလဲမှု အနည်းငယ် ပြုလုပ်ပေးခဲ့ရပေရာ၊ ထိုပြုပြင်ပြောင်းလဲမှုအရ ရွာနှစ်ရွာကို တရုပ်နိုင်ငံဖက်တွင် ထည့်သွင်းရန်နှင့် ရွာလေးရွာကို မြန်မာနိုင်ငံဖက်တွင် ထည့်သွင်းရန်။

(၅) မြန်မာနိုင်ငံ မြောက်ဖက်ဖျား နယ်နိမိတ် အစိတ်အပိုင်း၌ တရုန်မြစ်ကို နယ်နိမိတ်ကြောင်း ဖြတ်သန်းသည့် နေရာတွင်လည်း ပူးတွဲကော်မီတီမှ အသေးအဖွဲ ပြုပြင်ပြောင်းလဲမှုတခု ပြုလုပ်ပေးခဲ့ရပေရာ၊ ထိုပြုပြင်ပြောင်းလဲမှု အရ ငါးစတုရန်းမိုင်ရှိသော နယ်မြေဒေသကို မြန်မာနိုင်ငံဖက်သို့ ထည့်သွင်းပေးရန်။

(၆) ထို့ပြင် ယခင်က သတ်မှတ်ပြီးသော ရွှေလီမြစ် အစိတ် အပိုင်းတွင်လည်း အသေးအဖွဲ ပြုပြင်ပြောင်းလဲမှု ကလေးများ ပြုလုပ်ပေးခဲ့ရ ပြန်သေးရာ၊ ထိုပြုပြင်ပြောင်းလဲမှုအရ နှစ်စတုရန်းမိုင်ထက် နည်းသော နယ်မြေကို တရုပ်နိုင်ငံဖက်သို့ ထည့်သွင်းပေးရန်။

ပူးတွဲ ကော်မီတီ၏ ပဌမအဆင့် လုပ်ငန်းမှာ မိုးရာသီတွင် ဆောင်ရွက်ခဲ့ရခြင်း ဖြစ်၍၊ တိုင်းထွာ မှတ်သားသော နယ်နိမိတ် အစိတ်အပိုင်းများတွင် ယာယီ ကျောက်ပုံများကိုသာ ချထားနိုင်ခဲ့လေသည်။ ထို့ကြောင့် ပူးတွဲကော်မီတီအနေနှင့် မြေတိုင်းတာမှုများ ဆက်လက် ပြုလုပ်ပြီးလျှင် နယ်နိမိတ် မှတ်တိုင်အသစ်များ စိုက်ထူရန်အတွက်၎င်း၊ ယခင်က စိုက်ထူထားခဲ့သော မှတ်တိုင်ဟောင်းများကို စမ်းသပ် ကြည့်ရှုရန်နှင့် အသစ်ပြုပြင်စီမံရန်အတွက်၎င်း၊ ထိုကိစ္စများ လုပ်ဆောင်ပြီးစီးသော အခါ မြန်မာ-တရုပ် နယ်နိမိတ် မျဉ်းကြောင်းနှင့် စိုက်ထူသော မှတ်တိုင်များ တည်ရာ ဌာနဖော်ပြသည့် အသေးစိတ် မြေပုံများ ပူးတွဲလျက် နယ်နိမိတ်မျဉ်းကြောင်း တလျှောက်လုံးနှင့် နယ်နိမိတ်မှတ်တိုင် အားလုံး၏ တည်ရာဌာန အသေးစိတ် ဖော်ပြချက် ပါရှိသော စာချုပ်တခုကို ရေးဆွဲရန် အတွက်၎င်း၊ သက်ဆိုင်ရာ နှစ်နိုင်ငံအစိုးရများက ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် လက်မှတ်ရေးထိုးသော နယ်နိမိတ်စာချုပ်တွင် သဘောတူ ပြဋ္ဌာန်းချက်တရပ် ထည့်သွင်း၍ တာဝန်ပေးခဲ့ကြလေသည်။

ဤပြဋ္ဌာန်းချက်တွင် ပါရှိသော တာဝန်များကို ပူးတွဲကော်မီတီသည် နယ်နိမိတ် စာချုပ် လက်မှတ်ရေးထိုးပြီးသည့် နောက်တွင် အရပ်အဆိုင်း မရှိ ဆက်တိုက်ပင် လုပ်ကိုင်ခဲ့ပေသည်။ ဤသည်မှာ ပူးတွဲကော်မီတီ၏ ဒုတိယအဆင့် လုပ်ငန်းပိုင်းပင် ဖြစ်လာခဲ့ပေသည်။ ဤလုပ်ငန်းပိုင်းမှာ ပဌမအဆင့် လုပ်ငန်းပိုင်းထက် ပိုမိုကျယ်ပြန့်၍ ပိုမိုများပြားသော လူအင်အား ပစ္စည်းအင်အားနှင့် သယ်ယူပို့ဆောင်ရန် ယာဉ်နှင့် ဝန်တင်လားများ လိုအပ်ခဲ့ပေသည်။ ဤလုပ်ငန်းပိုင်းကို ပူးတွဲကော်မီတီက ပူးတွဲ မြေတိုင်းအဖွဲ့လေးဖွဲ့ဖြင့် ဖွဲ့စည်းစီမံဆောင်ရွက်ခဲ့လေသည်။ မူလကသတ်မှတ်ခြင်း မရှိခဲ့သော မြန်မာနိုင်ငံ မြောက်ဖက်ပိုင်း နယ်နိမိတ်ကိုသတ်မှတ်ရန် တာဝန်ဝတ်တရားချထားခြင်းခံရသော အမှတ် ၁ ပူးတွဲမြေတိုင်းအဖွဲ့တွင် ပူးတွဲ မြေတိုင်းအဖွဲ့ခွဲပေါင်း ၁၃ ဖွဲ့ ပါဝင်ခဲ့လေသည်။ အမှတ် ၂ ပူးတွဲ မြေတိုင်းအဖွဲ့မှာ ပူးတွဲ မြေတိုင်းအဖွဲ့ခွဲပေါင်း သုံးဖွဲ့ ပါဝင်၍ ဝနယ် နယ်နိမိတ်ကြောင်းကို သတ်မှတ်ရန် တာဝန်ယူခဲ့လေသည်။

မူလကသတ်မှတ်ပြီးဖြစ်သော တောင်ထိပ်ချွန်းမှ ဝနယ် နယ်နိမိတ်ကြောင်း အစအထိ သွယ်တန်းသော နယ်နိမိတ် အစိတ်အပိုင်းအတွက် တာဝန်ယူခဲ့ရသော အဖွဲ့မှာ အမှတ် ၃ ပူးတွဲမြေတိုင်းအဖွဲ့ဖြစ်၍ ထိုအဖွဲ့၌ ပူးတွဲမြေတိုင်းအဖွဲ့ခွဲပေါင်း ခြောက်ဖွဲ့ ပါဝင်ခဲ့လေသည်။ ပူးတွဲမြေတိုင်းအဖွဲ့ခွဲပေါင်း လေးဖွဲ့ပါဝင်သော အမှတ် ၄ ပူးတွဲမြေတိုင်းအဖွဲ့အနေနှင့်ကား ဝနယ် နယ်နိမိတ်အဆုံးမှ မဲခေါင်မြစ်အထိ သွယ်တန်းသော မူလက သတ်မှတ်ပြီး ဖြစ်သည့် ကျိုင်းတုံနယ်ဆိုင်ရာ နယ်နိမိတ်အစိတ်အပိုင်းကို တိုင်းထွာ၍ နယ်နိမိတ်မှတ်တိုင်များ စိုက်ထူရန် တာဝန်ယူခဲ့လေသည်။

ပူးတွဲ မြေတိုင်းအဖွဲ့များအနေနှင့် လုပ်ဆောင်ကြရသော လုပ်ငန်းများမှာ နယ်နိမိတ်ကြောင်း တလျှောက်တွင် အမြဲတမ်း နယ်နိမိတ် မှတ်တိုင်သစ်များ စိုက်ထူ၍ နယ်နိမိတ်ကို တိုင်းထွာမှတ်သားပြီးလျှင် နယ်နိမိတ်ကြောင်း သွယ်တန်းပုံကို စာအားဖြင့် အသေးစိတ်မှတ်သားဖော်ပြရသည့်အပြင် အသေးစိတ် ဖော်ပြသော မြေပုံများကိုလည်း ရေးဆွဲကြရ

ပေသည်။ ထိုနောက် အဆိုပါ ဖော်ပြချက်နှင့် မြေပုံများကို ပူးတွဲကော်မီတီသို့ တင်ပြကြရပေသည်။ ဤလုပ်ငန်းများ လုပ်ဆောင်ရာတွင် အခက်အခဲ ပြဿနာများ ပေါ်ပေါက်လာ၍ အဖွဲ့ခွဲ အဆင့်၌ မပြေလည်နိုင်လျှင် အဖွဲ့ခေါင်းဆောင်များထံ တင်ပြကြရလေသည်။ အကယ်၍ ထိုအဆင့်၌လည်း မဖြေရှင်းနိုင်လျှင် ပူးတွဲကော်မီတီထံ ဆက်လက်တင်ပြ ကြရလေသည်။ ပူးတွဲ ကော်မီတီက ထိုပြဿနာများကို ဖြေရှင်း ပေးပြီးသော အခါ သက်ဆိုင်ရာ ပူးတွဲ မြေတိုင်း အဖွဲ့ခွဲများက ပူးတွဲကော်မီတီ၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ကြလေသည်။

ပူးတွဲကော်မီတီ၏ ဒုတိယ အဆင့် လုပ်ငန်းပိုင်း စတင်ဆောင်ရွက်သည့် အချိန်မှာ ၁၉၆၀ ပြည့်နှစ်၏ ဆောင်းဦးရာသီတွင် ဖြစ်လေသည်။ ထိုအချိန်၌ မြန်မာနိုင်ငံ မြောက်ဖက်ဖျားရှိ မြင့်မားသော တောင်တန်းကြီးများမှာ ရေခဲဆီးနှင်းတို့ဖြင့် ဖုံးအုပ်နေကြပြီ ဖြစ်၍ သက်ဆိုင်ရာ အမှတ် ၁ ပူးတွဲမြေတိုင်းအဖွဲ့ အနေနှင့် တောင်ထိပ်ချွန်းမှ မြောက်ဖက်သို့ ချင်မလီတောင်ကြားအထိသာ တိုင်းထွာ သတ်မှတ်နိုင်ပြီးလျှင် ချင်မလီတောင်ကြားမှ မြန်မာ-တရုပ်နယ်နိမိတ် အနောက်ဖက်စွန်းအထိ အစိတ်အပိုင်းကိုကား ရာသီဥတုကောင်းမွန်သောအခါမှ တိုင်းထွာ သတ်မှတ်ရန် အခိုက်အတန့်အားဖြင့်ခြင်းချန်ထားခဲ့ရပေသည်။ ဤမြောက်ဖက်ဖျား အစိတ်အပိုင်းကို ချန်လှပ်၍ ကျန်အစိတ်အပိုင်းအားလုံးနှင့် သက်ဆိုင်သော ဒုတိယ အဆင့် လုပ်ငန်းကို ၁၉၆၀–၆၁ ခုနှစ် ဆောင်းရာသီတခုလုံးနှင့် နွေရာသီတခုလုံး ဆောင်ရွက်၍ အောင်မြင်စွာ ပြီးစီးခဲ့ကြလေသည်။

၁၉၆၁ ခုနှစ် ဧပြီလ အကုန်လောက်တွင် မြန်မာ နိုင်ငံ မြောက်ဖက်ဖျား ဒေသ၌ မိုးဦးကျ၍ မြင့်မားသော တောင်တန်းကြီးများတွင် ဆီးနှင်းရေခဲများ အရည်ပျော်ဆင်းကာ သွားလမ်းလာလမ်း ကောင်းမွန်စ ပြုလေသည်။ ထိုအချိန်တွင်မှ ချင်မလီ တောင်ကြားလမ်းနှင့် မြန်မာ-တရုပ် နယ်နိမိတ် အနောက်ဖက်စွန်းအကြားရှိ နယ်နိမိတ်ကြောင်းကို တိုင်းထွာ၍ နယ်နိမိတ် မှတ်တိုင်များ စိုက်ထူကာ အခြားလိုအပ်သော လုပ်ငန်းများကို ဆောင်ရွက်နိုင်ခဲ့ကြလေသည်။ ဤလုပ်ငန်းကို ပူးတွဲ ကော်မီတီက တတိယအဆင့် လုပ်ငန်းပိုင်းအဖြစ် သတ်မှတ်၍ လုပ်ကိုင်ခဲ့လေသည်။ ဤလုပ်ငန်းပိုင်းမှာ ဇူလိုင်လ အကုန်လောက်တွင် ပြီးစီးအောင်မြင်သွားခဲ့လေသည်။

ပူးတွဲ မြေတိုင်းအဖွဲ့များက မြေပြင်တွင် တိုင်းထွာသတ်မှတ်နေကြသော အချိန်တွင် ပူးတွဲကော်မီတီသည် နှစ်နိုင်ငံအစိုးရများလက်မှတ်ရေးထိုးရန်အတွက်နယ်နိမိတ်ကြောင်း



နက်ရှိုင်းလှသော ချောက်ကမ်းပါးများ၊ ရေစီးကြမ်း၍ ကျောက်ဆောင်ပြွမ်းသည့် မြစ်များ ဖြတ်ကူးရာတွင် ဤသို့ စက်သီးရထားဖြင့် ပစ္စည်းရော လူပါ ကူးကြရသည်။



တရုပ် မြန်မာ နယ်ခြားသတ်မှတ်ရေးနှင့် သက်ဆိုင်သည့် အချက်များ ဖော်ပြသော မြေပုံ
တရုပ်နိုင်ငံ
(ယူနန်)
ယူလန် တောင်ကြားလမ်း
ဂမ်လန် တောင်ကြားလမ်း
ဒီဖူ တောင်ကြားလမ်း
သာလာ တောင်ကြားလမ်း
တရုန်မြစ်
ပူတာအို
မလိခ
မေခ
ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ဒေသ
၅၉ စတုရန်းမိုင်
ထော်ဂေါ
မြစ်ကြီးနား
ဆဒုံး
တာပိန်
ရွှေလီ
ကသာ
ဗန်းမော်
ကူမင်းသို့
မူဆယ်
သတ်မှတ်ထားသော နမ့်ဝမ် နယ်မြေ
မိုင်းမော် တြိဂံနယ်မြေ
၈၅ စတုရန်းမိုင်
နမ့်တင်
ဟိုပန်
ပန်ဟုန်နှင့် ပန်လောဒေသ
၇၃ စတုရန်းမိုင်
နမ္မတူ
လားရှိုး
သံလွင်မြစ်
မတ္တရာ
မန္တလေး
မေမြို့
ကျောက်ဆည်
သာစည်
တောင်ကြီး
ရွှေညောင်
ရမည်းသင်း
ကျိုင်းတုံ
ရည်ညွှန်းချက်
မဲခေါင်မြစ်
တာချီလိတ်
မြန်မာနိုင်ငံသို့ လွှဲအပ်သော ဒေသများ
တရုပ်ပြည်သူ့ သမတနိုင်ငံသို့ လွှဲအပ်သော ဒေသများ
အပြည်ပြည်ဆိုင်ရာ နယ်နိမိတ်
မီးရထားလမ်း၊ မော်တော်ကားလမ်း
၂၈°
၂၆°
၂၄°
၂၂°
၉၈°
၁၀၀°

သွယ်တန်းပုံ အသေးစိတ် ဖော်ပြချက်များနှင့် နယ်နိမိတ်မှတ်တိုင်များ တည်ရှိပုံ အသေးစိတ် ဖော်ပြချက်များ ပါရှိသော နယ်နိမိတ်အခြေပြု စာချုပ် တခု အပြင် နယ်နိမိတ်ကြောင်း သွယ်တန်းပုံနှင့် နယ်နိမိတ်မှတ်တိုင်များ တည်ရှိပုံ အသေးစိတ် ဖော်ပြသော မြေပုံများကို ပူးတွဲမြေတိုင်းအဖွဲ့များမှ တင်ပြလာသော အစီရင်ခံစာနှင့် မြေပုံများကို အခြေခံ ထား၍ ပြင်ဆင် လုပ်ကိုင်လျက် ရှိပေသည်။ ဤလုပ်ငန်းမှာ ၁၉၆၁ ခုနှစ် အောက်တိုဘာလဆန်း လောက်တွင် အလုံးစုံ ပြီးစီး၍ "နှစ်ပြည်ထောင် စပ်ကြား နယ်နိမိတ်နှင့် စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရနှင့် တရုပ်ပြည်သူ့ သမတနိုင်ငံတော် အစိုးရ ချုပ်ဆိုကြသည့် အခြေပြု စာချုပ်" ကို နှစ်နိုင်ငံအစိုးရတို့က ၁၉၆၁ ခုနှစ် အောက်တိုဘာလ ၁၃ ရက်နေ့တွင် ပီကင်းမြို့၌ လက်မှတ်ရေးထိုးကြလေသည်။

မြန်မာ ဘာသာဖြင့် စာမျက်နှာပေါင်း ၂၃၅၊ တရုပ်ဘာသာဖြင့် စာမျက်နှာပေါင်း ၂၀၇၊ အင်္ဂလိပ်ဘာသာဖြင့် စာမျက်နှာပေါင်း ၁၅၁ အသီးအသီး ရှိသော မြန်မာ-တရုပ် နယ်နိမိတ် အခြေပြုစာချုပ်သည် ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် ချုပ်ဆိုသော နယ်နိမိတ် စာချုပ်ပါ ပြဋ္ဌာန်းချက်များအရ ထိုနယ်နိမိတ် စာချုပ်၏ တွဲဖက်စာချုပ် ဖြစ်လာလေသည်။ အခြေပြုစာချုပ်နှင့် ပူးတွဲသော မြေပုံများမှာ တရုပ်-အင်္ဂလိပ် ဘာသာဖြင့် ရိုက်နှိပ်သော မြေပုံအပြည့် တစုံတွင် မြေပုံပေါင်း ၁၀၄ ချပ် ပါဝင်၍ မြန်မာ-အင်္ဂလိပ်ဘာသာဖြင့် ရိုက်နှိပ်သော မြေပုံအပြည့်တစုံတွင် မြေပုံပေါင်း ၈၇ ချပ် ပါဝင်လေသည်။ ဤအခြေပြုစာချုပ်နှင့် ပူးတွဲသော မြေပုံများသည်လည်း နယ်နိမိတ်စာချုပ်နှင့် ပူးတွဲသော မြေပုံများကို အစားထိုးလိုက်ကြလေသည်။ မြန်မာ-တရုပ် နယ်နိမိတ် အခြေပြု စာချုပ်သည် ၁၉၆၂ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် စတင် အာဏာတည်လာခဲ့လေသည်။

တိုတောင်းလှသော လုပ်ငန်း အချိန် တနှစ်နှင့် လေးလခန့် အတွင်း၌ ပူးတွဲကော်မီတီက တိုင်းထွာ သတ်မှတ်လိုက်သော မြန်မာ-တရုပ်နယ်နိမိတ်သည် ကီလိုမီတာပေါင်း ၂၁၈၅.၇၄၅၇၇ (မိုင်ပေါင်း ၁၃၅၀ ခန့်) ရှည်လျားလေသည်။ ထိုနယ်နိမိတ်ကို မြောက်ပိုင်းနှင့် တောင်ပိုင်း ဟူ၍ နှစ်ပိုင်း ခွဲထားသည်။ တောင်ထိပ်ချွန်းကို ဗဟိုထား၍၊ မြန်မာ-တရုပ် နယ်နိမိတ် အနောက်ဖက်စွန်း အထိကို မြောက်ပိုင်းအဖြစ် သတ်မှတ်၍၊ မဲခေါင်မြစ်အထိ အပိုင်းကို တောင်ပိုင်းအဖြစ် သတ်မှတ် ကြသည်။ မြောက်ပိုင်းနှင့် တောင်ပိုင်း နှစ်ခုလုံး ပေါင်း၍ နယ်နိမိတ် တလျှောက်လုံးတွင် အကြီးစား၊ အလတ်စား၊ အငယ်စား နယ်နိမိတ် မှတ်တိုင်များ စုစုပေါင်း ၄၀၂ တိုင်ကို စိုက်ထူထားလေသည်။

ဤသို့အားဖြင့် အနှစ်တရာ နီးပါးမျှ ရာဇဝင်ကြွေး တင်ခဲ့သော မြန်မာ-တရုပ် နယ်နိမိတ် ပြဿနာကြီးကို အမြစ်အငုတ် မကျန်ရအောင် သုတ်သင် ရှင်းလင်းကြသော ကြိုးပမ်းအားထုတ်မှုကြီးသည် အောင်မြင်စွာ ပြီးဆုံးခြင်းသို့ ရောက်ရှိပြီးလျှင် မြန်မာ-တရုပ် နှစ်နိုင်ငံစပ်ကြား၌ နှစ်နိုင်ငံအစိုးရတို့ အနူးအညွတ် သဘောတူ လက်ခံ၍ သိပ္ပံနည်းကျကျ၊ ပြည့်ပြည့် စုံစုံ၊ ထင်ထင် ရှားရှား၊ ပြတ်ပြတ် သားသား သတ်မှတ်ထားသော နယ်နိမိတ်ကြီးသည် ရာဇဝင်၌ ပဌမအကြိမ် ပေါ်ပေါက် ရပ်တည် လာလေတော့သည်။

**ဦးထွန်းတင်**

**မြန်မာနိုင်ငံကုန်းသတ္တဝါများ။** ။ကုန်းသတ္တဝါဆိုသည်မှာ ကုန်းပေါ်တွင် နေထိုင်သော သတ္တဝါများဖြစ်သည်။ ကျောရိုးမဲ့ သတ္တဝါများ အနက် အင်းဆက်ပိုး၊ ပိုးနသန်ကောင်၊ ကင်းခြေများ အစရှိသည်တို့ ပါဝင်သော မီရီအက်ပေါ့များနှင့် ပင့်ကူ၊ ကင်းမြီးကောက် အစရှိသည်တို့ ပါဝင်သော အာရက်နစ်များသည် ကုန်းပေါ်တွင် အများဆုံး တွေ့ရသော ကျောရိုးမဲ့ သတ္တဝါများ ဖြစ်ကြသည်။ ကျောရိုးရှိသတ္တဝါများအနက် ဆိုပြန်လျှင် ကုန်းနေရေသတ္တဝါ၊ တွားသွား သတ္တဝါ၊ ငှက်နှင့် နို့တိုက်သတ္တဝါမျိုးသည် ကုန်းသတ္တဝါတွင် အများဆုံး ပါဝင်ကြသည်။

ကုန်းအရပ် ဒေသမှ ဖြာထွက်သော လမ်းအသွယ်သွယ်ရှိသည်။ အချို့သောကုန်းနေသတ္တဝါတို့သည် အစာရှာဖွေရန်သော်၎င်း၊ ဘေးရန်များမှ အကာအကွယ် ယူရန်သော်၎င်း၊ မျိုးဆက်ပေါက်ပွားရန်သော်၎င်း ရေအရပ်ဒေသသို့ပြန်လည်သွားတတ်ကြသည်။ ကုန်းနေရေသတ္တဝါအားလုံးသည် မျိုးဆက်ပေါက်ပွားရန် ရေအရပ်ဒေသသို့ အစဉ်အမြဲ ပြန်လည်သွားရသည်။ တွားသွားသတ္တဝါတို့သည် ကုန်းသတ္တဝါ စစ်စစ်ဖြစ်သည်။ သို့ရာတွင် အချို့သည် ရေအရပ်ဒေသသို့ အမြဲတမ်း ပြန်လည်သွားရောက် နေထိုင်ကြသည်။ ဤကဲ့သို့ ပြန်လည်သွားသော တွားသွားသတ္တဝါတို့တွင် မိကျောင်းများ၊ လိပ်များနှင့် ပင်လယ်မြွေ၊ ရေမြွေ အစရှိသော မြွေအစုငယ်အချို့တို့ ပါဝင်ကြသည်။

အင်းဆက်ပိုးတို့နှင့် ငှက်တို့သည် လေထဲတွင် ပျံဝဲသွားလာနိုင်ကြသော သတ္တဝါတို့ ဖြစ်ကြသည်။ သို့ရာတွင် မြေပေါ်တွင် များသောအားဖြင့် နေထိုင် ကြသောကြောင့် ယင်းတို့ကို ကုန်းသတ္တဝါများ မဟုတ်ဟု မဆိုနိုင်ပေ။

နို့တိုက် သတ္တဝါတို့ အနက် အများစုသည် ကုန်းနေသတ္တဝါများ ဖြစ်ကြသည်။ နို့တိုက်သတ္တဝါ အချို့တို့သည် ရံဖန်ရံခါသော်၎င်း၊ များသောအားဖြင့် သော်၎င်း သစ်ပင်ပေါ်တွင် နေထိုင်တတ်ကြပြီးလျှင်၊ အချို့တို့သည် ရေထဲတွင် အမြဲတမ်း ပြန်လည် နေထိုင်ကြသည်။



မြန်မာ—အိန္ဒိယ နယ်စပ် ကုန်းမြင့်ဒေသများတွင် တွေ့ရများသည့် ပြောင်

မြန်မာ နိုင်ငံတွင် သတ္တဝါ ဦးရေနှင့် အမျိုးအစား ပေါများလှသည်။ အကြောင်းမှာ မြန်မာ နိုင်ငံ၏ မြေမျက်နှာပြင်နှင့် ရာသီဥတု အခြေအနေအရဆိုလျှင် ဧရာဝတီ မြစ်တလျှောက်ရှိ မြေပြန့်လွင်ပြင်များ၊ စွတ်စို၍ သစ်တောထူထပ်သော တနင်္သာရီနှင့် ပဲခူးတောင်တန်းများ၊ ခြောက်သွေ့သော အပူပိုင်းဒေသ၊ တောင်ထူထပ်၍ အေးသော မြန်မာနိုင်ငံမြောက်ပိုင်း တောင်ကုန်းဒေသ၊ ရှမ်းကုန်းပြင်မြင့် အစရှိသဖြင့် ဒေသအမျိုးမျိုး ရှိသည့်အလျောက် တိရစ္ဆာန်တို့လည်း ထူးခြားစွာ အမျိုးအစား များပြားလှသည်။

မြန်မာ နိုင်ငံကို ထင်ရှားသော သတ္တဗေဒဆိုင်ရာ ဒေသကြီးနှစ်ခု ခွဲခြားနိုင်ပေသေးသည်။ ယင်းဒေသတို့မှာ (၁) သစ်တောဖုံးအုပ်လျက်ရှိသော ဟိမဝန္တာ၊ အာသံနှင့် မြန်မာနိုင်ငံမြောက်ပိုင်းမှသည် တောင်ဖက်သို့ မြိတ်အနီးအနားတဝိုက်အထိ ပါဝင်သည့် ဒေသနှင့် (၂) မလ္လာယုကျွန်းဆွယ်၏ တစိတ်တဒေသဖြစ်သော တနင်္သာရီ တောင်ပိုင်း ပါဝင်သည့်ဒေသတို့ ဖြစ်ကြသည်။

မြန်မာနိုင်ငံရှိ ကုန်းသတ္တဝါများ အကြောင်း ရေးသားရာတွင် အင်းဆက်ပိုးတို့နှင့် တကွ ယင်းသတ္တဝါတို့အပြင် အရေးကြီးသော ကျောရိုးရှိ ကုန်းသတ္တဝါတို့အကြောင်းကို အတိုချုံး၍ ပြန်လည် ရေးသား တင်ပြရမည် ဖြစ်ပေသည်။ ဤကဲ့သို့ရေးသားရာတွင် အဆင့်အောက်တန်းကျသော သတ္တဝါငယ်တို့မှ စရပေမည်။

မြန်မာ နိုင်ငံသည် အင်းဆက်ပိုးလေ့လာသူတို့ နှံ့စပ်စွာ မလေ့လာရသေးသော အရပ်ဖြစ်သည်။ ပိတုန်း၊ လိပ်ပြာနှင့် ဖျက်ဆီးတတ်သော အင်းဆက်ပိုးအချို့ကိုသာ စုဆောင်းရှာဖွေကာ ရေးသားဖော်ပြထားပြီး ဖြစ်သည်။ သို့ရာတွင် အင်းဆက်ပိုးအများစုအကြောင်းကိုမူကား ရေးသားဖော်ပြထားခြင်း မရှိသေးချေ။ ယင်းတို့သည် ကျွန်ုပ်တို့ နိုင်ငံ၏ ထွက်ကုန်များအတွက် အရေးမပါသော အစိတ်အပိုင်းဖြစ်သည်ဟု မည်သို့မျှ မဆိုနိုင်ပေ။ ချိပ်ထွက်သော အင်းဆက်ပိုး၊ ပျားနှင့် ပိုးမျှင် ထွက်သည့် ဖလံကောင်တို့သည် မိမိတို့မှ ရသော အသုံးဝင် ပစ္စည်းများအတွက်၎င်း၊ ပိုးစုန်းကြူးနှင့် လိပ်ပြာတို့သည် ယင်းတို့၏ လှပသောဂုဏ်အင်္ဂါကြောင့်၎င်း၊ ခြများ၊ အပင်ကို ပျက်စီးစေသော အင်းဆက်ပိုးများနှင့် ပေါက်ဖတ်တို့သည် ယင်းတို့၏ ဖျက်ဆီးတတ်သော အလေ့ကြောင့်၎င်း၊ တောခြင်များ၊ ခြင်ပုန်းများ၊ အလေ့းအမှား၊ သန်းနှင့်ကြမ်းပိုးတို့သည် လူတို့ကို အနှောင့်အရှက်ပေးခြင်းကြောင့်၎င်း အရေးပါကြသည်။ ပိုးနသန်ကောင်များ၊ ပင့်ကူများနှင့် ကင်းမြီးကောက်၊ ကင်းမလက်မည်းတို့သည်လည်း လူတို့ကို နှောင့်ရှက်ခြင်းကြောင့် အရေးကြီးသည်။

ကုန်းဒေသတွင် နေထိုင် ကြသော ကျောရိုးရှိ သတ္တဝါများအနက် ရှေးအကျဆုံး သတ္တဝါတို့မှာ အမ်ဖီဗီယာမျိုးပေါင်းတွင် ပါဝင်သော ကုန်းနေရေသတ္တဝါတို့ ဖြစ်သည်။ ယင်းတို့သည် များသောအားဖြင့် ကုန်းပေါ်တွင် နေကြသည်။ သို့သော် ပေါက်ပွားရန် ရေထဲသို့ ပြန်သွားကြရသည်။ ပေါက်ခါစ အရွယ်တွင်လည်း ရေထဲ၌ပင် နေတတ်သည်။မျိုးစဉ် ဆီစီလီအီဒီးမှာမူ မြန်မာနိုင်ငံတွင် အလွန်ရှားပါးပြီးလျှင် နှစ်မျိုးသာရှိသည်။ ယင်းတို့မှာ အစ်သီယိုဖစ် ဂလူတီနိုဆမ်နှင့် အစ်သီယိုဖစ် မိုနိုခရိုယမ်တို့ ဖြစ်ကြသည်။

ဆလမန်ဒြီးဒီးမျိုးစဉ်တွင် ပါဝင်သော အကောင်များအနက် တိုင်လိုတြိုင်တန် ဗာရုကိုဆပ် တမျိုးသာရှိသည်။ယင်းတို့ကို ဆစ်ကင်နှင့် ရခိုင်တိုင်းရှိ စွတ်စိုသော တောတို့တွင် တွေ့ရသည်။

ရာနီဒီးမျိုးစဉ်တွင် ပါဝင်သော မျိုးစုအများပင် ရှိသည်။ ယင်းတို့အနက် အချို့သည် ရေတွင် အနေများသည်။ သို့ရာတွင် အများစုသည် ကုန်းပေါ်တွင် နေကြသည်။ ဇီနိုဖရစ်မွန်တီကိုလာခေါ် ဖားမျိုးသည် ပဲခူးနှင့်ဆစ်ကင်တွင် တွေ့ရှိရသည်။ ကယ်လိုဖရိုင်နပ် အင်တာလီနီအေတာသည် အောက်မြန်မာနိုင်ငံရှိ စွတ်စိုသောတောများ၌ ကျောက်တုံးများအောက်တွင် ခိုလှုံနေတတ်သည်။ မိုက်ခရိုဖိုင်လာ ကာနေတီကာ၊ မိုက်ခရိုဖိုင်လာ ဗဒ်မိုရိုင်၊ ဂလစ်ဖိုဂလော့ဆပ် မော်လပ်ဆပ်၊ ကယ်လူလာ ပူလခရာနှင့် ကယ်လူလာ ဂတ်တူလေတာ ဖားခုန်ညင်းတို့ကို မြန်မာနိုင်ငံတောင်ပိုင်းတွင် တွေ့ရပြီးလျှင် လက်ပတိုဗရက်ကီယမ် ဟာက်ဆယ်လတီကို ရခိုင်ရိုးမ တောင်ပေါ်တွင် တွေ့ရသည်။

ခြေချောင်း လက်ချောင်း အဖျားများတွင် ကျယ်ပြန့်ပြီးလျှင် လေသွင်းကာကိုင်တွယ်နိုင်သော စုပ်ကွက်များရှိသော ဖားလည်း အများပင် ရှိသည်။ ထင်ရှားသော အမျိုးတို့မှာ ပေါ်လီပီဒေတီးမျိုးစု၊ အိတ်ဇေလပ်နှင့် ဟိုင်လာခေါ် ဖားပံ့မျိုးစုတို့တွင် ပါဝင်ကြသည်။ ယင်းတို့ကို မြန်မာနိုင်ငံအနှံ့အပြားတွင် တွေ့ရသည်။

ဗူဖို ဖားပြုပ်မျိုးစုတွင် ထင်ရှားသော မျိုးစိတ်နှစ် ခုပါဝင်သည်။ ယင်းတို့မှာ ဗူဖို မီလန်နိုစတစ်တပ်နှင့် ဗူဖိုအက်စပါတို့ ဖြစ်ကြပြီးလျှင် မြန်မာနိုင်ငံ အရပ်ရပ်တွင် တွေ့ရသည်။

တွားသွား သတ္တဝါတို့သည် ကုန်းနေသတ္တဝါအစစ် ဖြစ်သည်။ သို့ရာတွင် ယခုတိုင်ရှိကြသော တွားသွား သတ္တဝါတို့ ပါဝင်သည့်မျိုးစဉ်သုံးခုအနက် စကွာမေတာတွင် ပါဝင်သော ပုတ်သင်မျိုး၊ မြွေမျိုးတို့သည် ကုန်းနေသတ္တဝါတို့ ဖြစ်သည်။



စိုင်ကို တောင်ကုန်းထူထပ်သော မြန်မာနိုင်ငံ အနောက်မြောက်ပိုင်း မဏိပူရ နယ်စပ်တလျှောက်တွင် တွေ့ရသည်။

အခြား မျိုးစဉ်နှစ်ခု ဖြစ်သော ကရော့ကိုဒီလီယာနှင့် ကီရိုနီယာတို့တွင် ပါဝင်သော မိကျောင်းမျိုး၊ လိပ်မျိုးတို့သည် မိမိတို့တသက်တာတွင် ရေ၌ အများဆုံးအချိန်ကုန်ကြသည်။

မြန်မာနိုင်ငံတွင် ပုတ်သင်မျိုးတို့ပါဝင်သည့် မျိုးရင်းရှစ်ခု ရှိသည်။ သို့ရာတွင် မျိုးရင်း သုံးခုတွင် ပါဝင်သည့် မျိုးစိတ်တို့ကိုသာ အများဆုံးတွေ့ရသည်။ ယင်းမျိုးရင်း သုံးခုတို့မှာ တောက်တဲ့တို့ ပါဝင်သော ဂက်ကိုနီဒီး၊ ပုတ်သင်တို့ ပါဝင်သော အက်ဂါမီဒီးနှင့် ကင်းလိပ်ချော့တို့ ပါဝင်သော ဆကင်ဆီဒီးတို့ ဖြစ်ကြသည်။ တောက်တဲ့ မျိုးတွင် ပါဝင်သော ဟယ်မီဒက်တီလပ် မျိုးစုဝင် အိမ်မြှောင်များနှင့် တောက်တဲ့တို့သည် လူသိများသော အကောင်များ ဖြစ်ကြသည်။ ပုတ်သင်မျိုးတို့သည် တောတွင် နေကြသော သတ္တဝါများ ဖြစ်ကြသည်။ ပုတ်သင်ပျံတို့ကို တနင်္သာရီတိုင်းမှ မြောက်ဖက်သို့ ရှမ်းပြည်တောင်ပိုင်းအထိ တွေ့ရသည်။ တနိုင်ငံလုံးတွင် အများအပြားတွေ့ရသော ပုတ်သင်မျိုးမှာ ကယ်လိုတီးမျိုးစုဝင်များ ဖြစ်ကြသည်။

လီအိုလက်ပစ် မျိုးစုတွင်ပါဝင်သော ပုတတ်များကို ရခိုင်၊ ပဲခူးနှင့် တနင်္သာရီတိုင်းတို့တွင် တွေ့ရသည်။ ပုတတ်တို့သည် ဟင်းသီးဟင်းရွက်များ ကိုသာ မှီဝဲသော သတ္တဝါများဖြစ်ကြသည့် အလျောက် နွေဦးပေါက်စတွင် ပွင့်တတ်သော ပုတတ်စာပွင့်များကို စားသည်။ ယင်းတို့သည် ကုန်းသတ္တဝါ သက်သက် ဖြစ်ပြီးလျှင် မြေတွင်းတူးကာ နေတတ်သည်။ အုပ်ဖွဲ့၍ နေတတ်သောအလေ့ ရှိသည်။ အချို့လူများသည် ပုတတ်ကို အလွန်တန်ဖိုးထားကာ စားကြသည်။

ကင်းလိပ်ချော ၁၂ မျိုးမျှ မြန်မာနိုင်ငံတွင် အနှံ့အပြား ရှိသည်။ အထူးသဖြင့် မြန်မာနိုင်ငံ တောင်ပိုင်းတွင် အများဆုံးတွေ့ရသည်။ ထိုအပြင် ဖွတ်သုံးမျိုးခန့်ရှိသည်။ ဖွတ်သားနှင့်ဖွတ်ဥကို အချို့လူများထူးထူးခြားခြားနှစ်သက်ကြသည်။

မြွေများအနက် တွင်းထဲ၌ အမြဲပုံးအောင်းနေတတ်သော ဆင်ပစ် မြွေငယ်မျိုးမှစ၍ ကြီးမားသော စပါးအုံးမြွေကြီးများအထိ အများအပြားရှိသည်။ စပါးအုံး မြွေကြီးများသည် သစ်ပင်ရိပ်ကို လာရောက်ခိုလှုံသော တိရစ္ဆာန်ငယ်တို့ကို ဖမ်း၍စားရန် သစ်ပင်ထိပ်ဖျားတို့၌ နေတတ်ကြသည်။

ဆင်ပစ်မြွေများအကြောင်း စိတ်ဝင်စားဖွယ် ဒဏ္ဍာရီများ ရှိသည်။ ယင်းဒဏ္ဍာရီများအရ ဆိုလျှင် ဆင်ပစ်မြွေသည် အဖျား နှစ်ဖက်လုံး၌ ခေါင်းတလုံးစီရှိသည်။ ထို့ကြောင့် မိမိတို့ ကြိုက်သလို ရှေ့သို့ပြေးလိုက် နောက်သို့ပြေးလိုက် ပြုလုပ်နိုင်ခြင်း ဖြစ်သည်။ ယင်းမြွေကို ထက်ပိုင်းဖြတ်လိုက်လျှင် တပိုင်းသည် တဖက်သို့ ပြေးပြီးလျှင် အခြား တပိုင်းသည် အခြားတဖက်သို့ ပြေးသည်။ အချို့ကလည်း ယင်းမြွေတွင် ခေါင်းတလုံး အမြီးတခုရှိပြီးလျှင် ခြောက်လတကြိမ် အမြီးနှင့်ခေါင်း နေရာပြောင်းသည်ဟု ဆိုသည်။ မိမိကိုယ်ကို ခြောက်ပေအမြင့် ခုန်ပြီးသော် ဆင်ပေါ်သို့ ရောက်နိုင်သည်။ ယင်းမြွေ ကိုက်လိုက်သည်နှင့်တပြိုင်နက် ဆင်လည်း ယိမ်းယိုင်သွားကာ ချက်ခြင်းပင် မြေသို့လဲကျသေသည်ဟု ဆိုသည်။ ထို့ကြောင့်လည်း ယင်းတို့ကို ဆင်ပစ်မြွေဟု ခေါ်ခြင်း ဖြစ်လေသည်။



အပူပိုင်း ဒေသများနှင့် ရှမ်းကုန်းပြင်မြင့် အရပ်တို့တွင် ဆိတ်များကို အထူးအားဖြင့် တွေ့ရသည်။



သစ်တောကြိုးဝိုင်းများတွင် ဆတ်များကို တမင်မွေးမြူထားရသည်။

မြန်မာနိုင်ငံတွင် အဆိပ်ရှိသော မြွေမျိုးပေါင်း မြောက်များစွာ ရှိသည်။ မြွေဟောက်၊ ငန်းတော်ကျား၊ မြွေပွေး၊ မြွေစိမ်းမြီးခြောက်များကို အနှံ့အပြား တွေ့ရသည်။ မိမိတို့၏ အစာဖြစ်သော သတ္တဝါငယ်တို့ကို ဖမ်းဆီးရာတွင် အဆိပ်ကို အသုံးပြုသည်။ သို့ရာတွင် လူ၊ တိရစ္ဆာန်အကြီးများနှင့် တွေ့သောအခါ ခုခံကာကွယ်သော သဘောနှင့် အဆိပ်ကို အသုံး ပြုသေးသည်။ ယင်းတို့ရှိခြင်းသည် လူတို့ကို ဘေးအန္တရာယ်ဖြစ်စေသည်။ မြန်မာနိုင်ငံကဲ့သို့ လယ်ယာ စိုက်ပျိုးသော တိုင်းပြည်တွင် နှစ်စဉ် မြွေဆိပ်ကြောင့် အသက်ဆုံးရှုံးရသူများမှာ ထောင်ပေါင်းများစွာပင် ဖြစ်သည်။

မြန်မာနိုင်ငံရှိ မြွေအားလုံးကို သုတေသန မပြုလုပ်ရသေးပေ။ သို့ရာတွင် အိန္ဒိယ–မြန်မာဆိုင်ရာ မြွေအကြောင်းစာပေ အရ ဆိုလျှင် မျိုးရင်း ၁၁ ခုရှိပြီးလျှင် မျိုးစု ၉၀၊မျိုးစိတ် ၃၇၇ ရှိသည်။ ယင်းတို့အနက် မျိုးရင်း သုံးခုသာ အဆိပ်ရှိသည်။ထိုမျိုးရင်း သုံးခုတွင် မျိုးစု ၂၂ ခုနှင့် မျိုးစိတ် ၇၁ ခုပါဝင်သည်။ အထက်ပါ စာရင်းအရ အဆိပ်မရှိသော မြွေသည် အဆိပ်ရှိသော မြွေထက် ဦးရေများကြောင်းသိရပေသည်။

မြန်မာနိုင်ငံ ငှက်များအကြောင်းကို သုတေသီ အများပင် ရေးသားဖော်ပြခဲ့ပြီး ဖြစ်သည်။ သို့ဖြစ်၍ အများ သိကြသောငှက်မျိုးအချို့ကိုသာဖော်ပြလိုပေသည်။ သစ်တောက်ငှက်တို့ပါဝင်သော ပိဆိမျိုးစဉ်တွင် ငှက်မျိုးပေါင်း ၃၄ မျိုးရှိ၍ မြန်မာနိုင်ငံ အနှံ့အပြားတွင် တွေ့ရသည်။ ငှက်ပန်းထိမ်၊ ဖိုးခေါင်၊ ကုပ်ကလောင်၊ ငှက်ခါး၊ ယောင်ယင်၊ အောက်ချင်း၊ ယောင်ယင်နက်၊ တောင်ပီစူး၊ ပတူငှက်၊ ပိန်ညင်း၊ ထုတ္တရူ (ထပ်တယူ)၊ ပျံလွှား အစရှိသောငှက်တို့သည် ဗေဒလစ်တိုရီးမျိုးစဉ်တွင် ပါဝင်၍ ယင်းမျိုးစဉ်တွင် ၁၀၆ မျိုး ပါဝင်ပြီးလျှင် မြန်မာနိုင်ငံအရပ်ရပ်တွင် တွေ့ရှိနိုင်သည်။ ဥဩ၊ ဝါဖလေး၊ ဘုတ် အစရှိသောငှက် ၂၄ မျိုးတို့သည် စကန်ဆိုရီးမျိုးစဉ်တွင်ပါဝင်သည်။မြေညှော်(မြီးညှော်)၊ဗျွတ်ဖင်နီ၊ စာ၊ ကျီး၊ ကျီးအတို့သည် အမျိုးပေါင်း ၃၀၀–၄၀၀ အထိရှိသော ပက်ဆာရီးမျိုးစဉ်တွင် ပါဝင်သည်။ခိုး၊ချိုး၊ချိုးပိန်တူးတို့သည် ကော်လမ်ဗီး မျိုးစဉ်တွင်ပါဝင်၍ မြန်မာနိုင်ငံတွင် ၃၇ မျိုးခန့်ရှိသည်။ ဥဒေါင်း၊ ဒေါင်းကုလား၊ တောကြက်တို့သည် ဂယ်လီနီးမျိုးစဉ်တွင်ပါဝင်၍ ၂၆ မျိုးရှိသည်။ ကြိုးကြာ၊ ခရုစုတ်၊ ကလူကွက်တို့ ပါဝင်သော ဂရယ်လီးမျိုးစဉ်တွင် အမျိုးပေါင်း ၁၃၀ ခန့်ရှိသည်။ တောဝမ်းဘဲနှင့် ဘဲမျိုးတို့သည် အန်ဆာရီးမျိုးစဉ်တွင်ပါဝင်၍ ၅၀ ခန့်ရှိသည်။ လင်းတ၊ သိမ်း၊ ချိုးသိမ်း၊ ဝံလို၊ ဝံလက်၊ ဒေါင်းစွန်၊ သိမ်းကျား၊ စွန်ခေါင်းဖြူ၊ စွန်၊ ငှက်ဆိုး၊ တီးတုတ်၊ ဇီကွက်၊ ခင်ပုပ်တို့မှာ ၉၂ မျိုးရှိပြီးလျှင် ရပ်ပတိုရီးမျိုးစဉ်တွင် ပါဝင်



ယနေ့တိုင် မြန်မာ တောင်သူလယ်သမားကြီးတို့အား ဒုက္ခပေးလျက်ရှိသေးသည့် ကျား



မြန်မာနိုင်ငံ ကုန်းတိရစ္ဆာန်များအနက် ကြံ့တို့၏အရေအတွက်သည် အထူးယုတ်လျော့သွားလေပြီ။

သည်။ ကြက်တူရွေး၊ ကျေးသတ္တဝါတို့မှာ ၂၄ မျိုးရှိ၍ ဆစ်တာစီဒီး မျိုးစဉ်တွင် ပါဝင်ကြသည်။

တပြည်လုံးတွင် အနှံ့အပြား တွေ့ရသော ဇွေငှက်မျိုးစိတ်လေးခုရှိသည်။ ယင်းတို့၏ ဒေသမှာ ပဲခူး၊ ရောဝတီအထက်ပိုင်းနှင့် နီကိုဗာကျွန်းများ ဖြစ်ကြသည်။

လင်းနို့နှင့်လင်းဆွဲ မျိုးစိတ်ပေါင်း ၅၄ ခုကို မြန်မာနိုင်ငံတွင်တွေ့ရ၏။ယင်းတို့အနက် ကိုးမျိုးသည် အသီးအနှံစား၍ကျန် ၄၁ မျိုးသည် အင်းဆက်ပိုးကောင်များစားတတ်သည်။

မျောက်လောင်းပျံတို့ကိုမူကား တနင်္သာရီ၊ ပဲခူးနှင့် ရခိုင်တိုင်းတို့တွင် တွေ့ရကြောင်း သိရှိရသည်။

မြန်မာနိုင်ငံ မြောက်ပိုင်းတွင် သင်းခွေချပ် နှစ်မျိုးတွေ့ရသည်။ ယင်းတို့သည် ခါချဉ်ကောင်များကို စားတတ်၍ကိုယ်တွင် အကြေးများ ရှိသည်။

နေ့းကွေး၍ နှာတံရှည်သော မျောက်မျိုး ဖြစ်သည့်မျောက်မောင်းမကို အာသံမှ ဗော်နီယိုအထိ တွေ့ရသော်လည်း မြန်မာနိုင်ငံတွင် အများအပြား မရှိချေ။ အမြီး မရှိသော မျောက်လွှဲကျော် နှစ်မျိုးတွေ့ရသည်။ တမျိုးသည်ရောဝတီမြစ်ဝှမ်းတွင် နေထိုင်သော မျောက်လွှဲကျော် မျက်ကွင်းဖြူဖြစ်ပြီးလျှင် အခြားတမျိုးသည် တနင်္သာရီတိုင်းတွင်နေထိုင်သော မျောက်လွှဲကျော်လက်ဖြူ ဖြစ်သည်။ မကာကပ်မျောက် ခြောက်မျိုးခန့်ရှိသည်။ ယင်းတို့သည် တနင်္သာရီတွင် တွေ့ရသော မျောက်ပုတီး၊ ရခိုင်တိုင်းနှင့် ရောဝတီမြစ်ဝှမ်းကြားတွင် တွေ့ရသော မျောက်နီ၊ စစ်တွေတောင်ဖက်တွင် တွေ့ရသော ကနန်းစား မျောက်တံငါ၊ ကချင်တောင်များမှ အာသံအထိ ဖြစ်သော တောင်များပေါ်တွင် နေထိုင်သော မျောက်မြီးတို၊ ရောဝတီမြစ်ဝှမ်း တလျှောက် ဗန်းမော်အောက်တွင် အစုလိုက် အုပ်ဖွဲ့နေတတ်သော မကာကပ်အက်ဆမ်မန်ဆစ်နှင့် မြန်မာနိုင်ငံ အနှံ့အပြားတွင်တွေ့ရသောမကာကပ် ရီးဆပ်တို့ဖြစ်ကြသည်။ ဆမ်နိုပိသိကပ် မျိုးစုတွင်ပါဝင်သော မျောက်မျိုးစိတ် မြန်မာနိုင်ငံတွင် ငါးမျိုးရှိသည်။ ယင်းတို့သည် မကာကပ် မျောက်များထက် ကြီးပြီးလျှင် ခြေလက်နှင့် အမြီး ပို၍ရှည်သည်။ ဆမ်နိုပိသိကပ် ဗာဗိုင်တို့၏ဒေသမှာ တိပါရတောင်များ၊ ကချင်တောင်များနှင့်မန္တလေးအထက် ရောဝတီမြစ်ဝှမ်း တလျှောက်တို့ဖြစ်သည်။ ဆမ်နိုပိသိကပ် ပီလီအေလပ်တို့ကိုမူကား တိပါရတောင်များမှ ရောဝတီမြစ်ဝှမ်း တလျှောက်အပြင် တောင်ဖက်သို့ တနင်္သာရီတိုင်း တိုင်အောင် တွေ့ရသည်။ ဆမ်နိုပိသိကပ် အော့စကုရပ် ခေါ် မျောက်ညိုနှင့် ဆမ်နိုပိသိကပ် ခရိုင်အိုဂတ်စတာတို့၏ ဒေသသည် တနင်္သာရီတိုင်း ဖြစ်ပြီးလျှင်၊ ဆမ်နိုပိသိကပ် ကရစ္စတေးတပ်ခေါ် မျောက်များ၊ မျက်ကွင်းဖြူတို့၏ ဒေသမှာ ရခိုင်နှင့် တနင်္သာရီတိုင်းတို့ ဖြစ်ကြသည်။

ရှဉ့်အမျိုးပေါင်း ၂၁ မျိုးကို မြန်မာနိုင်ငံတွင် တွေ့ရသည်။ အများဆုံး တွေ့ရသော အမျိုးမှာ ရှဉ့် အမည်းကြီးမျိုးဖြစ်သည်။ မြေကြွက် မျိုးစိတ်ပေါင်း ၁၈ ခု၊ ကြွက်စုတ် မျိုးစိတ်ပေါင်း ရှစ်ခုနှင့် ပွေးမျိုးစိတ်ပေါင်း ငါးခု ရှိသည်။ ဖြူမျိုးစိတ်နှစ်ခုအနက် တခုကို ရခိုင်တိုင်းတွင်တွေ့ရပြီးလျှင် အခြားတခုကို တနင်္သာရီတိုင်းတွင် တွေ့ရသည်။ ယုန်မျိုးစိတ် တခုတည်းသာရှိ၍ ယင်းကို ပဲခူးမြောက်ပိုင်းတွင် တွေ့ရသည်။

ကြောင်ကတိုးနှင့် တကွ ယင်းနှင့် နီးစပ်သော မျိုးစိတ်ပေါင်း ခုနစ်ခုရှိသည့်အနက် ဗီဗီရာ ဇီဗက်သာခေါ် မီးခိုးရောင် ကြောင်မြင်းသည် အများဆုံးတွေ့ရသော အကောင်ဖြစ်သည်။ ဗီဗီရာ တန်ဂလန်ဂါခေါ် ကြောင်ကတိုးအကျားမျိုးကို ပြည်မြို့မှပီနံအထိ တွေ့ရသည်။ ဗီဗီရာကူလာ မလက်ဆင်းစစ်ခေါ် ကြောင်ကတိုးမျိုးကိုမူကား မြန်မာနိုင်ငံအနှံ့အပြားတွင် တွေ့ရသည်။ ယင်းတို့၏ စစ်ထွက်ရည်သည် မြန်မာဆေးဖက်ဝင် ပစ္စည်းတမျိုး ဖြစ်သည်။ မြန်မာနိုင်ငံအနှံ့အပြားတွင် တွေ့ရသော အခြား ကြောင်တမျိုးမှာ ကြောင်ဝံပိုက်ဖြစ်သည်။အစင်းသုံးကြောင်းရှိသော ကြောင်နဂါးတို့ကို တနင်္သာရီနှင့် ရခိုင်တိုင်းတို့တွင်၎င်း၊ ကြောင်နားရွက်ဖြူတို့ကို ရခိုင်တိုင်းမှ တနင်္သာရီအထိ၎င်း၊ မျောက်ကျားတို့ကို မလ္လာယုကျွန်းဆွယ်တိုင်းပြည်များမှ အာသံပြည်အထိ၎င်း တွေ့ရသည်။ မြွေပါမျိုးစိတ် သုံးခုကို မြန်မာနိုင်ငံအရပ်ရပ်တွင် တွေ့ရသည်။ ဖဲလစ်မျိုးစုတွင် ပါဝင်သောမျိုးစိတ်ရှစ်ခုရှိရာ၊ ဖဲလစ်တိုက်ဂရစ်ခေါ် ကျားကို မြန်မာနိုင်ငံအနှံ့အပြား တောထူထပ်သောဒေသများတွင် တွေ့ရသည်။ ဖဲလစ်ပါဒတ်ခေါ် သစ်များနှင့် သစ်ကျားနက်တို့ကို ထားဝယ်ခရိုင်တွင် အများအပြားတွေ့ရသည်။ ငါးဖမ်း၍ စားတတ်သော ကျားကြောင်၊ သစ်ကြောင်၊ ကျောက်ဖြူရောင် ရှိသော ကျားကြောင်နှင့် သာမန်ကြောင်တို့ကို မြန်မာနိုင်ငံအရပ်ရပ်တွင် တွေ့ရသည်။

ဟီလတ်တော့ မလေယာနတ်ခေါ် ဝက်ဝံတို့၏ဒေသသည် တနင်္သာရီဖြစ်ပြီးလျှင် အိန္ဒိယဝက်ဝံနက်ကို တောင်ငူအနီးတွင် တွေ့ရကြောင်း တင်ပြထားသည်။ ခွေးတူ ဝက်တူကို



သစ်လုပ်ငန်းတွင် အရေးပါဆုံးဖြစ်သည့် ဆင်

ရခိုင်နှင့် စစ်တောင်းမြစ်ဝှမ်းတွင် တွေ့ရသည်။ တောခွေးကို မြန်မာနိုင်ငံတွင် အနှံ့အပြား တွေ့ရပြီးလျှင် မြေခွေးကို ရခိုင်တိုင်းအတွင်း တောင်ဖက်နတ်မြစ်သို့ တိုင်အောင် တွေ့ရသည်။

ဆပ်စမျိုးစုဝင် တောဝက်မျိုးစိတ် နှစ်ခုရှိကြောင်း သိရသည်။ ရှူဆာ အရစ်တိုတယ်လီးခေါ် ဆတ်သည် မြန်မာနိုင်ငံတွင် ပျံ့နှံ့၍ နေသည်။ ဟီလက်ဖက် ပေါ်စီနပ်ခေါ် ဒရယ်ကို တနင်္သာရီမြစ်ဝှမ်းနှင့် စစ်တောင်းတွင်ရှိသော လွင်ပြင်တို့တွင် တွေ့ရသည်။ ပန်နိုလီယ အယ်လဒီခေါ် သမင်တို့ကို ပဲခူး၊ တနင်္သာရီနှင့် မြိတ်အစရှိသည့် ဒေသတို့တွင်၎င်း၊ ဆာဗူလတ် ဩရီယပ်ခေါ် ချေ၊ တောဆိတ်နှင့် ပြောင်တို့ကို တပြည်လုံးတွင် ပျံ့နှံ့လျက်၎င်း တွေ့ရသည်။ စိုင်ကို ပဲခူးတိုင်းတွင်၎င်း၊ ရခိုင်တွင်၎င်း တွေ့ရသည်။ ဗာဗလပ် အာနီခေါ် ကျွဲရိုင်းကို မြန်မာနိုင်ငံ အနှံ့အပြားတွင် တွေ့ရသည်။ တာကင်ခေါ် သားမင်းကို မစ်ရှမီတောင်၊ တိဗက်အရှေ့ပိုင်း၊ အာသံ၊ မြန်မာနှင့် တိဗက်နယ်ခြား၊ ကချင်ပြည်နှင့် သံလွင်-ရေဝတီခွဲရာ ဒေသအသီးအသီးရှိ မြင့်မားသော တောင်တို့ပေါ်တွင် အုပ်ဖွဲ့၍နေကြောင်း သိရသည်။

မြန်မာနိုင်ငံတွင် ကြံ့မျိုးပေါင်း သုံးမျိုးရှိ၏။ ယင်း အနက် နှစ်မျိုးမှာ ဦးချိုနှစ်ချောင်းရှိ၍ ကျန်တမျိုးမှာ ဦးချိုတချောင်းသာလျှင် ရှိ၏။ ဦးချို တချောင်းရှိသော ကြံ့ဆင်မျိုး (ရိုင်နိုဆာရပ် ဆွန်ဒိုင်ကပ်)သည် တနင်္သာရီဒေသရှိ လူသူမနီးသော မြစ်ကမ်းပါးကြီးများနှင့် တောင်များပေါ်တွင် နေကြောင်း သိရသည်။

ဦးချိုနှစ်ချောင်းရှိ ကြံ့လျှော်မျိုးမှ ရိုင်နိုဆာရပ် လက်ဆီအိုတစ် ကြံ့မျိုးသည် ရခိုင်ရိုးမတောင်နှင့် မြန်မာနိုင်ငံအထက်ပိုင်းတွင် နေကြ၍ ယင်းတို့သည် အနားတွန့်သော နားရွက်ရှိသည့် ကြံ့မျိုးဖြစ်သည်။ အခြား ချိုနှစ်ချောင်း ကြံ့မျိုးမှာ ရိုင်နိုဆာရပ် ဆူမာတြင်ဆစ်ဖြစ်၍ တနင်္သာရီမှ မလ္လာယု ဒေသတိုင် နေကြောင်း သိရသည်။ ယင်းကြံ့တို့သည် ရိုင်နိုဆာရပ် လက်ဆီအိုတစ်ထက် ငယ်သည်။

တရရှုး၊ သို့မဟုတ် ကြံ့သူတော် (တပီးရပ်မလေယာနပ်) မျိုးသည် ထားဝယ်၊ မြိတ်နယ်များမှ မလ္လာယုဒေသတိုင် နေထိုင်ကြောင်း သိရှိရသည်။

မြန်မာနိုင်ငံတွင် ဆင်တမျိုးတည်းသာ ရှိ၍ ယင်းတို့သည် တောဆင်ရိုင်း (အဲလီဖတ် အင်ဒိကပ်) များ ဖြစ်ပြီးလျှင် ထူထပ်သော တောတောင်များတွင် နေကြသည်။ ယင်းတို့သည် အိန္ဒိယဆင်များနှင့် တမျိုးတည်း ဖြစ်သည်ဟု အများက ယူဆကြလေသည်။ **ဦးကိုကိုကြီး**

**မြန်မာနိုင်ငံ ကျေးငှက်များ။** ။မြန်မာနိုင်ငံ အတွင်း၌ တွေ့ရသော ကျေးငှက်များတွင် မျိုးတူမျိုးကွဲအားဖြင့် မှတ်

တမ်းတင်ထားသော ငှက်မျိုးမှာ ၁,၂၄၀ ခန့်ရှိသည်။ ယင်းတို့ အနက် ငှက်မျိုး ၂၀၀ ခန့်သည် ဆောင်းရာသီတွင်မှ ရောက်လာတတ်သည့် ဧည့်သည်ငှက်မျိုးဖြစ်၍၊ ကျန်ငှက်များကား မြန်မာနိုင်ငံတွင် အမြဲတမ်း နေသော ငှက်များ ဖြစ်၏။ သို့သော်လည်း ထိုသို့ အမြဲတမ်းနေသော ငှက်များ အထဲတွင် နိုင်ငံတွင်း၌ တနေရာမှ တနေရာသို့ လှည့်လည်သွားလာနေထိုင်တတ်သည့် ငှက်မျိုး အတော်များများလည်း ပါဝင်ပေသေးသည်။

မြန်မာနိုင်ငံ၏ တည်နေရာသည် တိုတောင်းသည့်နွေရာသီအတွင်း အစာရေစာ မရှားပါးလှသော်လည်း ဆောင်းရာသီအတွင်း အခြေအနေများ လွန်ကဲ ပြင်းထန်လှသည့် အာရှတိုက် မြောက်ပိုင်းနှင့် အလယ်ပိုင်းရှိ ကုန်းမြေထုကြီး၏ တောင်ဖက်တွင် ရှိနေသည်။ ထို့ကြောင့် ပိုးမွှားနှင့် ဟင်းသီးဟင်းရွက် အစားအစာ ပေါများရာ မြန်မာနိုင်ငံတွင်းသို့ ဆောင်းခိုရန် ငှက်များ အုပ်နှင့်ချီ၍ ရောက်လာတတ်သည်မှာ မဆန်းတော့ပေ။ ထိုသို့ လာရောက်ရာတွင် ဇူလိုင်လ လောက်မှ စတင်ကာ တဖြည်းဖြည်း ရောက်လာတတ်ပြီးလျှင်၊ စက်တင်ဘာလလောက်တွင်ကား အများဆုံး ဖြစ်လေသည်။ နွေကူးရာသီတွင် ဖေဖွာရီလမှ စတင်၍ ပြန်သွားရာ၊ မေလအကုန်တွင် ဆောင်းရာသီတွင်း ရောက်လာတတ်သည့် ငှက်များအားလုံး မရှိသလောက်ပင် ဖြစ်လေတော့သည်။ ဝီးလိုးဝါးဗလား ငှက်တမျိုးသည် ယင်းတို့ပေါက်ဖွားရာ ဆိုက်ဗီးရီးယားရှိ ဒေသများမှ မိုင်ပေါင်း ၄,၀၀၀ ခန့်ကွာဝေးသည့် အင်ဒိုချိုင်းနားကျွန်းဆွယ်ရှိ တိုင်းပြည်များသို့ လာရောက် ဆောင်းခိုတတ်သည်မှာ ငှက်၏ သေးငယ်သော ပမာဏနှင့်စာသော်အံ့ဩဖွယ်ဖြစ်၏။ နိုင်ငံတွင်း၌လည်း ငှက်များသည် ထိုသို့ ဒေသကူးပြောင်းတတ်ရာ၊ အချို့ငှက်များသည် ဆောင်းရာသီတွင် တောင်ကုန်း တောင်တန်းများမှ အနိမ့်ပိုင်းဒေသများသို့ပြောင်းရွှေ့လာတတ်ခြင်း၏အကြောင်းရင်းမှာ ထင်ရှားလေသည်။ သို့သော် ပြောင်းရွှေ့ရခြင်း၏ အကြောင်းရင်းကို မသိရသေးသော ငှက်များလည်း ရှိ၏။ ပမာအားဖြင့် နှစ်စဉ် အောက်တိုဘာလတိုင်း စစ်တောင်းလွင်ပြင်သို့ လင်းမြီးဆွဲငှက် အမြောက်အမြား ရောက်လာတတ်၍၊ နွေရာသီတွင် မြန်မာနိုင်ငံ အလယ်ပိုင်းသို့ ပြောင်းရွှေ့သွားတတ်ရာ၊ ထိုသို့ပြောင်းရွှေ့ခြင်း၏ အကြောင်းရင်းကို မသိရချေ။

မြန်မာနိုင်ငံတွင် ငှက်မျိုးပေါင်း တထောင်ကျော် ရှိသော်လည်း မြန်မာအမည်အားဖြင့် ငှက်မျိုးပေါင်း ၁၆၀ ကျော်မျှသာ ရှိ၏။ ငှက်မျိုးကွဲ ရှစ်ကောင်တွေ့တိုင်း မြန်မာအမည်အားဖြင့် တကောင်ခန့်သာ ရှိနေပေသည်။ ထို့အပြင် မြန်မာစာပေ၌သာ ထင်ရှား၍ ယခုထက်တိုင် မည်သည့် ငှက်မျိုးဟု မပြနိုင်သော ငှက်များလည်း ရှိပေသေးသည်။

ပက်ဆာရီဖောမီးမျိုးစဉ်။ ။မြန်မာနိုင်ငံ၌ ဤမျိုးစဉ်တွင် ပါဝင်သည့် ငှက်မျိုးပေါင်း ၇၀၀ ကျော်ရှိသည်။ ဤမျိုးစဉ်မှ ကော်ဗီဒီမျိုးရင်းဝင်ငှက်မျိုး အတော်များများ ရှိ၍ ကျီးကန်း (မြို့ကျီးကန်း) သည် လူသိအများဆုံးဖြစ်၏။ တောတွင်း၌၎င်း၊ တောင်ကုန်းမြင့်များ၌၎င်း တောကျီးကန်းကို တွေ့ရသည်။ (ကျီး၊ တောကျီးကန်း — ရှု။) ငှက်ကျားကို ရှမ်းပြည်နယ် တောတောင်မထူထပ်သော ဒေသများတွင် တွေ့ရ၏။ ငှက်တော်ပြာ (ငှက်အောင်မ၊ ငှက်စပ်လည်းဟူ၏။) နှင့် နဖားကြီးငှက်အုပ်များကို ကျွန်းတောများတွင်၎င်း၊ လွင်ပြင်များနှင့် တောင်ခြေများရှိ စိုက်ပျိုးလုပ်ကိုင်ရာ နယ်မြေတဝိုက်မှ တောစပ်များတွင်၎င်း တွေ့နိုင်သည်။ ဗွတ်ကုလားကိုမူ ရှမ်းပြည်နယ်ရှိ တောင်စခန်းမြို့များ အနီးအပါးတွင် တွေ့ရလေသည်။ (ဗွတ်ကုလား — ရှု။)

ပယ်ရိဒီမျိုးရင်းဝင် တစ်ငှက်များ (၁၆ မျိုး) နှင့် ဆစ်တီဒီမျိုးရင်းဝင် ငှက်ပြာချောက်များ (၁၀ မျိုး) သည် နယ်ခြားတောင်ကုန်းမြင့်များတွင်သာ တွေ့ရလေ့ရှိသော ငှက်မျိုးများဖြစ်သည်။ (တစ်ငှက်၊ ငှက်ပြာချောက် — ရှု။) ပါဏဗေဒ အလိုအားဖြင့် ပေးရပ်မေဂျာဟုခေါ်သည့် မြန်မာ တစ်ငှက်ကြီးကို မေမြို့အနီးတဝိုက်တွင် တွေ့ရလေ့ရှိသည်။ ပါဏဗေဒအလိုအားဖြင့် မယ်လန်ခလော်ရာ စူလတန်နီးဟု ခေါ်သည့် စူလတန် တစ်ငှက်ကိုမူ လွင်ပြင်များနှင့် တောင်ခြေများရှိ စိုထိုင်းသော ရွက်ပြတ်တောများတွင် တွေ့ရလေသည်။ ငှက်ပြာချောက်မျိုးတွင် ငှက်ပြာချောက် (ဆစ်တာ ကက်စတာနီအာ နီဂလက်တာ) နှင့် ပါဏဗေဒအလိုအားဖြင့် ဆစ်တာ ဖရွန်တားလစ်ဟု ခေါ်သည့် ကတ္တီပါသွေး ရင်သက်ငှက်ပြာချောက်တို့ကို ပေ ၅,၀၀၀ ခန့် အထိ ဖြစ်သော အမြင့်ပိုင်းဒေသများတွင် တွေ့ရလေ့ ရှိသည်။

တင်မလိုင်းအီဒီး မျိုးရင်းဝင် ငှက်မျိုး ၁၂၀ ခန့်ရှိ၏။ ယင်းတို့အားလုံးလိုလိုပင် အမြင့်ပိုင်း ဒေသများတွင်သာ နေလေ့ရှိသော်လည်း၊ အချို့ကို လွင်ပြင်များနှင့်တောင်ခြေများတွင် တွေ့ရလေ့ရှိသည်။ ဝါးရောင်းငှက်နှင့် ဝါးရောင်းငှက်ခေါင်းဖြူတို့သည် အနိမ့်ပိုင်းမှ စိုထိုင်းသော ရွက်ပြတ်တောများ အောက်ခြေရှိ ချုံနွယ်ပိတ်ပေါင်းများ အတွင်း အငြိမ်မနေလှည့်လည် သွားလာကာ၊ တကောင်နှင့် တကောင် သူထက်ငါ ကျယ်လောင်စူးရှစွာ အပြိုင်အဆိုင် အော်မြည်နေတတ်သည်။ (ဝါးရောင်းငှက်မျိုး — ရှု။) မြန်မာနိုင်ငံတွင်သာ တွေ့ရလေ့ ရှိသော ဇွေငှက်ကို မန္တလေးတဝိုက်နှင့် မိုးပါးရေရှား ရပ်ဝန်းတွင် အတွေ့ရများ၏။ ယင်းတို့သည် ခြောက်ကောင် ခုနစ်ကောင် အအုပ်အသင်းကလေးဖွဲ့ကာ ဝင်းခြံများ၊ တောချုံစပ်များတွင် ကျက်စားနေသည်ကို တွေ့ရတတ်၍ "ညီအစ်မခုနစ်ဖော်" ဟူ၍လည်း တင်စား ခေါ်ဝေါ်တတ်သည်။ (ဇွေငှက် — ရှု။)

အီးဂျီသီနီဒီး မျိုးရင်းဝင် ရွှေပြည်စိုးငှက်ကို ပန်းခြံများ ဥယျာဉ်များတွင် တွေ့ရတတ်သည်။ တကောင်တည်းသော်၎င်း၊ စုံတွဲသော်၎င်း မိမိတို့၏ အစာဖြစ်သော ပိုးမွှားများကို ရှာဖွေယင်း၊ သစ်ပင်များနှင့် ချုံဖုတ်များတွင် ကူးလူး ပျံသန်း သွားလာနေသည်ကို တွေ့ရ၏။ ယင်း၏ အော်သံကို ရံဖန်ရံခါ ကြားရတတ်သော်လည်း၊ အတွေ့အမြင်ရ နည်းသည်။ (ရွှေပြည်စိုးငှက် — ရှု။)ထိုမျိုးရင်းဝင် ငှက်စိမ်းနှင့် မြန်မာငှက်စိမ်းတို့ကို တောင်ခြေများရှိ ကျွန်းတောကြီးများတွင် တွေ့ရလေ့ ရှိသည်။ ငှက်စိမ်းသည် ထူးဆန်း အံ့သြဖွယ်ကောင်းလောက်အောင် အခြား ငှက်များ၏ အော်သံကို အတုခိုး၍ အော်နိုင်သည်။ (ငှက်စိမ်း — ရှု။)

ပိုက္ကနိုနိုတီဒီး မျိုးရင်းဝင် ဗွတ်ဖင်နီ စသည့် ငှက်မျိုးကား မြန်မာနိုင်ငံတွင် အမျိုးပေါင်း ၅၀ ခန့်ရှိ၏။ (ဗွတ်ဖင်နီငှက်မျိုး — ရှု။) မြို့ရွာများ၊ ဥယျာဉ်များတွင် မကြာခဏ တွေ့မြင်ရသော ငှက်များဖြစ်၍ အချို့ကား တခါတရံမှသာ တောထဲ၌တွေ့ရ၏။ ထိုငှက်တို့သည် သစ်ပင်ထိပ်ဖျားတွင်နေလေ့ရှိ၍ များသောအားဖြင့် ရဲရင့်ဖျတ်လတ်သည်။ လွင်ပြင်များနှင့် တောင်ခြေများတွင် ဗွတ်ဖင်နီနှင့် ဗွတ်ကလုံတို့ကို အတွေ့ရများသည်။ (ဗွတ်ဖင်နီ၊ ဗွတ်ကလုံလည်း — ရှု။)

ဆက်ဆီကိုလီနီး မျိုးရင်းခွဲတွင် ပါဝင်သည့် ငှက်ကျား (လယ်ခြားလည်းဟူ၏။) သည် လူသိများသည့် ငှက်အငယ်စားမျိုး ဖြစ်၍ တောတောင် မထူထပ်သော ဒေသများတွင် အတွေ့ရများသည်။

မြန်မာနိုင်ငံတွင် တွေ့မြင်ရဖန် များသဖြင့် ရိုးနေသော ငှက်များတွင် သပိတ်လွယ်ငှက်လည်း အပါအဝင် ဖြစ်သည်။ ယင်းသည် တောသား သပိတ်လွယ်ငှက်ကဲ့သို့ပင် တာဒီဒီး မျိုးရင်းတွင် ပါဝင်သည်။ သပိတ်လွယ် ငှက်ဖိုသည် သီချင်းဆို ကောင်း၏။ ကျွန်းတောများတွင် နေလေ့ရှိသော တောသား သပိတ်လွယ်ငှက်သည်လည်း နံနက်ခင်းနှင့် ညနေခင်းများတွင် သာယာချိုအေး ဂီတတေးကို မြည်ကြွေးတတ်ပေသည်။ (သပိတ်လွယ်ငှက်။ တောသား သပိတ်လွယ်ငှက် — ရှု။)

တာဒိနီး မျိုးရင်းခွဲဝင် မြေလူးငှက်မျိုးမှာ ၂၈ မျိုး ရှိ၍ များသောအားဖြင့် ဆောင်းရာသီတွင်မှ ရောက်လာတတ်သည့် ဧည့်သည်ငှက်များ ဖြစ်၏။ အမြဲတမ်းနေ ငှက်မျိုးအနည်းငယ်သည်လည်း ရာသီအလိုက် ဒေသကူးပြောင်းတတ်၏။ (မြေလူးငှက် — ရှု။) မြေလူးငှက်မျိုးတွင် အပါအဝင်ဖြစ်သည့် ငှက်သူခိုး(ခေါ်) ဗိုလ်တဲငှက်ကို ဆောင်းရာသီအတွင်း တောင်ခြေများနှင့် တောင်များပေါ်တွင် အတွေ့ရများလေသည်။ (ငှက်သူခိုး — ရှု။)

မတ်ဆီကပီဒီး မျိုးရင်းဝင် စာဖြူစာမဲစသည့် ငှက်မျိုးကား ၄၉ မျိုးရှိသည်။ ထိုငှက်မျိုးအချို့ကား အမြဲတမ်း နေထိုင်သည့် ငှက်မျိုးဖြစ်သော်လည်း အများအပြားပင် ရာသီအလိုက် ဒေသပြောင်းရွှေ့တတ်၏။ (စာဖြူစာမဲ — ရှု။)စာဖြူကို မြန်မာနိုင်ငံတွင် အနှံ့အပြား တွေ့ရသော်လည်း အရှေ့ပိုင်းနှင့် အလယ်ပိုင်းတွင်သာ ပေါက်ပွားလေ့ ရှိသည်ဟု သိရ၏။ လန်နီအီဒီး မျိုးရင်းဝင် ငှက်ဘီလူးမျိုး ၁၃ မျိုးရှိရာ၊ အချို့မှာ ဆောင်းရာသီမှသာ တွေ့ရသော ဒေသပြောင်းရွှေ့တတ်သည့် ငှက်များဖြစ်သည်။ (ငှက်ဘီလူး — ရှု။)ထိုမျိုးရင်းဝင် ငှက်တစပ်၊ သို့မဟုတ် ဝါးရုံကြက်ကို ဆောင်းရာသီတွင် လွင်ပြင်များ၌ တွေ့ရလေ့ရှိ၏။ စက်တင်ဘာလမှ ဧပြီလအထိ ထိုငှက်၏ စူးရှသော အော်သံကို ရန်ကုန်အနီးတဝိုက်တွင် တနေ့လုံးလို ကြားရတတ်သည်။ ယင်းတို့သည် ဆောင်းရာသီ အကုန်တွင် နောက်ဆုံးမှ ပြန်သွားတတ်သည့် ငှက်များဖြစ်သည်။ (ဝါးရုံကြက် — ရှု။)

ကမ်ပီဖက်ဂီဒီး မျိုးရင်းဝင် ငှက်မျိုးကား ၁၁ မျိုးရှိရာ ယင်းတို့သည် သစ်ပင် ထိပ်ဖျားများပေါ်တွင် နေလေ့ရှိပြီး လျှင် မြေပေါ်သို့ ဆင်းခဲသည်။ ယင်းတို့၏ လုပတင့်တယ်သော အမွေးအတောင်များသည် မြန်မာ့ရှုခင်းနှင့် လျောက်ပတ်သည်။

ဒီကရူရီဒီး မျိုးရင်းဝင် ငှက်မျိုးလည်း ၁၁ မျိုးပင်ရှိ၏။ ထိုငှက်များသည် ဒေသ ကူးပြောင်းတတ်သော ငှက်များဟု တပ်အပ်မဆိုနိုင်သော်လည်း၊ တနေရာမှ တနေရာသို့ ရာသီအလိုက် ရွှေပြောင်း နေထိုင်တတ်ကြောင်းကိုမူ သိရှိရလေသည်။ တကိုယ်လုံး မည်းနက် တောက်ပြောင်နေသော အသွေးများ၊ ခက်ရင်းခွကဲ့သို့သော အမြီးများနှင့် ချွန်နေသော အတောင်များကြောင့် ထိုငှက်များကို အလွယ်တကူနှင့် ခွဲခြားသိနိုင်၏။ ထိုမျိုးရင်းဝင် လင်းမြီးဆွဲ (လင်းဆွဲ၊ သို့မဟုတ် မီးတောင်ဖိုနက်လည်းဟူ၏။) သည် ကျီးကန်းမျိုးထဲက မဟုတ်သော်လည်း သပိတ်ရောင်ထနေသော အဆင်းရှိခြင်း၊ မိမိ၏ အသိုက်ကို ရဲရင့်စွာ ကာကွယ်ခြင်းနှင့် တိုက်ခိုက်လိုသော စိတ်ဓာတ် ပြင်းပြခြင်းတို့မှာ ကျီးကန်းထက်ပင် သာပေသည်။ တခါတရံ ကျီးကန်းတကောင်ကို လင်းမြီးဆွဲများက လိုက်လံထိုးဆိတ်နေသည်ကို တွေ့ရတတ်သည်။ (လင်းမြီးဆွဲငှက် — ရှု။)

မြန်မာနိုင်ငံတွင် အမျိုးပေါင်း ၇၉ မျိုးမျှရှိသော ဆီလဗီအီဒီး မျိုးရင်းဝင် ငါးဗလားငှက်များကား ငှက်ငယ်ကလေးများသာ ဖြစ်၍၊ အချို့ကား အမြဲနေငှက်များ ဖြစ်၏။ အများအပြားမှာ ဆောင်းရာသီတွင်သာ ရောက်လာတတ်သည့် ဧည့်သည်ငှက်များ ဖြစ်လေသည်။ (ငါးဗလားငှက်မျိုး — ရှု။)

အီးဂျီသီနီဒီး မျိုးရင်းဝင် ငှက်ပြာစိတ်ကို တောင်ခြေများရှိ ရွက်မပြတ် သစ်တောများတွင် တွေ့ရသည်။ ငှက်ပြာစိတ်သည် အလွန်ကြောက်တတ်၍၊ လူမြင် မခံချေ။ အိုရီယိုလီဒီး

မျိုးရင်းဝင် ငှက်ဝါ (ဆန္ဒင်းဝါ၊ ငှက်ရွှေဝါလည်းဟူ၏။) ကို မေမြို့နှင့် မိုးပါးရေရှား ဒေသတလျှောက်လုံးတွင် အများ အပြား တွေ့မြင်နိုင်၏။ (ငှက်ဝါ — ရှု။)

စတာနီဒီးမျိုးရင်းဝင်သာလိကာတို့သည် အမြဲနေငှက်မျိုး ဖြစ်ရာ တောင်ခြေသစ်တောများတွင် နေကြ၍၊ ပင်မြင့်တွင် ကျက်စားသော ငှက်မျိုးဖြစ်သည်။သာလိကာသည် အခြား ငှက်များ၏ အသံကို အတုခိုးအော်နိုင်၍ လူတို့ သင်ပေး သော စကားကို ပြောနိုင်လေသည်။ (သာလိကာ — ရှု။) ယင်းတို့နှင့် မျိုးရင်းချင်း တူ၍ ပါဏဗေဒ အလိုအားဖြင့် အက်ပလောနစ် ပါနာယင်းဆစ်ဟု ခေါ်သည့် စတာလင် ဆက်ရက် တမျိုးသည် မြိတ်ခရိုင်တွင် သားပေါက်လေ့ရှိ သည်။ အခြားစတာလင်ဆက်ရက် နှစ်မျိုးကား မြန်မာနိုင်ငံ မြောက်ပိုင်းသို့ ဆောင်းရာသီတွင် ရံဖန်ရံခါ လာရောက်တတ် သည်။ ဆက်ရက်ငှက်မျိုးကား မြန်မာနိုင်ငံတွင် ၁၅ မျိုးရှိ၍၊ လူသိ အများဆုံးသော ငှက်မျိုးတွင် အပါအဝင်ဖြစ်၏။ မြန်မာ နိုင်ငံ အရပ်ရပ်တွင် တွေ့ရသော ဆက်ရက်သည် ကျီး ကန်းကဲ့သို့ပင် လူသိအများဆုံး ငှက်ဖြစ်သည်။ များသော အားဖြင့် မြို့နှင့် မြို့ရွာ အနီးအနားတို့တွင် တွေ့ရ၏။ (ဆက် ရက် — ရှု။)

မြန်မာနိုင်ငံတွင် ပလော်ဆီအီးဒီး မျိုးရင်းခွဲဝင် စာဖူး တောင်းမျိုး ခြောက်မျိုးရှိ၍၊ လယ်တောများ၊ မြက်ခင်းပြင် များ၊ စိုက်ခင်းများနှင့် အလွန်ရှင်းသည့် တောများ တလျှောက်တွင် တွေ့ရတတ်သည်။ယင်းတို့ကို စာဖူးတောင်း ဟု ခေါ်တွင်ရခြင်း အကြောင်းမှာ ထိုငှက်မျိုးတို့၏ အသိုက် သည် လည်ပင်းရှည်သော ဖူးတောင်းကို စောက်ထိုး ဆွဲထား သည်နှင့် တူသောကြောင့် ဖြစ်၏။ သိပ္ပံပညာဖက်တွင် အ သုံးပြုသည့် ဖန်ပေါင်းအိုး၊ ဖန်ပေါင်းချောင်နှင့်လည်း ဆင်တူ သည်။ အသိုက်သို့ဝင်ရန် အောက်တွင် အပေါက်ထားရှိ၍ လည်ပင်း ရှည်ကြီး တလျှောက် ဝင်သွားရသည်။

အက်စထရီလဒီးဒီး မျိုးရင်းခွဲဝင် စာပတီး၊ သို့မဟုတ် ငှက် ပတီးမျိုးကား ခြောက်မျိုးရှိ၍ လွင်ပြင် တောင်ကုန်း မဟုတ် စိုက်ခင်းများနှင့် မြက်ခင်းများတွင် တွေ့ရလေသည်။

အမြဲနေ ပါစာရီနီး မျိုးရင်းခွဲဝင် စာကလေး ငါးမျိုးရှိ၏။ ပသျှူးစာ (ပါစာ မွန်တန်နပ်) မျိုးကို တောတွင်းရှိ ကျေး ရွာများမှ အပ၊ လူတို့ အခြေကျ နေထိုင်ရာ ဒေသတိုင်းတွင် တွေ့ရသည်။ အိမ်စာ (ပါစာ ဒိုမက်စတီကပ်) ကို မြန်မာ နိုင်ငံလွင်ပြင်များတွင် အမြဲတမ်းတွေ့ရ၏။ မြို့မှာထက် တော ဖက်တွင် အတွေ့ရ များသည်။ မြန်မာနိုင်ငံ အလယ်ပိုင်း နှင့် အရှေ့မြောက် ဒေသတွင် ပိုမို များပြားလေသည်။ (စာ ကလေး — ရှု။)

အမ်ဗာရီဇီနီမျိုးရင်းခွဲဝင် စာနီ အပါအဝင် ဗန်တင်းစာ မျိုးကား ၁၀ မျိုး ရှိသည်။ များသောအားဖြင့် မြန်မာနိုင်ငံ ၌ အမြဲတမ်းနေသော ငှက်မျိုး မဟုတ်ချေ။ သို့သော် ပါဏ ဗေဒ အလိုအားဖြင့် မယ်လိုဖတ် လယ်သာမီဟု ခေါ်သည့် ဗန်တင်း စာမျိုးကား တောင်ကုန်းများတွင် အမြဲတမ်းနေပုံ ရသည်။ မြန်မာနိုင်ငံ အရှေ့ မြောက်ပိုင်းတွင် ဆောင်းရာသီ ၌ အနိမ့်ပိုင်းဒေသများသို့ အုပ်နှင့်ချီ၍ ပြောင်းရွှေ့ သွား တတ်သည်။

ဟီရွန်ဒီနီဒီး မျိုးရင်းဝင် ပျံလွှားငှက်မျိုးကား ခြောက်မျိုး ရှိ၏။ (ပျံလွှားငှက် — ရှု။) သုံးမျိုးသည် မြန်မာနိုင်ငံတွင် အမြဲတမ်းနေထိုင်၏။ ပျံလွှားငှက်မျိုး အဝင်အပါ မိုးစွေငှက် တို့သည် များသောအားဖြင့် ဩဂုတ်လတွင်ရောက်လာကြ၍ ဧပြီလတွင် ပြန်သွားတတ်လေသည်။ (မိုးစွေငှက် — ရှု။) မိုတာလဆီလီဒီး မျိုးရင်းဝင် မြီးညှောင့်ငှက်မျိုး ၁၃ မျိုးရှိရာ ( မြီးညှောင့်ငှက်မျိုး — ရှု။ ) ပါဏဗေဒ အလိုအားဖြင့် ဒင်ဒရိုနန်သပ် အင်ဒိကပ်ဟု ခေါ်သည့် မြီးညှောင့်ငှက်မျိုးက လွဲ၍ အားလုံးပင် ဆောင်းရာသီ ဧည့်သည်ငှက်များ ဖြစ်လေ သည်။ ထိုမျိုးရင်းဝင် ပိပစ် ရှစ်မျိုး ကိုးမျိုးရှိရာ၊ နှစ်မျိုးသာ အမြဲတမ်းနေ ငှက်မျိုး ဖြစ်၏။ (ပိပစ်စာကလေး — ရှု။) အာလောဒီဒီး မျိုးရင်းဝင်ငှက်များ ၁၁ မျိုးရှိရာတွင် သုံးမျိုး ကို အတွေ့ရများသည်။ ထိုမျိုးရင်းဝင် ဘီလုံးငှက်သည် မြန်မာနိုင်ငံ တောင်ပိုင်းရှိ လယ်ကွက်များတွင် အမြဲနေငှက် မျိုးဖြစ်၏။ (ဘီလုံးငှက် — ရှု။)နက်တာရီနီအီဒီး မျိုးရင်း ဝင် ပန်းရည်စုတ်ငှက်မျိုးကား ၂၁ မျိုးရှိသည်။ (ပန်းရည် စုတ် — ရှု။) အမြဲနေငှက်များ ဖြစ်၏။ ပစ်တီဒီး မျိုးရင်း ဝင် တောင်ငုံးမျိုးသည်လည်း အမြဲနေငှက်မျိုးဖြစ်၍ တော တွင်း၌သာ တွေ့ရသည်။ အချို့မှာ တောကြီး မြက်မည်း၌ သာ နေသော်လည်း အချို့ကို ဝါးတောနှင့် ဖုန်းဆိုးများတွင် တွေ့နိုင်လေသည်။ (တောင်ငုံး — ရှု။) ပါဏဗေဒ အလို အားဖြင့် ပစ်တာ မိုလပ်ဆင်ဆစ်ဟု ခေါ်သည့် တောင်ငုံးမျိုး သည် မိုးရာသီအတွင်း ကျွန်းတောများတွင် ကျက်စားလေ့ ရှိ၏။ အချို့ တောင်ငုံးများကဲ့သို့ သစ်တောထူထပ်ရာတွင် မနေဘဲ၊ တခါတရံ ရွာနီးချုံပစ်ပ ဥယျာဉ်နှင့် ယာခင်းများ သို့ လာရောက်တတ်ကြသည်။ ငှက်ဆိတ် အပါအဝင် ယူငီ လာအီမီဒီး မျိုးရင်းဝင် ငှက်မျိုး ကိုးမျိုးရှိသည့်အနက် ငါးမျိုးကိုသာလျှင် တနင်္သာရီနှင့် ကော်သူးလေပြည်နယ်ရှိ တောင်တန်းများ၏ အပေါ်တွင် တွေ့ရသည်။ များသောအား ဖြင့် လှပသော ငှက်မျိုးဖြစ်၍ ရွက်မပြတ်တောများတွင် ကျက်စားလေ့ရှိသည်။

**ကိုရာစီးအီး ဖောမီး မျိုးစဉ်။** ။မြန်မာနိုင်ငံတွင် ပီစီနီး မျိုးရင်းဝင် သစ်တောက်ငှက်မျိုး ၄၀ ရှိသည်။ မြန်မာနိုင်ငံရှိ သစ်တောများကိုထိန်းသိမ်းရာ၌ သစ်တောက်ငှက်များသည် အထူး ကူညီသည်ဆိုက မှားမည်မဟုတ်ပေ။ အကြောင်းကို ဆိုသော် သစ်တောက်ငှက် များသည် သစ်ပင်ဖျက်

ပိုးမွှားများကို သုတ်သင် ရှင်းလင်းပေးသဖြင့် မြန်မာ့သစ်တော၏ တန်ဖိုးကို ခိုင်မြဲစေသောကြောင့်ပင် ဖြစ်သည်။ (သစ်တောက်ငှက် — ရှု။) ကက်ပီတိုနီဒီးမျိုးရင်းဝင် ငှက်မျိုးကား ၁၃ မျိုးရှိရာ၊ ပါဏဗေဒ အလိုအားဖြင့် ကယ်လော်ရမ်းဖပ် ဖုလီဂျီနိုးဆပ်ဟု ခေါ်သည့် ငှက်မျိုးကလွဲ၍ များသောအားဖြင့် တကိုယ်လုံး စိမ်းရောင်လွှမ်း၍ ဦးခေါင်းနှင့် လည်ပင်းတို့၌သာ အပြာရောင်နှင့် ကြက်သွေးရောင်ရှိ၏။ ထိုပြင် နှုတ်သီးတုတ်၍ သန်မာသည်။ များသောအားဖြင့် သစ်ပင်ထိပ်ဖျားများပေါ်တွင်နေလေ့ရှိ၍အချိန်ကြာမြင့်စွာ အော်မြည်နေတတ်သည်။ သစ်ရွက်စိမ်းရောင်ဖြင့် ရောနေသဖြင့် ရုတ်တရက်မမြင်ရချေ။ ပျံသန်းနေသည်ကိုလည်း တွေ့ရခဲ၏။ ထိုကြောင့် ထိုငှက်မျိုးတို့၏အော်သံကို ကြားဘူး ကြသော်လည်း တွေ့မြင်ဘူးသူ နည်းလေသည်။ ထိုမျိုးရင်းဝင် ဖိုးခေါင်ငှက်နှင့် ငှက်ပန်းထိမ်တို့ကို ကွင်းပြင်များနှင့် တောင်ခြေများတွင် အမြဲလိုပင် တွေ့ရလေသည်။ (ငှက်ပန်းထိမ်။ ဖိုးခေါင်ငှက် — ရှု။)

ကျူကျူလီဒီး မျိုးရင်းဝင် ဥဩငှက်မျိုးကို ယေဘုယျအားဖြင့် နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ (ဥဩ — ရှု။) တမျိုးသည် သစ်ပင်များထက်တွင်ကျက်စားလေ့ရှိ၍ ကပ်ပါးငှက်မျိုးဖြစ်ပြီးလျှင် မျိုးကွဲ ၁၉ မျိုးရှိ၏။ အခြားတမျိုးသည် မြေပြင်တွင် ကျက်စားလေ့ရှိ၍ ကပ်ပါးငှက်မျိုးမဟုတ်ဘဲ မျိုးကွဲ ကိုးမျိုးရှိသည်။ ဥဩငှက်မျိုးကား စူးစူးရှရှ အော်မြည်တတ်သည့် ငှက်မျိုးဖြစ်၍ အထူးသဖြင့် သားပေါက်ချိန်များတွင် ယင်းတို့၏ အော်မြည်သံများကို ကြားရတတ်၏။ ယောက်ဖခွေးခေါ် ငှက်များကို နွေရာသီတွင် တောင်ခြေများနှင့် တောင်များပေါ်ရှိ သစ်တောများ၌ အတွေ့ရ များလေသည်။ (ယောက်ဖခွေးခေါ် — ရှု။) ပါဏဗေဒ အလိုအားဖြင့် ကျူကျူလပ် စပါဗီရီအိုအီဒီးဟု ခေါ်သည့် ဥဩငှက်မျိုးကား သစ်တောများတွင် အနှံ့အပြား တွေ့ရ၏။ ပါဏဗေဒ အလိုအားဖြင့် ကာကိုမန်တစ် မဲရူလီနပ်ဟု ခေါ်သည့် ဥဩငှက်မျိုးကို သစ်တော အသင့်အတင့် ထူထပ်သည့် ဒေသများတွင် တွေ့ရသည်။ ခွေးခေါ်ရစ်ကို မိုးရာသီအတွင်း မိုးပါးရေရှားရပ်ဝန်းတွင် အတွေ့ရများ၏။ ယင်းသည် စူးစူးရှရှအမျိုးမျိုးအော်တတ်သည်။ ဥဩငှက်ကိုကားမတွေ့မမြင်ဘူးသူ အလွန်နည်း၏။ မြန်မာနိုင်ငံကွင်းပြင်များတွင် အနေများသည်။ ဝါဖလေးငှက်နှင့်ဘုတ်ငှက်တို့ကားကပ်ပါးငှက်မျိုးမဟုတ်သည့်ငှက်များတွင် ပိုမို လူသိများသောငှက်များ ဖြစ်၏။ ဘုတ်ငှက်သည် မြန်မာနိုင်ငံ တဝှမ်းလုံးတွင်နေ၍ ပေ ၄,၀၀၀အမြင့်ထိနေသည်။ (ဘုတ်ငှက်၊ဝါဖလေးငှက် — ရှု။)

မြန်မာနိုင်ငံတွင် ကြက်တူရွေး ငါးမျိုး၊ မလေး ကြက်တူရွေးနှင့် ကျေးသန္တာတို့ကို တွေ့ရ၏။ အမျိုး ကွဲပြားသော်လည်း အလေ့အကျင့်ကား များစွာ မကွဲပြားလှချေ။ (ကြက်တူရွေး — ရှု။) ငှက်ကလေးများ ပေါက်ချိန်တွင် စုတွဲနေလေ့ရှိ၍၊ အခြားရာသီ၌ကား အအုပ်အသင်းဖွဲ့နေတတ်သည်။ သစ်ပင်ကို ကုတ်ခြစ်တက်တတ်၍ ပင်မြင့်တွင်သာ ကျက်စား၏။ ကြက်တူရွေးများသည် အဆင်းအပြင် လှပသလောက် အကျင့်တန်သည်။ ကြက်တူရွေးများ လယ်ကွင်းပေါ်၌ ဆူညံစွာပျံသန်းသွားသည်ကို မကြာခဏ တွေ့ရသည်။ သစ်သီးမျိုးစုံနှင့် ကောက်ပဲ သီးနှံ မျိုးစုံကို ဖျက်ဆီး၏။ ကြက်တူရွေးတို့သည် မိမိတို့စားနိုင်သည်ထက် ပိုမိုကိုက်ဖြတ် ဖျက်ဆီးတတ်လေသည်။ မလေးကြက်တူရွေးကို တနင်္သာရီတိုင်း တောင်ပိုင်းတွင် တွေ့ရ၍၊ ကျေးသန္တာကို မြန်မာနိုင်ငံတွင် အနည်းငယ်သာ တွေ့ရ၏။

ကိုရာစီအီး မျိုးရင်းဝင် ငှက် နှစ်မျိုးသာရှိ၏။ ငှက်ခါးကို မြန်မာနိုင်ငံ ကွင်းပြင်များတွင် အတွေ့ရများသည်။ သို့သော် သင့်တော်သော အခြေအနေရှိလျှင် တောင်ပေါ်၌လည်းတွေ့နိုင်သည်။ (ငှက်ခါး — ရှု။) မိုးကောင်းငှက်သည် မြန်မာနိုင်ငံ တောင်ခြေများရှိ သစ်တောများတွင် အနေများ၍၊ တောင်ပေါ်တွင် တွေ့ရခဲသည်။ (မိုးကောင်းငှက် — ရှု။) မီရော့ပီဒီး မျိုးရင်းဝင် ပုစဉ်းထိုးငှက်များကား ငါးမျိုးရှိ၍ ယင်းတို့ကို တောက်ပသော အစိမ်းရောင် အမွေးအတောင်နှင့် ရှည်လျားသေးသွယ်၍ ကောက်နေသော နှုတ်သီး၊ နားသည့်နေရာကစောင့်၍ အနီးအနားတွင် ပျံသန်းသွားသော ပိုးကောင်များကို နှုတ်သီးချင်း ရိုက်ကာ ဖြတ်ကနဲ အသံမြည်စေလျက် ဖမ်းယူ စားသောက်တတ်သော အလေ့အထတို့ကြောင့် အလွယ်တကူ သိနိုင်သည်။ ထိုငှက်မျိုးအားလုံးပင် အမြဲနေငှက်မျိုး ဖြစ်ပုံရသည်။ သို့သော် မြန်မာနိုင်ငံအတွင်း ရွှေ့ပြောင်းလှည့်လည်နေသည့် ငှက်မျိုး ဖြစ်သော်လည်း အသေအချာ မသိရပေ။

အယ်လစီဒင်နီဒီး မျိုးရင်းဝင် အမြဲနေ တိန်ညင်းငှက်မျိုး ၁၅ မျိုးရှိသည်။ (တိန်ညင်းငှက်မျိုး — ရှု။) တိန်ညင်းကျားသည် ရေဝတီနှင့် အခြား မြစ်ချောင်းကြီးများတွင် အတွေ့ရ များသည်။ တိန်ညင်းငှက်သည် တောတွင်းရှိ ချောင်းမြောင်းများ အပါအဝင် ရေချိုဒေသများ၌ ကျက်စားသည်။ တိန်ညင်းရင်ဖြူကို တောင်ခြေနှင့် ကွင်းပြင်များ၌ အတွေ့ရများသည်။ ကျွန်းတောနှင့် လယ်တောများ၌လည်း တွေ့ရ၏။ ပိုးမွှား၊ အိမ်မြှောင်၊ ဖားများကို ငှက်ခါးတို့နည်းတူ ဖမ်းယူ စားသောက်တတ်၏။

ဗူကာရိုတီဒီ မျိုးရင်းဝင်ငှက်မျိုး ကိုးမျိုးရှိ၍၊ လေးမျိုးကို တနင်္သာရီတိုင်း ရွက်မပြတ်တောများတွင် တွေ့ရသည်။ ယောင်ယင်ခေါ် အောင်လောင်ငှက်သည် ကျွန်းတောများတွင်သာ နေလေ့ရှိသော ငှက်မျိုးဖြစ်၍၊ ယင်းတို့၏တောင်ပံရိုက်သံများကို တမိုင် ခရီးမှပင် ကြားနိုင်သည်။ (ယောင်ယင်ငှက် — ရှု။) မြန်မာနိုင်ငံတွင် တောင်ခြေများ၌

အောက်ချင်းငှက်ကို အနှံ့အပြား တွေ့ရသည်။ (အောက်ချင်းငှက် — ရှု။)

အုပျူပီဒီး မျိုးရင်းဝင်ငှက်မျိုး လေးမျိုးရှိ၏။ထုတ္တရူဟုလည်းခေါ်သည့် ထပ်တယူငှက်သည် ကျွန်းတောများတွင် နေလေ့ ရှိ၍၊ ထိုငှက် လေးမျိုးအနက် အတွေ့ရအများဆုံး ဖြစ်သည်။ (ထပ်တယူ — ရှု။)

အပေါ့ဒီဒီး မျိုးရင်းဝင် ပျံလွှားငှက်မျိုး ၁၃ မျိုးရှိ၏။ ပျံလွှားကြီးသည် ဂုတ်ထိပ်လျှိုကြီး အတွင်း၌၎င်း၊ ရှမ်းပြည်နယ် အနှံ့အပြားရှိ လိုဏ်ခေါင်းများတွင်၎င်း သားပေါက်ကြသည်။ ထိုမှတဆင့် မြန်မာနိုင်ငံတဝှန်းလုံးလိုတွင် လှည့်လည်နေထိုင်သည်။ (ပျံလွှားငှက် — ရှု။) ပျံလွှားသည် မြန်မာနိုင်ငံအတွင်း နေရာအများအပြား၌ အမြဲနေ၏။ မိုးစာငှက်သည် ပျံလွှားငှက်မျိုးတွင် ထင်ရှားသော ငှက်ဖြစ်၍ ကွင်းပြင်များတွင် အတွေ့ရများ၏။ (မိုးစာငှက် — ရှု။) ဇီဝဇိုးငှက်သည် အသိုက်ကို မိမိအန်ဖတ်ဖြင့် ပြုလုပ်၏။ ထိုအသိုက်ကို ငှက်သိုက်ဟုခေါ်ကြသည်။ ဆေးဖက်ဝင်၍ များစွာ အဖိုးတန်သည်။ မြိတ်ကျွန်းစုနှင့် ပုသိမ် အနောက်ဖက်ကမ်းခြေအလွန်ရှိ ကျွန်းများတွင် ဇီဝဇိုးငှက်တို့ကို တွေ့ရ၏။ (ဇီဝဇိုးငှက် — ရှု။)

ကက်ပရီမာလဂီဒီး မျိုးရင်းဝင် မြေဝပ်ငှက်မျိုးကား ခြောက်မျိုးရှိ၍ ထိုငှက်များအကြောင်း သိသူ အလွန်နည်းသည်။ (မြေဝပ်ငှက် — ရှု။) တမျိုးနှင့်တမျိုး အော်သံ ကွဲပြားခြားနား၏။ ငှက်ပျင်းဟုလည်း ခေါ်သည့် မြေဝပ်ငှက်ကို မြန်မာနိုင်ငံ မိုးပါးရေရှားရပ်ဝန်းတွင် အတွေ့ရများ၏။ နွေရာသီ၌ မြို့ရွာအနီးအနားတွင် ထိုငှက်တို့၏ အော်သံကို ကြားရသည်။ မီးရှူး မြေဝပ်ငှက်ကား တောတွင်း ကျက်စားလေ့ ရှိသည့် ငှက်မျိုးဖြစ်သည်။ တောင်ဒေါင်းသည်လည်း မြေဝပ်ငှက်မျိုးထဲကပင် ဖြစ်၏။ (တောင်ဒေါင်း — ရှု။)

မြန်မာနိုင်ငံတွင် တိုင်တိုနီဒီး မျိုးရင်းနှင့် စတြစ်ဂျီဒီး မျိုးရင်းဝင် ညဥ့်ငှက်မျိုးပေါင်း ၂၆ မျိုးရှိ၍၊ အားလုံးပင် အသံသာ ကြားရပြီးလျှင် အတွေ့ရနည်းလေသည်။ တိုင်တိုနီဒီး မျိုးရင်းဝင် မိန်ငှက် (လင်ကောင်ပိုး၊ ငှက်ဆိုးလည်းဟူ၏။)ကို မြန်မာနိုင်ငံအနှံ့အပြား ကွင်းပြင်များတွင် အတွေ့ရများ၏။(မိန်ငှက် — ရှု။)စတြစ်ဂျီဒီး မျိုးရင်းဝင် တီးတုတ်ငှက်မျိုးသည် ကျွန်းတောများအတွင်း ချောင်းကြီးချောင်းငယ်များသို့ လာရောက် ကျက်စားတတ်၏။ (တီးတုတ် — ရှု။) မီးဝန်ငှက်နှင့် တောလုံငှက် (ကြက်ဝက်ခြောက်ကောင်လည်း ဟူ၏။) တို့၏ အော်သံများကို မှောင်စပျိုးသည့်အခါ ကျွန်းတောများအတွင်း ကြားရသည်။(တောလုံငှက်၊ မီးဝန်ငှက် — ရှု။) မီးဝန်ငှက်ကို ရန်ကုန်အနီးအနားတဝိုက်တွင် တွေ့နိုင်သည်။ ဇီကွက်တို့ကို မိုးပါးရေရှားရပ်ဝန်းတွင် အများဆုံး တွေ့နိုင်၏။ ဇီကွက်သည် အသံအမျိုးမျိုး ပြုလုပ်တတ်သည်။ (ဇီကွက် — ရှု။) ပါဏဗေဒအလိုအားဖြင့် ဂလော့စီဒီယမ် ကျူကျူလိုအီဒီး ဟုခေါ်သည့် ညဥ့်ငှက်မျိုးကို မြန်မာတနိုင်ငံလုံးတွင် တွေ့ရသည်။ ယင်းတို့သည်လည်း အသံအမျိုးမျိုး ပြုလုပ်တတ်၏။ ပါဏဗေဒအလိုအားဖြင့် ဂလော့စီဒီယမ် ဗရိဒီစီဟု ခေါ်သည့် ညဥ့်ငှက်မျိုး၏ အော်သံကို အထူးသဖြင့် ပူအိုက်သည့် နွေရာသီတွင် တောတွင်း၌ ကြားရတတ်လေသည်။

**အက်စီပီတြီဒီးမျိုးစု။** ။မြန်မာနိုင်ငံတွင် ဤမျိုးစုဝင် ငှက်မျိုးပေါင်း ၆၃ မျိုးရှိ၍ ထိုမျိုးစုတွင် ပါဝင်သည့် စွန်များနှင့် လင်းတများကို အတွေ့ရများ၏။ (စွန်၊ လင်းတ — ရှု။) အိန္ဒိယစွန်ကြီးမျိုးသည် နှစ်စဉ် ဩဂုတ်လနောက်ပိုင်းလောက်မှ စတင်၍ အများအပြား ရောက်လာကာ ဧပြီလ အလယ်၊ သို့မဟုတ် လကုန်အထိ နေထိုင်လေ့ရှိသည်။ ဆောင်းရာသီတွင် ရောက်လာသော ဧည့်သည်ငှက်မျိုးဖြစ်သည်ဟု ယုံကြည်ရ၏။ 'ဥပုသ်စောင့်သည့်ငှက်' ဟုလည်း ခေါ်သောစွန်သည် စက်တင်ဘာလ အလယ်လောက်တွင် ရောက်လာကာ၊ မေလအကုန်၊ သို့မဟုတ် ဇွန်လ ဆန်းစလောက်တွင် ပြန်သွားတတ်သည်။ မိုးရာသီ ပါတွင်း၌ စွန်ကို မတွေ့မမြင် ရသောကြောင့် ဥပုသ်စောင့်သည့်ငှက်ဟု ခေါ်သည်။ မိုးရာသီတွင် မည်သည့်နေရာသို့သွားသည်ကို အသေအချာ မသိရပေ။ စွန်သည် လူများ စွန့်ပစ်သော အစား အစာများကို ကောက်ယူ စားသောက်သဖြင့် လူ၏ အကျိုးကို ဆောင်သည်ဟု ဆိုနိုင်ပေသည်။ ဈေးအနီးအနားတွင်၎င်း၊ အမှိုက်ပုံနားတွင်၎င်း စွန်များ အစာရှာဖွေနေလေ့ ရှိသည်။ မြန်မာနိုင်ငံတွင် တွေ့ရသော လင်းတ လေးမျိုးအနက်၊ လင်းတကျောဖြူကို အတွေ့ရ အများဆုံး ဖြစ်၏။ ယင်းတို့ကို လွင်တီးခေါင်များ တလျှောက်တွင် တွေ့ရသည်။ လင်းတထိပ်နီကိုလည်း အတော်အတန် အတွေ့ရများသည်။လင်းတထိပ်နီသည် အအုပ်အသင်းနှင့် မနေချေ။ အသေကောင်များအနားတွင် လင်းတထိပ်နီ နှစ်ကောင် သုံးကောင်မျှသာ စုရုံးနေသည်ကို တွေ့ရတတ်သည်။ယင်းတို့ကိုယ်မှထွက်သော အနံ့မှာ မခံမရပ် နိုင်အောင် ပုပ်ဟောင် သော်လည်း၊ အသေကောင်ပုပ်များကို စား၍ ရှင်းပေးသဖြင့် လူများ၏ ကျန်းမာရေးအတွက် ကူညီသည်ဟုဆိုရပေမည်။ ဝံလက်(ဝံလက်ခေါင်းကျားလည်း ဟူ၏။)ကို ဆောင်းရာသီ၌ မြန်မာနိုင်ငံ ရေပေါသော အရပ်များတွင် တွေ့ရသော်လည်း၊ မြန်မာနိုင်ငံတွင် မည်သို့ ပေါက်ပွားနေထိုင်သည်ကို တပ်အပ်သေချာ မသိရသေးပေ။ (ဝံလက် — ရှု။) ပါဏဗေဒအလိုအားဖြင့် ဖယ်လကို အမျူရင်းဆစ်ဟု ခေါ်သည့် သိမ်းငှက်မျိုးကို တနင်္သာရီတိုင်း တောင်ပိုင်းကလွဲ၍ တောများ တလျှောက်တွေ့ရ၏။ လင်းယုန်ကို လူသိများ၏။ ယင်းတို့သည်

တောတွင်း၌ ကျက်စား၍ ဒေသနိမ့်မြင့်မရွေး နေကြသည်။ ဝံပို၊ ဝံလို ငှက်မျိုးအပါအဝင် ငှက်မျိုး မြန်မာနိုင်ငံတွင် ငါးမျိုး ရှိရာ (ဝံပို၊ ဝံလို — ရှု။) ဝံလိုငှက်သည် ပင်လယ်ကမ်းစပ်များတွင် ကျက်စားလေ့ရှိ၏။ ဝံပိုကို မြန်မာနိုင်ငံတွင် ရေအိုင်နှင့် မြစ်ကြီးများ၌ တွေ့ရသည်။ ယင်းတို့ကို ဆောင်းရာသီနှင့် နွေရာသီများတွင် တွေ့ရသော်လည်း မိုးရာသီ၌ တွေ့ရခဲသည်။ မိုးရာသီ၌ မည်သည့်နေရာသို့ သွားရောက်ကျက်စားသည်ကို အသေအချာ မသိရသေးချေ။ စွန်ဒေါင်းဖြူတို့သည် မြန်မာနိုင်ငံတွင် အနှံ့အပြား နေသည်။ အင်းများ အနီးအပါးတွင် အတွေ့ရ များသည်။ သိမ်းကျား၊ ဒေါင်းစွန်တို့ အပါအဝင် ငှက်မျိုး ငါးမျိုးရှိရာ၊ အားလုံးပင် ဒေသကူးပြောင်းတတ်သည်။ (သိမ်းငှက်၊ ဒေါင်းစွန် — ရှု။) သိမ်းအငယ်စားမျိုးတွင် ပါဝင်သည့် ချိုးသိမ်းသည် သစ်ပင်ပေါ်တွင် အနေများသော်လည်း လေထဲတွင် အလွန်မြင့်စွာ ပျံဝဲသည်ကို တွေ့နိုင်သည်။ ချိုးသိမ်းကို မြန်မာနိုင်ငံ တဝှန်းလုံး၌လိုပင် တွေ့နိုင်လေသည်။ (ချိုးသိမ်း — ရှု။)

**ကိုလံဗီဖောမီးမျိုးစဉ်။** ။ဤ မျိုးစဉ်တွင် ပါဝင်သည့်ငှက်မျိုး မြန်မာနိုင်ငံတွင် ၂၈ မျိုးတွေ့ရ၏။ ကိုလံဗီဒီမျိုးရင်းဝင် ငှက်မျိုး ကိုးမျိုးရှိ၍ အားလုံးပင် မြန်မာနိုင်ငံတွင် အမြဲတမ်းနေသည်။ (ငှက် — ရှု။) ဘုမ္မတီး၊ ငှက်ခေါင်းမွဲ၊ ငှက်နွတ်သီးထူတို့ကို မြန်မာနိုင်ငံရှိ ကွင်းပြင်များနှင့် တောင်ခြေများတွင် တွေ့ရ၍၊ အားလုံးပင် ကျွန်းတောများတွင် တွေ့ရလေ့ရှိသည့် ငှက်မျိုးဖြစ်လေသည်။ (ဘုမ္မတီး — ရှု။) ပါဏဗေဒအလိုအားဖြင့် စဖင်ချိုးရပ် အပီကောဒါဟုခေါ် သည့် ငှက်မျိုးနှင့် စဖင်ချိုးရပ် စဖင်ချိုးရပ်ဟု ခေါ် သည့် ငှက်မျိုးတို့ကို တောင်ပေါ်တောများတွင်တွေ့ရသည်။ ထိုမျိုးရင်းဝင်ငှက်ငွေ့းကို လူသိများ၏။ ယင်းတို့သည် အအုပ်အသင်းနှင့် ကျွန်းတောများတွင် ကျက်စားသည်။ ချိုးစိမ်းတို့သည် မြန်မာနိုင်ငံရှိ တောင်ခြေများမှ စိုစွတ်သော တောများတွင် အမြဲတမ်း နေကြ၍၊ ပေ ၆,၀၀၀ အမြင့်အထိ နေလေသည်။ ရန်ကုန်မြို့အနီးရှိ ကြိမ်တော၊ ချုံတောများတွင်လည်း သွားပေါက်လေသည်။ ချိုးငှက်မျိုးသုံးမျိုးရှိသည့်အနက် ချိုးလည်ပြောက်သည် မြန်မာနိုင်ငံတွင် မြင်ရဖန်များသော ငှက်မျိုး ဖြစ်၏။ ရေငတ်မခံနိုင်၍ ရေရှိသည့် နေရာတိုင်း၌ တွေ့ရသည်။ ရာသီမရွေးသားပေါက်သည်။ ချိုးလင်းပြာသည် မြန်မာနိုင်ငံ မိုးပါးရေရှားရပ်ဝန်းတွင်သာ အနေများသည်။ ချိုးနီပု (ချိုးနီတိုလည်းဟု၏။) သည် အခြား ချိုးငှက်များထက် ပို၍ အအုပ်အသင်းဖွဲ့ကာ နေတတ်သည်။ (ချိုး — ရှု။)

**ဂယ်လီဖောမီးမျိုးစဉ်။** ။မြန်မာ နိုင်ငံတွင် ဤ မျိုးစဉ်ဝင် ငှက်မျိုး ၃၅ မျိုးရှိ၏။ ဖာစီအာနီဒီမျိုးရင်းဝင် ဥဒေါင်းကို မြန်မာနိုင်ငံအနှံ့အပြားတွင် အနည်းအကျဉ်းသာ တွေ့ရသည်။ (ဥဒေါင်း — ရှု။) ဥဒေါင်းကို ကျက်သရေရှိသည် မြင့်မြတ်သည်ဟု ယူဆသော်လည်း မုဆိုးတို့ လက်ချက်ဖြင့် ဥဒေါင်းဦးရေသည် တနေ့တခြား နည်းပါးလာသည်။ မြန်မာဘုရင်များ လက်ထက်က မြန်မာနိုင်ငံ၏ အလံတော်တွင် ဒေါင်းတံဆိပ်အမှတ်အသား ထားရှိ၍ ဒေါင်းလံကို တလူလူ လွှင့်ခဲ့ကြသည်။ ဒေါင်းရစ်တို့သည် အလွန်လှပသော ငှက်မျိုးဖြစ်၍ ယင်းတို့၏အမြီးများသည် ကိုယ်များရှိအမွေးများထက် အနည်းငယ်ပို၍ရှည်သည်။ (ဒေါင်းရစ် — ရှု။) အထီးနှင့် အမ အတူတူမနေကြဘဲ၊ တကောင်ချင်းသာ နေလေ့ရှိသည်။ မြန်မာနိုင်ငံတနင်္သာရီတောင်ပိုင်းတွင်ထားဝယ်ခရိုင်အထိ ရွက်မပြတ်တောများတွင် တွေ့ရသည်။ ဒေါင်းမင်း ( ဒေါင်းကုလားလည်း ဟု၏။ ) ကဲ့သို့သော ငှက်မျိုးအားလုံးပင် ရွက်မပြတ်တောများနှင့် ထူထပ်သော ဝါးချုံတောများတွင် အမြဲနေလေ့ ရှိသည်။ (ဒေါင်းမင်း — ရှု။) ယင်းတို့ပေါများသည်ဆိုသော နေရာများတွင်ပင် အလွန်တရာ တွေ့ရခဲသည်။ သို့သော်လည်း လည်ချောင်းသံပါ၍ စူးရှသည့် အော်သံများကိုကြားရတတ်၏။ တောကြက်မှ အိမ်ကြက်များ ဆင်းသက် ပေါက်ပွားသည်ဟု ဆိုကြ၏။ (တောကြက် — ရှု။) မြန်မာနိုင်ငံ တဝှန်းလုံးတွင် တောကြက်ကို တွေ့ရသည်။ များသောအားဖြင့် ကျွန်းတောများတွင် တွေ့ရ၏။ မိုးတွင်း၌ တောနက်ရာသို့ ရွှေ့ပြောင်းလေ့ရှိကြ၍ ဆောင်းရာသီတွင် စပါးစိုက်သည့် လယ်တောနှင့်နီးသော တောစပ်များသို့ ပြောင်းရွှေ့ လာပြန်သည်။ ရစ်၊ ရစ်မင်းနှင့် ရစ် ရင်မဲတို့သည် နယ်ခြား တောင်ကုန်းမြင့်များတွင် ကျက်စားသော ငှက်များဖြစ်သည်။ (ရစ်၊ ရစ်မင်း၊ ရစ်ရင်မဲ — ရှု။) ပါဏဗေဒအလိုအားဖြင့် လိုဖူရာ အစ်ကနီတာဟု ခေါ်သည့် ရစ်မျိုးကို တနင်္သာရီတိုင်း တောင်ပိုင်းရှိ ရွက်မပြတ် တောများတွင် အများအပြား တွေ့ရ၏။ ရစ်သည် များသောအားဖြင့် ကျွန်းတောများတွင် နေ၍ စမ်းချောင်းများအနီး၌ အအုပ်အသင်းနှင့် နေလေ့ ရှိသည်။ မြန်မာနိုင်ငံ တောင်ပိုင်းတွင် အတွေ့ရဆုံးဖြစ်၏။ မြောက်ဖက် စွတ်စိုထိုင်းမှိုင်းသော တောများတွင်မူ ရစ်ရင်မဲကို အတွေ့ရများသည်။ ယင်းတို့ နှစ်မျိုးလုံးပင် ကြောက်ရွံ့တတ်၍ လူကပ် မခံချေ။

ပါဒီစိုင်နီမျိုးရင်းခွဲတွင် ပါဝင်သော တောင်ခါ အပါအဝင် ငှက်မျိုးကား ၁၁ မျိုးရှိ၏။ (တောင်ခါ — ရှု။) ယင်းတို့အားလုံးသည် လူမြင်မခံဘဲ များသောအားဖြင့်တောင်ကုန်းများရှိ စိုထိုင်းထူထပ်သော တောများတွင် ပုန်းလျှိုး ကျက်စားတတ်သည်။ ပါဏဗေဒအလိုအားဖြင့် ဖရန်ကိုလင်နပ် ပင်တေဒီးနပ်ဟုခေါ် သည့် ခါသည် တောနက်ရာဒေသမျိုးကလွဲ၍ မည်သည့်ဒေသ၌မဆို နေသည်။ (ခါ — ရှု။) သို့သော်လည်း အထူးသဖြင့် လယ်ကွက်များအနီးရှိ တောစပ်များ

တွင် ကျက်စားတတ်သည်။ မြန်မာနိုင်ငံတွင် ငုံးမျိုး ငါးမျိုး တွေ့ရ၏။

**ဂရူးအီးဖောမီးမျိုးစဉ်။** ။မြန်မာနိုင်ငံတွင် ရယ်လီဒီး မျိုးရင်းဝင် ရေကြက်မျိုးနှင့် ရေငုံးမျိုး ၁၀မျိုးရှိရာ အလေ့အထမှာ အတူတူလိုပင် ဖြစ်၏။ ယင်းတို့သည် လူမြင်မခံဘဲ ကိုင်းတောထဲတွင်နေပြီးလျှင် နံနက်နှင့် ညနေအချိန်၌သာ အပြင်ထွက်၍ အစာရှာဖွေသည်။ အလွန်ပုန်းလျှိုးကွယ်လျှိုး နေတတ်၏။ဖောင်တုတ်ငှက်နှင့်ရေ၌ကျက်စားသောငှက်တို့တွင် လူသိအများဆုံးဖြစ်သော ရေကြက်မ (ကလူကွက်လည်း ဟူ၏။) (ဖောင်တုတ်ငှက်။ရေကြက်မ — ရှု။)တို့သည် ဤမျိုးရင်းတွင် ပါဝင်သည်။ ရေကြက်နှင့် ရေကြက်ဒို(သဘော်ရေကြက်လည်း ဟူ၏။)တို့သည်လည်း အမည်နှင့် လိုက်အောင် ရေကို နှစ်သက်၍ ရေတွင် ကျက်စားသော ငှက်မျိုးဖြစ်ရာ ရေထဲတွင် ကူးခတ်နေသည်ကို မကြာခဏ တွေ့ရတတ်သည်။ (ရေကြက်။ ရေကြက်ဒို — ရှု။) မယ်ညိုကို ရေအိုင်ရှိသော ကွင်းများတွင် တွေ့နိုင်သည်။(မယ်ညို — ရှု။) ရေရှိသော နေရာတွင် ကျက်စား၍ အထူးသဖြင့် ကိုင်းတောအနီးရှိ ရေအိုင်များကို ပို၍ နှစ်သက်သည်။ အအုပ်အသင်းကလေးများ ဖွဲ့ကာကိုင်းတောများအကြားတွင် အစာရှာဖွေစားသောက်၍ နေစာလှုံနေသော မယ်ညိုတို့ကို မကြာခဏ တွေ့မြင်နိုင်သည်။ ရေဗလုံငှက်ကို အလွန် တွေ့မြင်ခဲ၍ လူသိနည်း၏။ (ရေဗလုံငှက် — ရှု။) ဥဒေါင်းနှင့် ဒေါင်းရစ်တို့ကဲ့သို့ပင် ဤငှက်ကို ပစ်ခတ်သတ်ဖြတ်ခြင်းမှ အစိုးရက အထူး ကာကွယ် စောင့်ရှောက်ထားသည်။ ရေဗလုံဟူသော အမည်နှင့် လိုက်လျောစွာ ရေစည်ပေါင်းထလောက်အောင် မှုတ်သည့် အသံမျိုးဖြင့် အော်သည်။ ကြာဖက်နင်း (ဘီဟုလည်း ခေါ်၏။) နှင့် ဘီကျား (ကြာဖက်နင်းဟုလည်း ခေါ်၏။) တို့ကို မြန်မာနိုင်ငံတွင် သင့်လျော်သော ရေအိုင်များ၌ အများဆုံး တွေ့ရသည်။ (ကြာဖက်နင်း၊ ဘီကျား — ရှု။)

မြန်မာနိုင်ငံတွင် ကြိုးကြာ နှစ်မျိုး ရှိ၏။ ပါဏဗေဒ အလိုအားဖြင့် ဂရပ် ဂရပ်ဟု ခေါ်သည့် ကြိုးကြာမျိုးသည် မြန်မာနိုင်ငံ အရှေ့တောင်ပိုင်းနှင့် ရှမ်းပြည်နယ်တို့သို့ ဆောင်းရာသီတွင် ရောက်လာတတ်သည့် ဧည့်သည်ငှက်မျိုးဖြစ်၏။ ပါဏဗေဒအလိုအားဖြင့် ဂရပ် အန်တီဂိုနီဟုခေါ်သည့် ကြိုးကြာမျိုးကား မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍ အထူးသဖြင့် မြက်ထူထပ်သော ကွင်းပြင်၊ လွင်ပြင်တွင် တွေ့ရသည်။ (ကြိုးကြာ — လည်းရှု။)

**ကာရာဒရီအီဖောမီးမျိုးစဉ်။** ။မြန်မာနိုင်ငံတွင် ဤမျိုးစဉ်၌ပါဝင်သော ငှက်မျိုး ၇၅ မျိုးရှိ၏။ ပင်လယ်ပျော်ငှက်နှင့် ရေလျှောက်ငှက် အများအပြား ပါဝင်သည်။ အများစုသည် ဆောင်းရာသီတွင် ပင်လယ်ကမ်းခြေ၊ ရွှံ့နွံတောများနှင့် ရေအိုင်များသို့ ရောက်လာတတ်သော ငှက်များဖြစ်သည်။ ဗာဟီနီဒီး မျိုးရင်းတွင်ပါဝင်၍ ပါဏဗေဒအလိုအားဖြင့် ဗာဟီနပ် အင်ဒိကပ်ဟု ခေါ်သည့် ခွေးခေါ်ရစ်သည် ခြောက်သွေ့၍ တောတောင် မထူထပ်ဘဲ မြက်ခင်းစပ်စပ် တောစပ်စပ်တွင် နေလိုသည်။ ထို့ကြောင့်ပင် မိုးပါးဒေသတွင်လည်း တွေ့ရတတ် လေသည်။ မိန်ဇိမ်ငှက်သည် ဧရာဝတီမြစ်နှင့် အခြား မြစ်ကြီးများ သဲကမ်းပါးများတွင် ကျက်စားသည်။ (မိန်ဇိမ်ငှက် — ရှု။) သောင်တင်းငှက် အပါအဝင် ဂလဲရီယိုလီဒီးမျိုးရင်းဝင် ငှက်မျိုး နှစ်မျိုးရှိ၏။ ပါဏဗေဒအလိုအားဖြင့် ဂလဲရီယိုလာပရက်တင်ကိုလာဟု ခေါ်သည့် ငှက်မျိုးသည် သောင်တင်းငှက်(ဂလဲရီယိုလာ လက်ကတီး)ထက်ကြီးသည်။ (သောင်တင်းငှက် — ရှု။) နွေရာသီအတွင်း မြန်မာနိုင်ငံ တောင်ပိုင်းရှိ လွင်ပြင်များတွင် သားပေါက်သည်။ သိဖဟုလည်းခေါ်သော သောင်တင်းငှက်သည် ဧရာဝတီမြစ်ကမ်းပါးနှင့် အခြားမြစ်ကြီးများ၏ကမ်းပါးများတွင် အအုပ်အသင်းဖွဲ့ကာ နေသည်။

မြန်မာနိုင်ငံတွင် လယ်ရီဒီး မျိုးရင်းဝင် ဇင်ယော် နှစ်မျိုး တွေ့ရသည်။ (ဇင်ယော် — ရှု။) ပါဏဗေဒအလိုအားဖြင့် လယ်ရပ် အစ်ကသီယီးတပ်ဟုခေါ်သည့် ဇင်ယော်မျိုးသည် ဆောင်းရာသီတွင် မြန်မာနိုင်ငံ ကမ်းရိုးတန်းလျှောက် လာရောက်နေထိုင်၍၊ ဆောင်းရာသီ အစနှင့်အကုန်လောက်တွင် အုပ်စုကလေးများ ဖွဲ့ကာ၊ ဧရာဝတီမြစ်ဝှမ်းတလျှောက် စုန်ချည်ဆန်ချည် ကူးသန်း သွားလာနေတတ်သည်။ ဇင်ယော်ခေါင်းမဲ (လယ်ရပ် ဗရွန်နီစီဖေးလပ်) ကို ရန်ကုန်မြစ်ထဲတွင် အများဆုံးတွေ့ရသည်။ ယင်းတို့သည်မြန်မာနိုင်ငံသို့ဆောင်းရာသီတွင် ရောက်လာတတ်ရာ၊ စက်တင်ဘာလတွင် ရောက်လာ၍ ဧပြီလ၊ မေလလောက်တွင် ထွက်ခွာ သွားကြသည်။ လယ်ရီဒီးမျိုးရင်းဝင် မြစ်တွေးငှက်မျိုး ၁၄ မျိုးရှိသည့် အနက် မြစ်တွေး(စတားနား အောရန်တီယ)၊ဝမ်းဘဲမြစ်တွေး (စတားနား အကျူတိကန်ဒါ)နှင့်မြစ်တွေးကလေး(စတားနား ဆိုင်နင်းဆစ်)တို့သာ မြန်မာနိုင်ငံတွင် အမြဲနေသည်ဟု သိရ၏။ ယင်းတို့ကို နွေရာသီတွင် ဧရာဝတီမြစ် သဲကမ်းပါးများတလျှောက် အစုအသင်းနှင့် အသိုက်များ ပြုလုပ်နေထိုင်သည်ကို တွေ့ရလေ့ရှိသည်။

ရေလျှောက်ငှက် အားလုံးလိုလိုပင် မြန်မာနိုင်ငံသို့ ဆောင်းရာသီတွင်မှ ရောက်လာတတ်သည့် ဧည့်သည်ငှက်များ ဖြစ်၍ အားလုံးလိုပင် သားပေါက်ချိန်ကလွဲလျှင် အအုပ်အသင်းဖွဲ့ကာနေတတ်ကြရာ ထိုငှက်မျိုး အတော်များများသည် မြန်မာနိုင်ငံ တောင်ပိုင်းမှ ရွှံ့နွံအတိ ဖြစ်သော ကမ်းခြေများတွင်ထောင်သောင်းမကကျက်စားတတ်သည်။ ကာရာဒရီအီဒီး မျိုးရင်းဝင် ဒီလုံးကောင်သည် ဆောင်းရာသီတွင် ရောက်လာတတ်သည့် ဧည့်သည်ငှက်မျိုး ဖြစ်၍ ရွှံ့နွံထူသော ကမ်းခြေတွင် ဒီလုံးကောင်တို့ကို ထောင်သောင်း

ချီ၍ တွေ့ရလေ့ရှိသည်။ (ဒီလုံးကောင် — ရှု။) စစ်တလိုင်းငှက် (ချောင်းတလိုင်း(ဝါ)ငှက်တလိုင်းလည်း ဟူ၏။) သည် မြန်မာ နိုင်ငံရှိ မြစ်ချောင်းများတွင် အမြဲတမ်း နေ၏။ (စစ်တလိုင်းငှက် — ရှု။) စစ်တလိုင်း၏အသံမှာ တစ်တီတူး၏ အော်သံနှင့် တူသော်လည်း တစ်တီတူးအသံလောက် မစူးရှပေ။ တစ်တီတူးကို မြန်မာနိုင်ငံတဝှန်းလုံးရှိ ကွင်းပြင်များ၌ တွေ့နိုင်၏။ (တစ်တီတူး — ရှု။) များသောအားဖြင့် တစ်တီတူးကို စုံတွဲလိုက်တွေ့ရတတ်သည်။ သဲထူထပ်သော မြစ်ကမ်းချောင်းများတွင် နေလေ့ ရှိသော်လည်း စိုက်ပျိုးခင်း၊ မြေလပ်များနှင့် ထုံးအိုင်အနီးအနားတွင်လည်း တွေ့ရ၏။ တစ်တီတူးနှင့် မျိုးချင်းတူ၍ ပါဏဗေဒအလိုအားဖြင့် မိုက်ကရိုဆားကော့ဆိုင်နီရီးအပ်ခေါ်သည့်ငှက်မျိုးကား ဆောင်းရာသီညှော်သည့်ငှက်မျိုးဖြစ်၍၊ ဆောင်းရာသီတွင် မေမြို့အနီးတဝိုက်၌ အုပ်နှင့်ချီ၍တွေ့ရတတ်သည်။ ရီကာဗီရော့စတြီဒီးမျိုးရင်းဝင် ဒေါင်းလန်းခြေထောက်ငှက် အချို့သည် မြန်မာနိုင်ငံတွင် အမြဲတမ်း နေသည်ဟု ထင်ရ၏။ သို့ရာတွင် အချို့ကား ဆောင်းရာသီတွင်မှသာ လာရောက်ကျက်စားသော ညှော်သည့်ငှက်များ ဖြစ်သည်။ (ဒေါင်းလန်း ခြေထောက် — ရှု။)

စကိုလိုပါစီဒီး မျိုးရင်းဝင် စနိုက်ကြီးသည် မြန်မာနိုင်ငံတွင် အမြဲတမ်းမနေဘဲ ဆောင်းရာသီ၌သာ လာရောက်ကျက်စား၏။ ရှမ်းပြည်နယ်၊ ကယားပြည်နယ်နှင့် မေမြို့တို့တွင် စနိုက်ကြီးကို တွေ့ရသည်။ ပါဏဗေဒအလိုအားဖြင့် ဂယ်လီနာဂို ဆိုလီတာရီယာဟုခေါ်သည့် စနိုက်မျိုး၊ စနိုက် (ဂယ်လီနာဂို ဂယ်လီနာဂို)၊ ဂယ်လီနာဂို စတင်နျူရာခေါ်သည့် စနိုက်မျိုး၊ ဂယ်လီနာဂို မီဂါလာခေါ်သည့် စနိုက်မျိုး၊ လင်မနိုကရစ်တီး မင်နီမတ်ခေါ်သည့် စနိုက်မျိုးတို့ကား ဆောင်းရာသီ ညှော်သည့်ငှက်များ ဖြစ်၏။ ယင်းတို့အနက် စနိုက်နှင့် ဂယ်လီနာဂို စတင်နျူရာ စနိုက်တို့ကိုသာ အများအပြား တွေ့ရသည်။ (စနိုက် — ရှု။)

**ပယ်လိကင်နီဖောမီး မျိုးစဉ်။** ။ဤမျိုးစဉ်ဝင် ငှက်မျိုး မြန်မာနိုင်ငံတွင်ခြောက်မျိုးရှိ၏။ပယ်လီကင်နီဒီးမျိုးရင်းဝင် ငှက်မျိုး နှစ်မျိုးရှိရာ၊ စက္ကဝက်ငှက်မျိုးသည် မြန်မာနိုင်ငံသို့ ဆောင်းရာသီတွင် ရောက်လာ၍ တွေ့ရခဲ၏။ (စက္ကဝက်ငှက် — ရှု။) ဝံပိုကား မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍၊ ဧရာဝတီမြစ် တလျှောက်တွင်၎င်း၊ ထုံးအိုင်များ အနီးအနားတဝိုက်တွင်၎င်း၊ ပင်လယ်ကမ်းခြေ တလျှောက်တွင်၎င်း တွေ့နိုင်လေသည်။ (ဝံပို — ရှု။) ဖယ်လာကရိုကိုရက်စီဒီး မျိုးရင်းဝင် အော်ယောငှက်ကို လူသိများသည်။ ရေအိုင်၊ လမ်းဘေးရှိ မြောင်းနှင့် ရေကန်များတွင် ကျက်စားသော်လည်း ရံဖန်ရံခါ ကမ်းခြေတွင် တွေ့ရသည်။ အန်ဟင်ဂျီဒီးမျိုးရင်းဝင် ဥပန်းငှက်သည် မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍၊ အအုပ်အသင်းနှင့် နေလေ့ရှိသည်။ (ဥပန်းငှက် — ရှု။) ရေကူးနိုင်ငှပ်နိုင်အောင် ရေများသည့် မြစ်ချောင်းများနှင့် ထုံးအိုင်များတွင် ထိုငှက်အုပ်များကို တနှစ်ပတ်လုံး တွေ့ရသည်။ ထိုငှက်သည် အော်ယောနှင့် ရောနှောနေတတ်သည်။

**စီကိုနီအီဖောမီး မျိုးစဉ်။** ။မြန်မာနိုင်ငံ၌ ဤမျိုးစဉ်ဝင်ငှက်မျိုး ၃၀ ရှိ၏။ ထရက်စကီအော်နီသီဒီးမျိုးရင်းဝင် ဗွန်းနှုတ်သီးငှက် (ပလာတာလီယ လျူကိုရိုဒိယ)သည် မြန်မာနိုင်ငံတွင် တွေ့ရခဲသည့် ညှော်သည်ငှက်မျိုး ဖြစ်သည်။ ခရုစုတ်အဖြူနှင့် ပါဏဗေဒအလိုအားဖြင့် ပလီဂါဒစ် ဖယ်လစီနဲလပ်ဟုခေါ်သည့် ခရုစုတ်ငှက်မျိုးတို့၏ စရိုက်၊ အလေ့အကျင့်နှင့် စပ်လျဉ်း၍ အသေအချာ မသိရသေးပေ။ ခရုစုတ်အနက်သည် မြန်မာနိုင်ငံတွင် အမြဲတမ်းနေသော ငှက်မျိုးဖြစ်ဟန်တူသော်လည်း၊ တနင်္သာရီတိုင်းကလွဲ၍ တွေ့ရခဲဟန်တူလေသည်။ (ခရုစုတ်ငှက် — ရှု။) စီကိုနီအီဒီးမျိုးရင်းဝင် ချည်ခင်စွပ်ငှက်၊ ငှက်ကုလားနှင့် ငှက်ကျား (ငှက်စပ်လည်းဟူ၏။) တို့ကား အမြဲတမ်းနေ ငှက်များဖြစ်၍၊ (ချည်ခင်စွပ်ငှက်၊ ငှက်ကုလား — ရှု။) ယင်းတို့နှင့် မျိုးတူကာ ပါဏဗေဒအလိုအားဖြင့် စီကိုနီယာ နိဂရာဟုခေါ်သည့် ငှက်မျိုးကား မြန်မာနိုင်ငံအထက်ပိုင်းသို့ ဆောင်းရာသီတွင် မှန်မှန်ရောက်လာတတ်သည့် ညှော်သည်ငှက်မျိုး ဖြစ်သည်။ မြန်မာနိုင်ငံတွင် ငှက်ကြီးဒုံးစပ်၏ အလေ့အကျင့်နှင့် စပ်လျဉ်း၍ အသေအချာ မသိရပေ။ (ငှက်ကြီး ဒုံးစပ် — ရှု။) ငှက်ကြီးဒုံးစပ် အနည်းငယ်ခန့်သာ မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍၊ များသောအားဖြင့် ဆောင်းရာသီ၌သာ ခေတ္တလာရောက်ကျက်စားကြသည်။ ဒုံးမြီးကွက်သည် မြန်မာနိုင်ငံ၌ ရှိသည်ဆိုသော်လည်း တခါတရံ၌သာ တွေ့ရသည်။ (ဒုံးမြီးကွက် — ရှု။) ခရုတုတ်ကို မြန်မာနိုင်ငံ တဝှန်းလုံးတွင် အနှံ့အပြား တွေ့ရှိရ၍ အမြဲတမ်း နေသည်ဟု ယုံကြည်ရသည်။

အာဒီအီဒီး မျိုးရင်းဝင် ဗျိုင်းအောက်သည် ဥဗျိုင်းငှက်မျိုးတွင် လူသိအများဆုံး ဖြစ်၍၊ ရွာတိုင်းရွာတိုင်းရှိ ရေအိုင်များတွင် ဗျိုင်းအောက်များ သွားလာကျက်စားနေသည်ကို အလွယ်တကူ တွေ့နိုင်သည်။ (ဗျိုင်းအောက် — ရှု။) ဟောစ်နှင့် လင်းဝက်တို့သည် မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍ လူသိများသည့် ငှက်များ ဖြစ်၏။ (ဟောစ်၊ လင်းဝက် — ရှု။) ဥဗျိုင်း၊ ဗျိုင်းငန်းနှင့် ကျွဲကျောင်းဗျိုင်းတို့သည်လည်း မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍ လွင်ပြင်များတလျှောက်တွင် တွေ့ရလေ့ ရှိသည်။ (ကျွဲကျောင်းဗျိုင်း၊ ဥဗျိုင်း — ရှု။)

**အန်ဆာရီဖောမီး မျိုးစဉ်။** ။ဤမျိုးစဉ်တွင် ငမ်းဘဲမျိုးနှင့် ငန်းမျိုးပါဝင်ရာ၊ မြန်မာနိုင်ငံတွင် ထိုမျိုးစဉ်ဝင်ငှက်မျိုး ၃၄ မျိုးရှိသည်။ (ငမ်းဘဲ၊ ငန်း — ရှု။) သို့သော် ခြောက်မျိုးသာ မြန်မာနိုင်ငံတွင် အမြဲတမ်းနေ၍၊ ကျန်ငှက်မျိုးတို့ကား ဆောင်းရာသီတွင်ရောက်လာတတ်သည့် ညှော်သည်ငှက်

မျိုးဖြစ်လေသည်။ မြန်မာနိုင်ငံတွင် အမြဲတမ်းနေသော ငှက်မျိုးမှာ မောက်တင်၊ မန္တလီ (တောဘဲ)၊ ကလကတ်၊ စစ္စလီခေါင်းမဲ၊ စစ္စလီကြီးနှင့် ဝမ်းဘဲတို့ ဖြစ်သည်။ (မောက်တင်။ စစ္စလီငှက် — ရှု။) ဝမ်းဘဲကလွဲ၍ ယင်းတို့သည် မိုးရာသီအတွင်း သစ်ပင်များရှိ အသိုက်များတွင် သားပေါက်ကြသည်။ ဧည့်သည်ငှက်မျိုးဖြစ်သော ငန်းမျိုး ငါးမျိုးအနက် ငန်းနှင့် တောငန်းတို့ကို လူသိများသည်။ (တောငန်း — ရှု။)ယင်းတို့ကို ဆောင်းရာသီတွင် ဧရာဝတီမြစ်နှင့် ချင်းတွင်းမြစ်များတွင် အမြောက်အမြား တွေ့နိုင်သည်။ ဒေသကူးပြောင်းတတ်သည့် ဘဲမျိုးအနက် ဟင်္သာ၊ ဘဲပြားကလေး၊ ဘဲကျား၊ (ဘဲခေါင်းကျားလည်း ဟူ၏။) မျိုးမ (ညှုးမှုတ်လည်း ဟူ၏။)နှင့် ဘဲရစ်တို့ကို အတွေ့ရအများဆုံး ဖြစ်၏။ (ဟင်္သာ — ရှု)။ ဟင်္သာသည် ပဌမဆုံး ရောက်လာ၍ နောက်ဆုံးမှ ပြန်သွားတတ်သည်။ နေ့အခါတွင် ဟင်္သာအဖိုအမ စုရုံးကြကာ၊ အချိန်ဖြုန်းကြယင်း အနားယူကြသည်။ ညဉ့်အချိန်ရောက်သော် အုပ်မှခွဲထွက်၍ အစာရှာဖွေကြသည်။ ငှက်များထဲတွင် သတိအရှိဆုံး ဖြစ်၍ လူကပ်မခံချေ။ ဘဲခေါင်းစိမ်းသည်လည်း ဆောင်းရာသီ၌သာ မှန်မှန် လာရောက်ကျက်စားသော ဧည့်သည်ငှက်မျိုး ဖြစ်ဟန်တူသည်။

**ပေါဒီစီပီတီဖောမီး မျိုးစဉ်။** ။ဤမျိုးစဉ်မှ ပေါဒီစီပီတီဒီးမျိုးရင်းတွင် ပါဝင်၍ ပါဠိဗေဒအလိုအားဖြင့် ပေါဒီစက် ကရစ္စတေးတပ်ဟုခေါ်သည့် ငှက်မျိုးသည် မြန်မာနိုင်ငံ အထက်ပိုင်းသို့ ဆောင်းရာသီတွင် အနည်းအကျဉ်း လာရောက်တတ်သည့် ဧည့်သည်ငှက်မျိုး ဖြစ်သည်။ ထိုမျိုးရင်းဝင် ထစိမှုတ်(ထန်းစေ့မှုတ်)ဟုလည်း ခေါ်သည့် ရေဝမ်းဘဲသည် မြန်မာနိုင်ငံတွင် အမြဲတမ်း နေထိုင်၍၊ ရာသီဥတု သင့်လျော်သောဒေသများတွင် တွေ့နိုင်လေသည်။ (ရေဝမ်းဘဲ — ရှု။)

**မြန်မာနိုင်ငံ တိုင်းရင်းသားများ။** ။အလွန် ရှေးကျသော အချိန်ကတည်းက မြန်မာနိုင်ငံတွင် လူများ နေထိုင်လာခဲ့ကြသည်။ ရှေးအကျဆုံး နေထိုင်ခဲ့သူတို့မှာ ကျောက်အသုံးအဆောင် လက်နက် ပစ္စည်း တို့ကိုသာ အသုံးပြု၍ အသက်မွေးဝမ်းကျောင်းသော ကျောက်ခေတ် လူမျိုးများ ဖြစ်ကြသည်။ ထိုလူမျိုးတို့နောက်၊ အနည်းငယ်မျှသာ ယဉ်ကျေးမှုအဆင့်အတန်း တိုးတက်ရရှိခဲ့သည့် နီဂရီတိုခေါ် နီးဂရိုးအငယ်စား လူမျိုးများ နေထိုင်သွား ခဲ့ကြ၏။ (နီဂရီတိုလူမျိုး — လည်းရှု။) ကျောက်ခေတ်လူမျိုးတို့၏ အဆက်အနွယ်သည် အခြားသော နိုင်ငံများမှာကဲ့သို့ ကွယ်ပျောက်ခဲ့ပြီ ဖြစ်သော်လည်း နီဂရီတိုတို့၏ အနွယ်ကား မြန်မာနိုင်ငံ တောင်ဖက် ဗင်္ဂလား ပင်လယ်အော်အတွင်းရှိ အန္ဒမန်ကျွန်း



ပအိုး (တောင်သူ) အမျိုးသားနှင့် အမျိုးသမီး

ခေါ် ကပ္ပလီကျွန်းတွင် ယနေ့တိုင် တွေ့ရသေးသည်။ (ကပ္ပလီကျွန်း — လည်းရှု။)

နီဂရီတိုတို့၏ နောက် ရောက်ရှိလာသော လူတို့မှာ အမျိုးအားဖြင့် များပြားလှ၏။ မြန်မာ နိုင်ငံ သမိုင်း၏ အစပိုင်းခေတ်မှာ အမှန်အားဖြင့် ထို မြောက်မြားလှသော လူမျိုးတို့ ဝင်ရောက် ရွှေ့ပြောင်းသွားလာနေထိုင်ခြင်း အကြောင်းသာ ဖြစ်ပေ၏။ အချို့ လူမျိုးများသည် မိမိတို့ ရောက်ရှိရာ ဒေသတွင် အခြေစိုက် နေထိုင်၍ ယဉ်ကျေးမှု အချက် အလက်တို့၌ တိုးတက်ဖွံ့ဖြိုးလျက် ရှိကြ၏။ အချို့သည် ယဉ်ကျေးမှုနယ်နှင့် ကွာလှမ်းရာ ဒေသတို့၌ တိုးတက်မှု လုံးဝမရှိဘဲသကဲ့သို့ ရှေးအခါက အဆင့်အတန်းနှင့်ပင် ရပ်တန့် တည်မြဲလျက်ရှိ၏။ အချို့ကား လွန်ခဲ့သည့် နှစ်ပေါင်း ၂၀ အထိ ဆက်လက် ရွှေ့ပြောင်းနေထိုင်ဆဲပင် ရှိသေး၏။

၁၉၆၄ ခုနှစ် ခန့်မှန်း သန်းကောင်စာရင်းအရ မြန်မာနိုင်ငံ၏ လူဦးရေမှာ ၂၄ သန်းကျော်ဖြစ်၏။ အထက်ပါ ၂၄ သန်းကျော် မျှသော လူဦးရေတွင် တိုင်းရင်းသားလူမျိုးပေါင်းစုံ အကျုံးဝင်နေ၏။ ထိုသူတို့ကို လူမျိုးအလိုက် ခွဲခြားရာတွင် ပြောဆိုသော ဘာသာစကားကို လိုက်၍ ခွဲခြား ဖော်ပြလေ့ရှိသည်။ မြန်မာနိုင်ငံတွင်းရှိ တိုင်းရင်းသားတို့ ပြောဆိုသည့် ဘာသာ စကားများကို အမျိုးအလိုက် ခွဲခြားလျှင် အစုကြီး နှစ်စု ရသည်။ တစုမှာ ဩစထရစ်အစုကြီး (ဝါ) ရှေးကျသော တောင်ပိုင်းအစုကြီး ဖြစ်၏။ အခြားတစုမှာ တိဗက်—တရုပ်အစုကြီး ဖြစ်သည်။

သြစထရစ် အစုကြီးတွင် အစုခွဲ နှစ်ခုကွဲ၏။ တစုမှာ ပင်လယ်ပိုင်းတွင် ပြောဆိုသော သြစထရိုနီးရှ အစုခွဲဖြစ်၏။ အခြား အစုခွဲမှာ ကုန်းပိုင်းတွင် ပြောဆိုသော သြစထရိအာရှ အစုခွဲဖြစ်သည်။ မြန်မာနိုင်ငံ၌ သြစထရိုနီးရှ အစုခွဲတွင် ပါဝင်သည့် ဘာသာ စကားရပ်များကို ပြောဆို သူတို့သည် မလေးလူမျိုးများနှင့် ဆလုံ လူမျိုးများ ဖြစ်သည်။ ထိုသူတို့သည် မြန်မာနိုင်ငံ တောင်ဖက်ဆုံး အပိုင်းလောက်တွင် နေထိုင်ကြ၏။ မလေးလူမျိုး ဦးရေမှာ ၄,၄၀၀ မျှရှိ၍၊ မြိတ်ခရိုင် တောင်ဖက်ပိုင်းတွင် တွေ့ရသည်။ ထိုသူတို့သည် မြန်မာနိုင်ငံ တောင်ဖက်ပိုင်းနှင့် ဆက်လျက်ရှိသော မလ္လာယု ကျွန်းဆွယ်ရှိ မလေးလူမျိုးများနှင့် တဆက်တည်း ဖြစ်၏။ (မလေးလူမျိုး၊ ဆလုံလူမျိုး — လည်းရှု။) ထားဝယ် ကျွန်းစု၊ တောင်ဖက် ပင်လယ် ကမ်းရိုးတန်းတလျှောက်ရှိ မြိတ်ကျွန်းစုများတွင် မိမိတို့ကိုယ်ကို မော်ကင်ဟု ခေါ်သော ဆလုံလူမျိုးများရှိသည်။ လူဦးရေအားဖြင့် မြန်မာနိုင်ငံတွင်း၌ ၅,၀၀၀ ကျော်မျှရှိ၏။

သြစထရိအာရှ အစုခွဲဝင် ဘာသာစကားများကို ပြောဆိုသူတို့ အနက် မြန်မာနိုင်ငံ၌ တိုင်းရင်းသားအဖြစ် နေထိုင်ကြသူတို့မှာ မွန်လူမျိုး၊ ပလောင်လူမျိုးနှင့် ဝလူမျိုးများ ဖြစ်သည်။ (မွန်လူမျိုး။ ပလောင်လူမျိုး။ ဝလူမျိုး — လည်းရှု။) ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ မြန်မာနိုင်ငံရှိ မွန်လူမျိုးဦးရေမှာ ၃၃၆,၇၂၈ ဖြစ်၏။ ပလောင် — ဝ လူမျိုးတို့၏ ဦးရေမှာ ၁၇၆,၃၈၂ ဖြစ်၏။ ဤသြစထရစ် အစုကြီးဝင် ဘာသာ စကားများကို ပြောဆိုသူတို့သည် တကြိမ်က အနောက်ဖက် အာသံနယ် ခါစီတောင်များမှ အရှေ့ဖက် တရုပ်ပင်လယ်ရှိ ဟိုင်နံကျွန်းအထိ ဖြစ်သော မျဉ်းကြောင်း၏ တောင်ဖက် အာရှတိုက် အရှေ့တောင်ပိုင်း ဒေသတခုလုံးတွင် နေထိုင်ခဲ့ဘူးဟန် ရှိလေသည်။ အကြောင်းမှာ သြစထရိအာရှ အစုဝင် ဘာသာစကားများကို ပြောဆိုသူတို့အား ဤဒေသအတွင်း အနှံ့အပြား တွေ့ရှိရသောကြောင့် ဖြစ်၏။ အထူး သဖြင့် ထို အစုခွဲဝင် မွန်လူမျိုးတို့သည် မြန်မာနိုင်ငံတွင်သာမက ယိုးဒယားနိုင်ငံတွင်း၌လည်း ခရစ် ခုနှစ် ရာစုနှစ်လောက်မှ စ၍ စိုးမိုး အုပ်ချုပ်ခဲ့သော လူမျိုး တမျိုး ဖြစ်ခဲ့သည်။ ထိုသူတို့နှင့်အနွယ်တူသော ခမာ လူမျိုးတို့သည်



ရှမ်းအမျိုးသားအက

လည်း ယိုးဒယားနိုင်ငံ အရှေ့ဖက် ဒေသများတွင် ထို ခေတ် လောက်မှစ၍ ကြီးစိုးခဲ့၏။ ထို့ပြင် ဤ အစုခွဲဝင် ဘာသာ စကားတမျိုးကို ပြောဆိုသော လူမျိုးအချို့ကို အိန္ဒိယနိုင်ငံ တောင်ပိုင်း၌ တွေ့ရှိရလေသည်။ ထိုသူတို့မှာ မွန်ဒ (မုဏ္ဍာ) စကားများကို ပြောဆိုသူများ ဖြစ်၏။ အာသံနယ် ခါစီ တောင်များတွင် နေထိုင်သော ခါစီလူမျိုးတို့သည်လည်း ဤ အစုခွဲဝင် လူမျိုးများ ဖြစ်သည်။

မွန်၊ ပလောင် နှင့် ဝလူမျိုးတို့အပြင် မြန်မာနိုင်ငံ၌ နေထိုင်သော ဤအစုခွဲဝင် အခြား လူမျိုးများလည်း ရှိသေး၏။ ထို သူတို့ကား ယင်း (ရိယန်း(ဝါ)ယန်းလည်း ဟူ၏။) လူမျိုး နှင့် ဓနော၊ သို့မဟုတ် ဂနောခေါ် လူမျိုးများ ဖြစ်သည်။ ပဌမ အမျိုးမှာ လူဦးရေ ၁၄,၀၀၀ ခန့်ရှိ၍ ရှမ်းပြည်တောင် ပိုင်း အထူးသဖြင့် မိုးနဲနယ်၌ ပါဝင်သော သံလွင်မြစ် အ နောက်ဖက် တောင်များပေါ်တွင် အများဆုံး တွေ့ရသည်။ (ယင်းလူမျိုး — လည်းရှု။) ဒုတိယ လူမျိုးမှာ လူဦးရေ အားဖြင့် ၁,၁၆၀ ခန့်ရှိ၍ ယခုအခါတွင် ရှမ်းပြည်နယ် မြေ လတ်ပိုင်းတွင် ဓနုလူမျိုးများနှင့် ရောနှောလျက် ပင်းတယ၊ သမခမ်း၊ ပင်မှီစသော ဒေသများတွင် တွေ့ရသည်။

### တိဗက်-တရုပ် အစုကြီး

တိဗက်-တရုပ် အစုကြီးတွင် တိဗက်-မြန်မာနှင့် ထိုင်း-တရုပ် ဟူသော အစုခွဲ နှစ်စုပါဝင်သည်။ မြန်မာနိုင်ငံ အတွင်း ၌ တိဗက်-မြန်မာ အစုခွဲတွင် လူဦးရေ အများဆုံး ဖြစ်သူတို့ မှာ မြန်မာအစုငယ် ဖြစ်၍၊ ထိုင်း-တရုပ် အစုခွဲတွင် လူဦးရေ အများဆုံးမှာ ရှမ်းအစု ဖြစ်သည်။

### တိဗက်-မြန်မာ အစုခွဲ

တိဗက်-မြန်မာ အစုခွဲတွင် မြန်မာ၊ သက်၊ လိုလို-မူဆို၊



ပဒေါင် အမျိုးသမီး



လူရှိုင်းတိုင်းရင်းသားတို့ကဟန်



**ကရင် အမျိုးသမီးယိမ်း**

ကချင် (ဂျင်းဖော)၊ ချင်းခေါ် ကုကီချင်း၊ နာဂ နှင့် ကရင် စသော အစုငယ်များ ပါဝင်သည်။

**မြန်မာ အစုငယ်။** ။၁၉၃၁ ခုနှစ် သန်ကောင် စာရင်း အရ မြန်မာ အစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူတို့၏ ဦးရေမှာ ၉ဂ,၆၃,၀၀၀ ဖြစ်၏။ နိုင်ငံ လူဦးရေ၏ ၆၇ ရာခိုင်နှုန်း ဖြစ်၏။ သို့ရာတွင် ယင်းတို့အနက် မြန်မာ စကားများကို ပြောဆိုသူ ဦးရေမှာ ၆၀ ရာခိုင်နှုန်းသာ ရှိ၍ ကျန်ခုနစ်ရာခိုင်နှုန်းမှာ မြန်မာစကားနှင့်တူ၍ပြောဆိုရာတွင် ကွဲသော အသံကွဲ ဘာသာစကားများကို ပြောဆိုသူများ ဖြစ်ကြ၏။ မြန်မာတို့၏ ဗဟိုချက်ချာဒေသသည် မြန်မာ နိုင်ငံ အလယ်ပိုင်းဖြစ်၏။ လူဦးရေမှာ ထိုဒေသရှိ လူအားလုံး၏ ၉၅ ရာခိုင်နှုန်း ဖြစ်လေသည်။ မြစ်ဝကျွန်းပေါ် ဒေသရှိ လူအားလုံး၏ သုံးပုံ နှစ်ပုံသည် မြန်မာစကားကို ပြောကြသည်။ ကျန် အခြားဒေသတို့၌ အနည်းနှင့်အများ တွေ့ရှိရလေသည်။ မြန်မာစကားနှင့် တူ၍ ပြောဆိုရာတွင် ကွဲသော အသံကွဲ ဘာသာစကားများကို ပြောဆိုသူတို့မှာ ရခိုင်များ (၂,၂၂,၀၀၀)၊ ရမ်းဗြဲများ (၃,၂၇,၀၀၀)၊ စစ်တွေ နယ်နှင့် ရခိုင် တောင်တန်းနေ ချောင်းသားများ (၃၅,၀၀၀)၊ သာယာဝတီနယ် ပဲခူးရိုးမ အစွန်းတွင် နေသော ယဗိန်းများ၊ မြန်မာများနှင့် တဖြည်းဖြည်း ရောနှောလျက် ရှိကြသည့် ယောများ (၁,၀၀၀)၊ မြေပြန့်နှင့် ရှမ်းကုန်းပြင်မြင့် ဆုံရာ မြေလတ်ဒေသများတွင် အများဆုံး တွေ့ရသော ဓနု၊ သို့မဟုတ် ရှမ်းဓနုများ (၆,၀၀၀)၊ညောင်ရွှေနယ်နှင့်ရှမ်းပြည်နယ် မြေလတ်ပိုင်းတွင် တွေ့ရသော တောင်ရိုးများ (၂၂,၀၀၀)၊ အင်းလေးနယ်တွင် နေထိုင်ကြသော အင်းသားများ (၅၇,၀၀၀)၊ တနင်္သာရီတိုင်းမှထားဝယ်များ (၁,၆၀,၀၀၀) နှင့် မြိတ်များ (၁,၀၀,၀၀၀) တို့လည်း ပါဝင်သည်။ (ရခိုင်လူမျိုး။ ဓနုလူမျိုး။ တောင်ရိုးလူမျိုး။ အင်းသား။ထားဝယ်လူမျိုး — လည်းရှု။)

ထိုသူတို့အပြင် မြန်မာ စကားနှင့် အနွယ်တူ၍ အလွန်ရှေးကျသော ဘာသာစကားကို ပြောဆိုသည့် လူမျိုးစုများ ရှိသေးသည်။ ထိုသူတို့မှာ မြန်မာနိုင်ငံ မြောက်ဖျား မေခမြစ်နှင့် သံလွင်မြစ်စပ်ကြား၊ တရုပ်-မြန်မာနယ်စပ် နှစ်ဖက်နှစ်ချက် စလုံးတွင် နေထိုင်ကြသူများ ဖြစ်သည်။ မြန်မာအစုဝင် လူမျိုးတို့ မြန်မာနိုင်ငံ အတွင်းသို့ ဝင်ရောက်လာစဉ်တွင် လမ်းခရီး၌ ကျန်ရစ်ခဲ့သောသူများ ဖြစ်ဟန်တူသည်။ ထိုသူတို့သည် မြစ်ကြီးနားနှင့် ဗန်းမော် စပ်ကြား၊ ဧရာဝတီမြစ်ကျဉ်း ဒေသတွင် နေသော ဖွန်းများ (၇၀၀)၊ မြစ်ကြီးနား

နယ်နှင့် ရှမ်းပြည်မြောက်ပိုင်း ဒေသတွင် နေထိုင်သော ဇီးခေါ် အဇီးများ (၅,၀၀၀)၊ မေခမြစ်တောင်ပိုင်း ထောဂေါ်၊ ဇီမော်တို့ တောင်ဖက်နှင့် ဆဒုံဒေသတွင် နေထိုင်သော လရှီများ(၁၂,၀၀၀)၊ မြစ်ကြီးနားခရိုင်နှင့် ရှမ်းပြည်မြောက်ပိုင်းတွင်နေထိုင်သော မရူများ (၁၀,၀၀၀)၊ ဗန်းမော် အရှေ့မြောက်ဖက်နယ်စပ်တွင် နေထိုင်သော မိုင်းသာများ(မြန်မာနိုင်ငံအတွင်း၌ အနည်းငယ်မျှသာရှိသည်။)၊ စစ်တွေခရိုင်နှင့် ရခိုင်တောင်ရိုးတွင် နေထိုင်ကြသော မြိုလူမျိုး (၁၄,၀၀၀) နှင့် ပျောက်ကွယ်သွားပြီ ဖြစ်သော ပျူလူမျိုးများ ပါဝင်သည်။ (မရူလူမျိုး။ မြိုလူမျိုး။ လရှီလူမျိုး။ ပျူလူမျိုး။ ဖွန်းလူမျိုး — လည်းရှု။)

### သက် အစုငယ်

လူဦးရေ အားဖြင့် ၅၀,၀၀၀ မျှ ရှိ၍ ဘာသာ စကား ပြောဆိုသူများ အနေအားဖြင့် ၃၅,၀၀၀ ရှိသော သက်အစုဝင် လူမျိုးတို့သည် မြန်မာတို့ထက် ရှေးကျသော လူမျိုးများ ဖြစ်၍ မြန်မာနိုင်ငံ မြောက်ပိုင်းတွင် ရှမ်း၊ မြန်မာတို့နှင့် ရောနှော၍ စစ်တွေ နယ်တွင်၎င်း၊ မြန်မာနိုင်ငံ အပ မဏိပူရနယ်တွင်၎င်း ပျံ့နှံ့နေထိုင်ကြ၏။

သက် အစုငယ်ဝင် ဘာသာစကားများကို ပြောဆိုသည့် လူမျိုး ငါးမျိုးမျှ ရှိ၏။ ထိုသူများမှာ ရောဝတီမြစ် အနောက်ဖက် ဖြစ်သော ကသာခရိုင်၊ မြစ်ကြီးနား ခရိုင်၊ ဗန်းမော်ခရိုင်နှင့် အထက်ချင်းတွင်း ခရိုင် (မော်လိုက်ခရိုင်) များတွင် နေကြသော ကဒူးများ (၃၆,၀၀၀)၊ကသာခရိုင်နှင့်ဗန်းမော် အနောက်ဖက် မူးမြစ်ဖျားဒေသတွင်နေကြသော ကနန်းများ (၇,၀၀၀)၊ စစ်တွေခရိုင်တွင် နေကြသော သက် (၇၀၀) နှင့် ဒိုင်းနက်များ (၆,၀၀၀)၊ အထက်ချင်းတွင်း ခရိုင်တွင် နေကြသော ထမန်းများ (၁,၀၀၀)၊ ယခုအခါတွင် ပျောက်ကွယ်လု မတတ်ဖြစ်၍ မဏိပူရမြစ်ဝှမ်း၌ နေကြသော အန္ဒရိုနှင့် အန္ဒယ်တူများ ဖြစ်ကြသည်။ (ဒိုင်းနက်လူမျိုး။ ထမန်းလူမျိုး။ သက်လူမျိုး — လည်းရှု။)



နာဂ အမျိုးသား

### လိုလို-မူဆို အစုငယ်

လိုလို-မူဆို အစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူများမှာ မြန်မာနိုင်ငံ၌ ၉၃,၀၀၀ မျှရှိ၍ လူဦးရေမှာ တဖြည်းဖြည်း တိုးတက်လျက် ရှိ၏။ ထိုသူတို့၏ ဗဟိုချက်ချာဒေသမှာ တရုပ်နိုင်ငံ ယူနန်ပြည်နယ်ဖြစ်၏။ ရှမ်းပြည်တောင်ပိုင်းတွင် ၇၅,၀၀၀၊ ရှမ်းပြည် မြောက်ပိုင်းတွင် ၉,၀၀၀၊ မြစ်ကြီးနားနယ်တွင် ဂ,၀၀၀ မျှစီ ပျံ့နှံ့လျက် ရှိသည်။ ဤအစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူတို့တွင် လီရှောလူမျိုး (လီဆိုး (ဝါ) လီဆူး (ဝါ) ယောယင်လည်း ဟူ၏။) စုစုပေါင်း ၂၀,၀၀၀ ရှိ၍၊ ရှမ်းပြည်မြောက်ပိုင်းတွင် ဂ,၀၀၀၊ မြစ်ကြီးနား ခရိုင်တွင် ၆,၀၀၀၊ ကသာနှင့် ဗန်းမော် ခရိုင်တို့တွင် ၃,၀၀၀ ပျံ့နှံ့နေကြသည့်အပြင်၊ ရှမ်းပြည် အရှေ့ပိုင်း ကျိုင်းတုံနယ်တွင် အများဆုံး တွေ့ရပြီးလျှင် တောင်ဖက်ယိုးဒယား၊ အရှေ့ဖက် ဗီယက်နမ် နယ်များအတွင်းသို့ ပျံ့နှံ့နေကြသော ကော (အီကော (ဝါ) ခကောလည်း ဟူ၏။) (၃၉,၀၀၀)တို့ ပါဝင်ကြသည်။ (လီရှော လူမျိုး။ ကော လူမျိုး — လည်းရှု။)

ဤအစုငယ်ဝင် မူဆိုလူမျိုးများကို ယူနန် ပြည်နယ် အနောက်မြောက်ပိုင်း၌ တွေ့ရ၏။ သို့ရာတွင် ထိုသူတို့နှင့် အနွယ်တူ ဖြစ်သော လားဟူများကိုကား ရှမ်းပြည် မြောက်ပိုင်းနှင့် တောင်ပိုင်းတို့၌ တွေ့ရ၏။ လားဟူ လူဦးရေမှာ ၂၇,၀၀၀ မျှ ရှိ၍၊ ရှမ်းပြည်မြောက်ပိုင်း၌ ၁,၆၀၀ မျှသာ ရှိသည်။ လားဟူများကို ကျိုင်းတုံနယ်၌အများဆုံး တွေ့ရ၍ လားဟူန နှင့် လားဟူစီဟူ၍ နှစ်မျိုး ကွဲပြားနေကြသည်။ (လားဟူလူမျိုး — လည်းရှု။)

ဤအစုငယ်တွင် အပါအဝင် ဖြစ်၍ ယခုအခါ တိမ်မြုပ်ပျောက်ကွယ်လုမတတ် ရှိသော ဆီးရှား ဘာသာ စကားလည်း ရှိသေးသည်။ ထိုဘာသာ စကားကို ပြောဆိုသူတို့မှာ ဒရူး လူမျိုးနှင့် နုံလူမျိုး (ရဝမ်လူမျိုး) တို့ ဖြစ်သည်။ သူတို့ကို မြန်မာနိုင်ငံ မြောက်ဖက်စွန်း မေခမြစ်ဖျား ဒေသတွင် တွေ့ရသည်။ (ဒရူး လူမျိုး။ နုံလူမျိုး — လည်းရှု။)



ဖွန်း အမျိုးသားများ

## ကချင် (ဂျင်းဖော) အစုငယ်

ကချင်အစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူတို့၏ လူဦးရေမှာ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်း အရ ၁,၅၃,၃၄၅ ရှိ၏။ သန်ကောင် စာရင်း မကောက်ယူဘဲ ချန်လှပ်ထားသော ဒေသတို့၌ အများပင် ရှိသေးသည်။ ထိုသူတို့ကို ရှမ်းပြည် မြောက်ပိုင်း၊ ဗန်းမော်၊ မြစ်ကြီးနားနှင့် ကသာ ခရိုင်များတွင် တွေ့ရသည်။

သို့သော် ထိုစဉ်က သန်ကောင်စာရင်း ကောက်ယူရာတွင် မပါသော မြစ်ကြီးနားခရိုင် အချို့သော နယ်များတွင် ၁၆,၀၀၀၊ တြိဂံဒေသတွင် ၂၄,၀၀၀၊ ဟူးကောင်း တောင်ကြားတွင် ၁၃, ၀၀၀ မျှရှိ၏။ အာသံနယ်တွင် ကချင်အများပင် ရှိသေး၏။ ထိုဒေသ၌ သူတို့ကို သိမ်းဖော (စင်ဖို) ဟု ခေါ်သည်။

ကချင်အစုသည် အမျိုးအနွယ်အားဖြင့် ငါးမျိုး ကွဲပြား၏။ ယင်းတို့မှာ မရစ်၊ လထော်၊ လဖိုင်၊ အင်ခုမ်နှင့်မရမ်တို့ ဖြစ်သည်။ကချင်အစုတွင် ကချင် (ဂျင်းဖော)၊ ခတ်ခု၊ ကောရီ (သို့မဟုတ် ဂေါရီ) နှင့် ဒူးလင်း စသည့် လူမျိုးစုများ ပါဝင် ကြသည်။ (ကချင်ပြည်နယ်။ ကချင်လူမျိုး။ ဒူးလင်း လူမျိုး — လည်းရှု။)

## ချင်း အစုငယ်

မြန်မာနိုင်ငံ အနောက်ဖက်တွင် နံရံ တံတိုင်းကဲ့သို့ တည်ရှိနေသော တောင်တန်း တောင်စွယ် ဒေသတို့၌ နေထိုင်သူများအနက် ချင်းအစုဝင် ဘာသာ စကားများကို ပြောဆိုသူတို့မှာ အများဆုံး ဖြစ်သည်။ (ချင်းဝိသေသတိုင်း။ ချင်း လူမျိုး — လည်းရှု။) လူဦးရေမှာ ၃,၅၀,၀၀၀ ကျော်ဖြစ်၏။ သူတို့၏ ဒေသမှာ မြောက်ဖက် မဏိပူရနှင့် ဆုမ္မရာ တောင်တန်းတို့မှ တောင်ဖက် နေဂရေ့အငူလောက်အထိ၊ အရှေ့ဖက် မြစ်သာမြစ်မှ အနောက်ဖက် ဗင်္ဂလားအော်လောက် အထိ ဖြစ်သော ဒေသများတွင် ပျံ့နှံ့ နေထိုင်ကြသည်။ မြန်မာနိုင်ငံ၏အပ အာသံပြည်နယ်၊မဏိပူရနယ် လူရှိုင်းတောင်တန်းတွင်လည်း အများအပြား ရှိသေးသည်။ မြန်မာနိုင်ငံတွင်း၌ ရခိုင်တိုင်း မြောက်ပိုင်း၊ ပခုက္ကူ တောင်တန်းများ၊ မင်းဘူး၊ သရက်နှင့် ပြည်ခရိုင် များတွင်လည်း တွေ့ရ လေသည်။ သူတို့၏ ဇာတိ ဒေသမှာ မြောက်ဖက်တွင် တီးတိန်၊ အလယ်တွင် ဖလမ်း၊ တောင်ဖက်တွင် ဟားခါးတို့ ပါဝင်သော ချင်း တောင်နယ် ဒေသ ဖြစ်၏။ သို့ရာတွင် ထိုဒေသမှာ ချင်းနယ် တခုလုံး၏ သုံးပုံ တပုံဖြစ်သော မြောက်ပိုင်း ဒေသ၏ တစိတ်တဒေသ မျှသာ ဖြစ်သည်။ ပြောဆိုသော ဘာသာ စကားကိုလိုက်၍ ချင်းအစုကို အစုခွဲ နှစ်ခု ထပ်ခွဲထားသည်။ ယင်းတို့မှာ မဏိပူရ နယ်တွင် ပြောဆိုသည့် ကသည်း ခေါ်မေထေးနှင့် ချင်းရိုးရိုးတို့ ဖြစ်သည်။ ချင်းရိုးရိုးကို ရှေးကုကီ၊ မြောက်ပိုင်း ချင်း၊ အလယ်ပိုင်း ချင်းနှင့် တောင်ပိုင်းချင်းဟူ၍ ထပ်ခွဲ ထားသေးသည်။

ကသည်းခေါ် မေထေးတို့ကိုဆိုခဲ့သည့်အတိုင်း မဏိပူရနယ်၌ အများဆုံး တွေ့ရသည်။ (ကသည်းလူမျိုး — လည်းရှု။) မြန်မာ နိုင်ငံတွင်းရှိ ကသည်းတို့မှာ မြန်မာ ဘုရင်တို့ ခေါ်ဆောင်လာ၍ မြန်မာ နိုင်ငံတွင်းသို့ ရောက်လာခဲ့သော ရှေးကသည်း လူမျိုးများ၏ အဆက်အနွယ်များ ဖြစ်၏။ လူဦးရေအားဖြင့် ၆,၀၀၀ မျှ ရှိသည်။ ယင်းတို့အနက် ၄,၀၀၀ ကို မန္တလေးတိုင်းတွင် တွေ့ရလေသည်။

ရှေးကုကီ ချင်းတို့ကိုလည်း မြန်မာနိုင်ငံအပ၌ အများဆုံး တွေ့ရသည်။ မြန်မာနိုင်ငံအတွင်း၌ တွေ့ရသော ရှေးကုကီတို့တွင် ပါဝင်သူတို့မှာ ကုလားတန် မြစ်ကမ်းတွင် နေကြသော ကျော၊ သို့မဟုတ် ချောခေါ် လူမျိုးများ ဖြစ်သည်။ လူဦးရေမှာ နည်းလှ၏။ မြန်မာနိုင်ငံ အပတွင် ထိုသူတို့၏ အနွယ်များသည် လူရှိုင်းတောင်တန်း၌ အများဆုံး နေကြသည်။ မြောက်ပိုင်း ချင်းအစုခွဲတွင် ပါဝင်သူတို့ အနက် သာဒိုး ချင်းများသည် မြန်မာနိုင်ငံ တွင်း၌ ၆,၀၀၀ မျှသာ ရှိ၏။ သူတို့သည် နာဂတို့ ဒေသဖြစ်သော ဆုမ္မရာ တောင်တန်းနယ်တွင် စတင် နေထိုင်လာရာမှ ယခုအခါ တီးတိန်နယ်၏ မြောက်ဖက် အစွန်းဒေသနှင့် မဏိပူရ နယ်တို့တွင် တွေ့ရသည်။ ထိုအစုခွဲဝင် အခြားချင်းများမှာ စုတ်တေး၊

ကမ်ဟောင်နှင့် စိယင်တို့ ဖြစ်သည်။ စုတ်တေး ဦးရေမှာ ၁၇,၀၀၀၊ ကမ်ဟောင်မှာ ၂၀,၈၀၀၊ စိယင်မှာ ၃,၅၀၀ အသီး အသီးရှိသည်။ ထိုသူတို့ကို ချင်းတောင်မြောက်ပိုင်း တီးတိန် နယ်တွင် တွေ့ရသည်။

အလယ်ပိုင်း ချင်းအစုခွဲတွင် ပါဝင် သူတို့ကို ဖလမ်းနှင့် ဟားခါးနယ်တို့တွင် တွေ့ရ၏။ ဖလမ်းချင်းတို့တွင် တာရှုံး (တာရှန်း) (၃,၀၀၀)၊ ယဟောင်၊ သို့မဟုတ် ဇဟောင် (၉,၅၀၀)၊ လိုင်ဇို (၆,၅၀၀)၊ ကွန်လီ (၃,၅၀၀)၊ ငွန် (၆,၀၀၀)၊ ငင်တေ (၄၀၀)၊ ဝှန်နိုး (၃,၅၀၀)၊ ဇင်နျက် (၆,၀၀၀) တို့ပါဝင်သည်။

ဟားခါး ချင်းတို့တွင် ဟားခါးနယ် မြောက်ပိုင်း၌ နေ ထိုင်သော လိုင်၊ ကလန် ကလန်နှင့် ယိုကွ (စုစုပေါင်း ၂၄, ၁၀၀) နှင့် ဟားခါးနယ် တောင်ပိုင်းတွင် နေထိုင်သော လော ထု (၁၀,၀၀၀)၊ ဇိုတုန် (၉,၀၀၀)၊ ဆမ်တန် (၇,၀၀၀) တို့ ပါဝင်သည်။ အလယ်ပိုင်း ချင်းစုခွဲတွင် အရေးကြီးသော လူ မျိုး တမျိုးမှာ လူရှိုင်းတို့ ဖြစ်ကြ၏။ ထိုသူတို့သည် မြန်မာ နိုင်ငံအတွင်း၌ ၄၀၀ မျှပင် တွေ့ရသော်လည်း သူတို့နှင့်အနွယ် တူ လခါတို့မှာ မြန်မာ နိုင်ငံတွင် ၃,၀၀၀ မျှ ရှိသည်။ လူရှိုင်း တို့သည် မြန်မာနိုင်ငံ အတွင်းမှ အာသံပြည်နယ်ဖက် လူရှိုင်း တောင်များဆီသို့ ရွှေ့ပြောင်း သွားကြသဖြင့် ထိုဒေသတွင် ယခုအခါ၌ အများဆုံး တွေ့ရခြင်း ဖြစ်သည်။ (လူရှိုင်း လူမျိုး — လည်းရှု။)

တောင်ပိုင်း ချင်းအစုခွဲတွင် ပါဝင်သော ချင်းတို့မှာ ပခုက္ကူ တောင်တန်း ဒေသတွင် နေထိုင်သည့် ချင်းများ၊ ရခိုင် တောင်တန်းနေ ချင်းများနှင့် မင်းဘူး၊ သရက်နှင့်ပြည် ခရိုင် များတွင် နေသော ချင်းများမှ စ၍ ပါဝင်ကြသည်။

ပခုက္ကူ တောင်တန်း မြောက်ဖက်ဖျားတွင် ဝေလောင်း ချင်းများ၊ တမံဂ (၈,၀၀၀)၊ မီရမ် (၅,၀၀၀)၊ ဇိုလမ်နီ (၂,၅၀၀) နှင့် မဂန် (၃,၀၀၀) တို့ ရှိကြသည်။ တောင်ဖက် ပိုင်း တလျှောက်တွင် ကန်ပက်လက်ချင်းများ၊ ယင်ဒူးများ နှင့် ချင်းပုန်းများ ရှိကြသည်။ မြောက်ဖက် အစွန်းတွင် ကန် ပက်လက်ချင်း (၂၀,၀၀၀)၊ စလင်းချောင်း တဝိုက်တွင် ယင်ဒူး (၄၅,၀၀၀)၊ တောင်ဖက်ပိုင်း မုန်းချောင်း ဒေသ တွင် ချင်းပုန်း (၈, ၀၀၀) တို့ အသီးအသီး ရှိကြသည်။ ချင်း ပုန်းတို့သည် မင်းဘူးနယ်တွင်းသို့ရှင်း၊ ရခိုင်ရိုးမကို ဖြတ် ကျော်၍ စစ်တွေခရိုင်တွင်းသို့ရှင်း ပျံ့နှံ့ နေထိုင်ကြသည်။ ရခိုင် တောင်ခြေ တလျှောက်တွင် တောင်သားများ (၁၀,၀၀၀) ရှိသေးသည်။ မြန်မာနိုင်ငံတွင်း တောင်ဖက် အကျဆုံး ချင်းများမှာ ရှို၊ သို့မဟုတ် အရှိုခေါ် ချင်းများ (၆,၀၀၀ ခန့် ရှိသူများ) ဖြစ်ကြသည်။ ထိုပြင် အောက် မြန်မာနိုင်ငံ ဒေသတွင် ပျံ့နှံ့နေသော အမျိုးအမည် မခွဲခြား သည့် ချင်း ၂၅,၀၀၀ မျှ ရှိသေး၏။



ပိုး ကရင်အမျိုးသမီး

ရခိုင်တိုင်း အတွင်းရှိ ချင်းတို့မှာ ကုလားတန် အဖျားရှိ ခမီး (၃၀,၀၀၀)၊ ကျောက်ဖြူနှင့် စစ်တွေခရိုင်များရှိ ပို၊ မုံယင်၊ ကိုနှင့် ကယင်တို့ ဖြစ်ကြသည်။ ထိုပြင် ရခိုင် တောင် တန်း ဒေသတွင် အခြား ချင်းမျိုးများနှင့် အခြား ဘာသာ စကားကို ပြောဆိုသည့် ယဉ်ကျေးခြင်း မရှိလှသေးသော လူမျိုးအများပင် ရှိသေးသည်။

## နာဂအစုငယ်

ချင်းတောင်နယ်၏ မြောက်ဖက်ရှိ ဆုမ္မရာ နယ်၏ မြောက် ပိုင်းတွင် နေထိုင်ကြသူတို့မှာ နာဂ လူမျိုးများ ဖြစ်သည်။ ၁၉၃၁ ခုနှစ် သန်ကောင် စာရင်း အရ သူတို့၏ ဦးရေမှာ (၄,၀၀၀) မျှ ရှိသည်။ သူတို့ကို ချင်းတွင်းမြစ်ဖျား ရှမ်း ဒေသဖြစ်သော ခန္တီး နယ်တွင်လည်း တွေ့ရှိရသေးသည်။ မြန်မာနိုင်ငံတွင်းနေ နာဂတို့မှာ အမှန်အားဖြင့် နာဂလူမျိုး စု၏ သေးငယ်သော အစိတ်အပိုင်းမျှသာ ဖြစ်သည်။ နာဂ အားလုံးတို့၏လူဦးရေကို(၃,၆၀,၀၀၀)မျှခန့်မှန်းရကားကျန် နာဂတို့သည် အာသံပြည်နယ်တွင်း၌ နေထိုင်ကြ၏။ မဏိပူရ မြောက်ဖက် မြန်မာနိုင်ငံနှင့် ဗြဟ္မပုတ္တရ မြစ်လက်တက်တခု ဖြစ်သော ဒန်စီရီ မြစ်၏ စပ်ကြားဒေသသည် နာဂတို့၏ဘိုင်း ပြည်ဖြစ်၏။ နာဂ အမျိုးပေါင်း အများအပြားရှိရာ မြန်မာ နိုင်ငံတွင်းရှိ ထင်ရှားသော နာဂအမျိုးစုများမှာ နောက် ကော် နာဂ၊ ဟေမြဲ နာဂ၊ ရန်ပန် နာဂ၊ တန်ခူး နာဂ၊ ပါရာ

နာဂ၊ ခေါင်ဆိုင် နာဂ၊ စန်း နာဂ၊ ပုံညို နာဂ၊ ဆော်လော် နာဂ စသည်တို့ ဖြစ်ကြ၏။ (နာဂလူမျိုး — လည်းရှု။)

### ကရင်အစုငယ်

ကရင် ဘာသာ စကားကို "အိန္ဒိယနိုင်ငံ ဘာသန္တရစစ်တမ်းကြီး" တွင် မန်အစုဝင် ဖြစ်သည် ဟု ယူဆ ဖော်ပြထား၏။ မစ္စတာ မာရှယ်ကမူ ထိုင်း-တရုပ် အနွယ်ဝင် ဟု ဆိုသည်။ ပါမောက္ခ ဂျီ၊ အိပ်၊ လု(စ) က မူကား ကရင်ဘာသာ စကားသည် တိဗက်-မြန်မာ အစုတွင် အပါအဝင် ဖြစ်သည် ဟု ဆိုလေသည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်း အရ ဤအစုဝင် ဘာသာ စကားကို ပြောဆိုကြသူ ဦးရေမှာ ၁,၃၅၀, ၀၀၀ ကျော် ဖြစ်သည်။ ထို လူဦးရေအနက် လူများစုမှာ မြေပြန့်တွင် နေကြ၏။ ထိုသူတို့၏ ဦးရေမှာ တိုးတက်ဆပင်ဖြစ်၏။ (ကရင်လူမျိုး — လည်းရှု။)

မြေပြန့်နေ ကရင် အမျိုးသားတို့ အနက် စကော(မြန်မာကရင်)နှင့် ပိုး (မွန်ကရင်) တို့သည် အများဆုံး ဖြစ်သည်။ (ပိုးကရင်လူမျိုး — လည်းရှု။)စကောဦးရေမှာ ၅၀၀,၀၀၀ ကျော် ဖြစ်၍ ပိုးမှာ ၅၀,၀၀၀ နီးပါးရှိသည်။ သူတို့သည် ဧရာဝတီတိုင်း၊ ပဲခူးတိုင်းနှင့် တနင်္သာရီတိုင်းတို့တွင် ပျံ့နှံ့နေ



ရှေးမြန်မာ ယဉ်ကျေးမှုအရ ဆင်ယင်ထုံးဖွဲ့ထားသော မြန်မာသမီးပျို

ကြ၏။ ဧရာဝတီတိုင်းတွင် ပိုးတို့သည် စကောတို့၏ နှစ်ဆမျှ ရှိ၍၊ တနင်္သာရီတိုင်းနှင့် ပဲခူးတိုင်းတွင် စကောတို့က ပိုးတို့ ထက် များစွာ ပိုလေသည်။ လူဦးရေအားဖြင့် မများလှ သော်လည်း စကောကရင်တို့ကို မြောက်ဖက် ရမည်းသင်း ခရိုင်အထိ တွေ့ရသည်။

တောင်ပေါ် ကရင်တို့မှာ အမျိုး အားဖြင့် များလှ၏။ သူတို့ကို ရှမ်းပြည်တောင်ပိုင်း၊ အထူးသဖြင့်ကယားပြည်နယ် အပါအဝင် ရှမ်းပြည်နယ် အနောက်တောင်ထောင့်ရှိ တောင် စွယ်များတွင် အနှံ့အပြား နေထိုင်ကြသည်ကို တွေ့ရ၏။ ထို သူတို့တွင် တောင်ကြီးမြို့မှ တောင်ဖက် သထုံခရိုင်ထိ ပျံ့နှံ့ နေထိုင်ကြသော ပအိုး (တောင်သူ) များ (၂,၂၃,၀၀၀)၊ ကယားပြည်နယ်တွင် နေကြသော ကယား လူမျိုးများ (၃၁,၅၀၀)၊ တောင်ငူ အရှေ့တောင်ပိုင်း၊ ရှမ်းပြည်တောင် ပိုင်းနှင့် ကယားပြည်နယ်တွင် တွေ့ရသော ပဒေါင်များ၊ (၁၆,၅၀၀)၊ တောင်ငူ ခရိုင်တွင် တွေ့ရသော ပကု(၈,၅၀၀)၊ ဘွဲ(၆,၀၀၀)၊မွန်နေဘွား(၂,၀၀၀)၊ကဲခို(၄,၀၀၀)၊တောင်ငူ နယ်မှ မြောက်ဖက်သို့ ပျံ့နှံ့၍ နေထိုင်ကြသော ကရင်ဖြူများ (၁၅,၅၀၀)၊ ရှမ်းပြည် တောင်ပိုင်းရှိ ဇယိမ်များ (၄,၀၀၀)၊ ကယားပြည်နယ်ရှိ ဗရဲများ (၇,၀၀၀)၊ ယင်းဘော်များ (၂,၉၀၀) စသည်တို့ ပါဝင်ကြသည်။ (ကယား ပြည်နယ် အစိုးရ၏ ယူဆချက်အရ ကယားလူမျိုး အုပ်စုတွင် ကယား၊ ယင်းဘော်၊ ပဒေါင်၊ ဗရဲ၊ ကဲခိုတို့ပါဝင်၏။) (ကယားလူမျိုး။ ပဒေါင်လူမျိုး၊ ယင်းဘော်လူမျိုး၊ ဗရဲလူမျိုး — လည်းရှု။)

### ထိုင်း-တရုပ်အစုခွဲ

ဤအစုခွဲတွင် အဝင်အပါ ဖြစ်၍ မြန်မာနိုင်ငံ၌ အများဆုံး ပြောဆိုသည့် ဘာသာစကားများမှာ ထိုင်းအစုငယ်ဝင် ဘာသာ စကားများပင် ဖြစ်သည်။ မြန်မာနိုင်ငံတွင်း၌ ထိုအစုငယ်ဝင် ဘာသာစကားများကို ပြောဆိုသူ ဦးရေမှာ ၁,၀၀၀,၀၀၀ ကျော် ရှိသည်။ ထိုသူတို့အနက် ဆယ်ပုံ ကိုးပုံမှာ ရှမ်းလူမျိုးများ ဖြစ်ကြ၏။ သုံးပုံတပုံမျှသော ထိုင်းအစု ငယ်ဝင်တို့သည် ရှမ်းပြည်နယ်၏ အပတွင် နေကြသည်။ (ရှမ်းလူမျိုး — လည်းရှု။)

ရှမ်းတို့ အပြင် ဤအစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူတို့မှာ ကျိုင်းတုံနယ်၌ ခုန် (၃၀,၀၀၀) နှင့် လူး (၃၀,၀၀၀)၊ တနင်္သာရီ နယ်၌ ယိုးဒယားများ (၉,၀၀၀)၊ ရှမ်းပြည်တောင်ပိုင်း၌ လာ်(လော) များ (၇,၀၀၀)၊ တိုင်း လင်း (၂,၅၀၀) နှင့် ရှမ်းပြည်မြေလတ်၌ သုံးလေးရာမျှရှိ သော ဒယယ်များ၊ မြောက်ဖက် ချင်းတွင်း မြစ်ဖျား၌ ခန္တီး ရှမ်းများနှင့်၊ မြစ်ကြီးနားနှင့် ဗန်းမော်နယ်များ၌ ရှမ်း တရုပ်နှင့် ရှမ်းဗမာများ ဖြစ်ကြသည်။ (ခန္တီး ရှမ်း၊ ဒယယ် လူမျိုး — လည်းရှု။)

ထိုအစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူများကို မြန်မာနိုင်ငံ အပ၌လည်း တွေ့ရ၏။ ထိုသူတို့သည် အင်ဒိုချိုင်းနားကျွန်းဆွယ်နေ လူမျိုးတို့တွင် အများဆုံး ဖြစ်၍ အနောက်ဖက် အာသံနယ်မှ အရှေ့ဖက် ဟိုင်နံကျွန်းအထိ ဖြစ်သော မျဉ်းကြောင်း၏ တောင်ဖက် မလ္လာယုကျွန်းဆွယ်ရှိ ပတာနီမြို့အတွင်း ဖြစ်သော မြန်မာနိုင်ငံမှအပ ဒေသတို့တွင် ပျံ့နှံ့နေထိုင်ကြသည်။ ယိုးဒယားနိုင်ငံရှိ ထိုင်းများနှင့် အာသံနယ်ရှိ အဟုမ်တို့သည် ဤအစုငယ်ဝင် ဘာသာစကားကို ပြောဆိုသူများ ဖြစ်ကြသည်။ (ရှမ်းလူမျိုး — လည်းရှု။)

**ဦးဘရှင်**

**မြန်မာနိုင်ငံနှင့် ဒုတိယ ကမ္ဘာစစ်။** ။၁၉၃၉ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် ဂျာမန်တို့သည် ပိုလန်နိုင်ငံကို ရုတ်တရက် ဝင်ရောက် တိုက်ခိုက်ကြလေသည်။ ထိုအခါ ဗြိတိန်နိုင်ငံနှင့် ပြင်သစ် နိုင်ငံတို့သည် ပိုလန်နိုင်ငံကို ကူညီရန် တာဝန် ရှိသည့်အလျောက် စက်တင်ဘာလ ၃ ရက်နေ့တွင် ဂျာမနီနိုင်ငံအား စစ်ကြေညာခဲ့လေသည်။ ထိုသို့အားဖြင့် ဥရောပတိုက်၌ စစ်မီးများ စတောက်နေချိန်တွင် မြန်မာပြည်၌ အမျိုးသား စည်းလုံးရေး စိတ်ဓာတ်၊ နယ်ချဲ့တို့ကို တော်လှန်ရေး စိတ်ဓာတ်တို့ တက်ကြွ ပြင်းထန်လျက် ရှိလေသည်။ သခင်အောင်ဆန်း အမှူးပြုသော မျိုးချစ်လူငယ် ခေါင်းဆောင်တို့က ဗြိတိသျှတို့ကို မြန်မာနိုင်ငံမှ နှင်ထုတ်ရန် ကြံစည် အားထုတ်ကြလေသည်။ (အောင်ဆန်း၊ ဗိုလ်ချုပ် — ရှု။)

၁၉၄၀ ပြည့်နှစ် ဩဂုတ်လ ၈ ရက်နေ့တွင် သခင်အောင်ဆန်းသည် မြန်မာပြည်မှ ရုတ်ခြည်း ပျောက်သွားလေသည်။ ၁၉၄၁ ခုနှစ် ဧပြီလလောက်တွင် မြန်မာပြည်သို့ ရုပ်ဖျောက်၍ ပြန်ရောက်လာပြီးလျှင် ပြည်တွင်းပြည်ပ တော်လှန်ရေးအတွက် မြန်မာလူငယ် ခေါင်းဆောင်တို့နှင့် တိုင်ပင်လေသည်။ ထိုနောက် သခင်အောင်ဆန်းသည် မြန်မာပြည်မှ တဖန် ထွက်ခွာသွားလေသည်။ ထိုအခါ ပြည်တွင်း၌ ကျန်ခဲ့သော မျိုးချစ်ခေါင်းဆောင်တို့က သခင်အောင်ဆန်းအပါအဝင် လူငယ်ပေါင်း ၃၀ မျှကို စစ်သင်တန်းတက်ရန် ရွေးချယ်၍ တသုတ်ပြီးတသုတ် ဂျပန်နိုင်ငံသို့ လျှို့ဝှက်စွာ ပို့ခဲ့ကြလေသည်။ ယင်းတို့သည်ကား နောင်အခါ ယိုးဒယားနိုင်ငံတွင် ဗမာ့လွတ်လပ်ရေး တပ်မတော်ကြီးကို ခေါင်းဆောင် ဖွဲ့စည်းခဲ့၍ ရဲဘော်သုံးကျိပ်ဟု အမည်တွင်သူများ ဖြစ်လေသည်။ (ရဲဘော်သုံးကျိပ် — လည်း ရှု။)

ထိုအချိန်က မြန်မာပြည် ဘုရင်ခံသည် ဆာ ဒေါ်မန် **စမစ်** ဖြစ်၍ နန်းရင်းဝန်မှာ ဦးစော ဖြစ်လေသည်။ ဦးစောသည် ၁၉၄၁ ခုနှစ် အောက်တိုဘာလဆန်းတွင် ဗြိတိသျှ နန်းရင်းဝန် မစ္စတာ ချာချီနှင့် အတ္တလန္တိတ် ကြေညာချက်ကို အခြေခံပြုလျက် မြန်မာပြည် လွတ်လပ်ရေးကိစ္စကို အရေးဆိုရန် ဗြိတိန်နိုင်ငံသို့ သွားရောက်ခဲ့လေသည်။ သို့ရာတွင် ဗြိတိသျှ အစိုးရထံမှ ကျေနပ်ဖွယ်ရာ အဖြေကို မရသဖြင့် မြန်မာပြည်သို့ ပြန်ခဲ့သည်တွင် ဂျပန်နှင့် အဆက်အသွယ် ရှိသည် ဟုဆို၍ ဗြိတိသျှတို့က ဦးစောအား လမ်းခုလတ်၌ ဖမ်းဆီးလိုက်လေသည်။ ထိုနောက် ဦးစောကို အာဖရိကတိုက် ယူဂန်းဒါးနယ်တွင် ချုပ်ထားလေသည်။

ထိုသို့ ဦးစောသည် ဗြိတိသျှအစိုးရနှင့် အရေးဆို၍ ပြန်လာနေခိုက် ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဂျပန်တို့သည် စစ်မကြေညာဘဲ အမေရိကန်ပြည်ထောင်စုပိုင် ဟာဝိုင်းယန်းကျွန်းရှိ ပါးလဟာဗာ ခေါ် ပုလဲဆိပ်ကမ်းကို ရုတ်တရက် ဗုံးကြဲ တိုက်ခိုက်ခဲ့ကြလေသည်။ယင်းသို့ စတင်တိုက်ခိုက်ပြီးနောက် နာရီပေါင်းများစွာ ကြာမှ ဂျပန်အစိုးရက အမေရိကန်ပြည်ထောင်စုနှင့် ဗြိတိန်နိုင်ငံတို့ကို စစ်ကြေညာလေသည်။ ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဗြိတိန်နိုင်ငံနှင့် အမေရိကန် ပြည်ထောင်စုတို့က ဂျပန်ကို တုံ့ပြန် စစ်ကြေညာသည်။ ဂျပန် အပါအဝင် ဝင်ရိုးတန်းနိုင်ငံများ ဖြစ်သော ဂျာမနီနှင့် ဣတလီနိုင်ငံတို့ကလည်း အမေရိကန်ပြည်ထောင်စုကို စစ်ကြေညာကြ၍ အမေရိကန်ပြည်ထောင်စုကလည်း ပြန်လည်တုံ့ပြန်လေသည်။ ထိုသို့ မဟာမိတ်နိုင်ငံများနှင့် ဝင်ရိုးတန်းနိုင်ငံများ အပြန်အလှန် စစ်ကြေညာကြခြင်းအားဖြင့် စစ်မီးသည် တကမ္ဘာလုံးသို့ ပျံ့နှံ့သွားလေတော့သည်။ (ကမ္ဘာစစ်၊ ဒုတိယ — လည်းရှု။)

အနောက်ဖက် ဥရောပတွင် အစပြုခဲ့သော ဒုတိယကမ္ဘာစစ်သည် ဂျပန်၏ ကျူးကျော်တိုက်ခိုက်မှုကြောင့် အရှေ့တိုင်းနိုင်ငံများသို့ ကူးစက်လာခဲ့သည်။ ပစိဖိတ်သမုဒ္ဒရာသည် ဂျပန်နှင့် အင်္ဂလိပ်၊ အမေရိကန်တို့ စစ်ခင်းရာဒေသ ဖြစ်လာလေသည်။ ဂျပန်တို့သည် အင်္ဂလိပ်၊ အမေရိကန်ပိုင် နယ်မြေများကို တခုပြီး တခု ချီတက်သိမ်းပိုက်ခဲ့ရာ ဂူအမ်ကျွန်း၊ ဝိတ်ကျွန်း၊ ဟောင်ကောင်ကျွန်း၊ ဖိလစ်ပိုင် ကျွန်းများ၊ လူဇုန်၊ ဗာတန်း၊ ကော်ရက်ဂီဒေါ်၊ စဲလဗီး အစရှိသော ကျွန်းတို့သည်၎င်း၊ စင်္ကာပူ ခံတပ်မြို့ကြီးသည်၎င်း၊ မလ္လာယု ပြည်မကြီးသည်၎င်း မရှုမလှ ကျဆုံးခဲ့ရလေသည်။ ထိုအချိန်မှာပင် ဂျပန်တို့သည် ယိုးဒယားနိုင်ငံကို အခြေပြု၍ မြန်မာပြည်တွင်းသို့ စစ်ကြောင်း သုံးကြောင်း ဖြန့်လျက် ဝင်လာကြလေသည်။ သခင်အောင်ဆန်း အမှူး ပြု၍၊ ဂျပန်နိုင်ငံတွင် စစ်သင်တန်းတက်ခဲ့သော မြန်မာလူငယ်တစုသည် ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ယိုးဒယားနိုင်ငံ၌ ဗမာ့လွတ်လပ်ရေး တပ်မတော် (ဘီအိုင်အေ) ကိုဖွဲ့စည်းခဲ့ကြလေသည်။ ဗမာ့လွတ်လပ်ရေး တပ်မတော်သည် ဂျပန်တို့ မြန်မာပြည်ကို တိုက်ခိုက်သိမ်းပိုက်ရာတွင် ပါဝင် ကူညီခဲ့လေသည်။

ဂျပန်စစ်တပ်တို့သည် မြန်မာပြည် တောင်ဖက်အစွန်ဆုံးရှိ ကော့သောင်းမြို့ကို ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် သိမ်းပိုက်မိလေသည်။ ၁၉၄၂ ခုနှစ် ဇန္နဝါရီလ ၁၉ ရက်နေ့တွင် ထားဝယ်မြို့ကို ၎င်း၊ ၁၉၄၂ ခုနှစ် ဇန္နဝါရီလ ၃၁ ရက်နေ့တွင် မော်လမြိုင်မြို့ကိုရင်း တိုက်ခိုက် သိမ်းပိုက်ခဲ့လေသည်။ ထိုအချိန်တွင် မြန်မာပြည် စစ်မျက်နှာရှိ ဗြိတိသျှတပ်များကို အိန္ဒိယပြည် စစ်သေနာပတိချုပ် ဗိုလ်ချုပ်မှူး ဝေဗယ်က ကွပ်ကဲ အုပ်ချုပ်လျက် ရှိလေသည်။



မြန်မာနိုင်ငံသို့ ဒုတိယ ကမ္ဘာစစ်မီး ကူးစေရန် ဖန်တီးပေးခဲ့သည့် စစ်ရေးတွင် အရေးပါလှသော တရုပ်မြန်မာ လမ်းမကြီး



ပဌမဆုံးအကြိမ် ရန်ကုန်ဆိပ်ကမ်း ဗုံးဒဏ်ခံရစဉ်

(ဝေဗယ်၊ ဗိုလ်ချုပ် — လည်းရှူ။) တရုပ် စစ်မျက်နှာ၏ မဟာမိတ် စစ်သေနာပတိချုပ် ချန်ကေရှိတ်ထံမှ စစ်ကူကိုလည်း တောင်းခဲ့လေသည်။ မော်လမြိုင်မြို့ ကျဆုံးပြီးနောက် ဗြိတိသျှတပ်များသည် သံလွင်မြစ် အနောက်ဖက်ကမ်းသို့ ဆုတ်ခွာလျက် ဂျပန်တို့ကို ခုခံရန် စစ်ပြင်ကြသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့ နံနက် ၁၀ နာရီ မိနစ် ၄၀ အချိန်တွင် ဂျပန်လေတပ်က ရန်ကုန်မြို့ကို ပဌမဆုံးအကြိမ် ဗုံးကြဲတိုက်ခိုက်လေသည်။ မြို့နေလူထုအတွက် လေကြောင်း အန္တရာယ်မှ အကာအကွယ် လုံလောက်စွာ မရှိသည်က တကြောင်း၊ ရန်သူလေယာဉ်ပျံများကို ဆီးကြိုတိုက်ခိုက်နိုင်လောက်အောင် လေတပ်အင်အား မရှိသည်က တကြောင်းတို့ကြောင့် အထိအခိုက်အသေအပျောက် များသည်။ မင်္ဂလာဒုံ လေယာဉ်ပျံကွင်း၌ ရှိသမျှသော အာ၊ အေ၊ အက်(ဖ)လေယာဉ်ပျံများနှင့် အေ၊ ဗီ၊ ဂျီ အမေရိကန် အပျော်ထမ်း လေတပ်မဟာမှ လေယာဉ်ပျံများကမူ ရန်သူလေယာဉ်ပျံအချို့ကို တိုက်ခိုက် ဖျက်ဆီးနိုင်ခဲ့ကြလေသည်။ ဒီဇင်ဘာလ ၂၅ ရက် ခရစ္စမတ်ပွဲတော်နေ့တွင် ရန်ကုန်မြို့ကို ဒုတိယအကြိမ် ဗုံးကြဲတိုက်ခိုက်ပြန်သည်။ ရန်ကုန်မြို့နေ လူထုသည် စိတ်ဓာတ်ပျက်ပြားကုန်သဖြင့် မိမိတို့ အိုးအိမ်များကိုစွန့်ပစ်၍ လွတ်ရာသို့ ရှောင်တိမ်းကြလေသည်။ အိန္ဒိယအမျိုးသား ထောင်သောင်းများစွာတို့သည်လည်း တောင်ကုတ် တောင်ကြားလမ်းမှ တဆင့် အိန္ဒိယပြည်သို့ ပြန်ရန်ပြည်မြို့ ဖက်သို့ တစီတတန်းကြီး ခြေလျင် ထွက်ခွာခဲ့ကြလေသည်။

သံလွင်မြစ် အနောက်ဖက်ကမ်းရှိ ဗြိတိသျှစစ်တပ်များသည် ဂျပန်စစ်တပ်၏ အင်အားကြီးမားခြင်းကြောင့် ၁၉၄၂ ခုနှစ် ဖေဖွာရီလဆန်းတွင် စစ်တောင်းမြစ်ဖက်သို့ တဖန်ဆုတ်ခွာပေးရလေသည်။ သို့ရာတွင် ဂျပန်စစ်တပ်သည် စစ်တောင်းတန်တားကို အလျင်အုပ်စီးမိရန် တောလမ်းမှ ပန်းတက်လာသဖြင့် ဗြိတိသျှတပ်တို့သည် တန်တားကို ချိုးဖျက်၍ တဖက်ကမ်းသို့ ကမန်းကတန်း ဆုတ်ခွာခဲ့ရလေသည်။ ဂျပန်တို့သည် စစ်တောင်းမြစ်ကို ဖြတ်ကျော်၍ ပဲခူးမြို့ဖက်သို့ ချီတက်လာကြလေသည်။ ယင်းတို့၏ အကြံမှာ ရန်ကုန် မန္တလေးလမ်းကို ဖြတ်ရုံမက ရန်ကုန် ပြည်လမ်းကိုလည်း အဆက်ပြတ်အောင် ပြုလုပ်ရန် ဖြစ်လေသည်။ ထိုသို့ လမ်းမကြီးနှစ်သွယ်ကို ဖြတ်လိုက်ခြင်းအားဖြင့် ရန်ကုန်နယ်တဝိုက်မှာ ဝိုင်းမိလျက်ရှိမည့်အပြင် ပဲခူးမြို့မြောက်ဖက်နှင့် မြို့တောင်ဖက်ရှိ ဗြိတိသျှ တပ်များသည်လည်း ခါးပြတ်ဖွယ် ရှိလေသည်။ ဘုရင်ခံမှ အစ အုပ်ချုပ်ရေးပိုင်းမှ အရာရှိ အရာခံတို့သည် ရန်ကုန်မြို့မှ ထွက်ခွာရန် အချိန်ရောက်လာလေပြီ။

ထိုကြောင့် ဖေဖွာရီလ ၂၈ ရက်နေ့တွင် ဘုရင်ခံက ရန်ကုန်မြို့မှ ထွက်ခွာကြရန် အမိန့်ပေး နှိုးဆော်ပြီးနောက်၊ မတ်လ ၁ ရက်နေ့တွင် အစိုးရအဖွဲ့သည် မေမြို့သို့ ပြောင်း



**အိန္ဒိယအမျိုးသားတို့သည် တောင်ကုတ်လမ်းမှတဆင့် အိန္ဒိယပြည်သို့ပြန်ရန် ပြည်မြို့ဖက်သို့ တစီတတန်းကြီး ထွက်ခွာခဲ့ကြသည်။**

ရွှေ့ခဲ့လေသည်။ မတ်လ ၆ ရက်နေ့တွင် ဂျပန်စစ်တပ်နှင့် အတူ ဗမာ့လွတ်လပ်ရေး တပ်မတော်မှ ရဲဘော်အချို့တို့သည် သံလျင်မြို့အနီးသို့ ရောက်ရှိလာကြလေသည်။ မတ်လ ၇ ရက်နေ့တွင် ရန်ကုန်မြို့စောင့်တပ်သည်လည်း ပြည်မြို့ဖက်သို့ ဆုတ်ခဲ့ကြလေသည်။ ထိုအချိန်တွင် စစ်သူကြီး ချန်ကေရှိတ်၏ သဘောတူညီချက်အရ စစ်ကူရောက်လာကြသော တရုပ်တပ်များသည် တောင်ငူမြို့၌ တပ်စွဲလျက် ရှိကြသည်။ အမေရိကန် သမတက မြန်မာပြည်ရှိ တရုပ်တပ်များကိုကွပ်ကဲရန် ဗိုလ်ချုပ်ကြီး စတီးဝဲကို စေလွှတ်ထားခဲ့သည်။

မြန်မာပြည် ဘုရင်ခံနှင့် အစိုးရအဖွဲ့ဝင် ဝန်ကြီးအချို့တို့သည် မေမြို့တွင် ရုံးစိုက်လျက်ရှိရာ ဦးစောနေရာတွင် ဆာပေါ်ထွန်းကို နန်းရင်းဝန်အဖြစ် ခန့်အပ်ထားသည်။ (ပေါ်ထွန်း၊ ဆာ — လည်းရှု။) သို့သော် ဘုရင်ခံနှင့် အစိုးရအဖွဲ့တို့သည် မည်ကာမတ္တ ဖြစ်လေသည်။ တိုင်းပြည်တခုလုံးလည်း ချောက်ချားလျက်ရှိ၍ တနယ်နှင့် တနယ်မှာလည်း အဆက်အသွယ် ပြတ်လျက်ရှိသည်။ ထိုအချိန်တွင် အစိုးရအတွက် အခက်အခဲဆုံး ပြဿနာမှာ ရန်ကုန်မြို့ကို စွန့်ခွာခဲ့သော အိန္ဒိယအမျိုးသား စစ်ပြေးဒုက္ခသည်များသည် ပြည်မြို့မှ တဆင့် တောင်ကုတ်တောင်ကြားလမ်းကို ဖြတ်၍ ရခိုင်ပြည်ဖက်သို့ ကူးကြပြီးနောက် ထိုမှတဆင့် အိန္ဒိယပြည်သို့ သွားကြမည့်အရေးပင် ဖြစ်၏။ သို့သော် ထောင်ပေါင်းများစွာသော စစ်ပြေးဒုက္ခသည်တို့မှာ ရေငတ်၍ သေဘ်ငင်း၊ ခရီးပန်း၍ သေဘ်ငင်း၊ ကပ်ရောဂါ ကျရောက်၍ သေဘ်ငင်း လမ်းခရီး၌ပင် သေဆုံးကြရလေသည်။

၁၉၄၂ ခုနှစ် မတ်လတွင် ရန်ကုန်မြို့ ကျဆုံးပြီးနောက် တောင်ကုတ်လမ်းတွင် စစ်ပြေးဒုက္ခသည်များဖြင့် ပိတ်ဆို့နေသဖြင့် ဗြိတိသျှ စစ်တပ်များသည် ထိုလမ်းမှ ဆုတ်ခွာရန် မဖြစ်နိုင်တော့ချေ။ မြန်မာပြည် မြောက်ဖျားရှိ တမူးလမ်းသာလျှင် ပွင့်လျက်ရှိလေသည်။ ထို့ကြောင့် မြန်မာပြည် အရပ်ရပ်မှ အိန္ဒိယ အမျိုးသား ဒုက္ခသည်များလည်း ထိုတမူးလမ်းမှတဆင့် အိန္ဒိယပြည်သို့ ပြန်ရန်အတွက် မန္တလေးမြို့အနီး အမရပူရမြို့တွင် စုရုံးနေခဲ့ကြလေသည်။ ဗြိတိသျှစစ်တပ်များကလည်း ထိုလမ်းတသွယ်ကိုပင် အားကိုး အားထား ပြုနေရသဖြင့် တနေ့လျှင် စစ်ပြေး ဒုက္ခသည် ၅၀၀ မျှကိုသာ သွားခွင့်ပြုခဲ့လေသည်။

ဂျပန်တပ်များသည် အနောက် စစ်ကြောင်းတွင် ပြည်မြို့ဖက်သို့၎င်း၊ အရှေ့စစ်ကြောင်းတွင် တောင်ငူမြို့ဖက်သို့၎င်း ချီတက်လျက် ရှိကြလေသည်။ မတ်လ ၂၁ ရက်နေ့တွင် မကွေး၌ ရှိသော ဗြိတိသျှ လေတပ်စုကိုလည်း ဂျပန်လေတပ်က အပြီးအပိုင် ချေမှုန်းပစ်ခဲ့လေသည်။ ထိုသို့အားဖြင့် မြန်မာပြည် မြို့များသည်၎င်း၊ ဂျပန်ကို ခုခံလျက်ရှိသော ဗြိတိသျှတို့ဖက်မှ တပ်များသည်၎င်း လေကြောင်း အကာအကွယ် ဟူ၍ လုံးဝ မရရှိကြတော့ချေ။ ထိုနောက် ပြည်မြို့ဖက်ရှိ ဗြိတိသျှတပ်များနှင့် တောင်ငူမြို့ဖက်ရှိ တရုပ်တပ်

များသည် မြောက်ဖက်သို့ ဆုတ်ခွာရလေသည်။ မြန်မာပြည် အလယ်ပိုင်းရှိ ရေနံတွင်းများကို ရန်သူလက်သို့ မကျအောင် ဆက်လက်ကာကွယ်ရပေဦးမည်။

ဧပြီလ ၃ ရက်နေ့တွင် ဂျပန်လေတပ်က မန္တလေးမြို့ကို ဗုံးကြဲတိုက်ခိုက်ရာ မြို့ပျက်လေသည်။ ရေနံတွင်းများကို ကာကွယ်ရန်အတွက် အောင်လံမြို့အထက်ရှိ မိကျောင်းရဲ၌ ချထားသော စစ်ကြောင်းသည်၎င်း၊ တောင်တွင်းကြီး စစ်ကြောင်းသည်၎င်း ကျိုးပေါက်သဖြင့် ဧပြီလ ၁၅ ရက်နေ့တွင် ရေနံတွင်းများကို ဖျက်ဆီး၍ မန္တလေးဖက်သို့ ဆုတ်ခွာရပြန်သည်။ ထိုအချိန်တွင် တောင်ငူမှ တရုပ်တပ်များကို တိုက်ထုတ်ချီတက်လာသော ဂျပန်တပ်များသည် ရှမ်းပြည်ဖက်မှ စစ်ကြောင်းဖြန့်၍ မေမြို့ကို သိမ်းရန် မြောက်ဖက်သို့ ချီတက်လာကြလေသည်။ ထိုကြောင့် ဘုရင်ခံနှင့် အစိုးရ လက်ဇန္နားသည် ဧပြီလ ၃၀ ရက်နေ့တွင် တမူးဖက်မှ အိန္ဒိယပြည်သို့ ဆုတ်ခွာရန် မိမိတပ်များကို အမိန့်ပေးလေသည်။ ထိုနေ့ညဉ့်၌ပင် အင်းဝတန်တားကြီးကို ချိုးဖောက် ဖျက်ဆီးကြလေသည်။ မြစ်ကြီးနားမြို့တွင် ရောက်ရှိနေသော ဘုရင်ခံ ဆာ ဒေါ်မန်စမစ်လည်း မေလ ၄ ရက်နေ့တွင် အိန္ဒိယပြည်သို့ လေကြောင်းခရီးဖြင့် ထွက်ခွာခဲ့လေသည်။ မေလ ၈ ရက်နေ့တွင် မြစ်ကြီးနားမြို့ကို ဂျပန်တပ်များက သိမ်းပိုက်မိကြလေသည်။

ဗြိတိသျှတပ်များသည် ရွှေဘိုမြို့မှ ချင်းတွင်းမြစ် အနောက်ဖက်ကမ်းပေါ်ရှိ ကလေးဝမြို့သို့ ဆုတ်ခွာလာသည်။ မေလ ၁ ရက်နေ့တွင် ဂျပန်တို့သည် မုံရွာမြို့၌ တပ်စွဲလျက်ရှိပြီဖြစ်သည်။ ဂျပန်တပ်များသည် ဗြိတိသျှတပ်တို့၏ ထွက်ပေါက်ကို ဆီးကြိုပိတ်ဆို့နိုင်ရန် ကလေးဝမြို့နှင့် မြစ်တဖက်



စစ်ဘေးစစ်ဒဏ်ကြောင့် ပျဉ်းမနားမြို့တွင် မီးတဟုန်းဟုန်း တောက်လောင်နေစဉ်

အဖွဲ့ ရုံးစိုက်ရာလည်းဖြစ်၍၊ စစ်ဖက် ဌာနချုပ်လည်း ဖြစ်သော မေမြို့မှ ရွှေ့ပြောင်းရမည့်အချိန် ဆိုက်ရောက်လာလေသည်။ ဗြိတိသျှ ဗိုလ်ချုပ်မှူး အယ်လက်ဇန္နားသည် ဧပြီလ ၂၆ ရက်နေ့တွင် စစ်ဌာနချုပ်ကို ရွှေဘိုမြို့သို့ ပြောင်းရွှေ့ခဲ့လေသည်။ (အယ်လက်ဇန္နား၊ လေ့ — လည်းရှု။) အစိုးရအဖွဲ့ကမူ မြစ်ကြီးနားမြို့သို့ပြောင်းရွှေ့ရုံးစိုက်လေသည်။

ဂျပန်တပ်များက လားရှိုးမြို့ကို သိမ်းပိုက်မိသောအခါ ဗြိတိသျှတပ်များအဖို့ စစ်ရေးမလှသဖြင့် ဗိုလ်ချုပ်မှူး အယ် ကမ်းပေါ်ရှိ ရွှေကျင်ရွာသို့ အပြင်း ချီတက်လာကြလေသည်။ ရွှေကျင်ရွာတွင် နှစ်ဦးနှစ်ဖက် ဆုံမိ၍ တိုက်ပွဲဖြစ်ပွားသေးသည်။ သို့ရာတွင် မေလ ၁၄ ရက်နေ့၌ ဗြိတိသျှတပ်အားလုံး ချင်းတွင်းမြစ်ကို ဖြတ်ကျော်မိကြလေသည်။

မြန်မာပြည်ရှိ တရုပ်တပ်များကို အုပ်ချုပ်လျက်ရှိသော အမေရိကန် ဗိုလ်ချုပ်စတီးဝဲသည် ရွှေဘိုမြို့မှ ချင်းတွင်းမြစ်ကမ်းပေါ်ရှိ ဟုမ္မလင်းမြို့သို့၎င်း၊ ထိုမှတဆင့် ခြေလျင်ခရီးဖြင့် တမူးတောင်ကြားကို ဖြတ်၍ စစ်ဌာနချုပ်တည်ရာ

အင်ဖားမြို့သို့ရင်း မေလ ၂၀ ရက်နေ့တွင် ရောက်ရှိသွားလေသည်။ မြန်မာပြည်မှ အိန္ဒိယပြည်ဖက်သို့ မဟာမိတ်တပ်များ ဆုတ်ခွာခဲ့ရာ၌ တောကြီးတောင်ကြီးများကို လမ်းထွင်၍ သွားရသည်။ တခါတရံ သစ်တောများ အလွန် ထူထပ်သဖြင့် လမ်းထွင်၍ သွားရန် ခက်သောကြောင့် မြစ်ချောင်းများကိုဖြတ်ကာ ခြေလျင်လျှောက်ကြရသည်။ ဖောင်ဖွဲ့၍လည်း ကူးရသည်။ ဤသို့လျှင် မဟာမိတ်တပ်များသည် ရက်ပေါင်း ၂၀ ခန့် ပင်ပန်းခဲယဉ်းစွာ အိန္ဒိယပြည်သို့ ဆုတ်ခွာခဲ့ကြရလေသည်။

ဂျပန်တပ်များသည် စစ်ကြောင်း ရှည်လာသည်က တကြောင်း၊ မိုးရာသီ ကျရောက်လာသည်က တကြောင်းတို့ကြောင့် အိန္ဒိယပြည်တွင်းသို့ စစ်ချီတက်တိုက်ခိုက်ရန် အားမထုတ်နိုင်ဘဲ၊ နယ်စပ်၌ပင် စစ် တန့်နေလိုက်သည်။ ဂျပန်တို့က မြန်မာပြည်ကို အောင်မြင်ပြီးလျှင် လွတ်လပ်ရေး ပေးမည်ဟု ကတိပြုခဲ့ကြသည်။ သို့ရာတွင် ဂျပန်တို့သည် မြန်မာပြည်ကို ဖက်ဆစ်ဆံဆံ အုပ်ချုပ်ကြသောကြောင့် သခင်ခေါင်းဆောင် အချို့သည် မကျေမနပ်ဖြစ်၍၊ ဖက်ဆစ်တော်လှန်ရေး လုပ်ငန်းကို စတင် စီစဉ်ခဲ့ကြလေသည်။ ဂျပန်တို့သည် ဗမာ့လွတ်လပ်ရေး တပ်မတော်ကိုလည်း ဖျက်သိမ်းစေခဲ့ပြီးလျှင် ဗမာ့ကာကွယ်ရေး တပ်မတော် (ဘီဒီအေ) ဟူ၍ ပြန်လည် ဖွဲ့စည်းစေသည်။ ထိုပြင် ဆင်းရဲသား ဝံသာနုအဖွဲ့ ခေါင်းဆောင် ဒေါက်တာဘမော်ကို ယာယီ အစိုးရအဖွဲ့ ဖွဲ့စည်းရန် တာဝန်ပေးအပ်လေသည်။ ဒေါက်တာ ဘမော်လည်း အာဏာရှင် အမည်ကို ခံ၍ သခင်တို့၏ တို့ဗမာ အစည်းအရုံးနှင့် ဆင်းရဲသား ဝံသာနုအဖွဲ့တို့ကို ပူးပေါင်းလျက် တို့ဗမာ ဆင်းရဲသား အစည်းအရုံး အမည်သစ်ဖြင့် နိုင်ငံရေး အဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ သခင်ခေါင်းဆောင် အချို့တို့ ပါဝင်သော ယာယီ အစိုးရ အဖွဲ့ကိုလည်း ဖွဲ့စည်းခဲ့လေသည်။

ယာယီအစိုးရအဖွဲ့က လွတ်လပ်သော မြန်မာနိုင်ငံအတွက် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ရေးဆွဲပြီးနောက် ၁၉၄၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ဂျပန်အစိုးရက မြန်မာပြည်ကို အချုပ်အခြာ အာဏာပိုင် လွတ်လပ်သော နိုင်ငံ အဖြစ် အသိအမှတ်ပြုခဲ့လေသည်။ အစိုးရ အဖွဲ့သစ်၏ ခေါင်းဆောင် ဒေါက်တာဘမော်ကိုလည်း နိုင်ငံတော် အဓိပတိဟုခေါ်တွင်လာလေသည်။ မြန်မာအစိုးရသည် ဖက်ဆစ်ဂျပန်တို့၏ တသွေး၊ တသံ၊ တမိန့်ဝါဒကို ကျင့်သုံး၍ အုပ်ချုပ်ကြလေသည်။

သို့ရာတွင် လွတ်လပ်ရေး စာချုပ်နှင့် တချိန်တည်း ချုပ်ဆိုလိုက်ရသော လျှို့ဝှက် စစ်စာချုပ်အရ မြန်မာနိုင်ငံအစိုးရက ဂျပန်အစိုးရအား မဟာအရှေ့အာရှစစ်ကြီးကို တိုက်ခိုက်ရာ၌ လိုအပ်သမျှသော မြန်မာနိုင်ငံထွက် ပစ္စည်းများကို



ဗမာ့ကာကွယ်ရေး တပ်မတော်သား တဦး

အခါမလင့် သုံးခွင့်ပေးရမည်။ ကင်ပေတိုင်ခေါ် ဂျပန် စစ်ပုလိပ်၏ ပြုမူဆောင်ရွက်ချက်များတွင် မြန်မာအစိုးရက ဝင်ရောက် စွက်ဖက်ခွင့် မရှိရ ဟူသော အချက်လည်း ပါရှိသည်ဟု ဆိုလေသည်။ သို့ဖြစ်၍ မြန်မာနိုင်ငံသည် လွတ်လပ်ရေး ရပြီဟု ဆိုရငြားသော်လည်း မျိုးချစ် မြန်မာလူငယ်တို့ကို ဂျပန် စစ်ပုလိပ်တို့က ဖမ်းဆီးချုပ်နှောင်၍ ညှဉ်းဆဲမှုမျိုးစုံဖြင့် မသေမရှင်နှိပ်စက်သည်ကိုပင် မြန်မာအစိုးရကဝင်ရောက်စွက်ဖက်ခွင့် မရှိခဲ့ချေ။ ထိုအခါ မြန်မာလူထုသည် ဗိုလ်ချုပ်အောင်ဆန်း ဦးစီးသော ဗမာ့ကာကွယ်ရေး တပ်မတော်ကို အထူးပင် အားကိုးလာလေသည်။

အိန္ဒိယ ပြည်သို့ ရောက်ရှိနေသော မြန်မာပြည် ဘုရင်ခံနှင့် အတိုင်ပင်ခံများ ဖြစ်ကြသော ဆာ ပေါ်ထွန်းနှင့် ဆာထွန်းအောင်ကျော်တို့သည် ဆင်းမလားမြို့တွင် ရုံးစိုက်၍ စစ်ပြီးခေတ် မြန်မာပြည် ပြန်လည် ထူထောင်ရေး လုပ်ငန်းအတွက် စီမံကိန်းများကို ရေးဆွဲခဲ့ကြသည်။ ၁၉၄၃ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့မှ အစပြု၍ ရေတပ်ဗိုလ်ချုပ်မှူးလော့ မောင့်ဗက်တင်သည်လည်း အာရှအရှေ့တောင်ပိုင်းရှိ မဟာမိတ် တပ်ပေါင်းစု၏ စစ်သေနာပတိချုပ် ဖြစ်လာလေသည်။ (မောင့်ဗက်တင်, လူဒိ — လည်းရှု။)

၁၉၄၃ ခုနှစ် ဖေဖွာရီလလောက်မှ စ၍ ဗိုလ်ချုပ် ဝင်းဂိတ် ခေါင်းဆောင်သော အသေခံ မြန်မာတိုင်းရင်းသားတပ်တို့သည် မြန်မာနိုင်ငံ အထက်ပိုင်းတွင် ဂလိုက်ဒါနှင့်

သက်ဆင်းခဲ့ကြသည်။ ၁၉၄၄ ခုနှစ် မတ်လတွင် ဂျပန်တို့သည် အိန္ဒိယပြည်တွင်း ချင်းနင်း ဝင်ရောက်ရန် ထိုးစစ်စတင် ဆင်နွှဲလျက် မဏိပူရနယ် အင်ဖားမြို့ကို တိုက်ခိုက်သော်လည်း ရှေ့သို့ မတိုးနိုင်ဘဲ စစ်ရေးနိမ့်သဖြင့် ဆုတ်ခွာခဲ့ရလေသည်။ ထိုနှစ် ဧပြီလတွင် ဗိုလ်ချုပ် ဝင်းဂိတ်၏ ခြသေ့်တပ်ဖွဲ့ (ချင်ဒစ်) ကလည်း လေကြောင်းဖြင့် မြန်မာနိုင်ငံအတွင်းရှိ ဂျပန် စစ်မျက်နှာ နောက်ပိုင်းသို့ ချင်းနင်းဝင်ရောက်၍ စစ်ရေးဆိုင်ရာ အဆက်အသွယ်များကို နှောင့်ရှက် ဖျက်ဆီးလျက် ရှိလေသည်။ မဟာမိတ်တို့သည် ကမ္ဘာ့အနောက်ပိုင်းတွင် စစ်ရေး သာနေချိန် ဖြစ်သဖြင့် ဗိုလ်ချုပ်ကြီး စလင်း ဦးစီးသော အမှတ် ၁၄ တပ်မတော်ကလည်း မြန်မာနိုင်ငံကို ပြန်လည် သိမ်းပိုက်ရန် မြောက်ပိုင်း၌ ထိုးစစ်ဆင်လာခဲ့လေသည်။

ဂျပန်တို့၏ ဖက်ဆစ်ဆံသော အုပ်ချုပ်ရေးဒဏ်ကို ခံနေရသော မြန်မာတိုင်းရင်းသား လူထုတရပ်လုံးသည်လည်း မခံမရပ်နိုင်ဖြစ်၍ တော်လှန်လိုသောစိတ်ပြင်းထန်လာလေသည်။ ထိုကြောင့် ၁၉၄၄ ခုနှစ် ဩဂုတ်လဆန်းတွင် အာရှလူငယ်အစည်းအရုံး၊ပြည်သူ့အရေးတော်ပုံပါတီ(နောင် — ဆိုရှယ်လစ်ပါတီ)၊ (မြေအောက်) ကွန်မြူနစ်ပါတီနှင့် ဗမာ့တပ်မတော်တို့သည် ပူးပေါင်း၍ ဖက်ဆစ် တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ကို ဖွဲ့စည်းခဲ့ကြလေသည်။ (ဖဆပလ — လည်းရှု။) ထိုနောက် ဂျပန်တို့ မြန်မာပြည်ကို သိမ်းပိုက်ပြီးစလောက်တွင် အိန္ဒိယပြည်သို့ တိတ်တဆိတ် ထွက်ခွာသွားပြီးလျှင် မဟာမိတ်တို့နှင့် အဆက်အသွယ် ရရှိနေသော သခင်သိန်းဖေနှင့်ရဲဘော်တင်ရွှေတို့မှတဆင့်မဟာမိတ်တို့နှင့်စကားကမ်းလှမ်းကာ ဖက်ဆစ်တော်လှန်ရေးကို စီစဉ်ကြလေသည်။

၁၉၄၄ ခုနှစ် နောက်ပိုင်းတွင် ဂျပန်တို့သည် အဆုတ်သာရှိလေသည်။ မဟာမိတ်တပ်များကား အောင်မြင်စွာ ပြန်လည် ချီတက်နိုင်ခဲ့သည်။ မဟာမိတ်တပ်တို့သည် ၁၉၄၄ ခုနှစ် ဩဂုတ်လ ၄ ရက်နေ့တွင် မြစ်ကြီးနားမြို့ကို ပြန်လည်သိမ်းပိုက်နိုင်ကြသည်။ နိုဝင်ဘာလတွင် ဖို့ဂိုက်ကို ဗြိတိသျှတပ်များ ရရှိ၍ ထိုလတွင်ပင် တရုပ်တပ်များ ဗန်းမော်မြို့သို့ဝင်သည်။ယခုအကြိမ်တွင် မဟာမိတ်တို့ဖက်၌ လေကြောင်းအင်အား လက်နက်အင်အား သာလာပြီဖြစ်၍ ဂျပန်တပ်များသည် တောင်ဖက် မန္တလေးမြို့နှင့် မိတ္ထီလာမြို့များသို့ အပြင်း ဆုတ်ခွာခဲ့ရလေသည်။ သို့ရာထွင် မဟာမိတ်တို့က ၁၉၄၅ ခုနှစ် မတ်လ ၄ ရက်နေ့၌ မိတ္ထီလာ မြို့ကိုရင်း၊ မတ်လ ၂၀ ရက်နေ့၌ မန္တလေးမြို့ကိုရင်း သိမ်းပိုက်မိကြသည်။ ထိုနှစ် စောစောပိုင်းကလည်း ရေကြောင်းမှ စစ်တွေမြို့ကို သိမ်းခဲ့၏။ ထိုသို့ ဂျပန်တို့ ဆုတ်ခွာနေရစဉ် ဗမာ့ကာကွယ်ရေး တပ်မတော်ကလည်း ဂျပန်တော်လှန်ရေး လုပ်ငန်းကို စတင်ရန် အခါအခွင့်ကို ငံ့လင့်လျက် ရှိကြလေသည်။ (မြန်မာ့ တော်လှန်ရေး — လည်းရှု။)

၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် ဗမာ့ကာကွယ်ရေး တပ်မတော် (ပြည်သူ့တပ်မတော်) သည် မြန်မာနိုင်ငံ အနှံ့အပြား၌ ဂျပန်တော်လှန်ရေးလုပ်ငန်းကို စတင်ဆောင်ရွက်ခဲ့လေသည်။ ဗမာ့ တပ်မတော်သားများနှင့် ဖက်ဆစ်တိုက်ဖျက်ရေး အဖွဲ့ဝင်တို့သည် ရပ်ဖျောက်ကာ ပြောက်ကျား စစ်ဆင်နည်းဖြင့် ဂျပန်တို့အား တိုက်ခိုက်ကြလေသည်။ ထိုတော်လှန်ရေး၏ ထိရောက်စွာ ဆောင်ရွက်မှုကြောင့် မဟာမိတ် တို့သည် မြန်မာပြည်ကို ပြန်လည်တိုက်ခိုက် သိမ်းပိုက်ရာ၌ လွယ်ကူလျင်မြန်ခဲ့လေသည်။ မဟာမိတ်တို့ကလည်း ပြည်



ဒုတိယ ကမ္ဘာစစ်အတွင်းက ဝန်ကြီးချုပ် ဒေါက်တာ ဘမော်နှင့် ဂျပန်သံအမတ် ဆာဝါဒါတို့ နှစ်နိုင်ငံ မဟာမိတ်စာချုပ် လက်မှတ်ရေးထိုးစဉ်



မြန်မာနိုင်ငံအား ဒုတိယ ကမ္ဘာစစ်အတွင်းနှင့် အပြီးတွင် ခေါင်းဆောင်ခဲ့ကြသည့် ဗိုလ်ချုပ် အောင်ဆန်းနှင့် ဗိုလ်ချုပ် နေဝင်း

သူ့တပ်မတော်ကို မျိုးချစ် ဗမာ့တပ်မတော် ဟူသော အမည်ဖြင့် အသိအမှတ်ပြုကြသည်။ ထိုသို့အားဖြင့် ဂျပန်တပ်များသည် တောင်ဖက်သို့ တဆုတ်တည်း ဆုတ်ခဲ့ကြရလေရာ နောက်ဆုံး၌ ရန်ကုန်မြို့ကို ဧပြီလ ၂၃ ရက်နေ့တွင် စွန့်လွှတ်လိုက်ရလေသည်။ မဟာမိတ်တပ်များသည်လည်း ဧပြီလ ၁၀ ရက်နေ့တွင် ပဲခူးမြို့ကိုငင်း၊ မေလ ၂ ရက်နေ့တွင် ရန်ကုန်မြို့နှင့် ပြည်မြို့တို့ကိုငင်း ပြန်လည်သိမ်းပိုက်ခဲ့ကြသည်။ ဂျပန်တပ်တို့သည် မော်လမြိုင်မြို့ဖက်သို့ ဆုတ်ခွာ ထွက်ပြေးကြလေသည်။ ဩဂုတ်လ ၁၄ ရက်နေ့တွင် ဂျပန်တို့ လက်နက်ချ အရှုံးပေးလေသည်။

မျိုးချစ် ဗမာ့တပ်မတော်သည် မြန်မာနိုင်ငံတွင်း၌ ရှိနေသေးသော ဂျပန်တပ်သား အကြွင်းအကျန်တို့ကို ဆက်လက် ရှင်းလင်းရပြီးနောက် တော်လှန်ရေး ခေါင်းဆောင်များနှင့် အာရှအရှေ့တောင်ပိုင်း စစ်ဌာနချုပ်တို့ သဘောတူညီချုပ်ဆိုကြသော ကန္ဒီစာချုပ်အရ ဗြိတိသျှ အစိုးရ၏ မြန်မာ့ တပ်မတော်နှင့် ပူးပေါင်းခဲ့ကြသည်။ ဗိုလ်ချုပ်အောင်ဆန်းသည်လည်း နိုင်ငံရေး ဆောင်ရွက်ရန် စစ်မှုထမ်း အဖြစ်မှ နုတ်ထွက်ခဲ့သည်။ ဗြိတိသျှတပ်ထဲသို့ မဝင်သူများက ပြည်သူ့ရဲဘော်တပ်ဖွဲ့ ဟူ၍ ဖွဲ့စည်း တည်ထောင်ကြလေသည်။ (မြန်မာ့တပ်မတော် — လည်းရှု။)

မြန်မာပြည်ကို မဟာမိတ်တို့က ပြန်လည် သိမ်းပိုက်ပြီးနောက်တွင် ဗြိတိသျှအစိုးရသည် ကက်စဘီ ခေါ် စစ်ဖက်မြို့ပြအုပ်ချုပ်ရေးဖြင့် အုပ်ချုပ်ခဲ့လေသည်။ ၁၉၄၅ ခုနှစ် အောက်တိုဘာလတွင် စစ်အုပ်ချုပ်ရေးကို ရုပ်သိမ်းပြီးလျှင် ဘုရင်ခံ ဆာ ဒေါ်မန်စမစ်သည် စစ်မဖြစ်မီက အုပ်ချုပ်ရေး ဥပဒေပုဒ်မ ၁၃၉ အရ မြန်မာပြည်ကို ပြန်လည်အုပ်ချုပ်လေသည်။ထိုအုပ်ချုပ်ရေးမှာမျိုးချစ်စိတ်အလွန်ပြင်းပြနေသော မြန်မာလူထုနှင့် မအပ်စပ်အောင် ဖြစ်လေသည်။ ထို့ကြောင့် ၁၉၄၆ ခုနှစ် ဩဂုတ်လ ၁၉ ရက်နေ့တွင်ကျင်းပသောနေသူရိန် လူထုအစည်းအဝေး၌ ဖက်ဆစ် တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ကို ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့(ဖဆပလ)အဖြစ် ပြောင်းလဲခဲ့လေသည်။(ဖဆပလ — လည်းရှု။)ဖဆပလအလံတော်အောက်တွင် မြန်မာတိုင်းရင်းသား လူထုတရပ်လုံးသည် မကြုံဖူးအောင် စည်းလုံးညီညွတ်လျက်ရှိပြီးလျှင် မြန်မာနိုင်ငံလွတ်လပ်ရေးကို အရယူရန် သွေးစည်းခဲ့ကြလေသည်။(မြန်မာနိုင်ငံရေးသမိုင်း — လည်းရှု။)

# ပညာရေးစံနစ်သစ်သို့

**မြန်မာနိုင်ငံ တော်လှန်ရေးကောင်စီသည် အသက်မွေး ဝမ်းကျောင်းမှုကို အထောက်အကူပြု၍၊ စာရိတ္တ မြင့်မားမှုကို အခြေခံသော ပညာရေးစံနစ်သစ်ကို တည်ထောင်လျက်ရှိ၍ အထူးသဖြင့် သိပ္ပံပညာကို ဦးစားပေးနေသည်။ တော်လှန်ရေးကောင်စီ၏ ပညာရေး ရည်မှန်းချက် ပန်းတိုင်သည် လူတိုင်း အခြေခံပညာကို သင်ယူနိုင်ခွင့် ရရှိရေးဖြစ်သည်။ အထက်တန်းပညာကို မှီအောင် လိုက်နိုင်မည့် ကြိုးစားမှုရှိသူများကိုလည်း အထူးအားပေး၍ သင်ကြားခွင့် ပေးလျက် ရှိလေသည်။**

**မြန်မာနိုင်ငံ ပညာရေး စံနစ်။** ။မြန်မာနိုင်ငံ ပညာရေးစံနစ်သည် မြန်မာ့ရိုးရာပညာရေးစံနစ်မှသည် မြန်မာ့ဆိုရှယ်လစ် လမ်းစဉ် ပညာရေးစံနစ်အထိ အပြောင်းအလဲ အမျိုးမျိုးဖြင့် ပြုပြင် အကောင်အထည်ဖော်ခဲ့ကြသည်။

## မြန်မာ့ရိုးရာပညာရေး

မြန်မာမင်းများ လက်ထက်တော်က မြန်မာ့ ပညာရေးသည် ထိုခေတ် မြန်မာ့လူနေမှုစံနစ်နှင့် ကိုက်ညီသော ပညာရေးပင် ဖြစ်သည်။ ထိုခေတ်တွင် ကျေးရွာသည် မြန်မာ့ လူနေမှုစံနစ်၏ အခြေခံအုပ်စုဖြစ်၍ ဘုန်းကြီးကျောင်းသည် ရပ်ရေးရွာရေးကိစ္စ အဝဝအတွက် စုဝေးရာ ဗဟိုဌာနဖြစ်လေသည်။ရွာတိုင်းတွင်ပင် ကလေးများသည် ရွာကျောင်း၌ အခြေခံပညာကို သင်ကြားကြသည်။

ခရစ်နှစ် ၁၅၆၉ ခုတွင် မြန်မာနိုင်ငံသို့ ရောက်လာခဲ့သော ရပ်ဖစ်ချသည် ကလေးများအား ရွာကျောင်းသို့ ပို့သော ဓလေ့ကို တွေ့ရှိရကြောင်း မှတ်တမ်းတင်ခဲ့သည်။၁၇၈၃ ခုနှစ်မှ ၁၈၀၆ ခုနှစ်အထိ မြန်မာနိုင်ငံတွင် နေထိုင်သွားသော ဗရင်ဂျီ ခင်ကြီးဆင်ဂါမနော်ကလည်း အမြို့မြို့အရွာရွာတွင် ဘုန်းကြီးကျောင်းများရှိခြင်းနှင့် ထိုကျောင်းများတွင် မြို့ရွာရှိ ကလေးများ စာသင်ကြခြင်းကို ရေးသားထားခဲ့သည်။

ဘုန်းကြီးကျောင်းများတွင် သင်ကြားပုံကား ရှေးခေတ်နှင့် ယခုခေတ် မကွာခြားလှချေ။ သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အပြင်အောင်ခြင်း၊ အတွင်းအောင်ခြင်း၊ ရတနာရွှေချိုင့်၊ သဒ္ဒါ၊ သင်္ဂြိုဟ် စသည်တို့ကို သင်ကြားပေးသည်။ နေ့စဉ် ဘုရားရှိခိုး သီလခံယူခြင်း၊ ပရိတ်ကြီး ရွတ်ဖတ်ကာ တရားဒေသနာ နာကြားခြင်းဖြင့် ရတနာသုံးပါး အကြောင်း မှတ်သားစေသည်။ ထိုပြင် စာပေပို့ချသော ဘုန်းတော်ကြီး၏ ဝသီတော်အလျောက် လောကနီတိ၊ ပုတ္တောဝါဒစသော ဆုံးမစာ လင်္ကာများကိုလည်း သင်ကြားရသည်။ အချို့ကျောင်းများ၌ ဂဏန်းပညာ၊ နက္ခတ်ပညာ၊ ဗေဒင်ပညာ၊ ရာဇဝင်ပုံပြင်ပညာ၊ ရာဇသတ် ဓမ္မသတ်ပညာ၊ ဆေးအတတ်ပညာ စသည်တို့ကိုလည်း သင်ကြားပေးလေသည်။

## အနောက်တိုင်းပညာရေးအစ

အနောက်တိုင်းပညာရေးသည် မြန်မာနိုင်ငံတွင် ၁၆ ရာစုနှစ်ခန့်က စတင်ခဲ့သော်လည်း စံနစ်တကျရှိသည်ဟု မဆိုသာချေ။ မြန်မာနိုင်ငံတွင် ခရစ်ယန်သာသနာပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ ရှေးအကျဆုံး ရည်ညွှန်းချက်မှာ ၁၅၄၇ ခုနှစ်တွင် စိန်ဖရန်စစ် ဇေးဗီးယားက ရာမညတိုင်းသို့ သာသနာပြုအဖွဲ့ စေလွှတ်ရန် ဖားသားရောဒရစ်အား ပန်ကြားခြင်းပေတည်း။ ၁၆ ရာစုနှင့် ၁၇ ရာစုနှစ်များတွင် သာသနာပြု လုပ်ငန်းများသည် ယေဘုယျအားဖြင့် တိုင်းရင်းသားများထက် ပေါ်တူဂီလူမျိုးနှင့် ဗရင်ဂျီဂိုဏ်းဝင်များ အတွက်သာ ဖြစ်ကြောင်း တွေ့ရှိရသည်။

၁၇၂၀ ခုနှစ်တွင် ဗာနဗိုက်ဂိုဏ်းဝင် ဘုန်းကြီး ဖားသားဆစ်ဂဆစ်စမန် ကာလချီတို့ ရောက်လာသည်မှ စ၍ မြန်မာနိုင်ငံ၌ အနောက်တိုင်း ပညာသင်ကြားရေးစံနစ် အခန်းသစ် ဖွင့်ခဲ့သည်ဟု ဆိုရပေမည်။ ယင်းတို့နောက် သာသနာဖြန့်အဖွဲ့ ဘုန်းကြီးများ (၁၈၂၉–၁၈၄၀)၊ တျူရင်မြို့၊ အိုဗလိတ်များ(၁၈၄၀–၁၈၅၅) နှင့် ပါရစ်မြို့၊ အာဂန္တုမစ်ရှင် (၁၈၅၅ ခုနှစ်မှ နောက်ပိုင်း)စသော ဂိုဏ်းအဖွဲ့အစည်းများ ဆက်၍ ရောက်ရှိလာကာ အနောက်တိုင်း ပညာရေးစံနစ်ကို ပျိုးထောင်ခဲ့ကြသည်။သို့သော် ၁၈၂၄ ခုနှစ်လောက်အထိ ယင်းသာသနာပြု အဖွဲ့ဝင်များသည် ခုနစ်ဦးထက်မပိုဘဲ အင်းဝ၊ ရန်ကုန်၊ စစ်ကိုင်းနှင့် ရွှေဘိုဒေသရှိ ဗရင်ဂျီကျေးရွာများတွင် စခန်းချလေ့ ရှိ၏။ ယင်းတို့ သင်ပေးသော ပညာမှာ အရေး၊ အဖတ်၊ အတွက်နှင့် ခရစ်ယန်ဘုရားရှိခိုးတို့သာ ဖြစ်သည်။

၁၈၁၃ ခုနှစ်တွင် ဆရာယုဒသန်ဟု ထင်ရှားသော ဒေါက်တာ ဂျပ်ဆင် ဇနီးမောင်နှံတို့သည် မြန်မာနိုင်ငံသို့ ရောက်ရှိခဲ့သော်လည်း အမေရိကန် နှစ်ခြင်းသာသနာပြုအဖွဲ့၏ လုပ်ငန်းကို အင်္ဂလိပ်-မြန်မာ ပဌမစစ်ပွဲအပြီးတွင်မှ စတင်ဆောင်ရွက်ခဲ့သည်။ (ယုဒသန် — ရှု။) မစ္စစ်ဂျပ်ဆင်သည် ၁၈၂၆ ခုနှစ်တွင်မှ ကျိုက္ခမီမြို့၌ သာသနာပြုကျောင်းကို တည်ထောင် ဖွင့်လှစ်သည်။ ချပ်ချ အော့ အင်္ဂလန် (အင်္ဂလီကန်) ဂိုဏ်း၏ သာသနာပြုကျောင်း လုပ်ငန်းများသည် ၁၈၅၅ ခုနှစ်တွင်မှ စတင်ခဲ့ပြီးလျှင်၊ ကျန် ခရစ်ယန် သာသနာပြု ဂိုဏ်းများကမူ ၂၀ ရာစုနှစ် အတွင်း၌သာ လုပ်ငန်း စနိုင်ခဲ့သည်။

## ပဌမဆုံးဖွင့်သော အင်္ဂလိပ်ကျောင်း

မြန်မာနိုင်ငံတွင် ပဌမဆုံး ဖွင့်လှစ် ခဲ့သော အင်္ဂလိပ်ကျောင်းမှာ ဘကြီးတော်မင်း လက်ထက် အင်းဝမြို့တော်ရှိ

ဒေါက်တာပရိုက်၏ ကျောင်းပင် ဖြစ်လေသည်။ အစ ပဌမ တွင် ကျောင်းသားလေးဦးသာရှိ၍ နောင်တွင် ခုနစ်ဦးအထိ တိုးလာပြီးလျှင် နေ့စဉ် နံနက် ကိုးနာရီမှ ညနေ သုံးနာရီအထိ အင်္ဂလိပ်ဘာသာ၊ ပထဝီဝင်၊ နက္ခတ္တဗေဒ၊ ခရီးသွားလာမှုပညာနှင့် သိပ္ပံပညာတို့ကို သင်ကြားပေးသည်။

အင်္ဂလိပ် - မြန်မာ နှစ်ဘာသာသင် ကျောင်းများကိုမူ အောက်မြန်မာပြည်တွင် ပဌမ ဖွင့်ဖြစ်လေသည်။ မြန်မာပြည်ကို ခေတ်နောက်ကျမှုမှ လွတ်မြောက်စေရန် ခေတ်မှီပညာရေးကို ပေးရမည်ဟူသော အယူအဆမျိုးကို အင်္ဂလိပ်တို့သည် အောက်မြန်မာပြည်ကို သိမ်းပြီးစတွင် ပြောဆိုကြကြောင်း မှတ်တမ်းများတွင် တွေ့ရှိရ၏။ သို့သော် အင်္ဂလိပ်အစိုးရသည် တိုင်းပြည်အုပ်ချုပ်ရန် အင်္ဂလိပ်စာတတ် အမှုထမ်းများလည်း လိုအပ်လေရာ တချက်ခုတ် နှစ်ချက်ပြတ်သဘောဖြင့် အင်္ဂလိပ်-မြန်မာ နှစ်ဘာသာသင်ကျောင်းများကို မော်လမြိုင် (၁၈၃၅ ခုနှစ်)၊ ကျောက်ဖြူ (၁၈၃၇ ခုနှစ်) နှင့် စစ်တွေ (၁၈၄၄ ခုနှစ်) မြို့တို့တွင် စတင် ဖွင့်လှစ် ပေးခဲ့လေသည်။

### မကောလေး မှတ်တမ်းနှင့် ဝုစာချွန်တော်

ထိုအချိန်လောက်တွင် အိန္ဒိယပြည်၌ ပညာရေးနှင့် စပ်လျဉ်း၍ တိုင်းရင်းဘာသာ ရိုးရာလေ့လာမှုကို အားပေးရန်နှင့် အင်္ဂလိပ်ဘာသာကို ထိထိရောက်ရောက် သင်ကြား၍ တိုင်းရင်းသားထဲမှ အင်္ဂလိပ်စာတတ် လူတန်းစားတရပ် မွေးထုတ်ရန်ဟူသော အယူအဆနှစ်မျိုး ထွန်းကားနေ၏။

၁၈၃၅ ခုနှစ်တွင် အိန္ဒိယအစိုးရ ဥပဒေတာဝန်ခံ လော့မကောလေးသည် ပညာရေးမှတ်တမ်းတစောင် ထုတ်ပြန်လိုက်ရာ၊ ဒုတိယ အယူအဆမှာ အထက်စီး ရသွားတော့သည်။ မကောလေး၏ မှတ်တမ်းသည် အိန္ဒိယပြည်အတွက် ရည်စူးခြင်း မှန်သော်လည်း မြန်မာပြည်သည် ထိုစဉ်က အိန္ဒိယပြည်၏ တစိတ်တဒေသဖြစ်နေပေရာ မြန်မာပြည်နှင့်လည်း အလိုအလျောက် သက်ဆိုင်နေလေသည်။

မကောလေး၏ အယူအဆမှာ ယေဘုယျအားဖြင့် (၁) အရှေ့တိုင်းပညာ လေ့လာမှုအစား အင်္ဂလိပ် ဘာသာ စာပေကိုသာ လေ့လာဖို့အားပေးရန်၊ (၂) အင်္ဂလိပ် ဘာသာကိုသာ သင်ကြားမှု မဏ္ဍိုင်အဖြစ် အသုံးပြုရန်နှင့် (၃) အသားအရောင်အားဖြင့် ညိုသော်လည်း အင်္ဂလိပ်ဘာသာ တတ်ကျွမ်း၍ အင်္ဂလိပ်လို တွေးခေါ်ကာ အင်္ဂလိပ်စိတ် ပေါက်နေသော လူတန်းစားတရပ် မွေးထုတ်ပြီးနောက် ယင်းတို့ကို တိုင်းရင်း လူမျိုးများနှင့် အုပ်ချုပ်သူအကြားတွင် ပေါင်းကူးတန်တားသဖွယ် ဆောင်ရွက်စေရန်တို့ ဖြစ်၏။

ဤသို့ အယူအဆရှိနေချိန်တွင် ၁၈၅၄ ခုနှစ်၌ အင်္ဂလိပ်ဘာသာ သင်ကြားရေးကို အမိက အားပေးရန် ချားစဝု စာ



မြန်မာနိုင်ငံတွင် စာမတတ်သူ နည်းပါးရခြင်းမှာ ဤကဲ့သို့သော ဘုန်းကြီးကျောင်းများကြောင့် ဖြစ်သည်။

ထိုအစုငယ်ဝင် ဘာသာ စကားများကို ပြောဆိုသူများကို မြန်မာနိုင်ငံ အပ၌လည်း တွေ့ရ၏။ ထိုသူတို့သည် အင်ဒိုချိုင်းနားကျွန်းဆွယ်နေ လူမျိုးတို့တွင် အများဆုံး ဖြစ်၍ အနောက်ဖက် အာသံနယ်မှ အရှေ့ဖက် ဟိုင်နံကျွန်းအထိ ဖြစ်သော မျဉ်းကြောင်း၏ တောင်ဖက် မလ္လာယုကျွန်းဆွယ်ရှိ ပတာနီမြို့အတွင်း ဖြစ်သော မြန်မာနိုင်ငံမှအပ ဒေသတို့တွင် ပျံ့နှံ့နေထိုင်ကြသည်။ ယိုးဒယားနိုင်ငံရှိ ထိုင်းများနှင့် အာသံနယ်ရှိ အဟုမ်တို့သည် ဤအစုငယ်ဝင် ဘာသာစကားကို ပြောဆိုသူများ ဖြစ်ကြသည်။ (ရှမ်းလူမျိုး — လည်းရှု။) **ဦးဘရှင်**

**မြန်မာနိုင်ငံနှင့် ဒုတိယ ကမ္ဘာစစ်။** ။၁၉၃၉ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် ဂျာမန်တို့သည် ပိုလန်နိုင်ငံကို ရုတ်တရက် ဝင်ရောက် တိုက်ခိုက်ကြလေသည်။ ထိုအခါ ဗြိတိန်နိုင်ငံနှင့် ပြင်သစ် နိုင်ငံတို့သည် ပိုလန်နိုင်ငံကို ကူညီရန် တာဝန် ရှိသည့်အလျောက် စက်တင်ဘာလ ၃ ရက်နေ့တွင် ဂျာမနီနိုင်ငံအား စစ်ကြေညာခဲ့လေသည်။ ထိုသို့အားဖြင့် ဥရောပတိုက်၌ စစ်မီးများ စတောက်နေချိန်တွင် မြန်မာပြည်၌ အမျိုးသား စည်းလုံးရေး စိတ်ဓာတ်၊ နယ်ချဲ့တို့ကို တော်လှန်ရေး စိတ်ဓာတ်တို့ တက်ကြွ ပြင်းထန်လျက် ရှိလေသည်။ သခင်အောင်ဆန်း အမှူးပြုသော မျိုးချစ်လူငယ် ခေါင်းဆောင်တို့က ဗြိတိသျှတို့ကို မြန်မာနိုင်ငံမှ နှင်ထုတ်ရန် ကြံစည် အားထုတ်ကြလေသည်။ (အောင်ဆန်း၊ ဗိုလ်ချုပ် — ရှု။)

၁၉၄၀ ပြည့်နှစ် ဩဂုတ်လ ၈ ရက်နေ့တွင် သခင်အောင်ဆန်းသည် မြန်မာပြည်မှ ရုတ်ခြည်း ပျောက်သွားလေသည်။ ၁၉၄၁ ခုနှစ် ဧပြီလလောက်တွင် မြန်မာပြည်သို့ ရုပ်ဖျောက်၍ ပြန်ရောက်လာပြီးလျှင် ပြည်တွင်းပြည်ပ တော်လှန်ရေးအတွက် မြန်မာလူငယ် ခေါင်းဆောင်တို့နှင့် တိုင်ပင်လေသည်။ ထိုနောက် သခင်အောင်ဆန်းသည် မြန်မာပြည်မှ တဖန် ထွက်ခွာသွားလေသည်။ ထိုအခါ ပြည်တွင်း၌ ကျန်ခဲ့သော မျိုးချစ်ခေါင်းဆောင်တို့က သခင်အောင်ဆန်းအပါအဝင် လူငယ်ပေါင်း ၃၀ မျှကို စစ်သင်တန်း တက်ရန် ရွေးချယ်၍ တသုတ်ပြီးတသုတ် ဂျပန်နိုင်ငံသို့ လျှို့ဝှက်စွာ ပို့ခဲ့ကြလေသည်။ ယင်းတို့သည်ကား နောင်အခါ ယိုးဒယားနိုင်ငံတွင် ဗမာ့လွတ်လပ်ရေး တပ်မတော်ကြီးကို ခေါင်းဆောင် ဖွဲ့စည်းခဲ့၍ ရဲဘော်သုံးကျိပ်ဟု အမည်တွင်သူများ ဖြစ်လေသည်။ (ရဲဘော်သုံးကျိပ် — လည်း ရှု။)

ထိုအချိန်က မြန်မာပြည် ဘုရင်ခံသည် ဆာ ဒေါ်မန်စမစ် ဖြစ်၍ နန်းရင်းဝန်မှာ ဦးစော ဖြစ်လေသည်။ ဦးစောသည် ၁၉၄၁ ခုနှစ် အောက်တိုဘာလဆန်းတွင် ဗြိတိသျှ နန်းရင်းဝန် မစ္စတာ ချာချီနှင့် အတ္တလန္တိတ် ကျေညာချက်ကို အခြေခံပြုလျက် မြန်မာပြည် လွတ်လပ်ရေးကိစ္စကို အရေးဆိုရန် ဗြိတိန်နိုင်ငံသို့ သွားရောက်ခဲ့လေသည်။ သို့ရာတွင် ဗြိတိသျှ အစိုးရထံမှ ကျေနပ်ဖွယ်ရာ အဖြေကို မရသဖြင့် မြန်မာပြည်သို့ ပြန်ခဲ့သည်တွင် ဂျပန်နှင့် အဆက်အသွယ် ရှိသည် ဟုဆို၍ ဗြိတိသျှတို့က ဦးစောအား လမ်းခုလတ်၌ ဖမ်းဆီးလိုက်လေသည်။ ထိုနောက် ဦးစောကို အာဖရိကတိုက် ယူဂန်းဒါးနယ်တွင် ချုပ်ထားလေသည်။

ထိုသို့ ဦးစောသည် ဗြိတိသျှအစိုးရနှင့် အရေးဆို၍ ပြန်လာနေခိုက် ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဂျပန်တို့သည် စစ်မကြေညာဘဲ အမေရိကန်ပြည်ထောင်စုပိုင် ဟာဝိုင်းယန်းကျွန်းရှိ ပါးလဟာဗာ ခေါ် ပုလဲဆိပ်ကမ်းကို ရုတ်တရက် ဗုံးကြဲ တိုက်ခိုက်ခဲ့ကြလေသည်။ ယင်းသို့ စတင်တိုက်ခိုက်ပြီးနောက် နာရီပေါင်းများစွာ ကြာမှ ဂျပန်အစိုးရက အမေရိကန်ပြည်ထောင်စုနှင့် ဗြိတိန်နိုင်ငံတို့ကို စစ်ကြေညာလေသည်။ ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဗြိတိန်နိုင်ငံနှင့် အမေရိကန် ပြည်ထောင်စုတို့က ဂျပန်ကို တုံ့ပြန် စစ်ကြေညာသည်။ ဂျပန် အပါအဝင် ဝင်ရိုးတန်းနိုင်ငံများ ဖြစ်သော ဂျာမနီနှင့် ဣတလီနိုင်ငံတို့ကလည်း အမေရိကန်ပြည်ထောင်စုကို စစ်ကြေညာကြ၍ အမေရိကန်ပြည်ထောင်စုကလည်း ပြန်လည်တုံ့ပြန်လေသည်။ ထိုသို့ မဟာမိတ်နိုင်ငံများနှင့် ဝင်ရိုးတန်းနိုင်ငံများ အပြန်အလှန် စစ်ကြေညာကြခြင်းအားဖြင့် စစ်မီးသည် တကမ္ဘာလုံးသို့ ပျံ့နှံ့သွားလေတော့သည်။ (ကမ္ဘာစစ်၊ ဒုတိယ — လည်းရှု။)

အနောက်ဖက် ဥရောပတွင် အစပြုခဲ့သော ဒုတိယကမ္ဘာစစ်သည် ဂျပန်၏ ကျူးကျော်တိုက်ခိုက်မှုကြောင့် အရှေ့တိုင်းနိုင်ငံများသို့ ကူးစက်လာခဲ့သည်။ ပစိဖိတ်သမုဒ္ဒရာသည် ဂျပန်နှင့် အင်္ဂလိပ်၊ အမေရိကန်တို့ စစ်ခင်းရာဒေသ ဖြစ်လာလေသည်။ ဂျပန်တို့သည် အင်ိုက်တွင် ဝင်စီးလိုက်ရသဖြင့် အင်္ဂလိပ်၊ အမေရိကန်ပိုင် နယ်မြေများကို တခုပြီးတခု ချီတက်သိမ်းပိုက်ခဲ့ရာ ဂူအမ်ကျွန်း၊ ဝိတ်ကျွန်း၊ ဟောင်ကောင်ကျွန်း၊ ဖိလစ်ပိုင် ကျွန်းများ၊ လူဇုန်၊ ဗာတန်း၊ ကော်ရက်ဂီဒေါ်၊ စဲလဗီး အစရှိသော ကျွန်းတို့သည်၎င်း၊ စင်္ကာပူ ခံတပ်မြို့ကြီးသည်၎င်း၊ မလ္လာယု ပြည်မကြီးသည်၎င်း မရှုမလှ ကျဆုံးခဲ့ရလေသည်။ ထိုအချိန်မှာပင် ဂျပန်တို့သည် ယိုးဒယားနိုင်ငံကို အခြေပြု၍ မြန်မာပြည်တွင်းသို့ စစ်ကြောင်း သုံးကြောင်း ဖြန့်လျက် ဝင်လာကြလေသည်။ သခင်အောင်ဆန်း အမှူး ပြု၍၊ ဂျပန်နိုင်ငံတွင် စစ်သင်တန်း တက်ခဲ့သော မြန်မာလူငယ်တစုသည် ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ယိုးဒယားနိုင်ငံ၌ ဗမာ့လွတ်လပ်ရေး တပ်မတော် (ဘီအိုင်အေ) ကိုဖွဲ့စည်းခဲ့ကြလေသည်။ ဗမာ့လွတ်လပ်ရေး တပ်မတော်သည် ဂျပန်တို့ မြန်မာပြည်ကို တိုက်ခိုက်သိမ်းပိုက်ရာတွင် ပါဝင် ကူညီခဲ့လေသည်။



ဤမြို့မကျောင်းကဲ့သို့သော အမျိုးသားကျောင်းများကား မျိုးချစ်စိတ် သွင်းပေးရာ ဌာနကြီးများ ဖြစ်ခဲ့သည်။

၁၈၈၄–၈၅ ခုနှစ် ရောက်သောအခါတွင်မူ ရန်ကုန်မြို့ အစိုးရအထက်တန်းကျောင်း၌ ရန်ကုန်ကောလိပ်ဟူ၍ ဌာန သီးသန့် ဖွင့်လှစ်ကာ ယင်းကို မြန်မာပြည် ပညာရေးဆင်ဒီကိတ်အဖွဲ့က ကွပ်ကဲ အုပ်ချုပ်လေသည်။ ၁၉၀၄ ခုနှစ်တွင် ရန်ကုန်ကောလိပ်ကို အစိုးရကတာဝန်ယူလိုက်ကာ ထိုနှစ်မှစ၍ ရန်ကုန်မြို့ အစိုးရကောလိပ်ဟု ခေါ်တွင်၏။ ၁၉၂၀ ပြည့်နှစ်တွင်မူ တက္ကသိုလ်ကောလိပ် (ယူနီဗာစီတီကောလိပ်) ဟူ၍ ဖြစ်လာလေသည်။

ရန်ကုန်ကောလိပ်နှင့် ခေတ်ပြိုင် ပေါ်ပေါက်လာသော ကောလိပ်ကား ဂျပ်ဆင်ကောလိပ်ဟု နောင်တွင် အမည်တွင်လာသော ဗက်ပတစ်ကောလိပ်ဖြစ်၏။ အမေရိကန် နှစ်ခြင်းသာသနာအဖွဲ့သည် ၁၈၇၂ ခုနှစ်တွင် ကူရှင် ကျောင်းကို တည်ထောင်ကြကာ၊ ထိုကျောင်းတွင် ၁၈၉၄ ခုနှစ်၌ ကာလကတ္တား တက္ကသိုလ် ဥပစာတန်း စာမေးပွဲအတွက် စတင် သင်ကြား ပေးခဲ့လေသည်။ ထိုသို့ သင်ကြား ပေးမှုမှ အမေရိကန် ဗက်ပတစ်ကောလိပ် ပေါက်ဖွားလာကာ ၁၉၁၈ ခုနှစ်တွင် အမေရိကန် သာသနာပြုဆရာကြီး ဒေါက်တာ ဂျပ်ဆင်အား ဂုဏ်ပြုသောအားဖြင့် ဂျပ်ဆင်ကောလိပ်ဟု အမည်ပြောင်းလိုက်ခြင်း ဖြစ်သည်။

၁၉၂၁ ပြည့်နှစ်တွင် ထိုကောလိပ် နှစ်ခုကို စုစည်းကာ ရန်ကုန် တက္ကသိုလ်ဟူ၍ ဖွဲ့စည်း တည်ထောင်ခဲ့လေသည်။ ရန်ကုန် တက္ကသိုလ် ဥပဒေကြမ်းကို ၁၉၂၀ ပြည့်နှစ် စက်တင်ဘာလတွင် မြန်မာပြည်ဥပဒေပြုကောင်စီကအတည်ပြုလိုက်၍ ထိုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် အိန္ဒိယဘုရင်ခံချုပ်၏ အတည်ပြုချက်ကို ရရှိခဲ့၏။ အဆိုပါ အတည်ပြုချက်များအရ ရန်ကုန်တက္ကသိုလ်သည် ၁၉၂၁ ပြည့်နှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင် ပေါက်ဖွားလာသည်။ (ရန်ကုန် တက္ကသိုလ် — ရှု။)

## တည်ထောင်စ တက္ကသိုလ်

အက်ဥပဒေအရ တက္ကသိုလ်၏ အကြီးအကဲသည် တက္ကသိုလ် အဓိပတိ ဖြစ်၍၊ မြန်မာပြည် ဒုတိယဘုရင်ခံသည် ရာထူးအရ တက္ကသိုလ် အဓိပတိ ဖြစ်သည်။ တက္ကသိုလ်၏ အုပ်ချုပ်ရေးကိုမူ ဒုတိယအဓိပတိက ကြီးကြပ်ကွပ်ကဲ၏။ တက္ကသိုလ်၏ အုပ်ချုပ်ရေးအာဏာပိုင်အဖွဲ့မှာ တက္ကသိုလ်ကောင်စီ ဖြစ်ကာ၊ ယင်းအဖွဲ့၏ အမှုဆောင်အာဏာကို ကောင်စီ အမှုဆောင် ကော်မီတီက ကျင့်သုံးလေသည်။ ပညာရေး အာဏာပိုင်အဖွဲ့မှာ ပါမောက္ခအဖွဲ့ဖြစ်၍ ယင်းအဖွဲ့၏ အမှုဆောင်အာဏာကို ပါမောက္ခအဖွဲ့ အမြဲတမ်း ကော်မီတီက ကျင့်သုံးလေသည်။

တက္ကသိုလ် ကောလိပ်ကို ယင်းကောလိပ်၏ အုပ်ချုပ်ရေးအဖွဲ့က အုပ်ချုပ်ပြီးလျှင် ဂျပ်ဆင်ကောလိပ်ကိုမူ အမေရိကန် သာသနာပြုအဖွဲ့က ခန့်အပ်သော ဂေါပကအဖွဲ့က အုပ်ချုပ်၏။ ကောလိပ်နှစ်ခုစလုံးတွင်ပင် အကြီးအကဲမှာ ကျောင်းအုပ်ကြီးများ ဖြစ်ကြလေသည်။ နောင်တွင် အက်ဥပဒေ ပြင်ဆင်ချက်များအရ အုပ်ချုပ်ရေးတွင် ပြောင်းလဲမှုများ ရှိခဲ့သည်။

၁၉၂၀ ပြည့်နှစ် မတိုင်မီ ခေတ်တွင် အင်္ဂလိပ်စာ၊ သင်္ချာ၊ ပါဠိ၊ ဓာတုဗေဒ၊ ရူပဗေဒ၊ တက္ကဗေဒ (ယုတ္တိဗေဒ) နှင့် သဘာဝတ္ထ ဗေဒ (ဒဿနိကဗေဒ) ဘာသာရပ်တို့ကိုသာ ကာလကတ္တား တက္ကသိုလ် စာမေးပွဲအတွက် ကောလိပ် နှစ်ခုတွင် သင်ကြားနိုင်ခဲ့သော်လည်း၊ ရန်ကုန်တက္ကသိုလ် တည်ထောင်ပြီး၍ များမကြာမီပင် အဆိုပါ ဘာသာရပ်များ အပြင် မြန်မာဘာသာနှင့် စာပေ၊ ရာဇဝင်သမိုင်း၊ ဇီဝဗေဒ၊ ဘောဂဗေဒ၊ ပထဝီဝင်၊ ဘူမိဗေဒ၊ သစ်တောသိပ္ပံ၊ ပညာရေး၊ ဆေးပညာနှင့် အင်ဂျင်နီယာ သိပ္ပံပညာများကိုပါ သင်ကြားလာနိုင်ခဲ့၏။

တက္ကသိုလ် ဖွင့်စတွင် တက္ကသိုလ်ကောလိပ်၌ ကျောင်းသား ၆၉၂ ယောက်၊ ဂျပ်ဆင် ကောလိပ်တွင် ၁၃၇ ယောက် ရှိရာ၊ တက္ကသိုလ် တခုလုံးတွင် ကျောင်းသား စုစုပေါင်း ၈၂၉ ယောက် ရှိခဲ့လေသည်။

### ကျောင်းသားသပိတ် နှင့် အမျိုးသားပညာရေး

မြန်မာလူထုသည် ရန်ကုန်တက္ကသိုလ် ဟူ၍ သီးခြားတက္ကသိုလ်တရပ်ကို လိုလားတောင့်တတောင်းဆိုခဲ့ကြသော်လည်း၊ တက္ကသိုလ် အက်ဥပဒေကြမ်း ပေါ်ထွက်လာသောအခါတွင်မူ ပြဋ္ဌာန်းချက် အချို့ကို မကျေနပ်ကြချေ။ အထူးသဖြင့် တက္ကသိုလ် ပညာရေးကို ပြန့်ပွားအောင် ပြုလုပ်ရမည့်အစား ပိုမိုပါးရှားအောင် အဟန့်အတားများပင် ပြုလုပ်ထားသည်ဟု ယူဆကြ၍ တက္ကသိုလ် ဥပဒေကို ပြင်ဆင်ပေးရန် အနှံ့အပြားတောင်းဆိုကြလေသည်။ ထိုတောင်းဆိုမှုများကို အစိုးရက မလိုက်လျောသောကြောင့် ၁၉၂၀ ပြည့်နှစ် ဒီဇင်ဘာလ ၅ ရက်နေ့ (၁၂၈၂ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့) တွင် မြန်မာပြည်၏ ပဌမဆုံး တက္ကသိုလ်ကျောင်းသားသပိတ် ပေါ်ပေါက်လာလေသည်။

ထိုသို့ ကျောင်းသားသပိတ်မှောက်စဉ်အတွင်း ပညာသင်မပျက်စေခြင်းငှာ ရန်ကုန်မြို့ဗဟန်းရပ်ကွက်တွင် အမျိုးသားကောလိပ်တကျောင်းကို ပညာရေးစိတ်ထက်သန်သူများနှင့် သပိတ်မှောက် ကျောင်းသားများက ဦးစီးတည်ထောင်ကြ၏။ နောင်တွင် သပိတ်လှန်သော်လည်း သပိတ်မှောက် ကျောင်းသားများပင် ကျွန်ပညာကို ဆက်လက် မသင်လိုတော့ပြီဟုဆိုးဖြတ်ကာ တိုင်းပြည်အနှံ့ အမျိုးသားကျောင်းများ တည်ထောင်ခဲ့၏။ အမျိုးသား ကောလိပ်သည် သက်ဆိုး မရှည်ရှာသော်လည်း အမျိုးသားကျောင်းများကား မျိုးချစ်စိတ် သွင်းပေးရာ ဌာနကြီးများ ဖြစ်ခဲ့ပေသည်။ ယင်း အမျိုးသားကျောင်းများကို အမျိုးသား ပညာရေး ကောင်စီက အုပ်ချုပ်လေသည်။

ပဌမ ကျောင်းသားသပိတ်သည် ပညာရေးကိစ္စကြောင့် စတင် မှောက်ခဲ့ရသော ကျောင်းသားသပိတ် ဖြစ်သော်လည်း၊ ပညာရေးထက် နိုင်ငံရေး အနှစ်သာရ ပို၍ ရှိ၏။ ခေတ်ပညာတတ်များက မိမိတို့အတွက် လက်တလှမ်းတွင် သာရှိသော ရာထူးရာခံများကို မမက်မော၊ ကိုယ်ကျိုးစီးပွားကို လုံးဝစွန့်လွှတ်ကာ သပိတ်မှောက်လိုက်ခြင်းဖြင့် အုပ်ချုပ်သူ ဗြိတိသျှ အစိုးရအား တော်လှန်လိုက်ခြင်း ဖြစ်ရာ တိုင်းပြည်အား နိုင်ငံရေးမျက်စိ ဖွင့်ပေးလိုက်သကဲ့သို့ ရှိလေသည်။ ထိုကြောင့်ပင် ဂျီ-စီ-ဘီ-အေ ခေါ် မြန်မာအသင်းချုပ်၏ နဝမကွန်ဖရင့်တွင် တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့ကို အမျိုးသားနေ့အဖြစ် သတ်မှတ်ခဲ့ခြင်းဖြစ်လေသည်။ (အမျိုးသား အောင်ပွဲနေ့၊ ဂျီ စီ ဘီ အေ — လည်းရှု။)

၁၉၃၆ ခုနှစ်တွင် တက္ကသိုလ် ကျောင်းသားများ သမဂ္ဂ ဥက္ကဋ္ဌကိုနုနှင့် သမဂ္ဂ၏အာဘော် အိုးဝေမဂ္ဂဇင်း အယ်ဒီတာ ကိုအောင်ဆန်းတို့ကို ကျောင်းမှ ထုတ်လိုက်သောကြောင့် ဒုတိယ ကျောင်းသားသပိတ် ပေါ်ပြန်လေသည်။ တတိယ ကျောင်းသား သပိတ်ကား ၁၉၃၈ ခုနှစ် ဒီဇင်ဘာလတွင် ရေနံမြေသပိတ်ကို ထောက်ခံရန် သွားသော တက္ကသိုလ် သမဂ္ဂဥက္ကဋ္ဌ ကိုဗဟိန်းနှင့် အတွင်းရေးမှူး ကိုဗဆွေတို့ကို မကွေးမြို့တွင် ဖမ်းဆီးရာမှ ပေါ်ပေါက်ခဲ့ပြန်သည်။

### စစ်ကြိုခေတ် တက္ကသိုလ်၏ တိုးတက်မှုများ

စစ်ကြိုခေတ်တွင် ရန်ကုန် တက္ကသိုလ်၏ တိုးတက်မှုများ အနက် မှတ်တမ်းတင်ဖွယ် တရပ်ကား တက္ကသိုလ် မ တည် ရုံပုံငွေတရပ် စုဆောင်း ပျိုးထောင်ခဲ့ခြင်းဖြစ်၏။ ၁၉၂၇ ခုနှစ်တွင် တက္ကသိုလ်အဓိပတိ ဆာ ဟားကုတ်ဗတ္တလာ ကြီးမှူး၍ ကောက်ခံခဲ့ရာငွေ ၄၇ သိန်းနှင့် အင်ဂျင်နီယာ သတ္တုတွင်းတူး ပညာသင် အဆောက်အအုံတခု ရရှိလိုက်၏။

တက္ကသိုလ်သည် တစတစနှင့် ပညာရပ်များ တိုးချဲ့ သင်ကြား လာသည်နှင့်အမျှ ဌာနများလည်း တိုးပွားလာ၏။ ၁၉၃၀ ပြည့်နှစ်တွင် တက္ကသိုလ်ကောင်စီသည် စတက်တျူ ဥပဒေအရ ဆရာဖြစ်သင်ကောလိပ်နှင့် ဆေးအတတ်သင် ကောလိပ်တို့ကို ဖွင့်စည်းခဲ့၏။ ၁၉၂၅ ခုနှစ်တွင် မန္တလေးမြို့၌ ဥပစာကောလိပ်ကျောင်း တကျောင်း ဖွင့်လှစ် ခဲ့ကာ၊ ၁၉၃၆ ခုနှစ်တွင် မန္တလေးမြို့၌ပင် ဒီဂရီအဆင့် သင်ကြားသော စိုက်ပျိုးရေး ကောလိပ် ဖွင့်လှစ်ခဲ့သည်။ ထိုကြောင့် မြန်မာပြည်သို့ ဒုတိယ ကမ္ဘာစစ်ကြီး ကူးစက်လာချိန်တွင်

ရန်ကုန် တက္ကသိုလ်၌ တက္ကသိုလ်ကောလိပ်၊ ဂျပ်ဆင်ကောလိပ်၊ ဆရာဖြစ်သင်ကောလိပ်၊ ဆေးအတတ်သင် ကောလိပ်၊ စိုက်ပျိုးရေးကောလိပ်နှင့် မန္တလေး ဥပစာကောလိပ်ဟူ၍ ကောလိပ် ခြောက်ခုရှိလေသည်။ မန္တလေးဥပစာကောလိပ်သည် တက္ကသိုလ်ကစီမံကွပ်ကဲသော ကောလိပ်ဖြစ်၍ ကျန်ကောလိပ်များကား တက္ကသိုလ်၏ အပေါင်းပါ ကောလိပ်များ ဖြစ်ကြသည်။

၁၉၂၀ ပြည့်နှစ်တွင် တက္ကသိုလ် တည်ထောင်ပြီးခဲ့ချိန်မှစ၍ ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို ၁၉၂၄ ခုနှစ်တွင် တကြိမ်၊ ၁၉၃၉ ခုနှစ်တွင် နှစ်ကြိမ် ပေါင်း သုံးကြိမ် စစ်ကြိုခေတ်တွင် ပြင်ဆင်ခဲ့၏။ ၁၉၃၉ ခုနှစ် ပဉ္စမ ပြင်ဆင်ချက်အက်ဥပဒေအရ တက္ကသိုလ် အဓိပတိ၊ ဒုတိယအဓိပတိ ရာထူးများသည် ရွေးကောက် တင်မြှောက်ရသော ရာထူးများ ဖြစ်လာကာ၊ ဘဏ္ဍာရေးနှင့် အခွန်တော်ဌာန အတွင်းဝန် ဦးတင်ထွဋ်နှင့် ရန်ကုန် မျူနီစီပယ်မင်းကြီး ဦးဆက်တိုသည် အဓိပတိနှင့် ဒုတိယ အဓိပတိအဖြစ် အသီးအသီး ရွေးကောက် တင်မြှောက်ခြင်း ခံခဲ့ရလေသည်။

## ဒုတိယ ကမ္ဘာစစ်အတွင်း အခြေအနေ

ဒုတိယ ကမ္ဘာစစ်မီး မြန်မာပြည်သို့ ကူးစက်ရောက်ရှိလာသောအခါတွင်မူ ပညာရေး လုပ်ငန်းများ အားလုံးပင် ရပ်ဆိုင်းသွားကြသည်။ ရန်ကုန်တက္ကသိုလ်ကို ၁၉၄၂ ခုနှစ် ဇန္နဝါရီလ ၁၅ ရက်နေ့မှစ၍ ရပ်စဲလိုက်ကာ အခြား ကျောင်းများကိုလည်း ပိတ်လိုက်ရ၏။ ဗြိတိသျှ အစိုးရသည်လည်း အိန္ဒိယပြည်သို့ ဆုတ်ခွာသွားလေသည်။

ဗြိတိသျှအစိုးရတို့ မြန်မာပြည်မှ ဆုတ်ခွာခြင်းမှာ ၁၉၄၂ ခုနှစ် မေလ လောက်တွင် ပြီးဆုံး၍၊ အောက်တိုဘာလတွင် ဂျပန် စစ်အစိုးရ၏ သဘောတူညီချက်အရ မြန်မာနိုင်ငံတော် အစိုးရက မူလတန်းကျောင်း ၁၀၀၀၊ အလယ်တန်းကျောင်း ၃၀၀ နှင့် အထက်တန်းကျောင်း ၁၀၀ ဖြင့် ရှေးဦးစွာ စတင်ဖွင့်လှစ်ခဲ့၏။ စစ်ကြိုခေတ်ကဲ့သို့ ကျောင်းအမျိုးအစား သုံးခု မခွဲတော့ဘဲ၊ သင်ရိုးတမျိုးတည်းကိုသာ သင်ကြားသော ကျောင်းတမျိုးတည်းသာ ရှိ၍၊ သင်ရိုးမဏ္ဍိုင်အဖြစ်လည်း မြန်မာဘာသာကိုသာ အသုံးပြုလေသည်။

ဦးစွာ၌ အင်္ဂလိပ် ဘာသာကို နိုင်ငံခြား ဘာသာအဖြစ် ကျောင်းများတွင် သင်ကြားသော်လည်း၊ ဂျပန်အစိုးရ၏ ကန့်ကွက်မှုကြောင့် နောက်ဆုံးတွင် နိုင်ငံတော် အစိုးရကျောင်းများ၌ ဂျပန်ဘာသာကိုရင်း၊ အင်္ဂလိပ် ဘာသာကိုရင်း မသင်ကြားရန် ဆုံးဖြတ်ကြလေသည်။ သင်ရိုးညွှန်းတမ်းသစ်ကိုလည်း ရေးဆွဲကြကာ၊ ကျောင်းသုံး စာအုပ်သစ်များကို ပညာရေးဌာနခွဲ၏ စာပေနှင့် စာကြည့်တိုက် ဌာနစိတ်က ထုတ်လုပ်လေသည်။

စစ်အတွင်း ဖွင့်လှစ်ခဲ့သော အခြား ကျောင်းများကား နိုင်ငံတော် ဆရာဖြစ်သင်ကျောင်း၊ နိုင်ငံတော် ဂီတ ပညာသင်ကျောင်းနှင့် နိုင်ငံတော် ပန်းချီပညာသင်ကျောင်းတို့ ဖြစ်ကြသည်။ နိုင်ငံတော် တက္ကသိုလ်ကိုလည်း တက္ကသိုလ်ကောလိပ် ကျောင်းအုပ်ဟောင်း ဆရာကြီး ဦးဖေမောင်တင်အား ကျောင်းအုပ်ကြီးအဖြစ် ခန့်ထားကာ ရန်ကုန်မြို့တွင် ဖွင့်လှစ်ခဲ့လေသည်။

စစ်အတွင်း နောက်ပိုင်း ကာလတွင်ကား မဟာမိတ် ဗုံးဒဏ်များ ပြင်းထန်လာပြီးလျှင်၊ စစ်တလင်း ဖြစ်လာပြန်သည်နှင့်အမျှ ကျောင်းများ ပျက်စီးရပြန်လေသည်။ ဆက်လက် ဖွင့်လှစ်နိုင်သေးသော ကျောင်းများတွင်လည်း ကျောင်းဆရာများသည် ကျပ်တည်းလာသော စီးပွားရေး အခြေအနေကြောင့် အလုပ်မှ နုတ်ထွက်သူ ပိုမိုများပြားလာသည်။ ပညာရေးကား မတည်ငြိမ်၊ ဖရိုဖရဲ ဖြစ်ရပြန်လေသည်။

သို့သော် စစ်အတွင်း ပြောင်းလဲမှုများကြောင့် မြန်မာ့ပညာရေးသည် အရှုံးချည်း မဟုတ်ဘဲ အမြတ် ရတနာသရွေ ရလိုက်ခဲ့သေး၏။ ယင်းတို့ကား အတန်းအစား ခွဲခြားမှုပပျောက်ကာ ကျောင်းတမျိုးတစားတည်း တည်ထောင်နိုင်ခဲ့ခြင်း၊ မြန်မာ ဘာသာကို သင်ကြားမှု မဏ္ဍိုင်အဖြစ်အသုံး ပြုခဲ့ခြင်း၊ မြန်မာ ဘာသာကို အမျိုးသားဘာသာအဖြစ် ပိုမို ဖွံ့ဖြိုးတိုးတက်အောင် ကြိုးပမ်းနိုင်ခဲ့ခြင်း၊ ဘဝနှင့် ပိုမိုနီးစပ်သော သင်ရိုးညွှန်းတမ်းကို စတင်ကြံဆတီထွင်နိုင်ခဲ့ခြင်းနှင့် ကျောင်းသုံးစာအုပ်ကောင်းများ ထုတ်လုပ်နိုင်ခဲ့ခြင်းတို့ပင် ဖြစ်လေသည်။

## ဆင်းမလား စီမံကိန်း

စစ်ကာလအတွင်း အိန္ဒိယပြည် ဆင်းမလားမြို့၌ အခြေစိုက်သော မြန်မာပြည်ဘုရင်ခံ ဆာ ရယ်ဂျီနယ်ဒေါ်မန်စမစ် ဦးဆောင်သည့် စစ်ပြေးအစိုးရသည် ၁၉၄၂ ခုနှစ်နောက်ပိုင်းတွင် ပညာရေးကို စတင်စဉ်းစားလာသည်ကို တွေ့ရှိရသည်။ ပညာရေး ပြန်လည်တည်ဆောက်မှု အရာရှိအဖြစ် တာဝန်ပေးခြင်းခံရသူ စစ်ကြိုခေတ် ပညာမင်းကြီး ဒု ဗိုလ်မှူးကြီး အယ်လက်ဇန္ဒာကင်းဗဲသည် သူကိုယ်တိုင် ဥက္ကဋ္ဌ ပြုလုပ်ခဲ့သောကော်မီတီ၏ ၁၉၃၆ ခုနှစ် အစီရင်ခံစာကို မှီငြမ်းပြုကာ "မြန်မာပြည် ပညာရေးစံနစ် ပြန်လည် တည်ဆောက်ရေး စာတမ်း" ကို ၁၉၄၂ ခုနှစ် အောက်တိုဘာလ ၃၀ ရက်နေ့တွင် တင်သွင်းလေသည်။ ထိုစာတမ်းတွင် စာပိုဒ်ပေါင်း ၆၉ ပိုဒ်ပါရှိသည့်အနက် တက္ကသိုလ်နှင့် စပ်ဆိုင်သော စာပိုဒ် ၁၂ ပိုဒ် ပါရှိလေသည်။

ကင်းဗဲ၏ စာတမ်းနှင့် ယင်း စာတမ်းအပေါ် ရေးသားထားသော ပုဂ္ဂိုလ် အသီးအသီး၏ မှတ်ချက်များကို စီစစ်ရန်

စစ်ပြေးအစိုးရသည် ဆာ ထွန်းအောင်ကျော် ဥက္ကဋ္ဌပြုလုပ်သော ပညာရေး ပြန်လည်တည်ဆောက်မှု ကော်မီတီ တရပ် ဖွဲ့စည်းခဲ့လေသည်။ ထိုကော်မီတီသည် ကင်းဗဲစာတမ်းပါ ထောက်ခံချက်များကို လက်ခံခဲ့၍၊ နောင်တွင် ဆင်းမလား ပညာရေး စီမံကိန်းဟု ခေါ်ဝေါ်ကြသော စစ်ပြေးအစိုးရ၏ ပညာရေးစီမံကိန်း ရေးဆွဲရာတွင် ထိုစာတမ်းသည် အခြေခံ ဖြစ်ခဲ့လေသည်။

ထိုစီမံကိန်း၏ အဓိက အရေးကြီးသော အချက်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ အစိုးရကဦးဆောင်သော အခမဲ့ မသင်မနေရ မူလတန်းပညာရေးစံနစ် တည်ထောင်ရန်။

၂။ စစ်ကြိုခေတ် ကျောင်းအမျိုးအစား သုံးခုကို တမျိုးတည်းအဖြစ် ပေါင်းပစ်ရန်။

၃။ အထောက်အပံ့ခံ ကျောင်းများစံနစ် ပယ်ဖျက်ရန်။

၄။ ကျောင်းများကို အောက်ပါအတိုင်း ခွဲခြားရန်။

(က) အသက် ခြောက်နှစ်မှ ၁၁ နှစ်ရွယ် ကလေးများ (ပဌမတန်းမှ ပဥ္စမတန်း အထိ) အတွက် မူလတန်းကျောင်း။

(ခ) အသက် ၁၁ နှစ်မှ ၁၅ နှစ်ရွယ်ကလေးများ (ဆဋ္ဌမတန်းမှ နဝမတန်း အထိ) အတွက် မူလတန်းလွန်ကျောင်း။

(ဂ) အသက် ၁၅ နှစ်မှ ၁၈ နှစ်ရွယ် ကလေးများ (ဒသမနှင့် ကေဒသမတန်း) အတွက် အကြိုတက္ကသိုလ်ကျောင်းများ ဖြစ်၏။

၅။ မူလတန်းနှင့် မူလတန်းလွန် ကျောင်းများတွင် ကျောင်းလခ လွှတ်ငြိမ်းခွင့် ပြုရန်။

၆။ မူလတန်းနှင့် မူလတန်းလွန် ကျောင်းများတွင် အင်္ဂလိပ်ဘာသာနှင့် မြန်မာဘာသာကို တန်းတူ တန်ဖိုးထားကာ နှစ်ဘာသာစလုံးကိုပင် ပဌမတန်းမှ စ၍ သင်ကြားရန်။

၇။ စာမေးပွဲကို အအောင် အရှုံးစံနစ်ဖြင့်မဟုတ်ဘဲ မှတ်တမ်းစံနစ် တီထွင် အစားထိုးရန်။

၈။ ပညာရေးကို ဗဟိုအာဏာပိုင်အဖွဲ့က ကြီးကြပ်ရန်။

ထိုစီမံကိန်းအရ တက္ကသိုလ်နှင့် စပ်လျဉ်း၍မူကား ကောလိပ်ကျောင်းများကို ပယ်ဖျက်ပြီးလျှင် မဟာဌာနများဖွဲ့ကာ ယင်းတို့ကို မဟာဌာနမှူးများက အုပ်ချုပ်သော ယူနစ်ထရီစံနစ်ဖြင့် တက္ကသိုလ်ကို ပြန်လည်တည်ဆောက်ရန်၊ ဥပစာတန်းကို ပယ်ဖျက်ပြီးသော် ပဌမ နှစ်ကို ကျောင်းနှင့်တွဲ၍ ဒုတိယနှစ်ကို ဒီဂရီသင်တန်းနှင့် တွဲထားရန်၊ တက္ကသိုလ်က မိမိကိုယ်ပိုင် တက္ကသိုလ်ဝင် စာမေးပွဲကျင်းပရန်၊ အဖွဲ့ဝင် ဦးရေမများလှသော တက္ကသိုလ်ကောင်စီနှင့် ပါမောက္ခအဖွဲ့တို့က အုပ်ချုပ်ရေးနှင့် ပညာရေးကို အသီးအသီး ကွပ်ကဲရန်၊



ယခုအခါ သိပ္ပံပညာကို အထူးအရေးပေးကာ ပညာသင်ကြားပေးလျက် ရှိသည်။

အချိန်ပြည့် ဒုတိယ အဓိပတိ ခန့်ရန် စသည်ဖြင့် ထောက်ခံခဲ့လေသည်။

အိန္ဒိယပြည် ဆင်းမလားမြို့တွင် ကျောင်းပညာရေးနှင့် စပ်လျဉ်း၍ နောက်ထပ်ကော်မီတီဖွဲ့စည်းမှု မရှိသော်လည်း၊ တက္ကသိုလ်ပညာရေးနှင့်စပ်လျဉ်း၍မူကား ထပ်မံအသေးစိတ် စဉ်းစားရန် ကြားဖြတ် တက္ကသိုလ်ကော်မီတီနှင့် ကြားဖြတ် တက္ကသိုလ် ယာယီကော်မီတီဟူ၍ ထပ်မံဖွဲ့စည်းခဲ့သေးသည်။

### ဗြိတိသျှ စစ်အုပ်ချုပ်ရေး ခေတ် ပညာရေးအခြေအနေ

ဗြိတိသျှစစ်တပ်များ မြန်မာပြည်ကို ပြန်လည် သိမ်းပိုက်ပြီးသည့်နောက် စစ်အုပ်ချုပ်ရေး ထူထောင်ခဲ့ရာ၊ ၁၉၄၅ ခုနှစ် ဇူလိုင်လတွင် စစ်အုပ်ချုပ်ရေးအဖွဲ့၏ ပညာရေးဌာနကို ဖွဲ့စည်းခဲ့လေသည်။ စစ်အုပ်ချုပ်ရေး အဖွဲ့မှ ဆင်းမလား စီမံကိန်းအတိုင်း မူလတန်းလွန်ကျောင်း ၄၂ ကျောင်းနှင့် မူလတန်းကျောင်း ၂၀၆၀ ဖွင့်လှစ်ခဲ့လေသည်။ ၁၉၄၅ ခုနှစ် အောက်တိုဘာလ ၁၆ ရက်နေ့တွင် စစ်အုပ်ချုပ်ရေးအဖွဲ့ ရုပ်သိမ်းသောအခါ၌ စစ်ပြေးဘုရင်ခံ ဆာ ရယ်ဂီနယ် ဒေါ်မန်စမစ်၏ အစိုးရအဖွဲ့က ဆက်ခံကာ ကျောင်းသစ်အနည်းငယ် ထပ်မံ ဖွင့်လှစ်ခဲ့လေသည်။ ဗြိတိသျှ စစ်အစိုးရသည် ကြားဖြတ်တက္ကသိုလ် မတည်ထောင် နိုင်သေးမီ အတွင်း၊ တက္ကသိုလ်ပညာ ဆည်းပူးနိုင်ရန် မဂိုလ်မ်း(ယခု ရွှေဘုံသာလမ်း) တွင် အရေးပေါ် တက္ကသိုလ်သင်တန်းတရပ်ကို ယခင်စစ်ကြိုခေတ် ဆရာဖြစ်သင်ကောလိပ်ကျောင်းအုပ်ဟောင်း ဦးဘအား အုပ်ချုပ်ရေးမှူးခန့်ကာ ဖွင့်လှစ်ခဲ့၏။

သို့သော် ကျောင်း အဆောက်အအုံနှင့် ဆရာများ လုံလောက်အောင် မပေးနိုင်မှုကြောင့် ဆင်းမလားပညာရေးစီမံကိန်းကို ပြည်သူတို့ကမကျေနပ်ကြချေ။ ကျောင်းများကို တမျိုးတစားတည်း ပူးပေါင်းလိုက်နိုင်သော်လည်း ကျောင်းဆရာ အနေဖြင့်မူ စစ်ကြိုခေတ်အတိုင်း အမျိုးမျိုး ကွဲပြားခြားနားကာ လစာမမျှမတ ဖြစ်နေသေးခြင်းကိုလည်း မကျေနပ်ကြချေ။

တက္ကသိုလ် ပညာရေးတွင်လည်း ဆင်းမလား စီမံကိန်းကို အမျိုးမျိုး ဝေဖန်လျက်ရှိကြပေရာ၊ အစိုးရသည် ၁၉၄၆ ခုနှစ် ဖေဖွာရီလတွင် ပညာရေးစံနစ် စုံစမ်းမှု ကော်မီတီကိုင်၊ ၁၉၄၆ ခုနှစ် ဩဂုတ်လတွင် တက္ကသိုလ်ဖွဲ့စည်းပုံ ကော်မီတီကို ၎င်း ခန့်အပ်ဖွဲ့စည်းခဲ့သည်။ ပညာရေးစံနစ် စုံစမ်းမှုကော်မီတီသည် ထိုနှစ် ဩဂုတ်လတွင်၎င်း၊ တက္ကသိုလ် ဖွဲ့စည်းပုံ ကော်မီတီသည် ၁၉၄၇ ခုနှစ် နှစ်ဦးတွင်၎င်း အသီးအသီး အစီရင်ခံစာ တင်သွင်းခဲ့ကြ၏။ သို့သော် ထိုအချိန်သည် လွတ်လပ်ရေးတိုက်ပွဲ၏ ဒီရေ အမြင့်ဆုံးကာလ ဖြစ်ပေရာ၊ ပညာရေးအစီရင်ခံစာများ၊ ထောက်ခံချက်များကို အလေးပေး စဉ်းစားနေချိန် မဟုတ်တော့ချေ။

### ပြည်ထောင်စုအစိုးရ၏ ပညာရေးဝါဒ

မြန်မာနိုင်ငံကို လွတ်လပ်သော အချုပ်အချာ အာဏာပိုင် ပြည်ထောင်စု နိုင်ငံအဖြစ် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် ကျေညာခဲ့၏။ ထိုနှစ်တွင်ပင် ပြည်ထောင်စုအစိုးရသည် အရပ်ရပ် ပညာရေးအစီရင်ခံစာများကို လေ့လာပြီးနောက် အစိုးရ၏ပညာရေးဝါဒကို ကျေညာခဲ့လေသည်။ သို့သော် ပြည်တွင်း ဆူပူသောင်းကျန်းမှုသည်လည်း လွတ်လပ်ရေးနှင့် အတူ ထက်ချပ် မကွာ ပေါ်ပေါက်လာခဲ့ရာ ၁၉၅၀ ပြည့်နှစ် ဇွန်လ ၁ ရက်နေ့ကျမှသာ လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ပညာရေး ဝါဒကို စတင် အကောင်အထည် ဖော်နိုင်ခဲ့လေသည်။

ထိုပညာရေး ဝါဒ၏ အဓိက အချက်များမှာ —

(၁) ကြားဖြတ်သဘော စမ်းသပ်သည့်အနေဖြင့် ပညာရေးကို ဗဟိုမှ ကွပ်ကဲအုပ်ချုပ်ရေး။

(၂) အထောက်အပံ့ခံစံနစ် ပယ်ဖျက်ကာ၊ ယင်း အစား နိုင်ငံတော် အစိုးရကျောင်းများသာ ရှိသော စံနစ် တည်ထောင်ရေး။

(၃) မသင် မနေရ မူလတန်း ပညာရေးကို စမ်းသပ် တီထွင်ရေး။

(၄) ကျောင်းအဆင့်ခွဲရေးကို ပြန်ပြင်ဆင်ရေး။

(၅) အသက်မွေး ဝမ်းကျောင်းနှင့် စက်မှု လက်မှု ပညာ သင်ကြားနိုင်ခွင့် တိုးမြှင့်ရေး။

(၆) မြန်မာ ဘာသာကို သင်ကြားမှု မဏ္ဍိုင် အဖြစ် သတ်မှတ်ရေးတို့ ဖြစ်ကြ၏။

ထိုဝါဒအရ ပြည်ထောင်စု အစိုးရသည် ရန်ကုန်မြို့တော် မျူနီစီပယ် အဖွဲ့က ဖွင့်လှစ်ထားသော မူလတန်းကျောင်းများမှအပ ကျန် ကျောင်းများကို ဗဟို ပညာရေးဌာနက ချုပ်ကိုင် စေခဲ့သည်။ အထောက် အပံ့ခံ ကျောင်းများ မရှိတော့သောကြောင့် ကျောင်းများ တိုးချဲ့ ဖွင့်လှစ်ခဲ့သည်။ ရန်ကုန်မြို့ ဆင်ခြေဖုံးတပိုက်တွင် မသင်မနေရပညာရေးစံနစ်ကို စမ်းသပ်တီထွင်ခဲ့သည်။ ကျောင်းများကိုလည်း သူငယ်တန်းမှ စတုတ္ထတန်းအထိ မူလတန်းကျောင်း၊ သူငယ်တန်းမှ သတ္တမတန်း အထိ အလယ်တန်းကျောင်း၊ သူငယ်တန်းမှ နဝမတန်းအထိ အထက်တန်းကျောင်းဟူ၍ ပြင်ဆင် သတ်မှတ်လိုက်၏။ အင်္ဂလိပ်ဘာသာကို ပဉ္စမတန်းမှ စ၍ မသင်မနေရ နိုင်ငံခြားဘာသာအဖြစ် သတ်မှတ်ကာ၊ ကျောင်းသုံးစာအုပ်များ ဘာသာပြန်ဆို ထုတ်လုပ်နိုင်ရေး အတွက်လည်း စီစဉ်ခဲ့လေသည်။

### ပညာရေးမစ်ရှင် နှင့် ကော်မီတီများ

၁၉၅၀ ပြည့်နှစ် နောက်ပိုင်းတွင် ပညာရေးသည် ပိုမို အသက်ဝင်လာလေသည်။ ယူနက်စကို အဖွဲ့ကလည်း ပညာ



အမျိုးသမီး အင်ဂျင်နီယာကျောင်းသူများ

ရေးပါရဂူသုံးဦး ပါဝင်သော အဖွဲ့တရပ်ကို မြန်မာနိုင်ငံ၏ အခြေခံနှင့် သက်ကြီးပညာရေး၊ မသင်မနေရ ပညာရေး၊ မူလတန်းလွန်ကျောင်း ပညာရေး၊ ကျောင်းဆရာများ ထုတ်လုပ်ရေး၊ အထက်ပါ ကိစ္စလေးရပ်နှင့် သက်ဆိုင်သည့် အုပ်ချုပ်ရေးနှင့် ဘဏ္ဍာရေး ပြဿနာများကို လေ့လာရန် စေလွှတ်ခဲ့သည်။ ယူနက်စကို မစ်ရှင်အဖွဲ့သည် ၁၉၅၀ ပြည့်နှစ် ဒီဇင်ဘာလတွင် ဆိုက်ရောက်လာကာ အဖွဲ့အစီရင်ခံစာကို ၁၉၅၁ ခုနှစ် မေလတွင် တင်သွင်းခဲ့သည်။

၁၉၅၁ ခုနှစ် နိုဝင်ဘာလတွင် ပြည်ထောင်စု အစိုးရသည် ပညာမင်းကြီးဦးကောင်းခေါင်းဆောင်လျက် ပုဂ္ဂိုလ်ခြောက်ဦး ပါဝင်သည့် ပညာရေးလေ့လာမှု အဖွဲ့ကို ခြောက်လကြာမျှ ယူနိုက်တက်ကင်းဒမ်း၊ အမေရိကန်ပြည်ထောင်စု၊ မက္ကဆီကို၊ ကနေဒါနှင့် ပါကစ္စတန်နိုင်ငံတို့သို့ စေလွှတ်ခဲ့၏။ ထိုအဖွဲ့သည် မြန်မာနိုင်ငံသို့ ၁၉၅၂ ခုနှစ် မေလတွင် ပြန်လည်ဆိုက်ရောက်လေသည်။

လေ့လာမှု အဖွဲ့ ပြန်လည် ဆိုက်ရောက်သောအခါ ပြည်ထောင်စုအစိုးရသည် ယင်းအဖွဲ့ဝင် ပုဂ္ဂိုလ် ခြောက်ဦး အပါအဝင်ပုဂ္ဂိုလ် ၂၁ ဦးပါသော ပညာရေး ပြန်လည်ဖွဲ့စည်းမှု ကော်မီတီကို ပြည်တော်သာ ပညာရေးစီမံကိန်း ရေးဆွဲရန် တာဝန်ပေးအပ်ခဲ့လေသည်။ ဤသို့ရေးဆွဲရာ၌နိုင်ငံ၏အချုပ်အချာအာဏာနှင့် ကိုက်ညီ၍၊ မြန်မာ့သမိုင်းနှင့် ယဉ်ကျေးမှုကို ထင်ဟပ်ကာ၊ ပြည်ပနိုင်ငံများ၏ ခေတ်သစ်ပညာရေး တိုးတက်မှုများကို ထည့်သွင်း စဉ်းစားသည့် အပြင်၊ နိုင်ငံ၏ လိုအင်ကိုလည်း ဖြည့်စွမ်းနိုင်သည့် ပညာရေး စီမံကိန်း ဖြစ်စေရန် ညွှန်ကြားခဲ့၏။

## ပြည်တော်သာ ဘဝသစ် ဖန်တီးမှု ပညာရေးစီမံကိန်း

အထက်ပါ ညွှန်ကြားချက်များ အရ ရေးဆွဲအပ်သော ပြည်တော်သာ ဘဝသစ်ဖန်တီးမှု ပညာရေး စီမံကိန်းကို ၁၉၅၂ ခုနှစ် ဩဂုတ်လတွင် ပြည်တော်သာ ညီလာခံ၌ အတည်ပြုခဲ့လေသည်။ (ပြည်တော်သာ ညီလာခံ။ ပြည်တော်သာ စီမံကိန်း — လည်းရှု။) ဤစီမံကိန်း၏ အခြေခံမူများကား အောက်ပါအတိုင်း ဖြစ်သည်။

(၁) ပြည်ထောင်စုသား မှန်သမျှ အနည်းဆုံး အရေး၊ အဖတ် နားလည်သူများ ဖြစ်လာစေရန်။

(၂) ဘဝသစ် ဖန်တီးရေးအတွက် လိုနေသော စက်မှုလက်မှု လုပ်ငန်းများကို ကျွမ်းကျင်စွာ ဆောင်ရွက်ပေးနိုင်မည့် တိုင်းရင်းသားများ လုံလုံ လောက်လောက် ပေါ်ပေါက်လာစေရန်။

(၃) ပြည်ထောင်စု တာဝန် အသီးအသီးကို ကျွမ်းကျင်စွာ ထမ်းဆောင်နိုင်မည့် အရည်အချင်း ပြည့်ဝသူများ လုံလောက်စွာ ပေါ်လာစေရန်။

(၄) ပြည်ထောင်စုထဲတွင် ဖိုးသုညများ နည်းပါး သွားပြီးလျှင်၊ ဗလငါးတန်နှင့် ပြည့်သော ပြည်ထောင်စုသားများ တိုးတက် ပေါ်များလာစေရန်။

(၅) ပြည်ထောင်စု အတွင်း၌ ဒီမိုကရေစီ ဝါဒကြီး တည်တံ့ ခိုင်မြဲစေရန်။

ဤအခြေခံမူများအရ ရေးဆွဲအပ်သော စီမံကိန်းကို ပြည်ထောင်စု အစိုးရသည် အောက်ပါ လုပ်ငန်းများဖြင့် အကောင်အထည် ဖော်ခဲ့လေသည်။ ယင်းတို့မှာ ပညာရေး အယူအဆသစ်နှင့် လျော်ညီသော သင်ရိုးညွှန်းတမ်းများ ပြုပြင် ရေးဆွဲခြင်း၊ သင်ရိုး ညွှန်းတမ်းသစ်နှင့် ကိုက်ညီသော ကျောင်းသုံးစာအုပ်များ ပြုစု ထုတ်လုပ်ခြင်း၊ မူလတန်း၊ အလယ်တန်းနှင့်အထက်တန်းကျောင်းများ တိုးချဲ့ဖွင့်လှစ်ခြင်း၊ ဆရာဖြစ်သင်ကျောင်းများ တိုးချဲ့ဖွင့်လှစ်ခြင်း၊ အရေးပေါ်ကာလတို ဆရာဖြစ်သင်တန်းများ ဖွင့်လှစ်ခြင်း၊ သင်ရိုးတွင် သက်မွေးဝမ်းကျောင်းပညာများ ထည့်သွင်းလာခြင်း၊ စိုက်ပျိုးရေးနှင့် စက်မှုလက်မှု ပညာသင်ကျောင်းများ တိုးချဲ့ဖွင့်လှစ်ခြင်းတို့ ဖြစ်လေသည်။

လုပ်ငန်းများ ပိုမိုအောင်မြင်စေရန်လည်း ပညာမင်းကြီးဌာနအပြင်၊ဆရာအတတ်သင်ညွှန်ကြားရေးဝန်နှင့် ကျောင်းသုံးစာအုပ် ပြုစုထုတ်လုပ်ရေး ညွှန်ကြားရေးဝန်ဟူ၍ ဌာနသစ်နှစ်ဌာနကိုလည်း ၁၉၅၂ ခုနှစ် နောက်ပိုင်းမှစ၍ တီထွင်ခန့်အပ်ခဲ့သည်။ စက်မှုပညာ အတတ်သင် ညွှန်ကြားရေးဝန်ဌာနကိုလည်း ပညာရေးဝန်ကြီးဌာန လက်အောက်သို့ လွှဲပြောင်း ခဲ့လေသည်။ ကျောင်းသုံး စာအုပ် ငှားရမ်းရေး အစီအစဉ်ကိုလည်း တီထွင်ခဲ့လေသည်။ ၁၉၅၄ ခုနှစ် ဇွန်လမှစ၍ တိုင်းအလိုက် ခန့်အပ်ထားသော ပညာဝန်များအား ကြီးကြပ်ရေး၊ ကျောင်းစစ်ဆေးရေး လုပ်ငန်းများ လုပ်နိုင်စေခြင်းငှာ၊ အုပ်ချုပ်ရေးနှင့် ဘဏ္ဍာရေး တာဝန်များကို အသစ်တီထွင် ခန့်အပ်သော ခရိုင်ပညာဝန် ၃၄ ဦးအား ခွဲဝေပေးစေခဲ့လေသည်။

## ဒုတိယ ပညာရေး လေးနှစ်စီမံကိန်း

ပြည်တော်သာ စီမံကိန်းသည် ရှစ်နှစ် စီမံကိန်း ဖြစ်သော်လည်း ၁၉၅၆ ခုနှစ်တွင် ပြောင်းလဲလာသော စီးပွားရေး အခြေအနေကြောင့် ပြန်လည်စိစစ်ခဲ့ရလေသည်။ထို့ကြောင့် ၁၉၅၂ ခုနှစ်မှ ၁၉၅၆ ခုနှစ်အထိ ဆောင်ရွက်ခဲ့သော ပြည်တော်သာ ပညာရေးလုပ်ငန်းများကို ပဌမ ပညာရေး လေးနှစ်စီမံကိန်းလုပ်ငန်းများ ဟူ၍ သတ်မှတ်ခဲ့လေသည်။

၁၉၅၆ ခုနှစ်တွင် ကုန်လွန်ခဲ့သော လေးနှစ်တာ လုပ်ငန်းများကို စိစစ်ပြီးနောက် ၁၉၅၆–၆၀ အတွက် ဒုတိယပညာရေး လေးနှစ်စီမံကိန်းကို ရေးဆွဲခဲ့လေသည်။ ဒုတိယလေးနှစ် စီမံကိန်း၏ အဓိကအချက်များကား အောက်ပါတို့ပင် ဖြစ်သည်။

(၁) ပညာရေး စံနစ်တရပ် ထိရောက် အောင်မြင်ရေးသည် အရည်အချင်းပြည့် ဆရာများ အလုံ အလောက် ရရှိရေးပေါ် တွင် မူတည်သည်ကို သိနားလည်သောကြောင့် အရည်အချင်းပြည့် ဆရာများ အလုံအလောက် မွေးထုတ်ရေးကို ဦးတည် ကြိုးစားရန်။

(၂) သင်ရိုးညွှန်းတမ်းကို နိုင်ငံတော် ဝါဒနှင့် ပြောင်းလဲနေသော နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး အခြေအနေများနှင့် လျော်ညီအောင် ပြုပြင်ရန်။

(၃) ကျောင်းသား သူငယ်၏ အသက်အရွယ်၊ အရည်အသွေး၊ သင်ရိုးညွှန်းတမ်းတို့နှင့် ကိုက်ညီသော ကျောင်းသုံးစာအုပ်များ ထုတ်လုပ်ရန်။

(၄) ကျောင်းစည်းကမ်း ပိုမို ကောင်းမွန်လာရန်နှင့် ဆရာများ၏ ဂုဏ်ကျက်သရေ ပိုမို မြင့်မား လာစေရန် နည်းလမ်းများ ရှာဖွေရန်။

(၅) ဘဏ္ဍာရေး ခွင့်ပြုသလောက် ကျောင်းသစ်များ ဆောက်လုပ်၍ ကျောင်းသုံး ပစ္စည်းများ ထောက်ပံ့ရန်။

(၆) ပညာသင်ကြားမှု အခွင့် အရေးများကို ပိုမို ပျံ့နှံ့စွာ ခံစားနိုင်စေရန်အတွက် မူ ချမှတ်ရန်။

(၇) နိုင်ငံ၏ စီးပွားရေး အဆောက်အအုံနှင့် ပိုမို ကိုက်ညီလာစေရန် အတွက် ရှိရင်းစွဲ တက္ကသိုလ် တလမ်းသွား စံနစ်မှ စက်မှုလက်မှု၊ စိုက်ပျိုးရေးနှင့် သက်မွေး ဝမ်းကျောင်း ပညာရေးများ ပိုမို ထိရောက်စွာ ဖြာထွက်နိုင်မည့် နည်းလမ်းများကို ဆောင်ရွက်ရန်။

## စစ်ပြီးခေတ် တက္ကသိုလ်၏ တိုးတက်ပြောင်းလဲမှုများ

စစ်ပြီးသောအခါ ရန်ကုန် တက္ကသိုလ်ကို ကြားဖြတ်တက္ကသိုလ်အဖြစ် ၁၉၄၆ ခုနှစ်တွင် ပြန်လည် တည်ထောင်ဖွင့်လှစ်ခဲ့ လေသည်။ အုပ်ချုပ်ရေး အနေဖြင့်ကား ကြားဖြတ် တက္ကသိုလ်သည် ယခင်စစ်ကြိုခေတ်ကဲ့သို့ ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရသော သီးခြားအဖွဲ့အစည်း မဟုတ်တော့ဘဲ၊ ပညာရေးဝန်ကြီးဌာန လက်အောက် တိုက်ရိုက်အုပ်ချုပ်သော တက္ကသိုလ် ဖြစ်လာလေသည်။ သို့သော် သီးခြားလွတ်လပ်ပိုင်ခွင့် ရနိုင်သရွေ့ ရစေရန် တက္ကသိုလ် ဂေါပကအဖွဲ့ဟူ၍ အစိုးရက ၁၉၄၅ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့တွင် သီးခြားဖွဲ့ပေးခဲ့၏။ ထိုဂေါပကအဖွဲ့ကို ၁၉၄၆ ခုနှစ် စက်တင်ဘာလ ၁၂ ရက်နေ့တွင် တက္ကသိုလ် ကောင်စီဟူ၍ ပြောင်းလဲဖွဲ့စည်းလိုက်သည်။ တချိန်တည်း၌ပင် ပညာရေးကိုကွပ်ကဲရန် ပါမောက္ခအဖွဲ့ တရပ်လည်း ဖွဲ့စည်းခဲ့လေသည်။ တက္ကသိုလ်၏ ကြားဖြတ်ကာလကို ၁၉၄၇ ခုနှစ်အထိသတ်မှတ်ခဲ့လေသည်။

စစ်ပြီးခေတ်တက္ကသိုလ်သည် စစ်ကြိုခေတ်ကဲ့သို့ ကောလိပ်များဖြင့် ဖွဲ့စည်းထားသော ဖယ်ဒရယ်စံနစ် မဟုတ်တော့ဘဲ၊ မဟာဌာနများ ခွဲထားသော ယူနစ်ထရီစံနစ် ဖြစ်လေသည်။ ထိုစံနစ်အရ တာဝန်ခံအုပ်ချုပ်သူမှာ တက္ကသိုလ် အုပ်ချုပ်ရေး အရာရှိဖြစ်ပြီးလျှင် ထိုရာထူးကို ၁၉၅၁ ခုနှစ်မှ စ၍ ပါမောက္ခချုပ်ဟု ပြောင်းလဲ ခေါ်တွင်ခဲ့၏။ တက္ကသိုလ်ကောင်စီ၌လည်း စစ်မဖြစ်မီကထက် အဖွဲ့ဝင်ဦးရေ လျော့နည်းကာ ယင်းသည်သာလျှင် အဓိက အုပ်ချုပ်ရေးအဖွဲ့ ဖြစ်လာ၏။ စစ်ကြိုခေတ် ကောင်စီ အမှုဆောင်ကော်မီတီနှင့် ပါမောက္ခအဖွဲ့ အမြဲတမ်းကော်မီတီလည်း မရှိတော့ချေ။ စစ်ပြီးခေတ် ပဌမ နှစ်တွင် ဖွင့်လှစ် ခဲ့သော မဟာဌာနများကား ဆေးပညာ မဟာဌာန၊ အင်ဂျင်နီယာမဟာဌာန၊ ပညာရေး မဟာဌာန၊ ဝိဇ္ဇာ မဟာဌာန၊ သိပ္ပံမဟာဌာနနှင့် ဥပဒေ မဟာဌာနတို့ ဖြစ်ကြသည်။

၁၉၄၉ ခုနှစ် တက္ကသိုလ် ပြင်ဆင်ချက် အက်ဥပဒေအရ ရန်ကုန်တက္ကသိုလ် အက်ဥပဒေဟောင်းကို ပြင်ဆင်မှုများဖြင့် ပြန်လည်အသက်သွင်းပေးခဲ့ရာ၊ ထိုနှစ်မှ စ၍ ရန်ကုန်တက္ကသိုလ်သည် သီးခြား ကိုယ်ပိုင်အုပ်ချုပ်ရေးရသော အဖွဲ့ အစည်း ဖြစ်လာပြန်လေသည်။ ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို ၁၉၅၁ ခုနှစ်၊ ၁၉၅၃ ခုနှစ်နှင့် ၁၉၅၉ ခုနှစ်တို့တွင် ထပ်မံ ပြင်ဆင်ခဲ့သေးသည်။

ပြောင်းလဲလာသော အခြေအနေများကြောင့် စစ်ပြီးခေတ်တလျှောက်လုံးတွင် ရန်ကုန်တက္ကသိုလ်သည် အထူးပင် တိုးတက် ကြီးထွားလာခဲ့လေသည်။ ၁၉၄၆–၄၇ ခုနှစ်တွင် ကျောင်းသား ဦးရေ ၂,၀၀၃ ယောက်သာ ရှိခဲ့သော်လည်း ၁၉၆၁–၆၂ ခုနှစ်တွင် ၁၄,၇၉၉ ယောက်အထိတိုးတက်လာခဲ့၏။ ရန်ကုန်မြို့တွင်သာမကဘဲ ၁၉၅၃ ခုနှစ်တွင် မော်လမြိုင်မြို့၌၎င်း၊ ၁၉၅၄ ခုနှစ်တွင် ကျောက်ဖြူမြို့၌၎င်း၊ ၁၉၅၄ ခုနှစ်တွင် ရန်ကင်းမြို့သစ်နှင့် ကြည့်မြင်တိုင် ထီးတန်းရပ်ကွက်တို့၌၎င်း၊ ၁၉၅၅ ခုနှစ်တွင် မကွေးမြို့၌၎င်း၊ ၁၉၅၈ ခုနှစ်တွင် ပုသိမ်မြို့၌၎င်း ဥပစာကောလိပ်များ အသစ်ဖွင့်လှစ်ခဲ့လေသည်။ ၁၉၂၅ ခုနှစ်က စတင်ဖွင့်လှစ်ခဲ့သော မန္တလေးဥပစာကောလိပ်ကို ၁၉၄၇ ခုနှစ်တွင် ဥပစာကောလိပ်အဖြစ် ပြန်လည်ဖွင့်လှစ်ခဲ့ရာ၊ ၁၉၄၈ ခုနှစ်တွင် ဒီဂရီ အဆင့်အထိ သင်ကြားနိုင်သော တက္ကသိုလ်ကောလိပ်ဖြစ်လာကာ ၁၉၅၈ ခုနှစ်တွင် သီးခြားတက္ကသိုလ် ဖြစ်လာလေသည်။ မကွေးဥပစာကောလိပ်သည် မန္တလေး သီးခြားတက္ကသိုလ် လက်အောက်ခံ ဖြစ်လာပြီးလျှင်၊ ၁၉၆၀ ပြည့်နှစ်တွင် မန္တလေးတက္ကသိုလ် လက်အောက်တွင် တောင်ကြီး ဥပစာ ကောလိပ် ထပ်မံ ဖွင့်လှစ်ခဲ့လေသည်။ (မန္တလေးတက္ကသိုလ် — ရှု။)

စစ်ပြီးခေတ်တွင် နိုင်ငံရေးမျက်စိ ပွင့်လာမှုကြောင့်သာမက လွတ်လပ်ရေးကြောင့် အခွင့်အလမ်းများ တိုးပွားလာရာ



လူရည်ချွန်ကျောင်းသားတို့သည် လယ်သမားဘဝကို လက်တွေ့ လေ့လာခွင့် ရကြပေပြီ။

ရန်ကုန်တက္ကသိုလ်၌လည်း ယခင်က ဌာနခွဲများ၊ ဘာသာစိတ်များသည် ယခုအခါ သီးခြားဌာနများ၊ သီးခြား ဘာသာရပ်များ ဖြစ်လာလေသည်။ စစ်ပြီး ခေတ်တွင် ပဌမဆုံး ခွဲခြားလိုက်သော ဌာနမှာ ပထဝီဝင် နှင့် ဘူမိဗေဒဌာန ဖြစ်၏။ ထို့နောက် ဇီဝဗေဒဌာနမှ ရုက္ခဗေဒ နှင့် ပါဏဗေဒ ဌာနများ၊ ရာဇဝင်ဌာနမှ အနောက်တိုင်း ရာဇဝင်နှင့် မြန်မာရာဇဝင် ဌာနများ၊ သဘာဝတ္ထ ဗေဒဌာနမှ စိတ္တဗေဒ ဌာနသစ်၊ ဘောဂဗေဒ ဌာနမှ ဝါဏိဇ္ဇဗေဒနှင့် စာရင်းအင်းစုပညာ ဌာနသစ်များ ပေါ်ပေါက်လာလေသည်။

ဌာန သီးသန့်မရှိသော်လည်း ဂျာမန် ဘာသာနှင့် ပြင်သစ်ဘာသာကို ခေတ်သစ် ဥရောပဘာသာ စာပေဌာနကငင်း၊ ဗုဒ္ဓကျမ်းစာနှင့် အဘိဓမ္မာကို ပါဠိဘာသာဌာနကငင်း၊ စိုက်ပျိုးရေး ဘာသာကို ရုက္ခဗေဒဌာနကငင်း၊ လူမှုရေးရာပညာကို မနုဿဗေဒဌာနကငင်း အသီးအသီး သင်ကြားကြ၏။ ဝါဏိဇ္ဇဗေဒဌာနအနေဖြင့်မူ ဝါဏိဇ္ဇဗေဒကို အထွေထွေဘွဲ့၊ အုပ်ချုပ်ရေးဘွဲ့၊ စာရင်းကိုင်ဘွဲ့များဟူ၍ သုံးမျိုး ခွဲခြား သင်ကြားသည့် အပြင် ဘွဲ့လွန်သင်တန်း အဖြစ်လည်း အုပ်ချုပ်ရေးဒီပလိုမာ သင်တန်းကို သီးခြား ဖွင့်လှစ်ခဲ့လေသည်။

အင်ဂျင်နီယာ မဟာဌာနတွင်လည်း မြို့ပြ အင်ဂျင်နီယာအပြင် စက်မှုအင်ဂျင်နီယာ၊ လျှပ်စစ် အင်ဂျင်နီယာ၊ ဓာတုအင်ဂျင်နီယာ၊ သတ္တုတွင်းတူး အင်ဂျင်နီယာ၊ သတ္တုကျိုအင်ဂျင်နီယာ၊ ရက်ကန်း အင်ဂျင်နီယာ၊ ဗိသုကာ ပညာစသည်ဖြင့် သင်တန်းသစ်များ တိုးတက်လာ၏။ ပညာရေးမဟာဌာနတွင်လည်း ဝိဇ္ဇာ(ပညာရေး)ဒီဂရီ(ဘီအေ အီးဒီ) သင်တန်းများ အသစ်တီထွင် ဖွင့်လှစ်ခဲ့၏။

မန္တလေး တက္ကသိုလ်တွင်မူ ဝိဇ္ဇာ၊ သိပ္ပံ၊ ဆေးပညာနှင့် စိုက်ပျိုးရေး မဟာဌာနများသာ ရှိကာ အင်ဂျင်နီယာ၊ ပညာရေးနှင့် ဥပဒေပညာ သင်တန်းများ မရှိချေ။

သင်တန်းများနှင့် စပ်လျဉ်း၍ ၁၉၄၁ ခုနှစ်တွင် ဒီဂရီလေးနှစ်သင်တန်းကို သုံးနှစ်သင်တန်းအဖြစ် ပြောင်းလဲကာ၊ ဥပစာတန်း ပဌမနှစ် သင်တန်းကို တန်းမြင့်ကျောင်းများနှင့် ပူးတွဲထားရန် ဆုံးဖြတ်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လိုက်သောကြောင့် ဤဆုံးဖြတ်ချက် အကောင်အထည် မဖော်ဖြစ်တော့ချေ။ စစ်အတွင်း အိန္ဒိယပြည် ဆင်းမလားမြို့တွင် ရေးဆွဲခဲ့သော ကင်းဗဲ ပညာရေးစီမံကိန်းတွင် ဤယူဆချက်ကို ပြန်လည်လက်ခံထား၍ ၁၀ တန်းနှင့် ၁၁ တန်းပါသော အကြိုတက္ကသိုလ်ကျောင်းများ ဖွင့်လှစ်ရန်နှင့် တက္ကသိုလ်တွင် ဒီဂရီ သုံးနှစ်သင်တန်းသာ ထားရှိရန် လျာထားခဲ့ကြသေးသည်။

၁၉၄၅ ခုနှစ်တွင် ဗြိတိသျှ စစ်အုပ်ချုပ်ရေး တည်ထောင်သောအခါ ဤ စီမံကိန်းအတိုင်း အကြို တက္ကသိုလ်ကျောင်းများကို ဖွင့်လှစ်ခဲ့လေသည်။ သို့သော် အကြိုတက္ကသိုလ်ကျောင်းများကို တိုင်းပြည်က လက်မခံသည့် အပြင် တက္ကသိုလ်ကလည်း ယခင်ကအတိုင်း လေးနှစ်သင်တန်းသာ ဆက်လက်ထားလိုသောကြောင့် ၁၉၄၆ ခုနှစ်တွင် အကြိုတက္ကသိုလ် ကျောင်းများကို ဖျက်သိမ်းလိုက်၏။ တက္ကသိုလ် ဒီဂရီသင်တန်းများသည်လည်း ယခင်ကအတိုင်းလေးနှစ်သင်တန်းများ ပြန်ဖြစ်သွားလေသည်။

### ပညာရေး စုံစမ်းမှု ကော်မီတီ

စစ်ပြီးခေတ်တွင် ပညာရေးသည် စစ်ကြိုခေတ်ထက် အဆပေါင်း များစွာ တိုးတက်လာခဲ့သော်လည်း ပညာရေးမကျေနပ်မှုများသည် သေးသိမ်သွားသည်ဟု မရှိခဲ့ချေ။ ပညာရေးလောကသည်လည်း တည်ငြိမ်မှု မရှိခဲ့ချေ။ အကြောင်းကြောင်းကြောင့် တိုးတက် များပြားလာသော ကျောင်းသားဦးရေအတွက် ကျောင်းများ အလုံအလောက် ဖွင့်မပေးနိုင်ခဲ့ခြင်း၊ ဖွင့်ပြီးကျောင်းများအတွက်လည်း ဘဏ္ဍာရေး အခက်အခဲကြောင့် ကျောင်း အဆောက်အအုံများ အလုံအလောက် ဆောက်မပေးနိုင်ခြင်း၊ ဖွင့်ပြီးကျောင်းများ အတွက် ဆရာအများအပြား လိုလေရာ အရည်အချင်းမပြည့်သော ဆရာများ အများအပြား ခန့်ခဲ့ရခြင်း၊ အရည်အချင်း မပြည့်ဝသော ဆရာများနှင့် ကျောင်းသား ဆရာ အချိုး မမျှတမှုကြောင့် ပညာရေးအဆင့်အတန်းများ နိမ့်ကျလာခြင်း၊ ပညာရေးလောကတွင်းသို့ နိုင်ငံရေး ဝင်ရောက်မှုနှင့် ဆရာများ၏ ဦးဆောင်မှု လျော့လာသည်နှင့်အမျှ ကျောင်းသား စည်းကမ်းသေဝပ်မှု သိမ်ဖျင်းလာခြင်း၊ လွတ်လပ်ရေးခေတ်ဦးပိုင်းတွင် လုပ်ငန်းခွင်တာ များပြားသောကြောင့် ပြဿနာမပေါ်ခဲ့သော်လည်း နောက်ပိုင်းတွင် ပညာတတ် အလုပ်လက်မဲ့ပြဿနာ ကြီးထွားလာခြင်း စသည်ဖြင့် ပညာရေး ပြဿနာများသည် တမျိုးပြီး တမျိုးသာ ပေါ်ပေါက်နေခဲ့လေသည်။

ထို့ကြောင့် နိုင်ငံတော် ဝန်ကြီးချုပ် ဦးနုသည် ၁၉၅၇ ခုနှစ်တွင် ရှိရင်းစွဲ လေးနှစ်စီမံကိန်းပညာရေးကော်မီတီကို တိုးချဲ့ကာ အဖွဲ့ဝင် ၂၃ ဦး ပါဝင်၍ မိမိကိုယ်တိုင် ဉက္ကဋ္ဌ ပြုလုပ်သော ပညာရေးစုံစမ်းမှုကော်မီတီကို ဖွဲ့စည်းခဲ့လေသည်။ ထိုကော်မီတီသည် ကိုးနိုင်ငံမှ ပညာရေးပါရဂူ ၁၃ ဦးကို ဖိတ်ခေါ်၍ အကြံပေးစေခဲ့ကာ၊ နိုင်ငံတွင်းသို့လည်း အဖွဲ့ သုံးဖွဲ့ခွဲ၍ ဆန္ဒယူစေခဲ့၏။

စုံစမ်းမှု ကော်မီတီမှ တင်သွင်းခဲ့သော ကြားဖြတ် အစီရင်ခံစာများအရ မြန်မာ ဘာသာကို တက္ကသိုလ် အတွက် သင်ကြားမှုမဏ္ဍိုင်အဖြစ် သတ်မှတ်ခြင်း၊ တန်းမြင့်ကျောင်းထွက်နှင့် တက္ကသိုလ်ဝင် စာမေးပွဲများကို ခွဲခြား စစ်ဆေးခြင်း၊ တက္ကသိုလ် နောက်ဆက်တွဲ စာမေးပွဲများ ပယ်ဖျက်ခြင်း၊ ကျောင်းလခ ကောက်ခံရေး၊ ဆရာများအား အရည်



ကြံ့ခိုင်မှုဖြင့် ပြည့်ဝစေရန် ကျောင်းသားများကို တောင်တက်အတတ် လက်တွေ့သင်ပြပေးလျက်ရှိသည်။

အချင်း ထောက်ပံ့ကြေး ပေးရေး စသော အချက်များကို ထောက်ခံ ခဲ့လေသည်။ သို့သော်လည်း နိုင်ငံရေး အပြောင်းအလဲများကြောင့် အပြီးသတ်အစီရင်ခံစာကိုကား မတင်သွင်းဖြစ်ခဲ့ချေ။

### မြန်မာ့ဆိုရှယ်လစ် လမ်းစဉ် ပညာရေးဝါဒ

နိုင်ငံရေး အပြောင်းအလဲ အမျိုးမျိုး ဖြစ်ခဲ့ပြီးနောက် ၁၉၆၀ ပြည့်နှစ်တွင် ဦးနုခေါင်းဆောင်သော ပြည်ထောင်စုပါတီ အစိုးရ တက်လာသောအခါ လုပ်ငန်းစဉ် ၁၂ မျိုးပါသော ၁၉၆၁–၆၅ ခုနှစ်အတွက် တတိယပညာရေး လေးနှစ်စီမံကိန်းကို ရေးဆွဲပြန်လေသည်။ သို့သော် ထိုစီမံကိန်း စတင်အကောင်အထည် ဖော်စတွင်ပင် အစိုးရ အပြောင်းအလဲဖြစ်ခဲ့ပြန်သည်။

၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ဗိုလ်ချုပ်ကြီး နေဝင်းဦးစီးသော ဗမာ့တပ်မတော်က တိုင်းပြည်အုပ်ချုပ်မှုအာဏာကို သိမ်းယူကာ တိုင်းပြည်ကို အုပ်ချုပ်ရန် နိုင်ငံတော် တော်လှန်ရေး ကောင်စီနှင့် တော်လှန်ရေး အစိုးရအဖွဲ့ကို ဖွဲ့စည်းခဲ့လေသည်။

နိုင်ငံတော် တော်လှန်ရေး ကောင်စီသည် မိမိ၏ ဝါဒ သဘောထားကို "မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်" ဟူ၍ ၁၉၆၂ ခုနှစ် ဧပြီလ ၃၀ ရက်နေ့တွင် ထုတ်ပြန် ကြေညာခဲ့ရာ၊ ပညာရေးစံနစ်နှင့် စပ်လျဉ်း၍ ဖော်ပြထားချက်မှာ အောက်ပါအတိုင်း ဖြစ်၏။

"အပိုဒ် ၁၇ (က)။ ပညာရေး။ ။အသက်မွေး ဝမ်းကျောင်းမှုတွင် အထောက်အကူ မဖြစ်သော လက်ရှိပညာရေးစံနစ်ကိုပြုပြင်ပြောင်းလဲသွားရမည်ဟု နိုင်ငံတော် တော်လှန်ရေးကောင်စီက ယုံကြည်သည်။ သို့ဖြစ်၍ အသက်မွေးဝမ်းကျောင်းမှုကို အထောက်အကူပြု၍ စာရိတ္တမြင့်မားမှုကို အခြေခံသောပညာရေးစံနစ်သစ်ကို တည်ထောင်သွားမည်။ အထူးသဖြင့် သိပ္ပံပညာကို ဦးစား ပေးမည်။

ကျွန်ုပ်တို့၏ ပညာရေး ရည်မှန်းချက် ပန်းတိုင်မှာ အခြေခံပညာကို လူတိုင်း သင်ယူနိုင်ခွင့် ရရှိစေရန်ပင် ဖြစ်သည်။ အထက်တန်း ပညာကိုလည်း ဥာဏ်ပညာ ထက်မြက်ခြင်းရှိ၍ အထက်တန်းကို မှီအောင်လိုက်နိုင်မည့် ကြိုးစားမှု ရှိသူများကိုသာ အထူးအားပေး၍ သင်ကြားခွင့် ပြုစေမည်။"

ဒေါက်တာ ဦးညီညီ

# အမှောင်ခွင်း၍ အလင်းဆောင်အံ့

**မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်းသည် တိုင်းရင်းသား လူတန်းစား အသီးအသီးတို့အား အသိပညာအလင်းကို ပေးရန် ဖွဲ့စည်းတည်ထောင်သော အဖွဲ့အစည်းဖြစ်သည်။ ဘာသာပြန်စာပေအသင်းဟု ဆိုသော်လည်း ဘာသာပြန်ဆိုခြင်းသည် အသင်း၏ လုပ်ငန်း အစိတ်အပိုင်းတခုမျှသာ ဖြစ်သည်။ အခြားလုပ်ငန်းများမှာ မြန်မာ့ယဉ်ကျေးမှု အရပ်ရပ်တို့ကို အားပေးခြီးမြှောက်ခြင်း၊ စာအုပ်စာတမ်းများ ပုံနှိပ်ထုတ်ဝေခြင်း၊ စာရေးကရိယာနှင့် စာအုပ်များ ရောင်းချခြင်း စသည်တို့ဖြစ်သည်။ အထူးသဖြင့် ၁၄ တွဲရှိ သရုပ်ပြ မြန်မာ့စွယ်စုံကျမ်းကို ပြုစုထုတ်ဝေခြင်းအားဖြင့် အာရှအရှေ့ပိုင်းတွင် မြန်မာနိုင်ငံသည် တိုင်းရင်းဘာသာဖြင့် စွယ်စုံကျမ်းထုတ်ဝေရေး၌ ရှေ့ပြေးလျက် ရှိပေသည်။**

**မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်း။** ။မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်းကို ၁၉၄၇ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့တွင် ဖွဲ့စည်းခဲ့လေသည်။ ပြည်ထောင်စုသားတိုင်း အသိပညာ တိုးပွားစေမည့် ဘာသာခြားဖြင့် ရေးသားထားသည့် စာအုပ်စာတမ်းများကို ဘာသာပြန်ရန်၊ ပြည်ထောင်စု တိုင်းရင်းသား ဘာသာဖြင့် ရေးသားထားသည့် စာအုပ်စာတမ်းများကို နိုင်ငံခြား ဘာသာသို့ ပြန်ဆိုရန်၊ မြန်မာမှုအရပ်ရပ်ကို စူးစမ်းရှာဖွေရန်၊ စာအုပ်စာတမ်းအရပ်ရပ်ကို ပုံနှိပ်ဖြန့်ချိရန် စသော ရည်ရွယ်ချက်များ ပါဝင်သည့် အသင်းဖွဲ့စည်းပုံ အခြေခံဥပဒေတရပ်ကို ရေးဆွဲခဲ့ကြလေသည်။ အသင်းကိုစီမံအုပ်ချုပ်ရန် အုပ်ချုပ်မှုကောင်စီ အဖွဲ့ကိုလည်း ဖွဲ့စည်းခဲ့လေသည်။ အုပ်ချုပ်မှုကောင်စီအဖွဲ့၏ဥက္ကဋ္ဌမှာ ထိုစဉ်က ဝန်ကြီးချုပ်ဦးနုဖြစ်သည်။

၁၉၄၇ ခု နှစ်ဦးတွင် ဂျုပ်ဆင်ကောလိပ်ဝင်း အတွင်းရှိ အိမ်တဆောင်ကို အသင်းတိုက်အဖြစ် ယာယီ ဖွင့်လှစ်ခဲ့ပြီးလျှင် ဒုတိယ စာတည်းမှူး တဦး၊ စာတည်း နှစ်ဦး၊ လက်ထောက် စာတည်း ခြောက်ဦး၊ စာပြု ၂၄ ဦးတို့ဖြင့် စာပြုလုပ်ငန်း၊ စာတည်း လုပ်ငန်းတို့ကို စတင် ဆောင်ရွက်ခဲ့လေသည်။ ၁၉၄၇ ခုနှစ် မေလတွင် ရန်ကုန်မြို့ ပြည်လမ်းပေါ်ရှိ "ဆိုရန်တိုဗီလာ" အဆောက်အအုံသို့ အသင်းတိုက်ကို ရွှေ့ပြောင်းခဲ့လေသည်။ "ဆိုရန်တိုဗီလာ" အမည်ကိုလည်း "စာပေဗိမာန်" ဟူ၍ မှည့်ခေါ်ခဲ့သည်။ "အမှောင်ခွင်း၍ အလင်းဆောင်အံ့" ဟူသော အသင်းဆောင်ပုဒ်ကိုလည်း သတ်မှတ် ခဲ့ကြလေသည်။

ထိုအချိန်က မြန်မာ နိုင်ငံ ဘာသာပြန် စာပေအသင်း၌ ပြုစု တည်းဖြတ်မှု လုပ်ငန်းများ အဖြစ် လူထုအလင်းစာစဉ်

လုပ်ငန်း၊ လူထုအိတ်ဆောင် စာစဉ် လုပ်ငန်း၊ လူထုတက္ကသိုလ် စာစဉ် လုပ်ငန်းဟူ၍ လုပ်ငန်းသုံးရပ်ကိုသာ ဆောင်ရွက်ခဲ့ကြလေသည်။ လူထုအလင်း စာစဉ် လုပ်ငန်းမှာ ကမ္ဘာ့ ယဉ်ကျေးမှု အရပ်ရပ်၊ ကမ္ဘာ့စာပေ ဗဟုသုတ အဖိုးဖိုးတို့ကို မြန်မာစာ ဖတ်တတ်သူတိုင်း ရယူနိုင်ရန် လွယ်ကူ ရှင်းလင်းစွာ မြန်မာပြန်ဆို ပြုစု ရေးသားရမည့် လုပ်ငန်းဖြစ်သည်။ လူထုအိတ်ဆောင် စာစဉ် လုပ်ငန်းမှာ လောလောဆယ် ပေါ်ပေါက်နေသည့် မြန်မာ့ အခြေအနေ၊ ကမ္ဘာ့ အခြေအနေတို့ကို ပြည်သူ လူထုအဖို့ ဆင်ခြင် သုံးသပ်နိုင်ရန် အရေးပေါ် ထုတ်ဝေ ဖြန့်ချိရမည့် လုပ်ငန်းဖြစ်သည်။ လူထုတက္ကသိုလ်စာစဉ် လုပ်ငန်းမှာကား အခြေခံပညာ ရှိပြီးသူတိုင်း တက္ကသိုလ်ပညာ အရပ်ရပ်တို့ကို အလုပ်မပျက်၊ အိမ်မကွာ ဖတ်ရှု လေ့လာနိုင်စေရန် ပြုစု ရေးသား ထုတ်ဝေရမည့် လုပ်ငန်းဖြစ်သည်။

ထိုလုပ်ငန်းများ အပြင် မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်းတွင် ပြည်သူ့ လူထုအား သိပ္ပံပညာ အသိဉာဏ် ပေးရန် အလို့ငှါ သိပ္ပံစာစဉ်လုပ်ငန်းဟူ၍ ရှိခဲ့သည်။ စာသင်ကျောင်းနှင့် တက္ကသိုလ်တို့တွင် ဆိုင်ရာ ဘာသာရပ်များကို မြန်မာဘာသာဖြင့် သင်ကြားပို့ချနိုင်ရန် ကျောင်းသုံးစာအုပ် ဘာသာပြန်ဆို ပြုစုရေးလုပ်ငန်းဟူ၍လည်း ရှိလေသည်။ ထိုပြုစု တည်းဖြတ်မှု လုပ်ငန်း အသီးအသီးတို့ကို ဝိဇ္ဇာဌာနနှင့် သိပ္ပံဌာန ဟူ၍ ဌာနနှစ်ခု ခွဲလျက် ဆောင်ရွက်ခဲ့လေသည်။

ပြည်ထောင်စု မြန်မာ နိုင်ငံသည် လွတ်လပ်သော နိုင်ငံတခု ဖြစ်ပါလျက် စွယ်စုံကျမ်းဟူ၍ တစောင်တဖွဲ့မျှ မရှိခြင်းမှာ တိုင်းကြီး ပြည်ကြီးတို့၏ ဂုဏ်အင်္ဂါ တရပ် ချို့ငဲ့လျက်ရှိကြောင်းကို အုပ်ချုပ်မှုကောင်စီက သတိပြုမိခဲ့လေသည်။ ထို့ကြောင့် ၁၉၄၇ ခုနှစ် မေလ၌ပင် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံပေါင်း မြောက်မြားစွာ ပါဝင်သော သရုပ်ပြ စွယ်စုံကျမ်းကြီး တစောင် ပြုစုရန် ဆုံးဖြတ်ခဲ့ကြလေသည်။ ဦးစွာ၌ ဆာဂျွန်ဟမ္မာတန် တည်းဖြတ်သော သရုပ်ပြအင်္ဂလိပ်စွယ်စုံကျမ်းသစ် ဆယ်တွဲကို တိုက်ရိုက် ဘာသာပြန်ယူရန် စီမံခဲ့လေသည်။ သို့သော် ၁၉၄၉ ခုနှစ် ဖေဖွာရီလတွင် တိုက်ရိုက်ဘာသာပြန်ဆိုခြင်းကို ရပ်စဲပြီးနောက် စွယ်စုံကျမ်းအစောင်စောင်တို့နှင့် ညှိနှိုင်း၍၎င်း၊ မြန်မာမှု အကြောင်းရပ်များကို ဖြည့်စွက်၍၎င်း ပြုစုရေးသားခဲ့လေသည်။ မြန်မာ့ စွယ်စုံကျမ်းအတွက် ဝိဇ္ဇာပညာဆိုင်ရာ အကြောင်းရပ်နှင့် မြန်မာမှုအကြောင်းရပ်တို့ကို ဝိဇ္ဇာဌာနကၡင်း၊ သိပ္ပံပညာဆိုင် ရာ အကြောင်းရပ်တို့ကို သိပ္ပံဌာနကၡင်း တာဝန်ယူ၍ ပြုစုခဲ့ကြသည်။ (စွယ်စုံကျမ်း — လည်းရှု။)

စွယ်စုံကျမ်း တစောင်တဖွဲ့ ပြုစုရသည့် လုပ်ငန်းမှာ ကျယ်ဝန်းလှသည်။ ထို့ကြောင့် ဗဟုသုတစုံ အကြောင်းရပ်ပေါင်း ၄,၀၀၀ ကျော်၊ စာမျက်နှာပေါင်း ၇,၀၀၀ ကျော်ပါဝင်မည့် စွယ်စုံကျမ်း ပြုစုရေးလုပ်ငန်းကို ကိုယ်ဖိရင်ဖိ ဆောင်ရွက်နိုင်ရန် ၁၉၄၉ ခုနှစ်တွင် စွယ်စုံဌာနခွဲ ဟူ၍ သီးခြား ဌာနတခု ဖွင့်ခဲ့လေသည်။ စွယ်စုံ ဌာနခွဲတွင် ဝိဇ္ဇာဌာနနှင့် သိပ္ပံဌာနတို့မှ ပြုစုပေးပို့သော စာမူများကို စီစစ်၍ ဝေါဟာရ အသုံးလှယ်ညှိခြင်း၊ သတ်ပုံ သတ်ညွှန်း ညှိခြင်း၊ ဗဟုသုတ စစ်တမ်းနှင့် ဖတ်ချင်ဖွယ်ရာ အဖြာဖြာ အခန်းတို့ကို ပြုစုခြင်း၊ စာမူဆိုင်ရာ ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံများ ရှာဖွေခြင်း၊ ခေါင်းစည်းအတွက် စာသား၊ ရုပ်ပုံအတွက် စာသား ရေးသားခြင်း စသည့် လုပ်ငန်းတို့ကို ဆောင်ရွက်ရလေသည်။

ထိုသို့ အဆင့်ဆင့် ပြင်ဆင်ပြီးသော စာမူနှင့် ရုပ်ပုံ ဓာတ်ပုံတို့ကို ဗိလတ်ရှိ ဟေဇယ်ဝပ်ဆင် ဗိုင်းနေးလီမိတက် ပုံနှိပ်တိုက်သို့ပို့၍ ပုံနှိပ်ခြင်း ကိစ္စကိုလည်း စွယ်စုံဌာနခွဲက တာဝန်ယူ ဆောင်ရွက်ရသည်။ မြန်မာ့စွယ်စုံကျမ်းကို က အကြောင်းရပ်မှ အ အကြောင်းရပ်အထိ ကျမ်းအတွဲ ၁၄ တွဲ ပုံနှိပ်ထုတ်ဝေရန် ခန့်မှန်းထားလေသည်။ ယခု အထိ စွယ်စုံကျမ်း အတွဲ ၁ (၁၉၅၄)၊အတွဲ ၂ (၁၉၅၅)၊ အတွဲ ၃ (၁၉၅၆)၊ အတွဲ ၄ (၁၉၆၀)နှင့် အတွဲ ၅ (၁၉၆၁) တို့ကို ဗိလတ်တွင် ပုံနှိပ်၍ ပြည်သူလူထု လက်သို့ ဖြန့်ချိ ထုတ်ဝေခဲ့ပြီးလျှင် အတွဲ ၆ (၁၉၆၂)၊ အတွဲ ၇ (၁၉၆၃)၊ အတွဲ ၈ (၁၉၆၃)၊ အတွဲ ၉ (၁၉၆၄)နှင့် ဤအတွဲ ၁၀ တို့ကို မြန်မာနိုင်ငံ (စာပေဗိမာန် ပုံနှိပ်တိုက်)၌ ပုံနှိပ်ဖြန့်ချိခဲ့သည်။ ကျန်အတွဲများကို ဆက်တိုက် ထုတ်ဝေသွားနိုင်ရန် အားသွန်ကြိုးပမ်းလျက် ရှိသည်။

ထိုသို့ မြန်မာ့ စွယ်စုံကျမ်းတွဲများ ဆက်တိုက် ထုတ်ဝေသွားနိုင်ရန် အတွက်လည်း ၁၉၅၇ ခုနှစ်တွင် အထွေထွေ ဝိဇ္ဇာဌာနနှင့် စွယ်စုံဌာနခွဲတို့ကို မြန်မာ့စွယ်စုံဌာန အဖြစ် ပူးပေါင်း လိုက်လေသည်။

မျက်မှောက်ခေတ်တွင် သိပ္ပံပညာဖက်၌ အံ့ဩလောက်အောင် တိုးတက်လျက် ရှိသဖြင့် ခေတ်နှင့် ယှဉ်ပေါင်တန်းလိုက်နိုင်ရန် လူတိုင်း သိပ္ပံပညာကို တီးမိခေါက်မိဖို့ လိုအပ်လေသည်။ ထိုအချက်ကို ဂရုပြုမိသော အုပ်ချုပ်မှုကောင်စီက အထွေထွေ သိပ္ပံဌာနမှ သိပ္ပံစာစဉ် အမည်ဖြင့် လူထုအား သိပ္ပံပညာ အသိဉာဏ် ပေးသော စာအုပ်ငယ်များကို တာဝန်ယူ ပြန်ဆိုစေခဲ့လေသည်။ ၁၉၅၁ ခုနှစ် ကုန်ခါနီးတွင် နှစ်ငါးဆယ်စာစဉ် ဟူ၍ ၁၉၀၀ ပြည့်နှစ်မှ ၁၉၅၀ ပြည့်နှစ်အထိ နှစ်ပေါင်း ၅၀ အတွင်း ကမ္ဘာပေါ်တွင် အဖြစ်အပျက် ဟူသမျှကို ရုပ်ပုံဓာတ်ပုံတို့နှင့်တကွ မှတ်တမ်းတင်ထားသော စာစဉ်ကို ပုံနှိပ် ထုတ်ဝေရန် အထွေထွေ သိပ္ပံဌာနနှင့် အထွေထွေ ဝိဇ္ဇာဌာနအား တာဝန် ပေးအပ်ခဲ့လေသည်။ ထိုစာစဉ်တို့ကို နယ်သာလန်နိုင်ငံ၌ ပုံနှိပ်သည်။

၁၉၅၇ ခုနှစ်တွင် အထွေထွေ သိပ္ပံ ဌာနကို လူထု သိပ္ပံ ဌာန ဟူ၍အမည်ပြောင်းပြီးလျှင် သိပ္ပံစွယ်စုံကျမ်းတစောင်ကို လူထုသိပ္ပံ အမည်ဖြင့် အုပ်တွဲ ၃၀ ကျော် ပြုစု ထုတ်ဝေရန် တာဝန်ပေးခဲ့သည်။ ထိုကျမ်းသည်လည်း မြန်မာ့ စွယ်စုံကျမ်း ကဲ့သို့ပင် အရေးကြီးသောကျမ်းဖြစ်ပေသည်။

နိုင်ငံတော် အစိုးရ၏ ဘဝသစ် ဖန်တီးမှု ပညာရေး စီမံကိန်းတွင် ကျောင်းသုံးစာအုပ် အမြောက်အမြား ထွက်ပေါ်ရေးသည် အရေးကြီးသော ပြဿနာတရပ် ဖြစ်သည့်အားလျော်စွာ ပညာရေးဝန်ကြီးဌာနသည် ၁၉၅၂ ခုနှစ် အောက်တိုဘာလတွင် ကျောင်းသုံး စာအုပ် ထုတ်လုပ်မှု ညွှန်ကြားရေးဝန်ဌာနကို ဖွင့်ခဲ့လေသည်။ ထိုနှစ်မှာပင် ဘာသာပြန် စာပေအသင်း၌လည်း ရိုးရိုး စာသင်ကျောင်းနှင့် သက်မွေးမှုကျောင်းများအတွက် ကျောင်းသုံး စာအုပ်များ ထုတ်ဝေရန် ကျောင်းသုံးစာအုပ် ဌာနကို ဖွင့်ခဲ့လေသည်။ သူငယ်တန်းမှ တက္ကသိုလ်အထိ ဘာသာရပ် များကို မြန်မာဘာသာဖြင့် သင်ကြား ပို့ချ နိုင်ရန် ကြိုးပမ်းရာ၌ အကြီးဆုံး ပြဿနာမှာ ကျောင်းသုံး စာအုပ်များ အလုံအလောက် ရရှိရေးပင် ဖြစ်သည်။ ထို့ကြောင့် ဘာသာပြန် စာပေအသင်းနှင့် အစိုးရ ပညာရေး ဌာန၊ ကျောင်းသုံး စာအုပ် ထုတ်လုပ်မှု ညွှန်ကြားရေးဝန်ဌာနတို့ တွဲဖက်၍ ကျောင်းသုံး စာအုပ်များ ဘာသာပြန်ဆို ပြုစုရေးကို ဆောင်ရွက်ခဲ့ကြလေသည်။ ကျောင်းသုံးစာအုပ် ဌာနသည် ပြင်ပ ပညာရှင်များနှင့် တိုက်ရိုက် ဆက်သွယ်က သက်မွေးမှု ပညာ စာအုပ်များကိုလည်း ထုတ်ဝေခဲ့လေသည်။ ယခုအခါ စာသင်ကျောင်းများနှင့် သက်မွေးမှု ကျောင်းတို့တွင် စာပေဗိမာန်ထုတ် ကျောင်းသုံးစာအုပ်များကို သုံးစွဲလျက်ရှိကြောင်း တွေ့မြင်နေရလေပြီ။

ပြည်ထောင်စုသားတို့တွင် ကာယ ဗလ၊ ဥာဏ ဗလ၊ ဘောဂဗလ၊ စာရိတ္တဗလ၊ မိတ္တဗလ တည်းဟူသော ဗလ ငါးတန်နှင့် စပ်လျဉ်း၍ အကျိုး ဖြစ်ထွန်းစေမည့် အကြံဉာဏ်ကောင်းများကို မှတ်ယူ ကျင့်သုံးနိုင်စေရန် ဟူသော စေတနာဖြင့် စာပေဗိမာန် မဂ္ဂဇင်း ကိုလည်း ထုတ်ဝေခဲ့လေသည်။ မဂ္ဂဇင်း ဌာနကို ၁၉၅၁ ခုနှစ် ဒီဇင်ဘာလတွင် စတင်ဖွင့်ပြီးလျှင် ပဌမဦးဆုံး စာပေဗိမာန် လစဉ်မဂ္ဂဇင်းကို ၁၉၅၂ ခုနှစ် ဇွန်လ၌ ထုတ်ဝေဖြန့်ချိခဲ့လေသည်။ ထိုမဂ္ဂဇင်းတွင် လူတန်းစားအမျိုးမျိုးနှင့် ဆီလျော်မည့် ဗဟုသုတဆိုင်ရာ ပညာရပ်အမျိုးမျိုး ပါဝင်သော ဆောင်းပါးများကို အထူးစိစစ်ရွေးချယ် ထည့်သွင်းခဲ့လေသည်။

အထက် ဖော်ပြပါ စာတည်းဌာန လေးဌာနအပြင် ပြည်သူ့လက်စွဲစာစဉ် ဌာနသစ် တခုကို တိုးချဲ့ခဲ့လေသည်။ ထိုဌာန၏ လုပ်ငန်းမှာ နိုင်ငံတော်အတွင်းရှိ စာတတ်စ လူကြီး လူငယ်တို့နှင့် သင့်လျော်သော စာအုပ်များကို ထုတ်ဝေရန်နှင့် ထိုပုဂ္ဂိုလ်တို့ စာဖတ် ဝါသနာ ရင့်သန်လာစေခြင်းဖြင့် စာဖတ်ပရိသတ်နယ်ကို ချဲ့ထွင်ရန် ဖြစ်လေသည်။ ယင်းဌာနသည် အဖတ်ရအလွယ်ဆုံး စာအုပ်ငယ်များကို အပေါဆုံး ဈေးနှုန်းဖြင့် ထုတ်ဝေ ဖြန့်ချိရန် ရည်ရွယ်သည်။ ၁၉၅၉ ခုနှစ်တွင် မဂ္ဂဇင်းထုတ်ဝေခြင်းကို ရပ်ဆိုင်းထားပြီးလျှင် ပြည်သူ့ လက်စွဲ စာစဉ်များကို အဆက်မပြတ် ပုံနှိပ် ထုတ်ဝေလျက် ရှိလေသည်။

ထိုသို့ ဌာန အသီးအသီး ခွဲ၍ လူထုအား ပညာဗဟုသုတ တိုးပွားစေမည့် စာပေလုပ်ငန်းကို ဆောင်ရွက်ကြရာ၌ အရေးအကြီးဆုံးအချက်မှာ အသင်းကြီး၏ ရည်ရွယ်ချက်မှုကို တိကျစွာ လိုက်နာရမည် ဖြစ်လေသည်။ ထို့ကြောင့် စာပြုစာတည်း လုပ်ငန်း အရပ်ရပ်တို့ကို (ညွှန်ကြား) ထိန်းသိမ်းရန် စီမံကိန်း အဖွဲ့ဟူ၍ရှင်း၊ မြန်မာ့စွယ်စုံကျမ်း စီစဉ်ရေးအဖွဲ့၊ လူထုသိပ္ပံကျမ်း စီစဉ်ရေးအဖွဲ့၊ နိုင်ငံသမိုင်း အကြံပေးအဖွဲ့၊ ကျောင်းသုံးစာအုပ်အဖွဲ့၊ မဂ္ဂဇင်းအကြံပေးအဖွဲ့ ဟူ၍ရှင်း ကျွမ်းကျင်သူ ပညာရှင်များ ပါဝင်သော အကြံပေးအဖွဲ့များ ဖွဲ့စည်းထားရှိလေသည်။ ပုံနှိပ်ထုတ်လုပ်ရေးအကြံပေးအဖွဲ့၊ အရောင်းဌာန အကြံပေးအဖွဲ့၊ ငွေစာရင်းဌာန အကြံပေးအဖွဲ့ စသည်ဖြင့် အသင်းကြီး၏ လုပ်ငန်း ကျယ်ပြန့်လာသည်နှင့်အမျှ လုပ်ငန်းဆိုင်ရာ အကြံပေးအဖွဲ့များကိုလည်း တိုးချဲ့ ဖွဲ့စည်းခဲ့လေသည်။

စာအုပ် စာတမ်းများကို ပြုစုရာ၌ အကြောင်းရပ် ဆိုင်ရာ အချက်အလက် အထောက်အထား သေချာရမည်၊ စုံလင်ရမည် ဖြစ်သည်။ စာပေဗိမာန်ကဲ့သို့ စာပေကို ကျယ်ကျယ်ပြန့်ပြန့် ထုတ်ဝေဖြန့်ချိသော ဌာနမျိုးတွင် ထုတ်နုတ် ကိုးကားနိုင်သည့် ရည်ညွှန်း စာကြည့်တိုက် ရှိရမည်ဖြစ်သည်။ ထို့ကြောင့် စာတည်းဌာန စာကြည့်တိုက်ကို အသင်းတည်ထောင်စကပင် ဖွင့်ခဲ့လေသည်။ စာတည်း ဌာန စာကြည့်တိုက်သည် စာအုပ်ကို ပြင်ပသို့ ငှားရမ်းခြင်း မပြု၊ ရုံးတွင်း၌သာ အသုံးပြုရသည့် ရည်ညွှန်းစာကြည့်တိုက် သက်သက်ဖြစ်ပေသည်။

တဖန် စာပေ ပြုစုရာ၌ရှင်း၊ ဘာသာ ပြန်ရာ၌ရှင်း ဝေါဟာရနှင့် အသုံးလှယ် စကားလုံးများ အညီအညွတ် ရှိရန် လိုအပ်လေသည်။ ထို့ကြောင့် ၁၉၅၀ ပြည့်နှစ်မှ စ၍ ဝေါဟာရဘဏ် လုပ်ငန်းကို စတင်ခဲ့လေသည်။ ယင်းလုပ်ငန်းအတွက် ဌာနသီးခြား ဖွင့်၍ ပညာရပ် အမျိုးမျိုးမှ ဝေါဟာရများကို စုဆောင်းခြင်း၊ ဘာသာစကား ကျွမ်းကျင်သူ၊ ပညာရပ်ဆိုင်ရာ ကျွမ်းကျင်သူ၊ ပညာရှင် ပုဂ္ဂိုလ်များ ပါဝင်သော သုခမိန် အစည်းအဝေး များ၌ တင်ပြ၍ အဆုံးအဖြတ် ယူခြင်း၊ ပညာရပ် အလိုက် ခွဲ၍ ကပ်ပြားတင်ခြင်း အစရှိသော လုပ်ငန်းတို့ကို ဆောင်ရွက် ရလေသည်။ စာပေဗိမာန် ဝေါဟာရဘဏ်သည် အသင်းအကျိုး

ဘာခုတည်း အတွက် သက်သက် မဟုတ်ဘဲ တိုင်းပြည်အကျိုး အတွက်လည်း ဖြစ်ပေသည်။

တဖန် ၁၉၅၅ ခုနှစ် ဇူလိုင်လတွင် သုတေသနဌာန ဟူ၍ ဌာနသစ် တခု တိုး၍ ဖွင့်ခဲ့လေသည်။ ထိုဌာန၏ လုပ်ငန်းမှာ ဘာသာပြန် စာပေအသင်းထုတ် စာအုပ် များသည် စာဖတ်သူ စာဖတ်လိုသူတို့အား ပညာပေးရာတွင် မည်မျှ အောင်မြင် ထိရောက်သည်ကို အကဲဖြတ် လေ့လာရန်နှင့် မြန်မာနိုင်ငံတွင် စာအုပ်ထုတ်ဝေမှု၌ အထိရောက်ဆုံး အခြေခံမူ တရပ်ကို စာအုပ် ထုတ်လုပ်ငန်း ဆောင်ရွက်နေသူတိုင်း အတွက် စူးစမ်း လေ့လာရန် ဖြစ်လေသည်။ သုတေသနဌာနသည် စာပေဗိမာန်ထုတ် စာအုပ်များကိုသာ မက ပြင်ပ ပုံနှိပ်တိုက်တို့မှ ထုတ်သော စာအုပ်များကိုပါ ကျေးလက်တောရွာရှိ လူထုအား ဖတ်ရှုစေပြီးလျှင် ယင်းတို့၏ ထင်မြင်ယူဆပုံ၊ နားလည် သဘောပေါက်ပုံတို့ကို စနစ်တကျ လေ့လာသည်။

သာမန် အားဖြင့် မြန်မာ နိုင်ငံ ဘာသာပြန် စာပေ အသင်းကို ဘာသာပြန် လုပ်ငန်းချည်းသက်သက် ဆောင်ရွက်နေသော အသင်းဟု အများကပင် ယူဆကြသည်။ ထိုသို့ကား မဟုတ်ချေ။ "လူထု၏ပညာရေး တိုးပွားကောင်းမွန်လာမှုနှင့် ပညာတတ် အဆင့်အတန်း မြင့်တက်လာမှုကို ရှေးရှု၍ မြန်မာစာပေနှင့် မြန်မာအနုပညာရပ်များကို စူးစမ်း ရှာဖွေရန်၊ သို့မဟုတ် စူးစမ်း ရှာဖွေမှုကို အားပေးရန်" ဟူသော အချက်သည် ဘာသာပြန် စာပေအသင်း၏ ရည်ရွယ်ချက် တရပ် ဖြစ်သည်။ ယင်းအချက်ကို အသင်း၏ အခြေခံဖွဲ့စည်းအုပ်ချုပ်ပုံ ဥပဒေတွင် အတိအလင်းဖော်ပြပါရှိလေသည်။ထိုကြောင့်ဘာသာပြန်စာပေအသင်းသည် မြန်မာစာပေ ထိန်းသိမ်းပျိုးထောင်မှု၊ မြန်မာ့ယဉ်ကျေးမှု ထိန်းသိမ်း စောင့်ရှောက်မှုတို့ကိုလည်း အားပေး ဆောင်ရွက်ခဲ့ခြင်း ဖြစ်သည်။

စာပေဗိမာန်သည် ပြည်သူလူထုအား ပညာမျက်စိ ပေးရန် ရည်ရွယ်ချက်ဖြင့် တည်ဆောက်ထားသော အဖွဲ့ အစည်းတရပ် ဖြစ်ရာ၊ ပြည်သူလူထုအား မြန်မာ့စာပေ အမြင်မျက်စိ၊ မြန်မာ့ယဉ်ကျေးမှု အမြင်မျက်စိ ရှိအောင် ဆောင်ရွက်ပေးဖို့ တာဝန်ရှိလေသည်။ဤသည်ပင် မြန်မာ့ စာပေ၊ မြန်မာ့ယဉ်ကျေးမှုကို ထိန်းသိမ်းသည် မည်ပေသည်။ သို့ဖြစ်၍ ဘာသာပြန်စာပေအသင်း တည်ထောင်စ ကနဦးကပင် စာပေ ပြုစုထုတ်ဝေမှု လုပ်ငန်းနှင့်အတူ စာပေဗိမာန်ဆု ဟူ၍ စာပေဆုတရပ် တီထွင် ချီးမြှင့်မှု လုပ်ငန်းကိုလည်း စီစဉ်ခဲ့လေသည်။

စာပေဗိမာန်ဆုကို ခုနစ်မျိုး ခွဲ၍ ချီးမြှင့်ခဲ့လေသည်။ ထိုဆုခုနစ်မျိုးမှာ "ကာလပေါ်ဝတ္ထုဆု"၊ "ဘာသာပြန်ဆု"၊ "စာပဒေသာဆု"၊ "သုတပဒေသာဆု"၊ "ဝတ္ထုတိုပေါင်းချုပ်ဆု"၊ "ကဗျာပေါင်းချုပ်ဆု" နှင့် "ပြဇာတ်ဆု" တို့ဖြစ်သည်။ ထိုဆုများကိုချီးမြှင့်ရန် ပြက္ခဒိန်နှစ် တနှစ် အတွင်း ထုတ်ဝေသမျှ စာအုပ် စာတမ်းများကို အသင်းမှ စာပေဗိမာန် ဆုရွေးချယ်ရေး အဖွဲ့သို့ တင်ပြရသည်။ထိုဆုရွေးချယ်ရေး အဖွဲ့က ဆုချီးမြှင့်ထိုက်သည့် စာအုပ်အသီးအသီးကို ရွေးချယ်လေသည်။ ဆုငွေများမှာ "ကာလပေါ်ဝတ္ထုဆု" အတွက် ကျပ်ငွေ ၁,၀၀၀၊ "ဘာသာပြန်ဆု" အတွက် ကျပ်ငွေ ၇၅၀၊ "စာပဒေသာဆု"အတွက် ကျပ်ငွေ ၁,၀၀၀၊ "သုတ ပဒေသာဆု" အတွက် ကျပ်ငွေ ၁,၀၀၀၊ "ဝတ္ထုတို ပေါင်းချုပ်ဆု"အတွက် ကျပ်ငွေ ၁,၀၀၀၊"ကဗျာ ပေါင်းချုပ်ဆု"အတွက်ကျပ်ငွေ ၁,၀၀၀နှင့်"ပြဇာတ်ဆု"အတွက် ကျပ်ငွေ ၁,၀၀၀ အသီးအသီးဖြစ်သည်။ ကာလပေါ်ဝတ္ထုဆုကို ၁၉၄၉ ခုနှစ်မှစ၍ ချီးမြှင့်ခဲ့လေသည်။ (စာပေဗိမာန်ဆုရ စာအုပ်များ — လည်းရှု။)

ထိုသို့ စာပေဆုများ ချီးမြှင့်သည့် အပြင် မြန်မာ့ ယဉ်ကျေးမှု ဟောပြောပွဲများကိုလည်း စာပေဗိမာန်က ဦးဆောင် ကျင်းပခဲ့လေသည်။ မြန်မာ့ ရိုးရာ ယဉ်ကျေးမှု အနုပညာရပ်များ မတိမ်ကော မပျောက်ပျက် စေရန် ငှာ၊ ထိုယဉ်ကျေးမှု အနုပညာရပ်များကို စူးစမ်း ရှာဖွေ စုဆောင်းကြသော ပညာရှင်တို့ကို ချီးမြှင့် အားပေးရန် ငှာ၊ ထိုပညာရှင်တို့က တိုင်းပြည်လူထုအား ပညာအမွေ ပေးနိုင်ခဲ့စေရန် ငှာ ၁၉၅၃ ခုနှစ်မှ စ၍ စာပေဗိမာန် ယဉ်ကျေးမှု ဟောပြောပွဲများကို စတင် ကျင်းပခဲ့လေသည်။ ထိုဟောပြောပွဲများကို ပြည်လမ်း စာပေဗိမာန်ဝင်း အတွင်းရှိ လေဟာပြင် ဇာတ်ခုံတွင် ကျင်းပဟောပြောခဲ့သည်။ ဟောပြောချက်များကိုလည်း ယဉ်ကျေးမှုစာစဉ် အမည်ဖြင့် ပုံနှိပ် ထုတ်ဝေခဲ့လေသည်။

ထိုပြင် မြန်မာ့ ယဉ်ကျေးမှု၏ တစိတ်တဒေသ ဖြစ်သော မြန်မာ့ ဇာတ်သဘင် ကပွဲများကိုလည်း စီစဉ် ကျင်းပခဲ့လေသည်။ ထိုကပွဲများတွင် ယဉ်ကျေးမှုဝန်ကြီး ဌာန၊ ရန်ကုန်မြို့ ပန်းတျာကျောင်း၊ မန္တလေးမြို့ ပန်းတျာကျောင်းစသော အနုပညာ အဖွဲ့တို့မှ မြန်မာ့ သဘင်အနုပညာစွမ်းကို ဖော်ထုတ် ကပြခဲ့ ကြလေသည်။ နိုင်ငံခြားမှ မြန်မာနိုင်ငံသို့ လာရောက်သော ဇာတ်သဘင် အဖွဲ့ များကိုလည်း စာပေဗိမာန် လေဟာပြင် ဇာတ်ခုံ၌ ကပြစေခဲ့လေသည်။

စာပေဗိမာန်သည် အထက်က ဖော်ပြ ခဲ့သည့် အတိုင်း မြန်မာ့ယဉ်ကျေးမှုကို ထိန်းသိမ်းပေးရုံကာမျှဖြင့် ကျေနပ်နှစ်သိမ့်၍ မနေဘဲ ပျိုးထောင်မှုလုပ်ငန်းများကိုလည်း စီစဉ်ဆောင်ရွက်ခဲ့ လေသည်။ ဤသို့ဖြင့် သင်တန်းများ ဖွင့်လှစ်ပေးခြင်းသည် ပျိုးထောင်မှု လုပ်ငန်းတွင် အကျုံးဝင်လျက်ရှိပေသည်။ စာကြည့်တိုက်သည် တိုင်းပြည် လူထုသို့ ပညာပေးရာ၌ အရေးပါ အရာရောက်၍ မရှိမဖြစ်သော အဖွဲ့

အစည်း ဖြစ်လေသည်။ စာပေဗိမာန်မှ ပြုစု ဖြန့်ချိသည့် ပညာပေး စာအုပ်စာတမ်းများသည်လည်း စာကြည့်တိုက်မှ တဆင့် လူထုလက်သို့ ရောက်ရှိနိုင်မည် ဖြစ်သည်။ သို့ဖြစ်၍ စာကြည့်တိုက်များတွင် စည်းကမ်းစနစ် ကျနသော စီမံအုပ်ချုပ်မှု တည်ထွန်းစေရန် ရည်ရွယ်ချက်ဖြင့် စာကြည့်တိုက် သင်တန်းများကို စာပေဗိမာန်က ကြီးမှူးဖွင့်လှစ်ခဲ့လေသည်။

ယခုအခါ နိုင်ငံနှင့် အဝှန်း စာဖတ်သူ ဦးရေ တိုးပွားများပြား လာသည်နှင့် အမျှ စာအုပ် စာတမ်းများကို ရိုက်နှိပ် ထုတ်ဝေသော ပုံနှိပ်တိုက်များလည်း ပေါ်ပေါက်ခဲ့လေသည်။ သို့ရာတွင် ပုံနှိပ်တိုက်တို့၌ ကျွမ်းကျင်သူ ပုံနှိပ်အလုပ်သမား ရှားကြောင်း သိရှိရသောကြောင့် ၁၉၅၄-၅၅ ခုနှစ် အတွင်း စာပေဗိမာန်က စာပုံနှိပ်သင်တန်းများကို ဖွင့်လှစ် ပို့ချခဲ့လေသည်။သင်တန်းများကို စာစီသင်တန်း၊စက်ရိုက် သင်တန်း၊ စာအုပ်ချုပ်သင်တန်း၊ ဗလောက်သင်တန်း ဟူ၍ သင်တန်းလေးမျိုးခွဲလျက် သင်ကြားပေးခဲ့လေသည်။

ထိုနောက် စာပေဗိမာန်ထုတ် စာအုပ် စာတမ်းများကို တတ်နိုင်သရွေ့ အသုံးပြုကာ ပညာလိုလားသည့် အမျိုးသား အမျိုးသမီးတို့ကို ကျေးဇူး ရှိစေမည့် ခေတ်မှီ ပညာရပ်များ သင်ကြား ပို့ချရန် ဟူသော ရည်ရွယ်ချက်ဖြင့် ပညာပြန့်ပွားရေး သင်တန်းများကိုလည်း ဖွင့်လှစ် ခဲ့လေသည်။ ထို သင်တန်းများတွင် လူမှုရေး အခြေ အနေ ပြောင်းလဲ တိုးတက်သည်နှင့်အမျှ ယင်းအခြေအနေနှင့် လိုက်လျောစွာ ကျင့်သုံး စေနိုင်ရန် ကမ္ဘာ့ရေးရာ၊ ဘောဂဗေဒ၊ စိတ်ပညာနှင့် လူမှုရေးရာ၊ အုပ်ချုပ်မှု ပညာ၊ သိပ္ပံပညာနှင့် လူလောက စသော အထွေထွေ ဗဟုသုတတို့ကို သင်ကြား ပို့ချပေးလေသည်။

ထိုမျှသာ မကသေး ဗဟုသုတဖြစ်စေသော စာအုပ်များကို ဈေးအသက်သာဆုံးနှုန်းဖြင့် စာပေဝါသနာပါသူများထံသို့ ရောက်စေရန် အဓိကအားဖြင့် ရည်ရွယ်လျက် ၁၉၆၀ ပြည့်နှစ် ဇူလိုင် ၁ ရက်နေ့မှအစပြု၍ စာပေဗိမာန် စာအုပ် အသင်းကို တည်ထောင်ခဲ့သည်။ စာအုပ် အသင်းဝင်များသည် တနှစ်လုံးအတွက် ငွေတဆယ် ထည့်ရုံမျှဖြင့် လစဉ်နောက်ဆုံးထုတ် ငါးမူးတန် ပြည်သူ့လက်စွဲ စာအုပ်နှစ်အုပ်၊ လေးလတကြိမ် တကျပ်တန်ပြည်သူ့လက်စွဲ နောက်ဆုံးထုတ်တအုပ် စုစုပေါင်း တဆဲ့ ငါးကျပ် တန်ဖိုးရှိသော စာအုပ်များကို အိမ်တိုင်ယာရောက် ရရှိ၍၊ထိုစာအုပ်များ စာအုပ်ဆိုင်များသို့ မရောက်မီ ဦးဦးဖျားဖျား ဖတ်ရသည့် အခွင့်အရေးရရှိသည်။ ထိုပြင် အခါအားလျော်စွာ စာပေဗိမာန်မှ ထုတ်ဝေဖြန့်ချိသည့် အချို့ စာအုပ်များကိုလည်း မေတ္တာလက်ဆောင်အဖြစ် ရရှိသည်။ ၁၉၆၆ ခုနှစ် အထိ စာအုပ်အသင်းဝင်ပေါင်းမှာ ၄၇၁၀ ဖြစ်၏။

သတင်းစာသည် တိုင်းပြည်ကို ရှေ့ဆောင်သည့် အဖွဲ့အစည်း ဖြစ်ပေသည်။ ထို့ကြောင့်ပင် သတင်းစာကို တိုင်းပြည်၏ စတုတ္ထ မဏ္ဍိုင်ဟု ဆိုကြခြင်း ဖြစ်သည်။ စာပေဗိမာန်သည် သတင်းစာ လောကကို တိုင်းပြည်၏ အားကိုးအားထား ဖြစ်စေလိုသည့် ဆန္ဒဖြင့် မြန်မာ နိုင်ငံ သတင်းစာ ဆရာများ အသင်းနှင့် ပူးတွဲ၍ သတင်းစာ သင်တန်းကို ဖွင့်လှစ်ခဲ့လေသည်။ ပဌမ အကြိမ် သတင်းစာ သင်တန်းကို ၁၉၅၆-၅၇ ခုနှစ် အတွင်းက ဖွင့်ခဲ့လေသည်။ ထိုသင်တန်းများတွင် သတင်း ထောက်လှမ်းနည်း၊သတင်း တည်းဖြတ်နည်း၊ သတင်းစာဆိုင်ရာ ဥပဒေ၊ ပုံပြ သရုပ်ဖော်နည်း၊ ကြော်ငြာလုပ်ငန်း၊ ကမ္ဘာ့သတင်းစာသမိုင်း စသည့် ပညာရပ်များကို ပို့ချ ပေးခဲ့လေသည်။ဈေးနှုန်းသတင်း ယူနည်း၊ ကာတွန်း ရုပ်ပြောင် ရေးနည်း၊ ရေဒီယို သတင်း ယူနည်း၊ ရဲနှင့် သတင်းစာ ဆက်ဆံရေး ပညာတို့ကိုလည်း သင်ကြား ပို့ချခဲ့သည်။

တဖန် လူထု အတွက် ပညာရှာမှီးရာ ခေတ်မှီ ပြည်သူ့ စာကြည့်တိုက် တတိုက်လည်း ရှိအပ်သည်ဟု ယူဆသဖြင့် မြန်မာ နိုင်ငံ ဘာသာပြန် စာပေ အသင်း အုပ်ချုပ်မှု ကောင်စီက စာပေဗိမာန် ပြည်သူ့ စာကြည့်တိုက်ကို ဖွင့်လှစ်ရန် ဆုံးဖြတ်ခဲ့ လေသည်။ ထို့ကြောင့် စာပေဗိမာန် ပြည်သူ့ စာကြည့်တိုက်ကို ၁၉၅၆ ခုနှစ် မတ်လ အတွင်းက ဖွင့်လှစ် ခဲ့လေသည်။ ပြည်သူ့ စာကြည့်တိုက်တွင် ပြည်သူ လူထု တရပ်လုံးမှ လူကြီး လူရွယ် လူလတ်ပိုင်းတို့သာ မက ကလေး သူငယ်များ စာဖတ် အလေ့ အထနှင့် အခြေခံ ဗဟုသုတရင့်သန်စေရန် ဟူသောရည်ရွယ်ချက်ဖြင့် ကလေးရိပ်သာ ကလေးစာကြည့်တိုက်တို့ကိုလည်း ဖွင့်ခဲ့လေသည်။ ပြည်သူ့ စာကြည့်တိုက်နှင့် ကလေး စာကြည့်တိုက်တွင် စာအုပ်များ ထားရှိရန်အတွက် အနည်းဆုံး ငွေကျပ် ၂၀,၀၀၀ အထိ အသုံးပြုရန် အသင်းကောင်စီမှ ခွင့်ပြုခဲ့လေသည်။

စာပေဗိမာန် ပြည်သူ့စာကြည့်တိုက် လုပ်ငန်း တွင် ကလေးရိပ်သာမှာ စိတ်ဝင်စားဖွယ် အကောင်းဆုံး ဖြစ်ပေသည်။ ကလေးသူငယ်တို့၏ တီထွင်လိုစိတ်၊ သိလိုစိတ်၊ တတ်လိုစိတ်ကို စာပေပညာဖြင့် ပြုစု ပျိုးထောင်ပေးရန် လိုပေသည်။ ကလေး သူငယ်တို့၏ ပင်ကိုယ် ဝါသနာ စရိုက်အလိုက် တိုးတက် ကြီးပွားခြင်း လမ်းစကို ခေတ်မှီနည်းများဖြင့်လည်း ဖော်ထုတ် ပေးရန် လိုပေသည်။ ကလေး သူငယ်တို့၏ အပေါင်းအဖော်စိတ်၊ ကူညီ ယိုင်းပင်းလိုစိတ်၊ ပူးပေါင်းဆောင်ရွက်လိုစိတ်တို့ကို စပေါင်း ညီညာစွာ ပြုလုပ်ခြင်းဖြင့်လည်း ဖော်ထုတ်ပေးရန် လိုပေသည်။ ထိုရည်ရွယ်ချက်များဖြင့် ကလေးရိပ်သာကို ဖွင့်လှစ်ထားခဲ့ခြင်း ဖြစ်လေသည်။

စာပေဗိမာန်ထုတ် စာအုပ်များ အနက် မြန်မာ့ စွယ်စုံကျမ်းအချို့ကို ဗိလတ်၌ရှင်း၊ နှစ်ငါးဆယ်စာစဉ် စာအုပ်နှင့်



မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်း၏ တိုင်းကျိုးပြည်ပြု စာမွန်များ ပြုစုထုတ်လုပ်ရာဖြစ်သော စာပေဗိမာန် အဆောက်အအုံ

လူထုသိပ္ပံ ကျမ်းတို့ကို နယ်သာလန်နိုင်ငံ၌ငှင်း ပုံနှိပ် လေသည်။ ကျန် စာအုပ်များကို မြန်မာနိုင်ငံတွင် အထူးသဖြင့် စာပေဗိမာန် ပုံနှိပ်ဌာန၌ ရိုက်နှိပ်ခဲ့လေသည်။ စာအုပ် စာတမ်း ပြုစု ထုတ်ဝေရာ၌ ရေးသား ပြုစုအပ်သော ပညာနှင့် သင့်လျော်အောင် စာအုပ်ထုတ်လုပ်မှု၌ သပ်ယပ်ဖို့ လိုပေသည်။ စာဖတ်သူ၏ စိတ်ကို ဆွဲဆောင်နိုင်ရပေမည်။

၁၉၄၇ ခုနှစ်တွင် ဘာသာပြန် စာပေ အသင်းကို စတင်တည်ထောင်ပြီးနောက် ၁၉၄၈ ခုနှစ်မှ စ၍ စာအုပ်များကို ပုံနှိပ် ထုတ်ဝေခဲ့သည်။ သို့ရာတွင် စာပေဗိမာန်၌ ပုံနှိပ်စက် မရှိခဲ့ချေ။ စာအုပ်များကို ပြင်ပ ပုံနှိပ်တိုက်များတွင် အပ်နှံ၍ ရိုက်နှိပ်ခဲ့ရလေသည်။ အသင်းပိုင် ခေတ်မီ ပုံနှိပ်ဌာနတခု တည်ထောင်ရန် ရည်မှန်းချက်ရှိသည့် အလျောက် ၁၉၄၉-၅၀ ပြည့်နှစ် အတွင်းက တပတ်ရစ် စက်ကြီး နှစ်လုံးနှင့် စက်ကလေး တလုံးကို ဝယ်ယူ၍ စာပေဗိမာန် ပုံနှိပ်ဌာနကို တည်ထောင်ခဲ့လေသည်။ ၁၉၅၁ ခုနှစ်တွင် ဂျပန်နိုင်ငံမှ ချန်ဒလာ ပုံနှိပ်စက် သုံးလုံးကို မှာကြား ဝယ်ယူခဲ့လေသည်။ ၁၉၅၂ ခု

နှစ်သို့ ရောက်သောအခါ တီ စီ အေ ထောက်ပံ့မှု အစီအစဉ် အရ ရှစ်သိန်းကျော်တန် ပုံနှိပ်လုပ်ငန်းဆိုင်ရာ စက်ပစ္စည်း ကရိယာများကို အမေရိကန် အစိုးရထံမှ ရရှိခဲ့လေသည်။

တီ စီ အေသည် စက်ကရိယာရရှိရေး၊ ပုံနှိပ်လုပ်ငန်းပညာ တော်သင်များအတွက် ပညာသင် စရိတ် ထောက်ပံ့ရေးနှင့် လိုအပ်သော အကြံဉာဏ်ပေးရန် ပုံနှိပ်ဖက် ပါရဂူတဦး ရရှိ ရေးတို့ကို ဆောင်ရွက် ပေးခဲ့လေသည်။ ထိုကြောင့် မြန်မာ နိုင်ငံတွင် မပေါ်ပေါက်ဘူးသေးသည့် ပဌမဦးဆုံး တီထွင် အောင်မြင်ခဲ့သော မိုနို စာစီစက် တလုံး၊ မိုနို စာစီသွန်းစက် တလုံး၊ မိုနို ဆူပါကာစတာ တလုံး၊ မီလီ တုံးလုံးစက် တလုံး၊ အခြား စာပုံနှိပ်စက် နှစ်လုံး၊ ခေါက်စက်တလုံး၊ နန်းချုပ် စက်တလုံး၊ ကြိုးချုပ်စက်တလုံး၊ အဖုံးလုပ်စက် တလုံးနှင့် စာစီဌာန ဆိုင်ရာ ပစ္စည်းကရိယာတို့ကို ရရှိခဲ့ လေသည်။ ပုံနှိပ်ဖက် ပါရဂူ တဦးကိုလည်း ရရှိခဲ့သည်။ ပုံနှိပ် လုပ်ငန်း ပညာတော်သင်များကိုလည်း အင်္ဂလန် နိုင်ငံနှင့် အမေရိကန် ပြည်ထောင်စုနိုင်ငံတို့သို့ စေလွှတ်ခဲ့ရလေသည်။

တီ စီ အေမှ ပေးအပ်သော စက်များအပြင် မိုနိုစာစီစက် တလုံး၊ မိုနိုစာစီသွန်းစက် နှစ်လုံးနှင့် ကယ်လီ ၃ စက်ကြီး တလုံး၊ မီလီဗာတီကယ် ၅၀ တလုံး၊ မီလီ-၄၆ နှစ်ရောင်ရိုက် စက်ကြီး တလုံးကို အသင်းမှ ထပ်မံ ဝယ်ယူခဲ့ လေသည်။ ဗလောက်ဌာနတခုကိုလည်း ဖွင့်ခဲ့သည်။

၁၉၅၆ ခုနှစ်တွင် ကုလသမဂ္ဂယူနက်စကိုအဖွဲ့၏အထောက် အပံ့ဖြင့် ရောက်ရှိလာသော စာအုပ် ထုတ်လုပ်ရေး ပါရဂူ၏ အကြံပေးချက်အရ စာအုပ် ထုတ်လုပ်မှုဌာန ဟူ၍ စာမူ တခုမှ စာအုပ်တအုပ်အဖြစ်သို့ ရောက်သည်အထိ ဆောင် ရွက်ရသော ဌာနတခုကို ဖွဲ့စည်းခဲ့လေသည်။ ထုတ်လုပ်မှု ဌာနအောက်တွင် စက်ရုံဌာနခွဲ၊ ပန်းချီနှင့်သရုပ်ဖော်ဌာနခွဲ၊ တန်ဖိုးတွက်ဌာနခွဲ ဟူ၍ သီးခြားဌာနခွဲများ ရှိလေသည်။

စက်ရုံဌာနခွဲတွင် လက်စာစီစက်စာစီဌာနစိတ်၊ ဗလောက် ဌာနစိတ်၊ စက်ရိုက်ဌာနစိတ်၊ စာအုပ်ချုပ် ဌာနစိတ် စသည် ဖြင့် ဌာနစိတ် အသီးအသီး ရှိသည်။ စက်ရုံ ဌာနခွဲသည် စာမူ ကို စာအုပ်အဖြစ်သို့ ရောက်အောင် ဆောင်ရွက်ပေးရသော ဌာနခွဲ ဖြစ်သည်။ စက်ရုံဌာနခွဲကို စက်ရုံမှူးက အုပ်ချုပ်ရ လေသည်။

ပန်းချီနှင့် သရုပ်ဖော် ဌာနခွဲသည် စာမူကို စာအုပ်အဖြစ် ပုံနှိပ် ထုတ်ဝေရာ၌ ထိုစာအုပ်ကို မျက်စိပသာဒ ရှိအောင်၊ ဖတ်သူ၏ စိတ်ကို ဆွဲဆောင် နိုင်အောင်၊ ဖတ်ရှုရာတွင် လွယ် ကူစေအောင် တန်ဆာဆင်ရသောဌာန ဖြစ်လေသည်။ ထို သို့ စာအုပ်ကို တန်ဆာ ဆင်ရာ၌ သရုပ်ဖော် ရုပ်ပုံ၊ ဓာတ်ပုံ များ ထည့်သွင်းရသည်။ ထို့ပြင် ဆိုင်ရာ ရုပ်ပုံ၊ ဓာတ်ပုံများကို စာအုပ်နှင့် သင့်လျော်အောင် အထားအသို ပြင်ဆင်မှုတို့ကို လည်း ပြုလုပ်ရလေသည်။

စက်ရုံ ဌာနခွဲ၊ ပန်းချီနှင့် သရုပ်ဖော် ဌာနခွဲတို့က စာမူကို စာအုပ် အဖြစ်သို့ ရိုက်နှိပ်ပေးရုံဖြင့် လုပ်ငန်း ပြီးဆုံးပြီဟု မဆိုနိုင်သေးချေ။ ထိုစာအုပ်ကို ဖြန့်ချိ ရောင်းချ ရပေဦး မည်။ ထိုကြောင့် စာအုပ်တန်ဖိုးကို သတ်မှတ်ရမည်။ စာအုပ် တအုပ်ကို တန်ဖိုး သတ်မှတ်နိုင်ရန် ကနဦးကပင် စာအုပ် အပေါ် ကုန်ကျမည့် စရိတ်ကို တွက်ချက်ခဲ့မှ ဖြစ်နိုင်သည်။ ထိုကြောင့် ထုတ်လုပ်မှု ဌာနတွင် တန်ဖိုးတွက် ဌာနခွဲတခု ထားရှိရလေသည်။

စာပေဗိမာန်သည် စာအုပ်စာတမ်း အရပ်ရပ်ကို ပုံနှိပ် ဖြန့်ချိရန် ဟူသော ရည်ရွယ်ချက်ဖြင့်လည်း တည်ထောင်ခဲ့ သောအဖွဲ့ ဖြစ်ကြောင်း အထက်က ဖော်ပြခဲ့ပေပြီ။ ထို ကြောင့် စာပေဗိမာန်ထုတ် စာအုပ် စာတမ်း မှန်သမျှကို အရောင်းဌာနက တာဝန်ယူ၍ ဖြန့်ချိ ရောင်းချ လေသည်။ အရောင်းဌာနတွင် စာအုပ်များကို တိုက်ရိုက် ရောင်းချသော ဌာန၊ အစိုးရသွင်း ဌာန၊ အရစ်ကျ အရောင်းဌာနဟူ၍ သီးသန့်ဌာနများ ပါဝင်လေသည်။

တိုက်ရိုက် အရောင်း ဌာနသည် အစိုးရဌာနများမှတပါး အခြားသူများသို့ လက်လီ လက်ကား ရောင်းချသော ဌာန ဖြစ်လေသည်။ လက်လီ ရောင်းချခြင်းကို ယခင်က ရန်ကုန်မြို့ ကုန်သည်လမ်းရှိ စာပေဗိမာန်တိုက်သစ် စာအုပ်ရောင်း ခန်းတွင်၎င်း၊ ပြည်လမ်း စာပေဗိမာန်တွင်၎င်း၊ စာပေဗိမာန် စာအုပ်မော်တော်ယာဉ်ဖြင့်၎င်း ရောင်းချခဲ့လေသည်။ ၁၉၆၄ ခုနှစ်၌မူကား ကုန်သည်လမ်းရှိ စာပေဗိမာန် စာအုပ် ရောင်းခန်း တခုတည်း၌ စာအုပ်များကို နေ့စဉ် လက်လီ ရောင်းချခဲ့လေသည်။

လက်ကား ရောင်းချရာ၌ နယ် ကိုယ်စားလှယ်နှင့် ရန်ကုန် ကိုယ်စားလှယ်တို့သို့ ရောင်းချခြင်း ဖြစ်သည်။ ကိုယ်စား လှယ် ဟူရာ၌လည်း အထူး ကိုယ်စားလှယ်နှင့် သာမန် ကိုယ် စားလှယ်ဟူ၍ နှစ်မျိုးနှစ်စား ရှိလေသည်။ သာမန် ကိုယ် စားလှယ်သည် အခြားစာအုပ် ကိုယ်စားလှယ်များ ရရှိ သော အခွင့်အရေးမျိုးကိုသာရရှိသည်။ အထူး ကိုယ်စား လှယ်များမှာမူကား စာပေဗိမာန်မှ တီထွင်ထားသော "မရောင်းရပြန်သွင်း စံနစ်" နည်းဖြင့် ဆက်သွယ်နိုင်ခွင့်ရှိ လေသည်။

စာပေဗိမာန်ထုတ် ပညာပေး စာအုပ် များကို (၁) အစိုး ရ ပြန်ကြားရေးဌာန၊ (၂) အစိုးရ ပညာရေးဌာန၊ (၃) လူမှုဝန်ထမ်းဌာနတို့က ဝယ်ယူ၍ စာကြည့်တိုက်များ၊ လူထုရိပ်သာ အဖွဲ့အစည်းများ၊ အစိုးရ ကျောင်းများ၊ ဘုန်းတော်ကြီး ကျောင်းများသို့ ဖြန့်ချိ ခဲ့လေသည်။

အရစ်ကျ အရောင်းဌာနသည် စာပေ ဗိမာန်ထုတ် စာအုပ် များ အနက် မြန်မာ့စွယ်စုံကျမ်း၊ နှစ်ငါးဆယ် စာစဉ်၊ လူထု သိပ္ပံကျမ်းကဲ့သို့သော အတွဲလိုက် ထုတ်သည့် စာအုပ်များ

ကို လူထုက လစဉ် ငွေကို အရစ်ကျပေးသွင်း၍ ဝယ်ယူဖတ်ရှုနိုင်အောင် စီစဉ် ဆောင်ရွက်ပေးသောဌာန ဖြစ်သည်။

ဤကဲ့သို့ အရင်းအနှီး ကြီးမားစွာ မြှုပ်နှံ တည်ထောင်ခဲ့ရသော အဖွဲ့အစည်းကြီးသည် မပျက်မစီး တည်ရှိနေရန် အရေးကြီးပေသည်။ သို့ရာတွင် စာပေဗိမာန် (ဘာသာပြန် စာပေအသင်း) ၏ ဝင်ငွေမှာ သိသိသာသာကြီး လျော့နည်းလာခဲ့လေရာ၊ အခြေ အနေမှာ အစိုးရဌာနများက ယခင်ကကဲ့သို့ ထောက်ပံ့ခြင်းအားဖြင့် မကူညီပါက ဤအသင်း၏ လုပ်ငန်းများသည် ရှေ့ဆက်ရန် အထူး ခက်ခဲလာသည်ကို တွေ့ရလေသည်။ ထို့ကြောင့် တော်လှန်ရေး အစိုးရ၏ ဝါဒလမ်းစဉ်နှင့် ကိုက်ညီစေရန်ငှင်း၊ ဤကဲ့သို့ တိုင်းပြည် ဘဏ္ဍာဖြင့် အရင်းကြီးစွာ မတည်ထားရသော လုပ်ငန်းကြီး တခု မပျောက်ကွယ်စေရန်ငှင်း တော်လှန်ရေး အစိုးရကပင် ဆက်လက် ထိန်းသိမ်းသွားရန် ဆုံးဖြတ်ပြီးနောက် ၁၉၆၃ ခုနှစ် မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ စာပေဗိမာန် အုပ်ချုပ်ရေးအဖွဲ့ အက်ဥပဒေအရ ၁၉၆၃ ခုနှစ် ဩဂုတ်လ ၂၂ ရက်နေ့တွင် မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်း (စာပေဗိမာန်) ကို ဖျက်သိမ်းကာ "ပြည်ထောင်စု မြန်မာနိုင်ငံ စာပေဗိမာန်အုပ်ချုပ်ရေးအဖွဲ့" ဟူ၍ အဖွဲ့သစ်ကို ပြန်ကြားရေးဌာန လက်အောက်တွင် ပြန်လည် ဖွဲ့စည်းလိုက်လေသည်။ အဖွဲ့၏ တာဝန်များမှာလည်း ပြတ်သားလာခဲ့သည်။

စာပေဗိမာန် အုပ်ချုပ်ရေး အဖွဲ့၏ အဓိက တာဝန်ဝတ်တရား များမှာ ပြည်ထောင်စု မြန်မာ နိုင်ငံသား အားလုံး အတွက် ပညာ ဗဟုသုတ တိုးပွားစေရန်၊ နိုင်ငံခြား စာပေများမှ ကောင်းနိုး ရာရာတို့ကို သုတေသန ပြု၍ စာပေအဖြစ် ပြုစုရန်၊ ပြုစုပြီး စာပေတို့ကို မြန်မာဘာသာသို့ ငှင်း၊ တိုင်းရင်းဘာသာ တခုခုသို့ငှင်း ပြန်ဆို၍ စာအုပ် စာတမ်းအဖြစ် ပုံနှိပ်ရန်၊ ထို့ပြင် အစိုးရ၏ မူဝါဒနှင့် ကိုက်ညီသည့် အစိုးရအသိအမှတ်ပြု ကျောင်းသုံးစာအုပ်များကို ပုံနှိပ်၍ ပြည်သူလူထုအတွက် ဈေးအသက်သာဆုံးနှုန်းထားဖြင့် ရောင်းချ ဖြန့်ချိရန်တို့ ဖြစ်သည်။ ဦးစွာ၌ ပြန်ကြားရေးဌာန ဒု-အတွင်းဝန်၊ ပြန်ကြားရေးဌာနခွဲ ညွှန်ကြားရေးဝန်နှင့် စာပေဗိမာန် အုပ်ချုပ်ရေးမှူးတို့ ပါဝင်သော ယာယီ ထိန်းသိမ်းရေး ကော်မီတီက စာပေဗိမာန် အုပ်ချုပ်မှုနှင့် လုပ်ငန်းအရပ်ရပ်တို့ကို လွှဲပြောင်း ထိန်းသိမ်း ဆောင်ရွက်ခဲ့လေသည်။ ၁၉၆၅ ခုနှစ် နိုဝင်ဘာလ ၆ ရက်နေ့မှအစပြု၍ စာပေဗိမာန် အုပ်ချုပ်ရေးအဖွဲ့ကို ဖွဲ့စည်းခဲ့ရာ ထိုအဖွဲ့တွင် အဖွဲ့ဝင် ကိုးဦး ပါဝင်၍ ပြည်ထောင်စု မြန်မာ နိုင်ငံတော်လှန်ရေးအစိုးရအဖွဲ့ ပြန်ကြားရေး ဌာန တာဝန်ခံက သဘာပတိအဖြစ် ဆောင်ရွက်ပြီးလျှင် စာပေဗိမာန် အုပ်ချုပ်ရေးမှူးက အဖွဲ့၏ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်လေသည်။

**မြန်မာနိုင်ငံ မြက်များ။** ။မြက်သည် အဘယ်အပင်မျိုးနည်း။ မြန်မာနိုင်ငံ မြက်များအကြောင်းကို စ၍ မရေးမီ၊ မြက်ဆိုသော အပင်မျိုးသည် အဘယ်ကဲ့သို့သော အပင်မျိုးကို ခေါ်သနည်းဟု ရှေးဦးစွာ သိအပ်၏။

မလေ့လာသော သူတို့အတွက် ဆိုလျှင် အရွက်ရှည်ရှည်နှင့် စိမ်းလန်းစွာ မြေပေါ်မှာ ကပ်ပေါက်လျက် နေသော အပင်ဟူသမျှကို မြက်ဟုပင် ထင်ကြ၏။ မြက်မှာလည်း ခွာရှိသော ခြေလေးချောင်းသတ္တဝါတို့စားရန် အစာသာ ဖြစ်၍၊ နွားမှသာ မြက်ကို စားသည်ဟုပင် ဆိုရိုးစကား ရှိလေသည်။ ဝေါဟာရအားဖြင့် မြက်ဟုခေါ်သော အပင်မျိုးထဲတွင် မြက်သောက်၊ မြက်သုံးမြှောင့်၊ မြက်သမန်း၊ မြက်မုံညင်းခေါ် အပင်မျိုး မြောက်မြားစွာ ပါဝင်၏။ ရုက္ခဗေဒမှ ခွဲထုတ်လိုက်သော တိဏဗေဒအရဆိုလျှင် မြက်ဟူသော အပင်မျိုးတွင် အောက်ပါ အင်္ဂါအားလုံးနှင့် ပြည့်စုံရ၏။

ပင်စည်၊ သို့မဟုတ် ပင်တံသည် လုံးလျက်သော်ငှင်း၊ ပြားလျက်သော်ငှင်း ရှိနေ၍ အခေါင်းနှင့် အဆစ်များရှိ၏။ အရွက်၌ နှစ်ပိုင်းကွဲပြားလျက်ရှိ၏။ အပေါ်ပိုင်းကို အရွက်ဟုခေါ်၏။ အရွက်သည် များသောအားဖြင့် ပြား၍ ရှည်၏။ အရွက်၌ရှိသော အကြောငယ်တို့သည် အရင်းမှ အဖျားသို့ စီတန်းလျက် နေ၏။ အရွက်၏ အောက်ပိုင်းကို အဖတ်ဟုခေါ်၏။ ထိုအဖတ်သည်လည်း အဆစ်၏ အပေါ်ပိုင်း၌ ရှိသော ပင်တံကို ပတ်လျက် နေ၏။ အရွက်နှင့် အဖတ်တို့ ဆက်၍ နေသော နေရာ၌ အချို့မြက်မျိုးတွင် အညှာ ရှိ၍ အချို့၌မူကား မရှိချေ။ ထို(အရွက်နှင့် အဖတ်တို့ ဆက်သော)နေရာတွင် ကော်လာ၊ သို့မဟုတ် လည်ခွံခေါ်သော အရောင်ဖျော့သည့် အရစ်ရှိ၏။ အတွင်းဖက်၌မူကား ပင်တံကို ကပ်နေသော လိဂူးခေါ် အခင်တန်းငယ် (လျှာ) ရှိ၏။ ထိုအခင်သည် အချို့အပင်များတွင် အခွံပါးကလေးဖြစ်၏။ အချို့ အပင်တို့တွင် အခင်အစား အမွေးငယ်များ တန်း၍ ပေါက်တတ်၏။ အချို့၌မူကား ခုံးနေသော အရာသာ ထင်၍ ဘာမျှ မရှိပေ။ ယင်းတို့ရှိခြင်းအားဖြင့် မိုးရေသော်ငှင်း၊ နှင်းရေသော်ငှင်း ပင်တံနှင့် အဖတ်ကြားထဲသို့ ဝင်၍ အပင်ပျက်စီးအောင် မလုပ်နိုင်ပေ။ အဖတ်နှင့် ပင်တံကြားတွင် များသောအားဖြင့် ပရိဗိလမ်းခေါ် အရွက်ကလေးကိုလည်း တွေ့တတ်၏။ မြက်ပင်တို့တွင် ဥမရှိချေ။ ဈေးထဲတွင် ရောင်းသော ကိုင်းဥသည် အချို့ကိုင်းပင်မျိုး၏ အဆစ်မှ ပေါ်ထွက်လာသော မှိုဥသာ ဖြစ်လေသည်။

အထက်၌ဖော်ပြသော အင်္ဂါတို့နှင့်ပြည့်စုံသော အပင်မျိုးထဲတွင် စပါး၊ ဂျုံ၊ ပြောင်း၊ လူး၊ ဆပ်၊ ကြံ၊ ကျူ၊ အလိုကျူ၊ စပါးလင်၊ ကျိတ်၊ ဝါးစသော အပင်မျိုးများလည်း ပါဝင်၏။ ယင်းတို့တွင် အချို့သည် မြေပြင်မှ အမြင့် တလက်မခွဲမှ ပေ ၁၀၀--၁၂၀ အထိ မြင့်ပေသည်။

ကမ္ဘာပေါ်တွင် မြက်တို့သည် အဖိုးထိုက်တန်ဆုံးဖြစ်၏။ မြက်သာမရှိလျှင် လူနှင့် တိရစ္ဆာန်၊ ကြက်၊ ငှက်နှင့် အချို ပိုးမွှားများ အသက်ရှင်နိုင်မည် မဟုတ်ချေ။ ဤကမ္ဘာကြီး သည်လည်း ပျက်စီးသွားပေမည်။ ထိုအတွက် မြက်သည် အပင်တို့တွင် ဘုရင်ဖြစ်သည်ဟုပင် ဆိုကြ၏။

မြန်မာ နိုင်ငံတွင် မြက်မျိုးပေါင်း ၅၀၀ (ငါးရာ) ထက် မနည်း ရှိလိမ့်မည်ဟုယူဆ၏။ သို့သော် မြက်တို့၏တန်ဖိုးကို ဂရုမပြုကြ၍၊ မြက်တို့၏အကြောင်းကို လေ့လာသင့်သလောက် မလေ့လာခဲ့ကြပေ။ မြက်တို့ကို အထူး လေ့လာကြသော သူများမှာ စိုက်ပျိုးရေးဌာနမှ အငြိမ်းစားယူသွားသော ရက္ခဗေဒအရာရှိကြီး မစ္စတာ ရိုင်းနှင့် ဦးသိန်းလွင်တို့ နှစ်ဦးသာရှိ၏။ ထိုအရာရှိကြီးရေးခဲ့သော မြန်မာ့မြက်များခေါ် စာအုပ်တွင် မြန်မာနိုင်ငံ၌ မြက်မျိုးပေါင်း ၄၂၀ ရှိကြောင်း ဖော်ပြထား၏။ ထိုတွင် ၇၆ မျိုးသည် ဝါးမျိုးများဖြစ်၏။ အဆိုပါ စာအုပ် ပုံနှိပ်ပြီးမှ ဦးသိန်းလွင်ရှေးဦးစွာတွေ့၍ ဦးသိန်းလွင်၏ အမည်တပ်ထားသော မြက် (ပန်းတော်သိန်းလွင်) နှင့် အခြားမြက်မျိုးပေါင်း ၂၀ အပြင် အကြောင်းအမျိုးမျိုးဖြင့် မြန်မာ နိုင်ငံသို့ ရောက်လာသော နိုင်ငံခြား မြက်များ၊ ကပြား မြက်များနှင့် မစုံစမ်းရသေးသော ဒေသများမှ မြက်မျိုးပေါင်း များစွာတို့သည် ထိုပုဂ္ဂိုလ်ကြီး၏ စာရင်းထဲတွင် မပါဝင်သေးချေ။ မြန်မာနိုင်ငံ၏ မြက်များအကြောင်းကို စုံလင်စွာသိနိုင်ရန် မြက်တို့ကို စိတ်ပါလက်ပါနှင့် ဆက်လက်၍ စုံစမ်း လေ့လာသူများ ပေါ်ပေါက်လာမှ ဖြစ်နိုင်ပေမည်။ ယနေ့အထိ မြန်မာနိုင်ငံ မြက်မျိုးအားလုံးကို စုံလင်စွာ မသိသေးသည့် အပြင်၊ သိပြီးသား မြက်အားလုံး၏ အသုံးကိုလည်း မသိနိုင်သေးသော အခြေတွင် ရှိနေရသေးသည်။

## မြက်ပေါက်ပုံ

မြက်တို့သည် အစေ့မှ ပေါက်သောအခါ အခြားအပင်များ နည်းတူ အမြစ်များနှင့် ပင်တံ တခုတည်းထွက်သော အမျိုးက နည်း၏။ ယင်းတို့အနက် အချို့ကား မြေအောက်တွင် ရှိသော အဆစ်မှ သော်၎င်း၊ အမြစ်ရင်းမှသော်၎င်း၊ ပတ်ဝန်းကျင်ရှိ နေရာများမှ အတက်ထွက်လျက် အစုလိုက် အပြုံလိုက် အရုံ၊ သို့မဟုတ် အဖုတ်ဖွဲ့၍ ပေါက်၏။ အချို့ကား မြေအောက်တွင် ရိုင်ဇုမ်ခေါ် ပင်တံများဖွဲ့လျက် ထိုပင်တံတို့၏ အစွန်းအဖျားများမှ အတက်နှင့် အမြစ်များ ထွက်လျက်၊ အခြား အပင်များနည်းတူ လေထဲသို့ ပင်တံ သဖွယ် အကိုင်းများပေါက်စေ၏။ ဤနည်းအတိုင်း ပေါက်သောအပင်မျိုးမှာ ဝါးဖြစ်၍ ဝေါဟာရအားဖြင့် ပင်စည်၊ သို့မဟုတ် ပင်တံခေါ် နေကြသော အတံသည် အမှန် ဆိုသော် အကိုင်းတံပင် ဖြစ်၏။ အချို့ မြက်ပင်မျိုးမှာမူ မူလနေရာ၌ အဖုတ်ဖွဲ့မည့် အတက်များက စုရုံး၍ ပေါက်လျက် ဖွဲ့၏။ ယင်းတို့ထက် သန်စွမ်းသော အတက်များမှ ပင်တံတို့သည် အဖက်ဖက်သို့ မြေပေါ်မှာတွားလျက် ပေါက်ပြီးလျှင် ပင်တံတို့၏ အဆစ်များမှ တဖန် မူရင်းအတိုင်းကဲ့သို့ အဖုတ်၊ ပင်တံ၊ အတက်၊ အမြစ်စသည်တို့ ဆက်လက်၍ ပေါက်စေ၏။ ဤနည်းအတိုင်း ပေါက်သော မြက်များမှာ မြေစာ၊ သို့မဟုတ် နေစာနှင့် ငှက်တော်မြီးများ ဖြစ်လေသည်။

## မြက်ပွင့်၊ မြက်တို့၏ သက်တမ်းနှင့် အသုံးချပုံ

မြက်တို့သည် အခြား အပင်မျိုးများကဲ့သို့ ပွင့်ခြင်း၊ သီးခြင်း ပြုကြ၏။ အပွင့်တို့သည်လည်း အမျိုးခွဲရာ၌ အလွန်တရာ အရေးပါ၏။ သို့သော် အပွင့်များသည် သေးငယ်သဖြင့် အားကောင်းသော မှန်ဘီလူးများနှင့် ကြည့်ရသည့်အပြင် ပွင့်ရွက်၊ ပွင့်ဖတ်စသော အရွက်ငယ်တို့ကို ခွဲခြား၍ နားလည်ရန်လည်း မလွယ်ကူလှပေ။ ထို့မှတပါးလည်း အကြောင်းအမျိုးမျိုးတို့ကြောင့် မြက်တို့၏ ပင်တံ၊ အရွက်၊ ပန်းပွင့်၊ ပန်းဖတ်စသော အင်္ဂါတို့၏ ပုံသဏ္ဌာန်နှင့် အရွယ်များလည်း ပြောင်းလဲတတ်ပေသေးသည်။ ထိုအတွက် ဗဟုသုတအလို့ငှာ ထိုအင်္ဂါစု၏ အကြောင်းကို ချဲ့ထွင်၍ အသေးစိတ် ရေးရန် မလိုပေ။

မြက်တို့သည် သက်တမ်း စေ့လျှင် များသော အားဖြင့် ပွင့်သီးပြီးလျှင် သေကြ၏။ သို့သော် အချို့ မြက်အငယ်စားမျိုးကိုမူ ရေမှန်မှန်လောင်းပေးလျှင် တဆဲ့နှစ်ရာသီ စိမ်းလန်းစွာ နေအောင် ပြုလုပ်ပေးနိုင်၏။ မြက်တို့သည် အချို့တဆဲ့နှစ်ရာသီပွင့်၏။ အချို့မှာ တနှစ်တခါ နှစ်နှစ်တခါ သုံးနှစ်တခါ ပွင့်ကြ၏။ မြက်အကြီးစားဖြစ်သော ဝါးတို့အနက် အောက်ပါအရေးပါသော အမျိုးများသည် ယင်းတို့နှင့် ယှဉ်ပြိုင်ဖော်ပြသောနှစ်တို့တွင် ပွင့်ကြ၏။ ထိုအခါ တချိန်တည်း ပေါက်သော အပင်တို့သည် တချိန်တည်း တတောလုံး တတောင်လုံး ပွင့်လျက် သေလေ့ရှိ၏။ ထိုသို့ပွင့်ခြင်းကို သုန်းသည်ဟု ဆိုကြ၏။

## ဝါးမျိုး

### ပွင့်သော နှစ်နှင့် အသုံးချပုံ

**ဝါးပိုး မျက်ဆန်ကျယ်။** ဝါးကြီးမျိုး ဖြစ်၍ အရင်း၌ ပင်လုံးသည် တပေခွဲ နှစ်ပေ နီးပါးရှိ၏။ တောတောင် ထူထပ်သော ဒေသများတွင် ပေါက်တတ်၏။ သို့သော် မပေါများပေ။ ၁၇၉၄ ခုနှစ်က နောက်ဆုံးပွင့်၍ နောက်ထပ်၍ မပွင့်သေးချေ။ မျှစ်ကို စားရ၏။ ဝါးဖတ်ကို ဆေး

ပေါ့လိပ် ဖက်နှင့် ခမောက် လုပ်ရန်အတွက် သုံးနိုင်၏။ ဝါးကို တောင်း၊ ဖျာ ရက်ခြင်း၊ အိမ်ဆောက်ခြင်းတို့အတွက် သုံး၏။ သို့သော် အသားပါး၍ မခိုင်။

**မြင်ဝါး။** အသား ထူ၍ အခေါင်းသေးသည်။ အရင်း၌ ပင်လုံးသည် လုံးပတ်ခုနစ်လက်မမှ ရှစ်လက်မ အထိ ကြီး၏။ မြန်မာနိုင်ငံတွင် အနှံ့အပြား ပေါက်၏။ အနှစ် ၂၀၊ ၂၅ နှစ်မှ တခါ ပွင့်၏။ မြင်ဝါးသည် နောက်ဆုံး ၁၉၃၀ ပြည့်နှစ်က ပွင့်ခဲ့၏။ မြင်ဝါးကို အိမ်ဆောက်ခြင်း၊ ကုလား ထိုင်၊ စားပွဲ၊ ဖျာ၊ တောင်း၊ ပလုံး၊ လက်ကိုင် တုတ်၊ နှီး စသည်တို့အတွက်သုံး၏။ မြင်ဝါး သည် မာသဖြင့် ပုဆိန်ရိုး၊ ဓားရိုး၊ လှံရိုး၊ ဆောက်ရိုး၊ ဝါးချန်နှင့် လှေရွက်တိုင်တို့ အ တွက်လည်း သုံးလေ့ရှိ၏။ မျှစ်ကို စားရ၏။ တော်မွတ်ခေါင်းပါးသော အခါ၌ မြင်ဝါး၏ အ သီးကို ဆန်အစား ချက်စားနိုင်၏။

**ဝါးပိုး။** တောထဲတွင် ပေါက်သော်လည်းရှား၏။ ဝါး ပိုးကို အိမ်ခြံဝင်းနှင့် ဉယျာဉ်ထဲတွင် စိုက်လေ့ ရှိ၏။ အရွယ်နှင့် ပုံသဏ္ဌာန်မှာ ဝါးပိုးမျက် ဆန်ကျယ်နှင့် တူ၍၊ ဝါးပိုး မျက်ဆန်ကျယ် နည်းတူ အသုံးချကြ၏။ မျှစ်ကို စားနိုင်၏။ ရောဝတီမြစ်ရိုးတလျှောက်တွင် ဝါးပိုးကို လှေ ကြီးများအတွက် ရွက်တိုင်အဖြစ် သုံးကြ၏။ ထိုဝါးပွင့်ခြင်းကို ယနေ့တိုင် မတွေ့ရသေးပေ။

**ဝါးယား၊ တလကူ၊ သို့မဟုတ် ဝါးနက်။** မပေါများ။ သို့သော် အောက် မြန်မာနိုင်ငံရှိ တောများ၏ ချောင်းကမ်းဘေးတွင် တွေ့တတ်၏။ ၂၅ နှစ်၊ အနှစ် ၃၀ တွင် တခါတခါ ပွင့်တတ်၏။ ပဲခူး ချောင်းထဲတွင် နောက်ဆုံး ၁၉၄၀ ပြည့်နှစ် က ပွင့်ကြောင်း တွေ့ရ၏။ ဝါးယားကို ပိုးမွှား များ ကိုက်သည့်အပြင်၊ ဆွေးလည်း ဆွေး လွယ်၍ အသုံးနည်း၏။

**ဝါးဖြူ၊ မြင်ဖြူဝါး၊ ဝါးနု၊ သို့မဟုတ် ဝါးပျဉ်း။** အေး သော တောတောင်များတွင် ပေါက်လေ့ ရှိ ၏။ သို့သော် မပေါများပေ။ အနှစ် ၂၀၊ ၂၅ နှစ်မှ တခါပွင့်သည်ဟု ဆိုကြ၏။ ဝါးဖြူသည် မြင်ဝါးနှင့် အတော် တူသဖြင့် ထိုဝါးကဲ့သို့ပင် အသုံးချကြ၏။

**ကြလို၊ ဝါးပျဉ်း၊ သိုက်ဝါးပိုး။** ထုံးကျောက် ပေများ သော သံလွင်နှင့် စစ်တောင်း ချောင်းရိုးတ လျှောက်ရှိ လျှိုများထဲတွင် ပေါက်တတ်၏။ သို့သော် မပေါများပေ။ အနှစ် ၂၀၊ ၂၅ နှစ်မှ တခါ ပွင့်၏။ အိမ်ဆောက်ရန်အတွက် ကြလို ဝါးကို အသုံးပြုကြ၏။

**တင်းဝါး။** မြန်မာနိုင်ငံ၏တောများထဲတွင်အနှံ့အပြား ပေါများစွာ တွေ့တတ်၏။ အဆစ်ရှည်၍ အ သား ပါး၏။ ပျော့လည်း ပျော့ပျောင်း၏။ ၂၅ နှစ်မှတခါ ပွင့်၏။ တင်းဝါးသည် ဝါးမျိုးထဲ တွင် အလွန်တရာ အသုံးဝင်သဖြင့် ဝါးသုံးနိုင် သော နေရာတိုင်း အတွက် တင်းဝါးကိုသာ အားထား၍ သုံးသည့်အပြင်၊ မီးပုံး၊ လေတံ ခွန်၊ ခြင်းကြားရုပ်များကို လုပ်ရာ၌ သုံးကြ၏။ ကောက်ညှင်း ကျည်ထောက် ဖုတ်သောအခါ တင်းဝါးကိုသာ သုံးနိုင်သဖြင့် ကောက်ညှင်း ကျည်ထောက်ဝါးဟုလည်း ခေါ်ကြ သေး၏။ ဤ ဝါးသည် အလွန်တရာ အသုံးဝင်သော ကြောင့် အိမ်ဝင်း၊ ခြံဝင်းထဲတွင် စိုက်ကြ၏။ ၁၉၂၇ ခုနှစ်က နောက်ဆုံး သုန်းခဲ့၏။

**ခရင်ဝါး၊ တပင်တိုင်ဝါး၊ ခရောင်းဝါး။** အရင်းတွင် လုံး ပတ်သည် ၁၀ လက်မ၊ ၁၂ လက်မ အထိ ရှိ၏။ ခရင်ဝါးကို များသောအားဖြင့် ရခိုင် ရိုးမ တောင်တန်းတောများတွင် တွေ့ရ၏။နောက် ဆုံး ၁၈၉၂ ခုနှစ်တွင် ပွင့်၍၊ နောက်တဖန် ပွင့် ကြောင်းကို မကြားရသေးပေ။ ဤဝါးမျိုးကို ရခိုင်ပြည်နှင့် ပုသိမ်၊ မြောင်းမြ၊ ဖျာပုံ၊ ဒေးဒ ရဲ၊ ကျိုက်လတ်၊ မအူပင်စသော မြစ်ဝကျွန်း ပေါ် ဒေသများတွင် နေရာတကာ၌ အသုံး များကြလေသည်။

**သိုက်ဝါး။** ၂၅ နှစ်၊ အနှစ် ၃၀ မှ တခါသုန်း၏။ သိုက်ဝါး ကို နေရာမြောက်မြားစွာတွင် တွေ့ရ၍၊ အသုံး ချရာ၌လည်းများ၏။ မျှစ်ကို စားနိုင်၏။ ခြံ စည်းရိုးအတွက် သိုက်ဝါးကိုစိုက်ကြ၏။

**ကြသောင်းဝါး။** မြန်မာနိုင်ငံ၌ ကျွန်းသစ် ပေါက် သောတောတိုင်းတွင် ကြသောင်းဝါးကို တော် တော်များများ တွေ့နိုင်၏။ ကြသောင်းဝါး သည် ၁၇၅၄ ခုနှစ်၊ ၁၈၆၀ ပြည့်နှစ် များက တခါ သုန်း၍၊ ၁၉၃၉ ခုနှစ်၊ ၁၉၄၁ ခုနှစ်တွင် တဖန်သုန်းစ ပြုလာ၏။ ကြသောင်းဝါးသုန်း သောအခါ တတောလုံး တတောင်လုံး သုန်း လျက် အစာ ပေါလာသောကြောင့် ကြွက်၊ ကျား၊ ကြောင် စသော သတ္တဝါတို့ ပေါများ လေသည်။ ဝါးစေ့များ ကုန်ခန်းသည့်အခါတွင် ကြွက်တို့သည် တော၏ အနီးအနား၌ရှိသော

ရွာ၊ ယာ၊ လယ်၊ ကိုင်းတို့ကို ဝင်ရောက် ဖျက်ဆီးလိမ့်မည်ဟု သစ်တောဌာနက ယုံကြည်ကြသည့်အတိုင်း ကြွက်တို့သည် အချို့လယ်များကို ဖျက်ဆီးကြောင်း တွေ့စပြု၏။

ကြသောင်းဝါးမျိုးကို အိမ်ဆောက်ရန် အတွက် အများအပြား သုံးကြ၏။

**ကြခတ်ဝါး**။ မပေါသော်လည်း မြန်မာနိုင်ငံတွင် အနှံ့အပြားတွေ့နိုင်၏။ ကြခတ်ဝါးကို များသောအားဖြင့် ခြံစည်းရိုးအတွက် စိုက်ကြ၏။ အနှစ် ၂၀ မှ တခါပွင့်၏။

**သိုက်ဝါးကြီး**။ သွေ့ခြောက်သော တောင်ကုန်းများတွင် ပေါက်လေ့ ရှိ၏။ ၁၈၉၀ ပြည့်နှစ်က တခါ သုန်း၍၊ နောက်တဖန် သုန်းကြောင်း မတွေ့သေးချေ။ ထိုဝါးသည် အသား ထူကျစ်၍ မြင်ဝါးကို အသုံး ချသကဲ့သို့ တောင်ငူနှင့် ကသာနယ်များတွင် သုံးကြ၏။

**ထီးဝါး၊ ထီးရိုးဝါး**။ ထီးရိုးဝါးကို နေရာ တကာတွင် အလှအပ အတွက် စိုက်ကြ၏။ သို့သော် ထီးလုပ်ရန်နှင့် ငါးများတံလုပ်ရန် အလွန်တရာ အသုံး ကျသောကြောင့် နိုင်ငံခြားသို့ပင် နှစ်စဉ် ထောင်ပေါင်းများစွာ ပို့နေရ၏။ ဤ ဝါးမျိုးပွင့်ခြင်းကို မတွေ့ရသေးပေ။

အခြားအသုံးဝင်သောမြက်အချို့မှာ –

၁။ လူစားရန်အတွက်–စပါး၊ ဂျုံ၊ လူး၊ ဆပ်၊ ကျိတ်၊ စပါးလင်အပြင် ငတ်မွတ်ခေါင်းပါးသောအခါ၌ စပါးရိုင်း၊ မြက် ခရမ်း၊ မြက်သီး၊ ဆင်ငိုမြက်သီးတို့ကို စားနိုင်၏။

၂။ ဆင်၊ မြင်း၊ ကျွဲ၊ နွား၊ ဆိတ်တို့အတွက်–မည်သည့်မြက်မျိုးမဆို ကျွေးနိုင်၏။ သို့သော် နူးညံ့ပျော့ပျောင်း၍ အရသာရှိသောကြောင့် ဆူဖြိုးနိုင်စေသော မြက်မျိုးများမှာ ကြိုးလူး၊ ဝက်လူး၊ ပန်းတော်မျိုး၊ မြက်ကားယားမျိုး၊ တက်ကွက်မျိုး၊ ဝမ်းဘဲစာမျိုး၊ မြေစာ၊ သို့မဟုတ် နေစာ၊ ဆင်ငို၊ မြက်ခါး၊ မြက်ချို၊ ငှက်တော်မြီး၊ ခွေးမြီးဖူး၊ ဒိုက်၊ ဒိုက်လုံး၊ ဘွတ်၊ သို့မဟုတ် ဘော့၊ ဘော့ကြား၊ စပါး၊ ဂျုံ၊ ပြောင်း၊ လူး၊ ဆပ်၊ ကြံတို့ဖြစ်ပေသည်။ဤမြက်များအနက် အလေ့ကျ အစုလိုက် သီးသန့်၍ ပေါက်တတ်သော မြက်မျိုးများမှာ ကုန်းပေါ်တွင် မြေစာ၊ သို့မဟုတ် နေစာနှင့် ငှက်တော်မြီး၊ ရေကန် ရေအိုင်နှင့် အခြား ရေများများဝပ်ရာ ဒေသများတွင် ဘွတ်၊ ဘော့ကြား၊ ဒိုက်၊ ဒိုက်လုံးတို့ ဖြစ်ပေသည်။ သို့သော် မည်သည့်ဒေသ၌မဆို ယင်းတို့ကို ကျွဲ နွားများအတွက် လုံလောက်စွာ မရနိုင်။ များသောအားဖြင့် မြက်များသည် အခြား အပင်မျိုးများနှင့် ရောနှော၍ ပေါက်ကြောင်း တွေ့နိုင်၏။ အမျိုးမျိုးသော အကြောင်းကြောင့် တမျိုးတည်း မပေါက်နိုင်။ ဤမြက်မျိုးများ အနက် မြေစာ၊ သို့မဟုတ် နေစာခေါ် မြက်မျိုးသည် ပိုင်မြင်းများ ကျွေးရန် အကောင်းဆုံး ဖြစ်သဖြင့် ခေတ်ကောင်းစဉ် အခါက ထိုမြက်ကို ရမည်းသင်းနယ်၊ ပျော်ဘွယ်မြို့ တဝိုက်မှ စုဆောင်း၍ မီးရထားဖြင့် သယ်ယူကာ ရန်ကုန်မြို့တွင် ရောင်းကြသေး၏။

၃။ ကြံသကာနှင့် သကြားအတွက်–ကြံ။

၄။ ထရံနှင့် ဖျာရက်ရန်–ကိုင်း။ ကျူ။

၅။ တံမြက်စည်း လုပ်ရန်–တံမြက်စည်းပင်၊ သို့မဟုတ် ထမဆိုင်း။

၆။ အိမ်မိုးရန် – သက်ငယ်။ ပင်လယ် သက်ငယ်။ ရင်းကိုင်း။

၇။ ခန်းဆီးလုပ်ရန်–ဝါးဖြူကလေး။ ဝါးနွယ်။ ဝါးကုတ်။

၈။ ဆေးဝါးအတွက် –

ဆီးရောဂါအတွက် အလိုကျူမြစ်ကို သွေး၍ သော်၎င်း၊ ကျောက်ဝါး အမြစ်၊ အရွက်၊ ပင်တံတို့ကို ကျို၍သော်၎င်း တိုက်နိုင်၏။

ဆီးရောဂါနှင့် အနာစိမ်းအတွက် တီးတုတ်ခြေ၊ သို့မဟုတ် လေးခွခေါ် မြက်အစေ့ကို ပြုတ်၍ ကျွေးလည်း ကျွေး၊ အနာကိုလည်း အုံနိုင်၏။

ဖျားလျှင် ထမဆိုင်း၊ သို့မဟုတ် တံမြက်စည်းပင်၏ အမြစ်ကို ကျို၍ ပလုပ်ကျင်းနိုင်၏။

၉။ စက္ကူ လုပ်ရန် – မည်သည့် ဝါးနှင့် မြက်မျိုးကို မဆိုသုံးနိုင်၏။ သို့သော် ယင်းတို့အနက် ကိုင်း၊ ဖောင်းနှင့် သက်ငယ်တို့ကို သုံးခြင်းအားဖြင့် စက္ကူကောင်းများ ရနိုင်သည်ဟု ဆိုကြ၏။ ၁၉၂၉ ခုနှစ်က အိန္ဒိယပြည်၊ ဒါရဒွန်းသစ်တောစုံစမ်း ရှာဖွေရေးဌာနမှ မစ္စတာ ဒဗျူ ရာအက် ဆိုသူသည် တနင်္သာရီနှင့် ရခိုင် တောင်တန်းတောများကို စစ်ဆေးပြီးနောက် စက္ကူလုပ်ရန် ထိုဒေသများ၌ နှစ်စဉ်ပျော့ဖတ် တန်ချိန် ၇၇,၀၀၀ ထွက်နိုင်သည်ဟု အစီရင်ခံခဲ့၏။

၁၀။ အလှအပစိုက်ရန်မြက်များ–မြက်ခင်းအတွက် နေစာ၊ သို့မဟုတ် မြေစာနှင့် ငှက်တော်မြီး၊ ပန်းအိုးထဲတွင် စိုက်ရန်မှာမူ ဝါးရုံမြက်သည် အလှဆုံး ဖြစ်၏။

၁၁။ မြက်သည် မြေဩဇာကို ကောင်းအောင် ပြုပြင်ပေးလျက် မြေဆီလွှာကို ထိန်းထားနိုင်ခြင်း–မွေတာအတိုင်း ဆိုလျှင် ကျောက်ဆောင်ပေါ်၌သော်၎င်း၊ သဲသောင် ပေါ်၌သော်၎င်း၊ မြေကွက်လပ်ပေါ်၌သော်၎င်း၊ ရေပေါ်မှာသော်၎င်း မည်သည့် ဒေသမျိုး၌မဆို ရှေးဦးစွာ ရေညှိသော်၎င်း၊ ရေဥသော်၎င်း အခြေအနေကိုလိုက်၍ ပေါက်၏။ ယင်းတို့သည် အချိန်တန်သော အခါ သေကြေလျက်၊ ယင်းတို့၏ ပျက်စီးသော ခန္ဓာမှ ပြောင်းလဲသွားသော ဓာတ်နှင့် အရာဝတ္ထုမှုန့်တို့သည် အကြောင်းအမျိုးမျိုးတို့ကြောင့် ထိုနေရာ

၌ ဖြစ်ပေါ်လာသော မြေမှုန့်၊ ကျောက်မှုန့် နှင့် အခြား ရှိရာ သတ္တဝါနှင့်အပင်တို့ ဆွေးမြည့် ပျက်စီးသော ပစ္စည်းနှင့် ဓာတ်သတ္တု စသည်တို့ဖြင့် ရောနှောကာ မြေလွှာ စ၍ ဖြစ်၏။ ထိုအပေါ်တွင် ယခင်ကထက် ကြီးသော အပင်ငယ် မျိုးတို့ ပေါက်ပြန်၍၊ အဆိုပါ နည်းအတိုင်း သေကြေပြန် လျက် မြေလွှာသည် တဆင့် ထူထဲလာ၏။ ဤနည်းအတိုင်း တဆင့်ထက်တဆင့် တိုးတက်ဖြစ်ပျက်လာလျက် သင့်တော် သော အခြေသို့ ဆိုက်ရောက်သောအခါ ထိုမြေနှင့် သင့် တော်သော မြက်သည် အလို အလျောက် ပေါ်ပေါက်လာ ၍၊ မြေသြဇာကို သူတို့နည်းအတိုင်း ဆက်လက်၍ ပြုပြင် ပေးလေသည်။ ရှိပြီးဖြစ်သော မြေလွှာနှင့် ယင်းတို့တိုးချဲ့ ပြုပြင်ပေးသောမြေလွှာတို့ကိုလည်း လေ၊ နေနှင့် မိုးအရှိန်ဖြင့် မပျက်စီးအောင် အကိုင်းအခက်အလက်အရွက်တို့ဖြင့် ကာ ကွယ်၍ ပေးသည့်အပြင်၊ မြေလွှာတွင်ပါရှိသော အမှုန့်တို့ သည် အခြားအရပ်သို့ ရွေ့မသွားရန်လည်း တားဆီးပေး သေး၏။ ဤအတောအတွင်း ယင်းတို့ထက် ကြီးမားသော အပင်များသည် တဖြည်းဖြည်း ဝင်ပေါက်လာလျက် အရိပ် အာဝါသကောင်းသော တောကြီးများ ဖြစ်လာ၏။ ထိုအခါ မြက်တို့သည် အလိုအလျောက် ကွယ်ပျောက်၏။ သို့သော် ထိုအပင်ကြီးများကို ခုတ်ထွင် ရှင်းလင်းပစ်လိုက်သော အခါ အခြေအနေကို လိုက်၍ သင့်တော်သော မြက်သည် ထိုနေရာ ၌ ဝင်ရောက်လာလျက် တဖန် မြေသြဇာကို ပြုပြင်လျက် မြေလွှာကိုလည်း ထိန်းသိမ်း ပေးပြန်၏။ ယင်းတို့၏ အ ကြောင်းကို နားလည်သောအားဖြင့် တောင်သူလယ်သမား များသည် ညံ့ဖျင်းသော လယ်ယာများကို မလုပ်ကိုင်ဘဲ၊ မြက်ပေါက်အောင် သုံးနှစ်မှ ငါးနှစ်အထိ လုပ်ထားခြင်းကို သော်၎င်း၊ ဖွဲ့မြေ၊ ရေကာတာ၊ တာလမ်း စသည်တို့ကို မိုး တွင်းအခါ၌ မိုးရေ စားမသွားအောင် ဆင်ငို၊ ငှက်တော်မြီး၊ မြက်မုံ့မွှား၊ နေစာ သို့မဟုတ် မြေစာ၊ သပ်နီးတော် စသော မြက်မျိုးများကို စိုက်၍ ကွယ်ကာပေးကြကြောင်းကိုသော် ၎င်း တွေ့နိုင်ပေသည်။

ထိုကြောင့် မြက်သည် မြေသြဇာကို ပြုပြင်ပေး၍ မြေ လွှာကို ထိန်းသိမ်းရာဝယ် အရေးအကြီးဆုံး အပင်မျိုး ဖြစ် ပေသည်။ အထက်တွင် ဖော်ပြသည့် အတိုင်း သစ်ပင်တို့ သည် ဓမ္မတာအတိုင်း မြက်ပေါက်ပြီး၍ သင့်တော်သော မြေ သြဇာဖြစ်မှ ပေါက်နိုင်၏။ ဤအခြင်းအရာကို အထောက် အထား ပြုလျက် ကမ္ဘာပေါ်တွင် ရှိသော ရုက္ခဗေဒ ပါရဂူ အချို့က အပင်တို့မည်သည် အမျိုးအနွယ်တစုသည် အခြား အမျိုးအနွယ် တစု၏ သင်းချိုင်းပေါ်တွင် တည်ထောင် သည်ဟု ဆို၏။ ထိုအတွက်ကြောင့် အချို့သူများ ထင်သကဲ့ သို့ မည်သည့်ဒေသ၌မဆို မြေလွှာ ကုန်ခန်းနေသော်လည်း လောလောဆယ် ငွေအကုန်ခံလျက် မြေသြဇာမသုံးဘဲ၊ သစ်ပင်များကို စိုက်၍ မြေလွှာကို ထိန်းသိမ်းနိုင်လိမ့်မည်ဟု မယူဆသင့်သည့်ပြင် မြက်များကိုလည်း မည်သည့် အခါမှ မီးမရှို့သင့်ပေ။ မီးရှို့လျှင် မြေသြဇာ ပျက်တတ်၏။

၁၂။ မြက်ကို ကြည့်၍ မြေသြဇာမျိုးခွဲခြင်း — ရှေးက အင်္ဂလိပ် လူမျိုး၏ "မြက်ကိုကြည့်" ဟူသော စကားနှင့် ကျွန်ုပ်တို့၏ လောကနီတိ ကျမ်းတွင် "ပထဝီ ပမာဏ၊ မြေ ကောင်း မကောင်းကို၊ တိဏ မိလာတံ၊ မြက် ညိုး မညိုးကို မြင်သဖြင့် သိအပ်၏" ဟု ဆိုသော စကားများကို ထောက် ခြင်းအားဖြင့် မြက်ကိုကြည့်၍ မြေသြဇာ ရွေးသော နည်း သည် ရှေးနှစ်ပေါင်း များစွာကစ၍ ပေါ်ပေါက်ခဲ့ကြောင်း သိနိုင်၏။ သို့သော် ထိုအကြောင်းကို ယခုမှ အမေရိကန် နိုင်ငံတွင် စ၍ လေ့လာနေကြောင်း တွေ့ရ၏။ ဤနည်းကို အဘယ်ကြောင့် လိုက်သနည်းဟူမူ မြက်တို့ကို ဤကမ္ဘာပေါ် တွင် နေရာတိုင်း၌လိုလိုပင် တွေ့နိုင်၏။ သို့သော် မြက်တို့ သည် ရေမြေ (မြေသြဇာ၊ သတ္တု၊ ဓာတ်နှင့် ယင်းတို့၏ အ ခြေ အနေ အနည်း အများ)၊ ဥတု၊ ဒေသ စသော အခြင်း အရာတို့ကို လိုက်၍ ပေါက်၏။ မြက်တို့ အမျိုးထဲတွင် အကျင့် တမျိုးစီ ရှိကြ၍ လောင်းရိပ်၊ နေရောင်၊ သဲကျောက်၊ ရွှံ့စေး၊ ရေတိမ်၊ ရေနက်၊ ဆားရေ၊ ထုံး၊ ဖွတ်ချေး၊ ဒူးမြေ၊ သစ်ပင် ပေါ်မှသာ ပေါက်ခြင်း စသည်ဖြင့် ခွဲခြား၍ ကြိုက်ကြသည့် အလျောက်၊ ယင်းတို့ ကြိုက်နှစ်သက်သော အခြေနှင့် ပြည့်စုံ မှသာ မြက်တို့ပေါက်ကြ၏။ ထိုကြောင့် မြက်၏ အမျိုးနှင့် မြက်၏ ပေါက်ပုံကို ကြည့်ခြင်းအားဖြင့် မြေ၏အကြောင်း ကို သိနိုင်သကဲ့သို့၊ မြေ၏ အခြေအနေကို မြင်ရုံမျှနှင့် မည် သည့်မြက်မျိုး ပေါက်တတ်ကြောင်းကို ပြောနိုင်၏။

ထိုကြောင့် ကျွန်ုပ်တို့သည် မြက်တို့၏ တန်ဖိုးကို သိရှိပြီး ဖြစ်သည့်အလျောက် မြက်တို့၏အကြောင်းကို ပိုမို၍ ဂရုပြု လေ့လာသင့်ပေသည်။　　　　**ဦးသိန်းလွင်**

**မြန်မာ နိုင်ငံ ရေနေ တိရစ္ဆာန်များ။** ။ရေ နေ တိရစ္ဆာန်၊ သို့မဟုတ် ရေသတ္တဝါ ဆိုသည်မှာ ရေတွင် အမြဲနေထိုင် ကျက်စား ပေါက်ပွားသော သတ္တဝါ မျိုးကို ဆိုလိုသည်။ ယင်းတို့သည် ကုန်းသတ္တဝါများထက် ဦးရေ နှင့် အမျိုးအမည် များပြား၏။ ကုန်းသတ္တဝါ များကဲ့သို့ပင် ယင်းတို့ကို ကျောရိုးမဲ့နှင့် ကျောရိုးရှိ ရေသတ္တဝါများ ဟူ၍ နှစ်မျိုး ခွဲခြားထားရာ၊ ကျောရိုးမဲ့ သတ္တဝါများက ပိုမို လွန်ကဲ များပြား၏။ အသေးနုတ်ဆုံးသော ရေသတ္တဝါ လေးများကို သာမန်မျက်စိဖြင့် မမြင်နိုင်ချေ။ မိုက္ကရိုစကုပ် အားဖြင့်သာ တွေ့မြင်နိုင်သည်။ ငါးကြီးများနှင့် လင်းပိုင် များသည် မြန်မာ့ရေသတ္တဝါတို့တွင် အကြီးဆုံးဖြစ်ကြ သည်။ မြန်မာ့ ရေသတ္တဝါသည်လည်း အမြောက်အမြား ရှိသော ကြောင့် ယင်းတို့ကို စေ့ငုစွာ လေ့လာရန် မလွယ်ကူချေ။

ကမ္ဘာပေါ်ရှိ အခြားနိုင်ငံတို့၏ ရေသတ္တဝါများ လေ့လာမှုသည်လည်း ဆုံးခန်းတိုင်ရောက်ရန် များစွာပင် လိုသေး၏။ မြန်မာ့ ရေသတ္တဝါများကို အဆင့်အတန်း လိုက်၍ ဆွဲငါးမျိုးခန့် ခွဲခြားထားသည်။

ရေသတ္တဝါတို့တွင် အနိမ့်ကျဆုံးနှင့် ရှေးဦးအကျဆုံး ဖြစ်သော သတ္တဝါတို့မှာ ပရိုတိုဇွခေါ် ရေသတ္တဝါကလေးများ ဖြစ်ကြသည်။ ပရိုတိုဇွတို့၏ ခန္ဓာကိုယ်တွင် ဆဲတခုစီသာ ရှိသောကြောင့် အလွန်တရာ သေးငယ်သဖြင့် မိုက္ကရိုစကုပ်အားဖြင့်သာ ယင်းတို့ကို ထင်ထင်ရှားရှားတွေ့မြင်နိုင်သည်။ ရေကန်မှရင်း၊ ရေမြောင်းမှရင်း ရေတစက်ကို ယူ၍ မိုက္ကရိုစကုပ်နှင့် စမ်းသပ် ကြည့်ရှုလျှင် ပရိုတိုဇွ ကလေးများကို တွေ့မြင် နိုင်သည်။ (ပရိုတိုဇွန်း ကောင် — လည်းရှု။) အလွယ်တကူ စမ်းသပ် တွေ့ရှိနိုင်သော ရေချိုနေ ပရိုတိုဇွ ကလေးများမှာ ပါရာမီးဆီယမ်၊ အမီးဗားနှင့် ယူဂလီးနားတို့ ဖြစ်ကြသည်။ (အမီးဗား — လည်းရှု။) ချုံမျှလိုက်ကဲ့သို့သော ရေ ငန်နေ ပရိုတိုဇွ ကလေးများသည် ရခိုင်ကမ်းခြေ အနီး ပင်လယ်အောက်တွင် ကျက်စားနေထိုင်ကြရာ၊ ယင်းတို့၏အရိုးခွံများကို ကမ်းစပ် သဲသောင်များတွင် မကြာခဏ တွေ့ရတတ်သည်။အချို့သော ပရိုတိုဇွတို့သည် တကောင်နှင့်တကောင် တွဲဆက်၍ နေတတ်ကြ၏။ယင်းကဲ့သို့ တွဲဆက်နေသော ပရိုတိုဇွ အချို့မှာ တကောင်က အစာရှာရန်ရင်း၊ အခြားတကောင်က မျိုးပွားရန်ရင်း တတွဲလုံးအတွက်လိုအပ်သော လုပ်ငန်းအသီးအသီးကို ခွဲဝေ၍ ထမ်းဆောင်တတ်ကြသေးသည်။ အကောင် ပမာဏပင် သေးငယ်သော်လည်း အချို့မှာ လူနှင့် မွေးမြူထားသော တိရစ္ဆာန်တို့ကို ရောဂါဘယဖြစ်စေတတ်သောကြောင့် ယင်းပရိုတိုဇွကပ်ပါးများကို လေ့လာရန် အရေးကြီးပေသည်။ရေချို ရေငန် နှစ်ရပ်စလုံးတွင် လွတ်လပ်စွာ နေထိုင်ကြသော ပရိုတိုဇွ အများသည် အခြားသတ္တဝါတို့၏ အခြေခံ အစာတရပ်လည်း ဖြစ်သည်။

ရေသတ္တဝါတို့တွင် ပရိုတိုဇွ များထက် အဆင့် အတန်းမြင့်သော အခြားသတ္တဝါတို့၏ ခန္ဓာကိုယ်၌ ဆဲပေါင်း မြောက်မြားစွာရှိသဖြင့် ယင်းတို့ကို သာမန်မျက်စိနှင့် မြင်နိုင်သည်။ ထိုဆဲများသော သတ္တဝါ အားလုံးကို သိပ္ပံအလိုအားဖြင့် မက်တာဇွဟု ခေါ်ဝေါ်၍ အဓိပ္ပါယ်မှာ ဆဲများသတ္တဝါလောက ဖြစ်သည်။

ယင်း ဆဲများသတ္တဝါ လောက၏ အောက်ဆုံးအဆင့်တွင် စပန်း ရေမြှုပ်အမျိုးမျိုးတို့ ပါဝင်ကြသည်။ (စပန်းရေမြှုပ် — လည်းရှု။)ရေချို ရေငန် နှစ်ရပ်စလုံးရှိ ရေမြှုပ်နေသော ကျောက်တုံးများ၊ သစ်ပင်များတွင် တွယ်ကပ်၍ နေကြသည်။ ယင်းတို့တွင် အရောင်နှင့်ပမာဏ အမျိုးမျိုးရှိကြ၍ အချို့သည် သစ်ကိုင်း သစ်ခက်များကဲ့သို့ ပုံသဏ္ဌာန် ရှိသောကြောင့် သစ်ပင်များပင် ဖြစ်သည်ဟု အချို့က ယူဆကြသည်။ စပန်း ရေမြှုပ် ခန္ဓာကိုယ်ထဲတွင် ဆဲ နှစ်လွှာရှိသော်လည်း ထိုဆဲများသည် အလွှာလိုက် စနစ်တကျ မရှိသည့်ပြင်၊ အချို့ ဆဲ များမှာ တနေရာမှတနေရာသို့ ကူးပြောင်း သွားတတ်ကြသေးသည်။ စပန်း ရေမြှုပ်တိုင်းတွင် ခန္ဓာကိုယ်၌ အပေါက်ငယ်ကလေး အမြောက်အမြား ပါရှိသောကြောင့် ယင်းတို့ကို ပိုရေးဖရာ မျိုးပေါင်းစု ဟူသော သိပ္ပံအမည်ကို ပေးထား၏။ ယင်းတို့တွင် ခန္ဓာကိုယ် မပျော့အိအောင် ထိန်းထားသော ဆူးကလေးများရှိရာ အချို့မှာ ကျွတ်ဆတ်၍ အချို့မှာ ပျဉ်းတွဲသည်။ မြန်မာ ရေမြှုပ်များကို အင်းအိုင် ရေကန်များနှင့် ပင်လယ်ကမ်းခြေ တလျှောက် တွေ့မြင်နိုင်သော်လည်း ယင်းတို့ကိုလေ့လာ၍အသုံးပြုခြင်းမရှိသေးချေ။

စပန်း ရေမြှုပ်တို့ထက် အဆင့် တဆင့်မြင့်သော ဆဲများသတ္တဝါတို့ကို ဆီလင်တာရေးတား မျိုးပေါင်းစုတွင် ထည့်သွင်းထားသည်။ ယင်း သတ္တဝါတို့သည် ရေသတ္တဝါ ချည်းသာ ဖြစ်ကြ၍ ရေချို ရေငန် နှစ်ရပ်စလုံးတွင် နေထိုင်ကြရာ၊ ရေငန်တွင် အထူးများပြားကြသည်။ ယင်းသတ္တဝါတို့ ခန္ဓာကိုယ်၌ ဆဲလွှာ နှစ်ထပ် စနစ်တကျ တည်ရှိသည့်အပြင် အချို့တွင် လိင်အင်္ဂါများ ထင်ထင် ရှားရှား ရှိကြသေးသဖြင့် စပန်းရေမြှုပ်တို့ထက် အဆင့် မြင့်ကြသည်။ ယင်းသတ္တဝါ တိုင်းတွင် ခန္ဓာကိုယ် အပြင်လွှာ၌ နီမက် တိုဗလတ်ခေါ် အထူးဆဲများ ရှိကြရာ ထိုဆဲများကို အစာဖမ်းယူရာတွင်ရင်း၊ ရန်သူ ကာကွယ်ရာတွင်ရင်း အသုံးပြုသည်။ ကိုယ်တွင်း ခေါင်းနှင့် အစာကြောင်း ခွဲခြားခြင်း မရှိသေးသည့် အပြင် လိင်မဲ့မျိုးပွားခြင်းကို ပြုလုပ်နိုင်သေးသောကြောင့် သတ္တလောကတွင် အောက်ဆင့်မှာပင် ရှိသေးသည်ဟုဆိုရပေမည်။ ခန္ဓာကိုယ်ပမာဏသည် သာမန်မျက်စိနှင့် မြင်နိုင်ရုံအရွယ်အစားမှ လှည်းဘီးနီးပါးအထိ ရှိသည်။

ဟိုင်ဒြာ ကောင် အပါအဝင်ဖြစ်သော မြန်မာ့ရေချို ဆီလင်တာရိတ်များသည် အလွန်သေးငယ်၍ မြက်ပင်ပေါင်းပင် ထူထပ်သော ရေကန်၊ အင်းအိုင်များတွင် တွေ့နိုင်သော်လည်း ယင်းတို့ကို သေချာစွာ လေ့လာ မှတ်သားခြင်း မရှိသေးသဖြင့် အများက မသိကြချေ။ (ဟိုင်ဒြာကောင် — လည်းရှု။) ရေငန်တွင် နေထိုင်သော ဆီလင်တာရိတ်များသည် အကောင် ကြီးမားသည့်အပြင် အရောင်အမျိုးမျိုး၊ ပုံသဏ္ဌာန်အမျိုးမျိုး ရှိကြ၍ အချို့မှာ ဆေးဖက်ဝင်သည်ဟု ယူဆသောကြောင့် ယင်းတို့ကို အများက သိရှိကြသည်။ ကျောက်များတွင်တွယ်ကပ်နေသော ကျောက်ခက်ကျောက်ပန်း ဖြစ်စေသည့် သန္တာကောင်၊ ပင်လယ် ကမ်းခြေ သဲသောင်တွင် စိုက်နေသော ပင်လယ်မှိုကောင်၊ ပင်လယ်ရေတွင်ပေါ်၍ လှိုင်းပုတ်ခတ်ရာသို့ ပါသွားတတ်သော ပင်လယ်ခူ အမျိုးမျိုးတို့သည် မြန်မာဆီလင်တာရိတ်များ ဖြစ်သည်။ (ငထီး။ ပင်လယ်မှိုကောင် — လည်းရှု။)

ပလက်တီဟယ်လမင်သီးစ မျိုးပေါင်းစုတွင် သတ္တဝါငယ် အတော်များများ ပါဝင်ကြသည်။ ယင်း သတ္တဝါများ၏ ခန္ဓာကိုယ်များသည် များသောအားဖြင့် ပြားချပ် နေသည့် အပြင် ခေါင်းပိုင်း၊ ဖင်ပိုင်း နှင့် ကျောဖက်၊ ဝမ်းဖက်ဟူ၍ ပိုင်းခြား သိရှိနိုင်သောကြောင့် ပင်လယ် မှိုကောင်၊ ပင်လယ် ခူနှင့် သန္တာကောင်တို့ထက် အဆင့်အတန်း မြင့်မားသည်။ ရေချို ရေငန် နှစ်ရပ်လုံးတွင် နေထိုင် ကျက်စားသော ပလက်တီဟယ်လမင်သီးစ တို့ကို ရေထဲရှိ ကျောက်တုံး၊ သစ်တုံး စသော အရာဝတ္ထုတို့ အောက်တွင် တွေ့ရှိနိုင်သည်။ ပက်ကျိများကဲ့သို့ တွားသွားတတ်သော သတ္တဝါများ ဖြစ်ကြသည်။ ကိုယ်တွင်း၌ ဖို-မလိင်အင်္ဂါ စုံတွဲပါရှိ၍ ဥ အုတတ်သော သတ္တဝါကောင်များလည်း ဖြစ်ကြသည် ။ ယင်းတို့၏ နူးညံ့ ပျော့ပျောင်းသော ခန္ဓာကိုယ်သည် မကြာခဏ ပွန်းပဲ့ စုတ်ပြတ်၍ သွားသော်လည်း သေလောက်အောင် မထိခိုက်ချေ။ အသားတက်ပြီး ပြကတေ့အတိုင်း ပြန် ဖြစ်လာနိုင်သည်။ ရေထဲတွင် လွတ်လပ်စွာ နေတတ်သော မြန်မာ ပလက်တီဟယ်လမင်သီးစများကို အသင့်အတင့်သာ စူးစမ်းလေ့လာခဲ့ပြီး ဖြစ်သော်လည်း လူသိ မများချေ။ ကပ်ပါး ဖြစ်သော ပလက်တီဟယ်လမင်သီးစများကိုမူ ပိုမို၍လေ့လာထားသဖြင့် ယင်းတို့ခန္ဓာကိုယ် တည်ဆောက်ပုံနှင့် ရှည်လျားသော ဘဝသမိုင်းများကို အတော်များများက သိထားကြသည်။ ထိုကပ်ပါးတို့တွင် အသည်းပိုး၊ အဆစ်မဲ့တုတ်ပြားကောင်နှင့် အဆစ်ရှိ တုတ်ပြားကောင်တို့ ပါဝင်ကြသည်။

သံကောင်များကို နီမက်ဟယ်လမင်သီးစ မျိုးပေါင်းစုတွင် ထည့်သွင်းထား၏။ အထက်ဖော်ပြပါ ပလက်တီဟယ်လမင်သီးစ မျိုးပေါင်းစုတွင်ပါဝင်သော သတ္တဝါများကဲ့သို့ အသက်ရှူ အင်္ဂါနှင့် သွေးအဖွဲ့အစည်း ကင်းမဲ့သည်။ အရွယ်ပမာဏအားဖြင့် သံကောင်တမျိုးနှင့်တမျိုး ကွာခြားသော်လည်း ပုံသဏ္ဌာန်မှာ တူကြ၍ အားလုံးတွင် လုံး၍ ရှည်လျားသော ကိုယ်ခန္ဓာများ ရှိကြသည်။ သံကောင်များကို ပိုးကပ်ပါး အဖြစ် ရှေးမဆွကပင် သိရှိခဲ့သော်လည်း စိုစွတ်သော နေရာများနှင့် ရေထဲတွင် နေကြသော သံကောင် အမြောက်အမြား ရှိကြောင်းကို အများက မသိကြချေ။ ယင်းတို့ အကြောင်းကို မြန်မာနိုင်ငံတွင် ပညာရပ်တခုအနေဖြင့် လေ့လာထားသည်ကိုလည်း မတွေ့ရချေ။

ဗရက်ခီအိုပိုးဒါး မျိုးပေါင်းစုတွင် ယောက်သွား ကဲ့သို့ အခွံနှစ်ခြမ်း ပါရှိသော သတ္တဝါများ ပါဝင်ကြသည်။ ယင်းတို့တွင် အသက်ရှူ အင်္ဂါနှင့် သွေးအင်္ဂါအဖွဲ့များ ရှိသဖြင့် သံကောင် တုတ်ကောင်တို့ထက် ပို၍ အဆင့်အတန်းမြင့်သည်ဟု ဆိုရပေမည်။ သို့ရာတွင် ခန္ဓာကိုယ်တည်ဆောက်ပုံမှာ ဖွံ့ဖြိုးတိုးတက်မှုမရှိသေးကြောင်း ထင်ရှားသည်။ မြန်မာ့ ရေပြင်တွင် ကျင်လည် ကျက်စားသော ဗရက်ခီအိုပေါ့ တမျိုးသာလျှင် တွေ့ရှိရာ ယင်းကို ထားဝယ်နှင့် မြိတ်နယ်များတွင် ပက်ကလိဟု ခေါ်ကြသည်။ ဤအရပ်များတွင် ယင်းတို့ကို ယောက်သွားများကဲ့သို့ပင် စားသောက်တတ်ကြသည်။

အီကိုင် နိုဒါမာတာ မျိုးပေါင်းစုတွင် ရေငန်ရပ်၌သာ နေထိုင်ကြသော ကျောရိုးမဲ့ သတ္တဝါများ ပါဝင်ကြသည်။ များသောအားဖြင့် အခွံမာ၍ အချို့သာလျှင် အခွံပျော့ကြသည်။ ပုံပန်း သဏ္ဌာန် အရွယ်အစား အရောင်အဆင်း အမျိုးမျိုး ရှိကြသော်လည်း ယင်းတို့အားလုံးတွင် ရေဒီယယ်အလိုက် ငါးခြမ်းညီသော ခန္ဓာကိုယ် ရှိကြ၍ အခေါင်းပွပြီးလျှင် နူးညံ့ပျော့ပျောင်းသော ခြေထောက်များ ရှိကြသဖြင့် ဖြေးဖြေးသာလျှင် သွားလာ လှုပ်ရှား နိုင်ကြသည်။ ခန္ဓာကိုယ်ကို ထိခိုက်မိ၍ အတော်အတန် ပျက်စီး သွားသော် အလွယ်တကူ ပျောက်ကင်းသွားနိုင်သော သတ္တဝါမျိုးလည်း ဖြစ်သည်။ မြန်မာ့ အီကိုင်နိုဒမ်ကောင်များ အနက် ရခိုင်နှင့် တနင်္သာရီကမ်းခြေ အရပ်ဒေသများတွင် နေသော ရေလက်ဝါးကောင်များ၊ ပင်လယ်ဖြူကောင်များ၊ ပင်လယ်မြွေ့များ (ဆင်မြွေ့များ)၊ ပင်လယ်ပန်းများနှင့် ပင်လယ်ချပ်ပြားများကိုသာ အများက တွေ့ဘူး မြင်ဘူးကြသည်။ (ပင်လယ်မြွေ၊ ရေလက်ဝါး — လည်းရှု။)

ကြယ်ပုံ သဏ္ဌာန် ရှိသော ရေလက်ဝါးကောင်များသည် ကျောက်ဆောင် ကျောက်တုံးများ အောက်ဖက်ရှိ ရွှံ့နှင့် သဲ ရောသော နေရာများတွင် နေတတ်ကြသည်။ အချို့သည် ရေအတန်ငယ် နက်သော နေရာရှိ ကျောက်ဆောင် ကျောက်ခက်များကို အကွယ်အကာပြု၍ နေတတ် ကြသည်။ ကနန်း၊ ကမာနှင့် ယောက်သွားများကို စားတတ်သော အသားစား သတ္တဝါများလည်း ဖြစ်ကြသည်။ ထိုကြောင့် ပုလဲမွေးမြူရေးလုပ်ငန်းကို အကျိုးပျက်ပြားစေသော သတ္တဝါများလည်း ဖြစ်ကြသည်။

ပင်လယ်ဖြူကောင်များသည် ကျောက်ကြိုကျောက်ကြားတွင် နေ၍ အသေကောင်များကို စားတတ်ကြသည်။ ယင်းတို့၏ ခန္ဓာကိုယ်သည် လုံးဝိုင်း၍ မာသော အခွံ ရှိသည်။ များသောအားဖြင့် အညိုရောင်၊ ခရမ်းရောင် ရှိကြပြီးလျှင် အချို့တွင် အစိမ်းနုရောင် ရှိတတ်ကြသည်။ အခွံမာပေါ်တွင် ဖြည်းညှင်းစွာ လှုပ်ရှားနိုင်သော ဆူးရှည်ကြီးများ ရှိသောကြောင့် ယင်းတို့ကို အများက ရှောင်ရှားကြသည်။ ဆူးများမှာ အသင့်အတင့် အဆိပ်ရှိ၍ စူးမိလျှင် ထွင်ရန် မလွယ်ကူချေ။

ပင်လယ်မြွေ့၊ သို့မဟုတ် ဆင်မြွေ့ခေါ် အီကိုင်နိုဒမ်ကောင်များသည် ကျောက်နှင့် သဲစပ်စပ်ရှိ၍ ဒီရေဖုံးကာ ဆင်ခြေလျှော ဖြစ်သော အရပ်ဒေသများတွင် စုရုံး၍ နေတတ်ကြသည်။ အရွယ်အစား အရောင်အဆင်း အမျိုးမျိုး ရှိသည်။ များသောအားဖြင့် အညိုရောင်၊ ခရမ်းရောင် ရှိကြ

သည်။ လုံးရှည်ရှည် သဏ္ဍာန်ရှိ၍ အခွံပျော့သော ကျောရိုးမဲ့ သတ္တဝါများ ဖြစ်ကြပြီးလျှင် ခန္ဓာကိုယ်ကို ကျုံ့နိုင် ပွနိုင်ကြသည်။ အချို့ ဒေသများတွင် ယင်းတို့ကို စုသိမ်း၍ အူထုတ်၊ အခွံခြစ်၊ ဆားနယ်ပြီးသော် နေလှန်းကြသည်။ ပင်လယ်မြှော့ခြောက်ကို ဟင်းချို ချက်စားတတ်ကြသည်။

ပင်လယ်ပန်းများသည် အခြား အီကိုင်နိုဒမ် ကောင်များကဲ့သို့ မဟုတ်ဘဲ ရေတွင် လွတ်လပ်စွာ ကူးခတ်သွားလာနိုင်ကြသည်။ ခန္ဓာကိုယ်သည် ပန်းပွင့် သဏ္ဍာန် ရှိပြီးလျှင် များသောအားဖြင့် အဝါရောင်၊ အညိုရောင်နှင့် ခရမ်းရောင်ရှိသည်။ ယင်းတို့ကို ကျောက်ဆောင်၊ ကျောက်ခက်နှင့် ပင်လယ်မှော်များ ရှိသော နေရာများတွင် တွေ့နိုင်သည်။ ယင်းတို့၏အစာမှာ ရေတွင်ရှိသော အမှုံကောင်များ ဖြစ်ကြသည်။

ပင်လယ် ချပ်ပြားများတွင် ဝိုင်း၍ ပြားချပ်သော ခန္ဓာကိုယ်ရှိသည်။ အခွံမာကြော၍ အခွံပေါ်ရှိ ဆူးတိုကလေးများကို လှုပ်ရှား၍ တရွေ့ရွေ့ သွားနိုင်ကြသည်။ ယင်းတို့ကို သဲသောင်စပ်တွင် တွေ့ရတတ်သည်။

မိုလပ်စကား မျိုးပေါင်းစုတွင် ရေ၌ ကျက်စား သောကျောရိုးမဲ့သတ္တဝါ အမျိုး အမည် အရေအတွက် အတော်များများ ပါဝင်သည်။ (ခရုမျိုး — လည်းရှု။) အချို့က ရေငန်တွင် နေကြ၍ အချို့က ရေချိုတွင် နေကြပြီးလျှင် ကျန်အချို့မှာ စွတ်စိုသော ကုန်းပေါ်တွင် နေတတ်ကြသည်။ ခန္ဓာကိုယ်အတွင်းသား ပျော့ပျောင်း၍ အချို့တွင်မာသော အခွံ ရှိပြီးလျှင်၊ အချို့တွင် အခွံကင်းမဲ့နေကြသည်။ ယင်းတို့အားလုံးတွင် ကိုယ်ဆစ်များ ကင်းမဲ့၍ အင်္ဂါအဖွဲ့များသည် မင်တယ်ခေါ် အမြေးဖြင့် ဖုံးအုပ်လျက်ရှိ၏။ အချို့က ရေအောက် မြေကြီးထဲတွင် စုရုံးနေတတ်ကြ၍၊ အချို့က သစ်တုံး ကျောက်တုံးများကို တွယ်ကပ် နေကြပြီးလျှင်၊ အချို့က လွတ်လပ်စွာ ကူးခတ်နိုင်ကြသည်။ ခရု၊ ကြေ့ပုပ်၊ ယောက်သွား၊ ငုံ၊ ပက်ကျိ၊ ကမာ၊ မုတ်ကောင်၊ ဘဲ၊ ကင်းမွန် စသည်တို့သည် မြန်မာ့ ပင်လယ် ကမ်းခြေတွင် ဒီရေ ပုတ်ခတ်သည့်နေရာမှ အတော် နက်ရှိုင်းသော နေရာများအထိ နေထိုင်ကြသည်။ ယင်းတို့အားလုံးကို လူတို့ စားသုံးကြသည်။ (ကမာ။ ကင်းမွန်။ ပက်ကျိနှင့် ခရုပက်ကျိ — လည်း ရှု။)

ရေချို ခရုနှင့် ယောက်သွားများအနက် အချို့က လူတို့ကို အကျိုးပြု၍ အချို့က လူတို့အား အကျိုး မဲ့စေသည်။ ရေချို ခရုနှင့် ယောက်သွားများကို ကျေးရွာနေလူတို့ စားသုံးတတ်ကြသည်။ လင်မနီးယ အော်ရီ ကျူလာရီးယ နှင့် လင်မနီးယ ဗီရီဒစ်ခေါ် ရေတိမ်ခရု မျိုးများသည် ကျွဲ နွားများတွင်အသည်းပုပ်စေသောရောဂါဖြစ်ပေါ် စေတတ်သည်။ ခရုမျက်ပြဲတို့သည်စပါးညှောင့်များကိုကိုက်ဖြတ်တတ်သည်။

ရေငန် ခရု၊ ယောက်သွားတို့အနက် ဒီပိုးခေါ် ယောက်သွားယယ်မျိုးသည် သစ်သားဖြင့် ပြုလုပ်ထားသော လှေ၊ သင်္ဘော၊ တန်တားနှင့် အခြား အဆောက်အအုံ များကို ဖျက်ဆီး တတ်သည်။ ယောက်သွား အကြီးစားများ နှင့် မုတ်ကောင်အခွံများကို ကြယ်သီးများ၊ ဘီးများမှစ၍ အလှအပပစ္စည်းများကို ပြုလုပ်ရသည်။ ပုလဲရသော မုတ်ကောင်များသည် မြိတ်ကျွန်းစုတဝိုက်တွင် ရှိကြ၍ ယခင်က ပုလဲငုပ်လုပ်ငန်းသည် အတော်အသင့် ဖြစ်ထွန်းသည်။ ယခုမူ နိုင်ငံအစိုးရက မုတ်ကောင်များကို ပုလဲရအောင် စိနစ်တကျ မွေးမြူနေသည်။ ရေချို ခရုနှင့် ယောက်သွားများကဲ့သို့ ပင်လယ်ခရုနှင့် ယောက်သွားများကိုလည်း စားရသည်။ အရသာကောင်းသဖြင့် ဈေးလည်း ကောင်း၏။

ရေတွင် ကူးခတ်နိုင်သော မိုလပ်စကား ကောင်များကို မြိတ်စကားဖြင့် ကင်းမွန်ခေါ်၍ ရခိုင်စကားဖြင့် ရေကြက်ဟုခေါ်သည်။ ကျောက်တုံးများတွင် တွယ်ကပ်၍ လွတ်လပ်လျင်မြန်စွာ သွားနိုင်သော မိုလပ်စကားကောင်များကို မြိတ်စကားဖြင့် ဘဝဲခေါ်၍၊ ရခိုင်စကားဖြင့် ရေမျောက်ဟုခေါ်ကြသည်။ ယင်းနှစ်မျိုးစလုံးကို အများအပြား ရှာဖွေဖမ်းယူ၍ အခြောက်လှန်းပြီးလျှင် ပြေကြီးငါးဟု ခေါ်၍ တရုပ်တန်း ဈေးများတွင် ရောင်းချကြသည်။

အင်နီလီဒါ မျိုးပေါင်း စုတွင် တီ၊ ကျွတ်နှင့် မြှော့ကဲ့သို့ ကိုယ်ဆစ် ရှိပြီးလျှင် ပျော့ပျောင်းသော သတ္တဝါတို့ ပါဝင်ကြ၍၊ အချို့က ကုန်းပေါ်တွင် နေတတ် ကြသော်လည်း၊ အများစုသည် ရေချိုနှင့် ရေငန် အရပ်များတွင် နေကြသည်။ ရေနေ အင်နီလိပ်ကောင်များ အနက် ရေချိုရပ်တွင် မြှော့များကို အများ သိကြသည်။ သွေးစုတ်သတ္တဝါ ဖြစ်၍ ဦးခေါင်းပိုင်းရှိ ပါးစပ်တွင် ဓားကဲ့သို့ထက်သော သွားများရှိသည်။ ယင်းတို့၏တံတွေးသည် သွေးရည်ကို မခဲစေသော ဆေးဝါး ပါရှိရာ ယင်းကို ဟီရူဒင်ဟု ခေါ်သည်။ မြှော့အမျိုးမျိုးတို့သည် ကျွဲ နွားများကို တွယ်တတ်သည့် အပြင်၊ ကောက်စိုက်ချိန်တွင် ကောက်စိုက်သူများကိုလည်း တွယ်တတ်ကြလေသည်။ ထို့ကြောင့် ကောက်စိုက်သူများသည် တွယ်သော မြှော့ ပြုတ်ကျ စေနိုင်သော ထုံး၊ ဆေးရွက် စသည်တို့ကို ရောစပ်၍ထားသော မြှော့ဗူးများကို ဆောင်ထား ကြရသည်။ အချို့ဒေသတွင် မြှော့ကို အနာမှ သွေးပုပ် စုတ်ထုတ်ရန် အသုံးပြုကြသည်။ မြှော့များသည် အင်း၊ အိုင်၊ ချောင်း၊ မြောင်း များနှင့် ရေလွှမ်းမိုးသော လယ်ကွက်နှင့် ကွင်းပြင်များတွင် နေထိုင်ကြသည်။ အမျိုးအမည် အသင့်အတင့် ရှိသော်လည်း ယင်းတို့အားလုံးကို စေ့စပ်စုံလင်စွာ မျိုးခွဲ၍ မှတ်တမ်း တင်မထားချေ။

ပင်လယ်တွင်နေသော အင်နီလိပ်ကောင်များကို လူသိမများကြချေ။ အချို့သည် ရွှံ့နွံများ၊ ကျောက်ကြို ကျောက်

ကြားများတွင် နေတတ်၍ အချို့သည် သဲထဲတွင် တွင်းတူး နေတတ်ကြသည်။ အချို့ကလည်း မိမိတို့ကိုယ်မှ ထွက်သော အကျိအချွဲဖြင့် ပြွန်များပြုလုပ်ပြီး နေတတ်ကြသည်။ ပင်လယ် ဝမ်းကောင်များအနက် ထားဝယ်နှင့် မြိတ်အနီးရှိ သဲပလုတ်များကို ဖမ်းယူ စားတတ်ကြရာ အလွန် အရသာ ရှိသည်ဟု ဆိုကြသည်။ များသောအားဖြင့် ရင့်သော အရောင်ရှိကြသော်လည်း အချို့သော ပင်လယ်ဝမ်းကောင်များ တွင် တောက်ပသော အရောင်အဆင်း ရှိတတ်သဖြင့် ကြည့်ချင်စဖွယ်ဖြစ်သည်။

အာသရိုပိုးဒါး မျိုးပေါင်းစုတွင် အခွံမာ၍ ခြေအဆစ်ရှိသော ဗုဇွန်၊ ကနန်း၊ ကင်းခြေများ၊ ပိုးနသံကောင်၊ ပင့်ကူ၊ ကင်းမြီးကောက် စသည့် သတ္တဝါမျိုးတို့ ပါဝင်သည့်အနက် တမျိုးနှင့်တမျိုး ပုံပန်း သဏ္ဌာန်နှင့် ဂုဏ်အင်လက္ခဏာများ ကွာခြားကြသည့်အပြင် အရေအတွက်လည်း အလွန်များ ပြားကြသောကြောင့် ယင်းတို့ကို အုပ်စု လေးစုခွဲ၍ မျိုးပေါင်းလေးမျိုးတွင် ထည့်သွင်းထားသည်။ (ကနန်း။ ကင်းခြေများ။ ကင်းမြီးကောက်။ ပင့်ကူ။ ဗုဇွန် — လည်းရှု။) ယင်းမျိုးပေါင်းတို့မှာ ကရပ်စတေးရှား၊ အာရက် နီဒါး၊ ဒစ်ပလိုပိုးဒါးနှင့် အင်းဆက်တားတို့ဖြစ်ကြသည်။ ယင်းတို့အနက် ကရပ် စတေးရှား မျိုးပေါင်းတခုလုံးတွင် ပါဝင်သော အကောင်များမှာ ဗုဇွန်၊ ကနန်း၊ ဝင်ကစွတ် စသည်တို့ဖြစ်၍ ရေထဲတွင် အမြဲတစေနေနိုင်ကြသည်။ ရေငန် ရေချို နှစ်ရပ်စလုံးတွင် ယင်းတို့ကို တွေ့နိုင်သည်။ ရေထဲတွင် အမြဲနေနိုင်ရန်အတွက် ရေထဲမှ အောက်ဆီဂျင်ကို ရယူ အသုံး ပြုနိုင်သော ပါးဟက်နှင့် ရေတွင် ကောင်းစွာ ကူးခပ် သွားလာနိုင်ရန်ကိုယ်နေဟန်ထားနှင့် ခြေလက်များလည်းရှိကြသည်။ ကျန်မျိုးပေါင်းများမှာ ကုန်းနေသတ္တဝါများ ဖြစ်ကြသည်။ သို့ရာတွင် အင်းဆက်ပိုး အနည်းငယ်တို့မှာ ရေတွင် နေထိုင်ကျက်စားကြသည်။ ဝါးတားဗုတ်မင်း၊ ဗက်ဆွင်းမား၊ ဝါးတားဗတ် နှင့် ဝါးတားစတြိုက်ဒါတို့မှာ ရေတွင် အမြဲနေကြသည်။ အင်းဆက်ပိုးတို့ဖြစ်သည့် ခြင်အမျိုးမျိုးနှင့် ပုစဉ်းအမျိုးမျိုး၏ သားလောင်းများလည်း အတောင်မပေါက်မီအတွင်း ရေထဲတွင် အတန်ကြာအောင် နေထိုင်ကြသည်။ အချို့တွင် ပါးဟက်သဖွယ် လေရှူအင်္ဂါများရှိ၍ အချို့က ရေမျက်နှာပြင်သို့တက်ပြီး လေကို ရှူရသည်။

ကော်ဒက်တာ မျိုးပေါင်းစုမှ ပရိုတို ကော်ဒက်တာ မျိုးပေါင်းခွဲတွင် ပါဝင်သော မြန်မာ့ ရေသတ္တဝါများမှာ လူသိမများချေ။ ယင်းတို့အနက် မျိုးပေါင်း ကျူနီကိတ်တာ (တနည်း) ယူရိုကော်ဒက်တာကို ကိုယ်စားပြုသော ကျူနီကိတ်ကောင်များသာလျှင် အချို့က သိကြသည်။

ယင်း ကျူနီကိတ်ကောင်များကို တနင်္သာရီနှင့် ရခိုင်ကမ်းခြေ တလျှောက်ရှိ ကျောက်ဆောင်၊ ကျောက်တုံး များပေါ်တွင်သော်၎င်း၊ ထိုကျောက်ဆောင်၊ ကျောက်တုံးများ အောက်တွင်သော်၎င်း တွေ့ရသည်။ ရခိုင်တိုင်းတွင် ယင်းကျူနီကိတ်ကောင်များကို ရေအိတ်ဟု ခေါ်ကြသည်။ ယင်းအကောင်များသည် ဒီရေဖုံးသော ကျောက်ဆောင်ကျောက်တုံးများ အောက်ဖက်နှင့် အပေါ်ဖက်တွင် တွယ်ကပ်၍ နေတတ်ကြသည်။ ကိုယ်ခန္ဓာ၏ ပုံသဏ္ဌာန်မှာ အိတ်သဖွယ်ဖြစ်၍ အရွယ်အစားသည် ခြေမလောက်သာ ရှိသည်။ အကောင်၏ အပေါ်ဖက်တွင် အပေါက်ငယ် နှစ်ခုရှိ၍ ကျောက်များကို လှန်လိုက်သောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ယင်းတို့ကို ကိုင်တွယ်လိုက်သော အခါတွင်ဖြစ်စေ အပေါက်ငယ် နှစ်ခုမှ ရေများ ပန်းထွက်လာသည်။ ပရိုတို ကော်ဒက်တာမျိုးပေါင်းစုတွင် သတ္တဝါအမျိုးအမည် အတော်များများ ပါဝင်ကြသည်။ ယင်းသတ္တဝါစုတို့သည် စိတ်ဝင်စားဖွယ် ကောင်းသည်။ အဘယ်ကြောင့် ဆိုသော် ယင်းသတ္တဝါ တို့သည် ကျောရိုးမဲ့ သတ္တဝါတို့၏ လက္ခဏာများ အသင့်အတင့် ပြသည့်အပြင် ကျောရိုးရှိ သတ္တဝါတို့၏ လက္ခဏာများကိုလည်း ပြသောကြောင့် ဖြစ်သည်။ ကျောရိုးမဲ့ သတ္တဝါတို့၏ လက္ခဏာများပါသောကြောင့် အဆင့်အတန်း နိမ့်သည်ဟု ဆိုရမည် ဖြစ်သော်လည်း အရေးပါသော ကျောရိုးရှိ သတ္တဝါတို့၏ လက္ခဏာများလည်း ပါရှိပြန်သောကြောင့် ကျောရိုးရှိ သတ္တဝါအုပ်စုနှင့်အတူ သတ္တဗေဒပညာရှင်များက ပူးတွဲထားလေ့ရှိသည်။ ယင်းအရေးပါသည့် ကျောရိုးရှိ သတ္တဝါတို့၏ လက္ခဏာများမှာ ရေထဲတွင် အသက်ရှူနိုင်သော ပါးဟက်များ၊ ကိုယ်ခန္ဓာကို အလျားလိုက် ထိန်းထားသော နိုတိုကော့နှင့် အခေါင်းပါသော ဦးနှောက်နှင့် ကျောရိုးနဗ်ကြောမတို့ ဖြစ်ကြသည်။

ကော်ဒက်တာ မျိုးပေါင်းစုတွင် မြန်မာ့ ကျောရိုးရှိ သတ္တဝါ အုပ်စုကြီး ငါးစုပါဝင်သည်။ ယင်းအုပ်စု ငါးစုအနက် အနိမ့်ဆုံး အဆင့်ဖြစ်သော ပိုက်ဆီမျိုးပေါင်းတွင် ငါးသတ္တဝါများ ပါဝင်ကြသည်။ ငါးဟူသော သတ္တဝါတို့သည် ရေတွင် ပါးဟက်ဖြင့် အသက် ရှူနိုင်၍ ရေယက်များဖြင့် ရေတွင် ကျင်လျင်စွာ ကူးခတ် သွားလာနိုင်သော ကျောရိုးရှိ သတ္တဝါမျိုး ဖြစ်ကြသည်။ (ငါး — လည်းရှု။)

ရေချိုနှင့် ရေငန် နှစ်ရပ်စလုံးတွင် နေထိုင် ကျက်စားသည့် သတ္တဝါများဖြစ်သော ငါးတို့သည် အမျိုး အမည် အရေအတွက် အလွန် များပြားကြသည်။ နှစ်စဉ်နှစ်တိုင်း ယင်းတို့ကို ဖမ်းယူ စားသောက်ကြသော်လည်း အလွန်ပွားများသော သတ္တဝါမျိုး ဖြစ်သောကြောင့် အမျိုးမပြုတ်နိုင်ချေ။ မြန်မာနိုင်ငံတွင် ကျောရိုးရှိ ရေသတ္တဝါတို့ အနက် ယင်းတို့သည် အများဆုံးဖြစ်၏။ သို့ရာတွင် နောင်လာနောက်သားတို့အတွက် အစာဖူလုံမှုကို ရည်စူး၍ စည်းကမ်းစံနစ်ဖြင့် ဖမ်းယူသင့်ပေသည်။

ရေချို ငါးများထက် ရေငန်ငါးများက အမျိုးအမည် အရေအတွက် ပိုမိုများပြားသည်။ အရွယ်အစားအားဖြင့် အကြီးဆုံးသော ငါးများကို ရေငန်ပိုင်းတွင်သာ တွေ့မြင်နိုင်သည်။ ဈေးတွင်တင်ရောင်းသောရေချိုငါးများမှာ ကျည်း၊ ငခူ၊ ငပနော်၊ ငပြေမ၊ ကြောင်း၊ ငသိုင်း၊ နေက်ပြာ၊ ငမျက်ဆန်နီ၊ ငမြင်း၊ ငပတ်၊ ငသလောက် စသည်တို့ ဖြစ်ကြသည်။ (ကျည်း။ ကြောင်း။ငခူ။ငရံ့။ နေက်ပြာ။ ငပြေမ။ငမြင်း။ ငသလောက်။ ငသိုင်း — လည်းရှု။) ရေငန်ငါးများမှာ ငမုတ်၊ ငခေါးလွယ်၊ ကကွန်းသျှပ်၊ ငဇင်ပြား၊ ငနီလေး၊ ကကူရန်၊ ကသပေါင်း၊ ငမန်း၊ ငလိပ်ကျောက် စသည်တို့ ဖြစ်ကြသည်။ (ကကူရန်။ ကသပေါင်း။ ကကွန်းသျှပ်။ ငမုတ်။ ငမန်း။ ငလိပ်ကျောက် — လည်းရှု။) မြန်မာ့ ငါး အများအပြားတို့သည် ရေထဲတွင် နေတတ် ကြသော်လည်း အချို့တို့မှာ ရွှံ့နွံထဲတွင် နေတတ်ကြသေးသည်။ ယင်းတို့မှာ ငရှဉ့်၊ ငလင်ပန်း၊ ငမြွေထိုးနှင့် ငပျံများ ဖြစ်ကြသည်။ (ငမြွေထိုး။ ငပျံ။ ငရှဉ့် — လည်းရှု။)

မြန်မာ့ရေချိုငါးများ အနက် ကျည်း၊ ငခူ၊ ငရံ့ အမျိုးမျိုးနှင့် ငပြေမတို့သည် ရေတွင် အသက်ရှုနိုင်သည့် အပြင် ကုန်းပေါ်တွင်လည်း လေကို ရှုနိုင်သော ငါးများ ဖြစ်ကြသည်။ ထို့ကြောင့် ယင်းငါး အရှင်များကို ဈေးများတွင် တနှစ်ပတ်လုံး ရနိုင်သဖြင့် လတ်ဆတ်စွာ စားသုံး နိုင်ကြသည်။ ယင်းကဲ့သို့ လေရှုနိုင်ခြင်း၏ အကြောင်းရင်းမှာ ပါးဟက်အိမ် အပေါ်ပိုင်းတွင် လေထဲမှ အောက်ဆီဂျင်ကို ထုတ်နုတ်ယူနိုင်သော အင်္ဂါရပ်များ ရှိသောကြောင့် ဖြစ်သည်။ ယင်းအင်္ဂါရပ်များမှာ သွေးကြောများဖြင့် ရှက်သန်းလျက်ရှိ၏။

မြန်မာ့ ငါးများအနက် ရေချိုရေငန် နှစ်ရပ်စလုံးတွင် နေသော ငပူတင်းများနှင့် ဆတ်ခေါ် ငါးများ၏ အသားတွင် အဆိပ်ပါရှိသည်ဟု ဆို၏။ ထို့ကြောင့် ယင်းငါးများကို လူတိုင်း မစားချေ။ ဤငါးများကို စားခဲ့လျှင် အဆိပ်စုသည့် အသည်း၊ သည်းချေ စသည်တို့ကို သတိနှင့် ဖယ်ရှား၍ ချက်စားတတ်ကြသည်။ ကျည်း၊ ငခူငဇင်ရိုင်း၊ ငကြောင်း၊ ငအိုင့် စသည့်ငါးများ၏ ရေယက် ဆူးတောင်သည် အဆိပ်အိတ်နှင့် ဆက်သွယ်လျက် ရှိသောကြောင့် ယင်းဆူးတောင် စူးမိပါက အတော်ပင် နာကျင်တတ်သည်။

ငါးများသည်လည်း အခြားသတ္တဝါတို့ကဲ့သို့ အသားစား၊ အပင်စား၊ အစုံစား၊ အညစ်အကြေးစား ဟူ၍ မည်သည့်အစာ စားသည်ကို လိုက်ပြီးသော် ခွဲခြား သတ်မှတ်နိုင်သည်။

ငါးများသည် ယေဘုယျအားဖြင့် အု တတ်သော်လည်း၊ အချို့မှာ အကောင် ပေါက် ဖွား ကြသေးသည်။ ယင်းတို့အနက် ရေချိုပိုင်းနေ ငသောင်မြင်းနှင့် ရေငန်ပိုင်းနေ ငမန်း အချို့လည်း အပါအဝင် ဖြစ်သည်။

အင်ဖီးဗီးယား မျိုးပေါင်းသည် ကော်ဒက်တာ မျိုးပေါင်းစုတွင် ပါဝင်သည်။ ငါးများထက် အဆင့်မြင့်၍ တွားသွားသတ္တဝါများထက်နိမ့်၏။အင်ဖီဗီးယား ကောင်များကို ကုန်းနေ ရေ နေ သတ္တဝါဟုလည်း ခေါ်ကြသည်။ သားလောင်းဘဝတွင် ရေထဲ၌ ကျက်စား၍ ငါးကဲ့သို့ ပါးဟက်ဖြင့် အသက်ရှုနိုင်သော်လည်း အရွယ် ရောက်သောအခါ အဆုတ်ဖြင့် လေရှုသော သတ္တဝါမျိုး ဖြစ်ကြသည်။ ယင်းတို့ မျိုးပွားရန်အတွက် ရေသည် အလွန်အရေးကြီးသဖြင့် မိုးဦးကျစအချိန်၌ ယင်းတို့ကို ရေအိုင်၊ ရေကန်များတွင် စုရုံးနေကြသည်ကို တွေ့မြင်နိုင်သည်။ ရေထဲတွင် အမများက ဥအုချပြီးနောက် ဥများမှ ဖားလောင်း (ဖားတပိုင်း ငါးတပိုင်း) များ ဖြစ်လာကြသည်။ သားလောင်းများ အရွယ်ရောက်ခါနီး အဆုတ်များကိုယ်တွင်း၌ဖြစ်ပေါ် လာ၍ အမြီးတိုသွားပြီးလျှင် ကုန်းပေါ် သို့ တက်လာကြသည်။ မြန်မာနိုင်ငံတွင် ဖား၊ ဖားပြုတ်၊ ဖားခုန်ညင်း၊ သစ်ပင်တက်ဖား စသည်ဖြင့် ဖားအမျိုးသုံးဆယ်ကျော်ရှိသည့်အနက် ရေနှင့်အနီးကပ်ဆုံး နေသော ဖားများတွင် စွတ်စိုသော အရေခွံရှိပြီးလျှင်၊ ခြေချောင်းများမှာ တခုနှင့်တခု အရေပြားဖြင့် ဆက်စပ်နေ၍ ပေါင်တံရှည်များ ရှိသဖြင့် ရေတွင် ကျင်လျင်စွာ ကူးသန်းနိုင် ငုပ်နိုင်ကြလေသည်။ (ဖား — လည်းရှု။)

ရာနာမျိုးရင်းတွင် ပါဝင်သော ဖားများကို မြန်မာနိုင်ငံ အချို့ဒေသ၌ စားလေ့ရှိကြသည်။ ဖားအမျိုးမျိုးသည် အင်းဆက်ပိုးကောင် စားသော သတ္တဝါများ ဖြစ်ကြသဖြင့် လူတို့အား အကျိုးပြုသော သတ္တဝါများဟု ဆိုရပေမည်။

ကော်ဒက်တာ မျိုးပေါင်းစုမှ ရက်ပတီးလျား မျိုးပေါင်းတွင် ပါဝင်သော တွားသွားသတ္တဝါများအနက် မြွေ၊ ဖွတ်၊ မိကျောင်းနှင့် လိပ်များသာ မြန်မာ့ ရေပြင်များတွင် ကျက်စားကြသည်။ ယင်းတို့အားလုံးပင် ရေထဲတွင် ကျင်လျင်စွာ ကူးခတ် သွားလာနိုင်သော်လည်း လေရှုသတ္တဝါများဖြစ်ကြ၍ ရေအောက်တွင် အမြဲမနေနိုင်ကြချေ။ ထို့အပြင် မျိုးပွားရန်အတွက် ကုန်းပေါ် သို့ တက်လာကြရသေး၏။

မြန်မာ့ ရေချိုရပ် ဖြစ်သည့် အင်း၊ အိုင်၊ ချောင်း၊ မြောင်းများအတွင်းရှိ မြက်ပင် ဒိုက်ပင်တို့ကို မှီခို၍ နေကြသော ရေမြွေ၊ ကနဂုတ်မြွေ၊ ဒိုက်မြွေ တို့သည် ရေထဲရှိ ဖားငါးများကို အစာအလို့ငှာ ဖမ်းယူစားသောက်ကြသည်။ ယင်းတို့တွင် အရောင်အဆင်း အရွယ်အစား အမျိုးမျိုး ရှိကြ၍ အဆိပ်ကင်းမဲ့၏။ မြန်မာ့ ရေငန်ရပ်ဖြစ်သော တနင်္သာရီနှင့် ရခိုင်ကမ်းခြေတလျှောက်ရှိ ကျောက်တုံးကျောက်ဆောင်များကို အကွယ်အကာယူ၍ နေထိုင်ကြသော ဂျပ်မြွေ ခေါ် ပင်လယ်မြွေ အမျိုးမျိုးရှိကြသည်။ ယင်းတို့တွင် ထောင်လိုက် ပြားသောအမြီးများရှိကြသဖြင့် အခြားရေမြွေများထက်ရေတွင် ကျင်လျင်စွာ သွားလာနိုင်ကြသည်။ (ဂျပ်မြွေ — လည်း

ရှု။) ဂျပ်မြွေမျိုးအားလုံး၌ ပြင်းထန်သော အဆိပ်ရှိသဖြင့် ယင်းတို့သည် မြွေဆိုးစာရင်းဝင်များ ဖြစ်ကြသည်။ အရောင် အရွယ်အစား အမျိုးမျိုးရှိသော်လည်း ယင်းတို့အားလုံးပင် ကြောင်ကျားသော အဆင်းရှိသည်။ အချို့မှာ ရေငန်ရောက်သော မြစ်များ ချောင်းများအထိ လာရောက် ကျက်စားနေထိုင်ကြသည်။ ရေတွင် အမြဲကျက်စားသော အထက်ပါ မြွေအားလုံးပင် ကုန်းပေါ်၌ ကောင်းစွာ မရွေ့လျားနိုင်ကြချေ။

မြန်မာနိုင်ငံတွင် ဖွတ် သုံးမျိုးနှင့် ဖွတ်မိကျောင်းတမျိုး ရှိသည်။ ဖွတ်ရိုးရိုးတို့မှာ အရောင်မဲ့ခြောက်ခြောက်ဖြူယော်ယော် ရှိနေ၍ အရွယ်အစား အသင့်အတင့် ကြီးမားသည်။ (ဖွတ် — လည်းရှု။) ဖွတ်မိကျောင်းမှာမူ ခုနစ်ပေအထိရှည်လျား၍ ရေတွင် ပိုမိုကျင်လျင်၏။ အရောင်အဆင်းမှာ အရွယ်ရောက် အကြီးဆုံးလျှင် မည်းနက်၍ ကျောဖက်တွင် အဝါကွက်များ ကန့်လန့်လိုက် စီနေ၏။ ဖွတ်နှင့် ဖွတ်မိကျောင်း အသားကို စားကောင်းသည်ဟု အများက ယူဆကြသည်။

မြန်မာ့ရေပြင်တွင် တွေ့ရသော မိကျောင်း နှစ်မျိုးရှိသည်။ (မိကျောင်း—လည်းရှု။) ကရော့ကို ဒီလပ်ပယ်လတ်စတြစ်ခေါ် မိကျောင်းမှာ ဇက် တို့၍ ယင်းကို သရက်မြို့ အနီး ဧရာဝတီမြစ်အထက်ပိုင်းရပ်တွင် တွေ့နိုင်သည်။ ကရော့ကို ဒီလပ်ပေါ်ရိုဆပ်ခေါ် မိကျောင်းမှာ ဇက်သေးသွယ်၍ အကောင်ကြီးမားသည်။ အချို့မှာ ပေသုံးဆယ်အထိ ကြီးပြီးလျှင် လူနှင့် တိရစ္ဆာန်ကြီးများကိုပင် ခုခံတတ်ကြသော ကြောင့် ကြောက်မက်ဖွယ်ရာကောင်း၏။ မိကျောင်းအသားကို အချို့စားတတ်ကြသော်လည်း အများက မကြိုက်ချေ။

ရေချိုတွင် ကျက်စားသော မြန်မာ ရေလိပ်များမှာ အကောင် မကြီးမားလှချေ။ ကုန်းပေါ်တွင်၎င်း၊ ရေထဲတွင်၎င်း ကောင်းစွာသွားလာနိုင်၍ ခြေချောင်းကြားတွင် အရေပြားရှိကြသည်။ ရေချိုလိပ်အားလုံးပင် အပင်စား သတ္တဝါများဖြစ်ကြ၏။ မြန်မာ့ ပင်လယ်လိပ်များမှာမူ အကောင်ကြီးမားလှ၍ အချို့မှာ ငါးပေခွဲမှ ခြောက်ပေအထိ ရှည်သည်။ ရေတွင် ကျွမ်းကျင်စွာ ကူးခတ်နိုင်ရန်အတွက် သင့်လျော်သော ခြေပြား လက်ပြားကြီးများ ရှိကြသည်။ ပင်လယ်လိပ်တို့သည် ကုန်းသို့ တက်၍ အုကြရာ၊ ယင်းတို့ ဥချသော သီးသန့်ထားသည့် ကမ်းခြေများတွင် ဥများကောက်သိမ်းရန်အတွက် အစိုးရထံ အခွန်ပေးရ၏။ အချို့သော မြန်မာ့ ပင်လယ်လိပ် အခွံမှ အဖိုးတန် လိပ်ခွံဘီးများ ပြုလုပ်ရ၏။ လိပ်သားကို ကမ်းခြေတွင်နေထိုင်သူအများပင် စားသောက်ကြ၏။

အေဗီမျိုးပေါင်းသည် ကော်ဒက်တာ မျိုးပေါင်းစုတွင် ဒုတိယ အမြင့်ဆုံး ဖြစ်၍ ငှက်များပါဝင်သည်။ ရေတွင် ကျင်လည်ကျက်စားသော မြန်မာ့ရေငှက်အမျိုးမျိုးရှိသော်လည်း ယင်းတို့အားလုံးပင် အဆုတ်ဖြင့် လေရှူကြသဖြင့် ရေသတ္တဝါစစ်စစ် မဟုတ်ကြချေ။ ခန္ဓာကိုယ်အစိတ်အပိုင်းနှင့် အလေ့အထကို ထောက်ရှု၍ မြန်မာ့ရေငှက်များကို သုံးမျိုးသုံးစား ခွဲခြား ထားနိုင်သည်။

ပဌမ အမျိုးအစားတွင် ခန္ဓာကိုယ် ပုဝိုင်း၍ ပြားသော နှုတ်သီး ရှိကြပြီးလျှင် ခြေချောင်းများ တခုနှင့်တခု အရေပြားဖြင့်ဆက်စပ်နေသည်။ ထိုအပြင် ခြေထောက်များသည် တိုကြသည်။ တနည်းအားဖြင့် ဘဲမျိုးဟုလည်း ခေါ်နိုင်ပေသည်။ ရေဝမ်းဘဲ၊ ငှက်ကြီး ဝံပို၊ စစ်စလီ၊ ကလကတ်၊ ဇင်ယော်၊ တင်ကျီးစသော ငှက်များ ဤအမျိုးတွင် ပါဝင်သည်။ (စစ်စလီငှက်။ ဇင်ယော်။ တင်ကျီးငှက်။ ဝံပို — လည်းရှု။) ရေထဲမှ ငါးများ ပိုးကောင်များကို၎င်း၊ အမှိုက်ကောင်များကို၎င်း ဖမ်းယူ စားသောက် တတ်ကြသည်။ ရေတွင် ကျင်လျင်စွာကူးခတ်နိုင်၊ ငုပ်နိုင်သောငှက်မျိုးဖြစ်ကြသည်။

ဒုတိယ အမျိုးအစားကို ရှည်လျားသော နှုတ်သီး၊ ခြေထောက်၊ ခြေချောင်းများဖြင့် အလွယ်တကူ သိနိုင်သည်။ ရေစပ်၌ ရှိသော မြက်တော၊ ဗွက်တောများတွင် လမ်းလျှောက်ကာ ပိုးကောင်၊ မွှားကောင်းနှင့် ငါး၊ ဖား များကို ရှာဖွေ စားသုံးသော ငှက်မျိုး ဖြစ်ကြသည်။ ဤအုပ်စုတွင် ဗျိုင်း၊ လင်းဝက်၊ ခရုစုတ်၊ ငှက်ကျား၊ စနိုက်ငှက်၊ ကြိုးကြာ၊ ရေကြက်၊ ကြာဖက်နင်းနှင့် စိမ်း စသော ငှက်တို့ ပါဝင်ကြသည်။ (ကြာဖက်နင်း ငှက်။ ကြိုးကြာ။ ခရုစုတ်ငှက်။ ငှက်ကြား။ စနိုက်ငှက်။ ရေကြက် — လည်းရှု။)

တတိယ ရေငှက်မျိုးတွင် ပိန်ညင်းနှင့် ပျံလွှားတို့ ပါဝင်သည်။ (ပိန်ညင်း။ ပျံလွှား — လည်းရှု။) ယင်းတို့သည် မြင့်မားသော နေရာတွင် သစ်ကိုင်းများ၊ သံကြိုးတန်းများပေါ်၌ နားနေရန်အတွက် သင့်လျော်သော ခြေထောက်များ ရှိသည်။ ယင်းသို့နားနေရာမှ ရေမျက်နှာပြင်ပေါ်သို့ တက်လာသော ငါးငယ်များ၊ အင်းဆက်ပိုးမွှားများကို သုတ်ဖမ်း စားတတ်ကြသည်။ ပျံလွှားများမှာ ရေမျက်နှာပြင်အနီး လျင်မြန်စွာပျံဝဲပြီးမှ ရေထဲမှ ပိုးကောင်မွှားကောင်များကို ကျင်လျင်စွာ ဖမ်းယူတတ်သော ငှက်မျိုးဖြစ်သည်။

ရေတွင် ကျက်စားပေါက်ပွားသော မြန်မာ့ နို့တိုက်သတ္တဝါ သုံးမျိုးခန့်ရှိရာ ယင်းတို့မှာ ဖျံမျိုး၊ လင်းပိုင် (လပိုင်) မျိုးနှင့် ဝေလငါးခေါ်ဆင်မျိုးတို့ ဖြစ်ကြသည်။ ယင်းတို့အားလုံး၌ပင် လေရှူခြင်း၊ အကောင်လိုက် မွေးခြင်း၊ အမိက နို့တိုက်ခြင်းနှင့် ခန္ဓာကိုယ်ပေါ်တွင် အမွေးရှိခြင်း စသည့် နို့တိုက် သတ္တဝါတို့၏ ဂုဏ်လက္ခဏာများ ရှိကြသည်။ ရေတွင် ကျင်လည် ကျက်စားရန် သင့်လျော်သော ခန္ဓာကိုယ်အနေအထားရှိသဖြင့် ကုန်းနေနို့တိုက်သတ္တဝါတို့နှင့် ပုံပန်းသဏ္ဍာန် အတော် ကွာခြားကြသည်။

ရေချိုရပ်၌ ရှိသော အင်းအိုင် ချောင်း မြောင်းများတွင် ကျက်စားသည့် ဖျံနှစ်မျိုးရှိသည်ဟု မှတ်တမ်း တင်ထား

သည်ကို တွေ့ရသည်။ ယင်း နှစ်မျိုးလုံး၌ပင် ရှည်လျားသော ခန္ဓာကိုယ်၊ တိုသော ခြေလက်များအပြင် ပြားဝိုင်းသော ခြေဖျားလက်ဖျားနှင့် အမြီးတို့ ရှိကြသောကြောင့် ရေတွင် ကျင်လျင်စွာ ကျက်စားနိုင်ကြသည်။ မြန်မာဖျံကြီးမျိုးသည် ကျောတွင် ညိုမောင်းသော အရောင်ရှိ၍ ဝမ်းဖက်တွင် အဖြူရောင်သန်းလျက် ရှိတတ်သည်။ မြန်မာ ဖျံယပ်များမှာမူ နေထိုင်ကျက်စားရာ အရပ်ဒေသကို လိုက်၍ အရောင် ကွဲပြားပြီးလျှင် ဆယ်ကောင်၊ ဆဲ့နှစ်ကောင် ခန့်ထိ အုပ်ဖွဲ့၍ နေတတ်ကြသည်ဟု ဆိုသည်။

လင်းပိုင်နှစ်မျိုးကို မှတ်တမ်းတင်ထားသည့်အနက် တမျိုးသည် ရေငန် ရပ်တွင်သာ ကျက်စား၍၊ ကျန်တမျိုးသည် ရေချိုရပ်အထိ လာရောက်နေထိုင် ကျက်စားသည်ဟု ဆိုသည်။ယင်းတို့အနက် ဒုတိယမျိုးသည် ခုနစ်ပေခွဲခန့်အလျားရှိသည်ဟု ဒေါက်တာမေဆင်က ဆိုသည်။ ထိုလင်းပိုင်မျိုးသည် ကျောဖက်တွင် မဲနက်နက်အရောင်ရှိပြီးလျှင် ဝမ်းဖက်တွင် အရောင်ဖျော့သည်။ ပဌမ အမျိုးကို နီကိုဗာကျွန်းတဝိုက်တွင် တွေ့ခဲ့သည်ဟု ဗလိုက်ဆိုသူက ဆိုခဲ့သော်လည်း အလျားမည်မျှ ရှိ၍ မည်ကဲ့သို့သော အရောင်အဆင်း ရှိကြောင်းကိုကား ဖော်မပြခဲ့ချေ။ လင်းပိုင်နှစ်မျိုးမှာ အော်ဆယ်လာ ဖလူဗီယေတီးလစ်နှင့် ဒဲလဖီနိုရင်းခပ် ရော့စတြေးတပ်တို့ ဖြစ်ကြသည်။

မြန်မာ့ ရေငန်ပိုင်နက်အတွင်း ရံဖန်ရံခါ တွေ့ရသော ဆင် (ဝေလငါး) နှစ်မျိုးကို မှတ်တမ်း တင်ထားသည်။ ယင်းတို့မှာ ဗာလီးနော့ပတဲရာ အင်ဒိကာနှင့် ဗာလီးနော့ပတဲရာ အက်ဒနီတို့ ဖြစ်ကြသည်။ ပဌမအမျိုးကို ရခိုင်ကမ်းခြေတွင် အသေကောင် တွေ့ရှိခဲ့ဘူး၍ ဒုတိယ အမျိုးကို သံဖြူချောင်း၏ သောင်ကမ်းစပ်တွင် တွေ့ခဲ့ရသည်ဟု ဆိုသည်။ အလွန် ကြီးမားသော တိရစ္ဆာန်များ ဖြစ်ကြပြီးလျှင် ရံဖန်ရံခါသာလျှင် မြန်မာ့ရေငန်ပိုင်း၌ တွေ့ရသဖြင့် ယင်းတို့ အကြောင်းကို ကောင်းစွာ မသိရသေးချေ။

ဒေါက်တာ စောသာမြင့်

**မြန်မာနိုင်ငံ ရေနံလုပ်ငန်း။** ။ပြည်ထောင်စု မြန်မာနိုင်ငံ၏ စီးပွားရေး အင်အားကို အဓိက အားဖြင့် ဖြည့်တင်းပေးနေသော မြန်မာ့ထွက်ကုန် ပစ္စည်းသုံးမျိုး အနက် ရေနံသည် တမျိုးအပါအဝင်ဖြစ်၍ အခြားနှစ်မျိုးမှာ ဆန်စပါးနှင့် သစ်မာ အမျိုးမျိုး ဖြစ်သည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီက မြန်မာ့ ရေနံသည် နိုင်ငံခြားငွေ ဒုတိယ အများဆုံး ရရှိစေခဲ့သော ထွက်ကုန် ဖြစ်ခဲ့သည်။ သို့သော် ရေနံလုပ်ငန်းမှ ရရှိသော အကျိုးအမြတ်ကို ထိုစဉ်က နိုင်ငံခြားသား အရင်းရှင်များ ပိုင် ကုမ္ပဏီကြီးများကသာ ခံစား စံစားခဲ့ကြ၍ ရေနံကို ကိုယ်ထိလက်ရောက်ထုတ်လုပ်ပေးကြရသော တိုင်းရင်းသားများ အပါအဝင် ရေနံလုပ်သားများမှာ စီးပွားရေး၊ လူမှုရေးတို့၌ အလွန် အနိမ့်ခံရပြီးလျှင်၊ ဗလငါးတန်၌ ဗလာဖြစ်၍ လူတန်းစေ့ မနေနိုင်အောင် လူလုံး မလှခဲ့ ဖြစ်ခဲ့ကြရပေသည်။ ယင်းသို့ကြောင့်လည်း ဗြိတိသျှအစိုးရနှင့် အရင်းရှင်ကုမ္ပဏီကြီးများ၏ အာဏာပိုင်များ တုန်လှုပ် ချောက်ချားခဲ့ရသော မြန်မာ့ ရေနံမြေလုပ်သားများ၏ တော်လှန်ရေးကြီး ဖြစ်ပေါ်ခဲ့သည်။ ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရက မြန်မာ့ ဆီရှယ်လစ် စီးပွားရေး စံနစ်နှင့်အညီ အရင်းရှင် ကုမ္ပဏီများ၏ ရေနံလုပ်ငန်း အရပ်ရပ်ကို ပြည်သူပိုင် ပြုလုပ်ခဲ့ရာ၊ ထိုနေ့ထိုရက်သည် မြန်မာနိုင်ငံသမိုင်းတွင် မော်ကွန်းတင်ထိုက်သော နေ့ထူး ရက်ထူးတရက်ဟု ဆိုထိုက်ပေသည်။

စက်မှု လက်မှု ထွန်းကားသော ခေတ်တွင် လေယာဉ်ဆီ၊ မာတ်ဆီ၊ ရေနံဆီ၊ မာတ်မြေသြဇာ၊ အဝတ်အထည် စသော ရေနံမှ ထုတ်လုပ်နိုင်သည့် လူသုံး၊စက်သုံးကုန်ပစ္စည်းမြောက်မြားစွာတို့သည် လူနေမှု အဆင့်အတန်းကို အများဆုံး အကျိုးပြုနိုင်သဖြင့် ရေနံလုပ်ငန်းသည် ကမ္ဘာ့အရပ်ရပ်တွင် အရေးပါသော စီးပွားရေး မဏ္ဍိုင်တခု ဖြစ်သည်။ ယင်းသို့ အရေးပါမှုကြောင့် "မြေဆီမှ ရွှေရည်" ဟု တင်စား ခေါ်ဝေါ်ကြသော အဖိုးတန်ရေနံကို နိုင်ငံခြားသား အရင်းရှင်ကုမ္ပဏီကြီးများက မြန်မာ့မြေဆီမှ ခေတ်အဆက်ဆက် ထုတ်ယူခဲ့၍ တနှစ်ထက်တနှစ် ကုဋေကဋာချမ်းသာခဲ့ပြီးလျှင် ရအပ်သော အကျိုးအမြတ်တို့ကို အမြင့်သား စားကာ၊ ရေနံလုပ်ငန်းကို လက်ဝါးကြီးအုပ်ထားနိုင်ခဲ့သည့် ဖြစ်ရပ်တို့ကို ပြန်လည် ဆန်းစစ်ရသော် မြန်မာ့ ရေနံသမိုင်းကို လေ့လာရန်လိုအပ်ပေလိမ့်မည်။

### မြန်မာ့ရေနံ သမိုင်းအစ

မြန်မာ့ ရေနံသမိုင်းဟု ဆိုလျှင် ရေနံကို မည်သည့် ခေတ်ကာလက စတင် တွေ့ရှိကြ၍ မည်ကဲ့သို့ လုပ်ကိုင် ဆောင်ရွက်ခဲ့ကြပုံကို ဖော်ပြရပေမည်။ ရာဇဝင် ကောက်နုတ်ချက်များ၊ ရေနံချောင်း သင်္ချိုင်းပ စာတမ်း စသည်တို့ကို ညှိနှိုင်းတင်ပြရလျှင်၊ မြန်မာနိုင်ငံတွင် ရေနံကို ပုဂံခေတ် စလေငခွေးမင်း၏ လက်ထက်၌ စတင်တွေ့ရှိသည်ဟု ယူဆရသည်။ ထိုမင်းသည် ပုဂံပြည့်ရှင် တန်နက်မင်းအား လုပ်ကြံ နန်းလုခဲ့ရာ၊ တန်နက်မင်း၏ မိဖုရား တိမ်းရှောင် ထွက်ပြေးရာသို့ ပါခဲ့သူ မိဖုရား၏ နောက်ပါ အဆွေအမျိုး အခြံအရံတို့အနက်မှ ၁၂ ဦးတို့သည် ရေနံထွက်ရာ အရပ်ကို စတင်တွေ့ခဲ့ကြသည်ဟု ဆိုသည်။ ထို ၁၂ ဦးတို့သည် ထိုစဉ်က ဆိပ်သာကွန်းထောက်ဟု ခေါ်သော ဒေသ (နောင်အခါ ရေနံများချောင်းပေါက်အောင် ထွက်ရှိ၍ ရေနံချောင်းဟု ခေါ်တွင်လာသော ရေနံမြေဒေသ) ဆိုင်ရာသူကြီးထံ မြေတိုင်းစာခံယူ၍ ထိုအရပ်၌ပင်



ရှေးခေတ်က မြန်မာ တွင်းစားများထံမှ ရေနံကို ဘီအိုစီ ကုမ္ပဏီက ဤသို့ ဝယ်ယူကာ သိုလှောင်ချက်လုပ်ခဲ့သည်။

နေထိုင်ပြီးလျှင် ရေနံတို့ကို ရောင်းချ စားသောက်နေခဲ့ကြလေသည်။

ရေနံကို မင်းသုံးစိုးသုံးအဖြစ် စတင်ခဲ့သော ကာလသည် အနော်ရထာမင်း လက်ထက် ဖြစ်ပေသည်။ သထုံပြည်မှ အနော်ရထာမင်း စစ်ခင်း၍ ရရှိခဲ့သော ပိဋကတ်ကျမ်းတို့ကို ခြ၊ ပရွက်ဆိတ် စသော ပိုးမွှားများ မဖျက်ဆီးနိုင်အောင် ရှင်အရဟံ၏ အကြံပေးချက်အရ ရေနံဖြင့် သုတ်လိမ်းရာမှ ရေနံအသုံးကို စတင်ခဲ့သည်။ အနော်ရထာမင်းသည် ရေနံဆက်သွင်းခဲ့သော မူလရေနံတွင်းရိုး အိမ်ထောင်စုတို့ကို ဘွဲ့ထူးဂုဏ်ထူးတို့ဖြင့် ချီးမြှင့်ခဲ့သည်။ တွင်းရိုး အိမ်ထောင်စုတို့သည် အခြားတပါးသော မျိုးရိုးတို့နှင့် မဆက်နွယ်ဘဲ သီးသန့် နေထိုင်ကြ၍ အနော်ရထာမင်း လက်ထက်တွင် တွင်းရိုး ၂၄ ဦး ရှိခဲ့လေသည်။

ထိုခေတ် ထိုအခါမှ စ၍ မင်းတုန်း မင်းတရားကြီး လက်ထက် တိုင်အောင် မြန်မာနိုင်ငံ၌ ရေနံကို သစ်ဝါးစသည်တို့ဖြင့် ပြုလုပ်သော အဆောက်အအုံနှင့် လူသုံးပစ္စည်းများ မဆွေးမမြေ့စေရန်၊ ပိုးကိုက် ခြစားခြင်းမှ ကာကွယ်ရန် အတွက်သာလျှင် အသုံးပြုခဲ့ကြလေသည်။ ထို့ကြောင့် ရေနံလုပ်ငန်းသည် မြန်မာနိုင်ငံ၌ ရှေးပုဂံခေတ်မှ စတင် ပေါ်ပေါက် ခဲ့သော်လည်း ကုန်းဘောင်ခေတ်တိုင်အောင် ဖွံ့ဖြိုးတိုးတက်မှု မရှိခဲ့လှချေ။ ရွှေဘိုမင်း (သာယာဝတီမင်း) ၏ လက်ထက်တွင်မူ ရေနံပိသာချိန် တရာလျှင် ဒေါင်းဒင်္ဂါး တကျပ်ခွဲနှုန်းဖြင့် ဘုရင်မင်းမြတ်ထံ သွင်းကြ၍၊ ရေနံအရောင်းအဝယ်သည် ဘုရင့်လွှတ်တော်က ကြပ်မတ် ဆောင်ရွက်မှု ခံရသည်။ ထိုအချိန်တွင် အနောက်နိုင်ငံသားတို့သည် မြန်မာနိုင်ငံတွင်းသို့ ဝင်ထွက် ရောင်းဝယ်မှု ရှိလာကြ၍ ရေနံလုပ်ငန်း၌လည်း စူးစမ်းလေ့လာမှုများကို ပြုလာကြလေသည်။ ရွှေဘိုမင်း လက်ထက်၌ပင် ရေနံချောင်းမှ တွင်းရိုး အနွယ်များကို သူကောင်းပြုသဖြင့် ယင်းတို့သည် ရွှေနန်းတော်၌ အဝင်အထွက် ရှိခဲ့ကြလေသည်။ တွင်းရိုးတွင်းစားဟူသော အသုံးအနှုန်းမှာ သားစဉ် မြေးဆက် ရေနံတွင်း အမွေများကိုဆက်ခံလာသူ တန်နက် မင်းမိဖုရား၏ အနွယ်များကို တွင်းရိုးဟု ခေါ်၍ တွင်းရိုးတို့ထံမှ ရေနံတွင်းများကို တဆင့် ဝယ်ယူ လုပ်ကိုင်သူများကို တွင်းစားဟု ခေါ်သည်။

မင်းတုန်း မင်းတရားကြီးသည် ရေနံချောင်း မင်းကြီး၏ သမီး တွင်းရိုးအနွယ်ဖြစ်သူ မှန်နန်းအပျိုတော် ကြေးမြှင် တိုက်စားကို သုသီရိပဘာဟူသော ဘွဲ့ဖြင့် မိဖုရား မြှောက်သည်။ ပျဉ်းမနား မင်းသားကြီးသည် မင်းတရားကြီးနှင့် ထို မိဖုရားတို့၏ သားတော်ဖြစ်သည်။ ကြေးမြှင် မိဖုရားဟု လူသိများသော ထိုမိဖုရား၏ မိဘဘိုးဘွားပိုင် မြေကွက်များတွင် ရေနံတွင်းများ တူးဖော်စေရာ၊ တွင်းပေါင်း ၁၂၀ ရှိ၍ ဘုရင်နှင့်မိဖုရားပိုင် ဖြစ်သဖြင့် တော်တွင်းများဟု ခေါ်ပေါ်သည်။ မြန်မာ သက္ကရာဇ် ၁၂၂၃ ခုနှစ်ခန့်မှ စ၍ တွင်းရိုး တွင်းစားများပိုင် တွင်းကုန်း၊ ဘေးမဲ့ရှိ ရေနံတွင်းများမှ ထွက်သော ရေနံစိမ်းများကို အင်္ဂလိပ် ကုမ္ပဏီ ကိုယ်စားလှယ်တို့ထံ ဘုရင်မင်းမြတ်၏ အရာထမ်း အမှုထမ်းတို့၏ ကွပ်ကဲမှုဖြင့် ရောင်းချစေသည်။ ထိုအချိန် ကာလသည် အာသံ၊ မဏိပူရ၊ ရခိုင်နှင့် အောက်မြန်မာပြည်တို့ အင်္ဂလိပ် လက်အောက်သို့ကျရောက်ပြီးချိန်ဖြစ်၍ အမေရိကန် ကုမ္ပဏီတခုမှ ရောင်းချသော ရေနံဆီကို အသုံးပြုနေကြပြီ ဖြစ်သည်။ ထို့ကြောင့် ခရစ် ၁၈၇၁ ခုနှစ် (မြန်မာ ၁၂၃၃ ခုနှစ်) ၌ အောက်မြန်မာပြည်၊ ရန်ကုန်မြို့၊ သံလျက်စွန်းအနီး ခနိတောအရပ်တွင် နိုင်ငံခြားသားပိုင် ရန်ကုန် ရေနံကုမ္ပဏီ (အာအိုစီ) က ရေနံချက် စက်ရုံတခုကို တည်ဆောက်၍ ရေနံမြေမှ ရေနံစိမ်းများကို ဝယ်ယူပြီးလျှင် ရေနံချက်လုပ်လေသည်။

ရေနံစိမ်းကို အနုတ် အသိမ်း များလာသဖြင့် အရောင်းအဝယ် သွက်လာသောကြောင့် တွင်းရိုး တွင်းစားများနှင့် တကွ ရေနံမြေရှိ အများ ပြည်သူတို့မှာ လုပ်ငန်း ကိုင်ငန်း တိုးတက်၍ စီးပွားရေး ဖွံ့ဖြိုးလာသည်။ ထိုအခါ စီးပွားရေး သမား နိုင်ငံခြားသား တရုပ်ကုလားတို့သည်လည်း ရေနံမြေသို့ ရောက်လာကြကာ၊ ရေနံ လုပ်ငန်းတွင် မသိမသာ ဝင်ရောက် အရင်းအနှီး မြှုပ်နှံကြလေသည်။

သီပေါမင်း လက်ထက်တွင်လည်း ရေနံ အရောင်း အဝယ် ကောင်းသည်။ သို့သော် ခနိတောရေနံချက်စက်ရုံသို့ ရေနံ

ချောင်းမှ ရေနံစိမ်း မှန်မှန်မပို့နိုင်သဖြင့် ရေနံချက်လုပ်ငန်းကို မှန်မှန် မလုပ်နိုင်သောကြောင့် ကုမ္ပဏီကို ဖျက်သိမ်းလိုက်ရာ ထိုကုမ္ပဏီတွင် အစုရှင်တဦးဖြစ်သော ဒေးဗစ် ဆိုင်း ကာဂျီးက ကုမ္ပဏီ၏ လုပ်ငန်းကိစ္စ အဝဝကို ဝယ်ယူ၍ ရေနံလုပ်ငန်းကို မိမိစွမ်းဆောင်နိုင်သမျှ ဆက်လက် ဆောင်ရွက်နေခဲ့သည်မှာ တတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲမတိုင်မီကာလအထိ ဖြစ်ပေသည်။

## အရင်းရှင်ကုမ္ပဏီများ၏ စားကျက်ဖြစ်လာခြင်း

တတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအပြီး၌ ဗြိတိသျှအစိုးရက မြန်မာတနိုင်ငံလုံးကို သိမ်းပိုက်ပြီးနောက်တွင် ဒေးဗစ်ကာဂျီးသည် ၁၈၈၆ ခုနှစ်၌ ဘီအိုစီကုမ္ပဏီကို ထူထောင်လိုက်၍ ရေနံလုပ်ငန်းအရပ်ရပ်ကို ခွဲထွင်သည်။အခြားအကြံတူများ လက်မဦးမီ အစိုးရထံမှ ရေနံမြေ ရှာဖွေ တူးဖော်ခွင့်ကိုလည်း အရယူလိုက်သည်။ ဓနိတော ရေနံချက်စက်ရုံကို ဖြန့်ချိရေးဌာနတခုအဖြစ် သုံး၍ သံလျင်ဖက်တွင် ဗိုလ်ချုပ်ရွာ အနီး၌ ရေနံချက် စက်သစ်တလုံးကို တည်ဆောက်၍ ရေနံချက်လုပ်စေသည်။ ရေနံမြေတွင်လည်း တွင်းတူးစက်ကရိယာများကိုသုံး၍ ရေနံတူးဖော်စေပြီးလျှင် ကျွမ်းကျင်သော အလုပ်သမားများကိုလည်း ကမ္ဘာ့အရပ်ရပ်မှ ခေါ်ယူ အသုံးပြုလေသည်။

ဗြိတိသျှ အစိုးရသည် မြန်မာနိုင်ငံ၏ အချုပ် အချာ အာဏာကို သိမ်းယူပြီးနောက်တွင် တော်တွင်း ၁၂၀ နှင့် အခြား ပိုင်ရှင်မပေါ်သော တွင်း ၂၇ တွင်းကို သိမ်းယူပြီးလျှင် ဘီအိုစီသို့ အငှားစာချုပ် ပြုလုပ်၍ လွှဲအပ်လိုက်သည်။ တွင်းရိုး တွင်းစားများ အစဉ်အဆက် ပိုင်ဆိုင်ခဲ့သော တွင်းကုန်းနှင့် ဘေးမဲ့အရပ်ရှိ ရေနံမြေများကိုလည်း နယ်နိမိတ်သတ်မှတ် အတည်ပြု၍ ရေနံတွင်းရာများကိုပါ တပါတည်း ဂဏန်း ချစေပြီးလျှင် မှတ်တမ်း တင်စေသည်။ ထိုမှတ်တမ်းများအရ တွင်းကုန်း ရေနံမြေ၏ ဧရိယာသည် ၂၉၅ ဧကဖြစ်၍ လက်တွင်းပေါင်း ၂၀၀ ခန့် ရှိသည်။ ဘေးမဲ့ရေနံမြေသည် ဧရိယာ ၁၈၅ ဧက ဖြစ်၍ လက်တွင်း ၅၀ ကျော်ရှိသည်။ တွင်းရာတခုနှင့် တခု ပေ ၆၀ ခန့်ခွာ၍ တူးဖော်နိုင်သည်။ တော်တွင်းများ အပါအဝင် ဘီအိုစီက တူးဖော်ခွင့် ရရှိသော ရေနံမြေ ဧရိယာသည် ၄,၉၄၄ ဧက ဖြစ်၍ သုံးစတုရန်းမိုင်ခန့် ရှိသည်။ တွင်းရိုး တွင်းစားတို့၏ တွင်းများသည် လက်တွင်းများဖြစ်သည်။ ခရစ် ၁၈၈၈ ခုနှစ် ခန့်မှစ၍ ဘီအိုစီသည် စက်ကရိယာ သုံးသော စက်တွင်းများဖြင့် ရေနံတူးဖော်ခြင်းကို စတင် လုပ်ကိုင်လေသည်။

ရေနံချောင်း၌ ဘီအိုစီသည် အခြေ တည်မိပြီးသည့်နောက်တွင် တွင်းရိုး တွင်းစားများ၏ တွင်းရာများကိုလည်း အငှားယူ၍ တွင်းသစ်များဖောက်လုပ်ရေးသို့ ရွေးရှုခဲ့သည်။ အချို့တွင်းရာများကိုလည်း တိုက်ရိုက် ဝယ်ယူ လိုက်သည်။ အငှား ယူရာ၌လည်း အငှား စာချုပ်များကို တဖက်စောင်းနင်း ကျလှသော စည်းကမ်းချက်များဖြင့် ချုပ်ဆိုခဲ့ရာ၊ တွင်းရိုးတွင်းစားများမှာ တွင်းရာကို ငှားရလျှင်၊ ဆိုင်သာဆိုင် မပိုင်သော အဖြစ်သို့ ရောက်ကြရသည်။ ထိုသို့ ပြုခြင်းမျိုးကို ဘီအိုစီသာမက နောင်ပေါ် ပေါက်လာသော အခြား နိုင်ငံခြား ကုမ္ပဏီကြီးများကလည်း ထိုလမ်းရိုး အတိုင်း လိုက်၍ လျှောက်ကြသည်။

ဘီအိုစီသည် မြန်မာပြည်၌ လုပ်ငန်း စတင် စက အရင်းအနှီး စတာလင်ပေါင်တသန်းခွဲဖြင့် လုပ်ငန်း တည်ခဲ့သည်။ နောင်အခါ စတာလင် ပေါင် ၁၈ သန်းအထိ တိုးတက်၍ အရင်းအနှီး မြှုပ်နှံခဲ့သည်။ ထိုကုမ္ပဏီသည် အိန္ဒိယ ပြည်၌သာ မက ကမ္ဘာပေါ်ရှိ အခြားရေနံလုပ်ငန်းကြီးများနှင့်လည်း အဆက်အသွယ်ရှိသည်။ အထူးသဖြင့် ရှိုင်ယယ်ဒပ်ချ ရှဲ ကုမ္ပဏီ၊ အင်္ဂလို-အီရေးနီးယန်း ရေနံကုမ္ပဏီကြီးတို့နှင့် ပို၍ နီးစပ်စွာ ဆက်ဆံခဲ့သည်။ အင်္ဂလို-အီရေးနီးယန်း ရေနံကုမ္ပဏီတွင် ဗြိတိသျှအစိုးရက အစုရှယ်ယာ စတာလင်ပေါင် ၁၁ သန်း ပါဝင်ထားလေသည်။ဘီအိုစီသည် ၁၅ နှစ်ခန့်ရေနံမြေတွင် တဦးတည်းပိုင်ဖက်ကင်းစွာဖြင့် ရေနံထုတ်လုပ်ကာ ကြီးပွားနေခဲ့သည်။ နောင်အခါ နိုင်ငံခြား ကုမ္ပဏီများသည် ရေနံလုပ်ငန်းအတွင်းသို့ အလျှိုအလျှို ဝင်ရောက်လာခဲ့ရာ၊ ရေနံကုမ္ပဏီပေါင်း ၃၀ ခန့်ရှိသည်။ ယင်းတို့ အနက် (၁) အိုင်ဘီပီ ကုမ္ပဏီနှင့် (၂) ဘီဘီပီ ကုမ္ပဏီတို့သည် ထင်ရှားသော ကုမ္ပဏီကြီးများ ဖြစ်ကြသည်။ အိုင်ဘီပီ ကုမ္ပဏီသည် ၁၉၀၇ ခုနှစ်ခန့်က မြန်မာ့ ရေနံလုပ်ငန်းလောကထဲသို့ ဝင်ရောက်လာသည်။ စတီးဘရားသားကုမ္ပဏီက တည်ထောင်၍ အရင်းအနှီးငွေ တကုဋေဖြင့် စတင်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ်မဖြစ်မီကာလက ရေနံချက်စက်ရုံ တခုကို ဆိပ်ကြီး၌ ဆောက်လုပ်ခဲ့သည်။ ရေနံတင် သင်္ဘောတစင်း ပိုင်၍ ဗဟို ရေနံသိုလှောင်ရေးနှင့် ထုတ်ဝေရေးဌာနကို အိန္ဒိယ၌ ဖွင့်လှစ် ဆောင်ရွက်သည်။

ဘီဘီပီ ကုမ္ပဏီသည် ၁၉၁၀ ပြည့်နှစ်မှ စတင်၍ မြန်မာ့ရေနံ လုပ်ငန်း၌ ဝင်ရောက် ကျက်စားသည်။ စတာလင်ပေါင်နှစ်သန်းခွဲဖြင့် အရင်းအနှီး စတည်ခဲ့သော်လည်း နောင်တသန်းခွဲသို့ လျှော့ချခဲ့သည်။ သီလဝါ၌ ရေနံချက်စက်ရုံ တခု ဆောက်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီ ကာလအထိ ထိုကုမ္ပဏီမှ ထုတ်လုပ်သော ရေနံထွက် ပစ္စည်းများကို ဘီအိုစီကပင် နှစ်ပေါင်းများစွာ တာဝန်ယူ၍ ထုတ်ဝေရောင်းချခဲ့လေသည်။

အထက်ဖော်ပြပါ ကုမ္ပဏီ ကြီးများသည် ရေနံထုတ်လုပ်မှုကို ဗြိတိသျှအစိုးရ၏ အရိပ်အာဝါသကို ခိုလှုံ၍ တွင်တွင်ကျယ်ကျယ် ဆောင်ရွက် နိုင်ခဲ့ကြသည်။ အခြား ကုမ္ပဏီ

ကလေးများမှာ ကုမ္ပဏီကြီးများ၏ အရှိန်အဟုန်ကို မခံနိုင်ဘဲ နောက်ဆုတ် သွားခဲ့ကြရသည်လည်း ရှိသည်။ ကုမ္ပဏီကလေးများ၏ အစုရှယ်ယာများကို ကုမ္ပဏီ ကြီးများက ဝယ်ယူ၍ လက်ဝါးကြီး အုပ်ခဲ့သည်လည်း ရှိသည်။ တွင်းရိုးတွင်းစားများ၏ တွင်းရာများကိုလည်း နိုင်ငံခြား အရင်းရှင်များက ငှားယူသည့်ပြင် အပိုင်ဝယ်ယူခြင်းလည်း ပြုကြသည်။ တွင်းရာများကို ကုမ္ပဏီများက အပြိုင် ဝယ်ယူကြရာ၊ မြန်မာမင်း လက်ထက်က ၁၅ ကျပ်သာ တန်ဖိုးရှိခဲ့သော တွင်းရာတခုသည် ကျပ်ငါးသောင်း အထိ ဈေးတက်ခဲ့ ဘူးသည်။ အထူးသဖြင့် အမေရိကန်ကုမ္ပဏီတခုဖြစ်သောစတင်းဒတ် ရေနံကုမ္ပဏီကြောင့် ဈေးတက်ခဲ့သည်။ ထိုကုမ္ပဏီသည် အမေရိကန် ဓာတ်ဆီအကောင်းစားများကိုလည်း မြန်မာနိုင်ငံ၌ ဈေးပေါပေါဖြင့် ရောင်းချခဲ့သည်။ ထိုအကြောင်းများကြောင့် ဗြိတိသျှအစိုးရက ထိုကုမ္ပဏီကို ကန့်သတ်ချက်များ၊ တားမြစ်ချက်များဖြင့် လုပ်ငန်းများ ဆောင်ရွက်စေခဲ့ရလေသည်။

## မြန်မာ့မြေဆီမှ ထုတ်လုပ်ခဲ့သော ရွှေရည်

ဗြိတိသျှ အစိုးရသည် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးသည့်အချိန်မှ စ၍ ရေနံမြေဒေသများကို စူးစမ်း ရှာဖွေ လေ့လာခြင်း၊ တိုင်းတာခြင်းများကို ပြုလုပ် စေခဲ့သည်။ ထို့ကြောင့် မြန်မာပြည်တွင် ရေနံချောင်းတွင်သာ မက၊ ချောက်နှင့် စဉ့်ကူဒေသတို့အပြင် ပခုက္ကူခရိုင် အတွင်းရှိ ရေနံချပ်၊ လမ်းရွာ၊ မင်းဘူးခရိုင်အတွင်းရှိ မင်းဘူး၊ ဖလံရို၊ ရွာသာယာ (ရသယာ)၊ သရက်ခရိုင်အတွင်းရှိ သံတိုင်း၊ ပိတောက်ပင်၊ ရေနံမ၊ အထက် ချင်းတွင်းခရိုင် (ယခု မော်လိုက်ခရိုင်)ရှိ အင်းတော်၊ ရခိုင်ပြည်ဖက်ရှိ ကျောက်ဖြူခရိုင်မှ ရမ်းဗြဲကျွန်း၊ စစ်တွေခရိုင် တောင်ဖက် ကျွန်းငယ်တို့မှလည်း ရေနံထွက်သည်ကို တွေ့ရှိရလေသည်။

ရေနံ ထုတ်လုပ်ရေးသည် ခရစ် ၁၈၉၀ ပြည့်နှစ်အထိ ရေနံချောင်း၌သာ အချက်အချာ ဖြစ်သော်လည်း နောင်အခါ ဘီအိုစီသည် ရေနံချပ်နှင့် မင်းဘူးဖက်သို့လည်း လုပ်ငန်းတိုးချဲ့သည်။ အိုင်ဘီပီကုမ္ပဏီသည် ရေနံချောင်း၊ လမ်းရွာ၊ အင်းတော်နှင့် သရက်ခရိုင်တွင် ရေနံ ထုတ်လုပ်သည်။ ဘီဘီပီကုမ္ပဏီသည် ရေနံချပ်၊ မင်းဘူးနှင့် ချောက်တို့တွင် ရေနံထုတ်လုပ်လေသည်။

မြန်မာ့ ရေနံမြေမှ အဖိုးတန် ရတနာရည် ဖြစ်သော ရေနံကို အရင်းရှင် ကုမ္ပဏီကြီးများသည် ရနိုင်သမျှ ခြစ်ကုတ်၍ ထုတ်ယူကြသည်။ ဒုတိယ ကမ္ဘာစစ်မတိုင်မီက ဗြိတိသျှ အင်ပိုင်ယာအတွင်း၌ မြန်မာပြည်သည် ဒုတိယ ရေနံအထွက်အကောင်းဆုံး ဖြစ်ခဲ့သည်။ ဗြိတိသျှ ကုမ္ပဏီကြီးများက ရေနံလုပ်ငန်း၌ လက်ဝါးကြီးအုပ် လုပ်ကိုင်ခဲ့ကြရာ ပြည်တွင်းထွက်ရေနံ၏ ၉၇ ရာခိုင်နှုန်းကို ကုမ္ပဏီကြီးများက ထုတ်လုပ်ခဲ့ကြသည်။ ထုတ်လုပ်ခဲ့သော အချိုး အစားမှာ ဘီအိုစီက ၇၅ ရာခိုင်နှုန်း၊ အိုင်ဘီပီ ကုမ္ပဏီက ၁၂ ရာခိုင်နှုန်း၊ ဘီဘီပီ ကုမ္ပဏီက ကိုးရာခိုင်နှုန်းဖြစ်၍ နတ်ဆင် ရေနံကုမ္ပဏီစသော ကုမ္ပဏီငယ်များနှင့် မြန်မာလက်ယက်တွင်းများမှ ရေနံအထွက် စုစုပေါင်းသည် သုံးရာခိုင်နှုန်းခန့်သာ ဖြစ်လေသည်။

ဗြိတိသျှ ခေတ်မတိုင်မီက မြန်မာ လက်ယက်တွင်းများမှ တလလျှင် ရေနံစိမ်း ပိသာချိန် ၁၆ သိန်းခန့် ထွက်သည်။ ခရစ်နှစ် ၁၈၈၈ ခုနှစ်တွင် ဘီအိုစီက စက်ဖြင့် တူးဖော် ရရှိသော ရေနံစိမ်းမှာ ၁၇,၄၆၈ ဂါလံ ဖြစ်၍ လက်ယက်တွင်းများမှ ရရှိသော ရေနံစိမ်းမှာ ၂,၅၄၈,၁၇၁ ဂါလံ ဖြစ်သည်။ သို့သော် ၁၈၉၃ ခုနှစ်မှစ၍ စက်တွင်းများမှ ရေနံထွက် ပိုကောင်းလာသည်။ ရေနံချောင်းမှ ရေနံအများဆုံး ထွက်သော နှစ်မှာ ၁၉၁၀ ခုနှစ် ဖြစ်၍ ရေနံစိမ်း ဂါလံပေါင်း ၂၀၃,၆၁၈,၀၄၃ ထွက်ရှိခဲ့သည်။ သို့သော် ထိုတနှစ်တွင်သာ ဂါလံ သန်း ၂၀၀ ကျော် ထွက်ခဲ့သော်လည်း နောင်တွင် ရေနံထွက် တဖြည်းဖြည်း လျော့ပါး လာပြီးလျှင် ဂါလံ သန်း ၁၀၀ ကျော်မျှသာ ထွက်လေတော့သည်။

မြန်မာနိုင်ငံထွက် ရေနံစိမ်းကို ၁၈၅၇ ခုနှစ်တွင် ဖယောင်းနှင့် ချောဆီ ထုတ်ယူရန်အတွက် နိုင်ငံခြားသို့ တင်ပို့ခဲ့သည်။ ၁၈၅၉ ခုနှစ်တွင်မူ အမေရိကန် ပြည်ထောင်စုသို့လည်း တင်ပို့ခဲ့သေးသည်။ ထိုနှစ်အတွင်း၌ အမေရိကန် ပြည်ထောင်စု၊ ပင်ဆီလဗေးနီးယား ပြည်နယ်၌ ရေနံတွေ့ရှိ၍ အမေရိကန် ရေနံသမိုင်း စတင်ခဲ့လေသည်။

ဗြိတိသျှ အစိုးရ၏ အရိပ်အာဝါသကို ခိုလှုံ၍ နိုင်ငံခြား ရေနံကုမ္ပဏီကြီးများသည် ရေနံလုပ်ငန်းကို စိတ်ဆန္ဒရှိသလောက် တိုးချဲ့ခဲ့ကြသည်။ ဘီအိုစီသည် သံလျင်တွင် ရေနံချက်စက်ကြီး တခုကို တည်ဆောက်၍ ၁၉၀၇ ခုနှစ်၌ ရေနံချောင်းမှ သံလျင်သို့ ရေနံစိမ်း ပို့ဆောင်ရေး အတွက် မိုင် ၃၀၀ နီးပါး ရှည်လျားသော ပိုက်လိုင်းကြီးတခုကို တည်ဆောက်သည်။ ၁၉၀၂ ခုနှစ်ခန့်မှ စ၍ ချောက်၌လည်း ရေနံတူးဖော်ရေးကို လုပ်ကိုင်ခဲ့ရာ၊ ထိုပိုက်လိုင်းကြီးကို နောင်အခါ ချောက်အထိ တိုးချဲ့ခဲ့ရ၍ ပိုက်လိုင်းအရှည် စုစုပေါင်း ၃၂၇ မိုင် ရှိခဲ့သည်။ ချောက်မြို့သည် ၁၉၃၇ ခုနှစ်မှစ၍ ရေနံလုပ်ငန်း၏ အချက်အချာ ဖြစ်လာလေသည်။ ၁၉၁၉–၂၀ ပြည့်နှစ်တွင် ရေနံမြေ၌ လျှပ်စစ်ဓာတ်အားကို စတင် အသုံးပြုခဲ့ရာ ကမ္ဘာ၌ လျှပ်စစ်ဓာတ်အား ပဌမဆုံး သုံးနိုင်သော ရေနံလုပ်ငန်းကြီး ဖြစ်ခဲ့သည်။ ၁၉၂၇ ခုနှစ်တွင် ချောက်မြို့သို့ လျှပ်စစ်ဓာတ်အား တိုးချဲ့ ပေးပို့ခဲ့လေသည်။

ကုမ္ပဏီကြီးများသည် ဧရာဝတီ မြစ်၏ ဝဲယာ နှစ်ဖက်ကမ်းတွင် တာရိုးကြီးများ ဆောက်၍ မြစ်ဝှမ်း၏ တစိတ်တဒေသကို သဲသောင်အဖြစ်ပြောင်းလဲလိုက်ကြပြီးနောက် ရေနံတွင်း

များ တူးဖော်ကြသည်။ ယင်းသို့ ဆောင်ရွက်ရာ၌ အိုင်ဘီပီ ကုမ္ပဏီက ရှေ့ဆောင် ဖြစ်၍ ဘီအိုစီက နောက်လိုက်ဖြစ်သည်။ အိုင်ဘီပီ ကုမ္ပဏီသည် ၁၉၂၇ ခုနှစ်တွင် လမ်းရွာ၏ အောက်ဆွယ်၌ တာရိုးပြုလုပ်ကာ၊ ရေနံတွင်းပေါင်း ၁၂၇ တွင်း တူးဖော်၍ ရေနံထုတ်လုပ်ခဲ့ရာ၊ ဒုတိယကမ္ဘာစစ် မတိုင်မီက လမ်းရွာသည် စည်ကားသော ရေနံမြေတခုဖြစ်ခဲ့သည်။ ထို့ကြောင့် ၁၉၃၃-၃၈ ခုနှစ်အတွင်း စဥ့်ကူချောင်းမှ အစပြု၍ ရေဝတီမြစ်၏ လက်ဝဲဖက်ကမ်းတွင် တာရိုးဆောက်ပြီးလျှင် ရေနံတွင်းများ တူးဖော်သည်။ ယင်းသို့ဖြင့် မိမိပိုင်နက် ရေနံမြေနယ်နိမိတ် အတွင်းမှ ရေနံများ အခြားသူတပါးထံ မရောက်ရန် တားဆီးခြင်းလည်း မည်လေသည်။ နိုင်ငံခြား ကုမ္ပဏီကြီးတို့သည် ဤသို့ဖြင့် မြန်မာ့ ရေနံမြေမှ ရေနံကို ရနိုင်သမျှ ကုတ်ကုတ်ခြစ်ခြစ် ကြိုးပမ်းထုတ်ယူခဲ့ကြပေသည်။

### ကုမ္ပဏီကြီးများ၏ လုပ်ငန်းဆောင်ရွက်ပုံ

အချိန်အဟုန် ကောင်းစွာဖြင့် ရေနံ လုပ်ငန်းကို တိုးချဲ့နိုင်သော ကုမ္ပဏီများတွင် ဘီအိုစီသည် ထိပ်ဆုံးဖြစ်၍ ခေတ်မှီ စံနစ်များကို ဖွေဆော်ဦး သုံးနိုင်ခဲ့သည်။ ဘီအိုစီ တည်ထောင်စက အစပြု၍ ရောင်းဝယ် ဖောက်ကားမှုကို ဖင်လေအင် ဖလင်မင် ကုမ္ပဏီက ဆောင်ရွက်ပေးခဲ့သည်မှာ ၁၉၃၉ ခုနှစ်တိုင်အောင် ဖြစ်သည်။ မြန်မာပြည်သည် ၉၁ ဌာန အုပ်ချုပ်ရေး ရရှိ၍ အိန္ဒိယပြည်မှ ခွဲထွက်ပြီးနောက်တွင် ၁၉၃၉ ခုနှစ်မှ စ၍ ဘီအိုစီသည် ကုမ္ပဏီ အုပ်ချုပ်ရေး ပုံစံကို တမျိုး ပြောင်းလိုက်သည်။ ယခင်က ဘီအိုစီ၏ ဌာနအသီးအသီးသည် အောက်ပါအတိုင်း သီးသန့် ကုမ္ပဏီများ ဖြစ်လာလေသည်။

၁။ ဘီအိုစီ (တူးဖော်ခွင့်) ကုမ္ပဏီ၊
၂။ ဘီအိုစီ (ရေနံပိုက်လမ်း) ကုမ္ပဏီ၊
၃။ ဘီအိုစီ (ချက်လုပ်ရေး) ကုမ္ပဏီ၊
၄။ ဘီအိုစီ (ကုန်သွယ်ရေး ရောင်းဝယ်ရေး) ကုမ္ပဏီ၊
၅။ ဘီအိုစီ (ရေနံတင် သင်္ဘော) ကုမ္ပဏီ၊

သယ်ယူ ပို့ဆောင်ရေးသည် ရေနံလုပ်ငန်းတွင် အရေးပါသော လုပ်ငန်းတရပ် ဖြစ်သည်။ ရှေးခေတ်က ရေနံမြေမှ ရေနံစိမ်းကို သယ်ယူနည်းမှာ ဝါးဖြင့် ယက်သော ရိုင်များကို နွားချေးသရိုး မွမ်းမံ၍ ပိုက်လုံးသဖွယ် အသုံးပြုခြင်းဖြစ်သည်။ လောင်းထည့်လိုက်သော ရေနံများကို မြစ်ကမ်းနဖူးမှ နေ၍ အိုးများဖြင့် ခံယူသည်။ ထိုခေတ်က ရေနံစိမ်းကို ပိသာချိန်ဖြင့် အရောင်းအဝယ် ပြုကြသဖြင့် ရေနံထည့်သော စဥ့်အိုးများမှာ များသောအားဖြင့် ၁၀ ပိသာဝင်အိုးများ ဖြစ်သည်။ ထိုအိုးများကို အထက်အောက် ကျေးရွာများသို့ လှေများဖောင်များဖြင့် သယ်ယူ၍ ရောင်းဝယ်ဖောက်ကားသည်။ ကုန်းပိုင်းကျသော ဒေသများသို့ ပို့ဆောင်ရာ၌ လှည်းများတွင် ဖောင်ကန် (အဝကျဉ်းသော) အိုးများ တင်၍ ရေနံထည့်ပြီးလျှင် သယ်ယူရောင်းဝယ်ကြသည်။ ၁၉၂၁-၂၂ ခုနှစ်မှ အစပြု၍ ရေနံစိမ်းအိုးများနှင့် ရေနံဆီ (ဆယ်ဝင်)ပုံးများကို ပူးတွဲ အသုံးပြု၍ ရောင်းဝယ် ဖောက်ကားသည်။ နောင်အခါတွင် မော်တော်ယာဉ်များဖြင့် ပို့ဆောင်ခြင်း၊ သင်္ဘောဖြင့် ပို့ဆောင်ခြင်းတို့ကို ပြုခဲ့သည်။ ရေနံကုမ္ပဏီကြီးများ၌ ပို့ဆောင်ရေး ရေယာဉ်များ အသီးအသီး ရှိကြသည်။ ဘီအိုစီသည် ၁၈၉၉ ခု နှစ်မှစ၍ ရေနံတင် သင်္ဘောများကို အသုံးပြုခဲ့ရာ၊ ပဌမဆုံး ရေနံတင် သင်္ဘော၏ အမည်မှာ "သံလျင်" ဖြစ်လေသည်။ ကုမ္ပဏီပိုင် ရေနံတင် သင်္ဘောဖြင့် နိုင်ငံခြားသို့ပင် ရေနံ တင်ပို့ခဲ့လေသည်။

ရေနံချောင်းမှ သံလျင်သို့ ရေနံစိမ်း ပို့ဆောင်သော ရေနံပိုက်လိုင်းကြီးကို မူလက ဘီအိုစီ တဦးတည်းသာ အသုံးပြုခဲ့သော်လည်း နောင်အခါ အခြား ရေနံကုမ္ပဏီများကလည်း ပို့ဆောင်ခွင့် ရသည်။ ဒုတိယ ကမ္ဘာစစ်ကာလ အတွင်း မြေလှန် စံနစ်အရ ထိုပိုက်လိုင်းကြီး ပျက်စီးခဲ့သဖြင့် စစ်ပြီးခေတ်တွင် ရေကြောင်းမှ ပို့ဆောင်ရေးကို အရင်းခံ ထား၍ ဆောင်ရွက်ခဲ့ရလေသည်။

ရေနံမြေမှ ပို့ဆောင်သော ရေနံစိမ်းကို သံလျင်တွင် ရေနံချက်လုပ်ခြင်းဖြင့် ရေနံထွက်ပစ္စည်း အမျိုးမျိုးထွက်ရှိရာ၊ ထိုပစ္စည်းတို့မှာ ရေနံဆီ၊ ဖယောင်း၊ ဓာတ်ဆီ၊ စက်ဆီစသည်တို့ ဖြစ်ကြသည်။ ဒုတိယကမ္ဘာစစ် မတိုင်မီကာလများက တနှစ်လျှင် ရေနံစိမ်း ဂါလံပေါင်း သန်း ၂၇၀ ကျော် ထုတ်



ရေနံချောင်းမြို့ရှိ မြန်မာနိုင်ငံ၏ အဓိက တွင်းထွက်ပစ္စည်း တမျိုးဖြစ်သည့် ရေနံစိမ်းတွင်းများ

လုပ်ခဲ့၍ ထိုစဉ်က တန်ဖိုးငွေသည် ကျပ်ခြောက်ကုဋေ ဖြစ်သည်။ ရေနံစိမ်းမှ ထုတ်လုပ်သော ရေနံထွက်ပစ္စည်း တန်ဖိုးသည် ကျပ် ၁၅ ကုဋေဖြစ်သည်။ ထိုစဉ်က ပြည်တွင်းသုံးမှာ ၁၂ ရာခိုင်နှုန်းခန့်သာ ရှိ၍ ၈၈ ရာခိုင်နှုန်းကို နိုင်ငံခြားသို့ တင်ပို့ နိုင်ခဲ့သည်။ ရေနံထွက်ပစ္စည်း အားလုံးလိုလိုကို အိန္ဒိယပြည်သို့ တင်ပို့ရ၍ ဘီအိုစီမှ တဆင့်၎င်း၊ ယင်းကုမ္ပဏီ၏ အဆက်အသွယ်များအားဖြင့်၎င်း နိုင်ငံခြား၌ ရောင်းချသည်။ မြန်မာ ဖယောင်းများကို အိန္ဒိယပြည်မှ တဆင့် ဗြိတိန် နှင့် အမေရိကန် ပြည်ထောင်စုသို့ တင်ပို့ရလေသည်။

## အပို့အသွင်းနှင့် အမြတ်အစွန်း

နိုင်ငံခြားသို့ မြန်မာ့ရေနံထွက်ပစ္စည်းများ တင်ပို့ရောင်းချခဲ့ရသည်ဆိုသော်လည်း ထိုစဉ်က မြန်မာပြည်တွင် မချက်လုပ်သော အချို့ခဲတစ်ဆီနှင့် ချောဆီ အမျိုးအစားတို့ကိုမူ နိုင်ငံခြားမှတင်သွင်းခဲ့ရာ၊အထူးသဖြင့်အမေရိကန်စတင်းဒတ်ရေနံကုမ္ပဏီသည် ဘီအိုစီ ကုမ္ပဏီနှင့် အစီအစဉ် ပြုလုပ်၍ မြန်မာပြည်သို့ ရေနံထွက်ပစ္စည်းများ တင်သွင်း ရောင်းချခဲ့သည်။

ဒုတိယ ကမ္ဘာစစ် မဖြစ်မီက မြန်မာပြည်မှ နိုင်ငံခြားသို့ တင်ပို့ရသော ရေနံထွက် ပစ္စည်းများ၏ တန်ဖိုးသည် နှစ်စဉ် ဒေါ်လာ ၄၅ သန်းနီးပါးမှ သန်း ၅၀ ခန့်အထိ ဖြစ်သည်။ မြန်မာပြည်တွင်းသို့ တင်သွင်းခဲ့သော ရေနံထွက် ပစ္စည်းတန်ဖိုးမှာ နှစ်စဉ် ဒေါ်လာတသန်းကျော် နှစ်သန်းနီးပါးခန့် ဖြစ်သည်။ ထိုစဉ်က အမေရိကန် ဒေါ်လာ ၁၀၀ သည် မြန်မာငွေ ကျပ် ၃၃၀ နှင့် ညီမျှသည်။ ရေနံထွက် ပစ္စည်းများကို မြန်မာပြည်မှ နိုင်ငံခြားသို့ တင်ပို့ခြင်း၊ တင်သွင်းခြင်း စသော ရေနံရောင်းဝယ် ဖောက်ကားမှုမှ ဘီအိုစီက နှစ်စဉ် ရရှိသော စုစုပေါင်း အမြတ်ငွေသည် စတာလင်ပေါင် သုံးသန်းခွဲမှ ငါးသန်းနီးပါး ဖြစ်သည်။ ထိုစဉ်က စတာလင် တပေါင်သည် မြန်မာငွေ ၁၃-၅-၄ ပိုင်နှင့် ညီမျှသည်။

ဘီအိုစီတခုတည်းကပင် တနှစ်လျှင် ဤမျှလောက် အမြတ်အစွန်း ရရှိခဲ့ပေရာ ခရစ် ၁၈၈၆ ခုနှစ်မှစ၍ ဒုတိယကမ္ဘာစစ်ကာလမတိုင်မီ အထိ နှစ်ပေါင်း ၅၀ ကျော်မျှ နိုင်ငံခြားကုမ္ပဏီကြီးများသည် မြန်မာ့မြေဆီမှ ရွှေရည်ကို ညှစ်ထုတ်၍ ရရှိခဲ့သော အကျိုးအမြတ်များ မည်မျှများပြားမည်ကို ချင့်တွက် ကြည့်နိုင်ပေမည်။

ဘီအိုစီနှင့် အခြား ကုမ္ပဏီများသည် ထိုမျှလောက်သော အကျိုးအမြတ်များ ခံစားနိုင်အောင် မြန်မာပြည်အရပ်ရပ်၌ တူးဖော်ခဲ့သော ရေနံတွင်း စုစုပေါင်းသည် ၆,၅၉၉ တွင်း ဖြစ်သည်။ ယင်းတို့တွင် လက်ယက်တွင်းများ မပါဘဲ စက်တွင်းများသာ ဖြစ်သည်။ ဗြိတိသျှ အစိုးရသည် တွင်းရိုးတွင်းစား ၂၄ ဦးသို့ တူးဖော်ခွင့် ထုတ်ပေးခဲ့သော ရေနံတွင်းရာပေါင်း ၄,၂၃၅ ခုဖြစ်သော်လည်း သုံးပုံနှစ်ပုံကို နောင်အခါ ဘီအိုစီနှင့် အခြား နိုင်ငံခြားသား ကုမ္ပဏီများသို့ အပိုင်ရောင်းချခြင်း၊ အငှားချခြင်း၊ ဖက်စပ်လုပ်ကိုင်ခြင်း ပြုခဲ့ကြ၍ တွင်းရိုးတွင်းစားတို့၏ လက်တွင် သုံးပုံတပုံခန့်သာ ကျန်တော့သည်။ ထိုတွင်းများသည်လည်း လက်တွင်းများသာ ဖြစ်ကြလေသည်။

## ရေနံမြေ လုပ်သားတို့၏ လှုပ်ရှားမှု

ရေနံကုမ္ပဏီကြီးများသည် တဆင့်ထက်တဆင့် စီးပွားရေးဖွံ့ဖြိုးတိုးတက် မြင့်မားလာခဲ့ကြသော်လည်း မိမိတို့ အကျိုးအမြတ် ကြီးမားရေးကိုသာ ရှေးရှုကြပြီးလျှင် မိမိတို့၏လုပ်ငန်းတွင် အရေးပါသော ကဏ္ဍမှ ပါဝင်နေသည့် လုပ်သားတို့၏ စားဝတ်နေရေးအတွက် တရားမျှတစွာ တုံ့ပြန်ဆောင်ရွက်ပေးခြင်း မရှိခဲ့ချေ။ ထို့ကြောင့် မြန်မာ့ ရေနံလုပ်ငန်း၏ အလုပ်သမား ကဏ္ဍတွင် လှုပ်ရှားမှုများ ပေါ်ပေါက်ခဲ့ရာ၊ လှုပ်ရှားမှုတို့သည်အသွင်သဏ္ဍာန်အားဖြင့် တဆင့်ပြီးတဆင့် တိုးတက်လာသည်ကို တွေ့ရသည်။

ပဌမဆုံး လှုပ်ရှားမှုသည် ၁၉၁၉ ခုနှစ်တွင် ပေါ်ပေါက်ခဲ့ရာ အလုပ်သမားချင်းတူတူ စကော့လူမျိုးများကို ပို၍ အခွင့်အရေး ပေးသဖြင့် အမေရိကန် တွင်းတူး သမားများက သပိတ်မှောက်ခြင်း ဖြစ်သည်။

မြန်မာတိုင်းရင်းသားအလုပ်သမားများ၏လှုပ်ရှားမှုသည် ၁၉၂၀ပြည့်နှစ်မှစတင်ခဲ့သည်။ သပိတ်မှောက်ရခြင်းမှာ တိုင်းရင်းသား အလုပ်သမားများသည် အိန္ဒိယအလုပ်သမားများလောက်မှပင် အခွင့်အရေး မရခြင်း၊ ထိခိုက်နစ်နာမှု လျော်ကြေး မရခြင်း၊ ကရုဏာကြေး မရခြင်း စသည်တို့ကြောင့် ဖြစ်ပေသည်။ ၁၉၂၃ ခုနှစ်တွင်လည်း အလားတူ သပိတ်မျိုး မှောက်ခဲ့သော်လည်း ရှေးနည်းတူပင် ကုမ္ပဏီက လိုက်လိုက်လျောလျော မပြုခဲ့ပေ။ ၁၉၂၆ ခုနှစ်တွင် နိုင်ငံရေးသမားများဦးဆောင်၍ တွင်းတူးသမားအချို့သပိတ်မှောက်ခဲ့သော်လည်း အကျိုးမထူးလှချေ။ ယင်းသည့် နောက်ပိုင်းတွင်မူ အလုပ်သမားလှုပ်ရှားမှု မည်မည်ရရ မရှိလှတော့ချေ။

သို့သော် မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ် (ခရစ် ၁၉၃၈—၃၉) တွင်မူကား မြန်မာတပြည်လုံး တုန်ဟည်း သွားသော ရေနံမြေ သပိတ်ကြီး ပေါ်ပေါက် ခဲ့လေသည်။ အာဏာဝက သခင်ဘိုးလှကြီးခေါင်းဆောင်သော သပိတ်တပ်သား မြန်မာကုလားအလုပ်သမား ၁၀၀၀ ကျော်တို့သည် မိုင် ၄၀၀ ကျော်ဝေးသော ရန်ကုန်မြို့သို့ ခြေလျင် ချီတက်ပြီးလျှင် ရေနံမြေ အလုပ်သမားများ၏ နစ်နာချက်များကို တင်ပြ လာကြသည်။ အခြားသော အလုပ်သမား၊ လယ်သမား၊ ကျောင်းသား အစရှိသော အများပြည်သူတို့ကလည်း ရေနံမြေ သပိတ်ကြီးအား သောင်းသောင်းဖြဖြ ထောက်ခံ အားပေးကြသည်။ ဗြိတိသျှ အစိုးရနှင့် ကုမ္ပဏီအာဏာပိုင်များ တုန်



ရေနံစိမ်းများကို သံလျင်မြို့ရှိ ရေနံချက်စက်ရုံ (က)(ဝဲ)နှင့် (ခ)(ယာ)တို့တွင် အဆင့်ဆင့် ချက်ယူရသည်။



ချက်လုပ်ပြီးဆီများကို ခေတ္တသိုလှောင်ထားရာ သံကန်ဒေသ။ အဝေးမှ အဆောက်အအုံမှာ ဂျက်လေယာဉ်ဆီ ချက်ရုံဖြစ်သည်။

လုပ်ချောက်ချားခဲ့ရသော သပိတ်ကြီးတည်း။ ယင်းသို့ လုပ်သားထုကြီး၏ ပြင်းထန်သော လှုပ်ရှားမှုကြောင့် အစိုးရက အရေးတယူ ဆောင်ရွက်ခဲ့သော်လည်း ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်ပွားလာသဖြင့် အကောင်အထည် မပေါ်နိုင်ခဲ့ချေ။

## စစ်မီး နှင့် ရေနံမြေ

ဥရောပ၌ ဒုတိယကမ္ဘာစစ်မီးကြီး စတင်တောက်လောင်စဉ်က မြန်မာ့ ရေနံမြေမှ လုပ်ငန်းများကို သိသိသာသာ မထိခိုက်သေးပေ။ သို့သော် ၁၉၄၁ ခုနှစ် ဒီဇင်ဘာလတွင် ဂျပန်သည် စစ်ပြိုင်နိုင်ငံတခု ဖြစ်လာသော အခါ မြန်မာပြည်၌ အခြေ အနေတို့ ရုတ်ချည်း ပြောင်းလဲသွားသည်။ ဗြိတိသျှ အစိုးရ၏ မြေလှန် စံနစ်အရ ဘီအိုစီ၏ သံလျင်မှ ရေနံချက်စက်ရုံ၊ အိုင်ဘီပီ ၏ ဆိပ်ကြီးစက်ရုံ၊ ဘီဘီပီ၏ သီလဝါစက်ရုံတို့ကို ၁၉၄၂ ခုနှစ် မတ်လတွင် အကြီး အကျယ် ဖောက်ခွဲ ဖျက်ဆီး၍ အချို့ကို ဖြုတ်ပစ်ခဲ့သည်။ ဧပြီလ အတွင်း ၌မူ ရေနံတွင်းများ၊ ရေနံထုတ်လုပ်သော ပစ္စည်း ကရိယာများ၊ တွင်းတူးစက်များနှင့် တန်ဆာပလာများ၊ လျှပ်စစ် ဓာတ်အားပေးရေး ဆိုင်ရာ ပစ္စည်းများ၊ ချောက်-ရေနံချောင်း ရေနံပိုက်လိုင်းကြီး၊ ရေနံစုတ်စက်ရုံများ၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများနှင့် အဆောက်အအုံများကိုလည်း တတ်နိုင်သလောက် ဖျက်ဆီးပစ်ခဲ့ရာ၊ အပျက်အစီး တန်ဖိုးသည် စတာလင် ပေါင် သန်း ၄၀ (မြန်မာငွေ ၅၃ ကုဋေ) ခန့် ဖြစ်သည်။ ထိုတန်ဖိုးထဲတွင် မြန်မာ့ သယံဇာတ ရေနံတွင်းများနှင့် စပ်လျဉ်း၍ ယင်းတို့ ဖျက်ဆီးခဲ့သော တန်ဖိုးစာရင်း မပါသေးချေ။ ဖော်လည်း မဖော်ပြချေ။

ဂျပန်များ မြန်မာပြည်တွင်းသို့ ဝင်ရောက် လာသော အခါ ပျက်စီးနေသော ရေနံလုပ်ငန်းကို ဖြစ်သလို ဆက်လက်ဆောင်ရွက်ကြသည်။ ဖြစ်သည့်နည်းဖြင့် ထုတ်လုပ်ရရှိသော ရေနံများကို စည်များတွင် ထည့်၍၎င်း၊ ရေနံ တွဲသင်္ဘောများဖြင့် တင်ဆောင်၍၎င်း သံလျင်သို့ သယ်ယူပြီးလျှင် ဖြစ်သလို တည်ဆောက် ထားသော ရေနံချက်ဖိုတွင် ရေနံပစ္စည်းများကို ထုတ်လုပ်ကြသည်။ သံလျင်၌ ပျက်စီးနေသော သံကန်ကြီး ၆၀ ခန့်အနက် လေးခုမျှသာ ပြင်ဆင်အသုံးပြုနိုင်သည်ဟု ဆိုလေသည်။

## ရေနံလုပ်ငန်း ပြန်လည် ထူထောင်ရေး

ဖက်ဆစ် ဂျပန်တို့ကို တော်လှန်၍ ဂျပန်တို့ မြန်မာ့မြေမှ ဆုတ်ခွာရပြီးနောက်တွင် ဗြိတိသျှ အစိုးရတို့ ပြန်လည် ဝင်ရောက်လာသောအခါ၊ ဗြိတိသျှရေနံကုမ္ပဏီများသည်လည်း တစတစဖြင့် ရေနံမြေသို့ ပြန်လာကြသည်။ သို့သော် စစ်ပြီးကာလဖြစ်၍ စစ်အုပ်ချုပ်ရေး လက်အောက်ခံ၊ မြန်မာ့ရေနံမြေ ပြန်လည်ထူထောင်ရေးအဖွဲ့ အသွင်ဖြင့် ရောက်လာကြခြင်း ဖြစ်သည်။ ထိုအဖွဲ့က ၁၉၄၅ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့အထိ ရေနံမြေ ကိစ္စများကို ဆောင်ရွက်သည်။ ၁၉၄၆ ခုနှစ် မတ်လ ၃၁ ရက်နေ့အထိ မြန်မာပြည်အတွင်း ရေနံထွက်ပစ္စည်း ဖြန့်ဖြူးရေးကို ကက်စဘီခေါ် မြို့ပြ အုပ်ချုပ်ရေးဌာနက လုပ်ကိုင်သည်။ ထိုနှစ် မတ်လ ၃၁ ရက်နေ့ နောက်ပိုင်းတွင် ဘီအိုစီ (တွင်းတူးရေး) နှင့် ဘီအိုစီ (ကုန်သွယ်ရေး)တို့က ရေနံထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရေးတို့ကို ကက်စဘီထံမှ လွှဲပြောင်း ယူလိုက်လေသည်။

ရေနံမြေမှာ မြေလှန် စံနစ်ကြောင့် အကြီးအကျယ် ပျက်စီးခဲ့သဖြင့် ကုမ္ပဏီများအတွက် ရေနံလုပ်ငန်း ပြန်လည် ထူထောင်ရေးမှာ ကြောက်မက်ဖွယ် ကောင်းလောက်အောင် စရိတ်စက ကြီးလေးနေသည်။ ထို့ပြင် မြန်မာနိုင်ငံရေး အခြေအနေသည် အချုပ်အချာ အာဏာပိုင်နိုင်ငံ အဖြစ်သို့ ကူးပြောင်းရန် လှုပ်ရှားနေသဖြင့် အရင်းရှင် ကုမ္ပဏီများသည် ရေနံမြေထူထောင်ရေး၌ အခြေအနေကို အကဲခတ်ကာ နှောင့်နှေး ဖင့်နွှဲနေကြသည်။ ထို့ကြောင့် ဒုတိယကမ္ဘာစစ်ပြီး ကာလ၌ မြန်မာပြည်နည်းတူ စစ်ဒဏ် အနည်းအများ ခံကြရသော တိုင်းပြည်နီးချင်းဖြစ်သည့် အင်ဒိုနီးရှား၊ ဗြိတိသျှ ဗော်နီယိုတို့တွင် ရေနံအထွက် ပိုနေချိန်၌ မြန်မာပြည်တွင် ရေနံထွက် လျော့နည်းနေဆဲ ဖြစ်လေသည်။

ဘီအိုစီသည် ပြန်လည် ထူထောင်ရေး အတွက် ချောက်ရေနံမြေ၌ ရေနံချက်စက်ငယ် တလုံးကို ၁၉၄၇ ခုနှစ်တွင် တည်ဆောက်သည်။ ချောက်-သံလျင် ရေနံပိုက်လိုင်းကို ပြန်၍ ပြုပြင်ရာ၊ ချောက်မြို့မှ မိုင် ၆၀ ခန့်အထိ ပြန်၍ အသုံးပြုနိုင်ခဲ့သည်။ သို့သော် ၁၉၄၈ ခုနှစ်၌ အချုပ်အချာ အာဏာပိုင်လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံ အဖြစ် ရောက်လာပြီးသည့် နောက်ပိုင်းတွင် ပြည်တွင်းရေး အခြေအနေ မငြိမ်မသက် ဖြစ်လာ၍ ဘီအိုစီသည် ပြန်လည် ထူထောင်ရေးလုပ်ငန်းများကို ရပ်ဆိုင်းထားခဲ့သည်။ အခြားနိုင်ငံခြား ရေနံကုမ္ပဏီများကလည်း ဘီအိုစီအား ခေါင်းဆောင်ထားကာ တစိတ်တဝမ်းတည်းပြု၍ ပူးပေါင်း လိုက်ကြလေသည်။

## ရေနံ ဖက်စပ်လုပ်ငန်း

ရဲဘော်ဖြူများ သိမ်းပိုက်ထားခဲ့သော ရေနံမြေကို ပြည်ထောင်စုအစိုးရ တပ်များက ၁၉၄၉ ခု နှစ် ဇွန်လတွင် ပြန်လည် သိမ်းပိုက်ပြီးနောက်၊ ဇူလိုင်လ ၁၃ ရက်နေ့တွင် အရင်းရှင် ရေနံကုမ္ပဏီများက ပြည်တွင်းရေး အခြေအနေ အရပ်ရပ်တို့ကြောင့် လုံခြုံမှု မရှိသဖြင့် ရေနံလုပ်ငန်း ဆောင်ရွက်ရန် မဖြစ်ဟူသော အကြောင်းပြချက်၊ ဘဏ္ဍာရေးမလုံမလောက်ဟူသော အကြောင်းပြချက်တို့ဖြင့် ရေနံချောင်းရှိ ရေနံလုပ်ငန်းအရပ်ရပ်ကို လုံးဝပိတ်ပစ်ကာ၊ အလုပ်သမား ၂,၀၀၀

ကျော်တို့ကို လူလျှော့ပစ်လိုက်လေသည်။ မြန်မာ အစိုးရက အလုပ်သမားများ မနစ်နာစေရန် ကုမ္ပဏီများကို ဘဏ္ဍာရေး အကူအညီ ပေးသော်လည်း ကုမ္ပဏီများက ဆိုလေ ကဲလေ ဖြစ်လာသည်။ မြန်မာ အစိုးရသည် မူအမျိုးမျိုးကို ချ၍ စဉ်းစားပြီးနောက် ၁၉၅၄ ခုနှစ် ဇန္နဝါရီလ ၁၂ ရက်နေ့တွင် မြန်မာအစိုးရနှင့် ဗြိတိသျှ ရေနံကုမ္ပဏီကြီးတို့သည် ရေနံ ဖက်စပ် လုပ်ငန်း အတွက် သဘောတူညီချက် စာချုပ်ကို လက်မှတ်ရေးထိုးကြသည်။ စာချုပ် လက်မှတ်ရေးထိုးကြသော ကုမ္ပဏီကြီးများမှာ ဘီအိုစီ၊ အိုင်ဘီပီနှင့် ဘီဘီပီတို့ ဖြစ်ကြသည်။ ထိုစဉ်က မြန်မာ အစိုးရသည် အစုရှယ်ယာ ၃၃ ⅓ ရာခိုင်နှုန်းပါဝင်၍ နောင်တွင် အစုရှယ်ယာ ၅၁ ရာခိုင်နှုန်း ပါဝင်ရမည် ဖြစ်သည်။ ထိုဖက်စပ် ရေနံလုပ်ငန်းကို ဘီအိုစီ (၁၉၅၄) လီမိတက်ဟု ခေါ်သည်။ ရေနံ လုပ်ငန်း ကိစ္စအဝဝကို ဘီအိုစီ(ကုန်သွယ်ရေး)လီမိတက်က ဆောင်ရွက်၍ လုပ်ငန်း ကြီးကြပ်ကွပ်ကဲမှုကို ဒါရိုက်တာ ငါးဦးပါဝင်သော အဖွဲ့က အုပ်ချုပ်သည်။ ဒါရိုက်တာ သုံးဦးကို ဘီအိုစီကခန့်၍ နှစ်ဦးကို အစိုးရက ခန့်သည်။

## ပြည်သူ့ ရေနံလုပ်ငန်း အဖြစ်သို့

ရေနံလုပ်ငန်း ပြန်လည် ထူထောင်ရေးကို ဆောင်ရွက်ရာ၌ ၁၉၅၆ ခုနှစ် မတ်လ ၁ ရက်နေ့တွင် သံလျင် ရေနံချက်စက်ကြီးကို ပြန်လည် ထူထောင်ခဲ့ရာ၊ ၁၉၅၇ ခုနှစ် မတ်လတွင် တနေ့လျှင် ရေနံဂါလံ တသိန်း ခြောက်သောင်း ချက်လုပ်နိုင်သော စက်တလုံးနှင့် ထိုလုပ်ငန်းနှင့် ဆက်စပ်သည့် အခြားစက်များကို ဆောက်လုပ်ပြီးစီးသည်။ သို့သော် ရေနံမြေမှ ရေနံစိမ်း အဆက်မပြတ် အလျင်မှီအောင် ရနိုင်ရန်မှာ ပြဿနာတခု ဖြစ်လာပြန်သည်။ သံလျင်-ချောက် ရေနံပိုက်လိုင်းကြီးကို ပြန်လည် မပြုပြင် နိုင်သေးသဖြင့် ပြည်တွင်း ရေကြောင်း သယ်ယူပို့ဆောင်ရေးအဖွဲ့ပိုင် ရေနံတင် တွန်းသင်္ဘောများဖြင့်ပင် ကြိုးစားသယ်ပို့ခဲ့ရလေသည်။

ဒုတိယ ကမ္ဘာစစ် မတိုင်မီကာလက ပြည်တွင်းထွက် ရေနံထွက် ပစ္စည်းများမှာ ပြည်တွင်းအတွက် ဖူလုံရုံသာ မက၊ နိုင်ငံခြားသို့ အများအပြား တင်ပို့နိုင်ခဲ့သော်လည်း စစ်ပြီးခေတ်တွင် ရေနံထုတ်လုပ်မှုအင်အား လျော့ခြင်း၊ ရေနံထွက်ပစ္စည်း သုံးစွဲမှု ပိုမိုလာခြင်းတို့ကြောင့် နိုင်ငံခြားမှ ရေနံထွက်ပစ္စည်းများကို ပိုမို တင်သွင်းရသည့် အခြေအနေသို့ ရောက်လာသည်။ ရှိရင်းစွဲ စက်များကို ဆက်လက် တိုးချဲ့ရန်လည်း မဖြစ်တော့သဖြင့်၊ ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလတွင် မြန်မာအစိုးရသည် ဘီအိုစီ (၁၉၅၄) လီမိတက်၌ အစုရှယ်ယာ ၅၁ ရာခိုင်နှုန်းအထိ တိုးတက် ပါဝင်ပြီးလျှင်၊ ရေနံချက်စက်သစ်ကြီး တလုံးကို သံလျင်တွင် ထပ်မံတည်ဆောက်ရန် သဘော တူလိုက်သည်။ ထို့ကြောင့် ၁၉၆၂ ခုနှစ် မေလတွင် ထို စက်သစ်ကြီးကို တည်ဆောက်ခဲ့ရာ ၁၉၆၃ ခုနှစ် ဇူလိုင်လ၌ ပြီးစီး၍ တရက်လျှင် ရေနံစိမ်းဂါလံ ငါးသိန်း ချက်နိုင်လေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ လက်ထက်တွင် ဆိုရှယ်လစ် စီးပွားရေး စံနစ်နှင့်အညီ ဖြစ်စေရန် မြန်မာနိုင်ငံ ရေနံ ဖက်စပ်လုပ်ငန်း ကိစ္စအဝဝကို ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့မှစ၍ ဘီအိုစီ (၁၉၅၄) ကုမ္ပဏီအား လျော်ကြေး ပေးပြီးလျှင် ပြည်သူပိုင် ပြုလုပ် လိုက်လေသည်။ လျော်ကြေး ပေးရသော ငွေမှာ မြန်မာငွေ ကျပ် ၆၂၅ သိန်း ဖြစ်လေသည်။

ရေနံမြေ၌ ကုမ္ပဏီကြီးများ အပြင် ရေနံ လုပ်ငန်းကို လုပ်ကိုင်နေသော ကုမ္ပဏီငယ်များ၊ တွင်းရိုး တွင်းစားများ ရှိသေးကြောင်း ဖော်ပြခဲ့သည်။ ကုမ္ပဏီ ကြီးများသည် စစ်ပြီးခေတ် ရေနံမြေသို့ ပြန်ရောက် လာသည်မှစ၍ ကုမ္ပဏီကြီးများနှင့် တွင်းရိုး တွင်းစားများ ပြဿနာပေါ်ခဲ့သည်။ တွင်းရိုး တွင်းစား တို့သည် မိမိတို့ပိုင် တွင်းများကို ကုမ္ပဏီ ကြီးငယ်များသို့ အငှား ချခြင်း၊ ဖက်စပ် လုပ်ကိုင်ခြင်း စသဖြင့် ပြုခဲ့ကြသည်။ ဒုတိယ ကမ္ဘာစစ် အရေးကြောင့် မြေလှန်စံနစ် သုံးသောအခါ တွင်းရိုး တွင်းစားတို့၏ တွင်းများလည်း ဖျက်ဆီး ခံရသည်။ ကုမ္ပဏီကြီးများသည် စစ်ပြီး ကာလ၌ ရေနံမြေ ပြန်လည် ထူထောင်ရေး ပြုရာ၌ တွင်းရိုး တွင်းစားများ၏ တွင်းများကို ပြုပြင်ပေးရန် လက်နှေးခဲ့ကြသည်။ အစိုးရက တွင်းရိုး တွင်းစားတို့အား ယင်းတို့၏ ရေနံတွင်းများ ပြုပြင်ရန် ငွေနှစ်သိန်း ထုတ်ချေးသော်လည်း မလုံလောက်ချေ။ တွင်းပိုင်ရှင်များကလည်း ကုမ္ပဏီကြီးများက ငှားယူခဲ့သော တွင်းများကို ကုမ္ပဏီကြီးများကပင် ပြန်လည် ပြုပြင်ရန် လိုလားကြရာ၊ တွင်းရိုး တွင်းစားများနှင့် ကုမ္ပဏီကြီးများ၏ ပြဿနာမှာ မပြေမလည် ဖြစ်နေခဲ့လေသည်။ ၁၉၆၅ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင်မူ တော်လှန်ရေး အစိုးရသည် ဆိုရှယ်လစ် စီးပွားရေး စံနစ်နှင့်အညီ တွင်းရိုး တွင်းစားတို့၏ ရေနံတွင်းများကိုလည်း လျော်ကြေးပေးကာ ပြည်သူပိုင် သိမ်းလိုက်လေသည်။

## ရေနံမြေသစ် ရှာဖွေခြင်း

ရေနံတွင်း တတွင်းမှ ရေနံစိမ်းသည် အမြဲတစေ ထွက်နေမည်ဟု မဆိုနိုင်ချေ။ တနေ့တွင် ခန်းခြောက် သွားနိုင်သည်။ ထို့ပြင် စစ်ပြီးခေတ်တွင် ရေနံထွက်ပစ္စည်း သုံးစွဲမှုသည် အလွန် တိုးတက် များပြားလာသော်လည်း ရေနံစိမ်း အထွက်သည် အကြောင်း အမျိုးမျိုးကြောင့် လျော့လာသည်။ ထို့ကြောင့် နိုင်ငံခြားကုမ္ပဏီကြီးများသည် ဗြိတိသျှခေတ်ကပင် ရေနံမြေသစ်များကို စူးစမ်းရှာဖွေခြင်း၊ ရေနံအစမ်းတွင်း တူးခြင်းများကို ဦးစားပေး၍ ဆောင်ရွက် ခဲ့ကြသည်။

ယင်းသို့ ရေနံမြေသစ် ရှာခြင်း စသည်တို့သည် အလွန်စရိတ်စက ကြီးလေးလှသော်လည်း ရေနံလုပ်ငန်း ကြာရှည်တည်တံ့နိုင်ရေးအတွက် ထိုလုပ်ငန်းတို့သည် ပြုသင့် ပြုထိုက်သော လုပ်ငန်းများ ဖြစ်ကြသည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီ ကာလက ထိုကြောင့်ပင် ချင်းတွင်းမြစ် အထက်ပိုင်း အင်းတော်၊ ပန်းသာ အစရှိသောဒေသနှင့် ရေနံမ စသော ဒေသတို့တွင် ရေနံ စမ်းသပ်ရှာဖွေယင်း ရေနံတွေ့ခဲ့ကြသည်။ ထို့ပြင် ငရုန်တောင်၊ အုန်းတွဲ၊ ကျွန်းတော်၊ ရေထွက်၊ ရင်းအိုင်၊ အောင်လန်း၊ မိုးနတ်ကုန်း၊ မြောင်းကုန်း အစရှိသော ဒေသများ၌လည်း ရေနံရှာဖွေခြင်းကို ပြုလုပ်ခဲ့သည်။ စစ်ပြီး ကာလ ၁၉၅၇ ခုနှစ်မှစ၍ ဒေးဒရဲ၊ ကျိုက်လတ်၊ သာယာဝတီ၊ ကျွန်းညိုကြီး၊ အောင်လံ၊ ပုဂံ စသည်တို့၌လည်း ရေနံ ရှာခဲ့သေးသည်။ သို့သော် လွတ်လပ်ရေး ခေတ်တွင် အရင်းရှင် ကုမ္ပဏီကြီးများသည် ရေနံမြေသစ်ရှာဖွေရေးကို အားကြိုး မာန်တက် မပြုခဲ့ကြပေ။ ရေနံလုပ်ငန်းကို ပြည်သူပိုင် လုပ်ပြီးနောက် ၁၉၆၄ ခုနှစ်မှ စ၍ ပြည်၊ မြန်အောင် ဒေသတို့၌ ရေနံ စမ်းသပ်ရှာဖွေခဲ့ရာ၊ ၁၉၆၅ ခုနှစ် နောက်ပိုင်းတွင် မြန်အောင် အစမ်းတွင်းများမှ ရေနံများ အောင်မြင်စွာ ထွက်ရှိခဲ့သည်။ ၁၉၆၅ ခုနှစ် ဒီဇင်ဘာလအတွင်း၌ မြန်အောင် အစမ်းတွင်းအချို့မှ တလလျှင် ရေနံစိမ်း ဂါလံ ရှစ်သိန်းကျော် ထွက်နိုင်ကြောင်း စမ်းသပ်တွေ့ရှိရလေသည်။ ထို့ကြောင့် မြန်အောင် ရေနံမြေတွင် တွင်းသစ်များ ဆက်လက် တူးရေး၊ သိုလှောင်ရေး၊ ဆိပ်ကမ်းအရောက် ပိုက်သွယ်ရေးတို့ကို စီစဉ် ဆောင်ရွက်လျက်ရှိလေသည်။ ရေနံချောင်း ရေနံမြေ၌လည်း တွင်းသစ်များတူးဖော်ရေးကို စီစဉ်ဆောင်ရွက်လျက်ရှိလေသည်။

## ရေနံနှင့် ရေနံထွက်ပစ္စည်း ထုတ်လုပ်ခြင်း

ကမ္ဘာပေါ်တွင် မည်သည့် အရပ်ဒေသ၌ ရေနံ စတင် တူးဖော်ခဲ့သည်ဟု တပ်အပ် မပြော နိုင်သော်လည်း ရေနံ စတွေ့သည့် ခုနှစ် သက္ကရာဇ်ကို ဆန်းစစ်ကြည့်လျှင် မြန်မာနိုင်ငံ၌ ရေနံတူးဖော်ခြင်းသည် ရှေးအကျဆုံးဟု ဆိုဖွယ်ရာ ရှိသည်။ ရေနံသည် ဖိနှိပ်အား အနည်းအများ၊ နေရာ အနိမ့်အမြင့်၊ မြေလွှာ အပွ အကျစ် စသော အခြေအနေ အလိုက် တနေရာမှ တနေရာသို့ ရွှေ့ပြောင်းပြီးလျှင် အသင့်လျော်ဆုံး မြေလွှာ ကျောက်လွှာ၌ စုဝေး နေတတ်သည်။ ရေနံအောင်း မြေလွှာသည် မြေလျှော်ကြောင့်၎င်း၊ ရေတိုက်စားခြင်း ကြောင့်သော်၎င်း အပေါ်ယံမြေလွှာသို့ ရောက်လာ တတ်ပြီးလျှင် ရေနံ စိမ့်ထွက်သောနေရာများ ရှိတတ်သည်။ ပုံစံပြရလျှင် ချင်းတွင်းမြစ်အနီး ရွာနန်းချောင်း၊ အင်းတော်နှင့် ရခိုင်ပြည် မာန်အောင်ကျွန်း စသည့် နေရာတို့၌ ရေနံစိမ့်ထွက်သည်ကို တွေ့ရသည်။ အချို့ နေရာများတွင် ပေ ၅၀ မှ ၁၀၀ အထိ ရေတွင်းတူးသကဲ့သို့ တူးယူ နိုင်သည်။ ရေနံချောင်းမှ လက်ယက်တွင်းများသည် ယင်းကဲ့သို့ တူးယူသော တွင်းမျိုး ဖြစ်လေသည်။

သို့သော် ခေတ်မှီ ရေနံချက် စက်ကြီးများဖြင့် ချက်နိုင်အောင် အလျှင်မှီမှီ ရနိုင်ရန် သဘာဝ စိမ့်ထွက်သော ရေနံကို စောင့်ယူနေ၍ မဖြစ်ပေ။ ထို့ကြောင့် ရေနံကြောရှိရာ မြေလွှာ ထဲသို့ မိုင်ဝက်မှသည် တမိုင် ကျော် အထိ နက်အောင် စက်ဖြင့် တူးရသည်။ စက်ဖြင့် တူးသည့် စံနစ်ကို ၁၈၅၉ ခုနှစ်တွင် ကာနယ်ဒရိတ် ဆိုသူက အမေရိကန် ပြည်ထောင်စု၌ စတင် အသုံးပြုခဲ့လေသည်။ စက်ဖြင့် တူးခြင်းသည် သစ်သားကို လွန်ဖြင့် ဖောက်သည့်သဘောအတိုင်း ဖြစ်သည်။ မြေကို ထွင်းဖောက်ရသော ကရိယာကို မြန်မာ ရေနံလုပ်သားကြီးများက "စိန်နားပန်" ဟုခေါ်၍ စိန်သွား တပ်ထားသော တူရွင်း ဖြစ်သည်။ ထိုတူရွင်းကို မြေ အပွအကျစ်လိုက်၍ သံပိုက်လုံး ထိပ်တွင် တပ်ပြီးနောက် ရေနံမျှော်စင်ရှိ စက်အားဖြင့် လည်ပတ်နေသော ဆုံလည်တွင် ထိုသံပိုက်လုံးကို ထောင်၍တပ်ကာ မြေသားကို လှည့်ပတ်ဖောက်ထွင်းခြင်း ဖြစ်သည်။ သံပိုက်တဆုံး တူးပြီးသောအခါ ရေနံမတွေ့သေးက နောက်ထပ် သံပိုက်တလုံးပြီးတလုံး ဆင့်ကာ၊ ရေနံတွေ့သည်အထိ အဆင့်ဆင့် တူးရသည်။ ယင်းသို့ တူးနေဆဲတွင် သံပိုက်အေးနေစေရန်နှင့် ဖောက်ထွင်းရာတွင် လွယ်ကူစေရန် ဓာတုဗေဒ ဆေးများဖြင့် ဖော်စပ်ထားသော ဓာတုဗေဒ ရွှံ့ကို သုံးရသည်။ မြေမပြိုစေရန် တူးပြီးသား မြေသားကို ဗိလတ်မြေ ကိုင်ရသည်။ ယင်းသို့ တူးခြင်းဖြင့် ရေနံရှိရာ မြေကြောသို့ ရောက်သောအခါ ရေနံသည် တွန်းကန်အား ကြီးမားခဲ့သော် မြေပြင်ပေါ်သို့ အလိုအလျောက် တက်လာ၍ တွန်းကန်အားနည်းလျှင်မူ ရေနံကို စက်ဖြင့် စုတ်ထုတ်ယူရလေသည်။

ရေနံသည် တွင်းထဲမှ တူးဖော်လိုက်သည့် အတိုင်း အသုံးမပြုနိုင်ဘဲ ကုန်ကြမ်းတခုသာ ဖြစ်သည်။ ထိုကုန်ကြမ်းကို အသုံး ဝင်သော ကုန်ချောများ ရရှိရန် ပြုပြင်ပြောင်းလဲရခြင်းကို ရေနံချက်လုပ်သည်ဟု ခေါ်သည်။ ရေနံချက်နည်း အမျိုးမျိုး ရှိရာ မြန်မာနိုင်ငံ ရေနံချက် လုပ်ငန်းတွင် ပေါင်းတင်ခြင်း၊ ခွဲချေခြင်း၊ သန့်စင်အောင် ချက်လုပ်ခြင်း နည်းတို့ကို ချောက်နှင့် သံလျင် ရေနံချက် စက်ရုံတို့တွင် အသုံး ပြုသည်။ ချောက် ရေနံချက် စက်ရုံတွင် ရေနံချောင်း၊ ချောက် ရေနံမြေမှထွက်သော ရေနံ တနေ့လျှင် ဂါလံ နှစ်သိန်း နှစ်သောင်းချက်လုပ်၍ ပြည်သူပိုင် လုပ်ပြီးနောက်တွင် ကုန်ထုတ်မှု အင်အားသည် ၂၉ ရာခိုင်နှုန်း တိုးတက် လာခဲ့ရာ၊ ယခု အခါ (၁၉၆၃–၆၄) ၌ တရက်လျှင် အောက်ပါ ရေနံထွက် ပစ္စည်းများကို ထုတ်လုပ် ဖြန့်ဖြူးလျက် ရှိသည်။

| | | |
|---|---|---|
| ၁။ | မော်တော်ယာဉ် ဓာတ်ဆီ .... | ၄၇,၀၀၀ ဂါလံ |
| ၂။ | ရေနံဆီဖြူ .... .... | ၃၉,၆၀၀ ။ |

| | | |
|---|---|---|
| ၃။ ရေနံဆီမီး .... .... | ၁,၂၀၀ | ဂါလံ |
| ၄။ ဒီဇယ်ဆီကြဲ .... .... | ၅၈,၉၀၀ | ။ |
| ၅။ ဒီဇယ်ဆီပျစ် .... .... | ၄,၄၀၀ | ။ |
| ၆။ ဂုံလျှော်ရောဆီ .... .... | ၉၀၀ | ။ |
| ၇။ မီးထိုးဆီ .... .... | ၃၅,၉၀၀ | ။ |
| ၈။ မီးထိုးဆီပျစ် .... .... | ၅,၃၀၀ | ။ |
| ၉။ အိမ်သုတ် ရေနံချေး .... | ၂,၄၀၀ | ။ |
| ၁၀။ ဖယောင်းဖြူ အမျိုးမျိုး (တန်ချိန်) | ၅၂ | — |

သံလျင် ရေနံချက် စက်ရုံသည် ချောက် ရေနံချက်စက်ရုံထက် ပို၍ ကြီးကျယ်သည်။ ယခင်က ချောက်၊ ရေနံချောင်း ရေနံမြေတို့မှ ထွက်သော ရေနံကိုသာ တွန်းသင်္ဘောများဖြင့် သယ်ယူကာ သံလျင် ရေနံချက် စက်ရုံတွင် ချက်လုပ် ခဲ့သော်လည်း ယခုအခါ ပြည်တွင်း၌ ရေနံထွက် ပစ္စည်းများ အသုံးပိုမို များပြားလာခြင်း၊ ပြည်တွင်းမှရေနံကို လိုသလောက် မရရှိခြင်းတို့ကြောင့် အခါအားလျော်စွာ နိုင်ငံခြားများမှ ရေနံကိုလည်း တင်သွင်း ချက်လုပ်ရသည်။ ယခု အချိန်တွင် (၁၉၆၄ ခုနှစ်) ပြည်တွင်းထွက် ရေနံအပြင် အင်ဒိုနီးရှားနိုင်ငံနှင့် ဆိုဗီယက်ရုရှ နိုင်ငံတို့မှ တင်သွင်းသော ရေနံတို့ကို ချက်လုပ်လျက်ရှိ၍ တနေ့လျှင် ရေနံဂါလံ သုံးသိန်း လေးသောင်း ချက်လုပ် နိုင်သည်။ တရက်လျှင် အောက်ပါ ရေနံထွက် ပစ္စည်းများကို ထုတ်လုပ် ဖြန့်ဖြူးနိုင်သည်။

| | | |
|---|---|---|
| ၁။ ဖျော်ဆီ .... .... | ၂၀၀ | ဂါလံ |
| ၂။ မော်တော်ယာဉ် ဓာတ်ဆီ .... | ၇၉,၂၀၀ | ။ |
| ၃။ စစ်သုံး ဂျက်လေယာဉ်ဆီ .... | ၁,၈၀၀ | ။ |
| ၄။ ဂျက်လေယာဉ်ဆီ .... .... | ၂၁,၈၀၀ | ။ |
| ၅။ တာပင်တိုင်ဆီ .... .... | ၃၀၀ | ။ |
| ၆။ ရေနံဆီဖြူ .... .... | ၆၃,၃၀၀ | ။ |
| ၇။ ရေနံဆီမီး .... .... | ၂,၈၀၀ | ။ |
| ၈။ ဒီဇယ်ဆီကြဲ .... .... | ၈၅,၇၀၀ | ။ |
| ၉။ ဒီဇယ်ဆီပျစ် .... .... | ၇,၇၀၀ | ။ |
| ၁၀။ ခြင်သတ်ဆီ .... .... | ၄၀၀ | ။ |
| ၁၁။ မီးထိုးဆီ .... .... | ၅၉,၀၀၀ | ။ |
| ၁၂။ လောင်စာ ဓာတ်ငွေ့ (ကုဗပေ).... | ၇၃၅,၀၀၀ | — |
| ၁၃။ ရေနံမီးသွေး (တန်ချိန်).... | ၃၃ | — |

ပြည်သူ့ ရေနံလုပ်ငန်း ဖြစ်လာပြီးနောက်၊ ချောက်နှင့် သံလျင် ရေနံချက် စက်ရုံကြီး နှစ်ခုလုံးမှ (၁၉၆၃–၆၄) ခုနှစ်တွင် ချက်လုပ်ခဲ့သည့် ရေနံပမာဏသည် လွန်ခဲ့သော ခုနစ်နှစ်ကျော်ကာလ (၁၉၅၇–၅၈) ကထက် ၇၂ ရာခိုင်နှုန်းမျှ တိုးတက်လာသည်။ တော်လှန်ရေး အစိုးရက ချမှတ် ထားသော "လက်မှု လယ်ယာမှ စက်မှု လယ်ယာသို့" စီမံကိန်းအတွက် လယ်ထွန်စက်များ၊ သယ်ယူပို့ဆောင်ရေး အတွက် မော်တော်ကား ကြီးငယ်များ တိုးတက် များပြားလာသည်နှင့်အမျှ လိုအပ်လာမည့် ရေနံထွက်ပစ္စည်းများ၊ အထူးသဖြင့် ဒီဇယ်ဆီနှင့် စက်မှုလုပ်ငန်းများတွင် လောင်စာအဖြစ် အသုံးပြုရမည့် မီးထိုးဆီများကို မူလထား၍ ရေနံချက်စက်ရုံကြီးများက တိုးတက် ထုတ်လုပ်ပေးလျက် ရှိသည်။ ကုန်ထုတ်လုပ်ရေးတွင် တိုးတက်လာသည်နှင့်အမျှ ရေနံလုပ်သားများ၏ စား ဝတ် နေရေး ဖူလုံမှု၊ သက်သာချောင်ချိမှု၊ ဘဝလုံခြုံမှုတို့အတွက်လည်း တော်လှန်ရေး အစိုးရက အဖက်ဖက်မှ ဆောင်ရွက်ပေးလျက် ရှိလေသည်။

**မြန်မာ နိုင်ငံရေး သမိုင်း။** ။မြန်မာနိုင်ငံ သမိုင်း တလျှောက်တွင် ဖြစ်ပျက်ခဲ့သော နိုင်ငံရေး လှုပ်ရှား မှုများကို ဤသို့ မှတ်တမ်း တင်နိုင်ပေသည်။

ဦးစွာ ပဌမ အာရှတိုက် အလယ်ပိုင်းဒေသမှ မျက်မှောက်မြန်မာနိုင်ငံတည်ရာ ဒေသသို့ တရွေ့ရွေ့ ဆင်းသက်လာကြသော ပျူ၊ ကမ်းယံ၊ သက် စသော လူမျိုးများသည် ဧရာဝတီမြစ်ဝှမ်း ဒေသသို့ ရှေးဦးစွာ ရောက်လာကြကာ မြစ်ကမ်းတလျှောက်၌ အခြေစိုက် နေထိုင်ခဲ့ကြသည်။ ထိုသူတို့တွင် အချို့က ပင်လယ်ကမ်းခြေသို့ ဆင်းကြသည်။ ထိုသူတို့သည် မိမိတို့ နေထိုင်ရာ ဒေသအသီးအသီးတွင် ဆယ်အိမ်တစု၊ ဆဲ့ငါးအိမ်တစု၊ အိမ် ၂၀ တစု စသည်ဖြင့် အိမ်စုများဖွဲ့ကာ အနှံ့အပြား နေထိုင်ကြသည်။ လူဦးရေတိုးလာသောအခါ အိမ်စုများ စုပေါင်း၍ ရွာဖြစ်လာသည်။ ရွာလုံခြုံစေရန် ခြံစည်းရိုးကာခြင်း၊ ရွာတံခါးအနီးတွင် ကင်းတဲ ဆောက်၍ ကင်းစောင့်ခြင်းတို့ကို ပြုကြသည်။ ထို အချိန်၌ မြန်မာနိုင်ငံမြောက်ပိုင်း ဧရာဝတီမြစ် အရှေ့ဖက်ကမ်း၌ တကောင်း အမည်ရှိသောပြည်၊ ရခိုင်ဖက်တွင် မြောက်အရပ်၌ ဝေသာလီ အမည်ရှိသော ပြည်၊ တောင်ဖက် ပင်လယ်ကမ်းခြေတွင် ယခုခေတ် သထုံမြို့တည်ရာ အရပ်၌ သထုံ အမည်ရှိသော ပြည်၊ ယခုခေတ် ပြည်မြို့၏အရှေ့ဖက် မှော်ဇာရွာ တည်ရာ အရပ်၌ သရေခေတ္တရာ အမည်ရှိသော ပြည်ဟု ပြည်လေးပြည် ထွန်းကားလာသည်။ ထိုပြင် ယခုခေတ် ပဲခူးမြို့တည်ရာ အရပ်၌လည်း ဟံသာဝတီ ပဲခူးမြို့ ထွန်းကားလာသည်။

ထိုပြည်ကြီးများသည် မဇ္ဈိမ ဒေသနှင့်၎င်း၊ ပလ္လဝါတိုင်းနှင့်၎င်း အဆက်အသွယ် ရှိလာလေသည်။ ထိုပြည်ကြီးများ၏ အကြီးအကဲတို့သည် မဇ္ဈိမ ဒေသမင်း၊ ပလ္လဝါမင်း တို့၏ ဓလေ့ထုံးစံ အချို့ကို သုံးစွဲလာကြသည်။ မဇ္ဈိမဒေသမင်း၊ ပလ္လဝါမင်းများသည် သက်ဦးဆံပိုင်သော လောကသမုတိနတ်ဟူ၍၎င်း၊ ရေမြေ့ရှင် ဘဝရှင် ဟူ၍၎င်း၊ စကြဝတေးမင်းဟူ၍၎င်း အခေါ်ခံခဲ့ကြသကဲ့သို့ ထိုအကြီးအကဲတို့သည်လည်း ထိုနည်းအတိုင်း အခေါ်ခံခဲ့ကြလေသည်။ ဤသို့ဖြင့် မြန်မာနိုင်ငံတွင် ရေမြေ့ရှင် သက်ဦးဆံပိုင် ဘုရင်စံနစ် ထွန်းကား လာခဲ့လေသည်။

မြန်မာဘုရင်များ စိုးမိုးသည့်ခေတ် တလျှောက်လုံး သက်ဦးဆံပိုင် စံနစ်ဖြင့် အုပ်ချုပ်ခဲ့သည်။ ဘုန်းပညာနှင့် ပြည့်စုံ၍ အမြော်အမြင်ရှိသော မင်းများ လက်ထက်တွင် နိုင်ငံကြီးကျယ် စည်ကား ဖွံ့ဖြိုးပြီးလျှင် ဘုန်းပညာ နည်း၍ အမြော်အမြင်မရှိသော မင်းများ လက်ထက်၌ မြန်မာနိုင်ငံသည် ဒုက္ခအမျိုးမျိုးနှင့် ကြုံတွေ့ကာ နိုင်ငံပျက်ရသည့်အခြေသို့ ရောက်ခဲ့ရသည်။

အနော်ရထာ၊ ဘုရင့်နောင်နှင့် အလောင်းဘုရားမင်းတို့သည် အစိတ်စိတ်ကွဲပြားနေသောမြန်မာနိုင်ငံကို စုစည်းတည်ထောင်သော မင်းများဟု သမိုင်းတွင် ထင်ရှားလေသည်။ (အနော်ရထာ။ ဘုရင့်နောင်။ အလောင်းဘုရား — လည်းရှု။)

ကုန်းဘောင်ခေတ် ဟူ၍ အမည်တွင်သော နောက်ဆုံးမြန်မာဘုရင်များ ခေတ်တွင် ပေါ်တူဂီ၊ အင်္ဂလိပ်၊ ပြင်သစ်၊ ဒပ်ချစသော ဥရောပ တိုက်သားတို့သည် မြန်မာနိုင်ငံတွင် ရှေးဦးစွာ ကုန်ရောင်း ကုန်ဝယ်များအဖြစ် ရောက်လာကြပြီးသည့်နောက် တဖြည်းဖြည်း နယ်ချဲ့ ဝါဒကို ကျင့်သုံး လာကြသည်။ ယင်းသို့ဖြင့် ၁၈၂၄ ခုနှစ် အင်္ဂလိပ်-မြန်မာ ပဌမစစ်ပွဲတွင် မြန်မာတို့က အင်္ဂလိပ်အစိုးရအား အာသံ၊ မဏိပူရ၊ ရခိုင်၊ တနင်္သာရီနယ်များ ပေးအပ်လိုက်ရခြင်း၊ ၁၈၅၂ ခုနှစ် ဒုတိယစစ်ပွဲတွင် အောက်အကြေပိုင်းကို မြေထဲမြို့၊ တောင်ငူမြို့များ အထိ ပေးလိုက်ရခြင်းတို့ ပေါ်ပေါက်လာသည်။ ထိုအခါ မြန်မာပိုင် အထက် မြန်မာနိုင်ငံ၌ မင်းတုန်းမင်းကြီး အုပ်စိုး၍ အင်္ဂလိပ်မင်းပိုင် အောက်နိုင်ငံကိုမူ ရခိုင်တိုင်း၊ တနင်္သာရီတိုင်း၊ ပဲခူးတိုင်း ဟူ၍ တိုင်း သုံးတိုင်းခွဲပြီးလျှင် တိုင်းမင်းကြီးတဦးစီ ခန့်၍ အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ်က အုပ်ချုပ်သည်။ ၁၈၆၂ ခုနှစ်တွင် တိုင်းသုံးတိုင်းကို စုပေါင်းအုပ်ချုပ်ရန် မဟာဝန်ရှင်တော်မင်းကြီး တဦးကို ခန့်ထားလေသည်။ ပဌမ မဟာဝန်ရှင်တော် မင်းကြီးသည် ဆာအာသာ ပါဗီ ဖယ်ယာဖြစ်သည်၊ (ဖယ်ယာ၊ ဆာ အာသာ — လည်းရှု ။) မဟာဝန်ရှင်တော် မင်းကြီးရုံးကို ရန်ကုန်မြို့၌ ရုံးစိုက်သဖြင့် ရန်ကုန်မြို့သည် အင်္ဂလိပ်မင်းပိုင် အောက်နိုင်ငံ၏ မြို့တော် ဖြစ်လာ လေသည်။ ရန်ကုန်မြို့ကိုလည်း ခေတ်မှီဆိပ်ကမ်းမြို့ကြီး ဖြစ်စေရန် တိုးချဲ့၍ မြို့သစ်တည်သည်။ (ရန်ကုန်မြို့ — လည်းရှု။) စီးပွားရေးလုပ်ငန်း မှန်သမျှကိုလည်း အင်္ဂလိပ် အရင်းရှင်ကြီးများသည် ငွေအရင်းအနှီးနှင့်တကွ ရန်ကုန်မြို့သို့ ရောက်လာကြကာ လက်ဝါးကြီးအုပ် လုပ်ကိုင်ကြတော့သည်။ မြန်မာပိုင် အထက်မြန်မာနိုင်ငံနှင့် အင်္ဂလိပ်ပိုင် အောက်မြန်မာနိုင်ငံတို့သည် အကူးအသန်းအဆက်အဆံမပြတ်ရှိ၍ ရင်းနှီးမြဲရင်းနှီးကြလေသည်။

နယ်ချဲ့ခွင့် ရတိုင်း နယ်ချဲ့ရန် ကြံစည်နေကြသော အင်္ဂလိပ် အစိုးရနှင့်ငြင်း၊ ပြင်သစ် အစိုးရနှင့်ငြင်း သင့်မြတ်အောင် ဆက်ဆံတတ်သော မင်းတုန်းမင်းသည် ၁၈၇၈ ခုနှစ်တွင် လွန်၍ ထိုနှစ်၌ပင် သားတော် သီပေါမင်း နန်းတက်သည်။ (သီပေါမင်း။ အင်္ဂလိပ်-မြန်မာစစ်ပွဲ — ရှု။)

မင်းတုန်းမင်းတွင် သားတော်ကြီးများ ဖြစ်ကြသော သုံးဆယ်မင်းသား၊ မက္ခရာမင်းသား၊ ညောင်ရမ်း မင်းသားတို့ ရှိလေသည်။ ထိုသားတော်ကြီး သုံးပါးသည် ခမည်းတော်ရှိစဉ်ကပင် တိုင်းရေးပြည်မှုကိစ္စများ၌ ပါဝင်ဆောင်ရွက်ခဲ့ကြသဖြင့် ပြည်တွင်းပြည်ပ အရေးတို့၌ လောက အကြားအမြင် အတွေ့အကြုံများ၍ ဝါရင့်သူများ ဖြစ်လေသည်။ သို့ရာတွင် ထိုသားတော်ကြီးများကိုကျော်ကာ အသက် ၂၀ ခန့်သာရှိ၍ ဝါနုသေးသော သီပေါမင်းသားကို အလယ်နန်းမိဖုရား ဖြစ်သော ဆင်ဖြူမရှင်နှင့် မှူးမတ်အချို့က နန်းတင်လိုက်သောအခါ နိုင်ငံအရေး ရှုပ်ထွေးလာလေသည်။ မင်းသား မင်းသမီးများသာ မက ရွှေနောက် ထောက်ထား တတ်သော မှူးမတ် အများအပြား အသက်ဆုံးကြရသည်။ အချို့လည်း အရာကျကြလေသည်။ မင်းမိဖုရားတို့ မြှောက်စားထားသော အိမ်တော်ပါ လက်သုံးတော်များ၏အာဏာ ပြင်းလာ၍ လွှတ်တော်ရုံးတော်တို့၏အာဏာ ညှိုးလာလေသည်။ တိုင်းရေးပြည်မှု၌ ကျွမ်းကျင်လိမ္မာသော ရွှေပြည်ဝန်ကြီး ဦးဘိုးလှိုင်၊ ရေနံချောင်း ဝန်ကြီး၊ ခန်းပတ်ဝန်ကြီး စသည်တို့ အရာကျ၍ အရည်အချင်းညံ့သော မှူးမတ်များ တွင်ကျယ်လာ



မြန်မာနိုင်ငံ ကျောင်းသားတို့သည် သွေးမြေကျခံကာ တိုင်းပြည်နိုးကြားတက်ကြွလာအောင် လှုံ့ဆော်မှု ပြုခဲ့ကြသည်။ ပုံမှာ ကျဆုံးသွားရရှာသော ကျောင်းသားခေါင်းဆောင် ဗိုလ်အောင်ကျော်၏ စျာပန အခမ်းအနားပုံ ဖြစ်သည်။

ရာ နိုင်ငံရေး အခြေအနေ ပျက်ပြားလာသည်။ ပြည်ပ ဆက်ဆံရေး၌လည်း မင်းတုန်းမင်း လက်ထက်မှာကဲ့သို့ မဟုတ်ဘဲ မပြေမလည်ရှိရာ နောက်ဆုံး၌ သီပေါမင်း ပါတော်မူပြီးလျှင် ၁၈၈၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် အင်္ဂလိပ် အစိုးရတို့က အထက် မြန်မာနိုင်ငံကို သိမ်းယူပြီး ဖြစ်ကြောင်း ကျေညာခဲ့ရသည်အထိ မြန်မာ တနိုင်ငံလုံး သူ့ကျွန်ဘဝ ရောက်ခဲ့ရလေသည်။

အင်္ဂလိပ်မင်းများသည် အထက် အောက် မြန်မာနိုင်ငံတဝန်းလုံးကို ဗင်္ဂလား ပြည်နယ်၊ မဒရပ်ပြည်နယ် တို့ကဲ့သို့ အိန္ဒိယပြည်၏ ပြည်နယ်တနယ်အဖြစ် အိန္ဒိယပြည် အုပ်ချုပ်ရေး၌ ထည့်သွင်း အုပ်ချုပ်လေသည်။ အင်္ဂလိပ်မင်းများ၏ အုပ်ချုပ်ရေးသည် မြန်မာဘုရင်များ လက်ထက်က ကဲ့သို့ သက်ဦးဆံပိုင် အုပ်ချုပ်ရေး မဟုတ်တော့ချေ။ မြန်မာဘုရင်များ လက်ထက်က ပြည့်ရှင်မင်းသည် တန်ခိုး အကြီးဆုံး ဖြစ်သော်လည်း အင်္ဂလိပ်မင်းများ၏ အုပ်ချုပ်ရေးတွင် ဥပဒေသည် တန်ခိုးအကြီးဆုံး ဖြစ်သည်။

မြန်မာ တိုင်းသူပြည်သားများသည် သီပေါမင်း ပါတော်မူပြီးနောက် နိုင်ငံခြားသား အင်္ဂလိပ် အစိုးရ အုပ်စိုးလာသည်ကို မကြိုက်နိုင်သဖြင့် ဟိုတစု သည်တစု ပုန်ကန် ထကြွကြသည်ကို အင်္ဂလိပ် အစိုးရသည် အတန်ကြာ လိုက်လံနှိမ်နင်းရလေသည်။ (မြန်မာ့တော်လှန်ရေး — လည်း ရှု။) သို့ရာတွင် ၁၉၀၀ ပြည့်နှစ်ခန့်တွင် တိုင်းပြည်လည်း ငြိမ်ဝပ်လာသည်။ အင်္ဂလိပ် အစိုးရကို လက်နက် လက်ရုံးဖြင့် တော်လှန်သူများ အင်အားလည်း ဆုတ်ယုတ်လာ၍ နောက်ဆုံး ကွယ်ပျောက်သွားလေသည်။

ထိုနောက် ဗြိတိသျှအစိုးရတို့သည် မြန်မာပြည်၌ ဗြိတိသျှ အရင်းရှင်တို့၏ အကျိုးစီးပွားကိုရှေးရှု၍ အရင်းရှင် စီးပွားရေး စံနစ်ကို ထူထောင် အုပ်စိုးခဲ့လေသည်။ ဤစံနစ်၏ အောက်တွင် ဗြိတိသျှ လူမျိုးနှင့်တကွ အခြားတိုင်းတပါးသားများသည် မြန်မာပြည်၌ စီးပွားရှာကြံ၍ အကျိုးများစွာ ဖြစ်ထွန်းကြသော်လည်း မြန်မာတိုင်းရင်းသား ငွေရှင်ကြေးရှင်တို့မှာမူကား အကျိုးစီးပွားမခံစားရအောင် အမျိုးစုံသော နည်းလမ်းတို့ဖြင့် ချုပ်ချယ် ဖိနှိပ်ခြင်း ခံခဲ့ရလေသည်။ ထိုအချင်းအရာကို မြန်မာအမျိုးသား ခေါင်းဆောင်တို့ သိမြင်လာသောအခါ ဗြိတိသျှတို့၏ လက်အောက်မှ လွတ်မြောက်ရေးအတွက် နည်းအမျိုးမျိုးဖြင့် ဆောင်ရွက်ကြိုးပမ်းခဲ့ကြလေသည်။

ထိုစဉ်က မြန်မာပြည်၏ အုပ်ချုပ်ရေးသည် ဗြိတိသျှပါလီမန်မှ စီစဉ်၍ အိန္ဒိယအစိုးရမှ တဆင့် ညွှန်ကြားအုပ်ချုပ်သော အုပ်ချုပ်ရေးပင် ဖြစ်သည်။ ၁၈၉၇ ခုနှစ်တိုင်အောင် မြန်မာပြည်နှင့် သက်ဆိုင်သော ဥပဒေများကို အိန္ဒိယပြည်၌ တင်သွင်း အတည်ပြုရလေသည်။ ထို ၁၈၉၇ ခုနှစ်တွင် မဟာမင်းကြီးရာထူးကိုဖျက်သိမ်း၍ ဒုတိယဘုရင်ခံမင်းကြီးခန့်ကာ အတိုင်ပင်ခံ အမတ် ကိုးယောက်နှင့် အုပ်ချုပ်ပြန်သည်။ ၁၉၀၉ ခုနှစ်တွင် မော်လေ-မင်တို ပြုပြင်ရေး စီမံကိန်းဖြင့် မြန်မာပြည် အုပ်ချုပ်ရေးကို ပြုပြင်ကာ အတိုင်ပင်ခံများ အစား အဖွဲ့ဝင် ၁၇ ဦးပါဝင်သော ဥပဒေပြုအဖွဲ့ အကူအညီဖြင့် အုပ်ချုပ်ပြန်သည်။ သို့ရာတွင် အုပ်ချုပ်ရေးပိုင်း၌ကား မြန်မာတို့ ဩဇာမရှိသေးချေ။ ထို့ပြင် မြန်မာ့အကျိုးလည်း မပေါ်ထွန်းဘဲ အင်္ဂလိပ် ကုန်သည်ကြီးများ အကျိုးကိုသာ ရှေးရှုခဲ့သည်။

မြန်မာ ခေါင်းဆောင် အချို့သည် သတင်းစာများထောင်၍ ဝံသာနုတရားများကို ရေးကာ လှုံ့ဆော်သူက လှုံ့ဆော်ကြသည်။ အချို့ကလည်း နယ်ထွက်၍ ဝံသာနုတရား ဟောပြောကြသည်။ ဝံသာနုစိတ်ဓာတ်များ တက်ကြွလာသောအခါ နယ်များ၌ မြန်မာအသင်းများ ဖွဲ့စည်းကြသည်။ သာသနာရေးကို အခြေခံ၍ ၁၉၀၈ ခုနှစ်တွင် ဖွဲ့စည်းလိုက်သော ဝိုင်-အမ်-ဘီ-အေ ခေါ် ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းသည် မြန်မာအမျိုးသားတို့၏ အမျိုးသားစိတ်ဓာတ် နိုးကြွအောင် စတင် ဆောင်ရွက်သော အသင်းဟု ဆိုရပေမည်။ (ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း — ရှု။) ထိုနောက် ဂျီ စီ ဘီ အေ ခေါ် မြန်မာအသင်းချုပ်ကြီးမှ တဆင့် မြန်မာတိုင်းသူပြည်သားများ၏ အကျိုးကို ရှေးရှုသော ဥပဒေမျိုးကို ပြုလုပ်ပေးရန် အင်္ဂလိပ်အစိုးရထံ တောင်းကြလေသည်။ (ဂျီ စီ ဘီ အေ — ရှု။) ထိုအခါ အင်္ဂလိပ်အစိုးရသည် မြန်မာအမျိုးသားများ လိုလားတောင့်တသော ဥပဒေမျိုးကို မပေးရုံမက၊ ဝံသာနုတရား ဟောသော ခေါင်းဆောင်များကို ဖမ်းဆီး ချုပ်နှောင်ခြင်းဖြင့် ဖိနှိပ်လေသည်။ ဝံသာနုတရား ဟောသူများတွင် ဆရာတော် ဦးဥတ္တမနှင့် ဦးထွန်းရှိန်တို့သည် ထင်ရှားသည်။ (ထွန်းရှိန်၊ ဦး။ ဥတ္တမ၊ ဦး — ရှု။) သို့ရာတွင် အင်္ဂလိပ် အစိုးရက ဖိနှိပ်လေလေ ပြည်သူလူထု ခပ်များများ၏ ဝံသာနု စိတ်ဓာတ်ကလည်း ပြင်းပြ လာလေလေ ဖြစ်သည်။

၁၉၂၀ ပြည့်နှစ်တွင် အင်္ဂလိပ် အစိုးရသည် ရန်ကုန် ယူနီဗာစီတီ အက်ဥပဒေကို မြန်မာမျိုးချစ်ပုဂ္ဂိုလ်ကြီးများ ကန့်ကွက်သည့် ကြားမှပင် ပြဋ္ဌာန်း လိုက်သည့်အခါ၊ ရန်ကုန် ကောလိပ်နှင့် ယုဒသန် ကောလိပ်ကျောင်းမှ ကျောင်းသားကြီးများသည် ပညာရေးစံနစ်ကို စတင် တော်လှန် သပိတ်မှောက်လိုက်၏။ ထိုအခါမှစ၍ အမျိုးသားကျောင်းများနှင့် အမျိုးသား ကောလိပ်တို့ ပေါ်ပေါက် လာသည်သာမက ပြည်သူလူထုတွင်လည်း နယ်ချဲ့ဆန့်ကျင်ရေး စိတ်ဓာတ်များ အထူး ပြင်းထန်လာလေသည်။ ၁၉၂၁ ခုနှစ်တွင် မန္တလေးမြို့၌ ကျင်းပ၍ လူတသိန်းကျော် တက်ရောက်သော ဂျီ စီ ဘီ အေ၏ နမဝအကြိမ်မြောက် ကွန်ဖရင့်ကြီးက ကျောင်းသား




တိုင်းပြည်အလုံးကို စည်းရုံးရာ၌ တို့ဗမာအစည်းအရုံးသည် အဓိကမဏ္ဍိုင် ဖြစ်ခဲ့သည်။ ပုံမှာ သခင်ကိုယ်တော်မှိုင်း ကြီးမှူးသော တို့ဗမာ အစည်းအရုံးဝင်များ သင်းမကွဲမီ ရိုက်ကူးထားသောပုံ ဖြစ်သည်။



ရေနံမြေအလုပ်သမားတို့သည် တခဲနက် စည်းလုံးညီညွတ်မှု၏ တန်ဖိုးကို တိုင်းပြည်အား ဤသို့ ရှေ့ဆောင်ကာ ချီတက်ပြသခဲ့ကြသည်။

များ သပိတ်မှောက်သော တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့ကို အမျိုးသားအောင်ပွဲနေ့ဟု သတ်မှတ်လိုက်လေသည်။ မြန်မာ လူမျိုးတို့၏ အမျိုးသား စိတ်ဓာတ် ပြင်းထန်ပုံကို သိမြင်လာသော အင်္ဂလိပ်အစိုးရသည် ဝိုက်ကော်မီတီခေါ် အထူးကော်မီတီတခု ဖွဲ့စည်း၍ မြန်မာပြည်သို့ လာရောက်စစ်ဆေးစေကာ လူထု၏အလိုသို့လိုက်သော သဘောဖြင့် ၁၉၁၉ ခုနှစ် အိန္ဒိယပြည် အုပ်ချုပ်ရေး အက်ဥပဒေဟု ခေါ်တွင်သော မွန်တေဂူ-ချမ်းစဖို့ ပြုပြင်ရေး စီမံကိန်းကို မြန်မာပြည်နှင့်လည်း သက်ဆိုင်သည် ဟူ၍ အုပ်ချုပ်ရေးကို အနည်းငယ်ပြုပြင်ပေးလေသည်။ ထိုအုပ်ချုပ်ရေးကို အင်္ဂလိပ် အစိုးရနှင့် မြန်မာပြည်သားတို့ နှစ်ဦးနှစ်ဖက် ခွဲဝေအုပ်ချုပ်သော အုပ်ချုပ်ရေး ဖြစ်သဖြင့် ဒိုင်အာခီ အုပ်ချုပ်ရေးဟု ခေါ်သည်။ ယင်း အုပ်ချုပ်ရေးအရ မြန်မာပြည်သည် ယခင်ကကဲ့သို့ ဒုတိယ ဘုရင်ခံ အုပ်ချုပ်သော ပြည်နယ်တနယ် မဟုတ်တော့ချေ။ ဘုရင်ခံအုပ်ချုပ်သော ပြည်နယ် ဖြစ်လာ၍ ဘုရင်ခံသည် ပြည်သူတို့ ရွေးကောက် တင်မြှောက်သော အမတ် ၇၄ ယောက်နှင့် ဘုရင်ခံခန့် အမတ် ၁၉ ယောက်တို့ပါဝင်သော ဥပဒေပြု မင်းတိုင်ပင်အဖွဲ့ဖြင့် အုပ်ချုပ်ရသည်။ သို့ရာတွင် အုပ်ချုပ်ရေးကို ချုပ်ကိုင်သူကား ဘုရင်ခံသာ ဖြစ်သည်။

အင်္ဂလိပ် အစိုးရသည် မြန်မာတို့အား အုပ်ချုပ်ရေးကို ပြုပြင် ပေးသည်မှာ အမည်သာ ဖြစ်ရကား မြန်မာ ခေါင်းဆောင်တို့က မကျေနပ်ချေ။ ၁၉၂၂ ခုနှစ်တွင် သရက်မြို့၌ ကျင်းပသော ၁၀ ကြိမ်မြောက် ဂျီ စီ ဘီ အေ ကွန်ဖရင့်ကြီး၌ မြန်မာပြည်အတွက် ဟုမ္မရူးခေါ် ကိုယ်ပိုင်အုပ်ချုပ်ရေး တောင်းဆိုရန် ဆုံးဖြတ်ကြလေသည်။

ဒိုင်အာခီ အုပ်ချုပ်ရေး စံနစ်အရ မြန်မာပြည် ဥပဒေပြုကောင်စီ ရွေးကောက်ပွဲ ကျင်းပချိန် ရောက်လာသည့်အခါ ဂျီစီဘီအေ အသင်းကြီး၌ ရွေးကောက်ပွဲ ဝင်နွှဲလိုသူက တစု၊ ရွေးကောက်ပွဲသပိတ်မှောက်လိုသူတို့က တစု၊ နှစ်စုကွဲလေသည်။ ရွေးကောက်ပွဲ ဝင်မည့်အစုတွင် ခေါင်းဆောင် ၂၁ ဦး ရှိသဖြင့် ၂၁ ဦးပါတီဟု ခေါ်သည်။ ၂၁ ဦးပါတီဝင်များက ရာထူး လက်ခံပြီးလျှင် မြန်မာနိုင်ငံကို ဟုမ္မရူးပေးရန် တောင်းဖို့ ဆုံးဖြတ်ကြသည်။ ရွေးကောက်ပွဲ သပိတ် မှောက်လိုသည့် အစုကို ဦးချစ်လှိုင်၊ ဦးပု၊ ဦးထွန်းအောင်ကျော် တို့ ခေါင်းဆောင်သဖြင့် လှိုင်၊ ပု၊ ကျော် ပါတီဟူ၍ရင်း၊ မူရင်း ဂျီစီဘီအေဟူ၍ရင်း၊ ဝံသာနုဂျီစီဘီအေ ဟူ၍ရင်း ခေါ်ကြသည်။ ထိုအချိန်က လူထုသည် အစိုးရကို မုန်းတီး၍ ဝံသာနုစိတ်ဓာတ်များ မည်မျှ တက်ကြွနေသနည်း ဟူမူ အစိုးရနှင့် ဆက်ဆံသော ၂၁ ဦးပါတီထက် ဝံသာနုပါတီက ပို၍အင်အားကောင်းနေသည်ကို ကြည့်၍ သိနိုင်သည်။ ၁၉၂၃ ခုနှစ်တွင် အစိုးရနှင့် မဆက်ဆံရေး ဟူသော ကြွေးကြော်သံဖြင့် ဘူးအသင်းများ ပေါ်ပေါက်လာရာ၊ အစိုးရက မတရားအသင်းဟု ကြေညာ၍ ဖိနှိပ်လေသည်။ ဒိုင်အာခီ အုပ်ချုပ်ရေးရောက်၍ သုံးနှစ်မျှ မကြာမီပင် ဝံသာနု အချင်းချင်း မသင့်မတင့်နှင့် အရှုပ်အရှင်း ဖြစ်လာရာမှအစ လှိုင်ပုကျော် ဂျီစီဘီအေ ကဲ့ပြန်ရာ ဂျီစီဘီအေ အသင်းများ အမြောက်အမြား ပေါ် ထွက်လာခဲ့လေသည်။

ယင်းသို့ ပါတီများ အကွဲကွဲအပြားပြား ဖြစ်နေကြသော်လည်း မြန်မာလူမျိုး တမျိုးလုံး၏ လိုလားချက်မှာ အုပ်ချုပ်ရေးတိုးမြှင့်ပေးရန် ဖြစ်သည်ကို အင်္ဂလိပ်အစိုးရတို့ သိရကား ဒိုင်အာခီ အုပ်ချုပ်ရေး ဥပဒေ ပုဒ်မ ၈၄ (က) ၌ ၁၀ နှစ်ကုန်လွန်သောအခါ ကိုယ်ပိုင် အုပ်ချုပ်ရေး ပေးသင့်မပေးသင့် စုံစမ်းစစ်ဆေးရန် ကော်မရှင်အဖွဲ့တခု စေလွှတ်မည်ဆိုထားပြီး ရှိသည်လည်း ဖြစ်သည့် အလျောက် ၎င်းနှစ်အတွင်းပင် ကိုယ်စားလှယ်အဖွဲ့ လွှတ်၍ စုံစမ်းစေသည်။ ထို့ကြောင့် ၁၉၂၉ ခုနှစ် ဇန္နဝါရီလ ၂၉ ရက်နေ့တွင် မြန်မာပြည် အုပ်ချုပ်ရေးနှင့် စပ်လျဉ်း၍ စစ်ဆေး စုံစမ်း အစီရင်ခံရန် ဗြိတိသျှ အစိုးရတို့က လွှတ်လိုက်သော ဆာဂျွန်ဆိုင်မွန် ခေါင်းဆောင်သည့် ကော်မရှင်အဖွဲ့ ရောက်လာသည်။ ဥပဒေပြုလွှတ်တော်က ဆိုင်မွန်ကော်မရှင်နှင့် ဆွေးနွေးရန် ဖွဲ့စည်းပေးလိုက်သော ကော်မီတီဝင်များက ကိုယ်ပိုင် အုပ်ချုပ်ရေးရရန် မြန်မာပြည်ကို အိန္ဒိယပြည်မှ ခွဲထုတ်ဖို့ အကြံပေးလေသည်။ ဆိုင်မွန်ကော်မရှင်ကလည်း ခွဲရန်ထောက်ခံ၍ အစီရင်ခံစာ တင်သည်။ ဤတွင် အိန္ဒိယနှင့်မြန်မာ ခွဲရေး တွဲရေး ပြဿနာသည် ပေါ်ပေါက်လာခဲ့သည်။ ခွဲရေးတွဲရေး ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာခေါင်းဆောင်များ အကွဲကွဲဖြစ်ကာ နောက်ဆုံး ဂျီစီဘီအေ အသင်းဟူသော အမည်ပါ လုံးဝ ကွယ်ပျောက်သွားသည်အထိ ဖြစ်သည်။

ခွဲရေး တွဲရေး ပြဿနာများ အတော် လှုပ်လှုပ်ရှားရှား ဖြစ်နေစဉ်တွင် ကမ္ဘာတဝှန်း၌ ဖြစ်ပေါ်နေသော စီးပွားရေးကြပ်တည်းမှု ကပ်ကြီးသည် မြန်မာပြည်ကို ရိုက်ခတ်လာလေသည်။ စီးပွားရေး ကျပ်တည်း လာလေလေ မြန်မာလူထုသည် အဖိနှိပ်ခံ ကျွန်ဘဝမှ လွတ်မြောက်လိုလေလေဖြစ်ခဲ့သည်။ အင်္ဂလိပ်အစိုးရအပေါ် မကျေနပ်မှုများ တော်လှန် ပုန်ကန်လိုမှုများ တိုးတက်သည်ထက် တိုးတက်လာခဲ့ရာ သာသနာမေဓာအဓွန့်တော် လျှော့ပေါ့ရေး တောင်းဆိုရာမှ အစ သာယာဝတီနယ်မှ ဆရာစံ ခေါင်းဆောင်သော တောင်သူလယ်သမားတို့သည် ဂဠုန်တပ်သားများ ဟူသော အမည်ဖြင့် ၁၉၃၀ ပြည့်နှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့တွင် တော်လှန်ပုန်ကန်ကြသည်။ လွတ်လပ်ရေး ဟူသည် အစည်းအဝေးခေါ်၍ ဆုံးဖြတ်ချက်ချရုံဖြင့် မရနိုင်။ လက်နက် အားကိုးဖြင့် အဓမ္မပြုနေသော နယ်ချဲ့ အင်္ဂလိပ်အစိုးရကို လက်နက်ဖြင့် ရင်ဆိုင်ရမည်ဟုဆိုကာ ဓားဆွဲ၍ တော်လှန်ခဲ့သော ဆရာစံ



မြန်မာတိုင်းရင်းသား အပေါင်းတို့သည် လူမျိုးဘာသာမရွေး မြန်မာ့တပ်မတော်၏ အမြုတေဖြစ်သော ဗမာ့လွတ်လပ်ရေး တပ်မတော်သို့ ဝင်ရောက်ကာ သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းရွက်ခဲ့ကြသည်။

ခေါင်းဆောင်သည့် တောင်သူလယ်သမား တပ်သားများမှာ အချိန်လည်း မဟုတ်၊ လက်နက်ချင်းလည်း မမျှ၊ စည်းကမ်း သေဝပ်မှုလည်း မရှိ၊ စည်းရုံးမှုလည်း ကင်းမဲ့သောကြောင့် နယ်ချဲ့တို့၏ အပြင်းအထန် နှိပ်ကွပ်ခြင်းကို ခံရလေသည်။ (စံ၊ ဆရာ — လည်းရှု။)

ထိုအချိန်တွင် မြန်မာနိုင်ငံရေး၌ လက်နက်နှင့် တော်လှန်ခြင်းမပြုဘဲ အင်္ဂလိပ်တို့ပေးသမျှဖြင့်သာ နေလိုသော လူကြီးပိုင်းနှင့် ဆရာစံခေါင်းဆောင်သော တော်လှန်ရေးထက် ပိုမိုပြင်းထန်သော ထကြွမှုပြုရန်လိုသည်ဟု ယူဆသော လူငယ်ပိုင်းဟူ၍ ရှိလာသည်။ လူငယ်ပိုင်းကမူ ဆရာစံ၏ တော်လှန်ရေးအတွင်းက အမှားအယွင်းများကို ပြုပြင်ကာ နယ်ချဲ့အား လက်နက်ဖြင့် တညီတညွတ်တည်း တိုက်ထုတ်လိုကြသည်။ ဗမာပြည်သည် တို့ပြည်၊ ဗမာစကားသည် တို့စကား၊ ဗမာစာသည် တို့စာ ဟူသောဆောင်ပုဒ်ဖြင့် လူငယ်တစုသည် တို့ဗမာအစည်းအရုံးဟူသော နိုင်ငံရေး အသင်းသစ် တခုကို ၁၉၃၀ ပြည့်နှစ်ခန့်တွင် တည်ထောင် ကြသည်။ (တို့ဗမာ အစည်းအရုံး — လည်းရှု။) ရှေး ယခင်ကပင် သခင်မျိုး ဖြစ်ခဲ့သော မြန်မာတို့သည် သခင် ဖြစ်သည်ဆိုကာ အစည်းအရုံးဝင်တို့သည် သူတို့အမည်များတွင် သခင်တပ်၍ ခေါ်ကြသည်။ တို့ဗမာအစည်းအရုံးဝင် သခင်များသည် အင်္ဂလိပ်အစိုးရက တဖြည်းဖြည်း ပြုပြင် ပေးနေသော ပြုပြင်ရေး ဥပဒေများကို မကျေနပ်ကြချေ။ မိမိတို့ လိုချင်သော ဥပဒေမျိုးကို အင်္ဂလိပ်အစိုးရထံမှ တစာစာ အော်၍ တောင်းနေရုံဖြင့်လည်း မရနိုင်။ နိုင်ငံရေးလွတ်လပ်မှု ရမှသာလျှင် မိမိတို့လိုချင်သော ဥပဒေမျိုးကို လူထုဆန္ဒအရ ပြုလုပ်နိုင်တော့မည် ဖြစ်သဖြင့် နိုင်ငံရေး လွတ်လပ်မှုကို အရယူရန် အားထုတ်မှ ဖြစ်မည်။ အားထုတ်ကြရာ၌ ချွေး သွေး မျက်ရည် အကျခံ၍ တိုက်ပွဲဝင်ကြမှ ဖြစ်မည်ဟူသော အတွေးသစ် အကြံသစ်ဖြင့် လူထုအား လှုံ့ဆော် စည်းရုံးလေသည်။ ထိုအခါ လူငယ် လူလတ်ပိုင်း၌၎င်း၊ တောင်သူ လယ်သမား အလုပ်သမားပိုင်း၌၎င်း အချုပ်အချာ အာဏာပိုင် လွတ်လပ်ရေး စိတ်ဓာတ်သည် ပြင်းပြလာလေသည်။ ရှေး နိုင်ငံရေး ခေါင်းဆောင်များက မြန်မာပြည်ကို ဗြိတိသျှနေသဟာယအတွင်း ဟုမ္မရူးခေါ် ကိုယ်ပိုင်အုပ်ချုပ်ရေးရသော နိုင်ငံအဖြစ် ရောက်ရန်သာ တောင်းဆိုခဲ့သော်လည်း၊ တို့ဗမာ အစည်းအရုံးဝင်များ လက်ထက် ရောက်သောအခါ လုံးဝ လွတ်လပ်ရေးကို

တောင်းဆို လာကြသည်။ တက္ကသိုလ်ကျောင်းသားများ သမဂ္ဂကလည်း ကျောင်းသားလောကတွင် မျိုးချစ်စိတ်များ တက်ကြွလာစေရန် တဖက်တလမ်းမှ ဆောင်ရွက်လျက်ရှိရာ တက္ကသိုလ် အာဏာပိုင်များက ကျောင်းသား ခေါင်းဆောင်များဖြစ်သော ကိုနု၊ ကိုအောင်ဆန်း၊ ကိုလှရွှေ စသူတို့ကို ကျောင်းမှ ထုတ်ပစ်ပြန်သဖြင့် ကျောင်းသားတို့ မခံ မရပ်နိုင် ဖြစ်၍ ၁၉၃၆ ခုနှစ်တွင် တကြိမ်၊ ၁၉၃၀ ခုနှစ်တွင် တကြိမ် သပိတ်မှောက် ဆန္ဒ ပြလိုက်ကြသည်။ သပိတ်လှန်သောအခါ ကျောင်းသား ခေါင်းဆောင် ခပ်များများသည် တို့ဗမာ အစည်းအရုံးသို့ ဝင်ရောက်လာကာ နိုင်ငံရေးကို ဆောင်ရွက်ကြလေသည်။

အင်္ဂလိပ် အစိုးရကလည်း မြန်မာပြည် အုပ်ချုပ်ရေး ပြုပြင်ရန်နှင့် အထူးသဖြင့် လတ်တလော ပေါ်ပေါက်နေသော ခွဲရေးတွဲရေး ပြဿနာကို ဖြေရှင်းဆွေးနွေးရန် ၁၉၃၀ ပြည့်နှစ်တွင် တကြိမ်၊ ၁၉၃၁-၃၂ ခုနှစ်တွင် တကြိမ် နှစ်ကြိမ်တိုင်တိုင် လန်ဒန်မြို့၌ ကျင်းပသော မျက်နှာစုံညီ အစည်းအဝေးများသို့ မြန်မာကိုယ်စားလှယ်များကို ဖိတ်ခေါ် ဆွေးနွေးခဲ့သည်။ နောက်ဆုံး၌ ဗြိတိသျှပါလီမန်က အိန္ဒိယနှင့် မြန်မာပြည်အတွက် ဥပဒေကြမ်း စီစဉ်ရေးဆွဲရန် ဖွဲ့စည်းလိုက်သော ပါလီမန် တွဲဖက်ကော်မီတီနှင့် တိုင်ပင်ဆွေးနွေးရန် မြန်မာကိုယ်စားလှယ်များသည် ၁၉၃၃ ခုနှစ်တွင် သွားခဲ့ရပြန်သည်။ ထိုကော်မီတီ၏ အစီရင်ခံစာ အရ ၁၉၃၅ ခုနှစ် မြန်မာပြည် အက်ဥပဒေကို အင်္ဂလိပ် အစိုးရတို့က ပြဋ္ဌာန်းလိုက်ရာ ၁၉၃၇ ခုနှစ် ဧပြီလ ၁ ရက်နေ့မှစ၍ မြန်မာပြည်သည် အိန္ဒိယပြည်မှ ခွဲထွက်လာသည်။ ၉၁ ဌာန အုပ်ချုပ်ရေး ဟူသော အုပ်ချုပ်ရေးသစ်လည်း ပေးလိုက်ရာ အထက်အောက် လွှတ်တော်နှစ်ရပ် ပေါ် ပေါက်လာလေသည်။

၉၁ ဌာနအုပ်ချုပ်ရေးကို ထိုစဉ်က ထင်ရှားခဲ့သောအသင်းအဖွဲ့ဝင် အတော်များများသည် ပေးသမျှဖြင့် ရောင့်ရဲကာ ရာထူး လက်ခံကြသော်လည်း ကျောင်းသားခေါင်းဆောင်များနှင့် လူငယ်များပါဝင်သည့် တို့ဗမာအစည်းအရုံးကမူ ရာထူးလက်မခံဘဲ နယ်ချဲ့ဆန့်ကျင်ရေးကိုဆောင်ရွက်ကြသည်။ နယ်ချဲ့ဆန့်ကျင်ရေးသမားတို့၏လှုံ့ဆော်မှုကြောင့်တောင်သူလယ်သမား အလုပ်သမားများ အထူး တက်ကြွ လာခဲ့ကြ



ဂျပန် ဖက်ဆစ်စနစ်ကို တော်လှန်တိုက်ခိုက်ရာတွင် အဓိက အင်အားစုကြီးတရပ်ဖြစ်ခဲ့သည့် ဗမာ့ကာကွယ်ရေး တပ်မတော်



မြန်မာ့လွတ်လပ်ရေးအတွက် ဗိုလ်ချုပ်အောင်ဆန်းသည် ရှေ့ဆောင်ဦးစီးပြုလျက် ဗြိတိန်နိုင်ငံသို့ သွားရောက် အရေးဆိုခဲ့သည်။

သည်။ ၁၉၃၈ ခုနှစ်၌ ရေနံမြေ အလုပ်သမားအရေး ပေါ် ပေါက်ကာ ထိုနှစ် ဒီဇင်ဘာလတွင် ရေနံမြေ အလုပ်သမား တပ်ကြီးသည် ရန်ကုန်မြို့သို့ ချီတက်လာကြသည်။ အင်္ဂလိပ် အစိုးရကလည်း ချီတက်လာသူများကို လမ်းတလျှောက်မှ ပုဒ်မ အမျိုးမျိုးထုတ်ကာ နှိမ်နင်း လေသည်။ ကူညီသူ ကျောင်းသား ခေါင်းဆောင်များကိုလည်း မကွေးမြို့၌ ဖမ်း လေသည်။ ထိုအခါ ကျောင်းသားများ မခံမရပ်နိုင်ဖြစ်ကာ ရန်ကုန်မြို့၌ အတွင်းဝန်ရုံးကို ဝိုင်း၍ ဆန္ဒပြသည်တွင် အစိုးရ က ရန်ကုန်မြို့မှ ပုလိပ်အဖွဲ့နှင့် နှိမ်နင်းသဖြင့် ကျောင်းသား ခေါင်းဆောင်တဦး ဖြစ်သူ ကိုအောင်ကျော် သေဆုံး၍ ကျောင်းသား ကျောင်းသူ အများ ဒဏ်ရာ ရခဲ့လေသည်။ (အောင်ကျော်ဗိုလ် — ရှု။) ကျောင်းသားများ သွေးမြေ ကျသည်နှင့်တပြိုင်နက် မြန်မာတနိုင်ငံလုံး မခံမရပ်နိုင်အောင် ဖြစ်ကာ ဆူပူလှုပ်ရှားလာသည်။ အထူးသဖြင့် မန္တလေးတွင် ရဟန်းသံဃာတော်များ ခေါင်းဆောင်သော လူထုကန့်ကွက် ပွဲကြီး ပြုလုပ်ရာ အစိုးရက လက်နက်နှင့် နှိမ်နင်းပြန်သဖြင့် ရဟန်းရှင်လူ ၁၇ ဦး အသက်ဆုံးရှုံးရပြန်လေသည်။ ထိုအခါ လူထုတရပ်လုံးသည် မခံနိုင်လောက်အောင် ဆူပူကြသဖြင့် အစိုးရအဖွဲ့ အပြောင်းအလဲများပင် ပေါ်ပေါက်ခဲ့ရသည်။

၁၉၃၉ ခုနှစ်သို့ ရောက်သောအခါ မြန်မာနိုင်ငံရေး ခေါင်းဆောင်များအတွက် လွတ်လပ်ရေး အခွင့်ကောင်း တခု ပေါ်လာလေသည်။ ထိုနှစ်တွင် ဥရောပတိုက်၌ အင်္ဂလိပ် နှင့် ပြင်သစ်တို့ကတဖက်၊ ဂျာမနီနှင့် ဣတလီတို့က တဖက် စစ်ဖြစ်ကြလေသည်။ ထိုအခါ ဂျပန်သည် ဂျာမနီနှင့် ဣတလီ တို့ဖက်သို့ ပါ၍ အင်္ဂလိပ်၊ ပြင်သစ်၊ အမေရိကန် တို့ ကြီးစိုးနေ ကြသော အရှေ့တောင်အာရှ ဒေသကို ၁၉၄၁ ခုနှစ်မှ စ၍ တိုက်လေတော့သည်။ (ကမ္ဘာစစ်ကြီး၊ ဒုတိယ—လည်းရှု။)

ယင်းသို့ ကမ္ဘာတဝှန်း၌ စစ်မီးများ စတောက်နေသည့် အချိန်တွင် မြန်မာတို့၏ အမျိုးသား စည်းလုံးရေးစိတ်ဓာတ်၊ နယ်ချဲ့ တော်လှန်ရေး စိတ်ဓာတ်များ ပိုမို ပြင်းထန်သည် ထက် ပြင်းထန်လာရာ အင်္ဂလိပ်ကို တိုက်မည့် မည်သူနှင့်မဆို ပူးပေါင်းချင်စိတ် ဖြစ်ပေါ်နေကြသည်။ ထို့ကြောင့် အရှေ့ ဖက်တလွှားတွင် အင်္ဂလိပ်အား တိုက်မည့် ဂျပန်တို့၏ အကူ အညီကိုယူကာ လွတ်လပ်ရေး မပေးချင်သော အင်္ဂလိပ် အစိုးရထံမှ လွတ်လပ်ရေးကို ယူမည်ဟု ဆုံးဖြတ်၍ တို့ဗမာ အစည်းအရုံးဝင် အချို့သည် ဂျပန်နိုင်ငံသို့ အသက်စွန့်၍ သွားကြသည်။ အချို့မှာ ပြည်တွင်း တော်လှန်ရေးအတွက် အဆင်သင့်ရှိအောင် စည်းရုံးနေကြသည်။ အင်္ဂလိပ် အစိုးရ

ကလည်း အရေးကြီးသော နိုင်ငံရေးခေါင်းဆောင်များကို ဖမ်းဆီး၍ ထောင်ချ ခဲ့လေသည်။ သခင်အောင်ဆန်း ဦးဆောင်သော ရဲဘော်သုံးကျိပ်သည် ဂျပန်နိုင်ငံသို့ ရောက်ကြသောအခါ စစ်အတတ်ကို သင်ကြသည်။ (ရဲဘော် သုံးကျိပ် — လည်းရှု။)

၁၉၄၂ ခုနှစ်တွင် ဂျပန် စစ်တပ်သည် မြန်မာပြည်သို့ ကော့သောင်းမြို့မှ စစ်တကြောင်း၊ ကော့ကရိတ်မြို့ဖက်မှ စစ်တကြောင်း ချီ၍ ဝင်လာကြရာ ဗိုလ်တေဇခေါ် သခင်အောင်ဆန်း၏ ဗမာ့လွတ်လပ်ရေး တပ်မတော်လည်း ပါလာလေသည်။ အင်္ဂလိပ် အစိုးရ၏ စစ်တပ်များသည် အကြာအရှည် မခုခံနိုင်သဖြင့် ရန်ကုန်မှ ဆုတ်ကြလေသည်။ တဖြေးဖြေး ဆုတ်သွားရာ ထိုနှစ် မေလတွင် မဏိပူရကို ဖြတ်၍ အိန္ဒိယသို့ ရောက်ကြသည်။ ဘုရင်ခံ၏ အစိုးရ အဖွဲ့သည်လည်း စစ်တပ်များကဲ့သို့ပင် အိန္ဒိယသို့ ပြောင်းကာ စစ်ပြေးအစိုးရအဖြစ်ဖြင့် ဆင်းမလားမြို့၌ ရုံးစိုက် နေသည်။ အင်္ဂလိပ် စစ်တပ်နှင့် အင်္ဂလိပ်အစိုးရ မရှိသည့်နောက် ဂျပန်စစ်အစိုးရနှင့် ဂျပန်စစ်တပ်တို့ မြန်မာပြည်ကို အုပ်ချုပ်လေသည်။ ၁၉၄၂ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် မြန်မာပြည်အစိုးရအဖွဲ့ကို ဒေါက်တာ ဘမော်အား ခေါင်းဆောင် တင်မြှောက်၍ ဖွဲ့စည်းပေးခဲ့သည်။ ၁၉၄၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ဂျပန်ဘုရင်၏ အစိုးရသည် မြန်မာပြည်အား လွတ်လပ်ရေးပေးသည်ဟု ကျေညာလေသည်။ ဒေါက်တာ ဘမော် အဓိပတိ ဖြစ်လာသည်။ သို့ရာတွင် ဂျပန်စစ်အစိုးရသာလျှင် မြန်မာပြည်၌ တန်ခိုးအကြီးဆုံး ဖြစ်လေသည်။ အုပ်ချုပ်ရာ၌လည်း ဖက်ဆစ်ပီပီ အုပ်ချုပ်လေသည်။ ထိုအခါတွင် စစ်ဝန်ကြီး အဖြစ်ဖြင့် အုပ်ချုပ်နေသော ဗိုလ်ချုပ်အောင်ဆန်း၏ ဗမာ့ကာကွယ်ရေး တပ်မတော်နှင့် တို့ဗမာ အစည်းအရုံးဝင်တို့သည် ဂျပန်ဖက်ဆစ်ကို တော်လှန်ရန် ၁၉၄၄ ခုနှစ်တွင် တိတ်တဆိတ် စည်းရုံး၍ အိန္ဒိယရှိ အင်္ဂလိပ် စစ်တပ်နှင့် အဆက်အသွယ် ပြုကြလေသည်။ ထိုနောက် ဖ၊ တ၊ ပ၊ လ ခေါ် ဖက်ဆစ်တိုက်ဖျက်ရေး ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ကို ဖွဲ့၍ ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် ဂျပန်စစ်အစိုးရနှင့် ဂျပန်စစ်တပ်တို့ကို လက်နက် လက်ရုံးဖြင့် တော်လှန်ကြလေသည်။ (တော်လှန်ရေးနေ့ — လည်းရှု။) ဗလငါးတန်နှင့် လူရည်မြင့်တင်ရေး ရည်ရွယ်ချက်ဖြင့် ဖွဲ့စည်းထားသော အာရှလူငယ် အစည်းအရုံးဝင်များလည်း ထိုလျှို့ဝှက်သော လုပ်ငန်း၌ အသက်စွန့်လျက် ပါဝင်ခဲ့ကြသည်။

ထိုနှစ်၌ပင် အင်္ဂလိပ်အစိုးရ၏ စစ်တပ်များသည် မြန်မာပြည်အတွင်းသို့ ပြန်ဝင်နိုင်၍ ဂျပန်စစ်တပ်ကို အောင်မြင်ကြသောအခါ မြန်မာပြည် ဘုရင်ခံသည် မြန်မာပြည်သို့ ပြန်လာ၍ ၁၉၄၅ ခုနှစ် ဗြိတိသျှပါလီမန်တွင် တင်ပြအတည်ပြုခဲ့သော စက္ကူဖြူစာတမ်းအရ မြန်မာပြည်ကို ဒိုမီနီယန် အဆင့်အတန်းပေး၍ အုပ်ချုပ်ရန် စီစဉ်လေသည်။ ထိုနှစ်၌ပင် ဗိုလ်ချုပ် အောင်ဆန်းသည် စစ်တပ်မှ ထွက်ပြီးလျှင် လွတ်လပ်ရေးကို အရယူမည်ဟု ဆုံးဖြတ် ကြွေးကြော်၍ ဖ၊ တ၊ ပ၊ လ ကို အမည်ပြောင်းလိုက်သော ဖက်ဆစ် ဆန့်ကျင်ရေး ပြည်သူ့လွတ်မြောက်ရေး အဖွဲ့ (ဖဆပလ အဖွဲ့) ဥက္ကဋ္ဌ အဖြစ် တိုင်းပြည်၏ အင်အားကို စည်းရုံးလေသည်။ (ဖ၊ဆ၊ပ၊လ — လည်းရှု။) ထိုအခါ တိုင်းပြည်၏ အင်အားသည် ရှေးကထက် ပို၍ ကောင်းလာလေသည်။ လုံးဝ မလွတ်လပ်မီ စပ်ကြား၌ လူထု ကိုယ်စားလှယ် အစစ်များ ပါဝင်သော ယာယီ အစိုးရအဖွဲ့ဖြင့် အုပ်ချုပ်စေရန် အတိအကျတောင်းဆိုခဲ့သည်။ မြန်မာလူထုသည် လွတ်လပ်ရေးနှင့် ထိုက်တန်သော လူမျိုးဖြစ်ကြောင်းကို ငြိမ်ဝပ်၍ စည်းကမ်းကျနသော ဆန္ဒပြပွဲများဖြင့် ပြခဲ့သည်။ နယ်ချဲ့ အစိုးရ၏ လက်ပါးစေ အဖြစ်ဖြင့်သာ နှစ်ပေါင်းများစွာ လူသိများခဲ့သော ပုလိပ်အဖွဲ့ကြီး တဖွဲ့လုံးသည်ပင် တညီတညွတ်တည်း သပိတ်မှောက် ဆန္ဒပြခဲ့လေသည်။ ပုလိပ်အဖွဲ့ကြီးသာမဟုတ်၊ အမှုထမ်း ပေါင်းစုံတို့ကလည်း သပိတ်လက်နက်ဖြင့် အုံကြွဆန္ဒပြကြသည်။ အင်္ဂလိပ်အစိုးရသည် ဘုရင်ခံ ဆာဒေါ်မန်စမစ်ကို ပြန်ခေါ်၍ ဆာဟူးဗတ်ရန့်ကို ဘုရင်ခံသစ် ခန့်ထားလိုက်သည်။ ဆာဟူးဗတ်ရန့်သည် ဖ၊ ဆ၊ ပ၊ လ ခေါင်းဆောင်ကြီးများအား ဘုရင်ခံ၏ အမှုဆောင် ကောင်စီအဖွဲ့ကို ဖွဲ့စည်းစေသည်။ ထိုအဖွဲ့ကို ဗိုလ်ချုပ် အောင်ဆန်း ဦးစီး၍ ဖွဲ့လိုက်ရာ သပိတ်ပေါင်းစုံလည်း အစိုးရ အဖွဲ့ကို ထောက်ခံသောအားဖြင့် သပိတ် လှန်လိုက်ကြသည်။

အင်္ဂလိပ်အစိုးရ၏ ဖိတ်ခေါ်ချက်အရ ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော မြန်မာ ကိုယ်စားလှယ်အဖွဲ့သည် လန်ဒန်မြို့သို့ သွားရောက် ဆွေးနွေးပြီးနောက် ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့တွင် အောင်ဆန်း-အက်တလီ စာချုပ်ကို လက်မှတ်ရေးထိုးခဲ့ကြသည်။ (အောင်ဆန်း- အက်တလီ စာချုပ် — ရှု။) ထိုစာချုပ်အရ မြန်မာပြည်ကို လွတ်လပ်ရေး ပေးမည် ဖြစ်ကြောင်း အင်္ဂလိပ်အစိုးရတို့က ကတိပြုလေသည်။ သို့ရာတွင် တောင်တန်းဒေသများက ပြည်မကြီးနှင့် ပေါင်းရန် သဘောတူမှ ပြည်မ တောင်တန်း တပြိုင်နက် လွတ်လပ်ရေး ပေးမည်ဟူသော သဘော တရပ် ပါဝင်သည်။ ခေါင်းဆောင်ကြီးများသည် ပြည်မ တောင်တန်း ပူးပေါင်းရေးကို အစွမ်းကုန်ဆောင်ရွက်ကြရာ ထိုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့တွင် တိုင်းရင်းသား သွေးစည်းမှု အဆောက်အအုံကို တည်ဆောက်ပေးသည့် တောင်တန်းဒေသများက ပြည်မကြီးနှင့် ပူးပေါင်းရန် သဘောတူသော ပင်လုံ စာချုပ်ကြီးကို အောင်မြင်စွာ လက်မှတ် ရေးထိုးနိုင်ခဲ့ကြသည်။ (ပင်လုံ စာချုပ် — ရှု။) ထိုအခါမှ ပြည်မကြီးရော တောင်တန်းဒေသများကိုပါ တပြိုင်နက် လွတ်လပ်ရေးပေးရန် အင်္ဂလိပ်အစိုးရ

က သဘောတူညီလေသည်။ ဗိုလ်ချုပ်အောင်ဆန်း ကြီးမှူးသော ဖ၊ ဆ၊ ပ၊ လ အစိုးရသည် လွတ်လပ်တော့မည် ဖြစ်သော မြန်မာပြည်ကို ပြည်မသား၊ တောင်တန်းသားတို့၏ ဆန္ဒအတိုင်း မည်သို့မည်ပုံ ဖွဲ့စည်းသင့်သည် အုပ်ချုပ်သင့်သည်တို့ကို ပြည်မဒေသ၊တောင်တန်းဒေသတို့မှ ပြည်သူ့ကိုယ်စားလှယ်များနှင့် ဆွေးနွေးလိုသဖြင့် ထိုနှစ် ဧပြီလတွင်ပင် တိုင်းပြည်ပြုလွှတ်တော်အတွက် ရွေးကောက်ပွဲ ကျင်းပလေသည်။ ရွေးကောက်ပွဲ ပြီးသောအခါ ပြည်သူအများ ယုံကြည်၍ ရွေးကောက် တင်မြှောက် လိုက်သော ပြည်မ၊ တောင်တန်း ကိုယ်စားလှယ်အမတ်များ ပါဝင်သည့် တိုင်းပြည်ပြုလွှတ်တော် အစည်းအဝေးများ ကျင်းပ၍ တိုင်းပြည်ကို ဥပဒေဖြင့်သာ အုပ်ချုပ်စေလိုသည်ဟုရင်း၊ ကချင်၊ ကယား၊ ကရင်၊ ရှမ်း တိုင်းရင်းသားလူမျိုးများသည် ပြည်နယ်အသီးအသီး ဖွဲ့လျက် ပြည်မနှင့်ပေါင်း၍ ပြည်ထောင်စုနိုင်ငံ တည်ထောင်စေလိုသည်ဟုရင်း၊ နိုင်ငံတော်သမတကို ငါးနှစ်တကြိမ် တင်မြှောက်ခြင်းဖြင့် သမတနိုင်ငံလည်း ဖြစ်စေလိုသည်ဟုရင်း၊ တောင်သူ လယ်သမား အလုပ်သမားတို့ ပါဝင်သော ပြည်ထောင်စု နိုင်ငံသား အားလုံး၏ အကျိုးအတွက် နိုင်ငံသူနိုင်ငံသားများ၏ ဆန္ဒအရ နိုင်ငံကိုအုပ်ချုပ်စေလိုသည်ဟုရင်း အများသဘောတူ ဆုံးဖြတ်၍ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ရေးဆွဲကြလေသည်။ (ပြည်ထောင်စု အခြေခံ ဥပဒေ — လည်းရှု။) နိုင်ငံတော် အလံ၊ နိုင်ငံတော် သီချင်း' နိုင်ငံတော် တံဆိပ်တို့ကိုလည်း အများသဘောတူ ဆုံးဖြတ်၍ သတ်မှတ်ကြလေသည်။

ပြည်ထောင်စု အခြေခံဥပဒေကို ရေးဆွဲနေသော ကာလအတွင်း ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့တွင် ဗိုလ်ချုပ်အောင်ဆန်းနှင့် ခေါင်းဆောင်ကြီးများသည် လူမသမာတို့၏ လက်ချက်ဖြင့် အသက်ဆုံးကြရသည်။ သို့ရာတွင် ဖ၊ဆ၊ပ၊လ ဒုတိယ ဥက္ကဋ္ဌ ဖြစ်သော ဦးနုက ဆက်လက်ဆောင်ရွက်သွားရာ၊ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် လွတ်လပ်သော ပြည်ထောင်စု သမတ မြန်မာနိုင်ငံကို တည်ထောင်ပြီဟု ကမ္ဘာသို့ ကျေညာနိုင်ခဲ့လေသည်။ ထိုအခါမှစ၍ ကချင်၊ ကယား၊ ကရင်၊ ချင်း၊ မြန်မာ၊ မွန်၊ ရခိုင်၊ ရှမ်း စသော ပြည်ထောင်စုသားများ၏ အချုပ်အချာ အာဏာပိုင် လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံကြီး အကောင်အထည် ပေါ်ခဲ့လေသည်။

ဗိုလ်ချုပ်အောင်ဆန်း၏ ကြိုးပမ်းချက်အရ မြန်မာပြည်အား လွတ်လပ်ရေးပေးရန် နု-အက်တလီစာချုပ်ကို အောင်မြင်စွာ ချုပ်ဆိုခဲ့သည်။



မြန်မာနိုင်ငံ တိုင်းရင်းသားတို့၏ သွေးချွေးတို့ဖြင့်ရင်း၍ စည်းလုံးညီညာ တိုက်ခိုက် ရယူလာခဲ့ရသည့် ရလဒ်ကား ၁၉၄၈ ခု ဇန္နဝါရီလ ၄ ရက်နေ့တွင် လွတ်လပ်ရေး ရခဲ့ခြင်း ဖြစ်သည်။

လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံ၏ ပဌမ သမတမှာ ညောင်ရွှေ စော်ဘွားကြီး စဝ်ရွှေသိုက် ဖြစ်လေသည်။ အချုပ်အချာ အာဏာပိုင်နိုင်ငံဖြစ်ပေါ် လာပြီးသည့်နောက်၌ ဖ၊ ဆ၊ ပ၊ လ အဖွဲ့ချုပ်မှ ဦးနုခေါင်းဆောင်သော အစိုးရအဖွဲ့ကို နိုင်ငံတော်သမတက ခန့်အပ်ပြီးလျှင် အထက်အောက် လွှတ်တော်နှစ်ရပ်ပါရှိသော ပါလီမန်စံနစ်ဖြင့် အုပ်ချုပ်လေသည်။

သို့ရာတွင် လွတ်လပ်ရေး ကျေညာပြီး၍ မကြာမီကာလမှာပင် ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း တည်ဆောက်ခဲ့သော အမျိုးသား ညီညွတ်ရေးသည် ပြိုကွဲစပြုလာသည်။ ဖ၊ ဆ၊ ပ၊ လ အဖွဲ့ချုပ်အတွင်း၌ လက်ဝဲ လက်ျာ နိုင်ငံရေးအုပ်စုများ စိတ်သဘောကွဲပြား၍ ၁၉၄၈ ခုနှစ် မတ်လတွင် ကွန်မြူနစ် ပါတီသည် လက်နက်ကိုင်၍ တောခိုသွားခဲ့သည်။ ပြည်သူ့ရဲဘော် ပါတီဝင် အချို့လည်း တောခိုကြပြန်လေသည်။ ယင်းနောက် ကရင် အမျိုးသားများကလည်း ကေ-အင်-ဒီ-အို ခေါ် ကရင်အမျိုးသား ကာကွယ်ရေးအဖွဲ့ ဖွဲ့စည်းကာ၊ ၁၉၄၇ ခုနှစ်အတွင်းမှာပင် သီးခြားကရင်ပြည်နယ် တောင်းဆို၍ အစိုးရကို ပုန်ကန် ခြားနားကြပြန်လေသည်။

ဤကဲ့သို့ ၁၉၄၇ ခုနှစ်၊ ၁၉၄၉ ခုနှစ်များတွင် တိုင်းပြည်သည် သောင်းကျန်းသူ အမျိုးမျိုး၏ရန်ကြောင့် ပြိုကွဲ ပျက်စီးရတော့မည်ကဲ့သို့ ရှိစဉ် ဗမာ့တပ်မတော်သည် ပြည်သူလူထု၏ ရှေ့မှ မားမားရပ်ကာ ရှိသမျှအင်အားဖြင့် ပြည်ထောင်စုကြီးကို ကာကွယ်ခဲ့လေသည်။ ၁၉၅၀ ပြည့်နှစ်မှ အစပြု၍ တပ်မတော်သည် သောင်းကျန်းသူတို့လက်သို့ ကျရောက်ခဲ့သည့် နယ်မြေဒေသများကို စစ်ဆင်မှု အမျိုးမျိုးဖြင့် တနယ်ပြီးတနယ် ပြန်လည် သိမ်းပိုက်နိုင်ခဲ့သည်။

ထိုကဲ့သို့ တိုင်းပြည်ကို သောင်းကျန်းသူတို့ရန်မှ ကယ်တင် ထိန်းသိမ်းနိုင်ခဲ့သော်လည်း၊ အာဏာရ နိုင်ငံရေး ပါတီတွင်းမှာမူကား ကိုယ်ကျိုးရှာ နိုင်ငံရေးသမားများ၊ အရင်းရှင် ခေါင်းပုံဖြတ်သမားများ၊ ဂိုဏ်းဂဏစွဲ ဝါဒသမားများ စသည်တို့ ဝင်ရောက် လာသောကြောင့် အဂတိလိုက်စားမှု၊ စီးပွားရေး သောင်းကျန်းမှု အမျိုးမျိုး ပေါ်ပေါက်၍ သိက္ခာ လျော့ကျ ပျက်စီးနေခဲ့လေသည်။ ၁၉၅၁—၅၂ ခုနှစ်တွင် ကျင်းပသော ပဌမ အထွေထွေ ရွေးကောက်ပွဲ၌ရင်း၊ ၁၉၅၆ ခုနှစ်တွင် ကျင်းပသော ဒုတိယ အထွေထွေ ရွေးကောက်ပွဲ၌ရင်း ဖ၊ ဆ၊ ပ၊ လ အဖွဲ့သည် အနိုင်ရရှိ၍ အစိုးရအဖွဲ့အဖြစ် တည်မြဲနိုင်ခဲ့သော်လည်း၊ အထက်ပါ အကြောင်းအမျိုးမျိုးကြောင့် ၁၉၅၇ ခုနှစ်၌ ကျင်းပသော ပါတီညီလာခံကြီးအပြီးတွင် နှစ်ခြမ်းကွဲ၍ သွားလေသည်။ နောင်အခါ၌ ဦးနုခေါင်းဆောင်သော အဖွဲ့က ပြည်ထောင်စု အဖွဲ့ဟူ၍ရင်း၊ ဦးဗဆွေ ခေါင်းဆောင်သော အဖွဲ့က ဖ၊ ဆ၊ ပ၊ လ အဖွဲ့ဟူ၍ရင်း တင်ရှားလာလေသည်။

အာဏာရ နိုင်ငံရေးပါတီ ပြိုကွဲသဖြင့် တိုင်းပြည် အခြေအနေ ပျက်စီး ယိုင်းယိုနေသောအခါ၊ ၁၉၅၈ ခုနှစ် အောက်တိုဘာလ၌ အိမ်စောင့်အစိုးရ အမည်ဖြင့် ဗိုလ်ချုပ်ကြီး နေဝင်း ခေါင်းဆောင်၍ အစိုးရဖွဲ့ကာ နိုင်ငံ၏ အခြေအနေကို ထိန်းသိမ်းပေးခဲ့လေသည်။ အိမ်စောင့်အစိုးရ လက်ထက်၌ ပြည်ပရေးရာတွင် နယ်ချဲ့ အစိုးရထံမှ အမွေရလိုက်သော တရုပ်-မြန်မာ နယ်ခြားပြဿနာကို တရုပ်ပြည်သူ့သမတနိုင်ငံနှင့် ချစ်ကြည်စွာ ဖြေရှင်းနိုင်ခဲ့သည်။ (မြန်မာ—တရုပ် နယ်ခြား သတ်မှတ်ရေး — လည်းရှု။) ပြည်တွင်းရေး၌ ၁၉၅၉ ခုနှစ် ဧပြီလတွင် ရှမ်းစော်ဘွားများ၏ ပဒေသရာဇ် အာဏာများကို စာချုပ်၍ စွန့်လွှတ်စေခဲ့လေသည်။

၁၉၆၀ ပြည့်နှစ်သို့ ရောက်သောအခါ ဗိုလ်ချုပ်ကြီး အစိုးရသည် မူလက တိုင်းပြည်သို့ ပေးအပ်ထားခဲ့သည့် ကတိအတိုင်း အထွေထွေ ရွေးကောက်ပွဲကြီးကို ကျင်းပ ပေးခဲ့လေသည်။ ရွေးကောက်ပွဲ၌ ပြည်ထောင်စုပါတီက အနိုင်ရရှိ၍ ဦးနုက ဝန်ကြီးချုပ်အဖြစ်နှင့် အစိုးရအဖွဲ့ကို ဖွဲ့စည်းခဲ့လေသည်။ သို့ရာတွင် မကြာမီပင် အာဏာရပါတီ ခေါင်းဆောင် အချင်းချင်း မသင့်မတင့်ဖြစ်ကာ ဦး၊ ဗိုလ် အုပ်စုနှင့် သခင်အုပ်စုဟူ၍ နှစ်ခြမ်း ကွဲပြန်လေသည်။ ဤကဲ့သို့ မညီမညွတ် ဖြစ်သောအခါ ပဒေသရာဇ်တို့က အခွင့်ကောင်းယူကာ ဖက်ဒရယ်မူဟူသော မူကို တင်ပြ၍ ပြည်ထောင်စု ပြိုကွဲစေရန် ပြည်နယ်သီးခြား တောင်းဆိုလာကြလေသည်။

ထို့သို့ဖြင့် တိုင်းပြည်၏ အခြေအနေသည် အမျိုးမျိုး ယိုယွင်း ပျက်စီးလာသောအခါ ဗမာ့တပ်မတော်သည် လျစ်လျူရှု မနေနိုင်တော့ဘဲ၊ ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် နိုင်ငံတော်အာဏာကို သိမ်းပိုက်ခဲ့လေသည်။ ထိုနေ့မှာပင် ဗိုလ်ချုပ်ကြီး နေဝင်း ခေါင်းဆောင်သော တော်လှန်ရေး ကောင်စီအဖွဲ့ဝင်များ စာရင်းကို ထုတ်ပြန် ကျေညာသည်။ ၁၉၆၂ ခုနှစ် မတ်လ ၃ ရက်နေ့၌ တော်လှန်ရေး ကောင်စီ ကျေညာချက်အမှတ် ၄ ဖြင့် ဥပဒေပြုအရ ဖွဲ့စည်းထားသော ပါလီမန်ကို ဖျက်သိမ်းခဲ့သည်။ ထိုနောက် ၁၉၆၂ ခုနှစ် ဧပြီလ ၃၀ ရက်နေ့တွင် တော်လှန်ရေး ကောင်စီ၏ ဝါဒသဘောထားဖြစ်သော မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်ကို ကျေညာသည်။ (မြန်မာ့ဆိုရှယ်လစ်လမ်းစဉ် — ရှု။) ၁၉၆၂ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့၌ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်ပါတီ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ထုတ်ပြန် ကျေညာပြီးလျှင် မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီကို အောင်မြင်စွာ စတင် တည်ထောင်ခဲ့လေသည်။

**မြန်မာနိုင်ငံ ရှေးဟောင်းပစ္စည်းနှင့် ကမ္ပည်းကျောက်စာများ။** ။လူတို့သည် နေထိုင် ဝတ်စားမှုအတွက်ရင်း၊ သွားလာလုပ်ကိုင်မှု အတွက်ရင်း ဝတ္ထုပစ္စည်း အမျိုးမျိုးကို

ပြုလုပ် သုံးဆောင်နေကြ၏။ တခေတ်ထက်တခေတ် စိတ်ကူးဉာဏ်အဆန်းပေါ် ပေါက်တိုင်း၊ လိုအင်ဆန္ဒ ထူးထွေများပြားတိုင်း၊ အသုံး အဆောင် ကရိယာ ပစ္စည်းအမျိုးမျိုးကို အဆန်းတကြယ် တီထွင် လုပ်ကိုင်အသုံးပြုနေကြသည်ကိုလည်း ကျွန်ုပ်တို့ မျက်မြင်ဒိဋ္ဌဖြစ်ချေသည်။ ဤသို့ အသစ်အဆန်းပေါ် ပေါက်လာသော ဝတ္ထုပစ္စည်းတို့သည် လူတို့၏ နေထိုင်သွားလာမှု၊ လုပ်ကိုင်မှု၊ စည်းစိမ်ခံမှု စသည်တို့အတွက် အထောက်အပံ့ ဖြစ်သည့်အားလျော်စွာ လူတို့၏ ယဉ်ကျေးမှုစံချိန်ကိုလည်း တစိတ်တပိုင်းအားဖြင့် ညွှန်ပြရာ ရောက်လေသည်။ ထိုကြောင့် ယခုခေတ်၌ လူတို့ကဖန်တီးသော ဝတ္ထုပစ္စည်းများသည် ယခုလူတို့၏သဘာဝကိုထင်ရှားစေသည့်အလား၊ရှေးခေတ်က ရှေးဟောင်းပစ္စည်းများသည်လည်း သက်ဆိုင်ရာခေတ်မှလူများ၏ ယဉ်ကျေးမှု အဆင့်အတန်းကို ဖော်ပြလျက်ရှိသည်မှာ ယုံမှားဖွယ်ရာ မရှိချေ။ ဤသို့အားဖြင့် ရာထောင်မကသော နှစ်ပေါင်းများစွာက ရှေးခေတ်လူတို့ အသုံးပြုကြသည့် အရာဝတ္ထုတို့အနက်မှ ကြွင်းကျန်၍ တိမ်မြုပ်နေသော ပစ္စည်းများကို ရှာဖွေဖော်ထုတ်ပြီးလျှင် တခုစီ လေ့လာ သုံးသပ်၍ ရှေးခေတ်လူမျိုးစုတို့၏ ယဉ်ကျေးမှုကို သုတေသန ပြုလုပ်သည့် လုပ်ငန်းတရပ်ပေါ် လာလေသည်။ ယင်းလုပ်ငန်းရပ်သည် တစတစ ကျယ်ပြန့် တိုးတက်လာပြီးလျှင် သိပ္ပံဆိုင်ရာ ဘာသာရပ်တရပ်အနေဖြင့် အသိအမှတ်ပြု၍ အင်္ဂလိပ် အခေါ် အားဖြင့် အာကီယောလိုဂျီဟု အမည်တွင် လာလေတော့၏။ထိုစကားရပ်သည် ပေါရာဏိက ဗေဒ၊ သို့မဟုတ် ရှေးဟောင်းဆိုင်ရာ ယဉ်ကျေးမှု သုတေသနဟု ပါဠိလို မြန်မာလို အသီးအသီး အဓိပ္ပါယ်ရလေသည်။

မြန်မာ ရှေးဟောင်း ပစ္စည်းများ အကြောင်း (ဝ) မြန်မာ့ ရှေးဟောင်း ယဉ်ကျေးမှုအကြောင်းကို ထုတ်ဖော်ခြင်း မပြုမီ ပေါရာဏိကဗေဒ၊ သို့မဟုတ် ရှေးဟောင်း သုတေသန၏ ရည်ရွယ်ချက်နှင့် လုပ်ငန်းစဉ်တို့ကို အကျဉ်းမျှ ဖော်ပြလိုပေသည်။ ရှေးဟောင်း သုတေသနကို အခြေခံအားဖြင့် သမိုင်းမတင်မီခေတ်နှင့် သမိုင်းခေတ်ဟူ၍ နှစ်ပိုင်း ခွဲခြားထားနိုင်၏။ ကမ္ဘာဦးလူများ ပေါ် ပေါက်သည်မှစ၍ ကမ္ပည်းအက္ခရာ အရေးအသား တီထွင် အသုံးပြုခြင်းမရှိသေးသော ကာလအပိုင်းအခြားကို သမိုင်းမတင်မီခေတ်ဟူ၍ရင်း၊ စာပေအရေးအသား တီထွင်ပြန့်ပွားကာ အကြောင်းခြင်းတအမျိုးစုံတို့ကို ရေးမှတ်ကြ၍ ထိုကမ္ပည်းစာပေတို့ကို မှီငြမ်းပြုကာ သမိုင်းပြုစုနိုင်သော ကာလအပိုင်းအခြားကို သမိုင်းခေတ်ဟူ၍ရင်း သိမှတ် နားလည်ကြလေသည်။ ရှေးဟောင်း သုတေသနလုပ်ငန်းသည် သမိုင်းမတင်မီခေတ်၏ ယဉ်ကျေးမှုကို အထူးဂရုပြုကာ ရှာဖွေလေ့လာခြင်း ဖြစ်၏။ သို့သော် များစွာသော နိုင်ငံတို့တွင် သမိုင်းခေတ်၏ ယဉ်ကျေးမှုကို ပင် စုံလင်စွာ ထုတ်ဖော်ခြင်း မပြုရသေးသဖြင့် သမိုင်းခေတ် အပိုင်းအခြားအတွက်လည်း ရှေးဟောင်းသုတေသန ပြုလုပ်နေကြရလေသည်။

လွန်ခဲ့သော နှစ်ပေါင်း တရာ့ ငါးဆယ်ခန့်က အနောက်နိုင်ငံများတွင် ရှေးသူဟောင်း ဖိုးဖွားများ၏ လက်ရာ ဖြစ်သော ဝတ္ထုပစ္စည်းတို့ကို အမြတ်တနိုး စုဆောင်း သိမ်းဆည်းသော အလေ့အထတရပ် ပေါ် ပေါက်ခဲ့၏။ စုဆောင်းသူတို့မှာ ဝတ္ထုပစ္စည်းတို့၏ ရှေးကျမှု၊ လုပဆန်းကြယ်မှုတို့ကို အကြောင်းပြု၍ မြတ်နိုးခြင်းသာလျှင် ဖြစ်ကုန်ကြ၍၊ ယင်းပစ္စည်းများ ပေါ် ပေါက်သော ခေတ်တို့တွင် အဖက်ဖက်၌ မည်သို့သော ယဉ်ကျေးမှု အဆင့်အတန်း ရှိသည်ကို ချင့်ချိန်ဝေဖန်ခြင်း မပြုကြချေ။ ထို့နောင်ကာလမှပင် ပညာရှင်များက ရှေးဟောင်း ပစ္စည်းတို့ကို တင့်တယ်လှပမှု၊ သို့မဟုတ် နှစ်ပရိစ္ဆေဒကြာမြင့်စွာ တည်တံ့ ခိုင်မြဲမှု ပေါ် တွင် တန်ဖိုးထားသော မြတ်နိုးမှုကိုသာ ပဓာနမပြုဘဲ ယင်းပစ္စည်းဟောင်းများနှင့် သက်ဆိုင်သော ခေတ်ကာလ အပိုင်းအခြားတို့၏ ယဉ်ကျေးမှု အဆင့်အတန်း သာဓကများ အဖြစ် အသုံး ပြုလေတော့သည်။

ရှေးဟောင်း သုတေသန ပြုနိုင်သည့် ပစ္စည်းများကို ရှေးဟောင်း အဆောက်အအုံများနှင့် ရှေးဟောင်း အသုံး အဆောင် ပစ္စည်းများဟူ၍ နှစ်မျိုး ခွဲခြား လေ့လာနိုင်သည်။ ထိုမှ တဆင့်ပွား၍ အဆောက်အအုံ တမျိုးစီ၊ သို့မဟုတ် ဝတ္ထု ပစ္စည်း တမျိုးစီကို ခွဲခြားပြီးလျှင် ကျယ်ပြန့်သော ယဉ်ကျေးမှု သုတေသနကို အပိုင်းပိုင်း အစိတ်စိတ် သုံးသပ်လေ့လာနိုင်လေသည်။ ပုံစံ ပြရသော် မြေကြီးအောက် တနေရာမှ ရုပ်တုတခုကို တူးဖော် တွေ့ရှိရသည်ဆိုအံ့။ ထိုရုပ်တု၏ သဘာဝဝတ္ထုမှာ ကြေးလော၊ သံလော၊ ရွှေငွေလောဟု စစ်ဆေး ကြည့်ရှုခြင်း၊ ထိုရုပ်တု၏ အနုပညာလက်ရာမြောက်ပုံကို ဝေဖန် သုံးသပ်ခြင်း၊ မည်သည့် လူမျိုး၊ သို့မဟုတ် မည်သည့် ဂါဏ်ဒီတို့က ထုလုပ်သည့် ရုပ်တုမျိုး ဖြစ်သည်ကို စူးစမ်းခြင်း၊ ယင်းရုပ်တု တွေ့ရှိသောဒေသနှင့် မြေလွှာ အပိုင်းအခြားကိုထောက်၍ မည်သည့်ခေတ်လောက်က တိမ်မြုပ်ခဲ့သည်ကို မှန်းဆခြင်း စသည်တို့ ပြုလုပ်နိုင်ရုံမျှသာမက၊ ရှေးဟောင်း အယူဝါဒ ဘာသာရပ်တခုကို သီးခြား သုတေသနပြုသူအဖို့လည်း ယင်းရုပ်တုသည် အထောက်အထား ပစ္စည်းတရပ် ဖြစ်နေချေမည်။ ပန်းပုပညာ တီထွင် တိုးတက်ပုံ လေ့လာသူအဖို့လည်း တနည်းတဖုံ အသုံးဝင်ချေမည်။ သဘာဝသတ္တုများ အကြောင်း လေ့လာသူအဖို့လည်း အထောက်အပံ့ တရပ် ဖြစ်ချေမည်။ ဤသို့အားဖြင့် ဘာသာရပ်ပေါင်းများစွာကို ကျေးဇူးပြုပေသောကြောင့် ရှေးဟောင်း သုတေသနတွင် ဘူမိဗေဒ၊ ဇီဝဗေဒ၊ ဓာတုဗေဒ စသော ပညာရပ်များ အကျုံးဝင်လျက် ရှိတော့၏။ အထူးသဖြင့် မြေအောက်၌ တိမ်မြုပ်နေသော ရှေးဟောင်းပစ္စည်းတို့ကို စံနစ်







ရှေးနှစ်ပေါင်း တထောင့်ငါးရာကျော်က မြန်မာတိုင်းရင်းသားတို့၏ အဆက်အနွယ်ပျူလူမျိုးတို့ ရှိခဲ့ကြောင်း၊ ထိုခေတ်ကာလအတွင်းက သာသနာတော် မည်မျှထွန်းကားခဲ့ကြောင်း ထင်ရှားသက်သေပြနိုင်စိမ့်သော အလို့ငှာ ထိန်းသိမ်းစောင့်ရှောက်ထားအပ်သည့် ပြည်မြို့ မှော်ဇာရပ်ရှိ လေးမျက်နှာဘုရား (အပေါ်-ဝဲ)

ပုဂံမြို့ရှိ အနော်ရထာမင်းမြတ်၏ ကောင်းမှုတော် လောကနန္ဒာစေတီ (အပေါ်-ယာ)

မှော်ဇာရပ် ခင်ဗကုန်းမှ တူးဖော်ရရှိသည့်ရွှေပြားပျူစာ (အလယ်-ဝဲ)

ပုဂံမြို့ ပျဉ်ပျားမင်းလက်ထက် မြို့ရိုးပျက်နှင့် သရဗာတံခါး။ (အောက်)







ကျန်စစ်မင်းကြီး၏ ကောင်းမှုတော် ပုဂံ ဆေးရေးပန်းချီတို့ဖြင့် ခင်းကျင်း ချယ်လှယ်ထားသော နဂါးရုံဘုရား(အပေါ်)

အနောက် ဖက်လိပ်ဘုရား (အရှေ့မျက်နှာ) အား မူရင်းမပျက် ပြန်လည် ပြင်ဆင်မွမ်းမံပြီးနောက် ဤသို့ ဖူးမျှော်ရသည်။(ယာ)

ဇာတ်နိပါတ်တော်များဖြင့် သရုပ်ဖော်ထားသည့် ရုပ်ကြွအင်္ဂတေချပ်၊ စဥ့်ချပ်တို့ဖြင့် မွမ်းမံ ချယ်လှယ်၍ ထားသော အနောက် ဖက်လိပ်ဘုရား။ (အရှေ့မျက်နှာ)။ (အလယ်-ယာ)

သီရိပစ္စယာ ပုဂံရပ်ရှိ ပိဋကတ်တိုက်(အောက်-ယာ)

ပျူတို့၏ အနုပညာလက်ရာကို ခန့်မှန်းယူနိုင်ရန် ထိန်းသိမ်းထားအပ်သည့် ငွေဗောဓိခေါင်းပွ (အောက်)









ပုဂံ မင်းနန်သူရွာ ဘုရားသုံးဆူဘုရားမှ မြန်မာ့ ဆေးရေးပန်းချီ

တကျ တူးဖော်ကာ ဆိုခဲ့ပြီးဖြစ်သော ဘာသာရပ်များနှင့် ညှိနှိုင်းလေ့လာ ဝေဖန်ရသဖြင့် သိပ္ပံပညာ၏ အကိုင်းအခက် ပညာတရပ် အနေနှင့် အသိအမှတ် ပြုကြ၏။ ရှေးဟောင်း သုတေသနပြုလုပ်ရာ၌ သမိုင်း၊ ဂန္ထဝင်၊ ဒေသန္တရနှင့် ဘာသန္တရ ဗဟုသုတပြည့်ဝမှု ရှိရန်လည်း အထူးလိုအပ်လေသည်။ ထိုကြောင့် ရှေးဟောင်း သုတေသနသည် ရှေးပဝေဏီအယူအဆ အလေ့အထများနှင့်သာ သက်ဆိုင်သော လုပ်ငန်းမဟုတ်ဘဲ မျက်မှောက်ခေတ် ယဉ်ကျေးမှု အဖြာဖြာနှင့် ဆက်စပ် အကျုံးဝင်လျက်ရှိသော ဘာသာရပ် ဖြစ်သည်။

ရှေးဟောင်း သုတေသနကြောင့်ပင်လျှင် သစ်သီးဝလံကိုသာ ရှာဖွေစားသောက်ကြသောလူရိုင်းများခေတ်၊ ကျောက်လက်နက်ကရိယာတို့ကို အသုံးပြုကာ အမဲ သား ငါး ရှာဖွေစားသောက်သော လူများခေတ်၊ ကြေးသတ္တုပစ္စည်းများနှင့် သံသတ္တုပစ္စည်းများ လုပ်ကိုင် အသုံးပြုသော ခေတ်စသည်ဖြင့် ယဉ်ကျေးမှု ပြောင်းလဲတိုးတက်ပုံ အဆင့်ဆင့်ကို သိရှိရလေသည်။ ထိုမျှမက အီဂျစ်နိုင်ငံ၊ ဂရိနိုင်ငံ၊ ရောမနိုင်ငံနှင့် အာရှတိုက် အနောက်စွန်းဒေသများ၏ သမိုင်းတို့ကို ရှေးခေတ်ဦး တိုင်အောင် ကျယ်ပြန့်စွာ ဖြည့်စွက်မှတ်တမ်းတင်နိုင်လေသည်။ တရုပ်နိုင်ငံ၊ အိန္ဒိယနိုင်ငံနှင့် အာရှတိုက် အရှေ့တောင်စွန်းဒေသများ၏ ရှေးဟောင်းယဉ်ကျေးမှုကိုလည်း ဖော်ထုတ်နိုင်ခဲ့၏။ ရှေးဟောင်း သုတေသန၏ အကျိုးကျေးဇူးများပုံကို ထင်ရှားစွာသိလွယ်ရန် သာဓကပြရမည် ဆိုလျှင်၊ အိန္ဒိယနိုင်ငံ ရှေးဟောင်း သုတေသနဌာန၏ ကြိုးစားဆောင်ရွက်မှုကြောင့် ယခုအခါ ပါကစ္စတန်နိုင်ငံရှိ အိန္ဒုမြစ်ဝှမ်းတွင် မိုဟင်ဂျိုဒါရို၊ ဟာရပ္ပစသော ဒေသတို့၌ သမိုင်းခေတ်ထက် ရှေးကျသည့် ခရစ်မပေါ်မီ နှစ်ပေါင်း သုံးထောင်ခန့်က ထွန်းကားခဲ့သော မြို့တော်ဟောင်းကြီးများကို ရှာဖွေတူးဖော် ပြသနိုင်၍ ထိုခေတ်၏ ယဉ်ကျေးမှု အဖြာဖြာကို အိန္ဒိယသမိုင်း၊ ကမ္ဘာ့သမိုင်း၌ သွတ်သွင်း မှတ်တမ်း တင်နိုင်လေသည်။ ထို့ပြင် နှစ်ပေါင်းများစွာ တိမ်မြုပ်နေ၍ လုံးဝ ဖုံးပိတ်ပျောက်ကွယ် သွားလုနီးပါးဖြစ်သော ဗုဒ္ဓဖွားမြင်တော်မူရာ လုမ္ဗိနီသာမော အင်ကြင်းတောမှစ၍ ဝိဇ္ဇာသုံးပါးနှင့် တကွ သဗ္ဗညုတဉာဏ်ပွင့်ကာ ဘုရားအဖြစ်သို့ ရောက်ရာ ဗောဓိပင်နှင့် ရွှေပလ္လင်၊ အနိမိသစေတီ စသည့် သတ္တဌာန၊ ဥရုဝေဠတော၊ ဗုဒ္ဓ ဝါကပ်မှုများစွာပြုကာ ဓမ္မဒေသနာများ စွာပြုရာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၊ တရားဦး ဟောရာ မိဂဒါဝုန်၊ တာဝတိံသာမှ သက်တော်မူရာ သင်္ကဿနဂိုရ်၊ ပရိနိဗ္ဗာန်စံတော်မူရာ ကုသိနာရုံစသော အဌမဟာဌာနတို့ကို ဓမ္မာသောကမင်းတရား၏ ကမ္ပည်းကျောက်စာ တိုင်နှင့် တကွ တူးဖော်တွေ့ရှိကာ စောင့်ရှောက် ထားနိုင်ခဲ့လေသည်။ ထိုမှတပါးလည်း ဂန္ဓာရတက္ကသိုလ်၊ နာလန္ဒာ တက္ကသိုလ်ဟောင်းကြီးများကို တူးဖော်၍ အထင်းအရှား ပြသနိုင်ခဲ့လေသည်။

ရှေးဟောင်းယဉ်ကျေးမှုကို စူးစမ်း ထုတ်ဖော်ရာ၌ ရှေးဟောင်း ကမ္ပည်းစာအရေးအသားများသည်လည်း လွန်စွာ အထောက်အပံ့ ဖြစ်ချေသည်။ ရှေးဟောင်းပစ္စည်း တခုတွင် ထွင်းထုရေးသားထားသော ကမ္ပည်းစာကြောင်းများ ပါရှိလျှင် ထိုပစ္စည်းကိုသာမက ထိုပစ္စည်းနှင့်အသွင်အပြင် အမျိုးအစား ထပ်တူ ဖြစ်သော ပစ္စည်းများ၏ ခေတ်ကိုလည်း ပိုင်းခြား သိနိုင်လေသည်။ ကမ္ပည်းကျောက်စာချပ်ကြီးများ တွေ့ရှိရသည့် အခါ၌ကား သမိုင်းအတွက် များစွာ အကျိုးပွားလေသည်။ ယင်းကျောက်စာများသည် သမိုင်းမှတ်တမ်း မော်ကွန်းများလည်း ဖြစ်၏။ ဘာသာစာပေ သမိုင်းစဉ်များလည်းဖြစ်၏။ ထိုကြောင့် ရှေးဟောင်း ကမ္ပည်းစာပေကို လေ့လာစူးစမ်းခြင်းသည်ပင် ရှေးဟောင်း ယဉ်ကျေးမှု သုတေသန၏ လုပ်ငန်းစဉ်တရပ် ဖြစ်ချေသည်။ ဤအချက်ကို လေးလေးနက်နက် ထင်ရှားစွာ သိရှိနိုင်ရန် အီဂျစ်နိုင်ငံတွင် ရှေးဟောင်းယဉ်ကျေးမှု လေ့လာပုံကို ထောက်ရှုရာသည်။ အီဂျစ်နိုင်ငံတွင် ရှေးနှစ်ပေါင်း ငါးထောင်ခန့်ကစ၍ ပြည်သူပြည်သားတို့၏ နေထိုင်မှု စံနစ်၊ မင်းစိုးရာဇာတို့၏ အုပ်ချုပ်မှု စံနစ်မှ စ၍ အနုပညာနှင့် ယဉ်ကျေးမှု အဖြာဖြာကို သရုပ်ဖော်ပြသော ဆေးရေး ပန်းချီများ၊ သုခုမ ပညာလက်ရာမြောက်သော ရုပ်လုံးရုပ်ကြွ ပန်းပုများ စသည်တို့သည် ရှေးခေတ် မင်းမိဖုရားတို့၏ သင်္ချိုင်းဂူကျောင်းတို့တွင် ပြည့်နှက်စွာ တည်ရှိ၏။ သို့သော် ယင်းပန်းချီ ပန်းပုတို့နှင့် ဆက်စပ်၍ ကမ္ပည်းရေးထိုးထားသော စာတမ်းတို့ကို မဖတ်နိုင်၊ အဓိပ္ပါယ် မဖော်နိုင်ကြသဖြင့် သရုပ်ဖော်ပြထားသမျှသော အကြောင်းခြင်းရာတို့ကို ကုန်စင်အောင်မသိနိုင်ဘဲ ရှိခဲ့

လေသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၁၅၀ ခန့်လောက်ကျမှပင် အီဂျစ်လူမျိုးတို့၏ ရေးထုံးဖြစ်သော ရှေးဟောင်း အက္ခရာတို့ကို ဝေခွဲဖတ်ရှုနိုင်၊ အဓိပ္ပါယ် ဆက်စပ်နိုင်သဖြင့် နှစ်ပေါင်း ငါးထောင်ခန့်က အီဂျစ်လူမျိုးတို့၏ ယဉ်ကျေးမှု မှတ်တမ်းများကို ပြည့်ပြည့်စုံစုံ ထုတ်ဖော် နိုင်ကြလေသည်။ ထိုသို့ ရှေးခေတ် အရေးအသားများကို လေ့လာ ဆုံးဖြတ်နိုင်ခြင်းမှာ ရိုဇက်တာ မည်တွင်သော ကမ္ပည်းကျောက်စာချပ်ကို ရှေးဦးစွာ ဖတ်ရှုဖော်ထုတ်နိုင်သောကြောင့် ဖြစ်၏။ ယင်းကျောက်ချပ်တွင် ဂရိဘာသာ၊ အီဂျစ်ဘာသာ ရိုးရိုးနှင့် အီဂျစ် စာဝှက်အက္ခရာအရေးအသားဖြင့် အကြောင်းအရာ တရပ်တည်းကို စာပေသုံးမျိုး ခွဲခြားရေးသား ထွင်းထုပါရှိလေရာ ဂရိဘာသာနှင့် နှိုင်းရှည့်ကြံဆ၍ အီဂျစ်ဘာသာ နှစ်မျိုးကို ဖတ်ရှုကာ အဓိပ္ပါယ် ဖော်ထုတ်နိုင်လေတော့သည်။ (ရိုဇက်တာ ကျောက်စာ — ရှု။)

မြန်မာနိုင်ငံတွင်ကား သမိုင်း မတင်မီ ကာလအတွက် ရှေးဟောင်း ယဉ်ကျေးမှု အခြေအနေကို စံနစ်တကျ ထုတ်ဖော်ရန် မဆောင်ရွက်ရသေးချေ။ သမိုင်းခေတ်ကိုပင် ကွင်းဆက်မလပ်ရအောင် ယဉ်ကျေးမှုသာဓကများကို ရှာဖွေစိစစ်၍ မှတ်တမ်းတင်ရန် လိုအပ်လျက် ရှိနေ၏။ မြန်မာနိုင်ငံ၏ မြို့တော်ဟောင်းနေရာများတွင် ရှေးလူစုတို့၏အသုံးအဆောင် ဝတ္ထုပစ္စည်းများထက် သာသနာနှင့် စပ်လျဉ်းသော အဆောက်အအုံများနှင့် အနုပညာ လက်ရာများ ဖြစ်သော ရုပ်တု၊ ရုပ်ကြွစသည့် ရှေးဟောင်း ပစ္စည်းများကိုသာ ပိုမို တွေ့ရှိရလေသည်။ မင်းမှူးမတ် စသော သာသနာ့ ဒါယကာတို့သည် မိမိတို့၏ ကောင်းမှုကုသိုလ်ကို မော်ကွန်းတင်ကြသည်သာ များသဖြင့် မြောက်မြားစွာသော ကမ္ပည်းကျောက်စာတို့သည် နေရာအနှံ့အပြားတွင် ယခုတိုင် တည်တံ့ ကျန်ရစ်နေသေး၏။ ထိုကြောင့် မြန်မာနိုင်ငံတွင် ရှေးဟောင်း ယဉ်ကျေးမှု သုတေသနလုပ်ငန်းကို ဆောင်ရွက်ရာ၌ ကမ္ပည်းကျောက်စာတို့ကို အများဆုံး ရှာဖွေ စုဆောင်းလေ့လာရသဖြင့် ယခုအခါ မြန်မာနိုင်ငံ ရှေးဟောင်းသုတေသနဌာနဟုခေါ်သော ဌာနသည် ယခင်က ကမ္ပည်းကျောက်စာဌာနဟူ၍ အမည်တွင်ခဲ့သည်။

မြန်မာနိုင်ငံ ရှေးဟောင်းသုတေသနဌာန၏ လုပ်ငန်းစဉ်များမှာ (၁) သမိုင်းနှင့် စပ်လျဉ်း၍သော်၎င်း၊ ရှေးဟောင်းသုခုမ ပညာနှင့် စပ်လျဉ်း၍သော်၎င်း အထူး စိတ်ဝင်စားဖွယ်ရာ ဖြစ်သည့် ရှေးဟောင်း အဆောက်အအုံတို့ကို အဓွန့်ရှည်စွာ တည်တံ့စေရန် ထိန်းသိမ်းပြင်ဆင်ရခြင်း၊ (၂) ရှေးဟောင်း မြန်မာ့ယဉ်ကျေးမှု သာဓကဖြစ်သော ပစ္စည်းများနှင့် မြန်မာမှုများကို စူးစမ်းရှာဖွေခြင်း၊ (၃) မြန်မာနိုင်ငံ အရပ်ရပ်ရှိ ကမ္ပည်းကျောက်စာများကို ရှာဖွေစုဆောင်း၍ သုတေသနပြုခြင်း၊ ထုတ်ဖော် ဖြန့်ချိရခြင်းတို့ဖြစ်လေသည်။

ရှေးဟောင်းသုတေသနဌာနမှ ရှာဖွေ စုဆောင်း ထားရှိသော ကမ္ပည်း ကျောက်စာများ၊ ရှေးဟောင်း ဝတ္ထုပစ္စည်းများ၊ အဆောက်အအုံများနှင့် စပ်လျဉ်း၍ လေ့လာ မှတ်သားချက် ဗဟုသုတအဖြာဖြာကို ပြည့်စုံစွာ ဖော်ထုတ်ခြင်း မပြုနိုင်သေးမီ ယင်းတို့ကို တည်တံ့ ခိုင်မြဲလျက် ရှိစေရန် လိုအပ်သဖြင့် စောင့်ရှောက် ထိန်းသိမ်းပြင်ဆင်မှုတို့ကို ပြုရလေသည်။ မြန်မာနိုင်ငံ၌ကား ရှေးဟောင်း အဆောက်အအုံများစွာတို့မှာ သာသနာ့ အဆောက်အအုံများ ဖြစ်လေရာ ပြည်သူ့ ဘဏ္ဍာတော်မှ အကုန်အကျခံ၍ စောင့်ရှောက်ပြုပြင်ရန် သင့်တော်သော အဆောက်အအုံများကို စိစစ်ရွေးချယ်ထားရလေသည်။ ထိုသို့ ရွေးချယ်ထိန်းသိမ်းရာ၌ ၁၉၀၄ ခုနှစ်၌ ထုတ်ပြန်သော ရှေးဟောင်းအဆောက်အအုံများ ထိန်းသိမ်းရေး အက်ဥပဒေနှင့် ၁၉၅၇ ခုနှစ်တွင် ပြင်ဆင်ထုတ်ပြန်သော ရှေးဟောင်း ဝတ္ထု ပစ္စည်းများ အက်ဥပဒေတို့ကို လိုက်နာ၍ ဂေါပကအဖွဲ့များဖြင့် စောင့်ရှောက်ခြင်းမှ ကင်းလွတ်လျက် ရှိသည်ကို၎င်း၊ သမိုင်းနှင့် သက်ဆိုင်သော အဆောက်အအုံ၊ သို့မဟုတ် မြန်မာ့ဗိသုကာနှင့် အနုပညာ စံပြုပြုထိုက်သော အဆောက်အအုံဖြစ်ခြင်းကို၎င်း ချင့်ချိန် နှိုင်းဆကာ ရွေးချယ်ရချေသည်။ နိုင်ငံတော်အစိုးရ ထိန်းသိမ်း စောင့်ရှောက်ထားသော စာရင်းဝင်အဆောက်အအုံများမှာ ယခုအခါ (၁၄၁) ဆူ ရှိလေသည်။ ထို (၁၄၁) ဆူတို့အနက်မှ အနည်းငယ်ကို ဖော်ပြရသော် ပြည်မြို့အနီးသရေခေတ္တရာမြို့တော်ဟောင်း နေရာတွင် ဗောဗောကြီးဘုရား၊ ဘဲဘဲဘုရားနှင့် လေးမျက်နှာဘုရားတို့ကို ရှေးဦး နှစ်ပေါင်း တထောင့်ငါးရာခန့်က မြန်မာ တိုင်းရင်းသားတို့၏ အဆက်အနွယ် ဖြစ်သော ပျူလူမျိုးတို့၏ လက်ရာသာဓကဖြစ်သောကြောင့်၎င်း၊ သရေခေတ္တရာပြည်၌ သာသနာတော် မည်မျှထွန်းကားခဲ့ကြောင်း ထင်ရှား သက်သေဖြစ်သည့် အချက်ကြောင့်၎င်း ထိန်းသိမ်းထားရလေသည်။ ပုဂံမြို့နယ် တဝိုက်တွင်မူ မရေမတွက်နိုင်လောက်အောင် များပြားသော ရှေးဟောင်း အဆောက်အအုံများ အနက်မှ ပျဉ်ပြားမင်းလက်ထက်မှ မြို့ရိုးပျက်နှင့် သရဗာတံခါး၊ အနော်ရထာမင်း၏ ကောင်းမှုတော် လောကနန္ဒာစေတီ၊ ပိဋကတ်တိုက်တော်၊ ဇာတ်နိပါတ်တော်များ သရုပ်ဖော်ထားသည့် ရုပ်ကြွအင်္ဂတေချပ်၊ စဉ့်ချပ် တို့ဖြင့် မွမ်းမံချယ်လှယ်ထားသော ဖက်လိပ်ဘုရား နှစ်ဆူနှင့် နရသီဟပတေ့၏ ကုသိုလ်ဖြစ်သော မင်္ဂလာစေတီတော်၊ ကျန်စစ်မင်းကောင်းမှုဖြစ်၍ ပုဂံခေတ် ဆေးရေးပန်းချီများဖြင့် အတွင်းနံရံတို့တွင် တင့်တယ်စွာ ခင်းကျင်းထားအပ်သော နဂါးရုံနှင့် အဘယ်ရတနာဘုရား၊ မဇ္ဈိမဒေသနှင့် လင်္ကာဒီပတို့မှ စံနမူနာယူ၍ တည်ထားသော ပုဂံမင်းအဆက်ဆက်ကောင်းမှုဖြစ်သည့် မဟာဗောဓိဘုရား၊ ဆပဒဘုရားနှင့် သဗ္ဗညု၊ ဂေါ်



ဂံ မြင်းကပါရွာရှိ ကျန်စစ်မင်းကြီး၏ ကောင်းမှုတော် အဘယ်ရတနာဘုရား



ပြန်လည် ပြုပြင်မွမ်းမံထားအပ်သော စစ်ကိုင်း ကောင်းမှုတော်စေတီ



ပုဂံ မြင်းကပါရပ်ရှိ ပြန်လည်မပြုပြင်ရသေးမီ နန်းဘုရားကို ဤသို့ ဖူးမျှော်ရသည်။



မကွေးခရိုင် တောင်တွင်းကြီးမြို့နယ် အင်းရွာကြီးအနီး ကုက္ကိုခွဲရွာ အမှတ် ၂ ကုန်းကို စံနစ်တကျ တူးဖော်ကြစဉ်



တူးဖော်ပြီးနောက် ပေါ်၍လာသော ရှေးဟောင်း အဆောက်အအုံတစိတ်တဒေသ



အနောက် ဖက်လိပ်ဘုရားမှ စဉ့်ကွင်းများ မပျက်စီးအောင် ဤသို့
ပြုပြင် စောင့်ရှောက်ထားရသည်။



ပျက်စီးမသွားရန် ထိန်းသိမ်းစောင့်ရှောက်ထားအပ်သော
ရခိုင် စစ်တွေခရိုင် မြို့ဟောင်းမြို့ရှိ ရှစ်သောင်းဘုရား



ပုဂံ မင်းနန်သူရွာ နန္ဒမညဘုရားမှ ကျောင်းလွတ်ပူဇော်ပွဲပုံ
ဆေးရေးပန်းချီ



ရှေးဟောင်း ကျောက်စာများ၊ အနုပညာလက်ရာများကို ဤသို့
မိုင်းကိုင်စက္ကူဖြင့် ထပ်ကာ ပုံတူကူးယူရသည်။



ပျက်စီးလျက်ရှိသော နန်းဘုရားအား ရှေးမူမပျက် ပြန်လည် မွမ်းမံ
ပြီးနောက် ဤသို့ ကြည်ညိုဖွယ်ရာ ဖူးမျှော်ရသည်။

တောဒပလ္လင် (ဂေါဓပလ္လင်)၊ ထီးလိုမင်းလို စသော ဘုရားပုထိုးပေါင်းမှာ (၇၁) ဆူဖြစ်လေသည်။ ရခိုင်ပြည်၌မူ စစ်တွေခရိုင် မြို့ဟောင်းမြို့တွင် မြောက်ဦးမင်းဆက် အပါအဝင် ဘုရင်များ ကောင်းမှုဖြစ်သည့် ရှစ်သောင်း၊ အံတော်၊ ဒုက္ခသိမ်နှင့် ရတနာပုံ ဘုရားများကိုင်း၊ မင်းကွန်းတွင် မြသိန်းတန်ဘုရား၊ ပုံတော်ဘုရားနှင့် ခေါင်းလောင်းကြီးကိုင်း အစိုးရထိန်းသိမ်းသော ရှေးဟောင်းအဆောက်အအုံ စာရင်းတွင် ထည့်သွင်း ထားရှိလေသည်။ ကျန်အဆောက်အအုံတို့မှာ စစ်ကိုင်း၊ မန္တလေး၊ ပခုက္ကူ၊ ကျောက်ဆည်၊ သထုံစသော မြို့နယ်များ၌ တည်ရှိလေသည်။ ကျောက်စာရုံများနှင့် ကျောက်စာတိုင်များကိုလည်း စောင့်ရှောက် ထိန်းသိမ်းထားရ၏။

ရှေးဟောင်း အဆောက်အအုံတို့ကို ပြုပြင်သည် ဆိုရာ၌ နဂိုသဘောကို ပျက်စီးဖုံးလွှမ်းခြင်းဖြစ်စေသော အသစ်မွမ်းမံပြုပြင်မှုကို လုံးဝရှောင်ကြဉ်၍၊ မူလအခြေအနေ မပျက်စီးရန် ဟန့်တားစေသော ပြုပြင်မှုကိုသာလျှင် ဆောင်ရွက်ရချေသည်။ အဆောက်အအုံတို့၏ မူလလက်ရာ မပျက်စီးရန်နှင့် ပကတိ အခြေအနေအတိုင်း အစွန့်ရှည်စွာ တည်တံ့ရန်သာ ရည်ရွယ်ချက် ရှိသဖြင့် အစိုးရထိန်းသိမ်းထားသော အဆောက်အအုံတို့မှာ ရွှေရောင်တဝင်းဝင်းဖြင့် တည်ရှိမည်ဟု မယုံမှားအပ်ချေ။ စာရင်းဝင် ရှေးဟောင်းအဆောက်အအုံနှင့် စာရင်းအပ အဆောက်အအုံများကို ရှေးဟောင်းသုတေသနဌာနက တတ်အားသမျှ လေ့လာ မှတ်တမ်းတင်ပြီးလျှင် နှစ်ချုပ် အစီရင်ခံစာများ၌၎င်း၊ သီးခြား စာစောင်များ၌၎င်း ထုတ်ဖော်ဖြန့်ချိထားလေသည်။

ရှေးဟောင်း ပစ္စည်းများကို များသောအားဖြင့် ရှေးမြန်မာမင်းတို့၏ ထီးနန်းစိုက်ရာဒေသ မြို့တော်ဟောင်းများတဝိုက်ရှိ ကျေးရွာတို့မှ ရွာသူရွာသားတို့သည် တောလည်ထွက်ယင်း၊ ချုံနွယ်ပိတ်ပေါင်း အကြိုအကြားမှ၎င်း၊ လယ်ယာထွန်ယင်း ရေကန်ရေတွင်း တူးရင်း မြေကြီးမှပေါ် ပေါက်လာ၍၎င်း တွေ့ရှိတတ်ကြလေသည်။ ရှေးဟောင်းရာဇဝင်နှင့် စပ်ဆိုင်သော ဒေသတို့၌ စံနစ်တကျ တူးဖော်၍ စူးစမ်းရှာဖွေခြင်းသည် ရှေးဟောင်းသုတေသနဌာန၏ လုပ်ငန်းတရပ်ဖြစ်လေသည်။ ဤကိစ္စ၌ ပေါ်ပေါက်တွေ့ရှိသော ဝတ္ထုပစ္စည်းနှင့်အမျှ စံနစ်တကျ တူးဖော်မှတ်တမ်းတင်ခြင်းသည်ပင်လျှင် သုတေသနပြုရာ၌ များးစွာအထောက်အပံ့ဖြစ်သောကြောင့် စံနစ်တကျတူးဖော်ရသည်ဟု ဆိုသည်။ မြန်မာနိုင်ငံ၌မူ ထိုကဲ့သို့ တူးဖော်သောနေရာများမှာ နန်းတော်ဟောင်းတည်ရာ၊ သင်္ချိုင်းဟောင်း တည်ရာ၊ ရှေးဟောင်းကျောင်းကန်ဘုရား တည်ရာ ဖြစ်သည့် ထိုစေတီပုထိုးများ ပြိုပျက်ပျောက်ကွယ်သွားသော ကုန်းပြားပြား နေရာများသာဖြစ်၍ မတူးဆွမီ အခါကပင်လျှင် သာသနာ့အဆောက်အအုံ နေရာဟောင်းအဖြစ် အသိအမှတ် မပြုတော့သည့် ကုန်းမြေတို့သာ ဖြစ်ချေသည်။ အချို့မြို့ရွာများတွင် စေတီပုထိုးဟောင်းများကို ရုပ်ရှာကုသိုလ်ပါဝင်၍ ပြင်ဆင်ကြသည့်အခါ၌ တွေ့ရှိကြသော ဌာပနာပစ္စည်းများ၊ တခါတရံ ပေါ်တော်မူ အဖြစ်တွေ့ရှိသော ဆင်းတု၊ ရုပ်တု၊ အုတ်ခွက်၊ စဉ့်ကွင်း စသည်တို့ကိုမူကား သက်ဆိုင်ရာ ဂေါပကလူကြီးများ၏ ခွင့်ပြုချက်ဖြင့် ကမ္ပည်းကျောက်စာ ဌာနက စစ်ဆေးကြည့်ရှု၍ မှတ်တမ်းတင်ပြီးလျှင်၊ ယင်းတို့၏ ဆန္ဒအတိုင်း တည်ဆောက်လျက်ရှိသောဘုရားပုထိုးတို့တွင် ဌာပနာစေလေသည်။

မြန်မာ့ ရှေးဟောင်းပစ္စည်းများ ရှာဖွေစုဆောင်းရန် အတွက် ရှေးဟောင်း မြို့တော်နေရာများဖြစ်သော တကောင်း၊ မှော်ဇာ (သရေခေတ္တရာ)၊ ပုဂံ၊ သထုံ၊ ပခုက္ကူ စသည်တို့၌ ရှေးဟောင်းသုတေသနဌာနက တူးဖော် စူးစမ်းခြင်းပြုလုပ်ရန် ရည်ရွယ်ချက် ရှိသော်လည်း အကြောင်း အမျိုးမျိုးကြောင့် မှော်ဇာ (သရေခေတ္တရာ)၊ ပုဂံမြို့နယ်နှင့် ဗိဿနိုးမြို့တဝိုက်တွင်သာလျှင် အတော်အသင့် တူးဖော် ရှာဖွေနိုင်ခဲ့လေသည်။ (ဗိဿနိုးမြို့ဟောင်း — ရှု။) သရေခေတ္တရာ မြို့ဟောင်းနေရာမှ တူးဖော် တွေ့ရှိရသော ရှေးဟောင်း ပစ္စည်းများသည် လွန်ခဲ့သော နှစ်ပေါင်း တထောင်မှ တထောင့်ငါးရာအတွင်း၌ ပေါ်ပေါက် ထင်ရှားခဲ့သော ပျူလူမျိုးတို့၏ ယဉ်ကျေးမှု အဆင့်အတန်းကို၎င်း၊ ထိုခေတ် သရေခေတ္တရာတွင် သာသနာတော် မည်မျှထွန်းကားခဲ့ပုံကို၎င်း ရည်ညွှန်းပြသသော သာဓကပစ္စည်းများ ဖြစ်လေသည်။ ကျောက်မျက်ရတနာအမျိုးမျိုးဖြင့် သီကုံးထားသော လည်ဆွဲပုတီးများ၊ ငွေလက်စွပ်များ၊ ရွှေလက်စွပ်များ၊ ရွှေခွက်ယပ်များ၊ ငွေကြာပန်းများနှင့် ငွေဒင်္ဂါးများ ပေါ်ပေါက်တွေ့ရှိရသည်ကို ထောက်ခြင်းဖြင့် ထိုခေတ်က ပျူလူမျိုးတို့၏ ဝတ်စားဆင်ယင်မှု အဆင့်အတန်းကို သိရှိနိုင်၏။ ပျူသင်္ချိုင်းများမှ အရိုးအိုးများနှင့် သံမှိုများကို တွေ့ရှိခြင်းအားဖြင့် ယင်းတို့၏ သင်္ဂြိုဟ်ပုံလေ့များကို ရိပ်စားမိနိုင်၏။ မင်းမျိုးမင်းနွယ်တို့၏အရိုးအိုးများတွင် နတ်ရှာစံ သက္ကရာဇ်နှင့် တကွ ဘွဲ့အမည်များကို ကမ္ပည်းရေးထိုးထားခဲ့သဖြင့် ဝိကြမမင်းဆက် အုပ်စိုးသွားကြောင်းကိုလည်း သိရ၏။ ကျောက်ဆင်းတု၊ ကြေးဆင်းတုမှစ၍ အမျိုးမျိုးသော ဗုဒ္ဓဝင်ရုပ်ကြွ အုတ်ခွက်များကို တွေ့ရှိရသဖြင့်လည်း ထေရဝါဒ ဗုဒ္ဓသာသနာတော် ထွန်းကားခဲ့ကြောင်း ထင်ရှား သိသာလေသည်။ ထိုမျှ မကသေးဘဲ ရွှေပြားများပေါ်၌ ပေါင်းကြွအောင် ထုလုပ်စီကုံးထားသော ရွှေပေစာများကိုလည်း သရေခေတ္တရာမြို့ဟောင်းမှ တွေ့ရှိရလေသည်။ ယင်းရွှေပေစာ၏ ကမ္ပည်းအက္ခရာများသည် အိန္ဒိယ တောင်ပိုင်းတွင် ခရစ်နှစ် ၆၀၀ မှ ၇၀၀ ကျော်ခန့်က အသုံးပြုသော ကဒံဗအက္ခရာများ ဖြစ်ကြ၏။ အရေးအသားတို့သည်ကား ပါဠိပိဋကတ်တော်များမှ

ကောက်နုတ်ချက်များ ဖြစ်လေသည်။ အရိုးအိုး စာများနှင့် အချို့သော အုတ်ခွက်စာတို့မှာကား ပျူဘာသာကို အဆိုပါ အက္ခရာအရေးအသားမျိုးဖြင့် ကမ္ပည်းရေးထိုးခြင်း ဖြစ်လေသည်။ ထိုခေတ်က ပျူလူမျိုးတို့သည် ပေထက်အက္ခရာ၊ ကျောက်ထက်အက္ခရာတို့ဖြင့် ရေးသား မှတ်တမ်းတင်ခြင်း ဓလေ့၌ ရင့်ကျက်လျက် ရှိနေသည်ကို ချင့်ချိန်ယူဆနိုင်လေသည်။

ပုဂံမြို့နယ် တပိုက်မှ တူးဖော် တွေ့ရှိရသော ရှေးဟောင်းပစ္စည်းများမှာကား များသောအားဖြင့် သာသနာနှင့်သက်ဆိုင်သော ဆင်းတုရုပ်ပွားတော်များ၊ စေတီငယ်များ၊ ဗုဒ္ဓဝင်အုတ်ခွက်၊ စဉ့်ကွင်း၊ ကျောက်ချပ်များသာ ဖြစ်လေသည်။ ကျောက်ချပ်၊ စဉ့်ကွင်းများမှ ရုပ်ကြွတို့သည် ရှေးခေတ် သုခုမ အနုပညာလက်ရာကို ဖော်ပြသည်သာမက၊ ဆင်ယင် ထုံးဖွဲ့မှုကိုလည်း ပေါ်လွင် စေလေသည်။ ဇာတ်တော်အမည်နှင့် အကြောင်းအရာများကို မွန်ဘာသာဖြင့်ရင်း၊ မြန်မာဘာသာဖြင့်ရင်း ရေးထိုး ထားကြခြင်းကြောင့် သက်ဆိုင်ရာ ခေတ်၏ ကမ္ပည်းအက္ခရာရေးထုံးကိုလည်း လေ့လာနိုင်လေသည်။ အုတ်ခွက် ဘုရားများကိုလည်း သဏ္ဌာန်အမျိုးမျိုး၊ ကမ္ပည်းစာသား အမျိုးမျိုးနှင့်တကွ တွေ့ရှိရ၏။ အနော်ရထာမင်း၏ကောင်းမှုဖြစ်သော အုတ်ခွက်များတွင် "ယေ ဓမ္မာ ဟေတုပ္ပဘဝါ" မဟာရာဇ သိရီ အနိရုဒ္ဓဒေဝေန ကတော ဝိမုတ္တတ္ထံ သဟတ္ထတ္ထံ သဟတ္ထေ နေဝါတိ" ဟူသော စာကြောင်း ပါရှိလေသည်။

အခြားသော ဒေသများ၌ ရှာဖွေ တွေ့ရှိရသော ရှေးဟောင်း ပစ္စည်းများသည်ကား အထက်၌ ဖော်ပြပြီးသော သာသနာဆိုင်ရာ ပစ္စည်းမျိုးအပြင်၊ ကြေးကရား၊ မြေကရား၊ အိုးခြမ်းပဲ့များ၊ကြေးမုံ၊ဆေးတံများ၊ဒင်္ဂါးများစသည်တို့ဖြစ်လေသည်။ ရှေးဟောင်းသုတေသနဌာနမှ တွေ့ရှိစုဆောင်းခဲ့သော ရှေးဟောင်းပစ္စည်းများအနက် ပျက်လွယ် ပျောက်လွယ်သောပတ္တုပစ္စည်းများမှလွဲ၍ အခြားသောရှေးဟောင်းပစ္စည်းတို့ကို ရွေးချယ်ကာ တွေ့ရှိသောဒေသများအနီးတွင်ပင် ပြတိုက်ငယ်များ၌ ခင်းကျင်း ပြသထား၏။ ယင်းပြတိုက်များသည် မှော်ဇာ၊ ပုဂံ၊ စစ်တွေခရိုင် မြို့ဟောင်းမြို့တို့၌ ကာလကြာမြင့်စွာကပင် တည်ရှိခဲ့၍ မန္တလေးမြို့၌လည်း ဒုတိယ ကမ္ဘာစစ်မဖြစ်မီက နန်းတော် တောင်စမုတ်အနီး ကန်ငယ်အုတ်တိုက်တွင် ဖွင့်လှစ်ပြသထားလေသည်။ ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်ချိန်မှစ၍ များစွာသော ရှေးဟောင်း ပစ္စည်းတို့ကို လုံခြုံသော နေရာများ၌ လျှို့ဝှက်စွာ သိမ်းဆည်းထားကာ ပြတိုက်ငယ်များကိုလည်း ပြန်လည်မဖွင့်လှစ်ဘဲ ထားခဲ့လေသည်။ မကြာမီကမှ အချို့သော သရေခေတ္တရာ ခေတ်နှင့် သက်ဆိုင်သည့် ရုပ်ပွားတော်များ၊ ရွှေပေလွှာများ၊ ရှေးဒင်္ဂါးများ စသည်တို့ကို အများပြည်သူတို့ ဖူးမျှော်ကြည်ညိုနိုင်ရန် ရန်ကုန်မြို့သီရိမင်္ဂလာကုန်း ကမ္ဘာ့အေးစေတီ၌ ကိန်းဝပ်စံပယ်နိုင်ရန် ရှေးဟောင်းသုတေသန ဌာနက ခေတ္တ လွှဲအပ်ထားသည်။ ရန်ကုန်မြို့ နိုင်ငံတော်ပြတိုက်ကြီး တည်ထောင်ဖွင့်လှစ်နိုင်သည့် အခါတွင် တစုတပေါင်းတည်း ခင်းကျင်း ပြသနိုင်ရန် ရည်ရွယ်ထားလေသည်။

မြန်မာနိုင်ငံ၌ တွေ့ရှိသော ရှေးဟောင်း ကျောက်စာများသည် မော်ကွန်း စာတမ်းများ ဖြစ်သည့်အလျောက် သမိုင်းအထောက်အထားအတွက် များစွာ အဖိုးထိုက်လှပေသည်။ ထိုမျှသာမက ဤကျောက်စာများကို ဖတ်ရှု၍ တိုင်းရင်းသားတို့၏စာပေ ပေါက်ပွား ထွန်းကားလာပုံ၊ တိုင်းရင်းသား ဘာသာရပ်များ၏ စကား အသုံးအနှုန်း ဝေါဟာရ ကျယ်ပြန့်တိုးတက်လာပုံတို့ကို ကောင်းစွာ လေ့လာနိုင်လေသည်။ ရှေးအခါက အလှူတဖြာ ကျောက်စာ တချပ်ဟု ဆိုရလောက်အောင် ကောင်းမှုကုသိုလ်ပြုသမျှကို မော်ကွန်း တင်လေ့ ရှိရာ ထိုကျောက်စာတို့ကို ဖတ်ရှုလေ့လာခြင်းဖြင့် နိုင်ငံတော်တွင် သာသနာ မည်သို့ ထွန်းကားနေသည်ကို ကောင်းစွာ သိရ၏။ မင်း မိဖုရား မှူး မတ်နှင့် ဆင်းရဲသားများပါ ဘုရားတည် ကျောင်းဆောက်၍ လယ်ယာကျွန်သီး လှူဒါန်းပုံနှင့် ဝတ္ထုပစ္စည်း အသုံးအနှုန်းမှစ၍ လုပ်ငန်း ဆောင်တာ အဝဝတို့ကို ထည့်သွင်း ဖော်ပြလေ့ရှိသဖြင့် ရှေးခေတ်လူနေမှုအဆင့်အတန်းကို ထင်ရှား သိသာစေလေသည်။ ဤသို့အားဖြင့် လွန်ခဲ့သော နှစ်ပေါင်း တထောင်ကျော်မှစ၍ ပြည်ထောင်စုသားတို့၏ စီးပွားရေး၊ အုပ်ချုပ်ရေး၊ ပေါင်းသင်း ဆက်ဆံရေး၊ အနုပညာ တတ်ကျွမ်းမှု စသည်တို့ကိုပါ သမိုင်းပြုစုရန်အတွက် အချက်အလက်များ ထုတ်ယူနိုင်သဖြင့် ရှေးဟောင်းကျောက်စာများသည် သမိုင်း မှတ်တမ်းကြီးများ မုချစင်စစ် ဖြစ်ချေသည်။

ရှေးဟောင်းသုတေသနဌာနက ရှာဖွေမှတ်သားကာ စာရင်းတင်ပြီးသော ရှေးဟောင်း ကျောက်စာအချပ်ရေ တထောင့်ငါးရာကျော်အနက်တွင် မြန်မာဘာသာ မြန်မာအက္ခရာဖြင့် ရေးထိုးထားသောကျောက်စာများမှာ အရေအတွက် အများအပြားဆုံး ဖြစ်လေသည်။ ရှေး အကျဆုံးသော ကမ္ပည်းစာသားများမှာ ပျူစာပင်ဖြစ်၏။ သို့သော် ပျူစာပါရှိသော ကျောက်ပြား ကျောက်ချပ် အရာဝတ္ထုတို့ကို များစွာ မတွေ့ရှိရချေ။ တွေ့ရသမျှ အနက်တွင်လည်း (မြစေတီကျောက်စာ ပျူမျက်နှာမှလွဲ၍) အကြောင်းအရာ မပြည့်မစုံသော စာတမ်းအတိုအထွာများနှင့် မှေးမှိန်ပျက်စီးနေသော ကျောက်စာများသာ ပါဝင်လေသည်။ ထိုကြောင့် ယခုအချိန်ထိ ပျူဝေါဟာရစကားရပ်ပေါင်း နှစ်ရာခန့်မျှကိုသာ မှတ်သား၍ အဓိပ္ပါယ်ဖော်ယူနိုင်လေသည်။ သရေခေတ္တရာ မြို့ဟောင်းမှ တွေ့ရှိသော ပျူစာများမှာ အရိုးအိုးလေးခု၏ နှုတ်ခမ်းပတ်လည်တွင် ရေးထိုးထားသော ဝိကြမ အဆက်

အနွယ် လေးဦး၏ ကံကုန်သက္ကရာဇ် စာတမ်းလေးကြောင်း၊ အုတ်ခွက် သုံးခု၏ ကျောဖက်မှ စာတမ်းအတိုအထွာနှင့် မှေးမှိန်၍ ဖတ်ရှုမရနိုင်သော ကျောက်စာ သုံးချပ်၊ ကျောက်ဆင်းတုတော်တဆူ၏ ပလ္လင်ပတ်လည်တွင် သက္ကတဘာသာ ဂါထာကို ပျူဘာသာဖြင့် နိဿယပြန်ထားသော ကျောက်စာတို့ဖြစ်၏။ ပျူကျောက်စာများ တွေ့ရှိရသော အခြားဒေသတို့မှာ ရွှေဘိုနယ် ဟန်လင်းမြို့မှ ထင်ရှားသောကျောက်စာနှစ်ချပ်နှင့် မှေးမှိန်နေသော ကျောက်စာတချပ်၊ ပုဂံမြို့ သရဖာတံခါး အနီးမှ တွေ့ရှိသော မထင်မရှား စာသားပါရှိသည့် ကျောက်စာတချပ်နှင့် အမရပူရမြို့၌ ဘိုးတော်ဘုရား စုဆောင်းထားခဲ့သော ကျောက်စာများတွင် အပါအဝင်ဖြစ်၍ ယခုအခါ မန္တလေးမြို့တွင်း ကျောက်စာရုံတွင် တည်ထားသော မှေးမှိန်နေသည့် ကျောက်စာတချပ်တို့ ဖြစ်လေသည်။ ပုဂံမြို့ မြင်းကပါ (မြင်းပုဂံ) အရပ်၌ တွေ့ရှိသော လေးမျက်နှာအပြည့် စာသားပါသည့် မြစေတီကျောက်တိုင်၏ တဖက်သောမျက်နှာမှ ပျူဘာသာကျောက်စာသည် ကား သက္ကရာဇ်ကိုလည်း ဖော်ပြထား၏။ အကြောင်းအရာနှင့်လည်း ပြည့်စုံ၏။ ထိုမှတပါး စာသားများ ဖတ်ရှု၍ ဖြစ်နိုင်အောင် ကောင်းမွန်စွာ တည်တံ့နေသည်လည်း ဖြစ်သောကြောင့် ပျူဘာသာစကားနှင့် အက္ခရာ အရေးအသား သုတေသန အတွက် ကျေးဇူး အများဆုံးသော ပျူကျောက်စာ ဖြစ်ချေသည်။

သက္ကတဘာသာကို နာဂရီအက္ခရာဖြင့် ရေးထိုးထားသော ကျောက်စာ များသည်လည်း ရှေးကျသည်သာ များ၏။ သရေခေတ္တရာမှ ဗုဒ္ဓဝင် အုတ်ခွက်များနှင့် ပုဂံမြို့နယ်တဝိုက်မှ ဗုဒ္ဓဝင် အုတ်ခွက်များ ပေါ်တွင် ရှင်သာရိပုတ္တရာလောင်းအား ရှင်အဿဇိထေရ် ဟောတော်မူခဲ့သော ယေ ဓမ္မာ ဟေတုပ္ပဘဝါ အစဖြာသော ဂါထာကို နာဂရီအက္ခရာဖြင့် တွေ့ရ၏။ မှော်ဇာမှ ကျောက်ရုပ်ပွားတော် တဆူ၏ ပလ္လင်ပတ်လည်တွင် တွေ့ရသော ပျူဘာသာ နိဿယနှင့် တကွသော သက္ကတ ကမ္ဗည်းစာများမှာကား မှေးမှိန်၍ ဖတ်ရှုမရနိုင်သေးချေ။ ဤကမ္ဗည်းစာမျိုး အများဆုံး တွေ့ရှိရသည့် ဒေသမှာ ရခိုင်တိုင်းပင် ဖြစ်၏။ ထိုနယ်ပယ်တွင် ကောဇာ သက္ကရာဇ် ၄၀၀ မတိုင်မီကရေးထိုးထားသည်ဟု အထောက်အထား ပြုနိုင်သော သက္ကတကျောက်စာ ငါးခုမျှတွေ့ရလေသည်။ ယင်းအနက် စိတ်ဝင်စားဖွယ်ရာ အဖြစ်ဆုံးနှင့်အရှည်လျားဆုံးမှာ မြို့ဟောင်းမြို့ ရှစ်သောင်းဘုရားတွင် တည်ရှိသော စာကြောင်းရေ ၁၀၀ ကျော်ပါရှိသည့် ကျောက်စာ ဖြစ်၏။ ရခိုင်ပြည်၌ စန္ဒြမင်းဆက် အုပ်ချုပ်သွားကြောင်းကို လင်္ကာဖြင့် မော်ကွန်း တင်ထားခြင်း ဖြစ်လေသည်။

ရှေးအကျဆုံးသော မြန်မာ ကျောက်စာများမှာ မြန်မာ သက္ကရာဇ် ၄၀၀ ကျော်၌ ရေးထိုးထားသည်ကိုသာ တွေ့ရသေး၏။ ယင်းတို့အနက် အရေးပါ အသုံးဝင်ဆုံးသော ကျောက်စာမှာ မြစေတီဟု တွင်နေသော ကူပြောက်ကြီး ကျောက်စာပင် ဖြစ်၏။ (မြစေတီကျောက်စာ — ရှု။) ထိုကျောက်စာကို ကျန်စစ်သား နတ်ရွာစံပြီးနောက် ယင်း၏ သားတော် ရာဇကုမာရ်မင်းသားက မြန်မာ၊ မွန်၊ ပါဠိနှင့်ပျူ ဘာသာလေးမျိုးဖြင့် သက္ကရာဇ် ၄၇၄ ခုတွင် ရေးထိုးမှတ်တမ်း တင်ခဲ့ခြင်းဖြစ်၍ သမိုင်းဝင် ဗဟုသုတ၊ ဘာသာဗေဒ ဗဟုသုတ စသည်အတွက် များစွာ အကျိုးများစေတော့သည်။ ကမ္ဗည်းစာလေးမျိုးဖြင့် အကြောင်းအရာ တရပ်တည်းကို စီကုံးရေးသားထားသဖြင့်တဘာသာနှင့်တဘာသာကို ညှိနှိုင်းကာ ပုဂံခေတ်ဦးက ထိုဘာသာလေးမျိုး၏ ဝေါဟာရ ထူးခြားချက်များနှင့် အက္ခရာအရေးအသား ထူးခြားချက်များကို လေ့လာ သိရှိနိုင်လေသည်။ မြန်မာနိုင်ငံ အနှံ့အပြား၌ မြန်မာရှေးဟောင်းကျောက်စာများကို တွေ့ရှိရသော်လည်း ပုဂံနယ်တဝိုက်လောက် မများပြားချေ။ အမရပူရ ပဋမမြို့တည် နန်းတည် ဘိုးတော်မင်းတရားက အရပ်ရပ်မှ မူလကျောက်စာတိုင်များကို စုဆောင်းခဲ့သဖြင့် အမရပူရနှင့် စစ်ကိုင်းတွင်လည်း အစုလိုက် တွေ့ရှိရ၏။ ယခုအခါ အမရပူရမှ ကျောက်စာတိုင်များကို မန္တလေး နန်းမြို့တွင်း၌ ရုံသစ်များသို့ ရွှေပြောင်းစိုက်ထူထားပြီး ဖြစ်လေသည်။

ရှေးဟောင်း ကမ္ဗည်းစာပေများအနက် မွန်ဘာသာဖြင့် အရေးအသား များကိုလည်း အတော်အတန် တွေ့ရ၏။ သက္ကရာဇ် ၄၀၀ ကျော်မှ ကျောက်စာများမှာ ပြည်မြို့ ရွှေဆံတော်ဘုရားမှ ကျန်စစ်သား ရေးထိုး စိုက်ထူထားသော ကျောက်စာ၊ ပုဂံ မြစေတီကျောက်စာ၊ သရဖာတံခါး အနီးမှ တွေ့ရှိရသော ကျန်စစ်သား၏ နန်းတည်ကျောက်စာ၊ မြကန်နှင့် အလံ ပုဂံကျောက်စာ စသည်တို့တည်း။ သက္ကရာဇ် ၇၀၀ ကျော်က ဓမ္မစေတီမင်း ကောင်းမှုဖြစ်သော ကလျာဏီ သိမ်တော် ကျောက်စာများသည်လည်း မွန်ဘာသာနှင့် ဖြစ်လေသည်။ ထိုမျှသာမက ညောင်ဦးမြို့ ရွှေစည်းခုံ ဘုရားအတွင်းတွင် ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရား လှူဒါန်းခဲ့သော ကြေးခေါင်းလောင်းပေါ်တွင် မွန်ကမ္ဗည်းစာပါရှိ၍ ကျောက်ဆည်၊ သထုံ၊ မော်လမြိုင်၊ ကျိုက်မရောနှင့် ပုသိမ်မြို့များတွင်လည်း မွန်ကျောက်စာတချပ်စီ တည်ရှိလေသည်။

ပါဠိစာသား အပြည့်ဖြစ်သော ကျောက်စာချပ် ဦးရေသည် မများလှသော်လည်း မြန်မာစာနှင့် တွဲဖက်၍သော်၎င်း၊ မြန်မာကျောက်စာများကို ပါဠိစာကြောင်းများဖြင့် အချီး နိဒါန်း ရေးသားထားသည်ကို၎င်း အတော်အတန် တွေ့ရှိနိုင်လေသည်။ ပုဂံပြတိုက်တွင် ဒမိဠ (တမီလ်) ဘာသာ၊ ယိုးဒယားဘာသာနှင့် တရုပ်ဘာသာတို့ဖြင့် ထိုးထွင်း ရေးသားထားသော ကျောက်စာများ တမျိုးလျှင် တချပ်စီ စုဆောင်းရရှိထားလေသည်။

ရှေးဟောင်းသုတေသနဌာနမှ ရှာဖွေတွေ့ရှိသော အရပ်ရပ်ရှိကျောက်စာများကို မင်ကူးမှုများ ကူးယူ၍၎င်း၊ တိုက်ရိုက်ကူးယူရေးမှတ်၍၎င်း၊ ဓာတ်ပုံရိုက်ကူး၍၎င်း စုံလင်စွာ စုဆောင်းပြီးလျှင် အက္ခရာပြန်၊ ဘာသာပြန် ရေးသားကာ မှတ်တမ်း တင်ထား၏။ ယင်းကျောက်စာများကို အစဉ်အတိုင်း ကူးယူရေးသား၍ စာအုပ်ကြီး ခြောက်အုပ်မျှ ပုံနှိပ်ပြီးလေသည်။ မြစေတီ ကျောက်စာနှင့် မွန်ကျောက်စာအချို့တို့ကိုမူ မြန်မာနိုင်ငံကျောက်စာများ စာစောင်တွင် အုပ်တွဲ(၄) အထိ တည်းဖြတ်ထုတ်ဝေ ဖြန့်ချိခဲ့လေသည်။ ရန်ကုန် တက္ကသိုလ်ကလည်း တိုင်းရင်းဘာသာ ကျောက်စာများဟူသော အမည်ဖြင့် အတွဲကြီးငါးတွဲ ပြုလုပ် ထုတ်ဝေပြီး ဖြစ်သည်။ နှစ်စဉ် ထုတ်ဝေသော ဌာနဆိုင်ရာ နှစ်ချုပ်အစီရင်ခံစာများတွင်လည်း အသစ် ထပ်မံ တွေ့ရှိသော ကျောက်စာများကို ဖော်ပြလေ့ ရှိလေသည်။

**ဦးလှမေဝင်း**

**မြန်မာနိုင်ငံ လူထုပညာရေး။** ။ပြည်ထောင်စု မြန်မာနိုင်ငံသည် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် အချုပ်အချာအာဏာပိုင် လွတ်လပ်သောနိုင်ငံ အဖြစ်သို့ ရောက်ရှိခဲ့လေသည်။ ပြည်ထောင်စုအတွင်းရှိ တိုင်းရင်းသားများသည်လည်း လွတ်လပ်သော နိုင်ငံသား အဖြစ်ကို ရခဲ့ကြသည်။ ထိုအခါ၌ တိုင်းသူ ပြည်သားတို့သည် နိုင်ငံသားအဖြစ် ရရှိသော အခွင့်အရေးနှင့် တာဝန်ဝတ္တရားများကို သိဖို့ လိုလာလေသည်။ လွတ်လပ်သော နိုင်ငံသား တယောက်အဖြစ် ရရှိသော အခွင့်အရေးများ ပိုလာသည်နှင့်အမျှ တိုင်းပြည်အကျိုးကိုရှေးရှု၍ပြုအပ်သောတာဝန်ဝတ္တရားများ ပိုလာကြောင်းကိုလည်း လူတိုင်း သိဖို့ လိုလာသည်။ ထိုသို့အားဖြင့် စည်ပင် ဝပြောသော ပြည်ထောင်စုအဖြစ် တည်တံ့နိုင်မည်ဖြစ်သည်။

ထို့ကြောင့် ၁၉၄၈ ခုနှစ်၌ပင် နိုင်ငံတော်အစိုးရက လူထုပညာရေး ကောင်စီ ဥပဒေကြမ်းကို ပါလီမန် လွှတ်တော်၌ တင်၍ သဘောတူ အတည်ပြုခဲ့လေသည်။ နိုင်ငံတော် သမတကလည်း ၁၉၄၈ ခုနှစ် နိုဝင်ဘာလ ၄ ရက်နေ့တွင် ထိုဥပဒေကြမ်းကို သဘောတူ လက်မှတ် ရေးထိုးသည်။ ၁၉၄၉ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ပြန်ကြားရေးဌာန ဝန်ကြီး ဦးထွန်းဖေ ဦးဆောင်သည့် လူထုပညာရေး ကောင်စီကို ပဌမဦးဆုံး ဖွဲ့စည်းခဲ့သည်။ထိုကောင်စီအဖွဲ့သည် လူထုပညာရေး စီမံကိန်းကို စီစဉ် ရေးဆွဲ၍ လက်တွေ့ အကောင်အထည် ဖော်ရမည် ဖြစ်သည်။ သို့သော် လူထု ပညာရေး စီမံကိန်းကို ပြည်ထောင်စုအတွင်း၌ ကျယ်ကျယ် ပြန့်ပြန့် ထိထိရောက်ရောက် ဆောင်ရွက်နိုင်ရန် ထိုကောင်စီအဖွဲ့ကို အချိန်အခါ အားလျော်စွာ ပြင်ဆင် ဖြည့်စွက်ဖို့ လိုလာလေသည်။ ထို့ကြောင့် ဒေသအလိုက် ကိုယ်စားလှယ်များနှင့် သက်ဆိုင်ရာ အစိုးရဌာနအလိုက် ကိုယ်စားလှယ်များ ကိုလည်း ပါဝင်စေလျက် ကယ်ဆယ်ရေး၊ ပြန်လည်နေရာချထားရေးနှင့် လူမှုဝန်ထမ်းဌာန ဝန်ကြီး ဦးဘစော ဦးဆောင်သည့် ကော်မီတီအဖွဲ့သစ်ကို ဖွဲ့စည်းရလေသည်။ လူထုပညာရေးကောင်စီ၏ လုပ်ငန်းစဉ်များမှာ (၁) ၇၀ ရာခိုင်နှုန်းရှိသော တောနေလူထု၏ အခြေခံပညာ တိုးတက်ရေး၊ (၂) ကျန်းမာရေး၊ (၃) စီးပွားရေး၊ (၄) စုပေါင်းနေထိုင်လုပ်ကိုင်ရေးတို့ကို ဖွံ့ဖြိုးအောင် ဆောင်ရွက်ပေးရန် ဖြစ်လေသည်။

လူထု ပညာရေး စီမံကိန်း အရ တောလက် ကျေးရွာများတွင် အမှုထမ်းရန် လူထုပညာရေးမှူးများကို ခန့်ရသည်။ လူထု ပညာရေးမှူးအဖြစ် အမှုထမ်းလိုသူများသည် အပြိုင်စာမေးပွဲကို ဝင်ရောက် ဖြေဆိုကြရသည်။ နှုတ်မေးခွန်းများကိုလည်းဖြေဆိုကြရသည်။အရွေးချယ်ခံရသူများသည်လူထုပညာရေးနှင့် သက်ဆိုင်သော ပညာရပ်များကို ခြောက်လမျှ သင်ကြား လေ့လာရသည်။ အဌမပတ် သင်တန်းမှ အစပြု၍ သင်တန်းအချိန်ကာလကို တနှစ်သို့ တိုးမြှင့်ပြီးလျှင်၊ ထိုအချိန်ကာလ အနက် လေးလမှာ တောလက်ကျေးရွာ၌ လက်တွေ့လုပ်ငန်း ဆောင်ရွက်ရန် ဖြစ်သည်။ လူထုနှင့် ပွန်းပွန်းတီးတီး နေထိုင် လုပ်ကိုင်ရသော ရာထူးဖြစ်သောကြောင့် သင်တန်း တက်လိုသူများကို လိုအပ်သော ပညာ အရည်အချင်း ရှိ၊ မရှိ စစ်ဆေးရုံမျှမက နယ်သို့ဆင်း၍ လူထုအကျိုးအတွက် ဆောင်ရွက်ရန် စိတ်ထက်သန်မှု ရှိ၊ မရှိကိုလည်း စစ်ဆေးသည်။ ၁၉၄၉ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် ပဌမဦးဆုံး သင်တန်းကို ရန်ကုန်မြို့၊ ဦးဝိစာရလမ်းရှိ ဂူဂျရတ္တိကျောင်း၌ ဖွင့်လှစ်ခဲ့လေသည်။ ပဥ္စမပတ် သင်တန်းတွင် အမျိုးသမီး လူထုပညာရေးမှူးများအတွက် သင်တန်းကိုလည်း တွဲ၍ ဖွင့်ခဲ့သည်။

သင်တန်းအတွက် အဓိက သင်ရိုး ဘာသာရပ်များမှာ (၁) လူထုပညာရေး သဘောတရား၊ (၂) ဝန်ထမ်း လုပ်ငန်း၊ (၃) မြန်မာမှု၊ (၄) ဒီမိုကရေစီ၊ (၅) သက်ကြီး ပညာရေး၊ (၆) ကျန်းမာရေးနှင့် ကျေးရွာသန့်ရှင်းရေး၊ (၇) ကျေးရွာစီးပွားရေး၊ (၈) ကျေးရွာ ထူထောင်ရေး၊ (၉) ကိုယ်လက်ကြံ့ခိုင်ရေးနှင့် ကစားခုန်စား၊ (၁၀) အိမ်တွင်းမှု လုပ်ငန်းများ၊ (၁၁) ကမ္ဘာ့သမိုင်းနှင့် ကမ္ဘာ့ရေးရာ၊ (၁၂) အစိုးရဌာနများအကြောင်း စသည်တို့ ဖြစ်သည်။ အမျိုးသမီးများအတွက်မူ အထက်ပါ ပညာရပ်များအပြင်၊ အိမ်သူနီတိနှင့် အိမ်သူ့သိပ္ပံ ပညာရပ်များကိုပါ လက်တွေ့ စာတွေ့ သင်ပြပေးသည်။ သင်တန်းတွင် သန့်ရှင်းစင်ကြယ်ရေးနှင့် စည်းကမ်း သေဝပ်ရေးကို အဓိက ထားသည်။ သင်တန်းတက် ကျောင်းသူကျောင်းသားများသည် လူထုပညာရေး

နှင့် ဆိုင်သည့် သဘောတရားသင်ခန်းစာများအပြင်၊ သူနာပြုအတတ်၊ ဟင်းသီး ဟင်းရွက် စိုက်ပျိုးခြင်းအတတ်၊ တိရစ္ဆာန် မွေးမြူခြင်း အတတ်၊ ဇာထိုးအတတ်နှင့် စက်ချုပ်အတတ်၊ ရက်ကန်းအတတ်၊ ကင်းထောက်လုပ်ငန်း၊ မီးသတ်လုပ်ငန်း၊ ကျေးရွာလူထု၏ နေရေး၊ စားသောက်ရေးနှင့် စပ်လျဉ်း၍ အချက်အလက် စုဆောင်းသည့်လုပ်ငန်း စသည်တို့ကိုလည်း လက်တွေ့ လုပ်ကိုင်ကြရသည်။ ထို့ပြင်ကိုယ်လက်ကြံ့ခိုင်ရေးအတွက် လေ့ကျင့်ခြင်း၊ စာပေလေ့လာခြင်း၊ ဆွေးနွေးခြင်း၊ သုခုမအနုပညာရပ်များကို လေ့လာလိုက်စားခြင်း၊ ဥပုသ် သီတင်း ဆောက်တည်ခြင်းနှင့် သက်ကြီး ဝါကြီးတို့အား ပူဇော်ကန်တော့ခြင်း အစရှိသည့် ရှေးရိုး အစဉ်အလာတို့ကို ထိန်းသိမ်းခြင်း စသည်တို့ကိုလည်း သင်ကြားဆည်းပူးရသည်။ ထိုသို့အားဖြင့် လူထုပညာရေးမှူးများသည် ပြည်ထောင်စုအတွင်း ပညာ အလင်းရောင်ခြည်ကို တောကြို တောင်ကြား မြို့စွန် ရွာဖျားသို့ ရောက်အောင် ပို့ဆောင်ပေးရမည့်သူများ ဖြစ်လာလေသည်။ ပဌမပတ် သင်တန်းမှစ၍ သတ္တမပတ်သင်တန်းအထိ ပြည်မနှင့် ပြည်နယ်များမှ သင်တန်းအောင်မြင်ပြီးသော အမျိုးသား ၆၀၄ ယောက်နှင့် အမျိုးသမီး ၁၁၈ ယောက် ပေါင်း ၇၂၂ ယောက် ရှိလေသည်။

"လူသစ်တည်၍၊ ပြည်သစ်ဆောက်အံ့" ဟူသော ဆောင်ပုဒ်ဖြင့် သင်တန်းမှ ဆင်းလာသော လူထုပညာရေးမှူးများသည် မိမိတို့ အသီးအသီး တာဝန်ကျရာ ကျေးရွာများသို့ သွားရောက်၍၊ ကျေးရွာလူထုနှင့် အတူ နေထိုင်လျက် ပညာပေးလုပ်ငန်းကို စတင်ဖော်ထုတ်ကြရလေသည်။ ထိုကဲ့သို့ အတူနေ အတူစားခြင်းအားဖြင့် ကျေးရွာ လူထု၏ ယုံကြည်မှုကိုငင်း၊ ကူညီမှုကိုငင်း ရရှိနိုင်သည်။ လူထုပညာရေးမှူးများကိုယ်တိုင်ကလည်း လူထုက စံနမူနာယူနိုင်လောက်အောင် အနေအထိုင် အပြောအဆို ကျစ်လစ်ပြေပြစ်ရပေမည်။ မကြာမီ ကျေးရွာများတွင် လူထုဌာနများ၊ စာဖတ်ခန်းများနှင့် စာမတတ်သူ ပပျောက်ရေးအတွက် သက်ကြီးသင်တန်းများဟူ၍ ပေါ်ပေါက်လာလေသည်။

၁၉၅၀ ပြည့်နှစ် စက်တင်ဘာလတွင် လူထုပညာရေးကောင်စီက ကြီးကြပ်၍၊ လူထုပညာ လစဉ် စာစောင်ကို စတင် ပုံနှိပ် ထုတ်ဝေခဲ့သည်။

လူထုပညာ တံဆိပ်ကို ကြည့်ခြင်းအားဖြင့် လူထုပညာရေးကို လေးဖက်လေးတန်မှ ပြုပြင်ပေးရန် ရည်ရွယ်ကြောင်း ထင်ရှားသည်။ ထိုတံဆိပ်မှာ စက်ဝိုင်းဖြစ်၍ ကြက်ခြေမျဉ်းဖြင့် လေးစိတ် ပိုင်းထားသည်။ အပေါ်ဆုံးအကွက်တွင် ဖွင့်ထားသော စာအုပ်ပုံ ပါရှိသဖြင့် လူထုအား စာပေ တတ်မြောက်အောင် သင်ကြားပေးခြင်းဟူသော ရည်ရွယ်ချက်ကို သိနိုင်သည်။ အလယ် နှစ်ကွက်တွင် တဖက်၌ သူနာပြု ကြက်ခြေအမှတ် ရှိ၍၊ အခြားတဖက်တွင် အားကစား ကွင်းဆက်အမှတ် ရှိသည်။ ထို့ကြောင့် လူထု၏ကျန်းမာရေးနှင့် ကိုယ်လက် ကြံ့ခိုင်ရေးကိုလည်း မြှင့်တင်ပေးရန် ရည်ရွယ်ကြောင်း ထင်ရှားသည်။ အောက်ဆုံးအကွက်တွင် ထယ်ပုံပါရှိသဖြင့် ကျေးရွာလူထု၏ အဓိက အသက်မွေးဝမ်းကျောင်း လုပ်ငန်းဖြစ်သော လယ်ယာ စိုက်ပျိုးရေးလုပ်ငန်း၌ ကူညီအားပေးရန် ဟူသော ရည်ရွယ်ချက်ကို သိသာနိုင်သည်။

အထက်ပါ ရည်ရွယ်ချက်များ ပေါက်မြောက်အောင် လူထုအား ပညာပေးရာ၌ ခေတ်မီနည်းအမျိုးမျိုးကို သုံးသည်။ ပညာပေးနည်း တနည်းမှာ ကျေးရွာများ၌ ပညာရေး ရုပ်ရှင်ကားများ ပြသခြင်း ဖြစ်သည်။ ကျေးရွာ လူထုနှင့် ဆီလျော်သင့်တော်သော ရုပ်ရှင်ကားများကို အထူး စီစဉ်ရိုက်ကူး၍ ပြသရသည်။ ထိုသို့အားဖြင့် ကျေးရွာလူထု အဖို့ အပျင်းလည်းပြေ၊ ဗဟုသုတလည်း ရစေရန် ရည်ရွယ်သည်။ အခြားနည်း တနည်းမှာ လူထုပညာ သင်တန်းသားများက လစဉ် တင်ဆက်သော ရေဒီယို ပြဇာတ်များအားဖြင့် ပညာပေးခြင်းဖြစ်သည်။ ပြပွဲများ၌ လူထုပညာပြခန်း ခင်းကျင်းပြသခြင်း၊ လူထုပညာယာဉ်ဖြင့် ကျေးရွာများသို့ လှည့်လည်၍ စာအုပ်စာတမ်း ဝေငှခြင်း၊ ဆေးဝါးကုသခြင်း၊ ကျေးရွာအုပ်စုတိုင်းသို့ နယ်လှည့် စာအုပ်သေတ္တာပို့လျက် စာဖတ်ဝါသနာပါလာအောင် အားပေးခြင်း၊ စာကြည့်တိုက် ဖွင့်ခြင်း၊ စကားရည်လုပွဲနှင့် စာမေးပွဲများ ကျင်းပခြင်း စသည်တို့အားဖြင့် ကျေးရွာလူထု ပညာ ဗဟုသုတ တိုးတက်အောင် ကူညီ ဆောင်ရွက်ရလေသည်။

လူထု ကျန်းမာရေး အတွက် ဆောင်ရွက်ရာ၌ ရောဂါကာကွယ်ရေးနှင့် ကုသရေးဟူ၍ နှစ်ပိုင်း ခွဲခြားဆောင်ရွက်ရသည်။ ရပ်ရွာကို သန့်ရှင်းအောင် ထားခြင်းဖြင့် ရောဂါကို ကာကွယ်နိုင်ကြောင်း သဘောပေါက် နားလည်လာသော ကျေးရွာ လူထုသည် မိမိတို့ နေထိုင်ရာ အရပ်တွင် အမှိုက်သရိုက်ကို စုပေါင်း၍ ရှင်းလင်း သုတ်သင်ကြသည်။ လူထုပညာ ဆေးသေတ္တာများကို ကျေးရွာလူထု ဆေးခန်းသို့ ပို့ထားပြီးလျှင် ရိုးရိုးအနာရောဂါတို့ကို ကြပ်မကုသပေးသည်။ ရွာလမ်းများကိုလည်း စံနစ်တကျ ဖောက်လုပ်၍ နေအိမ်များကို သပ်ယပ်စွာ ပြန်လည် ဆောက်လုပ်ခြင်းဖြင့် ကျေးရွာ သာယာမှုရှိလာရုံမျှမက ကျန်းမာရေးနှင့်လည်း ညီညွတ်လာလေသည်။ အချို့အရပ်ရှိ ကျေးရွာတို့တွင် သောက်သုံးရန်ရေအတွက် အခက်အခဲ ရှိ၏။ ရေမသန့်သောကြောင့် ငှက်ဖျားရောဂါ၊ ဝမ်းရောဂါ အစရှိသည့် ရောဂါ ဖြစ်ပွားနိုင်သဖြင့် ရွာသူရွာသားတို့ သောက်သုံးရန် သန့်ရှင်း စင်ကြယ်သော ရေရရှိရေးမှာ အရေးကြီးသည်။ ထို့ကြောင့် လူထုပညာဌာနသည် သက်ဆိုင်ရာ အစိုးရဌာနနှင့် ပူးပေါင်း၍ ရေတွင်း ရေကန်များကို တူးခြင်း၊ ဆည်ခြင်း၊ ဖို့ခြင်း၊ အဝီစိတွင်း

များတူးခြင်းဖြင့် ကျေးရွာလူထု သောက်သုံးရန် အတွက် ရေကောင်းရေသန့် ရရှိရေး ပြဿနာကို ဖြေရှင်းပေးသည်။

အားလပ်ချိန်ကို အကျိုးရှိအောင် အသုံးချတတ်စေရန် ခြင်းလုံး ကစားခြင်း၊ ဘောလုံးကစားခြင်း၊ ဗော်လီဘော ကစားခြင်း၊ ဗတ်စကက်ဘော ကစားခြင်း စသော အသင်း အဖွဲ့ဖြင့် စုပေါင်း ကစားခြင်းများကိုဎင်း၊ တန်းမြင့်ခုန်ခြင်း၊ အပြေး ပြိုင်ခြင်းကဲ့သို့ တဦးချင်း ပြုလုပ်ရသော ပြေးခုန် ကစားခြင်းများကိုဎင်း စီစဉ်ပေးလေသည်။ ကျေးရွာတခုနှင့် တခုပြေးခုန်ကစားခြင်း၌ ပြိုင်ဆိုင်စေခြင်းအားဖြင့် ကျေးရွာ အချင်းချင်း ဆက်ဆံရေးမှာ ပိုမိုကောင်းမွန် ပြေပြစ်လာ သည်။ အမျိုးသားများအတွက် ပြေးခုန်ကစားရန် အခွင့် အရေးကို စီစဉ်ပေးသည့်နည်းတူ အမျိုးသမီးများ အတွက် လည်း စီစဉ်ပေးသည်။ ထိုသို့အားဖြင့် ကျေးရွာလူထု၏ ကျန်းမာရေးမှာ တိုးတက်ကောင်းမွန်လာလေသည်။

ကျေးရွာလူထုတွင် ဝင်ငွေတိုးလာသည်နှင့် အမျှ နေမှု ထိုင်မှု အဆင့်အတန်းလည်း တိုးတက်လာမည်ပင် ဖြစ်သည်။ ထို့ကြောင့် လူထုပညာရေး စီမံကိန်းအရ ခေတ်မှီနည်းစံနစ် များဖြင့် ထွန်ယက် စိုက်ပျိုးခြင်း၊ ကြက်ငှက် တိရစ္ဆာန်မွေး မြူခြင်း စသည်တို့အပြင် အိမ်တွင်းမှု လုပ်ငန်းများ ဖြစ်သော ဆပ်ပြာ ချက်လုပ်ခြင်း အတတ်၊ ကစားစရာ လုပ်ခြင်း အတတ်၊ အိုးခွက်လုပ်ခြင်း အတတ်၊ လက်သမား အတတ်၊ ပန်းဘဲ အတတ်တို့ကို အားလပ်ချိန်များ၌ သင်ကြား လုပ် ကိုင်၍ ဝင်ငွေတိုးလာစေ၏။

မြန်မာတို့၏ ဓလေ့ ထုံးစံနှင့် ရိုးရာ အစဉ်အလာများကို လည်း မပျောက်ကွယ်စေရန် ရည်ရွယ်၍ "ဗုဒ္ဓဝေယျာဝစ္စ" အသင်းများ ဖွဲ့လျက် သီတင်းနေ့များ၌ ဥပုသ်ဆောက်တည် ခြင်း၊ ဆွမ်းလောင်းခြင်းတို့ကို ပြုလုပ်ကြသည်။ မင်္ဂလသုတ် စာမေးပွဲများ ကျင်းပခြင်း၊ မေတ္တာသုတ်ကို ရွတ်ခြင်း စ သော တရားရေးဆိုင်ရာ အားထုတ်မှုကိုလည်း ဦးဆောင် ပြု လုပ်ကြသည်။ အယူဝါဒရေး ဆိုင်ရာ နေ့ကြီး ရက်ကြီးများ၌ တရွာလုံး စုပေါင်း၍ သက်ကြီးဝါကြီးတို့အား ပူဇော်ခြင်း၊ ညောင်ရေ သွန်းလောင်းခြင်း၊ ဆီမီးထွန်းခြင်း အစရှိသည့် ကုသိုလ်ကောင်းမှုများကို ပြုလုပ်ကြသည်။ အမျိုးသားရေး နှင့် ဆိုင်သော လွတ်လပ်ရေးနေ့၊ ပညာတံခွန်နေ့၊ အမျိုး သားနေ့ စသည်တို့၌လည်း ကျေးရွာလူထုတရပ်လုံး ပါဝင် ဆင်နွှဲကြလေသည်။

လူမှုဝန်ထမ်း လုပ်ငန်းများဖြစ်သော စေတနာ့ ဝန်ထမ်း မီးသတ်အဖွဲ့များကို ဖွဲ့စည်းခြင်း၊ ရေတွင်း ရေကန် တူးခြင်း၊ တန်တား ဆောက်ခြင်း၊ လမ်းဖောက်ခြင်း၊ အိမ်ဆောက်ခြင်း တို့ကို တယောက်တလက် ကူညီ၍ ဆောင်ရွက် ပြီးမြောက် စေကြသည်။

လူထုပညာရေး လုပ်ငန်း တတိယနှစ်ဖြစ်သော ၁၉၅၂ ခု



ကျေးလက်ဖွံ့ဖြိုးရေး စီမံကိန်းအရ နေအိမ်များ၊ လမ်းများ၊ ကလေးကစားကွင်းများကို စံနစ်တကျ ပြုလုပ်ပေးသည်။

နှစ် ဧပြီလ ၂၀ ရက်နေ့တွင် လုပ်ငန်းဗဟုသုတ နှီးနှောဖလှယ်မှု သဘင်ကို ရန်ကုန်မြို့၊ မြို့မအထက်တန်းကျောင်း၌ ပဌမဆုံးအကြိမ် ကျင်းပခဲ့သည်။ ထိုဗဟုသုတ နှီးနှောဖလှယ် သဘင်သို့ လူထုပညာရေးနှင့် သက်ဆိုင်သူများသာမက အခြားသော လူမှုဝန်ထမ်းအဖွဲ့ အသီးအသီးမှ ကိုယ်စားလှယ်များ၊ အကဲခတ် ပုဂ္ဂိုလ်များလည်း တက်ရောက်ကြလေသည်။ လူထုပညာရေးလုပ်ငန်းနှင့် စပ်လျဉ်း၍ မိမိတို့၏ အတွေ့အကြုံများကို တဆဲ့တရက်ကြာမျှ တင်ပြဆွေးနွေးကြရာ၌ မြန်မာနိုင်ငံ တောင်တန်းဒေသ တိုးတက်ရေးအတွက် သီးသန့်ဆွေးနွေးပွဲများ ကျင်းပခဲ့လေသည်။

လူထု၏ စီးပွားရေးနှင့် လူနေမှု အဆင့်အတန်း တိုးတက်မှုသည် စာတတ်မှုပေါ်တွင် အခြေခံလျက် ရှိခြင်းကြောင့် သင့်တော်သော စာအုပ်စာတမ်းများကို ထုတ်ဝေရန် အမြဲတမ်းစာပေအဖွဲ့ငယ်တခုကို ဖွဲ့စည်းထားသည်။ ထိုအဖွဲ့ငယ်သည် "သက်ကြီး စာပေ"၊ "ကျန်းမာရေးသည် လွတ်လပ်မှု"၊ "ခြင်းကြားကြီးနဲ့ ငွေကိုသယ်"၊ "ဥစ္စာဖြို စားဖိုက" အစရှိသောပညာပေးစာအုပ်များကို ရေးသား ဖြန့်ချိခဲ့လေသည်။ ထိုပြင် ပြည်ထောင်စုသားတိုင်း ညီမျှသော အခွင့်အရေး ရရှိစေရန် မဖွံ့ဖြိုးသေးသော ပြည်နယ်များသို့ "ဘဝသစ်အဖွဲ့" များကို ၁၉၅၂ ခုနှစ် နိုဝင်ဘာလမှစ၍ စေလွှတ်ခဲ့လေသည်။ ဘဝသစ်အဖွဲ့ လုပ်ငန်းရည်ရွယ်ချက်မှာ ပြည်နယ်နှင့် တောင်တန်းဒေသနေ ပြည်ထောင်စုသားအားလုံးကို လူနေမှုအဆင့်အတန်း တူညီရေး၊ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေး၊ ပေါင်းသင်းဆက်ဆံရေးတို့တွင် တိုးတက်ဖွံ့ဖြိုးလာစေရန် ကူညီဖို့ဖြစ်လေသည်။ ၁၉၅၂ ခုနှစ်တွင် ကချင်၊ ကယား၊ကရင်၊ ချင်း၊ တနင်္သာရီ၊ ရခိုင်၊ နာဂနှင့် ရှမ်းပြည်နယ်များတို့သို့ ဘဝသစ် အဖွဲ့ ရှစ်ဖွဲ့ စေလွှတ်ခဲ့သည်။ ၁၉၅၃ ခုနှစ်တွင် မူလအဖွဲ့အပြင် ကချင်၊ ချင်း၊ နာဂ၊ မြိတ်ကျွန်းစု၊ ကယား၊ ဂန့်ဂေါနှင့် ကျောက်ဆည် ရေလွှဲပေါက် စခန်းမှ ပလက်ဝစခန်းသို့ အဖွဲ့ ခုနစ်ဖွဲ့ နောက်ထပ် တိုးချဲ့ စေလွှတ်ခဲ့လေသည်။

ရှေးအခါက ဘုန်းတော်ကြီး ကျောင်းများသည် မြန်မာနိုင်ငံပညာရေးအတွက် ရေသောက်မြစ်များ ဖြစ်ခဲ့ကြသည်။ သို့ရာတွင် နိုင်ငံခြားသားတို့၏လက်အောက်၌ ဘုန်းတော်ကြီးကျောင်းများသည် အားပေးမှု မရရှိခဲ့ကြချေ။ ထို့ကြောင့် နိုင်ငံ အစိုးရက ၁၉၅၂ ခုနှစ် ပြည်တော်သာ ညီလာခံကြီးတွင် ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေး စီမံကိန်း




ကျေးရွာသို့ လူထု နယ်လှည့်စာအုပ်သေတ္တာ ရောက်သည်နှင့်တပြိုင်နက် ဤသို့ စာအုပ်ငှါးရမ်း ဖတ်ရှုလေ့လာကြသည်

ကို ချမှတ်ပြီးလျှင်၊ လူထုပညာရေးဌာန အကူအညီဖြင့် ထိုနှစ်၌ပင် ဘုန်းတော်ကြီးကျောင်းပေါင်း ၅၀၀၀ ဖွင့်လှစ်၍ ထောက်ပံ့ရန် စီစဉ် ဆောင်ရွက်ခဲ့လေသည်။

ဤကဲ့သို့ဆောင်ရွက်ခဲ့ရာမှ ၁၉၅၇ ခုနှစ် လူထုပညာရေး ကောင်စီ ရုပ်သိမ်းရေးအက်ဥပဒေ အမှတ် (၆) အရ ထို နှစ် အောက်တိုဘာလ ၁ ရက်နေ့မှ အစပြု၍ လူထုပညာ



ရေးကောင်စီကို လူမှုဝန်ထမ်းဌာနနှင့် ပူးပေါင်းပြီးလျှင် နိုင်ငံတော်အစိုးရဌာနအဖြစ် သတ်မှတ်၍ လုပ်ငန်းများကို ဆက်လက်ဆောင်ရွက်စေခဲ့သည်။ သို့သော် ၁၉၆၂ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့မှအစပြု၍ ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေး လုပ်ငန်းကို ပညာရေးဌာနသို့ လွှဲ ပြောင်းပေးခဲ့သည်။

# နိုင်ငံ၏ကျောရိုး

**မြန်မာနိုင်ငံသည် လယ်ယာစိုက်ပျိုးမှုကို အမှီပြုရသော နိုင်ငံတခု ဖြစ်၏။ စက်မှုလက်မှု ထွန်းကားသော နိုင်ငံတနိုင်ငံပင် ဖြစ်လင့်ကစား လယ်ယာစိုက်ပျိုးမှုကိုလည်း ဦးစားပေး၍ လုပ်ကိုင်ရသည်သာ ဖြစ်၏။ စက်မှုလက်မှု လုံးဝအားမကိုးနိုင်သေး သော မြန်မာနိုင်ငံတွင် လယ်ယာစိုက်ပျိုးရေးကို အားကိုးအားထားပြု၍ ရှေ့သို့ တိုးချဲ့ စိုက်ပျိုးလုပ်ကိုင်ရပေဦးမည်။**

**မြန်မာနိုင်ငံ လယ်ယာစိုက်ပျိုးရေး။** ။လယ်ယာ စိုက် ပျိုးရေးသည် နိုင်ငံတနိုင်ငံ၏ ကျောရိုးသဖွယ် ဖြစ်သည်ဟု အင်္ဂလိပ်လို စကားပုံရှိ၏။ စတုရင်္ဂဗလအမတ်ကြီး စီရင်ရေး သားသော လောကနီတိကျမ်း အပိုဒ် ၁၆၃ တွင်လည်း ''လယ်လုပ်သောသူရှင်း၊ ကုန်သည်ရှင်း၊ အမတ်ရှင်း၊ အ ကြားအမြင် သီတင်းသီလနှင့် ပြည့်စုံသော ရဟန်းသည်ရှင်း ထိုလေးပါးတို့သည်ပြန့်ပြောစွာ ဖြစ်ကုန်လတ်သော်၊ တိုင်း နိုင်ငံလည်း ပြန့်ပြောစည်ပင်သည် ဖြစ်ရာ၏''ဟု ဖော်ပြညွှန် ကြားရေးသား၏။ ဤဆိုထုံးနှစ်ရပ်စလုံးပင် မှန်သည်ချည်း သာ ဖြစ်သည်ဟု ကျွန်ုပ်တို့သည် ယုံကြည် လေးစား ကြ သည်။ စက်မှုလက်မှု ထွန်းကားသော နိုင်ငံတနိုင်ငံပင် ဖြစ် လင့်ကစား၊ လယ်ယာစိုက်ပျိုးမှုကို အထူးတလည် ဦးစား ပေး၍ လုပ်ကိုင် ဆောင်ရွက်ကြသည်ကို ကျွန်ုပ်တို့ ကိုယ်တွေ့ မျက်မြင်ပင် ဖြစ်ကြသည်။

စက်မှုလက်မှုကို လုံးဝအားမကိုးနိုင်သေးသော ကျွန်ုပ် တို့ မြန်မာနိုင်ငံအတွက် လယ်ယာ စိုက်ပျိုးရေးသည် မည်မျှ အားကိုး အားထားထိုက်၍ ရှေ့သို့တိုးချဲ့ကာ မည်မျှစိုက်ပျိုး ရေးကိစ္စအဝဝ ဆောင်ရွက်ကြရမည်မှာ အဘယ်ပြောဖွယ် ရှိအံ့နည်း။ လွန်ခဲ့သည့်နှစ်ပေါင်းခြောက်ဆယ်ခန့် (၁၉၀၁ ခုနှစ်မှ ၁၉၆၁ ခုနှစ် အထိ) က မြန်မာနိုင်ငံတွင် လူဦးရေ သန်းပေါင်း တဆယ်ခန့်သာ ရှိသော်လည်း၊ ၁၉၆၁ ခုနှစ် မှာမူ လူဦးရေ သန်းပေါင်း နှစ်ဆယ်ခန့် တိုးလာပြီ ဖြစ် သောကြောင့် နိုင်ငံအတွင်း ပြည်သူလူထု စားသုံးမှုနှင့် နိုင် ငံခြားသို့ ထုတ်ကုန်အဖြစ် ရောင်းချနိုင်ရန် ကောက်ပဲသီးနှံ အထွေထွေ အဝဝ မည်မျှလိုပေဦးမည်မှာ သိသာထင်ရှား လှသည်။ ၁၉၀၁ ခုနှစ်တွင် ဆန်စပါးစိုက်ပျိုးသော လယ်ဧ ကပေါင်း ရှစ်သန်းခွဲခန့်သာ ရှိသော်လည်း ဒုတိယ ကမ္ဘာ စစ်ကြီးမဖြစ်မီ နှစ်ပေါင်းလေးဆယ်အတွင်း (၁၉၄၁ ခုနှစ် အထိ) တွင် လယ်ဧကပေါင်း ဆဲ့နှစ်သန်းခွဲခန့်အထိ တိုးချဲ့ စိုက်ပျိုးလုပ်ကိုင်နိုင်ခဲ့ချေသည်။ ဒုတိယကမ္ဘာစစ်ကြီး၏စစ် ဘေး စစ်ဒဏ်ခံရသည့် အလျောက် ကျွဲ နွား များစွာကို ဂျပန်စစ်တပ်များက သတ်ဖြတ် စားသုံးကြသဖြင့် စစ်ကြီး မဖြစ်ခင် ၁၉၄၁ ခုနှစ် ဆန်စပါး ဧရိယာ ကေပေါင်းကို မှီ ရန် ၁၉၆၁ ခုနှစ်တွင် လယ်ကေပေါင်း တသန်းခန့် လိုနေ သေးသည်ကို သိရ၏။

ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီ၊ သုံးနှစ်တွက် (၁၉၃၇ – ၁၉၄၀ ခုနှစ်) ပျမ်းမျှခြင်း ကေပေါင်း ဆဲ့ခုနှစ်သန်း ကျော် ခန့် ကောက်ပဲသီးနှံ အမျိုးစုံ စိုက်ပျိုးလုပ်ကိုင်သည့်အနက် ဆန်စပါး ဧရိယာကေပေါင်း ပျမ်းမျှခြင်း ဆဲ့နှစ်သန်းကျော် ခန့် စိုက်ပျိုးသဖြင့် စပါးသည် အရေးကြီးဆုံး အပင်ဖြစ် ကြောင်းမှာ သိသာထင်ရှားသည်။ ထို့ကြောင့်ပင် ယင်း အသီးအနှံကို ''မြန်မာ့သွေးခဲ-ကျောက်မျက်ရွှဲ'' ဟု ကုန် သည်များက ခေါ်ဝေါ် သမုတ်ကြ ပေသည်။ ထိုစကား သင့်စွ။

## ၂။ မြန်မာနိုင်ငံ ရာသီဥတု

မြန်မာနိုင်ငံသည် မုတ်သုန်လေရာသီခွင်တွင် ပါဝင်၏။ နွေဥတု၌ ပူအိုက်၍ မိုးဥတုတွင်စွတ်စိုပြီးလျှင် ဆောင်းဥတု ၌ခြောက်သွေ့အေး၍ ဥတုသုံးပါးရှိလေသည်။ မြန်မာနိုင်ငံ ၏ ရာသီဥတုကို သာမန်အားဖြင့် သုံးပိုင်း ပိုင်းထားသည်။ ပိုင်းထားပုံမှာ တပေါင်းလပြည့်ကျော် တရက်နေ့မှ ဝါဆိုလ ပြည့်ကျော် တရက်နေ့ အထိ နွေဥတု၊ ဝါဆိုလပြည့်ကျော် တရက်နေ့မှ တန်ဆောင်မုန်းလပြည့်ကျော် တရက်နေ့အထိ မိုးဥတု၊ တန်ဆောင်မုန်းလပြည့်ကျော် တရက်နေ့မှ တ ပေါင်းလပြည့်ကျော် တရက်နေ့အထိ ဆောင်းဥတုဟု ဟူ၍ ဥတုသုံးပါး အပြားရှိသည်။



လယ်ယာ စိုက်ပျိုးခြင်းသည် မြန်မာနိုင်ငံ၏ စီးပွားရေး အဓိကအင်အားထုတ်မှု ဖြစ်သည်။



မြန်မာနိုင်ငံတွင် စက်မှုလယ်ယာ လုပ်ငန်းစံနစ်ဖြင့် သီးနှံပိုထွက်အောင် အောင်မြင်စွာ လုပ်ကိုင်လျက် ရှိသည်။

နွေ-မိုး-ဆောင်း ဟူ၍ ဥတုသုံးပါးရှိရာ၊ ဆောင်းဥတု၌ နေသည် ဒက္ခိဏာယဉ်စွန်းတန်းပေါ် ကျရောက်နေ၍ နေနှင့် ကွာဝေးသဖြင့် မြန်မာနိုင်ငံတွင် အေးမြ လာချေသည်။ တောင်ဖက်ပိုင်းသည် နေနှင့် နီး၍ ၇၅° ကျော် ပူနွေး၍ မြောက်ဖက်ပိုင်းသည် ၆၅° ထက်ပင်လျော့လေသည်။ နွေဥတုတွင် နေသည် မြန်မာနိုင်ငံပေါ် သို့ တိုက်ရိုက်ရောက်ရှိ၍ ပူပြင်းလာ၏။ မိုးရွာသော လတို့တွင် အပူချိန်လျော့ပြီးလျှင် မိုးမရွာသော လတို့၌ အပူချိန် တိုးလာ၏။ တနင်္သာရီ ကမ်းရိုးတန်းသည် ပင်လယ်နှင့် နီးသော ဒေသဖြစ်၍ မိုးများစွာရွာသဖြင့် အပူချိန် လျော့ပါးသည်။ မြန်မာနိုင်ငံ အလယ်ပိုင်းဒေသ (မြေလတ်ပိုင်း)သည် မြေနိမ့်သော အရပ်ဖြစ်၍ အနောက် ရိုးမတောင်၏ မိုးရိပ်ကျနေသောကြောင့် မိုးပါးပြီးလျှင် ပင်လယ်နှင့် ဝေးကွာသောကြောင့် ပူပြင်း၏။ မိုးရွာခြင်းနှင့် စပ်လျဉ်း၍ သာမန်အားဖြင့် အောက်ပါ အရပ်ဒေသ သုံးပိုင်း ပိုင်းခြားရသည်။

(က) မြန်မာနိုင်ငံတွင် အနောက်ဖက် ပင်လယ် ကမ်းခြေ အရပ်များနှင့် မြောက်ဖက် တောင်ကုန်း အရပ်များသည် မုတ်သုန် ရာသီလေ ရာသီခွင်အတွင်း ကျရောက်နေသဖြင့် မိုးအသည်းအထန်ဆုံးရွာသည်။ တနင်္သာရီတိုင်း၊ ချင်းတောင်တန်း၊ ကချင်တောင်တန်းနှင့် တရုပ်နိုင်ငံ နယ်စပ်ရှိ တောင်တန်းများ၌ တနှစ်လျှင် ပျမ်းမျှမိုးရေ လက်မ ၂၀၀ ခန့် အထိ ရွာသွန်းသည်။

(ခ) ဧရာဝတီမြစ်ဝှမ်း အလယ်ပိုင်း၌ မိုးအနည်းဆုံး ရွာသည်။ ထိုဒေသမှာ ပြည်မြို့မြောက်ဖက်မှ ရွှေဘိုနယ် အထိ ဖြစ်သော မိုးပါးရေရှား ရပ်ဝန်းဖြစ်၍ တနှစ်လျှင် မိုးရေချိန် လက်မ ၂၅ မှ ၄၀ မျှသာ ရွာသွန်းသည်။

(ဂ) ရှမ်းကုန်းပြင်မြင့် နယ်များနှင့် ချင်းတွင်းမြစ်၊ သံလွင်မြစ်တို့၏ အကြားရှိ မြန်မာနိုင်ငံ အထက်ပိုင်းတို့၌ မိုးရေချိန်လက်မ ၄၀ မှ ၈၀ အထိ အသင့်အတင့်ရွာသွန်း၏။ ဤသုံးပိုင်း သုံးဒေသတို့ကို ဆင်ခြင် သုံးသပ်ခြင်း အားဖြင့် မြန်မာနိုင်ငံ၌ စိုက်ပျိုးပင်များ အနှံ့ အပြား စိုက်ပျိုးနိုင်သည်မှာ သိသာ ထင်ရှားသည်။

## ၃။ အဖိုးတန်သော စိုက်ပျိုးပင်

မြန်မာနိုင်ငံသည် ရှေးအထက်ကျော်ကာလကပင် အာရှအရှေ့ တောင်ပိုင်းတွင် အထူးထင်ရှားကျော်စောသော မြန်မာ့ အဖိုးအနဂ္ဃထိုက်တန်သည့် ကျောက်မျက်ရတနာ ဟူ၍၎င်း၊ ရတနာပင်များနှင့် ပြည့်နှက်နေသော ရတနာနိုင်ငံ ဟူ၍၎င်း၊ ဆူးအက်တူးမြောင်းမှသည် အရှေ့ဖက် ကာလကတ္တားမြို့အထိ အာရှတိုက်တောင်ပိုင်း တလျှောက်၌ တည်ရှိသော အရပ်ဒေသတို့မှာ များသောအားဖြင့် မိုးပါးရေရှား၍ ညှံ့ဖျင်းသော မြေဩဇာနှင့် ခြောက်သွေ့သော လယ်ယာများသာရှိကြရာ၊ မြန်မာနိုင်ငံသည် သာလျှင် ဗျိုင်းငှက်တို့ အလယ်၊ တင့်တယ်သော ဟင်္သာပမာ၊ ကျက်သရေမင်္ဂလာ၊

ဝေဆာလှပ၊ သာယာစည်ပင်၊ ပြောသောအသွင်ကိုဆောင်နိုင်သည့် နိုင်ငံတနိုင်ငံဖြစ်ပေသည်ဟူ၍ရင်း သိုးဆောင်းလူမျိုးများက အမွမ်းတင်ကာ ရေးသားကြလေသည်။ ထိုသို့ ရေးသား ဖော်ပြကြသည်မှာ အကြောင်းမဲ့ ရေးသားသည် မဟုတ်ချေ။ ကမ္ဘာပေါ်တွင် ဆန်စပါးသည် အရေး အကြီးဆုံးသော အာဟာရအသီးအနှံ တခု ဖြစ်၏။ ၉၅ ရာနှုန်းမျှသော ကမ္ဘာ့ဆန်စပါးတို့ကို အာရှတိုက်မှ ရရှိသည်။ အာရှတိုက်၌ ဆန်စပါးစိုက်ပျိုးရရှိသော တိုင်းနိုင်ငံတို့ အနက် မြန်မာနိုင်ငံသည် ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက နှစ်စဉ် ဆန်တန်ချိန်ပေါင်း ခုနစ်သန်းခန့် ထွက်လျက်၊ တန်ချိန်ပေါင်း သုံးသန်းခွဲခန့်၊ ကမ္ဘာ့ဆန်ရောင်းဝယ်ရေးလုပ်ငန်း၏ ၄၆ ရာနှုန်းမျှကို နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်သဖြင့် မြန်မာနိုင်ငံ၏ အရေးပါ အရာရောက်ပုံကို ခန့်မှန်းနိုင်ပေသည်။

### ၄။ စိုက်ပျိုးသီးနှံများ ပျံ့နှံ့ပုံ

မြန်မာ နိုင်ငံတွင် အချို့ အရပ်ဒေသ၌ လူနေအိမ်ခြေ ရွာစဉ်တို့သည် အလွန် ပြည့်ကျပ်လျက် နီးကပ်စွာ တည်ရှိနေကြပြီးလျှင်၊ အချို့ဒေသ၌မူ လူနေသူနေ မတွေ့ရှိရဘဲ မိုင်ပေါင်းများစွာ နေရာလွတ်ကွက်လပ်များ ဖြစ်နေကြသည်ကို တွေ့ရ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မြန်မာနိုင်ငံ၌ လူတို့သည် အစိပ်အကျဲ မညီမမျှပဲ ရှိနေသည်မှာ ထင်ရှား၏။ လူနေအိမ်ခြေ အစိပ်အကျဲသည် နေရာဒေသကို လိုက်၍ ဖြစ်တတ်ချေသည်။ တောတောင်လျှိုမြောင် ချိုင့်ကြီးချောက်ကြီးများ ထူထပ်သော အရပ်တို့၌ လူနေအိမ်ခြေကျဲ၍ လုပ်ခင်းကိုင်ခင်း ကောင်းသော အရပ်ဒေသတို့၌ အိမ်ခြေ စိပ်သည်ကို တွေ့ရ၏။ သို့ဖြစ်၍ ကျွန်ုပ်တို့သည် အောက်ပါအရပ်ဒေသတို့၌ လူအများဆုံး နေထိုင်ကြသည်ကို တွေ့ရသည်။

(က) ချိုင့်ဝှမ်းသော အရပ်။
(ခ) နုံးတင်မြေနုအရပ်။
(ဂ) မိုးကောင်း အရပ်နှင့် မိုးပါးလျက် ဆည် ရေသောက်အရပ်။
(ဃ) စိုက်ပျိုးပင် အများဆုံး အရပ်။

တနည်းအားဖြင့်ဆိုသော် မြစ်ဝကျွန်းပေါ် အရပ်၊ မြစ်ဝှမ်းအရပ်ဒေသများ၊ ဧရာဝတီနှင့် ချင်းတွင်းမြစ်ဆုံ ဝန်းကျင်အရပ်၊ စစ်တွေမြို့ အနီးအနားတဝိုက်၊ မော်လမြိုင်မြို့ပတ်ဝန်းကျင် ဒေသတို့၌ လူဦးရေ အထူထပ်ဆုံး ဖြစ်သည်။ ထိုနည်းအတူ လူဦးရေ အထူအပါး အစိပ်အကျဲကို လိုက်၍ ကောက်ပဲသီးနှံ ပျံ့နှံ့ခြင်း အစိပ်အကျဲကိုလည်း တွေ့ရသည်။ အကြောင်းကို စုံစမ်းသော် အထက်ဖော်ပြပါ နေရာအရပ်များသည် လယ်ယာ ကိုင်းကျွန်း ဥယျာဉ်နှင့် ခြံများ လုပ်ကိုင်သည့် ရပ်ကွက်များ ဖြစ်ကြောင်းကို သိရသည်။ ထိုအရပ်



ကျေးရွာသူတို့သည် လယ်ယာလုပ်ငန်းကို လက်ရေတပြင်စီး ကူညီလုပ်အားပေးလျက်ရှိကြသည်။

များရှိ အချို့မြို့ကြီးများတွင်လည်း ဤကောက်ပဲ သီးနှံများကို ကြိတ်ခွဲ ပြုပြင်သော ကြိတ်စက်များ၊ ဆီဆုံများ အစရှိသည်တို့ဖြင့် စိုက်ပျိုးကုန်စည်များကို ပြင်ဆင်၍ ရောင်းဝယ်ဖောက်ကားကြသည်ကို တွေ့ရသည်။

ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်ပွားမီနှစ်များက မြန်မာပြည်၌ ချင်းတောင်တန်း ဒေသများနှင့် ရှမ်းပြည်နယ်များကို ချန်လှပ်၍ ကောက်ပဲသီးနှံ စိုက်ပျိုးသော မြေရိယာကေပေါင်းမှာ တဆဲ့ရှစ်သန်းခွဲ ခန့် ရှိသည်။ ဒုတိယ ကမ္ဘာစစ်ကြီးမဖြစ်မီ ၁၉၃၇ ခုနှစ်မှ ၁၉၄၀ ပြည့်နှစ် အထိ သုံးနှစ်ပျမ်းမျှစိုက်ပျိုးသော ကေပေါင်းနှင့် စစ်ကြီးအပြီးတွင် ၁၉၄၇ ခုနှစ်မှ ၁၉၅၀ ပြည့်နှစ်အထိ သုံးနှစ် ပျမ်းမျှ စိုက်ပျိုးသော ကေများကို သိသာစွာ နှိုင်းရှည့်နိုင်ရန်အလို့ငှာ အောက်တွင် ဇယားဖြင့် ဖော်ပြထားသည်။

| အမှတ်စဉ် | စိုက်ပျိုးသီးနှံ | ၁၉၄၇-၄၈ မှ ၁၉၄၉-၅၀ | ၁၉၃၇-၃၈ မှ ၁၉၃၉-၄၀ |
|---|---|---|---|
| | | ကေပေါင်း | ကေပေါင်း |
| ၁ | ဆန်စပါး | ၉,၃၅၉,၃၆၀ | ၁၂,၄၃၂,၅၁၄ |
| ၂ | နှမ်း | ၁,၃၆၁,၉၈၅ | ၁,၃၀၆,၅၆၀ |
| ၃ | မြေပဲ | ၇၁၀,၄၂၀ | ၈၃၁,၈၈၅ |
| ၄ | ဆန်ပြောင်း | ၅၇၈,၉၉၀ | ၄၇၃,၂၁၅ |
| ၅ | ဟင်းသီးဟင်းရွက်(ပဲသီးတောင့်နှင့် ကြက်သွန်ပါ) | ၄၄၂,၃၁၀ | ၅၃၄,၃၀၉ |
| ၆ | ဥယျာဉ်ထွက် အထွေထွေ | ၄၆၄,၀၂၂ | ၄၃၆,၄၆၂ |
| ၇ | ဝါ | ၂၁၆,၄၀၅ | ၄၃၈,၂၉၆ |
| ၈ | ဖူးစားပြောင်း | ၁၉၄,၃၂၅ | ၂၁၀,၈၄၈ |
| ၉ | ကုလားပဲ | ၂၅၅,၉၀၀ | ၂၃၉,၂၆၄ |
| ၁၀ | အထွေထွေ ကောက်မျိုးများ | ၁၄၂,၆၅၂ | ၂၀၆,၆၂၂ |
| ၁၁ | ပဲကြီး | ၁၃၃,၃၇၅ | ၁၅၁,၁၅၉ |
| ၁၂ | ပဲဖြူကလေး | ၃၂,၇၆၃ | ၁၂၁,၆၀၂ |
| ၁၃ | ပဲကျား | ၁၃၅,၈၁၅ | ၉၇,၆၀၄ |
| ၁၄ | ရွေတ် | ၉၅,၆၃၀ | ၁၀၂,၁၀၇ |
| ၁၅ | ဆေး | ၁၂၆,၁၆၀ | ၁၀၈,၃၅၇ |
| ၁၆ | ကြံ | ၄၈,၉၅၃ | ၆၁,၄၂၇ |
| ၁၇ | ဂျုံ | ၄၂,၄၂၃ | ၂၃,၈၈၀ |
| ၁၈ | ကွမ်းသီး | ၂၅,၀၆၀ | ၂၈,၇၉၈ |
| ၁၉ | ထန်း | ၆၁,၃၅၅ | ၄၀,၆၀၀ |
| ၂၀ | အုန်း | ၇,၉၁၀ | ၈,၉၂၅ |
| | စုစုပေါင်း | ၁၃,၈၂၉,၂၆၀ | ၁၈,၇၀၁,၂၉၀ |



ယခုအခါ မြန်မာနိုင်ငံတွင် မြေလွတ်မထားတော့ဘဲ လယ်ယာ စိုက်ပျိုးရေး လုပ်ငန်းကို ရာနှုန်းပြည့် အသုံးချလျက် ရှိသည်။ ပုံမှာ မန္တလေးခရိုင်တွင် လယ်ယာများကို စနစ်တကျ တိုးချဲ့စိုက်ထားပုံဖြစ်သည်။

ဖော်ပြပါဇယားကို ကြည့်ရှုနှိုင်းရှည့်သော် ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက သုံးနှစ် ပျမ်းမျှ စိုက်ပျိုး ကေပေါင်းမှာ ၁၈ သန်း ခုနစ်သိန်းခန့်ရှိ၍ စစ်ပြီးမှ သုံးနှစ်ပျမ်းမျှ စိုက်ပျိုးကေပေါင်းမှာ ၁၃ သန်း ရှစ်သိန်းမျှသာ ရှိပြီးလျှင် ကေပေါင်း လေးသန်း ကိုးသိန်းခန့် ကွာခြား နေသေးသည်ကို တွေ့ရချေမည်။ ၁၉၅၇–၅၈ မှ ၁၉၅၉–၆၀ သုံးနှစ် ပျမ်းမျှ စိုက်ပျိုးကေပေါင်းမှာ ၁၆ သန်းခန့်သာရှိသဖြင့် မြန်မာနိုင်ငံတွင် စိုက်ပင်သီးနှံများ၏ ကေပေါင်း နှစ်သန်း ခုနစ်သိန်းခန့် တိုးချဲ့စိုက်ပျိုး လုပ်ကိုင်မှသာလျှင် ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီ စိုက်ပျိုးကေပေါင်းကို မှီနိုင်မည်။ အထက်တွင်လည်း ၁၉၆၁ ခုနှစ်အထိ စစ်မဖြစ်ခင် ကေပေါင်း မှီရန် ဆန်စပါးစိုက်ပျိုးသော လယ်ကေပေါင်း တသန်းခန့် လိုနေသေးသည်ကို ဖော်ပြပြီး ဖြစ်သည်။ လယ်ကေ ၁၀၀ (တရာ) လျှင် စပါး

ထွက်တန်ချိန် ၆၀ နှုန်းနှင့် တွက်ချက်လျှင် ဧက ၁,၀၀၀,၀၀၀ (တသန်း)မှ စပါးတန်ချိန် ၆၀၀,၀၀၀ (ခြောက်သိန်း) ခန့် ရသည်။ ဤစပါးတန်ချိန် ခြောက် သိန်းကို နိုင်ငံခြားများသို့ မရောင်းချနိုင်သည်မှာ အလွန် ဝမ်းနည်းဖွယ် ကောင်းလေသည်။ အထက်ပါ ဇယားတွင် အရေးအကြီးဆုံးသော စိုက်ပျိုးပင်များကိုသာ ဖော်ပြထားသည်။ ထိုအပြင် လွှတ်ထားသော မြေများအပြင် စိုက်ပျိုး လုပ်ကိုင်နိုင်သော မြေဧကပေါင်း သန်း ၂၀ ကျော်ခန့် ၁၉၆၁ ခုနှစ်တွင် ရှိသေးသည်ကို မှတ်သားရာသည်။ စိုက်ပျိုးလုပ်ကိုင်သော အသီးအနှံအပင်များသည် မြေနှင့် ရာသီဥတုအခြေကိုလိုက်၍ အရပ်ဒေသ အမျိုးမျိုး၌ ဖြစ်ထွန်းနိုင်သည်ကို အထူးဂရုပြုရာသည်။ သို့ဖြစ်၍ စိုက်ပျိုး သီးနှံများ၏ ပျံ့နှံ့ခြင်းသည် မြေနှင့် မိုးရေချိန်ပေါ်မှာ တည်သည်ဟုလည်း ဆိုနိုင်သည့်အပြင်၊ မိုးရေချိန်လည်း အနည်းဆုံး ၂၅ လက်မမှ အများဆုံး လက်မ ၂၀၀ အထိရှိသဖြင့် မြေနှင့် မိုးအလိုက် သင့်လျော်သော ကောက်ပဲသီးနှံ အမျိုးစုံ စိုက်ပျိုးနိုင်သည်မှာ သိသာ ထင်ရှားသည်။

## ၅။ တိုးချဲ့စိုက်ပျိုးရန်အပင်များ

လူမှု ဖူလုံရေးအတွက် တိုးချဲ့စိုက်ပျိုးရန် အပင်များမှာ (၁) ဂွမ်းမွေးရှည် ဝါပင် (၂) ဂုံလျှော်ပင် (၃) ဆီထွက်အစေ့ရအပင်များ (နှမ်း၊ မြေပဲ၊ မုန်ညင်းနှင့် အုန်းပင်များ) (၄) ဂျုံစပါး(၅) ကြက်သွန် (၆) ငရုတ်နှင့် (၇) ကွမ်းသီး



ထွန်စက်ကို မသုံးနိုင်သေးသော ဒေသများတွင် ဤသို့ နွားဖြင့် ထွန်ယက် လုပ်ကိုင်ရလျက်ပင် ရှိသေးသည်။

သည် အရေးအကြီးဆုံး ဖြစ်သည်။ ဤဖော်ပြပါ အပင် ခုနစ်မျိုးနှင့်တကွ အခြား လိုအပ်သော အပင်များကို တိုးချဲ့စိုက်ပျိုးရန် နိုင်ငံအစိုးရက အထူးတလည် ကြိုးပမ်း အားထုတ်လျက် ရှိသည်။ ယင်း တိုးချဲ့စိုက်ပျိုးရန် အပင် ခုနစ်မျိုးသည် အလွန် အရေးပါ အရာရောက်သဖြင့်၊ ယင်းအပင်များ၏ အကျိုး အကြောင်း သိသင့် သိထိုက်သမျှကို (အတိုချုံး၍) ရေးသား ဖော်ပြရန် လိုပေသည်။

## (၁) ဝါ

၁၉၃၇–၃၈ ခုနှစ်မှ ၁၉၃၉–၄၀ ပြည့်နှစ်အထိ၊ စစ်မဖြစ်မီ သုံးနှစ် ပျမ်းမျှဝါစိုက်ပျိုးသောဧကပေါင်း လေးသိန်းခွဲခန့် ရှိသော်လည်း ယခုအထိ(၁၉၆၁ – ၆၂ ခုနှစ်)ဝါ စိုက်ပျိုး ဧကပေါင်း လေးသိန်းခန့်သာရှိသေးသဖြင့် ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီစံချိန် ရေိယာ အကျယ်အဝန်းကို မမှီသေးသည်ကို တွေ့ရပေသည်။ ၁၉၃၅–၃၆ ခုနှစ်မှ ၁၉၃၉–၄၀ ပြည့်နှစ် အထိ ငါးနှစ်တာမျှသော အချိန်အတွင်းတွင် မြန်မာပြည်သည် ဝါနှင့်စပ်သော ကုန်ပစ္စည်းများကို ပြည်ပသို့ ထွက်ကုန်အဖြစ် တင်ပို့ ရောင်းချသည့်အတွက် နှစ်စဉ် ပျမ်းမျှခြင်း ငွေကျပ်ပေါင်း ၁၀,၆၆၇,၀၀၀ ( တကုဋေခြောက်သိန်းခွဲခန့် )မျှ ရရှိလေသည်။ ဝါနှင့် စပ်သော ကုန်ပစ္စည်း (ဝါထွက်ပစ္စည်း) ဆိုရာ၌ ဝါ၊ ဂွမ်း၊ ဝါစေ့၊ ဝါဆီနှင့် ဝါစေ့ဖတ်များ ပါဝင်သည်။

ဝါတွင် ခြည်မျှင် (ဝါဂွမ်းမွေး) ရှည်မျိုး၊ ခြည်မျှင်တိုမျိုးဟူ၍ ဂွမ်းမွေး အတိုအရှည်အလိုက် နှစ်မျိုးနှစ်စား ခွဲခြားသတ်မှတ်ခေါ် ဝေါ် ရာတွင်၊ ခြည်မျှင်ရှည်မျိုးမှာ တလက်မ၏ လေးပုံ သုံးပုံ (¾) ကျော် ရှည်လျက်၊ ခြည်မျှင်တိုမျိုးမှာ တလက်မ၏ လေးပုံ သုံးပုံအောက် ရှည်သည်။ ခြည်မျှင်ရှည်မျိုး ဖူလုံသော စိုက်ပျိုးဧက တိုးချဲ့ရန်အတွက် အစိုးရ လယ်ယာဌာနနှင့် မြေကျေးရှင်းခေါ် လယ်ယာနှင့် ကျေးလက်တိုးတက်ကြီးပွားရေးအဖွဲ့က ယခုအခါတွင် အထူးတလည် ကြိုးပမ်းလျက် နေချေသည်။ အထက်ဖော်ပြပါ ဝါနှင့် စပ်သော စိုက်ပျိုးကုန် ပစ္စည်းများကို မြောက်မြားစွာ ရောင်းချရခြင်းမှာ (က) ခြည်မျှင်စက်သာ ရှိ၍ အထည်စက် မရှိခြင်း၊ (ခ) အထည်စက် တည်လောက်အောင် ခြည်မျှင်ရှည်ဝါ မလုံလောက်ခြင်း၊ (ဂ) ပြည်တွင်း စမ်းသပ်မှုကြောင့် ရသော မျိုးကောင်း မျိုးသန့်၊ မလိုင် ဝါမျိုးသန့် တိုးချဲ့၍ မစိုက်နိုင်သေးခြင်း၊ (ဃ) ကမ္ဘောဒီးယားခေါ် ကမ္ဘောဇ သဘော်ာဝါမှအပ၊ ယခု စမ်းသပ်မှု အောင်မြင်သော ရုရှားခြည်မျှင်ရှည်ဝါကဲ့သို့ နိုင်ငံခြားဝါများ စမ်းသပ်ခွင့် ရသင့်ရထိုက်သလောက်မရခဲ့ခြင်း စသော အကြောင်းအမျိုးမျိုးတို့ကြောင့် နိုင်ငံခြားသို့ ဝါထွက်ပစ္စည်းများကို တင်ပို့ရခြင်း ဖြစ်ပေသည်။ ဤသည်တို့ကား ခြည်မျှင်ရှည်ဝါ တိုးချဲ့စိုက်ပျိုးရန် လိုလားချက်များ ဖြစ်ချေသည်။ (ဝါ — လည်းရှု။)

## (၂) ဂုံလျှော်ပင်

ဂုံလျှော်ပင်ကို ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက ထွန်းကားစွာ မစိုက်ပျိုးခဲ့ဘူးချေ။ မြန်မာ နိုင်ငံ အစိုးရသည် ၁၉၅၃ ခုနှစ်က စမ်းသပ် စိုက်ပျိုးလုပ်ကိုင်လာရာ၊ ၁၉၆၀—၆၁ ခုနှစ်အထိ ဂုံလျှော်ပင် ကေပေါင်း တသောင်း ခြောက်ထောင်ခန့် တိုးတက်လာပြီး သကာလ၊ ဂုံနီအိတ်စက်ကြီး တည်ထောင်လုပ်ကိုင်နေသည်မှာ အလွန် ဝမ်းသာဖွယ် တရပ်ဖြစ်ပေသည်။ မြန်မာ နိုင်ငံ၌ လူအများ သိကြသော ပိုက်ဆန်လျှော်ပင်နှင့် ဂုံလျှော်ပင်သည် လုံးဝမတူဘဲ ကွဲပြား ခြားနားလေသည်။ ဂုံပင် (ဂုံလျှော်ပင်) မှ ရသောလျှော်ကို ကြိုးများ၊ ဂုံအိတ်များ၊ ဖယောင်းပုဆိုးဖျာများ၊ ကော်ဇောများ စသည်တို့ လုပ်ရန် အလွန် အသုံးဝင်လေသည်။ ဤအပင်ကို အိန္ဒိယ နိုင်ငံ အနောက်ပိုင်း ဗင်္ဂလားနယ်နှင့် အရှေ့ ပါကစ္စတန် နိုင်ငံ၌ မြောက်မြားစွာ စိုက်ပျိုးသည်။ ဤနိုင်ငံများမှ မြန်မာနိုင်ငံသို့ များစွာ တင်ပို့ ရောင်းချရလေသည်။ မြန်မာနိုင်ငံ၌ ဂုံပင်နှင့် စပ်လျဉ်း၍ မည်မျှအသုံးများသည်ကို သိသာနိုင်ရန် အောက်ပါဇယားကို ထည့်သွင်းဖော်ပြထားသည်။ ထိုဇယားပါစာရင်းမှာ ၁၉၃၈—၄၁ ခုနှစ်အထိ သုံးနှစ်ပျမ်းမျှဂုံနှင့် ဂုံထွက်ပစ္စည်းများကို မြန်မာပြည်သို့ သွင်းကုန်အဖြစ် တင်သွင်းခြင်းကို ပြလေသည်။

| အမျိုးအစား | အရေအတွက်နှင့်အချိန် | | ကျပ်ငွေတန်ဖိုး |
|---|---|---|---|
| ၁။ ဂုံလျှော် (ကုန်ရိုင်း) | ၈၁,၁၈၇ | ပေါင် | ၆,၉၁၁ |
| ၂။ ဂုံကျစ်ခြည်၊ရက်ခြည် | ၂၃,၄၄၇ | ပေါင် | ၁,၅၂၆ |
| ၃။ ဂုံမှလုပ်သောပစ္စည်းများ | | | |
| (က) ဖျင်ကြမ်း | ၅၆၂,၃၀၈ | ကိုက် | ၂၃၂,၈၄၀ |
| (ခ) ဂုံနီဖျင် | ၁,၆၀၃,၀၁၄ | ကိုက် | ၂၁၅,၉၁၃ |
| (ဂ) အခြားအမျိုးများ | ၁၃၈,၄၃၂ | ပေါင် | ၄၂,၇၇၄ |
| ၄။ ဂုံလျှော် — ကြိုးကြီး ကြိုးကလေး | ၃,၆၄၂,၉၈၇ | ပေါင် | ၆၀၂,၄၉၅ |
| ၅။ ဂုံနီအိတ် | ၅၄,၅၇၂,၄၇၉ | အိတ် | — |
| | စုစုပေါင်း | | ၁၇,၄၄၇,၆၂၃ |

အထက်တွင် ဖော်ပြပါ စာရင်းမှာ စစ်မဖြစ်မီက သုံးနှစ်တွက် ပျမ်းမျှခြင်း စာရင်းဖြစ်သည်။ ထိုစဉ်ကတန်ဖိုးငွေနှင့်ပင် သိန်းပေါင်းများစွာ ဂုံနှင့် ဂုံထွက် ပစ္စည်းများ အတွက်ကုန်ကျ ခဲ့လေပြီ။ ဤငွေယိုပေါက်ကြီးကို တစတစ ပိတ်ပင် လာနိုင်သည်မှာ နှစ်ထောင်း အားရ ဝမ်းမြောက်ဖွယ်ဖြစ်သည်။ ဆန်စပါး လုပ်ငန်းနှင့် အခြား စိုက်ပျိုးကုန်စည်များအတွက် ဂုံအိတ်နှင့် ဂုံအိတ်ကြိုး မသုံးလျှင် မဖြစ်သလောက်ပင် ဖြစ်ချေသည်။ ထိုမျှ အရေးပါ အရာရောက်သော ဂုံလျှော်ကို ရနိုင်ရန် ရည်သန်လျက် မြန်မာနိုင်ငံတွင်ယခုအခါ ဂုံပင်များကို တိုးချဲ့စိုက်ပျိုးရန် အထူးပင် လိုလားအပ်ပေသည်။

## (၃) ဆီထွက်ပင်များ (နှမ်း၊ မြေပဲ)

မြန်မာ နိုင်ငံ၌ လူအများ နေ့စဉ် စားသုံးကြသည့် အစာအာဟာရတို့တွင် နှမ်းဆီနှင့် မြေပဲဆီသည် အလွန်ပင် အရေးကြီးသော စားသုံးကုန်ပစ္စည်းများ ဖြစ်ပေသည်။ နှမ်းပင်ကို ရှေးပဝေဏီကပင် စိုက်ပျိုးခဲ့ကြသော်လည်း၊ မြေပဲပင်ကိုမူ မြန်မာ တောင်သူ ယာသမားတို့သည် လွန်ခဲ့သည့် နှစ်ပေါင်း ခြောက်ဆယ်ခန့်ကမှ စတင် တီထွင် စိုက်ပျိုးသော ဆီထွက် သစ်စေ့ရ အဖိုးတန်အပင် ဖြစ်သည်။ ၁၉၀၃ ခုနှစ်တွင် မြေပဲစိုက်သော ကေပေါင်း ၃,၈၆၆ စတင်၍ စိုက်ပျိုးသော်လည်း ခုနစ်နှစ်အကြာ ၁၉၀၉ ခုနှစ်တွင် မြေပဲကေပေါင်း နှစ်သိန်းခွဲခန့် (၂၄၈,၄၉၇) အထိ တိုးချဲ့ စိုက်ပျိုးလုပ်ကိုင်သည်ကို စိုက်ပျိုးရေးသမိုင်းတွင် မှတ်တမ်းတင်စရာ ဖြစ်ချေသည်။ မြေပဲ စတင် စိုက်ပျိုးသော ၁၉၀၃ ခုနှစ်၌ နှမ်းကေပေါင်း ကိုးသိန်းခုနစ်သောင်းခန့် (၉၆၈,၅၀၅) စိုက်ပျိုး၏။ ၁၉၀၃ ခုနှစ်က ပခုက္ကူ ခရိုင်တွင် မြေပဲ စတင်စိုက်ပျိုးသောအခါအလွန်ခဲယဉ်းစွာဟောပြောတိုက်တွန်းမှသာ တောင်သူယာသမားများသည် အစိုးရကို ကြောက်ရွံ့သဖြင့် စိုက်ကြလေသည်။ နှမ်း စိုက်ပျိုးလုပ်ကိုင်မှုသည် အလောင်းအစားပြုလုပ်ရသကဲ့သို့ အလွန်စိတ်မချရသော အပင် ဖြစ်သည်။ နှမ်းစိုက်ပျိုးသည့်နေ့မှစ၍ ရိတ်သိမ်းပြီးသည်အထိ မိုးလေဝသကို စိတ်မချနိုင်ချေ။ သို့ဖြစ်သောကြောင့် ရာသီဥတုအတွက် ပိုမို စိတ်ချရ၍ အထွက်သင့်တင့်သည့်အပြင် မလွတ်စတမ်း ရနိုင်သော မြေပဲပင်ကို တီထွင်စိုက်ပျိုးရခြင်း ဖြစ်သည်။ ပခုက္ကူခရိုင်တွင် ၁၉၀၃ ခုနှစ်က မြေပဲ ၇၁ ကေစိုက်ပျိုး၍၊ ၁၉၀၇ ခုနှစ်အထိ ငါးနှစ်ကြာသောအခါ မြေပဲကေပေါင်း ၁၆၈ မျှသာ စိုက်ပျိုးကြ၏။ ထိုနှစ်တွင် မြင်းခြံခရိုင်မှာ မြေပဲကေပေါင်း ၃၁,၃၃၇ စိုက်၍၊ မကွေးခရိုင်တွင် မြေပဲ ကေပေါင်း ၄၂,၅၄၂ အထိ တိုးချဲ့စိုက်ပျိုးလေသည်။ ထိုအခါ ခရိုင်ဝန် (အရေးပိုင်) မစ္စတာ စီ အက် (ဗ) ဂရန့်သည် တရွာဝင် တရွာထွက် နေပူပြင်းလှသော နွေရာသီတွင် လိုက်လံ ဟောပြောကြီးကြပ်လျက် စိုက်ပျိုးလုပ်ကိုင်စေရာ၊ နောက်နှစ်နှစ်ကြာသောအခါ (၁၉၀၉ ခုနှစ်) ပခုက္ကူခရိုင်သား ယာသမားတို့သည် မြေပဲ ကေပေါင်း ၈၅,၃၁၉ အထိ တိုးချဲ့ စိုက်ပျိုးကြသဖြင့် မြင်းခြံနှင့် မကွေးခရိုင်ထက်ပင် ကေပေါင်းနှစ်ဆမှ သုံးဆအထိ ပိုမိုစိုက်ကြလေသည်။ များမကြာမီနှစ်အတွင်း အရေးပိုင် မစ္စတာ ဂရန့်ကို "မြေပဲဘုရား" ဟု ခေါ်ဝေါ် သမုတ်ကြသည့်အပြင်၊ "ကုလား မြေပဲ၊ မယား ရွှေဆွဲ" ဟူသော အတိတ်တဘောင်သည် ပေါ်လာသည်ဟု အဆိုရှိ၏။

ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီအတွင်း (၁၉၄၁ ခုနှစ်)နှမ်းဆီ၊ မြေပဲဆီနှင့် ထောပတ် (သစ်စေ့ဆီထောပတ်တု အပါအဝင်) မြန်မာနိုင်ငံတွင် မည်မျှ လိုသည်ကို ငွေတန်ဖိုးနှင့်တကွ အောက်ပါဇယားတွင် ဖော်ပြမည်။

| အမျိုးအစား | တန်ချိန် | ကျပ်ငွေတန်ဖိုး |
|---|---|---|
| ၁။ မြန်မာနိုင်ငံထွက်နှမ်းဆီ | ၂၅,၀၀၀ | ၉,၃၀၀,၀၀၀ |
| ၂။ နိုင်ငံခြားမှဝယ်သော နှမ်းစေ့ | ၁,၅၅၉ | ၂၅၄,၀၀၀ |
| ၃။ မြန်မာနိုင်ငံထွက်မြေပဲဆီ | ၅၀,၀၀၀ | ၁၂,၄၀၀,၀၀၀ |
| ၄။ နိုင်ငံခြားမှဝယ်သော မြေပဲဆီ | ၂၀,၀၀၀ | ၅,၂၀၀,၀၀၀ |
| ၅။ ဿီးထောပတ်နှင့် ထောပတ်တု | | |
| (က) နို့မှရသော ဿီး ထောပတ် | ၇၀၀ | ၁,၀၀၀,၀၀၀ |
| (ခ) ထောပတ်တု | ၁,၀၀၀ | ၇၅၀,၀၀၀ |
| စုစုပေါင်း | ၉၈,၂၅၉ | ၂၈,၉၀၄,၀၀၀ |

မြေပဲပင်ကို ၁၉၀၁ ခုနှစ်တွင် ၃,၀၆၆ ဧကမှတစတစတိုးချဲ့စိုက်ပျိုးလာရာ ၁၉၅၉ ခုနှစ်တွင် မြေပဲဧကပေါင်း ၉၇၁,၀၆၀ အထိ (ကိုးသိန်း ခုနှစ်သောင်းကျော်) တိုးချဲ့ စိုက်ပျိုးလာသော်လည်း စားသုံးဆီ ဖူလုံအောင် မရသေးချေ။ ဒုတိယကမ္ဘာစစ် မဖြစ်မီက အောက်ပါ ဇယားတွင် ဖော်ပြသောတိုင်း လေးတိုင်းနှင့် ကချင်ပြည်နယ်၌ မြေပဲရေိယာ မဆိုသလောက် စိုက်ခဲ့သည်မှ ၁၉၅၉ ခုနှစ်အထိ မြေပဲ ဧကပေါင်းမြောက်မြားစွာ စိုက်ပျိုးလာကြသည်မှာ အလွန် အံ့ဩဖွယ်ကောင်းပေသည်။

| အမှတ်စဉ် | တိုင်းနှင့် ပြည်နယ်အမည် | ၁၉၄၁ ခုနှစ် မြေပဲဧက | ၁၉၅၉ ခုနှစ် မြေပဲ ဧက |
|---|---|---|---|
| ၁။ | ရခိုင်တိုင်း | ၂၀၉ | ၁,၀၁၉ |
| ၂။ | ပဲခူးတိုင်း | ၂,၃၂၉ | ၆၀,၆၇၅ |
| ၃။ | ဧရာဝတီတိုင်း | ၉,၂၅၆ | ၄၁,၂၉၂ |
| ၄။ | တနင်္သာရီတိုင်း | ၃,၇၅၃ | ၈,၂၇၅ |
| ၅။ | ကချင်ပြည်နယ် | ၄,၀၆၉ | ၇,၁၇၈ |
| | စုစုပေါင်း | ၁၉,၆၁၆ | ၁၁၈,၄၃၉ |

ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီက (၁၉၄၁ ခုနှစ်)နှမ်း ဧကပေါင်း ၁၃ သိန်းခန့် စိုက်ပျိုးလုပ်ကိုင်၍၊ ၁၉၅၉ ခုနှစ်တွင် ၁၄ သိန်းခန့် စိုက်ပျိုးသဖြင့် ဧကပေါင်း တသိန်းခန့် နှမ်းဧရိယာ အကျယ်အဝန်း ပိုမိုစိုက်ပျိုးသော်လည်း၊ နှမ်းဆီ မဖူလုံသေးသည်ကို တွေ့ရသည်။ ဤအထက်ပါ ဇယားများ ကြည့်ခြင်းအားဖြင့် နှမ်းနှင့်မြေပဲ တိုးချဲ့စိုက်ပျိုးရန် လိုပေသေးသည်မှာ သိသာ ထင်ရှားသည်။

## (၄) ဂျုံစပါး

ဂျုံစပါး (ဂျုံ) သည် အလွန် ခွန်အားဖြစ်စေသော ကောက်မျိုး တမျိုး ဖြစ်သည်။ မြန်မာနိုင်ငံ လွင်ပြင် အရပ်ဒေသတို့၌ ဂျုံစိုက်သောနေရာတို့မှာ ရွှေဘိုခရိုင်တောင်ပိုင်းမှ စစ်ကိုင်းမြို့အထိ ကျယ်ပြန့်သော မူးမြစ်ဝှမ်းတလျှောက် မြေနိမ့်လွင်ပြင်ကွင်းနှင့် ထိုမှ ဧရာဝတီမြစ်ကို ကျော်လျက် တဖက်ကမ်းရှိ ကျောက်ဆည်ခရိုင် ပန်းလောင်ချောင်း အထိ တည်ရှိသော လွင်ပြင်ကွင်းတို့ဖြစ်ကြ၏။ ထိုအပြင် စစ်ကိုင်း အနောက်ဖက်၌၎င်း၊ အောက်ချင်းတွင်း (မုံရွာ) ခရိုင်၌၎င်း အနည်းအကျဉ်း စိုက်ပျိုးကြသေးသည်။ ယခုအခါ ဒုတိယကမ္ဘာစစ်ကြီးအပြီး၌ ဟသ်ာတ၊ မင်းဘူး၊ မန္တလေး၊ မိတ္ထီလာ၊ မြင်းခြံနှင့် ရမည်းသင်းခရိုင်များတွင် သိသာ ထူးခြားစွာ ဂျုံကို တိုးချဲ့စိုက်ပျိုးလာကြလေသည်။ အထက်ပါ အရပ်များတွင် များသောအားဖြင့် တမာခေါက် ဂျုံ (ဂျုံမာ)မျိုးကို စိုက်ပျိုးလုပ်ကိုင်ကြ၏။ စစ်မဖြစ်မီ ၁၉၄၁ ခုနှစ် က ဂျုံမာ (ထမချောက်ဂျုံ) ဧကပေါင်း ၁၅,၀၀၀ (တသောင်းခွဲ)ခန့် စိုက်ပျိုး၍ တဧကလျှင် ပေါင်ချိန် ၄၅၀ ခန့် ထွက်သည်။ ရှမ်းပြည်နယ်တွင် ပေ ၃,၀၀၀ မှ ၄,၀၀၀ အထိ မြင့်သော ကုန်းပြင်မြင့်ဒေသတို့၌ သမပိုင်းရာသီဥတုနှင့် သင့်လျော်သော ဂျုံမျိုးကို စိုက်ပျိုးကြ၏။ ထိုဂျုံမျိုးမှာ ဥရောပ၊ ဩစတြေးလီးယားနှင့် အမေရိကတိုက်တို့၌ စိုက်ပျိုးသော နူးညံ့သည့် ဂျုံမျိုးနှင့် အတူတူပင် ဖြစ်လေသည်။ ယင်းဂျုံနူးညံ့ခေါ် ဂျုံပျော့မျိုးသည် တဧကလျှင် ပေါင်ချိန် ၇၅၀ ခန့်ထွက်၏။ ရှမ်းပြည်နယ်တွင် ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက ဧကပေါင်း ၁၀,၀၀၀ ခန့် စိုက်ပျိုးလေသည်။ စစ်မဖြစ်မီ ဂျုံနှင့် ဂျုံထွက်ပစ္စည်း၏ စီးပွားရောင်းဝယ်ရေး အခြေအနေသည် အောက်ပါအတိုင်းပင် ဖြစ်ချေသည်။

၁၉၄၁ ခုနှစ် စာရင်းဇယား

| အမျိုးအစား | တန်ချိန် | ကျပ်ငွေတန်ဖိုး |
|---|---|---|
| ၁။ မြန်မာနိုင်ငံထွက်ဂျုံစေ့ | ၆,၀၀၀ | ၆၀၀,၀၀၀ |
| ၂။ နိုင်ငံခြားမှဝယ်ယူသော ဂျုံစေ့(သွင်းကုန်) | ၃,၂၅၀ | ၃၅၀,၀၀၀ |
| ၃။ ဂျုံမှုန့် (သွင်းကုန်) | ၃၀,၀၀၀ | ၃,၈၀၀,၀၀၀ |
| စုစုပေါင်း | ၃၉,၂၅၀ | ၄,၇၅၀,၀၀၀ |

ဂျုံစေ့ (နိုင်ငံထွက်နှင့် နိုင်ငံခြား)မှ အာဋ္ဌာမှုန့်ခေါ် ဂျုံမှုန့်ရာနှုန်း ၉၀ % ရသည်။ နိုင်ငံခြားမှ သွင်းကုန် ဂျုံမှုန့် အလတ်ကြမ်းခေါ် အာဋ္ဌာမှုန့် ၁၀ % ပါလေသည်။ ဒုတိယ



စက်မှုလယ်ယာ ဖွံ့ဖြိုးရေး စီမံကိန်းအရ တိုးတက်လျက်ရှိသော ဝါခင်း လုပ်ငန်း၏ ရှုခင်းတရပ်

အာလူးစိုက်နည်းကို သိပ္ပံနည်းကျကျ လက်တွေ့ သင်ပြကာ စိုက်ပျိုးလျက် ရှိသည်။

ကမ္ဘာစစ်ကြီးအပြီး(၁၉၅၉ ခုနှစ်)တွင် မြန်မာနိုင်ငံ တဝှမ်းလုံးတွင် ဂျုံကေပေါင်း ၈၁,၄၀၁ (ရှစ်သောင်းကျော်) စိုက်ပျိုး၏။ ဂျုံစေ့ကို စက်တင်ကြိတ်ပါက အောက်ပါ ဂျုံထွက်ပစ္စည်းများ ရသည်။

(၁) ဂျုံမှုန့်နုခေါ် မိုင်ဒါ။

(၂) ဂျုံမှုန့် အလတ်ကြမ်းခေါ် အာဋ္ဌာ။

(၃) ချေးကြည်မှုန့်ခေါ် ဂျုံဆန်ကွဲနု(ဝါ) ဆူဂျီ။

(၄) ဂျုံဖွဲခေါ် ဘူဆီ။

အထက်ပါ စာရင်းအင်းများကို ကြည့်၍ ဥရောပတိုက်နှင့် ဩစတြေးလီးယားတိုက်ထွက်ဂျုံပျော့မျိုး ရှမ်းပြည်နယ်တွင်တိုးချဲ့စိုက်ပျိုးရန်လိုပေသေးသည်ကိုသိသာနိုင်ပေသည်။

## (၅) ကြက်သွန်

ကြက်သွန်ကို မြေဩဇာကောင်းသောမြေတွင် ကောင်းမွန်စွာ ထွန်ရေး (ထရေး) သမန်းရအောင် ထွန်ယက်၍ စိုက်ပျိုး လုပ်ကိုင်လျှင် အတော်အတန် ကျေးဇူးများသော လုပ်ငန်းတရပ် ဖြစ်ချေသည်။ ကြက်သွန်သည် ဥကြီး၊ ဥကလေးဟူ၍ နှစ်မျိုး ရှိချေသည်။ များသောအားဖြင့် ကြက်သွန်ဥကြီးကို ကုလားကြက်သွန်ခေါ်၍၊ ကြက်သွန် ဥကလေးကို မြန်မာကြက်သွန်နီဥကလေးဟု ခေါ်ကြသည်။ မင်းတုန်းကြက်သွန်၊ ယင်းချောင်း ကြက်သွန်၊ ခွ (၇ွ) ကြက်သွန်အစရှိသည်တို့ကို မြန်မာ ကြက်သွန်ဥကလေးမျိုးဟု ခေါ်ကြသည်။ အင်္ဂလိပ်လို အမည်ပေးရာ၌ ရုက္ခဗေဒ အမည်နှင့်တကွ အမည် ဝေါဟာရ ကွဲပြားခြားနားသည်။ မြန်မာတိုင်းရင်းသားတို့၏ ဟင်းလျာအတွက် ကြက်သွန်သည် အလွန်အရေးပါ အရာရောက်သည်။ မြန်မာပြည်တွင် ဒုတိယ ကမ္ဘာစစ်ကြီးမဖြစ်မီ သုံးနှစ်ပျမ်းမျှ ကေနှစ်သောင်းခွဲခန့်သာ ရှိသော်လည်း၊ စစ်ပြီး ၁၉၅၉ ခုနှစ်တွင် ကြက်သွန် ကေပေါင်း ၄၂,၅၉၈ (လေးသောင်းနှစ်ထောင်ကျော်) စိုက်ပျိုးကြသဖြင့် အလွန် ဝမ်းမြောက်ဖွယ် ကောင်းချေသည်။ ကြက်သွန်သည် ရာသီဥတု၊ မိုးများ မိုးပါးကိုလိုက်သဖြင့် အထွက်မမှန်ချေ။ ပျမ်းမျှခြင်း တကေလျှင် ကြက်သွန်ဥကြီး ပေါင်ချိန် ၁၅,၀၀၀ ခန့် ထွက်လေ့ရှိသည်။ ကောင်းစွာ ထွန်ယက်ပေးခြင်း၊ အခြား အသီးအနှံများနှင့် အလှည့်ကျ စိုက်ပျိုးပေးခြင်း၊ မြေဩဇာကျွေးပေးခြင်း၊ရေကို အချိန်မှီသွင်းပေးခြင်း ပြုလုပ်ပေးပါက တကေလျှင် ပေါင်ချိန် ၂၀,၀၀၀ မှ ၂၅,၀၀၀ အထိ ထွက်နိုင်လေသည်။ ကြက်သွန်ဥကလေးများမှာမူ တကေလျှင် ပေါင်ချိန် ၅,၀၀၀ မှ ၇,၀၀၀ အထိသာ ထွက်ရှိး ထွက်လေ့ ရှိချေသည်။

အောက်ဖော်ပြပါဇယားတွင် မြန်မာနိုင်ငံမှ ထွက်သော ကြက်သွန်နှင့် နိုင်ငံခြားမှ ဝယ်ယူ သုံးစားရသော (သွင်းကုန်) ကြက်သွန်ကို စစ်မဖြစ်မီ ငါးနှစ်တွက် ပျမ်းမျှ တန်ချိန်များကိုတွေ့နိုင်သည်။ ထိုစာရင်းအင်းများ ကြည့်ရခြင်းအားဖြင့် ဒုတိယကမ္ဘာစစ်ကြီးအပြီး ကြက်သွန်စိုက်သော ရေိယာတိုးတက် လာသည်ကို တွေ့ရှိရချေမည်။ ၁၉၅၉ ခုနှစ်တွက် ကြက်သွန် ကေပေါင်း ၄၂,၅၀၀ ခန့်မှ တကေလျှင် ပျမ်းမျှခြင်း ကြက်သွန်ဥ ငါးတန်ထွက် (၁၁,၂၀၀ ပေါင်) နှုန်းနှင့် တွက်သော် စုစုပေါင်းတန်ချိန် ၂၁၂,၅၀၀ ပေါင် ရရှိသဖြင့် စစ်မဖြစ်မီကထက် နှစ်ဆပိုမိုနေသည်မှာ ထင်ရှားသည်။

## (၆) ငရုတ်

မြန်မာနိုင်ငံ တိုင်းရင်းသားတို့အတွက် ထမင်းဟင်းလျာချက် ပြုတ်ရာ၌ ငရုတ်သီးကို အတော်အတန် အသုံးများသည့် အလျောက် အနှံ့အပြား ငရုတ်ပင် စိုက်ပျိုးကြသည်။ ရှေးအထက်ကျော် ကာရီကမှစ၍ ငရုတ်သီးကို တိုင်းရင်းသားတို့၏ ဟင်းလျာတို့တွင် နေ့စဉ် သုံးကြသည်။ "ချိုလည်း ချိုလွန်း၊ ရည်ရွှန်းများစွာ၊ ကြံ့ဟင်း ကြွက်နားပေါင်း၊ သောင်းပြောင်း ရောစ၍သာ၊ အိမ်သို့ရောက်ခါ၊ လျင်စွာချက်ပြုတ်၊ ထမင်းကပူ ဟင်းကပူ၊ ရှူရှူသာ ရှမ်းငရုတ်ကယ်

| နိုင်ငံအမည် | ကြက်သွန်တန်ချိန် ၁၉၇၇ ခုနှစ် | ၁၉၇၈ ခုနှစ် | ၁၉၇၉ ခုနှစ် | ၁၉၈၀ ပြည့်နှစ် | ၁၉၈၁ ခုနှစ် | တနှစ်တွက် မြန်မာနိုင်ငံသုံး ပျမ်းမျှတန်ချိန် |
|---|---|---|---|---|---|---|
| မြန်မာနိုင်ငံမှ | ၇၈,၅၂၀ | ၉၉,၅၀၀ | ၇၆,၅၁၀ | ၉၀,၆၁၀ | ၁၀၉,၇၀၀ | ၉၀,၉၉၆ |
| နိုင်ငံခြားမှ | ၂၁,၁၈၀ | ၈,၆၂၅ | ၂၄,၉၀၀ | ၂၃,၄၆၀ | ၁၂,၂၆၀ | ၁၈,၀၈၅ |
| ပေါင်း = | ၉၉,၇၀၀ | ၁၀၈,၁၂၅ | ၁၀၁,၄၁၀ | ၁၁၄,၁၄၀ | ၁၂၁,၉၆၀ | ၁၀၉,၀၈၁ |

နှင့်လေး” ဟူ၍၎င်း၊ “ကင်ပလင်းဟင်း၊ ဖွတ်ခြောက်ခတ်ကာ၊ မီးမှာ ဖုတ်သည် ငရုတ်မိုးမြော်သာ၊ ကြက်သွန်မပါ၊ ဆုံမှာထောင်းမှ၊ ထမင်းပူ ဟင်းပူ ငရုတ်ဟူ၊ လူလူ အငွေ့ထသည်နှင့်လေး” ဟူ၍၎င်း ဆင်းရဲသားလောက သရုပ်ဖော်ဆည်များကို ညောင်ရမ်းခေတ်၌ ငရုတ်သီးကို နေ့စဉ်စားသုံးရာတွင် ထည့်သွင်းစားသည်ကို တျာချင်းများတွင် ဝန်ကြီးပဒေသရာဇာသည် သီဖွဲ့ခဲ့၏။ ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီ ၁၉၄၁ ခုနှစ်တွင် မြန်မာပြည်၌ ငရုတ်ဧကပေါင်း တသိန်းခန့် စိုက်ပျိုး၏။ ယခု စစ်ပြီး ၁၉၅၉ ခုနှစ်တွင် ငရုတ်ဧကပေါင်း တသိန်း သုံးသောင်းခန့် စိုက်ပျိုးသဖြင့် အတော်ပင် ကျေနပ် လောက်ပေသည်။ ငရုတ် တဧကလျှင် ငရုတ်သီးခြောက် လေးပိုင်း တပိုင်း တန်ချိန် (၁/၄) (ဝါ) ပိသာ ၁၅၀ ခန့် ထွက်သည်။ မိုးလေဝသ ညီညွတ်ပါလျှင် ငရုတ်တဧက ပိသာ ၁၅၀ ကျော်၍ ၁၇၅ ပိသာခန့်ပင် ထွက်သည်။ စစ်မဖြစ်မီကလည်း အကြီးအကျယ် နိုင်ငံခြားမှ သွင်းယူ ရသည်။ မိုးလေဝသ မညီညွတ်သဖြင့် ငရုတ်ထွက် ညံ့ဖျင်းသောကြောင့်သာ စစ်မဖြစ်မီက တန်ချိန် မဆိုသလောက် ဝယ်ယူ တင်သွင်းရသည်။ စစ်မဖြစ်မီ လေးနှစ်မြန်မာပြည်မှ ထုတ်ကုန်အဖြစ် ပျမ်းမျှခြင်း တန်ချိန် ၃,၀၀၀ ကို အိန္ဒိယသို့ ရောင်း၍၊ သွင်းကုန်အဖြစ် အိန္ဒိယမှ မြန်မာပြည်သို့ တန်ချိန် ၁,၅၀၀ တင်ပို့ ဝယ်ယူရသဖြင့် မြန်မာပြည်က ငရုတ်တန်ချိန် ၁,၅၀၀ ပင် ပိုမို ရောင်းချရချေသေးသည်မှာ ထင်ရှားသည်။ ငရုတ်သီး ရောင်းချ ဝယ်ယူရေး အတွက် ရှင်းလင်း ဖော်ပြရန် လိုပေသေးသည်။ မြန်မာနိုင်ငံက အိန္ဒိယသို့ ရောင်းချသော ငရုတ်အတောင့်ရှည် (ကုလားအော်) မျိုးကို အိန္ဒိယတိုင်းသားများက နှစ်သက်၍၊ ဟင်းချက်ရာ၌ အရောင်နီ၍ အစပ်နည်းသော အိန္ဒိယ ငရုတ်ပု အတောင့်ကြီးမျိုးကို မြန်မာများက သဘောကျသောကြောင့် ကုန်ချင်း လဲလှယ်၍ ရောင်းချဝယ်ယူခြင်း ဖြစ်သည်။ ယခုအခါ ငရုတ်သီးခြောက်ဈေးကတပိသာ သုံးကျပ်နှုန်း ပေါက်သည်ဆိုပါက ငါးချိုး တချိုးကျ တွက်ကြည့်လျှင် စစ်မဖြစ်မီက ကိုးပဲ့ ခြောက်ပိုင်ခန့်သာ ကျသဖြင့် ငရုတ်ဈေးကြီးသည်ဟု မဆိုသာချေ။ စစ်မဖြစ်မီက ငရုတ်တပိသာလျှင် ၁၂ ပဲ (သုံးမတ်)မှ တကျပ်လေးပဲ (ငါးမတ်)အထိပေး၍ စားသုံးရသည်ကို ယခုကာလ ငွေတန်ဖိုးနှင့် ငါးဆ တိုးကြည့်ကြလျှင် ငရုတ် တပိသာလျှင် သုံးကျပ်-၇၅ ပြားမှ ခြောက်ကျပ်-၂၅ ပြားအထိ ကျမည်ဖြစ်ချေသည်။

## (၇) ကွမ်းသီးပင်

မြန်မာနိုင်ငံရှိ ဗုဒ္ဓအယူဝါဒီ တိုင်းရင်းသား ဟူသမျှတို့သည် ညှော်ခံ တည်ခင်းကျွေးမွေးရာ၌ အိမ်မှာ၎င်း၊ အလှူအတန်း ပြုလုပ်ရာ၌၎င်း (က) ကွမ်း(ခ) ဆေး (ဂ) လက်ပက် မပါလျှင် မပြီးသကဲ့သို့ ဖြစ်နေချေသည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီ သုံးနှစ်တွက် ပျမ်းမျှခြင်း ကွမ်းသီးပင် ဧကပေါင်း ၂၇,၀၀၀ ခန့်သာ စိုက်၍၊ ယခု စိုက်ပျိုးသည့် ဧရိယာအကျယ်အဝန်း ဧကပေါင်း သုံးသောင်းခန့်သာရှိရာ ထူးခြားစွာ တိုးတက်သည်ဟု မဆိုသာချေ။ မြန်မာနိုင်ငံ၌ နှစ်စဉ်ကွမ်းသီး တန်ချိန် တသောင်း ငါးထောင် ရရှိသော်လည်း၊ နိုင်ငံသုံးအတွက် မလုံလောက်သဖြင့် အိန္ဒိယ၊ ပသျှူးကျွန်းဆွယ် (မလ္လာယု)၊ သီဟိုဠ်နှင့် အင်ဒိုနီးရှားတို့မှ ကွမ်းသီးတင်သွင်းရသည်မှာ တန်ချိန်ပေါင်း တသောင်းလေးထောင်ခန့်ပင် ရှိ၏။ ကွမ်းသီးများ ဖူလုံစွာ ရရှိနိုင်အောင် နောက်ထပ် ဧကပေါင်း ၂၆,၀၀၀ မှ ၃၀,၀၀၀ အထိ တိုးချဲ့ စိုက်ပျိုးရန် လို၏။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက (၁၉၄၀ ပြည့်နှစ်) တန်ဖိုးငွေ ကျပ် ၇၃ သိန်းခန့် ကွမ်းသီးများကို နိုင်ငံခြားမှ တင်သွင်းဝယ်ယူ စားသုံးကြ၏။ သို့ဖြစ်၍ စုစုပေါင်း ဧကငါးသောင်းထက် မနည်း စိုက်ပျိုးလုပ်ကိုင်ရန်လို၏။ မြစ်ဝကျွန်းပေါ် ဒေသနှင့် တနင်္သာရီ ကမ်းမြောင်ဒေသများ၌ မိုးကောင်းသဖြင့် ကွမ်းသီးပင် စိုက်ပျိုးရန် အထူး သင့်လျော်သည်။ မြိတ်၊ ထားဝယ်၊ မော်လမြိုင်၊ သထုံ ခရိုင်တို့နှင့် ကော်သူးလေပြည်နယ်၌ ကွမ်းသီးပင် စိုက်ပျိုးနိုင်သည့် မြေဧကပေါင်း ငါးသောင်းထက် မနည်း ရှိသည်ဟု ခန့်မှန်း၍ ရ၏။ ကွမ်းသီး ဖူလုံအောင် ထွက်ရှိခဲ့လျှင် နိုင်ငံခြားသို့ ထွက်သွားမည့် သိန်းပေါင်းများစွာ ငွေယိုပေါက်ကြီး ပိတ်၍ ရရှိမည့်ငွေကို နိုင်ငံထူထောင်ရေး လုပ်ငန်းများဖက်သို့ လွှဲပြောင်းနိုင်ချေမည်။

### တီထွင်စိုက်ပျိုးရန် အပင်များ

အမွေးအကြိုင် ဖြစ်သော မဆာလာထွက် အပင်များနှင့် ဆေးဖက်ဝင်သော အပင်များမှ ထွက်သော ကုန်ပစ္စည်းများကို နိုင်ငံခြားမှ သိန်းပေါင်း များစွာ အကုန်ခံ၍ နှစ်စဉ် နှစ်တိုင်း ဝယ်ယူနေကြရသည်မှာ ထင်ရှားပေသည်။ ဇာတိပ္ဖိုလ်၊ လေးညှင်း၊ ပွေးကိုင်း၊ သစ်ကြံပိုး၊ ဖာလာစေ့၊ ငရုတ်ကောင်း၊ ဇီယာ၊ စမုန်မျိုးငါးပါး အစရှိသော ဆေးဖက်ဝင် အပင်များကို လယ်ယာနှင့် ကျေးလက်တိုးတက်ရေး အဖွဲ့က ဝေငှဖြန့်ဖြူး ရောင်းချလျက် ကြိုးပမ်းအားထုတ် လုပ်ကိုင်နေကြောင်း ကြားသိရ၍ ဝမ်းမြောက်ဖွယ်ကောင်းလှပေသည်။ ထိုအပင်များကို ခြံဥယျာဉ်သမားများက ဂရုတစိုက် ကြိုးစားအားထုတ် စိုက်ပျိုးလုပ်ကိုင်ရန် အထူးတလည် လိုလားအပ်ပေသည်။

### ထွက်ကုန် နှင့် ထုတ်ကုန်များ

နိုင်ငံတနိုင်ငံ၏ စီးပွားရေး လွတ်လပ်မှု၊ တိုးတက်မှု ရှိ မရှိကို အစဉ်မပြတ် ထွက်ကုန်၊ ထုတ်ကုန်နှင့် သွင်းကုန်များ အကြောင်းကို အထူးသိသာရန် လိုအပ်ပေသည်။ ထွက်ကုန်

နှင့် ထုတ်ကုန်များ အရေးကြီးသကဲ့သို့ စိုက်ပျိုးရေး သွင်းကုန်များ အကြောင်းကို သိသာရန် လိုလားအပ်သည့် အလျောက်၊ ဤစာတမ်း အပိုဒ် ၅ "တိုးချဲ့စိုက်ပျိုးရန် အပင်များ" အခန်းတွင် စိုက်ပျိုးရေးသွင်းကုန်များကို သိန်းပေါင်းများစွာ အကုန်အကျ ခံလျက် ဝယ်ယူ သုံးစားရသည်ကို စာရင်းများဖြင့် သိသင့် သိထိုက်သော ယုတ္တိဂဏန်းများကို ဖော်ပြထားပေသည်။

**ထွက်ကုန်**။ ။မြန်မာနိုင်ငံတွင် စိုက်ပျိုးလုပ်ကိုင်၍ ဖြစ်စေ၊ သဘာဝ အလျောက် မျိုးစေ့ကျ၍ ပေါက်သောကြောင့် ဖြစ်စေ၊ သို့တည်းမဟုတ် မြေထွက်ပစ္စည်းကို ထုတ်လုပ်၍ ရသောကြောင့် ဖြစ်စေ တနည်းနည်းဖြင့် ထွက်သော ကုန်များကို "ထွက်ကုန်" ဟု ခေါ်သည်။

**ထုတ်ကုန်**။ ။မြန်မာနိုင်ငံ၌ အသုံးပြုရန်ထက် ပိုလျှံနေသဖြင့် နိုင်ငံခြားသို့ ထုတ်ဆောင်ရောင်းချရသော ကုန်ကို "ထုတ်ကုန်" ဟုခေါ်သည်။

**သွင်းကုန်**။ ။မြန်မာနိုင်ငံတွင် အသုံးပြုရန်အတွက် နိုင်ငံခြားမှ ထုတ်၍ မြန်မာနိုင်ငံတွင်းသို့ သွင်းဆောင် ဝယ်ယူရသော ကုန်ကို "သွင်းကုန်" ဟုခေါ်သည်။

ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီက (၁၉၃၇–၃၈ မှ ၁၉၃၉–၄၀) သုံးနှစ်တွက် ပျမ်းမျှခြင်း စိုက်ပျိုးကုန်စည်များ၏ ထုတ်ကုန်များကို ငွေကျပ်သိန်းပေါင်းဖြင့် အောက်ပါဇယားတွင် ဖော်ပြထားသည်။

| ထုတ်ကုန်အမည် (စိုက်ပျိုးရေးကုန်စည်) | ငွေကျပ်တန်ဖိုး သိန်းပေါင်း ၁၉၃၇–၃၈ မှ ၁၉၃၉–၄၀ ထုတ်ကုန် | သွင်းကုန် |
|---|---|---|
| ၁။ ဆန်စပါး | ၂၂၁၅.၃၆ | ၁.၉၀ |
| ၂။ ဖွဲနုဖွဲကြမ်း | ၉၉.၈၆ | — |
| ၃။ ပဲအမျိုးမျိုး | ၈၄.၆၂ | ၉.၂၇ |
| ၄။ ဂွမ်း(ဝါစေ့ဆီဖတ်) | ၉၄.၉၂ | ၀.၀၂ |
| ၅။ မြေပဲစေ့-ဆီဖတ် | ၃၈.၄၀ | |
| ၆။ ဟင်းသီးဟင်းရွက် (အာလူးပါ) | ၂၉.၇၇ | |
| ၇။ ကြက်ပေါင်စေး | ၅၉.၆၃ | ၁.၃၇ |
| ၈။ ကျွဲနွားနှင့်ဆိတ်သားရေများ | ၂၄.၉၆ | |
| စုစုပေါင်း | ၂၆၄၇.၅၂ | ၁၂.၅၆ |

ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီ ၁၉၃၇-၃၈ ခုနှစ်မှ ၁၉၃၉-၄၀ ပြည့်နှစ် အထိ သုံးနှစ်တွက် ပျမ်းမျှခြင်း ရေနံ၊ သတ္တုတွင်းထွက် ကုန်စည်နှင့် သစ်သားများ၏ တန်ဖိုးကို အထက်ပါ စိုက်ပျိုးရေးကုန်စည်ဇယားနှင့် နှိုင်းယှဉ်နိုင်ရန် ငွေကျပ် သိန်းပေါင်းဖြင့် တဖက်ပါ ဇယားတွင် ဖော်ပြထားသည်။

| ထုတ်ကုန်အမည်(တွင်းထွက်ပစ္စည်း) | ငွေကျပ်တန်ဖိုးသိန်းပေါင်း ၁၉၃၇-၃၈ မှ ၁၉၃၉-၄၀ ထွက်ကုန် |
|---|---|
| ရေနံဆီနှင့် ရေနံမှထွက်သော ပါရာဖင်၊ ဖယောင်းတိုင်၊ ဖယောင်း ကတ္တရာစေး အစရှိသည် | ၁၃၂၇.၆၅ |
| သတ္တုအရိုင်း အမျိုးမျိုး (ကုန်ကြမ်း) | ၆၀၆.၂၇ |
| ကျွန်းသားနှင့် အခြား သစ်သားများ | ၃၆၀.၆၀ |
| စုစုပေါင်း | ၂၂၉၄.၅၂ |
| တဖက်ပါ ဇယားမှ စိုက်ပျိုးကုန်စည် စုစုပေါင်း တန်ဖိုး | ၂၆၄၇.၅၂ |
| ထုတ်ကုန်များ၏ စုစုပေါင်း တန်ဖိုး (သိန်းပေါင်း) | ၄၉၄၂.၀၄ |

**မှတ်ချက်**။ ။ဖော်ပြပါ ဇယား နှစ်ခုမှ ဂဏန်းများကို အားလုံး မှတ်သားရန် မလိုချေ။ စုစုပေါင်း တန်ဖိုး ဂဏန်းများကိုသာလျှင် လွယ်ကူသောနည်းဖြင့် မှတ်သားရန်လိုသည်။ ပုံစံဆိုသော် စိုက်ပျိုးကုန်စည်များ၏ စုစုပေါင်း ထုတ်ကုန်တန်ဖိုး ဂဏန်းများကို သိန်းပေါင်း ၂၆၄၇.၅၂ ဟု မမှတ်သားဘဲ၊ကုဋေပေါင်း ၂၆ ကုဋေကျော်ဟုသာမှတ်သား ထားရမည်။ ထိုအတူ တွင်းထွက် ပစ္စည်းနှင့် သစ်တောထွက် သစ်သားများ၏ စုစုပေါင်း ထုတ်ကုန်တန်ဖိုးကိုလည်း ၂၃ ကုဋေခန့်ဟုသာ မှတ်သားထားရမည်။အတိုချုပ်လိုရင်း မှတ်သားထားရမည့်ဂဏန်းများမှာအောက်ပါအတိုင်းဖြစ်သည်။

(၁) စိုက်ပျိုးကုန်စည်များ၏ ထုတ်ကုန်တန်ဖိုး ၂၆ ကုဋေခန့်
(၂) တွင်းထွက် ပစ္စည်းနှင့် သစ်သားများ၏ ထုတ်ကုန် တန်ဖိုး ၂၃ ကုဋေခန့်

ထုတ်ကုန်များ၏ စုစုပေါင်း တန်ဖိုးကျပ် ၄၉ ကုဋေ ခန့်

ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီ ၁၉၃၇-၃၈ ခုနှစ်မှ ၁၉၃၉-၄၀ ပြည့်နှစ်အထိ သုံးနှစ်တွက် ပျမ်းမျှခြင်းတန်ဖိုး ကျပ်ပေါင်း ၄၉ ကုဋေခန့်ရှိသည့်အနက်စိုက်ပျိုးကုန်စည်များ၏ထုတ်ကုန် တန်ဖိုးကျပ်ပေါင်း ၂၆ ကုဋေခန့် ရှိသဖြင့် စိုက်ပျိုးကုန်စည်များသည် ထုတ်ကုန် စုစုပေါင်း တန်ဖိုးထက် ထက်ဝက်ကျော်နေသည်ကို သိသာ ထင်ရှားစွာ တွေ့ရမည်။ ထို့ပြင် စိုက်ပျိုးကုန်စည်များ၏ ထုတ်ကုန် တန်ဖိုး ၂၆ ကုဋေရှိသည့် အနက် ဆန်စပါးဖွဲနုဖွဲကြမ်းများ၏ တန်ဖိုး ၂၃ ကုဋေခန့် ရှိနေသဖြင့် ထွက်ကုန်များတွင် ဆန်စပါးဖွဲနုဖွဲကြမ်းများသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ အသက်သွေးခဲသဖွယ် အလွန်အရေးပါ အရာရောက်သည်ကို ဂရုတစိုက် မှတ်သားထားရန် လိုသည်။ ထိုနှစ်များတွင် ဆန်စပါး စသည်တို့၏ ထုတ်ကုန်

တန်ဖိုးသည် တွင်းထွက်ပစ္စည်းနှင့် သစ်သားများ၏ထုတ်ကုန် တန်ဖိုး ၂၃ ကုဋေခန့်ပင် ရှိကြောင်းကိုလည်း မှတ်သားရာ သည်။ အရပ်ရပ် ကုန်ဈေးနှုန်းများ မကျမီ (၁၉၃၀ ပြည့်နှစ် မတိုင်မီ) စုစုပေါင်း ထုတ်ကုန်များ၏တန်ဖိုး ကျပ်ပေါင်း ကုဋေ ၆၀ ခန့် ရှိသည့်အနက် စိုက်ပျိုး ကုန်စည်များ၏ ထုတ်ကုန် ကုဋေ တန်ဖိုးကျပ်ပေါင်း ၃၇ ကုဋေခန့်ရှိသည်ကို တွေ့ရပြန်သည်။ သို့ဖြစ်၍ ထုတ်ကုန်များအနက် စိုက်ပျိုး ကုန်စည်သည် အရေးအကြီးဆုံးဖြစ်သည်မှာ ထင်ရှားသိသာ လှပေသည်။

## (ဂ) လယ်ယာ စိုက်ပျိုးမှု တိုးတက်ရေး

**စိုက်ပျိုးမှု လူအင်အား။** ။မြန်မာ နိုင်ငံရှိ လူဦးရေ တရာ လျှင် ၇၀ ခန့်သည် လယ်ယာလုပ်ကိုင်သူများ(ဝါ)လယ်ယာ အလုပ်နှင့် သက်ဆိုင်သူများသာ ဖြစ်ကြသဖြင့် မြန်မာနိုင်ငံ ၏ စီးပွားရေး၊ ကြီးပွားရေးသည် လယ်ယာ ကိုင်းကျွန်း ခြံမြေဥယျာဉ် လုပ်ငန်းပေါ်တွင် အဓိက တည်လျက်ရှိချေ သည်။ ထို့ကြောင့် "လယ်ယာစိုက်ပျိုးခြင်းသည် မြန်မာ နိုင်ငံ၏ စီးပွားရေး အဓိက အင်အားထုတ်မှု" ဖြစ်သည်နှင့် အညီ ယခုလက်ရှိ အခြေအနေအထိ ဆိုသော် အခြား အင် အား ထုတ်လုပ်မှု လုပ်ငန်းများထက် အင်အားအကြီးဆုံး ဖြစ်လျက် နေပေသည်။ လူအပေါင်းတို့သည် လုံ့လဝီရိယ စိုက်ထုတ်၍ ရှက်ဆောင်ရသော"အင်အားထုတ်လုပ်ငန်း"နှင့် စက်ယန္တရားကို အမှီသဟဲ ပြု၍ လုပ်ဆောင်ရသော "စက်မှု လုပ်ငန်း" ကို ခွဲခြား ဝေဖန်ပိုင်းခြား၍ သိရန် လိုပေသည်။

**မြေအကျယ်အဝန်း (မြေအင်အား)။** ။စစ်မဖြစ်မီ အခြေ အနေအရ သုံးသပ် ဆင်ခြင်ကြည့်လျှင်၊ ဆန်စပါး ပါဝင်သည့် ကောက်ပဲသီးနှံမျိုးစုံ စိုက်ပျိုးလုပ်ကိုင်ခဲ့သည့် မြေအကျယ် အဝန်း ဧကပေါင်း ၁၉ သန်းခန့်(၁၈,၇၁၅,၀၀၀)အနက် ဧက ပေါင်း ၁၂ သန်းခွဲ(၁၂,၅၁၈,၀၀၀)တွင် စပါးကိုသာ စိုက်ပျိုး သဖြင့် စပါးစိုက်ပျိုးရေးလုပ်ငန်းသာလျှင် နိုင်ငံ၏ အဓိက အင်အားစု ဖြစ်သည်မှာ သိသာ ထင်ရှားပေသည်။

**ယခု စပါးစိုက်ပျိုးရေး အခြေအနေ။** ။၁၉၄၂ ခုနှစ်မှစ၍ မြန်မာပြည်ကို ဂျပန်တို့ ဝင်ရောက် သိမ်းပိုက်ထားသည့် သုံး နှစ်အတွင်း လယ်ယာစိုက်ပျိုးရေးလုပ်ငန်း အလွန်ပင် ပျက် ပြားသွားချေ၏။ စစ်မဖြစ်မီ ၁၉၄၀–၄၁ ခုနှစ်တွင် ၁၂ သန်း ခွဲခန့် စပါးစိုက်ပျိုးခဲ့ရာ၊ စစ်ပြီး ပဋမနှစ်(၁၉၄၅–၄၆)တွင် စပါး လယ်ဧကပေါင်း ခြောက်သန်းခွဲကျော်သာ စိုက်ပျိုးနိုင် သည်ကို ကြည့်ခြင်းအားဖြင့်၊ ဧကပေါင်း ခြောက်သန်းခန့် လျော့ပါးသွားသည့် စစ်ဘေးစစ်ဒဏ်ကား အလွန့်အလွန် ကြီးမားလှပေ၏။ ရောင်းချနိုင်သည့် ဆန်စပါး ငွေတန်ဖိုး ယုတ်လျော့ရုံမျှမက၊တော်မှတ်ခေါင်းပါးနေသောနိုင်ငံများက ဝယ်ယူ သုံးစားခွင့် မရသည်မှာ အလွန် စိတ်ကြေကွဲဝမ်းနည်း ဖွယ် သာဓကတရပ် ဖြစ်ချေသည်။ ၁၉၆၀–၆၁ ခုနှစ်အထိ စစ်မဖြစ်မီအခြေသို့ ပြန်ရောက်ရန် နောက်ထပ် ဧကပေါင်း တသန်းခန့် တိုးချဲ့စိုက်ပျိုးရန်လိုပေသေးသည်ကို အထက်တွင် ဖော်ပြရေးသားခဲ့သည်။ ဆန်စပါး ပိုမိုထွက်ရှိရန် အလို့ငှာ တိုးချဲ့ စိုက်ပျိုးရေးနှင့် စပ်လျဉ်း၍ နိုင်ငံ အစိုးရက (က) တောင်သူ လယ်သမား လက်သို့ "လယ်ယာမြေ နိုင်ငံ ပိုင် ပြုလုပ်ရေး အက်ဥပဒေ"အရ လယ်မြေများကို ပြန်အပ် ခြင်း၊ (ခ) တောင်သူလယ်သမားများ စပါးနှင့် ဆန်ဈေး ကောင်းစွာ ရရှိနိုင်ရန်"ပြည်ထောင်စု ကောက်ပဲသီးနှံရောင်း ဝယ်ရေးအဖွဲ့" (ပကရဖ) က စီမံအုပ်ချုပ်၍ နိုင်ငံခြားသို့ ရောင်းခြင်း၊ (ဂ) တောင်သူ လယ်သမားများအား ခုတ် မြေသြဇာများကို ဈေးနှုန်း လျှော့ပေါ့၍ ရောင်းချခြင်း၊ (ဃ) တောင်သူ လယ်သမားများတို့အတွက် အမတော် ငွေများ ထုတ်ဝေချေးငှားခြင်း၊ (င) မျိုးသန့်စပါးများလုပ် သော လယ်သမားများအား ဆုငွေများ ချီးမြှင့်ခြင်း၊ (စ) တောင်သူ လယ်သမားဘဏ် ဖွင့်လှစ်လျက် ရှိခြင်း၊ (ဆ) ကြွေးမြီ ကြွေးဟောင်းများ ဖြစ်သော အမတော် ကြွေးငွေ များမှ လွတ်ငြိမ်းချမ်းသာခွင့် ပေးခြင်း၊ (ဇ) ကောက်လျှင်၊ ကောက်လတ် စပါးရိတ်သိမ်းပြီး လယ်များ၌ သက်လျှင် မြေပဲ အချိန်မှီ စိုက်ပျိုးနိုင်ရန် "ထရက်တာ စက်ယန္တရား" များကို ငှားခငွေ သက်သာစွာဖြင့် ငှား၍ ထွန်ယက် ပေးခြင်း စသည်ဖြင့် အနည်းနည်းအဖုံဖုံ နိုင်ငံအစိုးရ စိုက် ပျိုးရေးဌာနနှင့် မြေယာ ကျေးလက် စည်ပင် တိုးတက်ရေး အဖွဲ့များက ဆောင်ရွက်လျက် ရှိချေသည်။

**ဆန်စပါး မျိုးကောင်း မျိုးသန့် ရရှိရန်။** ။မြန်မာနိုင်ငံမှ ထွက်သော ဆန်စပါးသည် နှစ်စဉ်နှစ်တိုင်း ယိုးဒယားနိုင်ငံ၊ ဗီယက်နမ်နိုင်ငံတို့မှ ထွက်သော ဆန်စပါးများနှင့် ယှဉ်ပြိုင် ရောင်းချရသဖြင့် ဆန်သားဆန်ရင်းကောင်းမှသာလျှင် ဈေး ကောင်း ရချေမည်။ ဆန်ကောင်း ရရှိရေးအတွက်လည်း စပါး မျိုးကောင်းမျိုးသန့်ကို စိုက်ပျိုးရမည် ဖြစ်၏။ ဆန် သား ဆန်ရင်းကောင်းစပါး ဟူသည်မှာ (၁)အမြီးမပါခြင်း၊ (၂) ဆန်နီကင်းခြင်း၊(၃) စပါးလုံး ပုံသဏ္ဌာန်ညီညွတ်ခြင်း၊ (၄) ဆန်သား ကြည်၍ ဆန်နှစ်မပါသဖြင့် အရောင်အဆင်း လှပခြင်း၊ (၅) ဆန်သား မာခြင်း၊ ဆန်သား မာလျှင် ဆန် ကြိတ်ရာ၌ ဆန်ထွက်ပိုခြင်း စသည့် အချက်အလက်များနှင့် ပြည့်စုံ စေရသည်။ ဆန်ရင်းဆန်သားကောင်းသော ဆန် အမျိုးအစား ရရှိရန် အလို့ငှာ နိုင်ငံ အစိုးရသည် မှော်ဘီမြို့၊ မန္တလေးမြို့၊ မြောင်းမြမြို့၊မုဒုံမြို့နှင့် စစ်တွေမြို့များရှိ ဗဟိုစမ်း သပ် စိုက်ပျိုးခင်းများတွင် (၁) မြန်မာနိုင်ငံရှိ စပါးများကို မျိုးသန့်အောင် ပြုပြင် ရွေးချယ်ပေးခြင်း၊ (၂) အခြား စပါးစိုက်ပျိုးသော နိုင်ငံများမှ အမည်ကျော် စပါးမျိုး များကို စမ်းသပ် စိုက်ပျိုးခြင်း၊ (၃) မျိုး ကူးစပ်ပေးခြင်း စသည်ဖြင့် စပါးမွေးမြူရွေးချယ်လျက် ရှိသည်။ ထိုသို့ မျိုး

ကောင်းမျိုးသန့် ရွေးချယ်ရာတွင် (က) လယ်သမားများ သဘောကျလောက်သည့် စပါးထွက်ကောင်းသောမျိုး ဖြစ်စေသည့်အပြင် ကောက်ပင်များ သန်စွမ်း၍ ပိုးမွှားရောဂါကို ခံနိုင်ရည်ရှိခြင်း၊ (ခ) နိုင်ငံခြားသားများ သဘောကျနှစ်သက်၍ ရောင်းချ တင်ပို့ရာ၌ တွင်ကျယ်၍ ထင်ရှားကျော်စောခြင်း ဂုဏ်အင်္ဂါအဖြာဖြာနှင့် ပြည့်စုံရပေသည်။

ကမ္ဘာပေါ်ဝယ် လယ်ယာ စိုက်ပျိုး လုပ်ကိုင်မှု ထွန်းကားသော နိုင်ငံနှင့် စက်မှုလုပ်ငန်း ထွန်းကားသော နိုင်ငံဟူ၍ နှစ်မျိုးနှစ်စား ရှိကြရာ၊ မြန်မာနိုင်ငံသည် လယ်ယာစိုက်ပျိုးမှုကို အမှီပြုရသော နိုင်ငံတခု အဖြစ်မှ လယ်ယာစိုက်ပျိုးလုပ်ကိုင်မှု တိုးတက် ထွန်းကားသော နိုင်ငံအဖြစ်ပန်းတိုင်သို့ လှမ်းနိုင်အောင် ကြိုးပမ်းဆောင်ရွက်အားထုတ်ကြရပေဦးမည်။ သိသာခြားနားစေရန် ပုံစံပြရမည် ဆိုသော် အလွန်သေးငယ်သော နယ်သာလန်၊ ဒိန်းမတ်၊ နယူးဇီလန်ကျွန်းစသည်တို့နှင့် အလွန်ကြီးမားသော ရုရှနိုင်ငံနှင့် အမေရိကန် ပြည်ထောင်စု အစရှိသော နိုင်ငံကြီးများသည် သာမန်စိုက်ပျိုးမှုနယ်နှယ် နိုင်ငံများမဟုတ်ပဲ လယ်ယာစိုက်ပျိုးလုပ်ကိုင်မှု အလွန် တိုးတက်ထွန်းကားနေသော နိုင်ငံများဖြစ်နေသည်မှာ သိသာထင်ရှားလှသော သာဓကများ ဖြစ်ပေသည်။ သုံးပုံ နှစ်ပုံမျှ မကသော မြန်မာနိုင်ငံ လူဦးရေတို့သည် မြေနှင့် မြေမှ ပေါက်ရောက်သော ကပ္ပရုက္ခခေါ် ပဒေသာပင်မျိုးတို့ကို မိမိတို့၏ အသက်မွေးဝမ်းကျောင်း အဖြစ်အမှီသဟဲပြုလျက် နေကြရသည်။ ထိုလယ်ယာစိုက်ပျိုးမှုကို အားကိုး အားထားထိုက်သော မြန်မာ နိုင်ငံသည် ယခုအခါတွင် လွတ်လပ်သော ပြည်ထောင်စု နိုင်ငံဖြစ်လျက်၊ ကမ္ဘာ့ဗိုလ်ပုံအလယ်တွင် ဆန်စပါးကြောင့် အထူး မျက်နှာပွင့်လန်း နေပေသည်။ နိုင်ငံသူ နိုင်ငံသားများသည် လွတ်လပ်သော အခွင့်အရေးတို့ကို ခံစားကြရသည်နှင့် အမျှ မိမိတို့ကံကြမ္မာကို မိမိတို့ ဖန်တီးနိုင်လေပြီ။ သို့ပါ၍ မိမိတို့ ဇာတိဉာဏ်နှင့် သင့်လျော်၍ နိုင်ငံတွင်း အထူးလိုလားတောင့်တအပ်သော စီးပွားရေး ဗိမာန်ကြီးကို ဆောက်လုပ်၍ စီးပွားရေးကို မြင့်တင်ပေးရန် အထူးတလည် ကြိုးပမ်းဆောင်ရွက်အပ်ပေသည်။ မြန်မာ့ လွတ်လပ်ရေးကို ကြံ့ခိုင်တည်မြဲစေရန် စီးပွားရေး လွတ်လပ်မှုကိုပါ မလွတ်တမ်းရအောင် ယူရပေမည်။ သို့မှသာလျှင် တိုင်းသူ ပြည်သား လူအများတို့သည် ညီညီမျှမျှ စီးပွားရေးအကျိုးကို ခံစားခွင့်ရမည်ဖြစ်၏။ ထိုကဲ့သို့ မိုးလေဝသ-မြေရေအစရှိသော သဘာဝအားဖြင့် ပြည့်ဖြိုးစုံလင် စိုက်ပျိုးမှုဂုဏ်အင်များ ထွန်းကားလျက်ရှိသော လယ်၊ ယာ၊ ကိုင်း၊ ကျွန်း၊ ခြံ၊ ဥယျာဉ် လုပ်ကိုင်မှု အခြေအနေကို မွမ်းမံပြုပြင်မြှင့်တင်ပေးရမည့် လုပ်ငန်းစီမံချက်ကိစ္စ ဟူသမျှတို့၌ စိတ်ပါဝင်စားစွာ အားပေး ဆောင်ရွက်ကြခြင်းဖြင့် မြန်မာနိုင်ငံသည် ကမ္ဘာ့ကျီကြီး အဖြစ်ဖြင့် နိုင်ငံတကာ့ အလယ်တွင် ပိုမိုတင့်တယ် နိုင်စေရန် အစွမ်းကုန်အားထုတ်လျက် ကြိုးပမ်းလှုံ့လ ပြုအပ်လှပေသည်။

**ဦးသာမြတ်**

**မြန်မာနိုင်ငံ သတင်းစာများ။** ။မြန်မာပြည်တွင် ပဌမဆုံး ထုတ်ဝေခဲ့သည့် "မော်လမြိုင်ခရော်နီကယ်" သတင်းစာကို စတင် ပုံနှိပ်သည့် ခုနှစ်မှာ ၁၈၃၆ ခုနှစ်ဖြစ်၍ ထိုစဉ်က အနောက်နိုင်ငံများ၌ သတင်းစာလုပ်ငန်းမှာ သိသိသာသာကြီး တိုးတက်လျက် ရှိနေပေပြီ။

၁၈၂၄ ခုနှစ်တွင် ပဌမ အင်္ဂလိပ်-မြန်မာ စစ်ပွဲ ပြီးဆုံးခဲ့ပြီးနောက် အင်္ဂလိပ်အား မြန်မာက တနင်္သာရီနှင့် ရခိုင်တိုင်းတို့ကို ပေးလိုက်ရသည်။ ထိုနယ်များတွင် အင်္ဂလိပ်တို့သည် လွတ်လပ်စွာ စီမံအုပ်ချုပ်ခွင့်၊ စီးပွားကုန်သွယ်ခွင့်၊ သာသနာပြုခွင့်နှင့် ပုံနှိပ်ထုတ်ဝေနိုင်ခွင့်တို့ကိုပါ တပါတည်း ရရှိလေသည်။

မော်လမြိုင်မြို့တွင် ပဌမဆုံး ထုတ်ဝေနိုင်ခဲ့သည့် "မော်လမြိုင် ခရော်နီကယ်" သတင်းစာကို တနင်္သာရီတိုင်း မင်းကြီး ဗလန်ဒယ် ဆိုသူက အင်္ဂလိပ်ဘာသာဖြင့် ၁၈၃၆ ခုနှစ် မတ်လ ၃ ရက်နေ့၌ ထုတ်ဝေခဲ့၏။ပဌမဆုံးအယ်ဒီတာမှာ အစိုးရအခမဲ့ကျောင်း၌ ကျောင်းအုပ် လုပ်နေသော အမေရိကန်သာသနာပြု ဆရာကြီး ဗင်နက် ဖြစ်သည်။ နောင်တွင် ကျောင်းကိစ္စများထက် သာသနာပြု ကိစ္စများတွင် ပို၍ စိတ်ဝင်စားကာ ဆောင်ရွက်နေသည်ကို အစိုးရက တွေ့ရှိသဖြင့် ကျောင်းအုပ် ရာထူးမှ ဖြုတ်ချလိုက်လေသည်။ ထို့ကြောင့် ကျောင်းကို ပိတ်ထားရပြီးလျှင် သတင်းစာကိုလည်း ခေတ္တမျှ ရပ်ဆိုင်း ထားရလေသည်။

၁၈၃၇ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကာလကတ္တားမြို့မှ သာသနာပြု ဆရာကြီး ဂျီ၊ ဂျီ၊ ဟပ်ဖ ရောက်ရှိလာသဖြင့် သတင်းစာကို ၁၈၃၇ ခုနှစ် ဧပြီလ ၁၅ ရက်နေ့၌ ပြန်လည် ထုတ်ဝေလေသည်။ ထိုစဉ်က သတင်းစာကို လပေး ယူသူများမှာ ၁၀၀ ယောက်မျှသာ ရှိသည်။ သို့သော် ကြော်ငြာများနှင့် အပြင် ပုံနှိပ် လုပ်ငန်းများမှ ရရှိသည့် ငွေများသည် သတင်းစာ ထုတ်နိုင်အောင် ရရှိလေသည်။ "မော်လမြိုင် ခရော်နီကယ်" သတင်းစာသည် ဗြိတိသျှ အစိုးရထုတ် သတင်းစာ တစောင် ဖြစ်၍ အစိုးရအမှုထမ်းများနှင့် အစိုးရဌာနမှသတင်းများကို ထည့်သွင်း ဖော်ပြလေ့ရှိသည်။

အထောက်အထားများအရ သိရှိရသလောက် ပဌမဆုံး တိုင်းရင်းဘာသာဖြင့် ထုတ်ဝေသော သတင်းစာမှာ "ဆဉ်တူဂ်ဇ" (ဝါ) "မောနင်းစတား" ဖြစ်၍ ၁၈၄၁ ခုနှစ်၌ ထုတ်ဝေခဲ့သည်။ ယင်း သတင်းစာကို ကရင်ဘာသာဖြင့် ခရစ်ယန်နှစ်ခြင်းသာသနာပြုအဖွဲ့က ထုတ်ဝေခဲ့၍ ထို

အဖွဲ့ကပင် ၁၈၄၂ ခုနှစ်၌ "ဓမ္မသိတင်းစာ"ကို မြန်မာဘာသာဖြင့် မော်လမြိုင်မြို့တွင် ထုတ်ဝေခဲ့သည်။ ဓမ္မသိတင်းစာသည် မြန်မာဘာသာဖြင့် ထုတ်ဝေသောသတင်းစာများတွင် အစောဆုံးဖြစ်သည်။

ထိုသတင်းစာများသည် ခရစ်ယာန် နှစ်ခြင်း သာသနာပြုအဖွဲ့မှ ထုတ်ဝေခြင်း ဖြစ်သဖြင့် အယူဝါဒရေး လုပ်ငန်းနှင့်

॥ဓမ္မသိတင်းစာ॥

THE RELIGIOUS HERALD.

ဒသမတွဲ။ တံကူးလပြည့်ကျော်၁၀ရက်။ ၁၂၁၄။ အာပြီလ။ ၁၈၅၂။ ၄။

Vol. x. April 1852. No. 4.

အင်္ဂလိတ်မင်းနှင့်မြန်မာမင်းတို့စစ်တိုက်ကြသည်အကြောင်း။

The War with Burmah.

ဧပြီလ ၂ ရက်၊ တကူးလဆန်း ၁၄ ရက်နေ့၌၊ အင်္ဂလိတ်ရေကြောင်းစစ်ဗိုလ်ချုပ်သည်၊ မီးသင်္ဘောငယ်တစင်းကို၊ အပေါ်ပိုင်းရိုက်လျက်၊ ရန်ကုန်မြို့သို့တက်အောင်စေလွှတ်လျှင်၊ မီးသင်္ဘောသည်သိလဝါတပ်ရှိရာသို့ရောက်သည့်ရှိသော်၊ တပ်ကတင်ကူး၍ ပြစ်ခတ်သော်၊ မီးသင်္ဘောသည်လှန်ပြန်၍ပြစ်ခတ်သည်တွင်၊ ဘုံးဆန့်တတ်တို့လျှင်၍ယမ်းတိုက်ကိုထိမိသဖြင့်၊ ယမ်းခဲ့မီးလောင်၍၊ လူများစွာသေဆုံးကြသည်။ ...

တကူးလပြည့်ကျော် ၁ ရက်နေ့၌၊ ရေကြောင်းစစ်ဗိုလ်၊ ကျည်းကြောင်းစစ်ဗိုလ်နှစ်ပါး၊ ... မော်လမြိုင်မြို့သို့ရောက်လျှင်၊ မုတ္တမမြို့ကိုတိုက်စေမည်အကြံရှိ၍ ... မီးသင်္ဘောတစင်းနှင့်တက်သွား၍ကြည့်ရှုလေ၏။ ...

အင်္ဂလိပ်နှင့် မြန်မာ စစ်ပွဲသတင်း ဖော်ပြသော ဓမ္မသိတင်းစာ

စပ်လျဉ်း၍ အထူး ရေးသားဖော်ပြသည်။ သို့သော် မြန်မာနိုင်ငံ သတင်းနှင့် ကမ္ဘာ့သတင်းများကိုလည်း ထည့်သွင်းဖော်ပြသေးသည်။ ပမာအားဖြင့် ၁၈၅၂ ခုနှစ် ဧပြီလ ၄ ရက်၊ ၁၂၁၄ ခုနှစ် တန်ခူးလပြည့်ကျော် ၁၀ ရက်နေ့ထုတ် "ဓမ္မသိတင်းစာ" သတင်းစာ ဒသမတွဲ၊ အမှတ် ၄ ၌ "အင်္ဂလိတ်မင်း နှင့် မြမ္မာမင်းတို့ စစ်တိုက်ကြသည် အကြောင်း"ဟူ၍ခေါင်းစဉ်တပ်လျက်ဒုတိယအင်္ဂလိပ်–မြန်မာစစ်ပွဲ အကြောင်းကို ရေးသား ဖော်ပြထားလေသည်။

"ဓမ္မသိတင်းစာ"သည် များသောအားဖြင့် စာမျက်နှာ ၁၂ မျက်နှာ ရှိ၍ တလတွင် တကြိမ် ထုတ်ဝေခဲ့သည်။ ကြည့်ခနှုန်းမှာ တနှစ်လျှင် တကျပ် ဖြစ်၏။

မော်လမြိုင်မြို့မှာပင် အခြား သတင်းစာများ ဆက်ကာဆက်ကာ ထွက်ပေါ်လာ၏။ ၁၈၄၆ ခုနှစ်တွင် စစ်ဖက်နှင့် အုပ်ချုပ်ရေး ဖက်ဆိုင်ရာ အရာရှိများက ကမ္ဘကထ ပြုပြီးလျှင် အရှေ့ အိန္ဒိယကုမ္ပဏီမှ ငွေကြေး စိုက်ထုတ်ပေး၍ အင်္ဂလိပ် ဘာသာဖြင့် ထုတ်ဝေသည့် "မော်လမြိုင် အက်ဗာတိုက်ဇာ" (ဝါ) "မော်လမြိုင်ကြော်ငြာ" သတင်းစာဟူ၍ ပေါ်လာ၏။ အယ်ဒီတာ၊ ပုံနှိပ်သူနှင့် ထုတ်ဝေသူမှာ ဝှစ်တန်ဆိုသူ ဖြစ်သည်ဟု သိရှိရ၏။

၁၈၅၀ ပြည့်နှစ်တွင် ဒဗျူ တောမတ် ကုမ္ပဏီ ပိုင် "မော်လမြိုင်တိုင်း"သတင်းစာဟူ၍ပေါ်သေး၏။ထိုသတင်းစာကို အင်္ဂလိပ် ဘာသာဖြင့် ထုတ်ဝေခဲ့၏။

"မော်လမြိုင် အက်ဗာတိုက်ဇာ" သတင်းစာနှင့် "မော်လမြိုင်တိုင်း"သတင်းစာတို့သည် အချင်းချင်း ပူးပေါင်းကြပြီးလျှင် ၁၈၅၁ ခုနှစ်၌ "မော်လမြိုင် အက်ဗာတိုက်ဇာ"အမည်ဖြင့် ထုတ်ဝေကြသည်။ ၁၈၅၂ ခုနှစ်တွင်ကား "မော်လမြိုင်တိုင်း"အမည်ဖြင့် ထုတ်ဝေပြန်သည်။ ထိုနောက်မှတဖန် "မော်လမြိုင်အက်ဗာတိုက်ဇာ" နာမည်ဖြင့် ထုတ်ဝေပြီးလျှင် တည်မြဲသွားလေသည်။

ထိုသတင်းစာသည် လက်အမျိုးမျိုးပြောင်းကာ ထွက်ခဲ့သည်။ ဂျေ ဗေလီ၊ ဟျူး၊ ချား လောတို့နှင့် ထုတ်ဝေခဲ့ရာမှ ၁၉၀၀ ခုနှစ်တွင် ဗင်ဂျမင်က ဆက်ခံ ထုတ်ဝေခဲ့၏။ ၁၉၁၀ ပြည့်နှစ်ခန့်တွင် ထိုသတင်းစာကို ကက်စတာဆိုသူက အယ်ဒီတာအဖြစ် ဆောင်ရွက်၍ တနင်္လာ၊ ဗုဒ္ဓဟူး၊ သောကြာနေ့များ၌ ထုတ်ဝေခဲ့သည်ဟု သိရှိရ၏။

၁၉၃၄ ခုနှစ်တွင်ကား လျှောင်အချိုင်းက လေလံနှင့်ဝယ်ယူပြီးသော် အယ်ဒီတာ မောင်မောင်သိန်းနှင့်ထုတ်ဝေခဲ့၏။ မောင်မောင်သိန်း ကွယ်လွန်သောအခါ ပီတာ ဆိုသူက အယ်ဒီတာအဖြစ် ဆောင်ရွက်၍ ၁၉၃၇ ခုနှစ်အထိ ထုတ်ဝေခဲ့သည်ဟု သိရှိရပေသည်။

၁၈၆၆ ခုနှစ်တွင် "မော်လမြိုင် အော့ဗဇာဗာ" သတင်းစာ ထွက်ပေါ်ခဲ့၍ အခြား သတင်းစာများလည်း ထွက်ခဲ့ပျက်ခဲ့ ကြသည်ဟု သိရှိရ၏။ ထိစဉ်က သတင်းစာများ၌ စစ်သတင်းများ၊ နယ်ပယ် အခြေအနေ သတင်းများနှင့် ကုူးသန်း ရောင်းဝယ်ရေး သတင်း အနည်းငယ်တို့သာ ပါရှိကြလေသည်။

မြန်မာနိုင်ငံ၏ သတင်းစာများသည် မော်လမြိုင်မြို့တွင် ဦးစွာ ဖွားမြင် လာခဲ့ကြပြီးနောက် ရန်ကုန်မြို့သို့ ပြောင်းရွှေ့လာခဲ့ကြ၏။ ဤသို့ ပြောင်းရွှေ့လာရခြင်း အကြောင်းမှာ ၁၈၅၂ ခုနှစ် ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲ အပြီး၌

ရန်ကုန်အပါအဝင် အောက်မြန်မာနိုင်ငံတခုလုံးကို အင်္ဂလိပ်တို့က သိမ်းယူလိုက်ခြင်းကြောင့် ဖြစ်၏။

၁၈၅၃ ခုနှစ် ဇန္နဝါရီလ ၅ ရက် ဗုဒ္ဓဟူးနေ့၌ "ရန်ကုန်ခရော်နီကယ်" သတင်းစာ ထွက်လာ၏။ အင်္ဂလိပ် ဘာသာဖြင့် ထုတ်ဝေသော ဤသတင်းစာသည် ရန်ကုန်မြို့၌ ပဌမဆုံး ထုတ်ဝေသည့် သတင်းစာဖြစ်ကြောင်း အမှတ်အသားများအရ သိရှိရ၏။ "ရန်ကုန်ခရော်နီကယ်" သတင်းစာကို ဗုဒ္ဓဟူးနေ့ နှင့် စနေနေ့တိုင်း ထုတ်ဝေခဲ့၏။ စာမျက်နှာလေးမျက်နှာ ပါရှိ၍ သတင်းစာ၏ လစဉ်နှုန်းမှာ သုံးကျပ်ဖြစ်၏။ သတင်းစာပိုင်ရှင်မှာ "မော်လမြိုင် ခရော်နီကယ်" သတင်းစာ၏ နောက်ဆုံး ပိုင်ရှင်ဖြစ်သော ရွှေနေ လူးဝစ်ဖြစ်သည်။

ထိုစဉ်က ရန်ကုန်မြို့၌ အင်္ဂလိပ် ဘာသာ သတင်းစာကို ဖတ်နိုင်သူ လူ ၁၀၀ လောက်သာ ရှိ၍ ကုန်သည်ကြီးများမှာလည်း ၁၂ ဦးခန့်လောက်သာ ရှိရာ လူးဝစ်သည် ထိုသတင်းစာကို ထုတ်ဝေခဲ့ရာ၌ နောင်တွင် ရန်ကုန်မြို့သည် တစတစကြီးလာ၍ ဖွံ့ဖြိုးလာမည်ဟု ယုံကြည်သောကြောင့်သာ ဖြစ်ရာ၏ဟု ဆောင်းပါးရှင်တဦးက မှတ်ချက်ချခဲ့၏။

"ရန်ကုန် ခရော်နီကယ်" သတင်းစာသည် စတင် ထုတ်ဝေသည့် အချိန်မှ စ၍ အစိုးရကို ဝေဖန်ခဲ့၏။ ပမာအားဖြင့် ထိုစဉ်က ရှုံ့အတိပြည့်လျက်ရှိသော ရန်ကုန်မြို့၏ အခြေအနေနှင့် စပ်လျဉ်း၍ –

"ကျွန်ုပ်တို့သည် ရာဇဝတ် တရားသူကြီးအား (ရန်ကုန်) မြို့၏ နေရာအနှံ့အပြားတွင် မည်ကဲ့သို့ ဖြစ်ပျက်နေကြောင်းကို သိစေလို၏။ ပျက်စီးရိုရွဲနေသော လူသေကောင်များ၊ ပုပ်ပွနေသော ခွေးသေကောင်များ၊ ကြောင်သေ၊ ကြွက်သေများဖြင့် (ရန်ကုန်) မြို့ နေရာ အနှံ့အပြား သေချင်စရာ ကောင်းလောက်အောင် ဗလပွ ပြည့်နှက်နေကြပါသည်" ဟု ဖော်ပြခဲ့၏။

ထိုစဉ်က ဗြိတိသျှ အစိုးရနှင့် စပ်လျဉ်း၍လည်း "ကျွန်ုပ်တို့သည် အဆိုးရွားဆုံး၊ အချုပ်ချယ်ဆုံး၊ ပညာအမဲ့ဆုံး၊ အမြင်အတျဉ်းဆုံး၊ အကြင်နာ မရှိဆုံး ဖြစ်သော အစိုးရ၏ အုပ်စိုးခြင်းကို ခံနေရသည်" ဟု ရေးသားခဲ့၏။

စင်စစ်အားဖြင့် လူးဝစ်သည် ရွှေနေ၊ ကုန်သည်၊ သတင်းစာတိုက်ပိုင်ရှင် အလုပ်များဖြင့် အသက်မွေး ဝမ်းကျောင်းခဲ့သော်လည်း အယ်ဒီတာကား မဟုတ်ပေ။ လက်တွေ့သတင်းစာလုပ်ငန်း၌ ကောင်းစွာ ကျွမ်းကျင်သူ မဟုတ်သဖြင့် သူ သတင်းစာ၏ "ခေါင်းကြီး" များကို သူကိုယ်တိုင် မရေး၊ မကျေမနပ် ဖြစ်နေသူ ဆောင်းပါးရှင်တို့၏ စာမူတို့ကို "ခေါင်းကြီး" အဖြစ်ဖြင့်သာ ထည့်သွင်းခြင်း ဖြစ်သည် ဟု အဆို ရှိ၏။

မည်သူပင် ရေးသည် ဖြစ်စေ လူးဝစ်၏ သတင်းစာ၌ ပါရှိသည့် ဆောင်းပါးများကို အစိုးရက မနှစ်သက်ချေ။ သို့ရာတွင် လူးဝစ်သည် ရွှေနေတဦးဖြစ်သဖြင့် ဥပဒေအရ နည်းမကျဘဲ သူ့အား အ ရေးမယူရဲပေ။ သို့ဖြစ်ရာ လူးဝစ်အား အစိုးရရာထူးတခု ပေးလိုက်ခြင်းဖြင့် ထိုပြဿနာကို လိမ်မာစွာ ဖြေရှင်းလိုက်လေသည်။ ၁၈၅၄ ခုနှစ် ဇူလိုင်လ ၁ ရက် နေ့တွင် "ရန်ကုန် ခရော်နီကယ်" သတင်းစာ၌ "ဤသတင်းစာအုပ်ချုပ်မှု ပြောင်းလဲ လုပ်ကိုင်လျက် ရှိပြီ ဖြစ်ကြောင်း...." ဟူ၍ ပါရှိခဲ့၏။

ဤသို့ဖြင့် "ရန်ကုန် ခရော်နီကယ်" သတင်းစာသည် မာရှယ် ဆိုသူ ရွှေနေ တဦး လက်ထဲသို့ ရောက်ရှိသွားပြန်၏။ ထိုသတင်းစာကို လူးဝစ် လက်ထက်ကကဲ့သို့ပင် ရေးသား ထုတ်ဝေသွား၏။ သို့ရာတွင် မာရှယ်သည် လူးဝစ်ကဲ့သို့ကား အစိုးရရာထူးတခုကို မရရှာလေ။

မာရှယ်သည် "ရန်ကုန် ခရော်နီကယ်" သတင်းစာကို ခြောက်လခန့် ထုတ်ဝေပြီးနောက် တောမတ် ဂေါ့ဖရီ ဆိုသူ ကုန်သည်တဦးအားရောင်းချလိုက်၏။ ဂေါ့ဖရီသည် သတင်းစာလုပ်ငန်းနှင့် စပ်လျဉ်း၍ ကောင်းစွာ နားလည်သူမဟုတ်သည့်ပြင် သတင်းစာ လုပ်ငန်းကို လေ့လာ လုပ်ကိုင်လိုစိတ်လည်းမရှိခဲ့။ ထိုကြောင့်လည်း ထိုသတင်းစာကို ကာရင်ဆိုသူ အိုင်ရစ်လူမျိုး ရွှေနေတဦးအား ရောင်းလိုက်ပြန်လေသည်။

ကာရင်သည် ထိုသတင်းစာကို ကျကျနန ထုတ်ဝေလိုသူ ဖြစ်သဖြင့် ကာလကတ္တားမှ သတင်းစာဆရာတဦးကို ခေါ်ယူလုပ်ကိုင်စေ၏။ သို့သော် ထိုသတင်းစာမှာ မကြီးပွားချေ။ ကြည့်ရှု အားပေးသူ နည်းနေသဖြင့် သတင်းစာ၏ နာမည်ကို "ပဲခူးဂေဇက်" ဟု ပြောင်း၍ ထုတ်ဝေသေး၏။ သို့သော် ၁၈၅၈ ခုနှစ် မေလတွင် ရပ်လိုက်ရလေသည်။

ထိုစဉ်က ရန်ကုန်မြို့၌ နေထိုင်သူတို့သည် ရန်ကုန်မှထုတ်ဝေသည့် သတင်းစာများကို မကြိုက်ကြဘဲ ကာလကတ္တားမြို့မှထုတ်ဝေသော "အင်းဂလစ်ရှမင်း" (နောင်တွင် "စတိတ်စမင်း" ဟူ၍ ပြောင်းထုတ်သည်။) နှင့် "ဟာကရု" သတင်းစာတို့ကိုသာ မှာယူ ဖတ်ရှုလေ့ ရှိကြ၏။

ထို "ပဲခူးဂေဇက်" သတင်းစာကို ၁၈၅၈ ခုနှစ် ဇွန်လ ၂ ရက်နေ့တွင် "ရန်ကုန်တိုင်း" သတင်းစာဟူ၍ နာမည်ပြောင်းကာ ထုတ်ဝေခဲ့ပြန်သည်။ ပိုင်ရှင်မှာ ဒေါက်တာ ဒေါ်ဆန် ဆိုသူ ဖြစ်၏။ ဆောင်းပါးရှင် တဦးကမူ "ရန်ကုန်တိုင်း" သတင်းစာကို ရွှေနေ ချူတန်နှင့် ဒေါက်တာ ဒေါ်ဆန်တို့ တပတ်နှစ်ကြိမ် ထုတ်ဝေခဲ့သည် ဟုရေး၏။ အခြားဆောင်းပါးရှင်တဦးကလည်း "ရန်ကုန်တိုင်း" သတင်းစာကို ဂေါ့ဖရီဆိုသူက ၁၈၅၆ ခုနှစ် သာသာလောက်တွင် စတင် တည်ထောင်သည်။ ထိုနောက် ကာရင် ဆိုသူက ဝယ်ယူလိုက်သည် ဆို၏။ "ရန်ကုန်တိုင်း" သတင်းစာ၌ အယ်ဒီတာ လုပ်ခဲ့သော နိုလန်ဆိုသူက ၁၉၃၃ ခုနှစ်၌ ဆောင်းပါးတခု ရေး

မြန်မာနိုင်ငံ သတင်းစာများ

# THE MAULMAIN CHRONICLE.

VOL. VIII.] WEDNESDAY, JULY 17, 1844. [No. 14.

ADVERTISEMENT CHARGES.

*The* MAULMAIN CHRONICLE *is printed and published every Wednesday by* J. DE PENNA.

*The price to Subscribers monthly, is 2 Rs. Annually, if paid in advance, 20 Rs.*

*The charge for advertisements is two annas per line, for every insertion. Contracts for a half or whole column, for any period not less than three months, may be entered into with the Printer at a reduced rate.*

*Job printing, either in English or Burmese, viz. Pamphlets, Hand-Bills, Auction Bills, Notifications, &c. &c. will be executed to the* CHRONICLE *Office, at the shortest notice and on reasonable terms.*

*It is particularly requested that all orders be addressed to the Printer.*

## EXTRACTS.

### CALCUTTA

*Head Quarters, Simla,* 23*d May* 1844.—At a general court martial assembled at Benares, on Thursday the 28th of March 1844, sergeant Thomas Stubbs, overseer in the 5th division of the department of public works, was arraigned on the following charges:—

*Charges* —1st. For having, between the months of December 1842, and November 1843, when employed on the grand road between Benares and Gopeegunge, embezzled or fraudulently misapplied, divers sums of money, the property of Government, amounting in the whole to company's rupees two thousand one hundred and nineteen, twelve annas, and five pie, (Co's Rs. 2,119-12-5) or thereabouts, which had been entrusted to him, to expend on the road.

2nd. For having during the months of September and October 1842 through gross neglect of duty, permitted the sum of Company's rupees eighteen hundred, (Co's Rs 1,800) or thereabouts to be charged in excess, to the sum actually expended, and to be fraudulently misapplied by some one or more of the parties under his control.

3d. For having during the months of September and October 1843, through gross neglect of duty, permitted the said sum of company's rupees eighteen hundred, (Co's Rs.1,800) or thereabouts, to be charged in excess by some one or more of the parties under his control, and to be fraudulently misapplied.

4th. For having during the aforesaid period, from the month of December 1842, to the month of November 1843, habitually neglected to send his monthly accounts with regularity, the same being in disobedience of the rules of the department and of the particular injunctions of his superior officer, Captain J. Gilmore, the executive engineer of the 5th division of the department of public works.

5th. For having at Ghazeepore, on the 28th of November 1843 behaved with great insubordination, both in words and gestures ,to the said Captain J. Gilmore, his immediate superior officer, when called upon to state the reasons of his not having duly reported his arrival at Ghazeepore.

*Finding.*—The court find the prisoner sergeant T. Stubbs overseer in the 5th division of the department of public works, of the first charge, not guilty, of which the court acquit him.

Of the second charge, guilty.

Of the third charge, guilty.

Of the fourth charge, guilty.

Of the fifth charge, guilty.

*Sentence.*—The court sentence the prisoner Serjeant T. Stubbs, overseer in the 5th division of the department of public works to be reduced to the rank and pay of a private soldier, and to imprisonment in the fort of Chuna, for twelve lunar months, and to be kept in solitary confinement for the fourth, eight and twelfth months of such imprisonment.

(Signed) T. FIDDES, *Colonel.*
*Benares,* 15*th April,* 1843. *President.*

The finding is approved on the 1st 4th and 5th charges, and the sentence is confirmed.

(Signed) H. GOUGH, *General.*
*Commander in Chief.*

*Head-quarters, Simla,* 18*th May,* 1844.

*Remarks by the Commander in Chief.*—The Commander in chief observes, that under the 2d and 3d charges, (the last of which was inadvertently added to the rest) the evidence goes entirely to the question of personal fraud and embezzlement on the part of sergeant Stubbs, which were not alleged, instead of to his connivance at fraud and embezzlement on the part of others ; of which last though there is no proof, the court have convicted him.

His Excellency has remarked with regret, that the prosecutor was allowed to adduce new matter on the reply, very injurious to the prisoner, and to express himself in much too strong language with regard both to the prisoner, and to the witnesses for the defence, all of whom it was the duty of the court to protect.

The imprisonment awarded by the sentence of the court is remitted.

The prisoner is to be released from arrest and directed to join the head quarters of the 5th battalion of artillery at Benares as a gunner.

By order of his Excellency the Commander-in-chief.

J. R. LUMLEY. *Major General.*
—*Bengal Hurkaru.* *Adjutant General of the Army.*

---

### THE OLDEST ENGLISH PAPERS.

*To the Editor of the Bengal Harkaru*

DEAR SIR.—As you have lately given us some account of the Indian Press in former days, I have no doubt, that the following account of the earliest English newspapers will be acceptable.

" The first newspaper that appeared in the present single sheet form in England, was called the *Public Intelligencer,* and was published by Sir Roger L'Estrange, on the 31st August, 1661, but there were, long prior to this period, publications that suited the same purpose, though printed in different shapes. As far back as the reign of Elizabeth—in 1588 was published " *The English Mercurie.*" in the shape of a pamphlet, the first number of which is still preserved in the British Museum. These sort of pamphlets became more fashionable in the latter part of Elizabeth's reign—but became rare in the reign of James the First. During the wars of Gustavus Adolphus, they were again revived ; for in 1622 we find " *The News of the Present Week.*" by N. Butler, *The Mercurius Britanicus* in 1626, *The German Intelligencer* in 1630, and *The Swedish Intelligencer* in 1631, which was compiled by the learned William Watts, of Caius College, Cambridge. In 1665, the *London Gazette* commenced.

" In 1696 there were nine London papers published weekly, and only one daily paper—*The Orange Intelligencer.* In Queen Anne's reign in 1709, the number increased to 18 : but still there was only one daily paper—*The London Courant.* In the reign of George I. the number was augmented to 3 daily —6 weekly, and 10 three times a week.

Yours truly,

—*Ibid.*

---

### SERAMPORE.

### THE FIRST NEWSPAPER.

Our remarks last week regarding the establishment of the first Newspaper in Calcutta, has brought us a valuable communication from a friend, in which he gives us an extract from a letter of Col. Pearse published in his life which appeared in

မြန်မာပြည်တွင် ပဋမဆုံးထုတ်ဝေခဲ့သော "မော်လမြိုင် ခရော်နီကယ်"သတင်းစာ

ရာတွင် "ရန်ကုန်တိုင်း" သတင်းစာကို အင်္ဂလိပ်တို့ ရန်ကုန်ကို သိမ်းပြီး၍ မကြာမီ ၁၈၅၄ ခုနှစ်၌ နံနက် သတင်းစာ အဖြစ်ဖြင့် ထုတ်ဝေခဲ့သည်ဟု ဆိုလေသည်။

ဒေါက်တာဒေါ်ဆန်သည် အာဏာပိုင်များအား မြောက်ပင့်ပေါင်းသင်းသည်ဟု သိရ၏။ သတင်းစာ ဖတ်သူများလည်း တိုးလာ၍ ကုန်သည်ကြီးများလည်း ထိုသတင်းစာ၌ ကြော်ငြာရန် ဆုံးဖြတ်ကြ၏။ ဒေါက်တာ ဒေါ်ဆန်သည် ဘာသာရပ် အမျိုးမျိုးနှင့် စပ်လျဉ်း၍ ကျကျနန ရေးတတ်ရေးနိုင်သူဖြစ်၏။မြန်မာနိုင်ငံအခွန်တော်ကိစ္စနှင့်စပ်လျဉ်း၍ စုံလင်ကောင်းမွန်သောဆောင်းပါးများကိုရေးသဖြင့် ထိုစဉ်က မြန်မာနိုင်ငံ ပဌမဆုံးပဲခူးတိုင်းမင်းကြီး (နောင်မဟာမင်းကြီး) အာသာဖယ်ယာတွေ့ရှိချီးကျူးသဖြင့် "ရန်ကုန်တိုင်း" သတင်းစာသည် နာမည်ထွက်၍ လာလေတော့သည်။

"ရန်ကုန်တိုင်း" သတင်းစာသည် ၁၈၈၅ ခုနှစ်၌ နေ့စဉ်သတင်းစာ ဖြစ်လာ၏။ ထိုသတင်းစာသည် ညနေသတင်းစာ အဖြစ် ထုတ်ဝေခဲ့ရာမှ ၁၉၃၃ ခုနှစ်ခန့်တွင် နံနက်နေ့စဉ် သတင်းစာ အဖြစ် ထုတ်ဝေခဲ့ကြောင်းဖြင့် ထိုသတင်းစာမှ အယ်ဒီတာတဦး၏ ဆောင်းပါး၌ ပါရှိခဲ့၏။ "ရန်ကုန်တိုင်း" သတင်းစာသည် ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်သည် အထိ ဆက်လက် ထုတ်ဝေခဲ့လေသည်။

"ရန်ကုန်တိုင်း"သတင်းစာ ထွက်လာပြီးနောက် နှစ်နှစ်ခန့်မျှ ကြာသောအခါ ရန်ကုန်မြို့ရှိ ကုန်သည် အချို့က ထိုသတင်းစာ၏ အာဘော်ကို မကျေမနပ် ဖြစ်လာကြ၏။ သို့ဖြစ်ရာ အယ်ဒီတာအား သူတို့အလိုရှိသော အယူအဆများကို ရေးမထည့်လျှင် အခြား သတင်းစာ တစောင် ထောင်ရပါလိမ့်မည်ဟု ခြိမ်းချောက်ကြ၏။ "ရန်ကုန်တိုင်း"သတင်းစာကလည်း အလျှော့မပေးသဖြင့် ၁၈၆၁ ခုနှစ်တွင် "ရန်ကုန်ဂေဇက်" ဟူ၍ တပတ် နှစ်ကြိမ်ထုတ် သတင်းစာကို တည်ထောင်လိုက်ကြလေသည်။

"ရန်ကုန် ဂေဇက်" သတင်းစာသည် စာမျက်နှာ ၁၆ မျက်နှာ ပါရှိ၍ အာဘော်မှာ ရှေးဆန်ဆန် ဖြစ်၏။ ထိုသတင်းစာ၏ ပဌမဆုံးအယ်ဒီတာနှင့် မန်နေဂျာမှာ ကက်ဒီဆိုသူဖြစ်၏။ လေးနှစ်ခန့်အကြာတွင် ကက်ဒီ ကွယ်လွန်၍ ချန်တား ဆက်လက်လုပ်ကိုင်၏။သူ့လက်ထက်တွင် သတင်းစာ စောင်ရေလည်း တက်လာ၍ ကြော်ငြာများလည်း တိုးလာ၏။ ထို့ကြောင့် ၁၈၈၇ ခုနှစ်၌ "ရန်ကုန်ဂေဇက်" သတင်းစာကို ချန်တားက ဝယ်ယူလိုက်လေသည်။ တနှစ်ခန့်အကြာတွင် ချန်တားသည် ပျောက်ကွယ်သွားလေသည်။ ဗိုလ်တက်သို့သွားမည် ဟုပြောကာ ဗန်း ဆိုသူအား လွှဲထားခဲ့ရာမှ စုံးစုံးမြုပ် ပျောက်သွားတော့သည်။

"ရန်ကုန် ဂေဇက်" သတင်းစာသည် လက်အမျိုးမျိုး ပြောင်းခဲ့၏။ နောင်တွင် ဗာလသာဇာ၊ ဝတ်လုံတော်ရ မစ်ချယ်၊ အစိုးရရှေ့နေ ဒဲဗက်၊ ဝတ်လုံတော်ရ မန်းနှင့် ရှေ့နေကပဲတို့ ပေါင်းစပ်ပိုင်ဆိုင်လာကြ၏။ ၁၈၇၄ ခုနှစ်တွင် ဟန္နေးဆိုသူက တာဝန်ခံ အယ်ဒီတာ အဖြစ် စတင်ဆောင်ရွက်လေသည်။ ၁၈၈၃ ခုနှစ်၌ တပတ်လျှင် နှစ်ကြိမ်ထုတ်ဝေရာမှ နေ့စဉ် နံနက်သတင်းစာအဖြစ် ပြောင်းလဲ ထုတ်ဝေလေသည်။ ထို့ကြောင့် "ရန်ကုန်ဂေဇက်"သတင်းစာသည် မြန်မာနိုင်ငံ၌ ပဌမဆုံး နေ့စဉ်သတင်းစာ ဟုဆိုရပေမည်။ "ရန်ကုန် ဂေဇက်" သတင်းစာကား ဒုတိယ ကမ္ဘာစစ်ကြီးဖြစ်၍ အင်္ဂလိပ်များ မြန်မာပြည်မှ ဆုတ်ခွာသွားသည် အထိ ထုတ်ဝေခဲ့လေသည်။ စစ်ပြီးသည့်နောက်ကား ပြန်လည်ထုတ်ဝေခြင်း မပြုတော့ပေ။

၁၈၇၈ ခုနှစ်တွင် "ရန်ကုန် ဒေးလီးမေ" ဟူ၍ အင်္ဂလိပ်သတင်းစာတစောင် ထွက်လာသေး၏။ သို့သော် ခြောက်လခန့်အကြာတွင် ရပ်စဲသွားလေသည်။ ၁၈၇၉ ခုနှစ်တွင် "ဒေးလီး ရီဗျူး" သတင်းစာ ထွက်လာ၏။ သို့သော်မကြာမီပင် ပြုတ်သွားလေသည်။ ထို့ပြင် "ဗြိတိသျှ–မြန်မာ သတင်း" ဟူ၍ သတင်းစာတစောင်လည်း အထက်မြန်မာနိုင်ငံကို အင်္ဂလိပ် မသိမ်းမီက ရန်ကုန်မြို့တွင် ထွက်လာသေး၏။

၁၈၈၄ ခုနှစ်တွင် ရန်ကုန်မြို့ မြို့တော်ခန်းမ၌ လူထု အစည်းအဝေး တရပ် ကျင်းပ၍ "အထက် မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းပိုက်ရန် (ဗြိတိသျှ အစိုးရအား) အပြင်းအထန် တိုက်တွန်းပါသည်" ဟူသော အဆိုကို တင်သွင်းရာ၌ "မြန်မာများ၊ဥရောပတိုက်သားများ၊တရုပ်များနှင့် အိန္ဒိယတိုင်းသား များစွာတို့ တက်ရောက်၍ တညီတညွတ်တည်း ဆုံးဖြတ်ကြသည်" ဟု အစည်းအဝေး မှတ်တမ်း၌ ပါရှိသည်ကို ထိုသတင်းစာက "တက်ရောက်သူများ အနက် အင်္ဂလိပ် မြို့သူမြို့သားများမှ အပ အခြေ အနေရှိသော မြန်မာ၊ တရုပ်နှင့် အခြားနိုင်ငံခြားသား ငါးယောက်ထက် မပို" ဟု သတင်းရေးခဲ့၏။

မန္တလေးမြို့၌ "ရတနာပုံနေပြည်တော်" သတင်းစာထုတ်ဝေနေသည့် (၁၈၇၄–၁၈၈၅) အချိန်တွင် အောက်မြန်မာပြည် မော်လမြိုင်၊ ရန်ကုန်မြို့များ၌ သတင်းစာ အတော်များများ ထွက်ခဲ့ပြီးပေပြီ။ ရတနာပုံ သတင်းစာနှင့် တချိန်တည်း ရန်ကုန်မြို့တွင် ထုတ်ဝေသော သတင်းစာများမှာ ....

(၁) ၁၈၇၃ ခုနှစ် ဇန္နဝါရီလတွင် ဗြိတိသျှ အစိုးရက ထုတ်သော "လောကီသုတပညာ" သတင်းစာ။

(၂) ၁၈၇၅ ခုနှစ်တွင် ရန်ကုန်ထုတ် "ရတနာပုံ" သတင်းစာ။

(၃) ၁၈၇၈ ခုနှစ်တွင် စတင်ထုတ်ဝေသည့် "သံတော်ဆင့်" သတင်းစာ။

(၄) ရန်ကုန် ဂေဇက် အင်္ဂလိပ် သတင်းစာနှင့် တွဲ၍ ထုတ်သော၊ ၁၈၈၅ ခုနှစ်တွင် စတင်ထုတ်ဝေသည့် "မြန်မာ

အဆွေ'' သတင်းစာ တို့ဖြစ်သည်။ ထို့ပြင် ''မြန်မာတိုင်းကြီး ဆွေ'' အမည်ဖြင့် သတင်းစာကြီး တစောင်လည်း ပေါ်ခဲ့သေးသည်ဟု ရတနာပုံနေပြည်တော် သတင်းစာတွင် ပါသည့် သတင်းတရပ်အရ သိရလေသည်။

ရခိုင်ပြည်၌လည်း ၁၈၅၃ ခုနှစ်တွင် ''စစ်တွေ ကူးသန်းရောင်းဝယ်ရေး'' သတင်းစာ ဟူ၍ သတင်းစာ တစောင် ထွက်ခဲ့သေး၏။ နောင်အခါ ပြောဆိုသူက ထိုသတင်းစာကို ဝယ်ယူကာ ''ရခိုင်သတင်း''ဟူ၍ ထုတ်ဝေသည်။ ထိုသတင်းစာကို ရခိုင်လူမျိုး လှဖော်သဲနှင့် သူ့သား မောင်ကြင်ခိုင်တို့က ၁၈၆၈ ခုနှစ်တွင် ဝယ်ယူလိုက်လေသည်။

''ရတနာပုံ နေပြည်တော်'' သတင်းစာကို မန္တလေးမြို့၌ ၁၈၇၄ ခုနှစ်မှ ၁၈၈၅ ခုနှစ်အထိ ထုတ်ဝေခဲ့သည်။

ရာဇဝင် ဆရာ အချို့၏ ရေးသားချက်အရ ထိုသတင်းစာကို မန္တလေး ရွှေမြို့တော်ရှိ ဗရင်ဂျီဂိုဏ်းအုပ် ဘီဂန်းဒက်က အကြံပေး တိုက်တွန်းချက်အရ မင်းတုန်းမင်းကြီးက ထုတ်ဝေခဲ့သည်ဟု ဆိုလေသည်။ သို့ရာတွင် ထိုအချိန်က ကင်းဝန် မင်းကြီး ခေါင်းဆောင်သော မြန်မာသံတော်အဖွဲ့



No 1

မြန်မာလွတ်သတင်းစာ

သည် အင်္ဂလန်၊ ပြင်သစ်၊ ဣတလီ စသော ဥရောပတိုင်းကြီး ပြည်ကြီးများမှ ပြန်လည် ရောက်ခါစ ဖြစ်၍ သတင်းစာလုပ်ငန်း အစီအစဉ်တရပ်ကို ကင်းဝန်မင်းကြီးနှင့် အတူ ပါလာသည် ဟုဆိုသော် ဆိုနိုင်ရာပေသည်။ တနည်းအားဖြင့်လည်း ဗြိတိသျှပိုင် အောက်မြန်မာပြည်၌ သတင်းစာများ တွင်ကျယ် ခေတ်စားနေခြင်းကြောင့် မန္တလေးကလည်းနောက်ကျ၍ မဖြစ်တော့သည့်အတိုင်း အစိုးရဂေဇက်သဖွယ်ဖြစ်သော ''ရတနာပုံ နေပြည်တော်'' သတင်းစာကို မြန်မာသက္ကရာဇ် ၁၂၃၆ ခုနှစ် တပေါင်းလ၊ ခရစ် ၁၈၇၄ ခုနှစ် မတ်လတွင် စတင် ထုတ်ဝေခဲ့လေသည်။

''ရတနာပုံနေပြည်တော်''သတင်းစာကို တရုပ် မြန်မာကပြား ဖြစ်သော ဦးအဟီး ဆိုသူအား ဘုရင်မင်းမြတ်က ''နေမျိုး သီဝသိဒ္ဓိ'' ဘွဲ့နှင့် သံတော်ဆင့်ရာထူး ပေးအပ်လျက် စီမံ အုပ်ချုပ်စေခဲ့သည်။ ယင်း၏ လက်အောက်မှ သတင်းစာ ဆရာ မောင်ထင် (ဘိုးဝဇီရ) နှင့် သတင်းထောက် နှစ်ဦးတို့က သတင်းစာနှင့် စပ်လျဉ်းသမျှသော ကိစ္စအဝဝတို့ကို တာဝန် ယူ၍ ဆောင်ရွက်ကြရလေသည်။ (ဝဇီရ၊ ဘိုး — လည်း ရှု။) သတင်းစာအရေးအသားမှာ ထိုခေတ် မြန်မာတို့ အကြိုက်ဖြစ်သော ကဗျာလင်္ကာသွားဖြင့် ရှေးဆန်ဆန် ရေးသားထားသော်လည်း၊ နိုင်ငံခြားသတင်း၊ ကြေးနန်းသတင်းတို့ဖြင့် သတင်းစာ တစောင်၏ လက္ခဏာရပ်နှင့် ပြည့်စုံစွာရိုက်နှိပ်ထားလေသည်။ ''လောကီ သုတပညာ'' သတင်းစာတွင် ရေးသားပုံမှာလည်း ထိုနည်းနှင်နှင် ဖြစ်သည်။

ထို့ပြင် ''ရတနာပုံ နေပြည်တော်'' သတင်းစာ၏ အခွင့်အလမ်းနှင့် စပ်လျဉ်း၍ မင်းတုန်းမင်းတရားကြီး ပေးထားသော အမိန့်တော်မှာ စိတ်ဝင်စားဖွယ် မှတ်သားဖွယ်ကောင်း၏။ ယင်းအမိန့်တော်မှာ ''ငါ မကောင်းလျှင် ငါ့ကိုရေး၊ ငါ့မိဖုရား မကောင်းလျှင် မိဖုရားတွေကို ရေး၊ ငါ့ သားသမီး မကောင်းလျှင် သားသမီးတွေကိုရေး၊ လွှတ်တရားသူကြီးမကောင်းလျှင် တရားသူကြီးကိုရေး၊ မြို့ဝန်မကောင်းလျှင် မြို့ဝန်ကို ရေး၊ မင်းတို့ သတင်းစာ၌ အပြစ်မရှိစေရ၊ နန်းတော်တွင်းသို့ သတင်းစာတိုက်က မည်သူမဆို အဆီးအတားမရှိဝင်ထွက်စေ'' ဟူသောအမိန့်တော်ဖြစ်လေသည်။

''ရတနာပုံ နေပြည်တော်'' သတင်းစာတွင် မင်းတုန်းမင်းတရားကြီး ကုသိုလ်တော်ဘုရားကြီးသို့ ကြွရောက် ရွှေထီးတင်လှူရန် ထွက်တော်မူသည့် သတင်းကိုဖော်ပြရာ၌.... ''၁၂၃၉ ခု ရတုပြိသာ ကဆုန်လဆန်း မည်မှန်းတွက်ချက် ၁၄ ရက် မင်္ဂလာအခါတော်ကြိုက်ဆဲတွင် ကျော်သဲဘွဲ့သာ မဟာလောကမာရဇိန် ကုသိုလ်တော်ဘုရားသို့ ရွှေသားထီးတင်လှူတော်မူရန် အမှန်ထွက်တော်မူသည့် အခမ်းအနားမှာ''.... စသည်ဖြင့်ပါရှိသည်။

၁၈၇၇ ခုနှစ် ဇန္နဝါရီလ ၁၃ ရက်နေ့ထုတ် "လောကီသုတပညာ" သတင်းစာတွင် ဒေလီမြို့ဒါဗာပွဲတော်ကြီးကျင်းပစဉ်အခါ ရန်ကုန်မြို့မှ သွားရောက်ကြရသော မြန်မာဂုဏ်သရေရှိ လူကြီးနှစ်ဦး ဆုတံဆိပ်များ ရသည့် သတင်းကို ဖော်ပြရာ၌...."ဇမ္ဗူနယ်တွင် မိုရာယှဉ်မရသော သခင်ဘုရင်မ ဒယ်လီမြို့တော်သို့ နယ်ပေါ်တွင်သမုတ် အသိမ်ခံထုတ်ပေသော ကျွန်ုပ်တို့ ရန်ကုန်မြို့က မချိုကြက်သရေ တက်ဝေလျှံကျော်ရှိန်တေဇော်နှင့် စမော်ကော် ဝန်ထောက်မင်း ဦးအုန်း၊ ငင်းပြင် ရန်ကုန်မြို့ပေါ်တွင် ပေါ်ထင်ဂုဏ်သရေ ရှိလှသော မြန်မာလူကြီးထဲက ဦးဘော့ကြီးပါ ဒယ်လီမြို့အောင်ချာ၌ သိုက်မြိုက်ယဉ်ကျေးစွာ အစိုးရမင်းတို့က ဘွဲ့သစ် ချီတော်မူကြောင်းကို ရည်သန်တော်မူ၍ တံဆိပ်ဒင်္ဂါး တပြားစီ ဆုပေးသနားတော်မူကြောင်း ကြားသိရလေသည်" ဟု ပါရှိလေသည်။

၁၈၇၈ ခုနှစ်တွင် ရန်ကုန်မြို့ ကျုံးကြီးလမ်း၌ "မြန်မာသံတော်ဆင့်" သတင်းစာကို မန္တလေးမှ သံတော်ဆင့်ကြီးကိုယ်တိုင် ဖွင့်လှစ်၍ ထုတ်ဝေခဲ့၏။ နောင်အခါ ထိုသတင်းစာတိုက်ကို မော်လမြိုင် ကတိုးကော့နှပ်ရွာသား ဦးဘိုးအိုဆိုသူက ဝယ်ယူ၍ ဆက်လက်ထုတ်ဝေသည်။ နှစ်ပေါင်း ၅၀ ကျော်မျှ ကြာအောင် ထုတ်ဝေခဲ့ပြီးနောက် မြန်မာပြည်နိုင်ငံရေးခေတ် ထခါစလောက်တွင် ရပ်စဲသွားလေသည်။

အထက် မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းပိုက်ပြီးနောက် ၁၈၉၇ ခုနှစ်တွင် ရန်ကုန်မြို့၌ မစ္စတာ ရစ်ပလီက "ဟံသာဝတီ" သတင်းစာကို ထုတ်ဝေခဲ့၏။ ထိုသတင်းစာသည်လည်း နှစ်ပေါင်းအတော်ကြာ ထုတ်ဝေခဲ့ပြီး နောက် မြန်မာပြည် ဒိုင်အာခီ နိုင်ငံရေးခေတ်တွင် ရပ်စဲသွားလေသည်။

မစ္စတာ ရစ်ပလီ မကွယ်လွန်မီ ဗြိတိသျှဘာမား ဦးညွန့်က ဟံသာဝတီ ပိဋကတ်ပုံနှိပ်တိုက် အားလုံးကို သိမ်းကျုံးဝယ်ယူလိုက်ပြီးနောက် ဒုတိယကမ္ဘာစစ်အပြီး ၁၉၄၅ ခုနှစ် နိုဝင်ဘာလ ၂၉ ရက် အမျိုးသားနေ့မှစ၍ "ဟံသာဝတီ" သတင်းစာကို ဆက်လက် ထုတ်ဝေခဲ့သည်။

မြန်မာပြည် နိုင်ငံရေးခေတ် မထမီက ထုတ်ဝေသော သတင်းစာ တို့မှာလည်း မန္တလေးတွင် "မြန်မာ့တာရာ" သတင်းစာ (ထိုသတင်းစာသည် မြန်မာသံတော်ဆင့် သတင်းစာကဲ့သို့ အသက်ရှည်ခဲ့သော သတင်းစာ ဖြစ်သည်။ မြန်မာနိုင်ငံရေးခေတ် ထလာသော အချိန်တွင် ရပ်စဲသွားသည်။) ရန်ကုန် ဂေဇက်တိုက်မှ "မြန်မာအဆွေ" သတင်းစာ၊ "မြန်မာ့ဝတီ" သတင်းစာ၊ "ကူးသန်းရောင်းဝယ်ရေး" သတင်းစာ၊ "မန္တလေးတိုင်း" သတင်းစာ၊ "မော်လမြိုင်တိုင်း" သတင်းစာ၊ "ပုသိမ် ဇမ္ဗူမင်္ဂလာ" သတင်းစာ၊ "မဟာဗောဓိ" သတင်းစာ စသည်တို့ ဖြစ်ကြသည်။

ထိုခေတ် ထိုအခါက သတင်းစာများတွင် ပါရှိသော စိတ်ဝင်စားဖွယ် ဖတ်စရာတို့မှာ ဥရောပတိုက် ဗော်လကန် စစ်ပွဲကြေးနန်းသတင်းများနှင့် ဗုဒ္ဓအယူဝါဒဆိုင်ရာ စာပေကျမ်းဂန် အယူအဆများနှင့် စပ်လျဉ်း၍ အချေအတင် ရေးသားမှုများ ဖြစ်လေသည်။

၁၉၁၁ ခုနှစ်တွင် ဦးဘဘေနှင့် ဦးလှဖေတို့က "သူရိယ" သတင်းစာ ကို စတင် ထုတ်ဝေကြသည်။ ထိုနှစ်ကား သတင်းစာအားဖြင့် နိုင်ငံရေးမျိုးစေ့ ချသော နှစ်ပင် ဖြစ်၏။ ထိုနှစ်မတိုင်မီကလည်း ကွယ်လွန်သူ ဦးမေအောင်က "ဗားမင်း" အမည်နှင့် သတင်းစာတစောင် အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသေးသည်။ ဦးစွာ၌ အင်္ဂလိပ် ဘာသာသန့်သန့်ဖြင့် ထုတ်ဝေပြီးနောက် အင်္ဂလိပ် တဝက် မြန်မာတဝက် ရော၍ထုတ်ရန် ကြံစည်ခဲ့ရာ အထမမြောက်ချေ။ နောက်ဆုံးတွင် ထိုသတင်းစာကို တောင်ငူ ဦးဘချို ဝယ်ယူသွားပြီးနောက် ကာလအနည်းငယ် ထုတ်ဝေ၍ ရပ်စဲသွားလေသည်။

ဆဲၣ်တၢ်ဂီၤ

THE MORNING STAR.

Vol. XI. SEPTEMBER, 1852. No. 1.

Remarks on the Pentateuch.

No. 6.

ပဌမဆုံး တိုင်းရင်းဘာသာဖြင့်ထုတ်ဝေသော "မောနင်းစတား" သတင်းစာ

၁၉၁၄ ခုနှစ် ပဌမ ကမ္ဘာ့စစ်ကြီး ဖြစ်လာသောအခါ သူရိယ သတင်းစာကို နံနက်ပိုင်းသာ မဟုတ်ဘဲ ညနေပိုင်း အထူးကြေးနန်းသတင်းများကို ထုတ်ဝေခြင်း၊ အထူး စိတ်ဝင်စားဖွယ် ကောင်းသော ဥရောပတိုက် စစ်မြေပုံများနှင့် ရုပ်ပုံများ ဖော်ပြခြင်း စသည်တို့ကြောင့်၎င်း၊ ဝိုင်၊အမ်၊ဘီ၊အေနှင့်အလားတူ အသင်းသားတို့က ဝိုင်းဝန်းအားပေးကြခြင်း၊ ဆရာတော် ဦးဥတ္တမ၊ ဦးဘစောနှင့် ဦးစိန်ဘ စသော ဝိုင်၊ အမ်၊ ဘီ၊ အေ တရားဟောဆရာတို့၏ ဟောပြောချက် ဆောင်ရွက်ချက်တို့ကြောင့်၎င်း၊ ဦးဘဘေနှင့် ဦးလှဖေတို့၏ ကြိုးပမ်းမှု ခေတ်စားလျက် ရှိသောကြောင့်၎င်း သူရိယ သတင်းစာမှာ အထူး တိုးတက်ကျော်ကြားလာသည်။ နိုင်ငံရေး လှုပ်ရှားမှုများသည်လည်း သိသိသာသာကြီး တိုးတက်လာသည်။

၁၉၁၈ ခုနှစ်တွင် လယ်တီပဏ္ဍိတ ဦးမောင်ကြီးနှင့် ဦးတင်တို့က "ပညာ့အလင်း" သတင်းစာကို ထုတ်ဝေကြသည်။ ၁၉၂၂ ခုနှစ်တွင် လိုင်၊ ပု၊ ကျော်နှင့် ၂၁ ဦးတို့ကဲ့ရာ လိုင်၊ ပု၊ ကျော် သပိတ်မှောက်ဂိုဏ်းဖက်မှ ခေါင်းဆောင်၍ အပြင်းအထန် အတိုက်အခံ ရေးခဲ့၏။ ၁၉၁၉ ခုနှစ်တွင် "မြန်မာ့အလင်း" သတင်းစာ ထုတ်ဝေ၏။ ထိုသတင်းစာ အယ်ဒီတာ ဆရာသင်သည် လူဆိုးကြီး ငမိုး လက်ချက်ဖြင့် အသက်ဆုံးရှုံးရသည်။ ဆရာသင် လူသတ်မှုကြောင့် ၁၉၂၄ ခုနှစ်တွင် "ပညာ့အလင်း" သတင်းစာတိုက်ရှင် ဦးတင် အဖမ်းခံရပြီးသည့်နောက် မကြာမီပင် သတင်းစာတိုက် အခြေပျက်၍ ရပ်စဲသွားရသည်။

ထိုတခေတ်တွင် နိုင်ငံရေးလှုပ်ရှားမှုကို အကြောင်းပြုလျက် ထွက်ပေါ်လာကြသော သတင်းစာတို့မှာ (၁) "သူရိယ"သတင်းစာ (မူလရှိရင်းဟောင်း)၊ (၂) "ပညာ့အလင်း"သတင်းစာ၊ (၃) "မြန်မာ့အလင်း" သတင်းစာ၊ (၄) "မြန်မာ့ဝန်ထမ်း" သတင်းစာ၊ (၅) "မော်ဒန် ဘားမားတိုင်း" သတင်းစာ၊ (၆) "ကြယ်တံခွန်" သတင်းစာ၊ (၇) "မြန်မာလွတ်"သတင်းစာ၊ (၈) "ဝံသာနု" သတင်းစာ၊ (၉) "မြန်မာ့ဇေယျာ"သတင်းစာ၊ (၁၀) "အောင်မြန်မာ"သတင်းစာ၊ (၁၁) "ဗန္ဓုလ"သတင်းစာ၊ (၁၂) "သစ္စဝါဒီ"သတင်းစာ၊ (၁၃) "မဟောသဓာ"သတင်းစာ၊ (၁၄) "မောရိယ"သတင်းစာ၊ (၁၅) "မြန်မာ့နေ့စဉ်" သတင်းစာ၊ (၁၆) "သခင်" သတင်းစာ၊ (၁၇) "မြန်မာ့ယုဝ" သတင်းစာ၊ (၁၈) "တိုးတက်ရေး" သတင်းစာ၊ (၁၉) "ဆယ်သန်း" သတင်းစာ၊ (၂၀) "ဒီးဒုတ်" နေ့စဉ် သတင်းစာ စသည်တို့ ဖြစ်သည်။ မန္တလေးတွင် (၂၁) "မြန်မာ့တာရာ" သတင်းစာ (ရှိရင်း မူဟောင်း)၊ (၂၂) "အသူရိန်" သတင်းစာ၊ (၂၃) "ပဟိုရ်စည်" သတင်းစာ၊ (၂၄) "မန္တလေး သူရိယ"သတင်းစာ၊ (၂၅) "တိုင်းချစ်" သတင်းစာနှင့် (၂၆) "မြန်မာ့ဦးစွန်း" သတင်းစာတို့ဖြစ်ကြသည်။

ထိုခေတ်က အင်္ဂလိပ် ဘာသာဖြင့် ထုတ်ဝေလျက်ရှိသော "ရန်ကုန်ဂေဇက်" နှင့် "ရန်ကုန်တိုင်း" သတင်းစာတို့ အပြင် အင်္ဂလိပ်သာဘာဖြင့် ရက်ခြားထုတ်ဝေသော မြန်မာပိုင် "နယူးဘားမား" သတင်းစာ တစောင် ရှိလေသေးသည်။ အစိုးရကလည်း ဦးစွာ၌ "တိုင်းကျိုးသတင်းစာ" ထုတ်သည်။ ထိုနောက် "သူကြီးဂေဇက်"၊ ထိုနောက် "ရွှေပြည်တော်" သတင်းစာ ထုတ်သည်။

မြန်မာပြည်တွင် ဂျပန်တို့ ကြီးစိုးသွားသည့် သုံးနှစ်အတွင်း ထုတ်ဝေနိုင်သော မြန်မာ သတင်းစာတို့မှာ (၁) "သူရိယ" သတင်းစာ၊ (၂) "မြန်မာ့အလင်း" သတင်းစာနှင့် (၃) "ဗမာ့ ခေတ်" သတင်းစာ (ဒေါက်တာဘမော် အစိုးရက ထုတ်ဝေသည်။) တို့ ဖြစ်ကြ၏။ ဂျပန်ဝင်စ၌ ထားဝယ်မြို့တွင် "ထားဝယ်နေ့စဉ်" သတင်းစာ ကို သခင်ကြီးမြင့်တည်းဖြတ်၍ထုတ်ဝေခဲ့သေးသည်။ထိုပြင် အင်္ဂလိပ် ဘာသာဖြင့် "ဂရိတ်တား အေရှား"ခေါ် သတင်းစာကိုလည်း ထုတ်ဝေခဲ့သေး၏။

မြန်မာပြည်သို့ အင်္ဂလိပ်တို့ ပြန်လည် ရောက်ခါစ အခါတွင် အစိုးရ က ဝါဒဖြန့်သဘောဖြင့် ထုတ်ဝေကြ သော မြန်မာသတင်းစာတို့မှာ (၁) "ခေတ်သစ်" (ရန်ကုန်)၊ (၂) "ရွှေမန်း အောင်စည်" (မန္တလေး)၊ (၃) "တက်ခေတ်မြန်မာ" (သာယာဝတီ)၊ (၄) "ရွှေမြိုင်အသံ" (မော်လမြိုင်) တို့ ဖြစ်၍ ယင်းတို့ကို တိုင်းပြည်လူထုက စိတ်ဝင်စားခြင်းမရှိသည့်ပြင် အစိုးရသည် စက္ကူရှားသည့်အခါတွင် အလဟဿ စက္ကူဖြုန်းနေသည်ဟု ဆူပူ ရေးသား ပြောဆိုကြ၍ ရပ်စဲပစ်လိုက်ရလေသည်။

ထိုပြင် ဗြိတိသျှစစ်အုပ်ချုပ်ရေး၏ ဝါဒ စစ်ဆင်ရေး ဌာနမှ "ရန်ကုန်လစ်ဗရေးတား"အမည်ရှိ အင်္ဂလိပ် သတင်းစာကို ထုတ်ဝေသည်။နောင်သော် ထိုသတင်းစာကို"နျူးတိုင်းအော့ဗားမား"ဟူသောအမည်ဖြင့် ဆက်လက် ထုတ်ဝေခဲ့သည်။ "နျူးတိုင်းအော့ဗားမား" သတင်းစာကို လွတ်လပ်ရေးရပြီးသည့်နောက် ကွယ်လွန်သူ ဝန်ကြီး ဦးတင်ထွဋ်၏ အဆက်အနွယ်တို့က အစိုးရထံမှ တင်ဒါစံနစ်ဖြင့် လေလံဆွဲယူလိုက်သည်။ သို့သော် ၁၉၆၀ ပြည့်နှစ် ဇူလိုင်လကုန်တွင် ရပ်စဲလိုက်ရလေသည်။

ဗြိတိသျှတို့ ပြန်လည် ဝင်ရောက်ပြီးသည့်နောက် အမျိုးသားစိတ်ဓာတ်များ ပြန်လည် ဖွံ့ဖြိုးလာပြီးလျှင် လူသုံးများသော အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသော မြန်မာ တိုင်းရင်းသားတို့ပိုင်"ဗားမင်း"သတင်းစာပေါ် ပေါက်လာပြန်သည်။ အခြား အင်္ဂလိပ် သတင်းစာ တစောင်မှာ "ရန်ကုန်မီရာ" သတင်းစာ ဖြစ်သည်။ ထိုနောက်တွင်လည်း အင်္ဂလိပ်

SPECIAL INDEPENDENCE EDITION

RALLY ROUND
THE BANNER OF
INDEPENDENCE

# Greater Asia




VOL. I. NO. 26 (The 18th year of Showa, 2603) RANGOON : MONDAY, AUGUST 2, 1943 PRICE 20 CENTS

# Burma Declares Her Independence To The World

## War on Britain & America Declared

### TREATY OF ALLIANCE BETWEEN NIPPON AND BURMA SIGNED

### PREMIER BA MAW BECOMES HEAD OF STATE

### WITHDRAWAL OF MILITARY ADMINISTRATION

August 1, 1943, marked a Red Letter Day in the annals of Burma. An event of historic importance, unique in the history of the world, which should be engraved in letters of gold, took place in Rangoon. The eagerly-awaited and long-cherished momentous day of Burma has at last arrived—Burma declared her Independence to the world. The ceremony was resplendent with grandeur and solemnity.

Exactly at 10 a.m. (Nippon Time) an announcement regarding the abolition of the Imperial Military Administration (which was in force since June 3, 1942), by Military order, was made. Following this announcement, Lieutenant-General Kawabe, Supreme Commander of Nippon Expeditionary Forces in Burma, issued verbal and final instructions to the people of Burma.

At 11 a.m. an Independent Assembly of Burma was organised the members of which declared themselves as representatives of the Burmese people.

At 11-20 a.m. the Independent Assembly of Burma made a formal declaration of the Independence of Burma. This declaration was recorded by talkie apparatus and was broadcast to the world through radio. After the declaration of the Independence of Burma was made, the fundamental law of Burma was promulgated. Thereafter, an impressive installation ceremony, in which Prime Minister Ba Maw was installed as the Head of the State by the Independent Assembly, took place. The Head of the State then took the oath. The Independent Assembly was thereafter dissolved.

At 1-30 p.m. the commands of the Burma Defence Army and other Military organizations were handed over to the command of the Head of the State by the Nippon Military Command.

At 2 p.m. members for the new Burma Cabinet and Privy Councillors were appointed and inaugurated. These members and Privy Councillors investigated into the Treaty of Alliance between Nippon and Burma.

At 3-30 p.m. the new Burma State made a declaration notifying the Independence of Burma to Manchoukuo, China (Nanking Government), Thailand, Soviet Union, Germany, Italy and other countries in the world.

At 4 p.m. the Burma Government declared war on Britain and the United States. At this stage there was observed in the faces

SIGNING OF THE TREATY OF ALLIANCE



Above photo shows Ambassador Plenipotentiary Renzo Sawada and Premier Ba Maw signing the Treaty of Alliance between Nippon and Burma.

Fifty years or so ago Burma lost her independence for the first time as a result of three Anglo-Burmese wars. Britain waged these wars in pursuance of her predatory designs upon Asia at a time when Asia was divided and unprepared and the whole weight of sea power, superior war equipment, and the vast newly discovered resources of the industrial revolution was on the British side. To these she further added her traditional weapons of intrigue, bribery and every conceivable fraud and device. The result of this unequal contest was that most of the small Asiatic nations were destroyed by British cunning and material superiority. It was Burma's tragedy to be among those small nations which were overpowered by this material

must stand together if Asia is to rise again. Looking for the leadership which would unite and save Asia the Burmese found it in the great Nippon Empire. Therefore Burma began to turn her face towards the East.

With the outbreak of the present war for the liberation of East Asia the Burmese struggle came at last to a turning point. The irresistible forces of Nippon after utterly breaking the enemy everywhere swept through all East Asia and finally reached Burma where the entire people who had long waited for this event rose unitedly to march side by side with Nippon's great army of liberation against the Anglo-American enemies. East Asia had at last come together her enemies

such principles alone will preserve them and make them great and prosperous.

Burma also declares herself to be a member of the Great East Asia Co-prosperity Sphere. She enters into this free and equal partnership so that by the united resources, will and work of East Asia as a whole a new Asiatic order and economy may be established as a part of the New World Order which will ensure justice, peace and prosperity to all people. Burma pledges herself with her entire will to the fulfilment of this great task.

The New State of Burma is also established upon the principle of Burmese unity in blood, in aim and in leadership. It was national disintegration

THE TREATY OF ALLIANCE

AMBASSADOR SAWADA'S SALUTATION

[illegible]

PREMIER BA MAW'S REPLY

[illegible]

ဒုတိယကမ္ဘာစစ်အတွင်းက အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေခဲ့သော“ဂရိတ်တားအေရှား”သတင်းစာ

ဘာသာဖြင့် ထုတ်ဝေသော “ဒေးလီး မော်နီတာ” သတင်းစာ၊ “နေးရှင်း” သတင်းစာ၊ “ဂါဒီယန်” သတင်းစာနှင့် “ယူနီယန် အိပ်စပရက်” သတင်းစာတို့ ပေါ်ပေါက်ခဲ့သည်။

၁၉၄၅ ခုနှစ်တွင် အင်္ဂလိပ်တို့ မြန်မာပြည်သို့ ပြန်လည်ရောက်ရှိလာသော တနှစ်အတွင်းထုတ်ဝေကြသော သတင်းစာတို့မှာ (၁) “သူရိယ” သတင်းစာ၊ (၂) “မြန်မာ့အလင်း” သတင်းစာ၊ (၃) “ဗမာ့ခေတ်” သတင်းစာ၊ (၄) “လမ်းညွှန်” သတင်းစာ၊ (၅) “လွတ်လပ်ရေး” သတင်းစာ၊ (၆) “သံတော်ဆင့်” သတင်းစာ (သစ်)၊ (၇) “ဟံသာဝတီ” သတင်းစာ၊ (၈) “မျိုးစောင့်” သတင်းစာ၊ (၉) “ရွှေဆောင်” သတင်းစာ၊ (၁၀) “ပြည်သူ” သတင်းစာ၊ (၁၁) “သခင်” သတင်းစာနှင့် (၁၂) “ပြည်သူ့အာဏာ” သတင်းစာ စသည်တို့ ဖြစ်ကြသည်။

ထိုနောက် ပေါ်ပေါက်လာသော သတင်းစာ တို့မှာ “ရန်ကုန်” သတင်းစာ၊ “စီးပွားရေး” သတင်းစာ၊ “ကွန်မျူနစ်” သတင်းစာ၊ “ဟစ်တိုင်” သတင်းစာ၊ “သမာဓိ” သတင်းစာ၊ “တိုးတက်ရေး” သတင်းစာ၊ “အိုးဝေ” သတင်းစာ စသည်တို့ ဖြစ်ကြ၏။

တဖန် နောက်ထပ် ပေါ်လာပြန်သော သတင်းစာများမှာ “ထွန်းနေ့စဉ်” သတင်းစာ၊ “ကြေးမုံ” သတင်းစာ၊ “မဏ္ဍိုင်” သတင်းစာ၊ “ပြည်ထောင်စု” သတင်းစာ၊ “ဘွင်းဘွင်း” သတင်းစာ၊ “နှစ်ဖက်ချွန်” သတင်းစာ၊ “ဗိုလ်တထောင်” သတင်းစာ၊ “အထောက်တော်” သတင်းစာ၊ “ယုဝတီ” သတင်းစာ၊ “မိုးကြိုး” သတင်းစာ၊ “အမျိုးသားနေ့စဉ်” သတင်းစာ စသည်တို့ ဖြစ်ကြလေသည်။

မန္တလေးမှလည်း “လူထု” သတင်းစာ၊ “မန္တလေး သူရိယ”၊ “ပဟိုရ်စည်”၊ “တိုင်းချစ်” သတင်းစာတို့ ထုတ်ဝေကြသည်။

၁၉၆၄ ခုနှစ် မေလ ၁၇ ရက်နေ့၌ နေရှင်းသတင်းစာရပ်စဲသွားသည်။ ထိုနှစ်အတွင်းမှာပင် စက်တင်ဘာလ ၁ ရက်နေ့၌ "ကြေးမုံ"သတင်းစာကို၎င်း၊ စက်တင်ဘာလ ၁၁ ရက်နေ့၌ "ဗိုလ်တထောင်"သတင်းစာကို၎င်း၊ စက်တင်ဘာလ ၁၆ ရက်နေ့၌ "ဂါဒီယန်" နေ့စဉ် သတင်းစာကို၎င်း တော်လှန်ရေး အစိုးရက ပြည်သူပိုင် ပြုလုပ်ခဲ့သည်။

ထိုပြင် တော်လှန်ရေးအစိုးရ ပြန်ကြားရေးဌာနမှ "လုပ်သားပြည်သူ့" နေ့စဉ်သတင်းစာကို မြန်မာဘာသာဖြင့် ၁၉၆၃ ခုနှစ် အောက်တိုဘာ ၁ ရက်နေ့၌၎င်း၊ အင်္ဂလိပ်ဘာသာဖြင့် ၁၉၆၄ ခုနှစ် ဇန္နဝါရီလ ၁၂ ရက်နေ့၌၎င်း စတင် ထုတ်ဝေခဲ့သည်။

နိုင်ငံခြား သတင်းဖြန့်ချိရေးဌာနများနှင့် စာချုပ်ချုပ်ဆို၍ နိုင်ငံခြားကြေးနန်းသတင်းများကို တော်လှန်ရေး အစိုးရ ပြန်ကြားရေးဌာန၏ မြန်မာ့သတင်းစဉ် (ပြည်ပ) က ၁၉၆၃ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့မှ အစပြု၍ ဖြန့်ချိခဲ့သည်။

နိုင်ငံခြားမှ ရေဒီယို သတင်းဓာတ်ပုံ များကိုလည်း ၁၉၆၄ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်နေ့မှ အစပြု၍ မြန်မာ့သတင်းစဉ် (ပြည်ပ) က ဖြန့်ချိခဲ့သည်။

ပြည်တွင်းသတင်း ဓာတ်ပုံများကို ရေဒီယိုဖြင့် ပို့သည့်လုပ်ငန်းကို ၁၉၆၅ ခုနှစ် ဇူလိုင်လ ၂၄ ရက်နေ့မှစ၍ ဆောင်ရွက်ခဲ့သည်။ **ဦးအုံးမောင်**

**မြန်မာနိုင်ငံသမိုင်း။** ။ခရစ်နှစ် ၇၀၀ လောက်တွင် မြန်မာနှင့် မြန်မာအနွယ်ဝင်တို့သည် သံလွင် မြစ်ကြောင်းကို လိုက်၍ ကျောက်ဆည်မြို့၏ အရှေ့တောင်ဖက်ရှိ နတ်ထိပ်တောင်ကြားလမ်းမှ မြန်မာနိုင်ငံသို့ဝင်ရောက်ကြသောအခါ၊ သက်နှင့် ကဒူးတို့သည် မြန်မာနိုင်ငံမြောက်ပိုင်း ဧရာဝတီမြစ် အရှေ့ဖက်ကမ်းရှိ တကောင်းပြည်၌၎င်း၊ ရှေးရခိုင်တို့သည် မြောက်အရပ်ရှိ ဝေသာလီပြည်၌၎င်း၊ မွန်တို့သည် တောင်ဖက် ပင်လယ်ကမ်းခြေရှိ သထုံပြည်၌၎င်း၊ ပျူတို့သည် ယခုခေတ် ပြည်မြို့၏ အရှေ့ဖက် မှော်ဇာရွာတည်ရာ အရပ်ရှိ သရေခေတ္တရာပြည်၌၎င်း နေထိုင်လျက် ရှိကြပြီ။ နောက်ခေတ်များတွင် မွန်တို့ အမြောက်အမြား နေထိုင်ကြသော ဟံသာဝတီ ပဲခူးမြို့သည်လည်း မြန်မာနိုင်ငံသမိုင်းတွင် ထင်ရှားလာသည်။ ပင်လယ်ဆိပ်ကမ်းများ ဖြစ်ကြသော သထုံပြည်၊ သရေခေတ္တရာပြည်၊ ပဲခူးမြို့တို့သို့ အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသနှင့် အိန္ဒိယနိုင်ငံ တောင်ပိုင်းမှ ကုန်သည်တို့သည် ရွက်သင်္ဘောများဖြင့် လာရောက်ကြရာ၊ ဗုဒ္ဓ ရဟန်းတော်များလည်း ပါလာတတ်ကြသည်။ ကာလအတန်ကြာသော် သထုံပြည်သား၊ သရေခေတ္တရာပြည်သား၊ ပဲခူးမြို့သား အများတို့သည် ဗုဒ္ဓဝါဒီများ ဖြစ်လာကြသည်။ အချို့တို့သည် မဟာယာနဂိုဏ်းဝင် လောကနာထ ဘုရားကို၎င်း၊ ဟိန္ဒူဘုရားများကို၎င်း ကိုးကွယ်ကြလေသည်။

ထိုအခါဝယ် တရုပ်နိုင်ငံ အတွင်းရှိ ယူနန်ပြည်နယ် တည်ရာ အရပ်၌ ရှမ်းနှင့် ရှမ်းအနွယ်ဝင်တို့ အမြောက်အမြား နေထိုင်ကြသော နန်ချောင်တိုင်းပြည်သည် စည်ကားလျက်ရှိ၏။ ၈၃၂ ခုနှစ်တွင် နန်ချောင်မင်းသည် သရေခေတ္တရာပြည်ကို တိုက်၍ များစွာသော ပျူတို့ကို စစ်သုံ့ပန်းအဖြစ် ခေါ်ဆောင်သွားသည်။ ကျန်ရစ်ခဲ့သော ပျူတို့မှာ အစုအအုပ်ကွဲ၍ အချို့သည် စမုန်မြစ်ဝှမ်းရှိ မွန်တို့နှင့် ရောစပ်ကြသည်။ အချို့ကား ရခိုင်ဖက်သို့ ပြေးဝင်ကြသည်။

နန်ချောင်စစ်သည်တို့သည် ၈၃၅ ခုနှစ်တွင် သထုံပြည်ကို တိုက်ခိုက်ခဲ့ကြသော်လည်း မွန်တို့သည် နန်ချောင်စစ်သည်တို့ပြန်ကြသောအခါ၌ သထုံပြည်တွင် ပြန်လည်စုရုံး နေထိုင်ကြလေသည်။

ဤသို့ ပျူနှင့် မွန်တို့သည် နန်ချောင်စစ်သည်တို့ တိုက်ခိုက်မှုကြောင့် ဒုက္ခတွေ့လျက် ရှိနေကြစဉ် မြန်မာနှင့် မြန်မာအနွယ်ဝင်တို့သည် မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက်လျက်ရှိကြ၏။ ကျောက်ဆည်မြို့အနီးရှိ နတ်ထိပ် တောင်ကြားလမ်းက မျှော်ကြည့်သော် ပန်းလောင်မြစ်၊ စမုန်မြစ်၊ ဇော်ဂျီမြစ်တို့စီးဆင်းရာ စိမ်းလန်းသောမြေပြင်ကို မြင်လျှင် ဝမ်းသာ အားရ ထိုမြေပြင်သို့ မြင်းစိုင်း၍ ဆင်းလာကြသည်။ နန်ချောင်စစ်သည်တို့ကြောင့် ထိုမြေပြင်ဒေသ၌ ပျူ၊ မွန်၊ သက်တို့သည် ဆက်လက်နေထိုင်ခွင့် မရကြချေ။ မြန်မာတို့သည် ထိုမြေပြင်ဒေသ၌ အခြေစိုက်၍ ထိုဒေသကို အုပ်ချုပ်ကြသောအခါ ပျူ၊ မွန်၊ သက်တို့သည်လည်း မြန်မာတို့နှင့် ရောစပ်ကာ ပြန်လည် နေထိုင်ကြသည်။ ထို မြေပြင်ဒေသကို မြစ်သားဆဲ့တစ်ခရိုင် ဟူ၍သော်၎င်း၊ လယ်တွင်းဆဲ့တစ်ခရိုင်ဟူ၍သော်၎င်း ခေါ်၏။

ကာလအတန်ကြာသော် ပျူ၊ မွန်၊ သက်၊ မြန်မာ အစရှိသော လယ်တွင်းဆဲ့တစ်ခရိုင်သားတို့သည် လူဦးရေ တိုးပွားလာကြရာ အချို့တို့သည် တောင်ဖက်ရှိ တောင်တွင်းကြီးသို့ ရွှေ့ပြောင်းကြ၏။ အချို့တို့သည် ဧရာဝတီမြစ်ကို ကူး၍ ကရင်(ဝါ)ပလောင်တို့ရှိရာ စလင်းချောင်း၊ မုန်းချောင်း ဒေသသို့သွား၍ နေထိုင်ကြ၏။ ဤဒေသကို မင်းဘူးခြောက်ခရိုင်ဟု ခေါ်၏။ အချို့လည်း ပုံတောင် ပုံညာ အပါအဝင် ချင်းတောင်တန်းသို့ သွားကြ၏။ အချို့သည် ရခိုင်ဖက်သို့ ရောက်အောင် သွားကြ၏။ အချို့ကား ဧရာဝတီ မြစ်ကို ဆန်၍ မူးမြစ်ဝှမ်း ဒေသသို့ သွားကြ၏။ ဤကဲ့သို့ အနှံ့အပြား နေထိုင်ကြသော ခရိုင်သားတို့ကို အုပ်ချုပ်ရန် ပျဉ်ပြားအမည်ရှိသော မင်းသည် ၈၄၉ ခုနှစ်တွင် ပုဂံမြို့ကို တည်ဆောက်၏။ (ပုဂံမြို့ — လည်းရှု။) ရှေးဟောင်း အုတ်မြို့ရိုးရှိ သရဖာတံခါးကို ယခုတိုင် တွေ့မြင်နိုင်၏။ပုဂံမြို့ကနေ၍

အုပ်ချုပ်သော နိုင်ငံသည် မြောက်ဖက် ချင်းတွင်းမြစ်ဝှမ်း မူးမြစ်ဝှမ်းဒေသမှ တောင်ဖက် တောင်တွင်း၊ မင်းဘူး ဒေသ အထိ၊ အရှေ့ဖက် ရှမ်းတောင်တန်းမှ အနောက်ဖက် ရခိုင် အထိ ကျယ်ဝန်း၍ ပုဂံပြည်ဟု ကျော်စော၏။

ပုဂံခေတ် မြန်မာနိုင်ငံကို ဦးစွာ စည်းလုံးအုပ်ချုပ်သော မင်းသည် အနော်ရထာမင်း (ခရစ် ၁၀၄၄–၁၀၇၇) ဖြစ် သည်။ ပုဂံပြည်ကို သုံးဆဲ့သုံးနှစ်မျှ အုပ်ချုပ်၏။ အထက်၌ နန်ချောင်မင်းတို့၏ရန်ကို တားဆီး၍ ဗန်းမော် မြစ်ကြီးနား ဒေသအထိ အာဏာပြ၏။ ရခိုင်ဖက်တွင် ဝေသာလီပြည်ကို သိမ်းယူ၏။ ထိုအခါ၌ ပုဂံပြည်သားတို့သည် ရတနာ သုံးပါး ကိုသာမက လောကနာထဘုရား၊ နတ်နဂါးနှင့် ဟိန္ဒူဘုရား၊ အကျင့်ဆိုးသော အရည်းကြီးတို့ကိုလည်း အရောရော အ နှောနှော ကိုးကွယ်လျက် ရှိကြ၏။ အနော်ရထာမင်းသည် ခရစ် ၁၀၅၇ ခုနှစ်တွင် သထုံပြည်က ပိဋကတ်တော် အစုံကို ပင့်ဆောင်ကာ အနုပညာသည် လက်မှုပညာသည် များကို သိမ်းယူ၍ သထုံပြည်ကိုလည်း တနင်္သာရီအထိ သိမ်းသွင်း သည်။ ပိဋကတ်တော် အစုံကို ယခုတိုင်ရှိသေးသော ပိဋက တ်တိုက်၌ထား၏။ အနော်ရထာမင်း တည်သော ရွှေစည်း ခုံ စေတီသည် ထင်ရှားသော စေတီတဆူ ဖြစ်သည်။ (အနော် ရထာ — ရှု။)

ကျန်စစ်သားမင်းသည် (ခရစ် ၁၀၈၄–၁၁၁၂) အနော်ရ ထာမင်းကဲ့သို့ပင်လျှင် သထုံပြည်မှ ကြွရောက်လာခဲ့သော ရှင်အရဟံ၏ အဆုံးအမကို ခံယူ၏။ (ကျန်စစ်သားမင်း။ အရဟံ၊ ရှင် — ရှု။) တိုင်းပြည်ကို အုပ်ချုပ်ရာ၌ လူမျိုး မရွေး၊ ဘာသာဝါဒမရွေး တရားမျှတစွာ ဆောင်ရွက်၏။ ကျောက်စာများကို မွန်ဘာသာဖြင့် ရေးထိုးခြင်းအားဖြင့် မွန်တို့အား အရေးပေး၏။ ပိဋကတ်တို့ကို ပြန်လည်စုဆောင်း ၍ တည်းဖြတ်၏။ ကျန်စစ်သားမင်း တည်သော အာနန္ဒာ ကူဘုရားသည် ထင်ရှားသော ကူဘုရားတဆူ ဖြစ်၏။ ကျန် စစ်သားမင်းသည် အိမ်နီးနားချင်း နိုင်ငံများနှင့် သင့်မြတ် အောင် ဆက်ဆံ၏။ မဇ္ဈိမဒေသနှင့် တရုပ်နိုင်ငံသို့ သံအမတ် များ လွှတ်၍ မိတ်ဖွဲ့၏။ ထိုကြောင့် ပုဂံပြည်သည် ထိုအခါမှ



မြန်မာနိုင်ငံသမိုင်း စတင် ထွန်းပြောင်ခဲ့ရာဖြစ်သော ပုဂံမြို့၏ ရှုခင်းပုံဖြစ်သည်။ ရှေးမြန်မာမင်းတို့၏ကောင်းမှု စေတီပုထိုး အမြောက် အမြားကို ယခုထက်တိုင် တွေ့မြင်နိုင်ပေသည်။

စ၍ နှစ်ပေါင်း နှစ်ရာနီးပါး အင်အားပြည့်ဝသော နိုင်ငံတခု ဖြစ်လာ၏။ ပျူ၊ မွန်၊ မြန်မာတို့သည် ပုဂံပြည် အထက် အောက် အရပ်များနှင့် ရခိုင်ပြည်တွင် အနှံ့အပြား ရှိကြသည်။ သက်နှင့် ကဒူးတို့သည် တူရွင်းတောင်ခြေနှင့် တကောင်းမြို့ဖက်တွင် နေကြသည်။ ယောနှင့် ချင်းတို့သည် ချင်းတွင်းမြစ်ဝှမ်း ဒေသ၌ နေကြသည်။ ကရင် (စကြော) နှင့် ပလောင်တို့သည် မင်းဘူးခြောက်ခရိုင်၌ နေကြသည်။ တောင်သူတို့သည် အနှံ့အပြား နေကြသည်။ လဝတို့သည် ကျောက်ဆည်မြို့ အရှေ့ဖက်တွင် နေကြ၏။ ရှမ်းတို့သည် အနှံ့အပြား နေကြသည်။

အဆိုပါ ပုဂံပြည်သားတို့သည် လယ်ယာ လုပ်ကိုင်သော တောင်သူ လယ်သမားများ ဖြစ်ကြ၏။ မိုးကောင်းသော အရပ်များ၌ စပါး စိုက်ကြ၏။ မိုးနည်းသော အရပ်များ၌ လူး၊ ဆပ်၊ ပဲ၊ ပြောင်း၊ နှမ်းတို့ကို စိုက်ကြ၏။ အိန္ဒိယနိုင်ငံမှ ဝါမျိုးစေ့များကို ရ၍ ဝါကိုလည်း စိုက်ကြ၏။ ဗူး၊ သခွား၊ ခရမ်း၊ ကျောက်ဖရုံ၊ ငရုတ်၊ ကြက်သွန် စသော ကိုင်းအလုပ်ကိုလည်း လုပ်ကြ၏။ ဥယျာဉ်များတွင် ကွမ်း၊ ကွမ်းသီး၊ အုန်း၊ ထန်း၊ ငှက်ပျော၊ ကြံ၊ သံပရာ၊ မန်ကျည်း၊ သရက် စသည်တို့ကို စိုက်ကြ၏။ တောင်ကျ ချောင်းရေကို ဆည်၍ မြောင်းဖောက်ပြီးလျှင် ယာခင်းများသို့ ရေပို့ကြ၏။ လယ်တွင်း ဆဲ့တစ်ခရိုင်နှင့် မင်းဘူး ခြောက်ခရိုင်တွင် ဆည်ဟောင်းများကို ပြင်၍ ဆည်သစ်များ ပြုလုပ်ကြ၏။

ပုဂံပြည်သား လူပညာရှိ ရဟန်းပညာရှိတို့သည် သီဟိုဠ်ကျွန်း၊ မဇ္ဈိမ ဒေသ၊ အိန္ဒိယ တောင်ပိုင်း တိုင်းပြည် တို့သို့ သွားရောက်၍ ဓမ္မသတ်ကျမ်း၊ ဆေးကျမ်း၊ နက္ခတ်ကျမ်း စသော လောကီ ပညာရပ်များကိုင်း၊ ပိဋကတ်ဆိုင်ရာ လောကုတ္တရာ ပညာများကိုင်း သင်ကြားကြသည်။ ဤပညာရှိတို့သည် ပုဂံပြည်တွင် တောကျောင်း ရွာကျောင်းများ၌ တပည့်တို့အား ပညာသင်ပေးကြ၏။ မွန်အက္ခရာစဉ်ကို အခြေပြု၍ မြန်မာဘာသာ အက္ခရာစဉ်ကို ဖန်တီးပြီးလျှင် မြန်မာ ဘာသာ အရေးအဖတ်ကိုလည်း သင်ပေးကြ၏။ ကျန်စစ်သားမင်း၏ သားတော် ရာဇကုမာရ် မင်းသားသည် မြစေတီ ကျောက်စာကို ပါဠိဘာသာ၊ ပျူဘာသာ၊ မွန်ဘာသာ၊ မြန်မာ ဘာသာတို့ဖြင့်ရေးထိုး၏။ (မြစေတီကျောက်စာ — လည်းရှု။) ပါဠိ စာပေ လောကတွင် ယခုတိုင် ကျော်စောသော သဒ္ဒနီတိ ပါဠိသဒ္ဒါကျမ်းကို ရှင်အဂ္ဂဝံသက ရေးသည်။ ပုဂံပြည်သားတို့သည် များသောအားဖြင့် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည့် အတိုင်း၊ ကျောင်းကန်ဘုရား အမြောက်အမြား တည်ဆောက် ကြ၏။ ထိုကျောင်းကန်ဘုရားတို့သည် ဗိသုကာအရာ၌ရှင်း၊ ပန်းချီအရာ၌ရှင်း သဒ္ဓါကြည်ညိုဖွယ် ကောင်း၏။ ပုဂံပြည်သားတို့သည် စေတီပုထိုးတို့၌ သင်ပုတ်၊ ရေချမ်း၊ ကွမ်း၊ ပန်း တင်လှူ၍ရှင်း၊ ဆီမီးထွန်းညှိ၍ရှင်း၊ စည်၊ ပတ်သာ၊ ခွက်ခွင်းစသော တူရိယာ မျိုးကို တီးမှုတ်၍ရှင်း၊ တံမြက် ဝတ် ပြု၍ရှင်း ပူဇော်ကြသည်။ ထင်ရှားသော စေတီဘုရားများကား လောကနန္ဒာ၊ ရွှေစည်းခုံ၊ မင်္ဂလာစေတီတို့ ဖြစ်ကြသည်။ ထင်ရှားသော ကူဘုရားများကား အာနန္ဒာ၊ ကူပြောက်ကြီး၊ သဗ္ဗညု၊ ကန်တော့ပလ္လင်တို့ ဖြစ်ကြသည်။ပုဂံ ရွှေကူကြီးကျောက်စာ၌ ၁၁၃၁ ခုနှစ်တွင် ရေးထိုးထားသော ပါဠိဂါထာ ၁၀၀ အဆုံးသတ် သက္ကတ ဘာသာ သုံးကြောင်းတို့သည် အလောင်းစည်သူ မင်း၏ ဆုတောင်း ပတ္ထနာဖြစ်သည်။

ဤကဲ့သို့ ပုဂံပြည်သားတို့သည် လောကီလောကုတ္တရာ ပညာများကို လေ့လာသင်ကြား၍ လူ့ခပ်သိမ်းအား မျက်မှောက်ဘဝ၊ တမလွန်ဘဝ၌ အကျိုးဖြစ်ထွန်းအောင် ဆောင်ရွက်လျက် ရှိနေသောအချိန်ဝယ် မြန်မာတို့က တရုပ်ဟုခေါ်သော မွန်ဂိုတာတာ စစ်သည်တို့သည် ၁၂၇၃ ခုနှစ်တွင် ပုဂံပြည်မြောက်ဖက်သို့ ဝင်ရောက် တိုက်ခိုက်ကြ၏။ ပုဂံစစ်သည်တို့သည် ငဆောင်းချမ်း အရပ်သို့ ချီ၍ ခုခံကြသော်လည်း မတတ်နိုင်သဖြင့် တကောင်းမြို့သို့ ဆုတ်ခွာ ကြရသည်။ ပုဂံပြည် နရသီဟပတေ့မင်းလည်း ပုသိမ်မြို့သို့ ထွက်ပြေးသည်။ ထို့ကြောင့် တရုပ်ပြေးမင်းဟုခေါ်၏။ ပုဂံစစ်သည်တို့သည် တကောင်းမြို့မှ ဆုတ်ကြရပြန်သည်။ လေးနှစ်မျှကြာ၍ ပုဂံမြို့ကျဆုံးသောအခါ ပုဂံစစ်သည်တို့သည် လယ်တွင်း ဆဲ့တစ်ခရိုင် ဒေသသို့ ဝင်ကြ၏။ စစ်မက်အရေးနှင့် စပ်လျဉ်း၍ ရှင်းလင်းပြောဆိုရန်အတွက် ရှင်ဒိသာပါမောက္ခ ရဟန်းသည် တရုပ်ပြည် ပီကင်းမြို့တော်အထိ သွားရောက်၍ တာတာမင်း ကူဗလိုင်ခန်နှင့် တွေ့ဆုံပြီးလျှင်၊ နိုင်ငံရေး သာသနာရေး စကားတို့ကို ပြောဆို၏။ (ဒိသာပြမုက်၊ သျှင် — ရှု။) လယ်တွင်း ဆဲ့တစ်ခရိုင်ဒေသတွင် မြင်စိုင်းမြို့စား ရာဇသင်္ကြံ၊ မက္ခရာမြို့စား အသင်္ခယာ၊ ပင်လယ်မြို့စား သီဟသူ၊ ဤမြို့စားသုံးဦး ဖြစ်သော ရှမ်းညီနောင် သုံးဦးတို့သည် အုပ်ချုပ်လျက် ရှိကြ၏။ ဤဒေသတွင် ပုဂံမြို့မှ ဝင်လာကြသော ပုဂံပြည်သားနှင့် ပုဂံစစ်သည်များသာ မကနန်ချောင်ပြည်မှ မွန်ဂိုတာတာ ဘေးရန်ကြောင့် တိမ်းရှောင်ခဲ့ကြသော ရှမ်းအမျိုးသားများလည်း ရှိကြ၏။ ၁၃၀၀ ပြည့်နှစ်လောက်တွင် မွန်ဂိုတာတာစစ်သည်တို့သည် ပုဂံပြည်မှ ဆုတ်ခွာကြ၏။

ထိုအခါ ပုဂံပြည်နယ်နိမိတ်အတွင်းတွင် ထီးပိုင် နန်းပိုင် မင်းငယ်များ ပေါ်ပေါက်လာကြ၏။ ရှမ်းညီနောင် သုံးဦး အနက် တဦးဖြစ်သော ပင်လယ်မြို့စား သီဟသူ၏ အနွယ်လည်းဖြစ်၊ ပုဂံနန်းရိုးလည်းဖြစ်သော သတိုးမင်းဖျားသည် ရေဝတီမြစ်နှင့် မြစ်ငယ်တို့ ဆုံရာ အရပ်တွင် အင်းဝမြို့ကို တည်ထောင်၍ မင်းပြု၏။ (အင်းဝမြို့ — လည်းရှု။) မွန်ဂိုတာတာတို့ဘေးရန်ကြောင့် နန်ချောင်ပြည်မှ တိမ်းရှောင်



မြန်မာမင်းများ ဆင်ဖြူတော်ရတနာကို အရေးပေးပုံ မျက်မြင်ရေး ပန်းချီကား

လာခဲ့ကြသော ရှမ်းတို့သည် သိန္နီနှင့် အရှေ့ပိုင်းရှမ်းနယ်များ သို့ရင်း၊ အနောက်ဖက်စွန်းရှိ မောနယ်သို့ရင်း၊ ကျိုင်းတုံနယ် သို့ရင်း၊ အုန်းပေါင် (သီပေါ) နယ်သို့ရင်း၊ မိုးညှင်းမိုးကောင်း ဖက်သို့ရင်း၊ ကလေးနယ်သို့ရင်း ဝင်လာကြ၏။

ထိုရှမ်းတို့သည် အင်းဝတဝိုက်ရှိ မွန်၊ မြန်မာ၊ ပျူ၊ သက် စသည်တို့နှင့်ရောစပ်၍ နေထိုင်ကြ၏။ ရှမ်းတို့၏အကြီးအကဲ ဖြစ်သော စော်ဘွားတို့သည် မကြာခဏ အချင်းချင်းသော် ရင်း၊ အင်းဝမင်းတို့နှင့်သော်ရင်း စစ်ဖြစ်ကြ၏။ ထိုအခါတွင် လောကရေး၊ ဓမ္မရေးတို့တွင် ကျွမ်းကျင် နှံ့စပ်သော ဝန်စင်း မင်းရာဇာသည် အင်းဝမင်းတို့အား နိုင်ငံရေး နည်းပေးလမ်း ပြသူ ဖြစ်၏။ (ဘိုးရာဇာ — လည်းရှု။)

အောက်အကြေတွင် နန်းချောင်မှ ယိုးဒယား နိုင်ငံသို့ တိမ်းရှောင်လာခဲ့ကြသော ရှမ်းအချို့တို့သည် မုတ္တမ-ပဲခူးသို့ ကူးလာကြရာ ထိုရှမ်းတို့၏ခေါင်းဆောင်ဖြစ်သော ဝါရီရူမင်း သည် မုတ္တမ၌ မင်းပြုလေ၏။ (ဝါရီရူမင်း — လည်းရှု။) ထိုမင်းသည် ဝါရီရူဓမ္မသတ်ကျမ်းကို ပြုစု၏။ ထိုမင်း၏ အ ဆက်အနွယ်များသည် ဟံသာဝတီ ပဲခူးမြို့၌ မင်းပြုကြသည်။ ဤသို့ဖြင့် ရှမ်း၊ မွန်၊ မြန်မာတို့သည် ဟံသာဝတီ ဒေသ တဝိုက်၌ ရောစပ်နေကြသည်။ ရခိုင်ပြည်ဖက်တွင် ပုဂံနှင့်အ ဆက်ဖြတ်သောမင်းထီး၏အဆက်အနွယ်တို့သည် မြောက်ဦး မြို့ကို တည်၍ မင်းပြုကြသည်။

အနော်ရထာမင်းသည် ပုဂံပြည်ကို စည်းလုံး ထူထောင်ခဲ့ သည့်နည်းတူ ထိုမင်းငယ်တို့သည်လည်း ကွဲပြားလျက် ရှိ သော မြန်မာနိုင်ငံကို ပြန်လည် ထူထောင်လိုကြ၏။ ထို ကြောင့် ထိုမင်းငယ်တို့အနက် အင်းဝမင်းခေါင်နှင့် ဟံသာ ဝတီ ရာဇာဓိရာဇ်တို့သည် အထက်အောက် စုန်ကာ ဆန်ကာ အကြိမ်ကြိမ် တိုက်ခိုက်ကြ၏။ ထိုသို့ တိုက်ခိုက်ကြသော် လည်း အနော်ရထာမင်း၏ စွမ်းရည်မျိုး မရှိသဖြင့် တပါးက တပါးကို အပြတ်အသတ်နိုင်အောင် မတိုက်ခိုက်နိုင်ချေ။ ဤ စစ်ကား ယခုခေတ် တိုက်ကြသော စစ်မျိုးနှင့်မတူ။ တိုက်ပုံ တိုက်နည်းမှာ အခြေအနေကိုလိုက်၍ ပြောက်ကျား တိုက် ခြင်း၊ ချောင်း၍အလစ်တိုက်ခြင်း၊ ခံတပ်ပြုလုပ်၍ တိုက်ခြင်း၊ မြို့ကြီးများကို ဝန်းရံပိတ်ဆို့၍ တိုက်ခြင်း၊ တခါတရံ တ ယောက်ချင်းတိုက်ခြင်း၊ စီးချင်းတိုက်ခြင်းစသည်တို့ ဖြစ် သည်။ စပါးရိတ်ပြီးချိန်ဖြစ်သော တန်ဆောင်မုန်း၊ နတ် တော်လများတွင် စစ်တိုက်တတ်ကြ၍ မိုးတွင်း လယ်ထွန် ချိန် ဖြစ်သော ကဆုန်၊ နယုန်လများတွင် နားနေတတ်ကြ ၏။ တခါသော် ရာဇာဓိရာဇ်က အင်းဝမြို့ကို ဝန်းရံ ပိတ်ဆို့ ထား၍ စပါးဆန်ရေ ရှားပါးလာသောအခါ စကြိုသူမြတ် သည် ရာဇာဓိရာဇ်ထံသို့ မေတ္တာစာတစောင် ဆက်၏။ (စကြို သူမြတ်။ ရာဇာဓိရာဇ်။ မင်းခေါင်ဘုရင်များ — ရှု။) ရာဇာ ဓိရာဇ်လည်း စစ်မတိုက်ဘဲပြန်၏။ တဖန်လည်း ရာဇာဓိရာဇ်

နှင့် မင်းခေါင်တို့သည် မဟာမိတ်ဖွဲ့ကာ ပြည်မြို့ ရွှေဆံတော်တွင် သစ္စာပြုကြ၏။ သုံးနှစ်လွန်သော် စစ်တိုက်ကြပြန်၏။

ဤမင်းနှစ်ပါးတို့ လွန်ကြသောအခါမှ စစ်မီးငြိမ်းစပြု၏။ ထီးပိုင် နန်းပိုင်မင်းငယ်တို့၏ ခေတ်၌ အထူးသဖြင့် အင်းဝမင်းခေါင်နှင့် ဟံသာဝတီ ရာဇာဓိရာဇ်တို့ စစ်တိုက်ကြသောအခါ၌ အင်းဝမြို့၊ ဟံသာဝတီမြို့၊ မြောက်ဦးမြို့ရှိ မင်းနှင့်မြို့သူ မြို့သားတို့သည် ပုဂံပြည်မှရခဲ့သော ယဉ်ကျေးမှုများကို တိုးပွားသင့်သလောက် တိုးပွားအောင် ဆောင်ရွက်ခွင့်မရကြချေ။ အင်းဝ-ဟံသာဝတီ စစ်မီးငြိမ်းသောအခါမှသာ ယဉ်ကျေးမှု တိုးတက်မှုများကို ဆောင်ရွက်နိုင်ကြသည်။ ရဟန်းသံဃာများမှုကား ပိဋကတ်တော်စာပေကို အစဉ်မပြတ် လေ့လာကြသည်။ ရှင်အရိယဝံသသည် အင်းဝမြို့၌ ထင်ရှားကျော်စော၏။ ဗုဒ္ဓဝင်နှင့် ဇာတ်နိပါတ်တော်လာအကြောင်းအရာများကို မြန်မာကဗျာဖွဲ့သော ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရ၊ ရှင်အဂ္ဂသမာဓိတို့လည်း ထင်ရှားကြ၏။ ရှင်မဟာသီလဝံသသည် ရာဇဝင်ကျော်ကိုလည်း ရေးသား၏။ ဟံသာဝတီမင်း ဗညားကျန်းသည် ရွှေတိဂုံစေတီ၏ ဉာဏ်တော်ကို မြှင့်တင်၏။ ဘုရင်မ ရှင်စောပုသည် ပဲခူး ရွှေမော်ဓော စေတီ၏ ဉာဏ်တော်ကို မြှင့်တင်၏။ ရှင်စောပု၏သားမက်တော် ဓမ္မစေတီမင်းသည် သံဃာတော်အပါး ၂၀ ကို သီဟိုဠ်ကျွန်းသို့စေလွှတ်၏။ သံဃာတော်တို့သည် သီဟိုဠ်ကျွန်းတွင် ဆဋ္ဌဘုဝနေကဗာဟုမင်း၏ ခြီးမြှောက်ချက်အရ ကလျာဏီ မြစ်ရေသိမ်၌ အစဉ်အလာ သန့်စင်သော ပဉ္စင်းအဖြစ်ကို ခံယူ၍ ဟံသာဝတီသို့ ပြန်ရောက်ကြသောအခါ ဓမ္မစေတီမင်းသည် သန့်စင်သော ပဉ္စင်းအဖြစ်ကို သံဃာအများ ခံယူနိုင်စိမ့်သောငှာ ဟံသာဝတီ အနောက် မြောက်ဖက် ဇိုင်းဂနိုင်းအရပ်၌ ကလျာဏီသိမ်ကို သမုတ်စေ၏။ ကလျာဏီကျောက်စာတွင် ထိုအကြောင်းကို ပါဠိဘာသာဖြင့်၎င်း၊ မွန်ဘာသာဖြင့်၎င်း ရေးထား၏။ ဓမ္မစေတီမင်းသည် ကျိုက်ပွန် လေးဆူဘုရားကိုလည်း တည်သည်။

မြောက်ဦးမြို့၌ ရှစ်သောင်းဘုရား၊ ဒုက္ခံသိမ်ဘုရား တို့သည် ရခိုင်ပြည်တွင် ဗုဒ္ဓအယူဝါဒထင်ရှားခြင်း၏ သက်သေ ဖြစ်ကြသည်။ မြောက်ဦးမြို့၌ အဒူမင်းညိုသည် ရခိုင်မင်းသမီးချောင်းကို ရေးသည်။ ထိုချောင်းတွင် မင်းသမီး၏ ဆွေတော် မျိုးတော် အရင်းအချာများ၏ အစဉ်အဆက် နွယ်တော် ပြန့်ပွားလာပုံကို ရှင်းလင်းစွာ ဖော်ပြထားသည်။ ဤချောင်းသည် ရခိုင်ပြည်တွင် မြန်မာစာပေ ပွင့်လင်း ပြန့်ပွားလျက်ရှိကြောင်း ပြသော သက်သေ ဖြစ်သည်။

အနော်ရထာမင်းသည် ပုဂံပြည်ကို စည်းလုံး ထူထောင်သကဲ့သို့ မြန်မာနိုင်ငံကို ပြန်လည် ထူထောင်ခြင်းငှာ အင်းဝမင်း၊ ဟံသာဝတီမင်း၊ မြောက်ဦးမင်းတို့ မစွမ်းနိုင်ကြသည်ကို သိသော လက်အောက်ခံ အကြီးအကဲ အချို့တို့သည် ခြားနားကြ၏။ ဤသို့ဖြင့် မြန်မာနိုင်ငံ အရပ်ရပ်၌ ထီးပိုင် နန်းပိုင် မင်းငယ်များ ပေါ်ပေါက်လာကြ၏။ ထိုမင်းငယ်များ တည်ထောင်သော မြို့များအနက် တောင်ငူမြို့သည် ထင်ရှား၏။ ကော်သူးလေပြည်နယ်၊ ကယားပြည်နယ်တို့ ပါဝင်သော စစ်တောင်းမြစ်ဝှမ်း ဒေသ၌ ထွန်းကား၏။ မြန်မာတို့သည် တောင်ငူမြို့ကို အချက်အချာပြု၍ ကွဲပြားလျက်ရှိသော နိုင်ငံကို စည်းလုံးနိုင်ကြ၏။ ပုဂံမြို့ပျက်သောအခါ အချို့ မြန်မာတို့သည် တောင်ငူသို့ တိမ်းရှောင်ခဲ့ကြ၏။ မောရှမ်းတို့ နှောင့်ရှက်ကြသောအခါ လူအမြောက်အမြား တောင်ငူသို့ ရွှေ့ပြောင်းနေထိုင်ကြ၏။ ဤသို့ဖြင့် လူအင်အား၊ စီးပွားအင်အား၊ ဉာဏ်အင်အား တိုးလျက်ရှိသော တောင်ငူမြို့ကို မင်းကြီးညို တည်ထောင်သည်။ မင်းကြီးညို၏သားတော် တပင်ရွှေထီးနှင့် သားမက်တော် ဆင်ဖြူများရှင်မင်းတို့သည် တောင်ငူမြို့ကို ဆက်လက် စည်းလုံးကြရာ၊ တောင်ငူသည် ပုဂံပြည်ကဲ့သို့ ထွန်းကားလာ၏။ (တပင်ရွှေထီးမင်း။ ဘုရင့်နောင် — လည်းရှု။)

တပင်ရွှေထီးမင်း (ခရစ် ၁၅၃၁–၁၅၅၀) နှင့် ဆင်ဖြူများရှင်မင်း (ခရစ် ၁၅၅၁–၁၅၈၁)တို့သည် ထီးပိုင် နန်းပိုင်မင်းများကို တိုက်ခိုက်ရာ အောက်အကြေ၌ ဟံသာဝတီ၊ မုတ္တမ၊ မော်လမြိုင်၊ ပြည်၊ ပုသိမ်၊ မြောင်းမြ၊ ထားဝယ်၊ တနင်္သာရီတို့ကို၎င်း၊ အထက်အညာ၌ အင်းဝမြို့နှင့် တောင်တန်း ဒေသများကို၎င်း အောင်မြင်ကြသည်။ ထိုပြင် ကသည်းပြည်၊ ဇင်းမယ်ပြည်၊ လင်းဇင်းပြည်၊ ယိုးဒယားပြည်တို့သည် သစ္စာခံပြည်များ ဖြစ်လာကြ၏။ ထိုမင်းနှစ်ပါးသည် မြန်မာနိုင်ငံ ပြန်လည် ထူထောင်ရာ၌ တိုက်ခိုက်မှုသာမက စည်းလုံးမှုကိုလည်း ပြုလုပ်ကြသည်။ တိုက်ခိုက်သိမ်းယူပြီးသောမြို့များကို များသောအားဖြင့် အကြီးအကဲဟောင်းတို့အား သစ္စာ ဆိုစေ၍ ပြန်ပေးလေ့ ရှိကြသည်။ တပင်ရွှေထီး မင်းသည် ဟံသာဝတီကို အောင်မြင်သောအခါ မွန်တို့ကို နှိပ်စက် ညှဉ်းပန်းခြင်းမပြု။ မွန်အဆောက်အအုံများကို မဖျက်ဆီး။ မြန်မာမြို့စား ရွာစားများကို မခန့်ဘဲ မွန်မြို့စား ရွာစားများကို ခန့်သည်။ မွန်ထက်ဝက် မြန်မာထက်ဝက် ပါဝင်သော ဝန်ကြီးအဖွဲ့သည် ဘုရင်အား အကြံဉာဏ်ပေးသည်။ ဆင်ဖြူများရှင် မင်းလည်း မြန်မာအမတ်၊ မွန်အမတ်၊ ရှမ်းအမတ်များနှင့် တိုင်ပင်သည်။ တပ်မတော်တွင် မြန်မာစစ်သည်၊ မွန်စစ်သည်၊ ရှမ်းစစ်သည်၊ ကရင်စစ်သည်၊ ချင်းစစ်သည်၊ ကချင်စစ်သည်၊ လဝ စစ်သည်တို့ ပါဝင်ကြသည်။ ထိုမင်းနှစ်ပါးသည် ဟံသာဝတီကို နေပြည်တော်ပြုကြသည်။ တပင်ရွှေထီးမင်းသည် ဟံသာဝတီ၌ မွန်ထုံးနည်းအတိုင်း၊ ပုဂံမြို့၌ မြန်မာမင်း ထုံးနည်းအတိုင်း ရာဇာဘိသိက်ခံသည်။ ဆင်ဖြူများရှင်မင်းသည် တောင်တန်း



ကုန်းဘောင်မင်းဆက်တွင် မြန်မာတို့ဖက်မှ လက်ရုံးရည်စွမ်းပြခဲ့သည့် မဟာဗန္ဓုလ၏ ချပ်ဝတ်တန်ဆာ

ဒေသများတွင် ဗုဒ္ဓသာသနာ ပြုစေသည်။ မြန်မာ စပါး စိုက်ပျိုးမှုကို အားပေးသည်။ ကူးသန်းရောင်းဝယ်ရေးကို ပြု စုသည်။ ပုသိမ်၊ ပဲခူး၊ သံလျင်၊ မုတ္တမမြို့များသည် ကူးသန်း ရောင်းဝယ်ရေး ဗဟိုဌာန သင်္ဘောဆိပ်မြို့များ ဖြစ်ကြသည်။

ထိုမင်းလက်ထက်တွင် နိုင်ငံခြား ယဉ်ကျေးမှုများကို မြန် မာတို့ ရခဲ့ကြ၏။ ယွန်းထည် လုပ်ငန်း ပညာရပ်များသည် ဇင်းမယ်ပြည်မှ ရောက်လာ ကြသည်။ ယိုးဒယား အဆို၊ အ က စသည်တို့ကိုလည်း ယိုးဒယားပြည်မှ ရကြသည်။

ဆဲ့ငါးရာစုနှစ် မတိုင်မီကပင် အိန္ဒိယကုန်သည်၊အာရပ်ကုန် သည်တို့သည် နှစ်ပင်တိုင် သင်္ဘော၊ သုံးပင်တိုင် သင်္ဘောများ ဖြင့် ပသျှူးကျွန်းဆွယ်နှင့် ဂျားဗားကျွန်းစုတို့သို့ သွားပြီး လျှင် သစ်ကြံပိုး၊ လေးညှင်း၊ ချင်းတက်၊ ငရုတ်ကောင်း စ သော ဟင်းခတ် အသီးအရွက်များကို ဝယ်၍ အီရက်နိုင်ငံ ဆိပ်ကမ်းသို့ သွားရောက်ရောင်းချကြသည်။ တခါတရံ ထို ကုန်သင်္ဘောများသည် ပုသိမ်ဆိပ်ကမ်း၊ ဒလဆိပ်ကမ်း၊ သံ လျင်ဆိပ်ကမ်း၊ မုတ္တမဆိပ်ကမ်း၊ ရခိုင်ဆိပ်ကမ်းသို့ရောက်လာ ၍ ခါသာပိတ်၊ ကတ္တီပါ၊ ကော်ဇော၊ သက္ကလပ် စသည်တို့ကို ရောင်းချ တတ်ကြသည်။ ထိုနောက် အိန္ဒိယ သင်္ဘော၊ အာ ရပ် သင်္ဘောများ မရောက်တော့ဘဲ ပေါ်တူဂီသင်္ဘောများ သာ ရောက်လာတတ်ကြ၏။ မြန်မာတို့က ဗရင်ဂျီခေါ် သော ပေါ်တူဂီ သင်္ဘောသားများသည် ကိုယ်တွေ့ ဗဟုသု တကို ရှာသူများ ဖြစ်ကြသည်။ တပင်ရွှေထီး နန်းတက် မည့် အချိန်လောက်တွင် ပေါ်တူဂီ အမျိုးသား ဗက်စကို ဒါဂါးမဆိုသူသည် အာဖရိကတိုက် တောင်ပိုင်းကို ပတ်၍ အိန္ဒိယကျွန်းဆွယ်သို့ ရောက်လာသည်။ ထိုအခါမှ စ၍ ပေါ်တူဂီတို့သည် ကုန်တင်သင်္ဘော၊ ရဲမက်တင်သင်္ဘောများ ဖြင့် အိန္ဒိယသို့ နှစ်စဉ် လာရောက်ကြ၏။ အာရှတိုက်တွင် ဆိပ်ကမ်း ကောင်းသော အရပ်များ၌ ကုန်တိုက်များ ဆောက်၍ နေထိုင် တတ်ကြသည်။ ကာလကြာသော် ထို ကုန်တိုက်တို့သည် ခံတပ်မြို့များ ဖြစ်လာကြ၏။ အမြောက် သေနတ်ကိုင်ပေါ်တူဂီတို့သည်ခံတပ်မြို့များကိုအခြေပြုလျက် တိုင်းရင်းသားများ၏ နယ်ပယ်များကို တိုက်ခိုက်ကြသည်။ အရောင်းအဝယ် ပြုလုပ်သည်သာမက တိုင်းရင်းမင်းများထံ၌ အငှားလိုက် စစ်မှုထမ်းကြသည်။ တပင်ရွှေထီး တပ်မတော် တွင် ပေါ်တူဂီအငှားလိုက် စစ်မှုထမ်း ၇၀၀ မျှရှိသည်ဟူ၏။ ထိုခေတ်မှစ၍ မြန်မာနိုင်ငံ စစ်မှုရေးရာတွင် ပေါ်တူဂီစစ်မှု ထမ်းတို့သည် များစွာ ပါဝင်ကြသည်။

ဟံသာဝတီ ဆင်ဖြူများရှင်မင်း၏ အရိုက်အရာကို ဆက် ခံသော သားတော် နန္ဒဘုရင်သည် စီမံအုပ်ချုပ်မှု၌ ညံ့သည်။ အင်းဝမင်းငယ်၊ ပြည်မင်းငယ်၊ တောင်ငူမင်းငယ်တို့နှင့် သင့် မြတ်စွာ မနေတတ်။ ယိုးဒယားမင်း၊ ရခိုင်မင်းတို့သည် ခြား နားကြ၏။ နန္ဒဘုရင် လွန်သောအခါ ပေါ်တူဂီတို့ကပင် မြန်မာနိုင်ငံကို သိမ်းယူလိုကြ၏။ သို့ဖြစ်၍ သံလျင်မြို့၌ရှိနှင့် ကြသော ပေါ်တူဂီတို့၏ အကြီးအကဲ ဖြစ်သူ ဇေကာ်ခေါ် ဒီဗရစ်တိုသည် ၁၆၀၀ ပြည့်နှစ်တွင် သံလျင်မြို့ကို သိမ်းယူ၍ မင်းပြု၏။ အိန္ဒိယနိုင်ငံဆိုင်ရာ ပေါ်တူဂီ ဘုရင်ခံချုပ် ရှိရာ

ဂိုအားမြို့သို့ သွား၍ သံလျင်မြို့နယ်ကို ပေါ်တူဂီနယ်ပယ်ဟု အသိအမှတ်ပြုစေ၏။ (ဒီဗရစ်တို — ရှု။)

အနောက်ဖက်လွန် မင်းသည် ( ခရစ် ၁၆၀၅–၁၆၂၈ ) အင်းဝမြို့ကို အသစ်တည်ထောင်သော ခမည်းတော် ညောင်ရမ်းမင်း၏ မြန်မာနိုင်ငံစည်းလုံးမှုကို ဆက်လက် ဆောင်ရွက်စီမံသည်။ မြန်မာ၊ ရှမ်းတို့ပါဝင်သော ဆင်တပ်၊ မြင်းတပ်ခြေသည်တပ်တို့ဖြင့် ဖွဲ့စည်းသော တပ်မတော်ဖြင့် ချီ၍ ပြည်မြို့ကိုသိမ်းသည်။ ထိုနောက် တောင်ငူမြို့ကို သိမ်းသည်။ သံလျင်မင်း ဒီဗရစ်တိုလည်း မြန်မာနိုင်ငံ၌ နယ်ချဲ့လျက်ရှိ၏။ သံလျင်ကနေ၍ ပဲခူးနယ်တပိုက်ကို တိုက်ခိုက်အုပ်ချုပ်သည်။ ပုသိမ်၊ မုတ္တမ၊ ဒဂုံစသည့်သင်္ဘောဆိပ်မြို့များသို့ သွားရောက်မည့် သင်္ဘောများကို သံလျင်သို့သာ လာရောက်စေခြင်းအားဖြင့် ကူးသန်းရောင်းဝယ်မှုကို ချုပ်ချယ်၍ လက်ဝါးကြီးအုပ်၏။ သံလျင် သစ်တပ်မြို့ရိုးကို အခိုင်အမာ ပြုသည်။ ဘုရားပုထိုးများကို ဖောက်ပြီးလျှင် ဌာပနာထားသော ရွှေငွေတို့ကို ယူ၍၊ ကြေးခေါင်းလောင်းကြီးများကို ထုခွဲအရည်ကျို၍ အမြောက်ဆန်၊ ကျည်ဆန် ပြုလုပ်သည်။ ထိုနောက် တောင်ငူကို တိုက်သည်။

ထိုအခါ အနောက်ဖက်လွန်မင်းသည် ကုန်းကြောင်း ရေကြောင်း ချီ၍ သံလျင်ကိုတိုက်ရာ အောင်မြင်သည်။ ဒီဗရစ်တိုကို ကွပ်၍ ပေါ်တူဂီသုံ့ပန်းများကို ရွှေဘိုနယ်သို့ပို့၍ နေရာချထားသည်။ (အနောက်ဖက်လွန်မင်း — ရှု။)

မြောက်ဦးမြို့၌လည်း ပေါ်တူဂီတို့သည် နယ်ချဲ့ကြ၏။ ၁၆၁၅ ခုနှစ်တွင် ပေါ်တူဂီအကြီးအကဲဖြစ်သူ တီဗာအို (တောပုတ်) သည် ရခိုင်ဆိပ်ကမ်းသို့ သင်္ဘောများဖြင့် လာပြီးလျှင် မြောက်ဦးမြို့ကို တိုက်သည်။ ရခိုင်မင်း မင်းခမောင်းသည် ဆင်လုံး မြင်းလုံးဖြင့်ချီ၍ ပေါ်တူဂီတို့ကိုတွန်းလှန်ရာ အောင်မြင်သည်။

အနောက်ဖက်လွန်မင်း၏ ညီတော် သာလွန်မင်းသည် (ခရစ် ၁၆၂၉–၁၆၄၈) မင်းကောင်း မင်းမြတ် ဖြစ်သည်။ နိုင်ငံကို အေးချမ်းသာယာစွာ အုပ်ချုပ်သဖြင့် ပြည်ရွာသာယာ စည်ပင်သည်။ စီးပွားရေး တိုးတက် ကောင်းမွန်အောင် နိုင်ငံတော်အတွင်း မြို့သူကြီး ရွာသူကြီး တို့ကို စစ်ကြောမေးမြန်း၍ ဆိုင်ရာနယ်အသီးအသီးတို့တွင် လူဦးရေမည်မျှ၊ လယ်ယာလုပ် မြေအကျယ်အဝန်း မည်မျှ စသည်တို့ကို စစ်တမ်းရေးသားသည်။ အုပ်ချုပ်ရေး၌ အစုအငန်း ဖွဲ့ပုံတို့မှာ သာလွန်မင်းတရားကြီး လက်ထက်ကဖြစ်သည်။ (သာလွန်မင်း — ရှု။)

ပင်းတလဲမင်း (ခရစ် ၁၆၄၈–၁၆၆၁) လက်ထက်၌ကား မြန်မာနိုင်ငံသည် တရုပ်စစ်ပြေး စစ်သည်တို့ကြောင့် ဒုက္ခနှင့်တွေ့ရ၏။ တရက်ဟု ခေါ်သော မန်ချူးတို့သည် တရုပ်နိုင်ငံကို တိုက်ခိုက်၍ ပီကင်းမြို့တော်ကို သိမ်းယူသောအခါ 'မင်' ခေါ် တရုပ်မင်းဆက်က ရုံလီအမည်ရှိသောမင်းသည် စစ်သည်ဗိုလ်ပါ အနည်းငယ်ကို သိမ်းရုံး၍ ယူနန်ပြည်နယ်သို့ပြေးဝင်လာ၏။ ယူနန်ပြည်နယ်၌ တာရှည်ခိုလှုံနေ၍ မဖြစ်နိုင်ရကား နောက်လိုက်နောက်ပါတို့နှင့် တကွ ပင်းတလဲမင်းထံ ခွင့်တောင်း၍ မြန်မာနိုင်ငံ၌ ခိုလှုံသည်။ သို့ရာတွင် နောက်ကထပ်လိုက်လာကြသော ရုံလီမင်း၏ စစ်ပြေးစစ်သည်တို့သည် မိမိတို့မင်း အဖမ်းခံနေရသည် အထင်ရှိသဖြင့် မြန်မာ တို့ကို ရန်မူကြသည်။ ရှမ်းပြည်မြောက်ပိုင်းမှ စ၍ ကျောက်ဆည်နယ်အတွင်းသို့ ရောက်အောင် တိုက်ခိုက်လုယက်ကြသည်။ ကျောက်ဆည် လယ်တွင်းနယ်များတွင် အိုးအိမ် ထူထောင်ကာ အခိုင်အလုံနေထိုင်၍ လှည့်လည်တိုက်ခိုက် လုယက်ကြသဖြင့် မြန်မာတို့သည် လယ်ယာမလုပ်နိုင်အောင် ဒုက္ခ တွေ့ကြရ၏။ မန်ချူးမင်းဆက်သည် တရုပ်နိုင်ငံ၌ အခြေစိုက်မိသောအခါ ရုံလီမင်းကို နောက်လိုက်နောက်ပါတို့နှင့် တကွ အပ်ရမည်ဟု စစ်တပ် တတပ်ကို စေလွှတ်၍ တောင်းခံ၏။ မြန်မာတို့သည် ရုံလီမင်းသားနှင့် နောက်လိုက် နောက်ပါတို့ကိုပေးအပ်လိုက်ကြရ၏။ (ရုံလီ — ရှု။) ဤအချိန်လောက်တွင် ဦးကုလားသည် မဟာ ရာဇဝင်ကြီးကိုရေးသည်။

အင်းဝတွင် နောက်ဆုံး စိုးစံသော မဟာဓမ္မရာဇာဓိပတိ လက်ထက် (ခရစ် ၁၇၃၃–၁၇၅၂) တွင် မြန်မာနိုင်ငံတွင် နိုင်ငံရေး ချွတ်ယွင်းချက်ကြောင့် စီးပွားရေး ဆုတ်ယုတ်လာသည်။ ဟံသာဝတီဆင်ဖြူများရှင် လက်ထက်က မြန်မာနိုင်ငံသို့ အခွန်ဆက်ရသည့် မဏိပူရ ကသည်းစော်ဘွားသည် မြန်မာနိုင်ငံကို ထိပါးလာသည်။ ကသည်းတို့သည် မြင်း ဒုန်းစိုင်းကာ မြေဒူးမြို့၊ စစ်ကိုင်းမြို့အထိ ဝင်လာ၍ ရွာများကိုမီးရှို့ကြသည်။ လူသူကျွဲနွားများကို ဖမ်းယူပြီးနောက် ပြန်သွားတတ်ကြသည်။ အထက်အညာ၌လည်း မိုးခေါင်သဖြင့် ဆန်စပါးသီးနှံ အလုံအလောက် မစိုက်နိုင် ဖြစ်လာသောအခါ ခိုးသား ဓားပြ ထူထပ်လာ၍ အင်းဝမင်းကို ပုန်ကန်ချင်သူများ ပေါ်ပေါက်လာကြ၏။ အထက်အညာ၌ ကသည်းမြင်းသည်တို့က အနှောင့်အရှက် ပြုနေကြောင်းကို သိသောအခါ အင်းဝမင်းက ခန့်ထားသော မြန်မာလူမျိုး ဟံသာဝတီမြို့ဝန်သည် အင်းဝကို ပုန်ကန်သည်။ အင်းဝစစ်သည်တို့က နှိမ်နင်းကြရသည်။ ဟံသာဝတီ၌ အသစ်ခန့်သော မြန်မာမြို့ဝန်သည် အအုပ်အချုပ် မတတ်။ သူပုန်အရေးကြောင့် မသင်္ကာသူဟုသမျှ မွန်၊ မြန်မာ၊ ရှမ်း အမှုထမ်းများကို စစ်ဆေးမေးမြန်းခြင်းမပြုဘဲ ဖမ်းဆီး သတ်ဖြတ်သောအခါ အင်းဝမင်း၏ ဆင်ဝန်ဟောင်း၊ ဟံသာဝတီမြို့နေဦးအောင်လှခေါင်းဆောင်သော မွန်၊ မြန်မာ၊ ရှမ်းတို့သည် မခံမရပ်နိုင် ဖြစ်၍၊ ထိုမြို့ဝန်ကိုလုပ်ကြံလိုက်ကြ၏။ ထိုအခါဦးအောင်လှသည် မြန်မာနိုင်ငံကို ဟံသာဝတီ ဆင်ဖြူများရှင်ကဲ့သို့ စည်းလုံး အုပ်ချုပ်လိုသဖြင့် ဗညားဒလဘွဲ့ခံ၍ ဟံသာဝတီ၌ မင်းပြုသည်။ ထို

နောက် စစ်သည်များကိုစုဆောင်းပြီးလျှင် ပြည်၊တောင်ငူတို့ကို သိမ်းယူသည်။ ၁၇၅၂ ခုနှစ်တွင် အင်းဝမြို့ကိုလည်းသိမ်း၍ မဟာဓမ္မရာဇာဓိပတိကို ဟံသာဝတီသို့ ပို့သည်။ ထို့ကြောင့် ထိုမင်းကို ဟံသာဝတီရောက်မင်းဟု ခေါ်၏။ (ဟံသာဝတီရောက်မင်း — ရှု။) မတ္တရာက ကွေ့ရှမ်းတို့သည် မွန်တို့လက်အောက်မခံဘဲ ရှိနေကြ၏။ ယိုးဒယားနှင့် မဏိပူရတို့သည်လည်း မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက် တိုက်ခိုက် လုယက်လျက်ပင်ရှိကြ၏။ အထက်အညာတွင် မွန်တို့၏ သြဇာမခံသော မြန်မာတစုလည်းရှိ၏။ ထိုသူတို့ကား မုဆိုးဘိုရွာနှင့် ပတ်ဝန်းကျင်ရှိ ရွာသားများဖြစ်ကြသည်။ ထိုသူတို့ကို အလောင်းမင်းတရားဘွဲ့ခံဦးအောင်ဇေယျကခေါင်းဆောင်၏။

ဤသို့ဖြင့် မြန်မာနိုင်ငံကို တဖန် စည်းလုံးအုပ်ချုပ်လိုကြသော လူစု နှစ်စုကား ဗညားဒလ၏ လူစုနှင့် အလောင်းမင်းတရား(ခရစ် ၁၇၅၂–၁၇၆၀)လူစုတို့ ဖြစ်ကြသည်။ ထိုလူစုတို့တွင် ပါဝင်ကြသော စစ်သည်များကား မွန်၊ မြန်မာ၊ ရှမ်း၊ ကရင်၊ ချင်း၊ ကချင်တို့ ဖြစ်ကြသည်။ ဗညားဒလ စစ်သည်များသည် ဟံသာဝတီမှ အင်းဝအထိ မြစ်စဉ်တလျှောက် အောင်မြင်၍ မုဆိုးဘိုမြို့ရှိ အလောင်းမင်းတရား၏ ထန်းလုံးတပ်ကို တိုက်ရာ အရေးနိမ့်ကြ၏။ ထို့နောက် အလောင်းမင်းတရား၏ ထိုးစစ်ကို မခံနိုင်သော ဗညားဒလစစ်သည်များသည် အင်းဝမြို့သို့ ဆုတ်ကြရ၏။ အလောင်းမင်းတရားသည်လည်း မုဆိုးဘိုမြို့ကို ရွှေဘိုသမုတ်၍ ထီးနန်း စိုက်၏။ ထို့နောက် အင်းဝသို့ စုန်၍ တိုက်ရာ၊ ဗညားဒလ စစ်သည်တို့သည် ဟံသာဝတီသို့ စုန်ကြရ၏။ ဟံသာဝတီ၌လည်း တိုင်းရေး ပြည်ရေး ရှုပ်ထွေးလျက် ရှိနေသည်။ အလောင်းမင်းတရားသည် ဟံသာဝတီကို တိုက်ရန် ဧရာဝတီမြစ်ကို စုန်သည်။ ပြည်မြို့ကို သိမ်းယူ၍ ဆက်လက် စုန်ဆင်းပြီးနောက် လွန်ဆေးမြို့ကို သိမ်း၏။ တောင်ငူ၊ ဟင်္သာတ၊ ခနေ့ဖြူ၊ ပုသိမ်၊ မြောင်းမြ၊ သံတွဲစသည်တို့မှ ရာထမ်းမှူးထမ်းတို့သည် လာ၍ သစ္စာခံယူကြသည်။ထိုသို့ အမြန်အောင်သည်ကို အကြောင်းပြု၍ လွန်ဆေးမြို့ကို မြန်အောင်မြို့ဟု သမုတ်သည်။ ထို့နောက် ဒဂုံကို သိမ်းယူ၏။ ထိုမြို့ကနေ၍ ဗညားဒလ၏ရန်ကို ကုန်အောင်တိုက်မည်ဟု အမိန့် ရှိ၍ ဒဂုံမြို့ကို ရန်ကုန်မြို့ဟု သမုတ်၏။ အလောင်းမင်းလည်း ရန်ကုန်၌ သင်္ဘောများ၊ တိုက်လှေများကို တည်၍ သံလျင်ကို တိုက်စေသည်။ အောင်မြင်၏။ ထို့နောက် ဟံသာဝတီသို့ ချီ၍ တိုက်ရာ ဗညားဒလသည် ၁၇၅၇ ခုနှစ်တွင် အညံ့ခံရ၏။ ဤသို့ဖြင့် ဟံသာဝတီဆင်ဖြူများရှင်၏ အဆက်အနွယ် ဖြစ်သော တောင်ငူ ဟံသာဝတီမင်းဆက်သည် ပြတ်၍ ကုန်းဘောင်ဟူသော မင်းဆက်သည် အလောင်းမင်းတရားဖြင့် စသော မင်းဆက်ဖြစ်၏။ အလောင်းမင်းတရားသည် မဏိပူရကို နှစ်ကြိမ် တိုက်၍ အောင်မြင်၏။ မဏိပူရမှ ရက်ကန်းပညာ၊ ပန်းထိမ်ပညာ၊ နက္ခတ်ပညာစသော အတတ်ပညာတို့ကို ရ၏။ အလောင်းမင်းတရားသည် ယိုးဒယားသို့ စစ်ချီတက်ရာ၊ နာဖျားမကျန်းရှိ၍ အပြန်တွင်လွန်သည်။ (အလောင်းဘုရား — ရှု။)

အလောင်းမင်းတရား၏ သားတော်အလတ် ဖြစ်သော ဆင်ဖြူရှင်သည် (ခရစ် ၁၇၆၃–၁၇၇၆) အင်းဝမြို့ဟောင်းသို့ ပြောင်း၍ မြို့သစ် နန်းသစ် တည်သည်။ ဇင်းမယ်၊ မဏိပူရ၊ ယိုးဒယားတို့ကို တိုက်ခိုက် သိမ်းယူသည့်ပြင် တရုပ်နှင့်လည်း စစ်တိုက်ရသည်။ ထိုအခါ၌ တရုပ်နိုင်ငံတွင် ပီကင်းမြို့တော်၌ နန်းစံသော မန်ချူးမင်း ချင်းလုံသည် ရှေးယခင် မွန်ဂိုတာတာဘုရင် ကူဗလိုင်ခန်ကဲ့သို့ အိမ်နီးချင်းနိုင်ငံများကို တိုက်ခိုက်သောမင်း ဖြစ်လိုသဖြင့် ၁၇၆၅ ခုနှစ်မှ စ၍ မြန်မာနိုင်ငံကို လေးကြိမ်တိုင်တိုင် တိုက်ခိုက်သည်။ မအောင်မြင်ချေ။ နောက်ဆုံးအကြိမ်တွင် အင်းဝစစ်သည်တို့၏ အဝိုင်းခံရသော မန်ချူးတပ်မကြီးသည် အစာရေစာ ပြတ်၍ ဝတ်မွတ်ခေါင်းပါးသော ဘေးနှင့် ကြုံနေသောကြောင့် မန်ချူးဗိုလ်ချုပ်တို့သည် စစ်ပြေငြိမ်းပါမည့် အကြောင်း အခွင့်တောင်းဆိုလာကြ၏။မြန်မာဗိုလ်ချုပ် မဟာသီဟသူရလည်း ကြီးမားသော အိမ်နီးချင်း တရုပ်နိုင်ငံနှင့် မဟာမိတ်ဖွဲ့ခြင်း၏ အကျိုးကို မြော်ခေါ်၍ မန်ချူးဗိုလ်ချုပ်တို့၏ တောင်းဆိုချက်ကိုလက်ခံကာ စစ်ပြေငြိမ်းလိုက်၏။ ထိုအခါမှ စ၍ တရုပ် မြန်မာ နှစ်ပြည်ထောင်သည် အေးချမ်းသာယာ၍ အရောင်း အဝယ်ကို ရှေးကကဲ့သို့ ပြန်လည် လုပ်ကိုင်ကြကာ တရုပ်ကုန်သည်တို့သည် ပိုးထည်၊ ဖဲထည်၊ သစ်သီးယို၊ ကြွေအိုး၊ ကြွေပန်းကန်၊ အပ်၊ ဘီးစိပ်၊ မှန်မီးအိမ်စသည်တို့ကို မြန်မာတို့အား ရောင်းကြသည်။ မြန်မာတို့ကလည်း ဝါဂွမ်း၊ ပယင်း၊ ကျောက်စိမ်းစသည်တို့ကို တရုပ်တို့အား ရောင်းကြ၏။ (ဆင်ဖြူရှင်မင်း။ မဟာသီဟသူရ၊ ဗိုလ်မှူး — လည်းရှု။)

ပေါ်တူဂီတို့သည် ဖော်ပြပြီးသည့်အတိုင်း မြန်မာနိုင်ငံတွင် နယ်ချဲ့မှု မအောင်မြင်ခဲ့ကြသော်လည်း အရှေ့ အိန္ဒိယကျွန်းစုတို့တွင်ကား အခြေစိုက်မိသဖြင့် ကူးသန်း ရောင်းဝယ်မှုကြောင့် ကြွယ်ဝချမ်းသာလာကြ၏။ ပေါ်တူဂီတို့ကို အားကျသော ဒပ်ချကုန်သည်၊ အင်္ဂလိပ်ကုန်သည်၊ ပြင်သစ်ကုန်သည်တို့သည် ၁၆၀၀ ပြည့်နှစ်လောက်တွင် အာရှတိုက်၌ အစုစပ် ကုမ္ပဏီများကို ထောင်ကြသည်။ ထိုကုမ္ပဏီတို့သည် အရောင်းအဝယ် အလုပ်ကို လုပ်ကိုင်ကြရာတွင် တိုင်းရင်းမင်းများတပါးနှင့်တပါးမညီမညွတ်ဖြစ်နေကြသည်ကိုသိမြင်လာကြသောအခါ၊ တမင်းကို အားပေး၍ တမင်းကို နှိမ်တတ်ကြသည်။ ဒပ်ချတို့သည် အင်းဝ၊ ပဲခူးတွင် တိုက်ခွဲများ ဖွင့်ကြ၏။ အင်္ဂလိပ်တို့သည် သံလျင်၌ ကုန်တိုက် ဖွင့်ကြ၏။ ထို့နောက် ပြင်သစ် ကုန်တိုက်တို့မှာ ဗန်းမော်အထိပျံ့နှံ့ကြ၏။

ဗညားဒလနှင့် အလောင်းမင်းတရားတို့ ပြိုင်ဆိုင်တိုက်ခိုက်နေချိန်တွင် ဒပ်ချကုမ္ပဏီသည် ဂျားဗားကျွန်းစုကို သိမ်း

ယူ၏။ အင်္ဂလိပ်ကုမ္ပဏီနှင့် ပြင်သစ် ကုမ္ပဏီတို့သည် အိန္ဒိယနိုင်ငံတွင် အချင်းချင်း တိုက်ကြရာ၊ အင်္ဂလိပ်ကုမ္ပဏီက နိုင်၍ ဗင်္ဂလားပြည်နယ်၊ ဂင်္ဂါမြစ်ဝှမ်းရှိပြည်နယ်၊ မဒရပ်ပြည်နယ်၊ ဘုံဘိုင်ပြည်နယ်တို့ကို သိမ်းယူအုပ်ချုပ်၏။ ၁၇၂၃ ခုနှစ်တွင် အင်္ဂလန်နိုင်ငံ အစိုးရသည် ထိုပြည်နယ်များကို စီမံအုပ်ချုပ်ရန် ဘုရင်ခံချုပ်တဦးကို အိန္ဒိယ၌ ခန့်ထားရာ ကာလကတ္တားမြို့သည် ဘုရင်ခံချုပ် ရုံးစိုက်ရာမြို့တော် ဖြစ်လာ၏။

ဤသို့ဖြင့် ရခိုင်ပြည် ပါဝင်သော မြန်မာနိုင်ငံသည် အင်္ဂလိပ်ပိုင်နက်နှင့် နယ်စပ်ဖြစ်လာ၏။ နယ်စပ် အရေးကိစ္စနှင့် စပ်လျဉ်း၍ မရှင်းမလင်းမှုများကို ရှင်းလင်းနိုင်ရန်၎င်း၊ ပြန်လည် လှမ်းမိုးကြသော ပြင်သစ်တို့နှင့် မြန်မာတို့ မဆက်မိစေရန်၎င်း၊ မိမိတို့ရောင်းဝယ်မှုအခွင့်အရေး ပိုမိုရရှိရန်၎င်း အင်္ဂလိပ်တို့သည် အလောင်းမင်းတရား၏ စတုတ္ထသားတော်ဖြစ်သော ဘိုးတော်ဘုရားမင်း (ခရစ် ၁၇၈၂–၁၈၁၉) ထံသို့ သံများကို အကြိမ်ကြိမ် စေလွှတ်ကြသည်။ အင်္ဂလိပ်ဘုရင်ကိုယ်တိုင်က လွှတ်သော သံများမဟုတ်သဖြင့် မြန်မာတို့သည် နိုင်ငံအရေးကိစ္စများ၌ ယင်းတို့နှင့် မစေ့စပ်လိုကြချေ။ (ဘိုးတော်ဘုရား — ရှု။)

ဘိုးတော်ဘုရား၏ မြေးတော် ဘကြီးတော်မင်း (ခရစ် ၁၈၁၉–၁၈၃၇) လက်ထက်တွင် အင်္ဂလိပ်နှင့် မြန်မာတို့ ဆက်ဆံ ပြောဆိုရမည့် အရေးနှစ်ခု ပေါ်ပေါက်ကြ၏။ (ဘကြီးတော် — ရှု။) ဘကြီးတော်မင်း နန်းတက်သောအခါ မဏိပူရ ကသည်းစော်ဘွားသည် မိမိဆက်မြဲဖြစ်သော ကန်တော့လက်ဆောင်ကို မဆက်ဘဲနေ၏။ ဘကြီးတော်မင်းသည် စစ်တပ်လွှတ်၍ မဏိပူရ ကသည်းစော်ဘွားကို ဆုံးမ၏။ ကသည်းစော်ဘွားလည်း အင်္ဂလိပ် ပိုင်နယ်သို့ ထွက်ပြေးရာ မြန်မာတို့က ချင်းနင်းလိုက်လံသဖြင့် အင်္ဂလိပ်တို့နှင့် စကားများကြ၏။ တဖန် အာသံစော်ဘွားသည် အင်္ဂလိပ်တို့ကို အားထား၍ သစ္စာဖောက်သည်ကို မြန်မာတို့ သွားရောက် ဖမ်းဆီးရာ အင်္ဂလိပ်ပိုင်နယ်သို့ ပြေးဝင်သည်။ မြန်မာတို့က လိုက်လံ ဖမ်းဆီးရာ အင်္ဂလိပ်တို့နှင့် စကားများကြသည်။ မြန်မာတို့သည် ဟံသာဝတီ ဆင်ဖြူများရှင်မင်းတရားကြီး၊ အနောက်ဖက်လွန်မင်း၊ အင်းဝဆင်ဖြူရှင်မင်းတို့၏ အောင်မြင်မှုများကို တွေးတောကာ၊ မာန်မာနကြီးလျက် ဥရောပ နယ်ချဲ့ဝါဒကို ကောင်းစွာ လေ့လာခြင်း မပြုကြချေ။ အင်္ဂလိပ် တို့သည်လည်း အာရှ တိုက်တွင် နယ်ချဲ့ဝါဒအောင်မြင်မှုကြောင့် တန်ခိုးကြီးလျက် တိုး၍သာ နယ်ချဲ့လိုကြ၏။ သို့ဖြစ်၍ ငြိမ်းချမ်းစွာ ဆွေးနွေး၍ ပြီးပြေကောင်းသော အဆိုပါ အရေးနှစ်ခုတို့သည် မပြီးပြေဘဲ တိုး၍သာ ဆိုးရွားလာကြ၏။ စစ်သူကြီး မဟာဗန္ဓုလသည် အာသံပြည်သို့ စစ်ချီသောအခါ အင်္ဂလိပ်ဘုရင်ခံချုပ်သည် အင်္ဂလိပ် ကွပ်ကဲသော အိန္ဒိယ စစ်ပါရီတပ်ကို အာသံသို့ လွှတ်၍ ခုခံစေသည်။ တဖန် မဏိပူရ ကသည်းစော်ဘွားများအား စစ်ကူ ပေး၍ မြန်မာတပ်များကို တိုက်စေသည်။ (မဟာဗန္ဓုလ — လည်းရှု။)

ဤသို့တိုက်ခိုက်နေကြစဉ်အတွင်း စစ်တကောင်းနှင့် ရခိုင်နယ်စပ်တွင်ရှိသော ရှင်မဖြူကျွန်းကို အင်္ဂလိပ်တို့ကသိမ်း၍ အင်္ဂလိပ်အလံကိုစိုက်ကြသည်။ မြန်မာတို့ကလည်းထိုကျွန်းကို တိုက်ခိုက်သိမ်းယူ၍ မြန်မာအလံစိုက်ကြသည်။ ထိုအခါ အင်္ဂလိပ် ဘုရင်ခံချုပ်သည် မိမိပိုင်နယ်မြေကို မြန်မာမင်းကတိုက်သည်ဟု ဆို၍ စစ်ကြေညာပြီးလျှင် မြန်မာနိုင်ငံကိုတိုက်၏။

အင်္ဂလိပ်တို့သည် စံနစ်တကျ လေ့ကျင့်ပြီးသော အင်္ဂလိပ်ဂေါ်ရာနှင့် အိန္ဒိယစစ်ပါရီများကို အသုံးပြုသည်။ ခေတ်မီအမြောက် သေနတ်နှင့် ရဲမက်တို့ကို ကာလကတ္တားမြို့မှ မီးသင်္ဘောများဖြင့် အလျင်အမြန် ပို့သည်။ အာသံပြည်သို့ စစ်တကြောင်း၊ ရခိုင်ဖက်သို့ စစ်တကြောင်း၊ ရန်ကုန်သို့ စစ်တကြောင်း၊ တနင်္သာရီသို့ စစ်တကြောင်း ချီကြသည်။ မြန်မာစစ်သည်များသည် စွမ်းအားရှိသမျှခုခံတိုက်ခိုက်ကြသော်လည်း ဆုတ်ရသည်က များသည်။ မဟာဗန္ဓုလသည် ဓနုဖြူတိုက်ပွဲတွင်ကျ၍ မြန်မာတို့စစ်ရှုံးကြသည်။ ၁၈၂၆ ခုနှစ်တွင် စစ်ပြေငြိမ်း၍ ရန္တပိုစာချုပ်အရ၊ ရခိုင်၊ တနင်္သာရီ နယ်တို့ကို မြန်မာတို့က အင်္ဂလိပ်သို့ပေးရသည်။ အာသံနှင့်မဏိပူရတို့ကို မြန်မာတို့က ဝင်ရောက်ချယ်လှယ်ခြင်း မပြု မလုပ်ကြရ။ စစ်စရိတ်အဖြစ် မြန်မာတို့က ငွေတကုဋေ ပေးရသည်။ (ရန္တပိုစာချုပ်။ အင်္ဂလိပ်-မြန်မာ စစ်ပွဲများ — ရှု။) ဘကြီးတော်မင်း လက်ထက်တွင် မှန်နန်း ရာဇဝင်တော်ကြီးကိုရေး၏။

ပုဂံမင်း လက်ထက် ၁၈၅၂ ခုနှစ်တွင် အုပ်ချုပ်ရေးကလည်းညံ့၊ အင်္ဂလိပ်တို့ကလည်း နယ်ချဲ့လိုကြသဖြင့် သေးငယ်သော အမှုများသည် ကြီးမား လာကြသောကြောင့် ဒုတိယအကြိမ် အင်္ဂလိပ်နှင့်မြန်မာတို့ စစ်ဖြစ်ကြရာ၊ အောက်မြန်မာနိုင်ငံကို မြေထဲမြို့မှ တောင်ငူမြို့အထိ အထက်အောက် နယ်နိမိတ်သတ်ကာ အင်္ဂလိပ်တို့က သိမ်းယူကြ၏။

၁၈၅၃ ခုနှစ်တွင် ပုဂံမင်း၏ ညီတော် မင်းတုန်းမင်းသည် အမရပူရမြို့၌ နန်းတက်သည်။ (မင်းတုန်းမင်း — ရှု။) ငြိမ်းချမ်းမှုကို လိုလားသဖြင့် အင်္ဂလိပ်တို့နှင့် သင့်မြတ်အောင် ဆက်ဆံ၏။ အင်္ဂလိပ်တို့မြန်မာတို့အလိုကိုလိုက်သင့်သလောက် လိုက်ကြ၏။ ကာလကတ္တားမြို့ ဘုရင်ခံချုပ် လတ်မင်းကြီး ဒါလဟိုဇီထံ သံလွှတ်၍ ပဲခူးနယ်ကို ပြန်ပေးရန် တောင်းဆိုသည်။ မရချေ။ အင်္ဂလန်နိုင်ငံ၊ ပြင်သစ်နိုင်ငံ၊ ဣတလီနိုင်ငံတို့ကို ကင်းဝန်မင်းကြီး ဦးဆောင်သော သံအဖွဲ့ကိုလွှတ်သည်။ အမေရိကန်ပြည်ထောင်စုနှင့်လည်း ဆက်ဆံသည်။ ဥရောပတိုက်သို့ ပညာတော်သင်များ စေလွှတ်၍ စက်မှုလက်မှု လောကဓာတ်ပညာများကို သင်ကြားစေသည်။ မင်းညီမင်းသား၊ မှူးမတ်၊ စော်ဘွား၊ ချင်း၊ ကချင်၊ ကရင်စသည်တို့ကို ထိုက်သင့်အား

လျှော်စွာ မ စ ခြီးမြှင့်ကာ တိုင်းပြည်ကို ငြိမ်းချမ်းစွာ စီမံအုပ်ချုပ်သည်။ မှန်နန်းရာဇဝင်တော်ကို ဆက်လက် ရေးသားစေသည်။ မန္တလေးတောင်ခြေရင်းတွင် ရတနာပုံ မန္တလေးဟုခေါ်သော မြို့သစ်ကို တည်သည်။ မန္တလေးတောင်ခြေ၌ မဟာသက္ကျမာရဇိန် ( ကျောက်တော်ကြီး ) ဘုရား၊ မဟာလောကမာရဇိန် (ကုသိုလ်တော်) ဘုရားတို့ကို တည်သည်။ ပိဋကတ်သုံးပုံကို ကျောက်ထက် အက္ခရာတင်သည်။ ပဉ္စမပြန် စာမေးပွဲကို ဆက်လက် ပြုလုပ်သည်။

ပဉ္စမသင်္ဂါယနာတင်သောကြောင့် မင်းတုန်းမင်းကို ပဉ္စမသင်္ဂါယနာတင် မင်းတရားကြီးဟု ခေါ်၏။ ဆည်ဟောင်းမြောင်းဟောင်းများကို ထပ်မံပြုပြင်သည်။ မိတ္ထီလာကန်စသော ကန်များကိုလည်း ပြုပြင်သည်။ ဆန်စက်၊ သကြားစက်၊ သစ်စက်၊ ရက်ကန်းစက်များကို ဥရောပတိုက်မှ ဝယ်ယူသည်။ အင်္ဂလိပ်တို့နှင့် ကူးသန်းရောင်းဝယ်ရေးစာချုပ် ချုပ်ဆိုသည်။

အင်္ဂလိပ်ကျောင်းဆရာကြီး ဆရာမှတ်အား မြေနှင့်တကွ အင်္ဂလိပ်စာသင်ကျောင်း ဆောက်ပေးပြီးလျှင် သားတော်များကို အင်္ဂလိပ်စာ သင်စေသည်။ (မှတ်၊ ဆရာ — ရှု။)

မြတ်စွာဘုရား အဋ္ဌုပ္ပတ္တိကျမ်း တစောင်ရေးသော ပြင်သစ် ဗရင်ဂျီဘုန်းကြီး ဘီဂန္ဒေ ( ဘီဂန်းဒက်) ကိုလည်း ခြီးမြှောက်သည်။ (ဘီဂန်းဒက် — ရှု။)

အထက် မြန်မာနိုင်ငံ၌ မင်းတုန်းမင်း အုပ်စိုးသောအခါတွင် အောက်မြန်မာပြည်ကို အင်္ဂလိပ်တို့က ရခိုင်တိုင်း၊ တနင်္သာရီတိုင်း၊ ပဲခူးတိုင်းဟူ၍ တိုင်းသုံးတိုင်းခွဲပြီးလျှင် တိုင်းအသီး အသီး၌ တိုင်းမင်းကြီးတဦးစီ ခန့်ထား၍ အုပ်ချုပ်သည်။ ၁၈၆၂ ခုနှစ်တွင် တိုင်း သုံးတိုင်းကို စုပေါင်း၍ မဟာဝန်ရှင်တော်မင်းကြီး တဦးတည်းက အုပ်ချုပ်သည်။

အောက်ပြည်၏ မြို့တော် ဖြစ်သော ရန်ကုန်မြို့၌ ပဌမ မဟာဝန်ရှင်တော်မင်းကြီးသည် မြန်မာ ရာဇဝင်ကျမ်း တစောင်ရေးသော ဆာအာသာ ဖယ်ယာဖြစ်သည်။ (ဖယ်ယာ, ဆာ အာသာ — လည်းရှု။ ) ဖယ်ယာသည် ရန်ကုန်မြို့ဟောင်းကို တိုးချဲ့၍ စည်ကားသော ပင်လယ် ဆိပ်ကမ်းမြို့ဖြစ်အောင် မြို့သစ်ကို တည်သည်။ ဒါလဟိုဇီလမ်း (မဟာဗန္ဓုလ လမ်း )၊ ဖယ်ယာလမ်း ( ပန်းဆိုးတန်း )၊ ဂေါ်ဒွင်လမ်း (လမ်းမတော်)၊ ဖရေဇာလမ်း (အနော်ရထာလမ်း) စသည်တို့သည် အင်္ဂလိပ် ရာထမ်းမှုထမ်းတို့၏ အမည်များကို အကြောင်းပြု၍ ပေးသော လမ်းအမည်များ ဖြစ်ကြသည်။ ထိုအခါမှစ၍ ဆန်အလုပ်၊ သစ်အလုပ်၊ ရေနံအလုပ်၊ သတ္တုတွင်းအလုပ်၊ မီးသင်္ဘော အလုပ်၊ မီးရထား အလုပ်စသော အလုပ်အကိုင်များကို လုပ်ရန် အရင်းရှင်များသည် ရန်ကုန်မြို့သို့ တရွေ့ရွေ့ လာရောက်ကြ၏။ အိန္ဒိယ အရင်းရှင်၊ တရုပ် အရင်းရှင်များလည်း ရောက်လာကြသည်။ ထိုပြင် အိန္ဒိယပြည်



သံပေါမင်းလက်ထက် ဆောက်လုပ်လှူဒါန်းတော်မူခဲ့သော ရွှေကျောင်းတော်

နှင့် တရုပ်နိုင်ငံမှ အမြောက်အမြား လာရောက်နေထိုင်၍ စီးပွားရေး လုပ်ငန်းများလုပ်ကိုင်ကြ၏။ အရင်းရှင်များသည် ရန်ကုန်မြို့တွင် ဘဏ်ကြီး ဘဏ်ငယ်၊ တိုက်ကြီး တိုက်ငယ်များ ဖွင့်ကြသည်။ မြန်မာ တိုင်းရင်းသားများမှုကား စပါး အမြောက်အမြား စိုက်ရန် အားထုတ်ကြသည်။ (ရန်ကုန်မြို့ — လည်းရှု။)

အထက်မြန်မာနိုင်ငံ မြန်မာတို့သည် အောက်အင်္ဂလိပ်ပြည် မြန်မာတို့နှင့် ကူးသန်းရောင်းဝယ်ရေး၌ အဆက် မပြတ် လုပ်ကိုင်ဆောင်ရွက်ကြ၏။ အထက်နိုင်ငံထွက် ပဲ၊ ပြောင်း၊ နှမ်း၊ ဆီ၊ ဆေး၊ ပါဝမ်း၊ ထန်းလျက်၊ ရေနံတို့ကို အောက်ပြည်သို့ပို့၍၊ အောက်ပြည် ထွက် ဆန်စပါး၊ ငပိ၊ ငခြောက်တို့ကို အထက်နိုင်ငံသို့ ပို့ဆောင်ကြသည်။ မင်းတုန်းမင်းသည်လည်း ရတနာကိုးပါး စီခြယ်သော ထီးတော်နှင့် ရွှေဆိုင်းများကို ရွှေတိဂုံစေတီအား လှူဒါန်းသည်။

၁၈၇၈ ခုနှစ်တွင် မင်းတုန်းမင်း လွန်သောအခါ အလယ်နန်း မိဖုရား ဆင်ဖြူမရှင်နှင့် မှူးမတ်အချို့သည် မင်းတုန်းမင်း၏ သားတော်ကြီးများကို ကျော်၍ သီပေါမင်းသားငယ်ကို နန်းတင်ကြ၏။ (သီပေါမင်း — ရှု။) တိုင်းရေးပြည်ရေးလည်း ရှုပ်ထွေးလာ၏။ အောက် မြန်မာပြည်ပိုင် အင်္ဂလိပ် အစိုးရနှင့် ဆက်ဆံရေးတွင် မင်းတုန်းမင်း လက်ထက်ကကဲ့သို့ မသင့်မြတ်ချေ။တိုင်းရေး ပြည်ရေး စီးပွားကုန်သွယ်ရေး စာချုပ်များကို ပြင်သစ်တို့နှင့် ချုပ်ဆိုသည်ကို အင်္ဂလိပ်တို့က မကျေမနပ် ဖြစ်၏။ မြန်မာတို့ အပေါ်တွင် ပြင်သစ် အစိုးရ၏ သြဇာအာဏာ လွှမ်းမိုးမည်ကို စိုးရိမ်သော အင်္ဂလိပ်အစိုးရသည် အထက်မြန်မာနိုင်ငံကို သိမ်းယူရန် ပြင်ဆင်လျက် ရှိ၏။ ဘုံဘိုင်ဘားမားကုမ္ပဏီ သစ်လုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာတို့က ဒဏ်ရိုက်သည်ကိုအကြောင်းပြုလျက် အင်္ဂလိပ်တို့သည် ၁၈၈၅ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်နေ့တွင် မြေထဲမြို့နယ်စပ်ကို ကျော်၍ စက်အမြောက်တင်သင်္ဘောတပ်ဖြင့် မန္တလေးမြို့သို့ချီပြီးလျှင် သီပေါမင်းနှင့် မိဖုရား စုဖုရားလတ်တို့ကို သုံ့ပန်းအဖြစ် ဖမ်းဆီးကြ၏။ ၁၈၈၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် မြန်မာနိုင်ငံ အထက်ပိုင်းသည် အင်္ဂလိပ်ပိုင်ဖြစ်ကြောင်း ကျေညာကြ၏။ မြန်မာတို့က အားကိုးသော ပြင်သစ်အစိုးရသည် မည်သည့် အကူအညီမျှ မပေးနိုင်ချေ။

ဤသို့ဖြင့် မြန်မာပြည် တဝန်းလုံးသည် ဗြိတိသျှ အင်ပိုင်ယာ၏ တစိတ်တဒေသဖြစ်လာ၏။ မြန်မာပြည်ကို အုပ်ချုပ်ရာ၌ အင်္ဂလိပ် အစိုးရသည် ဥပဒေများ ပြဋ္ဌာန်း၍ အုပ်ချုပ်၏။ ၁၉၀၀ ပြည့်နှစ်လောက်တွင် မြန်မာတို့လည်း ဥပဒေဖြင့် အရာရှိအုပ်ချုပ်ပုံကို စ၍ နှစ်သက်လာကြသည်။ ဆန်အရောင်းအဝယ်၊ သစ်အလုပ် စသော စီးပွားရေး အလုပ်အကိုင် တိုးတက်ကြီးကျယ်လာရာ၊ ကူးသန်းရောင်းဝယ်မှုကို နိုင်ငံခြားသားတို့က အုပ်ချုပ်လျက် ရှိသောကြောင့် မြန်မာတို့ အကျိုးခံစား သင့်သလောက် မခံစားကြရချေ။ စီးပွားရေး အလုပ်အကိုင် အရောင်းအဝယ် အသွယ်အပွါး တိုးတက်လာသောအခါ မြို့များသည် တိုးတက်စည်ကားလာကြ၏။ အစိုးရသည်လည်း အခွန်ငွေ ပို၍ရသဖြင့် ဆေးရုံများ၊ ကျန်းမာရေးဌာနများ၊ စာသင်ကျောင်းများနှင့် ကောလိပ်ကို ဖွင့်ပေးသည်။ သို့ရာတွင် တောင်သူလယ်သမား ဖြစ်ကြသော မြန်မာတို့ကား ဆင်းရဲလျက်ပင် ရှိကြ၏။ လယ်ယာ စိုက်ပျိုးရာ၌ လိုအပ်သော ကျွဲ၊ နွားနှင့် လယ်လုပ် ပစ္စည်းများကို ဝယ်ရန် နိုင်ငံခြားအရင်းရှင်များထံမှ ငွေချေးကြရ၏။ ငွေတိုးကလည်း များ၊ စပါးဈေးကလည်း မကောင်းသဖြင့် ကြွေး မဆပ် နိုင်၍ လက်ရှိလယ်ယာများကို အရင်းရှင်များအား ပေးဆပ်လိုက်ကြရ၏။ သို့ဖြစ်၍ အချို့သော လယ်သမားတို့သည် အင်္ဂလိပ် အစိုးရကို ပုန်ကန်ကြ၏။

မြန်မာတို့သည် ဥပဒေဖြင့် အုပ်ချုပ်ပုံကို နှစ်သက် လက်ခံခဲ့ကြသော်လည်း၊ ထိုအုပ်ချုပ်ပုံအားဖြင့် အင်္ဂလိပ် အစိုးရသာ တန်ခိုးကြီး၍ နိုင်ငံခြား အရင်းရှင်များသာ ကြီးပွားနေကြသည်ကို သိမြင် လာကြသောအခါ မကျေမနပ် ဖြစ်ကြ၏။ ထိုအင်္ဂလိပ်ကြိုက် ဥပဒေအစား မြန်မာကြိုက် ဥပဒေမျိုးကိုရအောင် အားထုတ်ရန် ကြံစည်ကြ၏။

၁၉၀၅ ခုနှစ်တွင် ဂျပန်က ရုရှကို စစ်ပွဲ၌ အနိုင်ရသည်မှ စ၍ မြန်မာတို့၏စိတ်၌ ငုပ်နေသော အမျိုးသား စိတ်ဓာတ်သည် ပြန်၍ ပေါ်ပေါက်လာ၏။ ၁၉၀၈ ခုနှစ်လောက်တွင် မြန်မာတို့သည် ဝိုင်၊ အမ်၊ စီ၊ အေ ခေါ် ခရစ်ယန် လူငယ်များ အသင်းကို အတုယူ၍ ဝိုင်၊ အမ်၊ ဘီ၊ အေ ခေါ် ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်းကို တည်ထောင်ကြသည်။ အယူဝါဒရေးကိုရည်ရွယ်၍ ဖွဲ့သော ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းသည် နိုင်ငံရေး လုပ်ငန်းကို လှေလာ လိုက်စား၏။ ခေါင်းဆောင်အချို့သည် သတင်းစာတိုက်များကို ထောင်ကြ၏။ သတင်းစာများ၌ ရေးသူက ရေး၊ နယ်ထွက်၍ ဟောသူက ဟောနှင့် အလုပ်များကြ၏။ ဤသို့ ရေးကြ ဟောကြသော တရားကို ဝံသာနုတရားဟုခေါ်၏။ မကြာမီအတွင်း ဝံသာနုစိတ်ဓာတ်တက်ကြွလာသော မြန်မာ နိုင်ငံလုံး ဆိုင်ရာ ဂျီ၊ စီ၊ ဘီ၊ အေ အသင်းကြီး ပေါ်ပေါက်လာ၏။ (ဝိုင်၊ အမ်၊ ဘီ၊ အေ။ ဂျီ၊ စီ၊ ဘီ၊ အေ — ရှု။) ထိုနောက် မြန်မာ တိုင်းသူ ပြည်သားများ၏ အကျိုးဖြစ်မည့် ဥပဒေမျိုးကို အစိုးရထံ၌ တောင်းကြ၏။ ထိုပြင် ဟုမ္မရူးခေါ် ကိုယ်ပိုင် အုပ်ချုပ်ရေး စံနစ်ကိုလည်း တောင်းကြ၏။ အစိုးရသည် ဝံသာနု ခေါင်းဆောင်များကို ဖမ်းဆီး ချုပ်နှောင်သည်။ အစိုးရက ဖိနှိပ်လေလေ၊ ဝံသာနုစိတ်ဓာတ်က တက်ကြွလေလေ ဖြစ်ရာ၊ အင်္ဂလိပ် အစိုးရသည် ဒိုင်အာခီခေါ် နှစ်ဖက်စပ် အုပ်ချုပ်ရေး စံနစ်ကို ပေး၏။ အမျိုးသား စိတ်ဓာတ်ကို တက်

ကြွစေသော သူတို့တွင် တက္ကသိုလ် ကျောင်းသားများ ပါဝင်ကြ၏။ ၁၉၂၀ ပြည့်နှစ်တွင် ရန်ကုန်တက္ကသိုလ်ကို တည်ထောင်သောအခါ ကျောင်းသားများသည် သပိတ်မှောက်ကြ၏။ ထိုသပိတ်သည် ကျောင်းအားလုံးသို့ ပျံ့နှံ့သွား၍ အမျိုးသားကျောင်းများ အနှံ့အပြား ပေါ်ပေါက်လာကြ၏။ ထိုအမျိုးသားကျောင်းတို့သည် အမျိုးသား စိတ်ဓာတ်ကို ပိုမိုခိုင်မြဲအောင် ပြုစုပျိုးထောင်ပေးကြ၏။ အမျိုးသားတက္ကသိုလ်ကား ကြာရှည်စွာ မတည်တံ့ချေ။

တိုင်းသူ ပြည်သားတို့သည် ဒိုင်အာခီ အုပ်ချုပ်ရေးကို မနှစ်သက်ဘဲ ကိုယ်ပိုင် အုပ်ချုပ်ရေးကို တောင်းကြသည်။ ၁၉၃၀ ပြည့်နှစ်လောက်တွင် တို့ဗမာ အစည်းအရုံးဝင် သခင်ခေါင်းဆောင်များသည် နိုင်ငံရေး လွတ်လပ်မှုကို ရမှသာ လျှင် လိုအပ်သော ဥပဒေကို ရမည် ဖြစ်၍ လွတ်လပ်ရေးအတွက် ပြင်းထန်စွာ ဆောင်ရွက်ရမည်ဟူသောဝါဒကို လှည့်လည် ဟောပြောရာ တိုင်းသူပြည်သား၏ စိတ်ဓာတ်တို့သည် တက်ကြွလာကြ၏။ပြောဟောသူအများကိုလည်း အစိုးရက ဖိနှိပ်၏။ (တို့ဗမာအစည်းအရုံး — လည်းရှု။)

၁၉၃၇ ခုနှစ် ဧပြီလ ၁ ရက်နေ့မှစ၍ မြန်မာပြည်ကို အိန္ဒိယပြည်မှခွဲထုတ်လိုက်သဖြင့်မြန်မာပြည်သည် သီးသန့်တိုင်းပြည်တခုဖြစ်လာ၏။ အုပ်ချုပ်ရေးတွင် ၉၈ ဌာနအနက် ၉၁ ဌာနကို တိုင်းသူပြည်သားတို့က ရွေးချယ် တင်မြှောက်သော ကိုယ်စားလှယ် အမတ်တို့ အုပ်ချုပ်ခွင့် ရသဖြင့် ၉၁ ဌာန အုပ်ချုပ်ရေးဟု ခေါ်သည်။ ပါလီမန်စံနစ်အရ အထက်လွှတ်တော်နှင့် အောက် လွှတ်တော်ဟူ၍ ခွဲခြားအုပ်ချုပ်သည်။ သို့ရာတွင် မြန်မာနိုင်ငံကို အင်္ဂလိပ်အစိုးရက တိုက်ခိုက်သိမ်းယူခြင်းကို မမေ့ နိုင်သော မြန်မာတို့သည် လုံးဝကိုယ်ပိုင်အုပ်ချုပ်ရေး အတွက်သာ ဆူပူနေကြ၏။

၁၉၃၉ ခုနှစ်တွင် ဒုတိယ ကမ္ဘာစစ်ကြီး စ၍ဖြစ်ရာ၊ ဂျပန်သည် အရှေ့တောင်အာရှဒေသရှိ အင်္ဂလိပ်၊ ပြင်သစ်၊ အမေရိကန်ပိုင် နယ်များကို တိုက်မည်ကို သိသော တို့ဗမာ အစည်းအရုံးခေါင်းဆောင်များသည် ဂျပန်၏ အကူအညီဖြင့် အင်္ဂလိပ်အစိုးရထံမှ လွတ်လပ်ရေးကို ယူမည်ဟု ကြံစည်ကြ၏။ ထိုကြံစည်ချက် အတိုင်း သခင်အောင်ဆန်း ခေါင်းဆောင်သော ရဲဘော်သုံးကျိပ်တို့သည် မြန်မာပြည်မှ တိတ်တဆိတ်ထွက်ခွာ ဂျပန်နိုင်ငံသို့သွား၍ စစ်အတတ် သင်ကြ၏။ (ရဲဘော် သုံးကျိပ် — လည်းရှု။ ) ၁၉၄၂ ခုနှစ်ဦးတွင် သခင်အောင်ဆန်း၏ ဗမာ့လွတ်လပ်ရေးတပ်မတော်သည် ဂျပန်စစ်တပ်နှင့်အတူ မြန်မာပြည်တောင်ပိုင်းသို့ ဝင်လာသည်။ အင်္ဂလိပ် စစ်တပ်များသည် မခုခံနိုင်သဖြင့် ရန်ကုန်မှ ပြည်သို့၊ ထိုနောက် မန္တလေးသို့၊ ထိုနောက် မြစ်ကြီးနားသို့ဆုတ်၍ မေလတွင် မဏိပူရကိုဖြတ်၍ အိန္ဒိယသို့ဝင်ကြသည်။မြန်မာပြည် ဘုရင်ခံသည်လည်းဆင်းမလားမြို့၌စစ်ပြေးအစိုးရရုံးစိုက်သည်။

ဖက်ဆစ်ဆန်သော ဂျပန်အစိုးရသည် မြန်မာပြည်ကို ၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ် အဝင်အထိ အုပ်ချုပ်၏။ အစဦးသော် မြန်မာတို့သည် ဂျပန်တို့အား ကိုးစားခဲ့ကြ၏။ သို့ရာတွင် ဂျပန်တို့ပေးသော လွတ်လပ်ရေးသည် လွတ်လပ်ရေး အတုမျှသာ ဖြစ်သည်ကို သိလာကြသောအခါ မြန်မာ လူငယ်ခေါင်းဆောင်တို့သည် ဂျပန်၏ လက်အောက်မှ လွတ်မြောက်ရန် စိုင်းပြင်းကြ၏။

ဗိုလ်ချုပ် အောင်ဆန်း၏ ဗမာ့ တပ်မတော်နှင့် တို့ဗမာအစည်းအရုံးဝင် တို့သည် ဖက်ဆစ် ဂျပန်ကို တော်လှန်ရန် ၁၉၄၄ ခုနှစ်တွင် အင်္ဂလိပ်စစ်တပ်နှင့် တိတ်တဆိတ် ဆက်သွယ်ကြ၏။ ထိုနောက် ဖ၊ တ၊ ပ၊ လ ခေါ် ဖက်ဆစ် တိုက်ဖျက်ရေး ပြည်သူ့ လွတ်လပ်ရေး အဖွဲ့သည် ၁၉၄၅ ခုနှစ် မတ်လကစ၍ ဂျပန်တို့ကို တော်လှန်သည်။ (ဖ၊ ဆ၊ ပ၊ လ — ရှု။) ထိုတော်လှန်မှုကြောင့် ထိုနှစ်၌ပင် အင်္ဂလိပ်စစ်တပ်များသည် မြန်မာပြည်သို့ လွယ်ကူစွာ ပြန်ဝင်ပြီးလျှင် ဂျပန်စစ်တပ်များကို အောင်မြင် နိုင်ကြ၏။ မြန်မာပြည်ဘုရင်ခံသည်လည်း မြန်မာပြည်သို့ ပြန်ရောက်၍ ပြန်လည်အုပ်ချုပ်ရေးကို စီမံသည်။ ဗိုလ်ချုပ်အောင်ဆန်းလည်း စစ်တပ်မှ ထွက်၍ ဖ၊ဆ၊ပ၊လ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်၏။ ၁၉၄၆ ခုနှစ်တွင် ဖ၊ဆ၊ပ၊လ ခေါင်းဆောင်သော မြန်မာလူထုသည် တိုင်းပြုပြည်ပြု လွှတ်တော် ခေါ်ရေး၊ အချုပ်အချာ အာဏာပိုင် လုံးဝလွတ်လပ်ရေးစသော အဆိုများကို အတည်ပြုကြ၏။ အင်္ဂလိပ်အစိုးရသည် ဖ၊ဆ၊ပ၊လ ခေါင်းဆောင်သော ပြည်မဒေသနှင့် တောင်တန်း ဒေသတို့၏ အင်အားကို မခံနိုင်သဖြင့် ဖ၊ဆ၊ပ၊လ ခေါင်းဆောင်နှင့် တောင်တန်း ဒေသ ခေါင်းဆောင်တို့အား အုပ်ချုပ်ရေး အာဏာကို အပ်ရလေသည်။ လွတ်လပ်ရေးကို ပေးပါမည် ဟုလည်း ကတိပြုရလေသည်။

ထိုကြောင့် ဗိုလ်ချုပ်အောင်ဆန်းကြီးမှူးသော ဖ၊ဆ၊ပ၊လ အစိုးရသည် ပြည်သူ့ ကိုယ်စားလှယ်များနှင့် ဆွေးနွေးလိုသဖြင့် ၁၉၄၇ ခုနှစ်တွင် တိုင်းပြုပြည်ပြု လွှတ်တော် အတွက် ရွေးကောက်ပွဲကို ကျင်းပပြီးနောက် ပြည်သူများက ရွေးကောက်လိုက်သော ကိုယ်စားလှယ်အမတ်များ ပါဝင်သည့် တိုင်းပြုပြည်ပြုလွှတ်တော်ကို ကျင်းပသည်။ထိုနောက် အများသဘောတူ ဆုံးဖြတ်သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ရေးဆွဲကြ၏။ ထိုအတောအတွင်း ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့တွင် ဗိုလ်ချုပ် အောင်ဆန်းနှင့် ဖ၊ဆ၊ပ၊လ ခေါင်းဆောင်၊ တောင်တန်းဒေသခေါင်းဆောင် အချို့တို့သည် လူ မသမာတို့၏ လက်ချက်ဖြင့် အသတ်ခံကြရသည်။ သို့ရာတွင် ဖ၊ဆ၊ပ၊လ ဒုတိယ ဥက္ကဋ္ဌဖြစ်သော သခင်နုသည် ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်၍ မြန်မာနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို အောင်မြင်စွာ ရေးဆွဲ၏။

ထိုနောက် မြန်မာ ခေါင်းဆောင်များသည် အက်တလီ ခေါင်းဆောင်သော ဗြိတိသျှ အစိုးရအဖွဲ့နှင့် သွားရောက် စေ့စပ်ကာ သဘောတူ စာချုပ်များ ချုပ်ဆိုခဲ့သည်။ (နု–အက်တလီစာချုပ် — လည်းရှု။) မြန်မာတိုင်းသူပြည်သားများသည် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် မြန်မာပြည်သည် လုံးဝလွတ်လပ်သော အချုပ်အချာ အာဏာပိုင်နိုင်ငံဖြစ်ပြီဟု ကျေညာခဲ့ကြသည်။ ဦးဖေမောင်တင်

**မြန်မာနိုင်ငံ သမိုင်း ကော်မရှင်။** ။ကော်မရှင်ကို ၁၉၅၅ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်နေ့တွင် စတင် ဖွဲ့စည်းတည်ထောင်သည်။

(က) ပြည့်စုံခေတ်မှီ၍ သိပ္ပံနည်းကျသော မြန်မာနိုင်ငံ သမိုင်းကို ပြုစုရန်၊ ပြုစုရာ၌ စီးပွားရေးစံနစ်ကို အခြေပြုသော လူနေမှု ဖွဲ့စည်းပုံ စံနစ်နှင့် လူမှုရေးပြောင်းလဲလာပုံတို့ကို အလေးပေး၍ ရေးသား ပြုစုရန်၊

(ခ) ပစ္စက္ခ မြန်မာနိုင်ငံသမိုင်းအတွက် အထောက်အထား အချက်အလက်များကို စုဆောင်း သိမ်းရန် ဟူ၍ ရည်ရွယ်ချက် နှစ်ခုရှိသည်။

ကော်မရှင်၏ ဥက္ကဋ္ဌများကား အောက်ပါတို့ ဖြစ်ကြသည်။

(က) စည်သူ ဦးကောင်း (အချိန်ပြည့်)၊ ၁၉၅၅ ခုနှစ် ဇန်နဝါရီလမှ ၁၉၅၆ ခုနှစ် ဇူလိုင်လအထိ။

(ခ) စည်သူဦးကောင်း (အချိန်ပိုင်း)၊ ၁၉၅၆ ခုနှစ် ဇူလိုင်လမှ ၁၉၅၇ ခုနှစ် ဖေဖွာရီလ ၁၉ ရက်နေ့အထိ။

(ဂ) ဒေါက်တာထင်အောင် (အချိန်ပိုင်း)၊ ၁၉၅၉ ခုနှစ် ဇန်နဝါရီလအထိ။

(ဃ) သီရိပျံချီ ဦးသိန်းဟန် (အချိန်ပိုင်း)၊ ၁၉၆၀ ပြည့်နှစ် ဖေဖွာရီလအထိ။

(င) ဦးဖေမောင်တင် (အချိန်ပြည့်)၊ ၁၉၆၀ ပြည့်နှစ် ဖေဖွာရီလမှ ၁၉၆၄ ခုနှစ် စက်တင်ဘာလအထိ။

(စ) ဒေါက်တာကျော်သက် (အချိန်ပိုင်း)၊ ယနေ့အထိ။

ကော်မရှင် အဖွဲ့ဝင်များကား။

စတင်ဖွဲ့စည်းစဉ်၊ ဥက္ကဋ္ဌ အပါအဝင် (၁၀) ဦး၊

ယခု .... ဥက္ကဋ္ဌ အပါအဝင် (၁၁) ဦးတို့ ဖြစ်သည်။

မှုထမ်းရာထမ်းများမှာ၊

စတင်ဖွဲ့စည်းစဉ်၊ ဥက္ကဋ္ဌ အပါအဝင် (ရှစ်) ဦး၊

ယခု .... ဥက္ကဋ္ဌ အပါအဝင် (၃၆) ဦးတို့ ဖြစ်သည်။

(က) အုပ်ချုပ်မှု ဌာနစု၊ (ခ) သုတေသန ဌာနစု၊ (ဂ) ဂီတသုတေသနဌာနစု၊ (ဃ) မော်ကွန်းဌာနစုဟူ၍ ဌာနစု လေးခု ရှိသည်။

ယခင်က ဆပ်ကော်မရှင် ငါးခု ရှိသည်။ ယခု တခုသာ ရှိသည်။

(က) မှီငြမ်း အထောက်အထားများကို စုဆောင်းခြင်း၊ (ခ) စုဆောင်းပြီး အထောက်အထားများကို စိစစ်လျက် အချက်အလက်များ ထုတ်နုတ်ခြင်း၊ (ဂ) ထိုအချက်အလက်များကို ညှိနှိုင်းလျက် သမိုင်းရေးသားခြင်း ဟူ၍ သမိုင်း ရေးသားရေးအတွက် လုပ်ငန်း အဆင့်သုံးဆင့် ရှိသည်။

မှီငြမ်း အထောက်အထားများကို စုဆောင်းခြင်းတွင် အောက်ပါ လုပ်ငန်းစဉ်လေးခု ပါဝင်သည်။

(က) တိမ်မြုပ်နေသော အထောက်အထား များကို ဖော်ထုတ်ခြင်း၊ (ခ) သိပြီးသော အထောက်အထားများကို စုဆောင်းရယူခြင်း၊ (ဂ) တကွဲတပြား ဖြစ်နေသော အထောက်အထားများကို စုဆောင်းဆက်စပ်ခြင်း၊ (ဃ) ထိုသို့ စုဆောင်းရာတွင် ခေတ်အလိုက် အမျိုးအစား ကွဲပြားနေသော အထောက်အထားများကို ဆီလျော်သော နည်းအမျိုးမျိုးဖြင့် ရှာဖွေ စုဆောင်းခြင်း။

ကျောက်စာကူး အမှုထမ်းတို့သည် ရက်ပေါင်း ၁,၇၀၀ ကြာမျှ ၇၂ ကြိမ် ခရီးထွက်ပြီး၍၊ ကျောက်စာတိုင်ပေါင်း ၃,၅၉၄ ကို မင်လိမ့် ကူးယူရာ၊ ရွက်ရေပေါင်း ၁၂,၀၄၉ ရွက် စုဆောင်းခဲ့ကြသည်။

ရှေးဟောင်းမင်စာသည် ကျောက်စာကဲ့သို့ အလားတူ အရေးကြီးသည်။ ပုဂံခေတ်မှ ကုန်းဘောင်ခေတ်အထိ အသုံးဝင်သည်။ ရှေးဟောင်း ဘုရားပုထိုး စေတီအဆောက်အအုံတို့၏ အတွင်းနံရံများပေါ်၌ တွေ့ရှိနိုင်သည်။

(က) ရှေးဟောင်းမင်စာ ဓာတ်ပုံပေါင်း ၇၆၄ ပုံ ရိုက်ကူးပြီးပြီ။ (ခ) ရှေးဟောင်း မင်စာကူး ရွက်ရေပေါင်း ၂,၅၅၈ ကူးယူပြီးပြီ။

ရှေးက ရေးသားခဲ့သော ရာဇဝင်ကျမ်းများသည် မင်းများနှင့် နန်းတွင်းရေးရာများ အကြောင်းကိုသာ ကျယ်ပြန့်စွာ ဖော်ပြထားသည်။

ထိုကြောင့် သမိုင်း၊ အရေးတော်ပုံ၊ မော်ကွန်း၊ ချောင်း၊ စစ်တမ်း၊ အိုင်ချင်း၊ ပျို့၊ ဘွဲ့၊ ရတု၊ လူးတား၊ မေတ္တာစာ၊ ဆုံးမစာ စသည်များကို လေ့လာရန် လိုအပ်သည်။

(က) စာမူစာတမ်း ၇၈ ခုကို မိုက္ကရိုဖလင် ရိုက်ကူးပြီးပြီ။ (ခ) စာမူစာတမ်း ၁၉၂ ခုကို စာမျက်နှာ ၈,၃၅၇ ကူးယူပြီးပြီ။

မြန်မာနိုင်ငံ သမိုင်းနှင့် စပ်ဆိုင်သော တရုပ်ရာဇဝင်ကျမ်းများနှင့် မှတ်တမ်းများ စုစုပေါင်း ၄,၄၈၅ ခုကို စုဆောင်းပြီးပြီ။

ရှေးဟောင်း သုတေသန အထောက်အထားများသည် စာဖြင့် ရေးသားထားသော အထောက်အထားများထက် စိတ်ချရသည်။ ယင်းတို့သည် (က) ရှေးဟောင်း ဘုရားပုထိုး စေတီများ၊ (ခ) ရှေးဟောင်း အဆောက်အအုံများ၊

(ဂ) ရှေးဟောင်း အနုပညာ လက်ရာပစ္စည်းများ၊ (ဃ) ရှေးဟောင်း လူ့အသုံးအဆောင်ပစ္စည်းများ ဖြစ်ကြသည်။

ထိုအထောက်အထားများကို ခရီးထွက်၍ရင်း၊ ရန်ကုန်မြို့ ရှေးဟောင်းသုတေသနဌာနနှင့် နယ်ဌာနခွဲများ၌ရင်း လေ့လာရသည်။

(က) နိုင်ငံအတွင်း သမိုင်းဆိုင်ရာ ဒေသ ၆၁ ခုသို့ ၇၂ ကြိမ်၊ (ခ) နိုင်ငံအပ သမိုင်းဆိုင်ရာ ဒေသ ၁ဂ ခုသို့ ၁၄ ကြိမ်၊ ကွင်းဆင်းသုတေသန ခရီးထွက်၍ ရှာဖွေ စုဆောင်းခဲ့သည်။

ထိုခရီးများမှ အောက်ပါတို့ကို စုဆောင်းရရှိခဲ့သည်။ (က) ဆွဲပုံနှင့် ဓာတ်ပုံပေါင်း ၄,၆၀၀ ခန့်၊ (ခ) ဓာတ်ပုံဖလင် ကွက်ပေါင်း ၁,၂၀၀ ခန့်၊ (ဂ) မိုက္ကရိုဖလင် အလိပ်ပေါင်း ၅၉၈၊ (ဃ) မိုက္ကရိုဖလင် အကွက်ပေါင်း (၂,၀၈,၃၀၀)၊ (င) ရှေးဟောင်း မြို့ပြအဆောက်အအုံပုံစံ ၄၄၊ (စ) မြေပုံနှင့် မြေပုံဓာတ်ပုံပေါင်း ၇၅၇၊ (ဆ) အဖွဲ့အမဲနှင့် ရောင်စုံ ဆလိုက်ပေါင်း ၄၀၀၊ (ဇ) ဆေးရေး ပန်းချီ ကောက်ကြောင်း ပုံပေါင်း ၁၁၆၊ (ဈ) ကူးယူပြီး ဓာတ်ပုံပေါင်း ၂,၈၁၆။

အထောက်အထား စာအုပ်စာတမ်းများကို စာရင်းပြု၍ရင်း၊ အသေးစိတ် လေ့လာမှတ်စုထုတ်၍ရင်း ကပ်ပြားတင်ရသည်။ တင်ပြီး ကပ်ပြားပေါင်း ၅ဂ,၃၉၀ ခုဖြစ်သည်။

### ဘာသာပြန်ဆိုခြင်း

တရုပ်ဘာသာပြန်တဦးကို ၁၉၅၆ ခုနှစ်မှ စတင်ခန့်ထား၍ရင်း၊ ရှမ်းဘာသာပြန်တဦးကို ပတ်ပြတ်စံနစ်ဖြင့် ငှါးရမ်း၍ရင်း ဘာသာပြန်ဆိုခဲ့ရာ အောက်ပါအတိုင်း ပြီးစီးသည်။

(က) တရုပ်စာမူပေါင်း ၃၅ ခုကို အင်္ဂလိပ်ဘာသာပြန်ဆိုရာ၊ လက်နှိပ်စက် စာမျက်နှာပေါင်း ၁,၇၀၀။ (ခ) ယင်းစာမူများမှ မှတ်စုကပ်ပြားထုတ်ရာ ကပ်ပြားပေါင်း ၃,၀၂ဂ၊ (ဂ) ရှမ်းပုရပိုက် ၆၄၂ မျက်နှာကို မြန်မာဘာသာပြန်ဆိုပြီး၊ (ဃ) ကုန်းဘောင်ခေတ်နှင့် ဗြိတိသျှခေတ်ကျမ်းပြု အရာရှိများက မြန်မာမှတ်တမ်း ၁၁ ခုကို အင်္ဂလိပ်ဘာသာ ပြန်ဆိုပြီး။

ပြည်ထောင်စု မြန်မာနိုင်ငံလူမျိုးစု ဘာသာစကား သုတေသန လုပ်ငန်း၏ ရည်ရွယ်ချက်သည် သမိုင်းအလျင်ခေတ်၏ သမိုင်းနှင့် ယဉ်ကျေးမှု၊ လူမျိုးစုများ ရွှေ့ပြောင်းခဲ့ပုံနှင့် ယဉ်ကျေးမှုများ ရောယှက်ခဲ့ပုံ၊ ဘာသာစကားများ ပေါ်ပေါက်ပြောင်းလဲလာပုံ၊ ဆက်သွယ်ပုံနှင့် ယင်းတို့မှ ရရှိသော သမိုင်းအထောက်အထားများကို ရယူရန် ဖြစ်သည်။ အချို့လူမျိုးစုတို့၏ စကားများမှာ ကွယ်ပျောက်လုနီးပြီဖြစ်၍ လျင်မြန်စွာ လေ့လာစူးစမ်းရန် လိုသည်။

### သုတေသနစာတမ်းနှင့် ကျမ်းများ ရေးသားခြင်း

ပြုစုထုတ်ဝေပြီးသော သုတေသန စာစောင် စာတမ်းနှင့် ကျမ်းများကား အောက်ပါတို့တည်း။

(က) သမိုင်းတံခွန် အတွဲ (၁)၊ အမှတ် (၁)၊ (ခ) သမိုင်းတံခွန် အတွဲ (၁)၊ အမှတ် (၂)၊ (ဂ) သမိုင်းတံခွန် အတွဲ (၂)၊ (ရိုက်နှိပ်ဆဲ)၊ (ဃ)သမိုင်းတံခွန် အတွဲ (၃)၊ (ပုံနှိပ်တိုက်သို့ အပ်နှံပြီး)၊ (င) ရှေးခေတ်ဟောင်း မြန်မာနိုင်ငံကျမ်း (ရိုက်နှိပ်ဆဲ)၊ (စ) လောကထိပ်ပန်၊ (ဆ) စလင်းမင်း မောင်ပေါင်းချောင်ချောင်း၊ (ဇ) မြန်မာ-အင်္ဂလိပ်ပက္ခဒိန် (အေဒီ ၁၇၀၀ မှ ၁ဂ၂၀)၊ (ဈ) ဗင်္ဂလားသွား မှတ်တမ်း (ရိုက်နှိပ်ဆဲ)၊ (ည) ရတနာသိင်္ချမြို့ထွက် ရဲတင်းမော်ကွန်း (ရိုက်နှိပ်ဆဲ)၊ (ဋ) မှတ်တမ်းစဉ် (၁)၊ (ရိုက်နှိပ်ဆဲ)၊ (ဌ) အလောင်းမင်းတရားကြီး အမိန့်တော် (ပုံနှိပ်တိုက်သို့ အပ်နှံရန် အဆင်သင့်)၊ (ဍ) မဇ္ဈိမဒေသ အရေးတော်ပုံ (ပုံနှိပ်တိုက်သို့ အပ်နှံရန် အဆင်သင့်)၊ (ဎ) ယဉ်ကျေးမှု စာစောင်၊ သမိုင်းတံခွန်၊ မြန်မာနိုင်ငံသုတေသန အသင်း ဂျာနယ်တို့တွင် ထည့်သွင်းပြီးနှင့် ထည့်သွင်းရန် ပေးပို့ပြီးသော သုတေသန ဆောင်းပါးပေါင်း၄၀ ခန့်။

### မြန်မာနိုင်ငံသမိုင်း အခြေပြုကျမ်းငယ်

ခေတ်မှီ ပြည့်စုံ သိပ္ပံနည်းကျသော မြန်မာနိုင်ငံသမိုင်း ကျမ်းကြီးကို ပြုစုရေးသားရေးတွင် ကာလအတန်ကြာ အချိန်ယူ၍ စေ့စပ်သေချာစွာ ဆောင်ရွက်ရမည်ဟု မူလကတည်းက ယူဆခဲ့သည်။ လုပ်ငန်း အတွေ့အကြုံများ အရလည်း အောက်ပါအချက်တို့ကို တွေ့ရှိရသည်။

(က) သမိုင်းအထောက်အထားများမှာ အလွန်မြောက်မြားလှသဖြင့် ဆက်လက် ရှာဖွေရန် လိုနေသေးခြင်း၊ (ခ) ကမ္ဘာ့ သုတေသန အဆင့်အတန်းမှီ သမိုင်းဆိုင်ရာ ကျမ်းစဉ်များကို အခါအားလျော်စွာ တည်းဖြတ်ရန်နှင့် ပြုစုရန် လိုအပ်ခြင်း၊ (ဂ) သမိုင်း အထောက်အထားများကို ဆက်လက် ရှာဖွေ စုဆောင်းသွား၍၊ ပြုစုပြီး သမိုင်းကျမ်းစဉ်များကိုလည်း ပြန်လည်ဖြည့်စွက် ပြင်ဆင်သွားရန် လိုမည်ဖြစ်ခြင်း။

ထို့ကြောင့် မြန်မာနိုင်ငံ သမိုင်းစဉ်မှ မြန်မာ့ လူနေမှုစံနစ်ဖြစ်သော စီးပွားရေးနှင့် ယဉ်ကျေးမှုအချက်အလက်များကို အဓိကထား၍ မြန်မာနိုင်ငံ သမိုင်း အခြေပြုကျမ်းငယ်ကို ပြုစုဆောင်ရွက်လျက် ရှိသည်။

### မော်ကွန်းဌာနလုပ်ငန်း

နိုင်ငံတော် မော်ကွန်းဌာန တည်ထောင်၍ အခြေစိုက်ဆောင်ရွက်ရန် လိုအပ်သဖြင့် အောက်ပါ လုပ်ငန်း အစီအစဉ်များကို ချမှတ်ထားသည်။

(က) အစိုးရဌာန အသီးအသီးတွင် မှတ်တမ်းများကို မည်သို့ ထိန်းသိမ်း သိုမှီးနေသည်ကို စုံစမ်းထောက်လှမ်းရန်၊ (ခ) ထိုသို့ထိန်းသိမ်းရေးလုပ်ငန်း၌ ကော်မရှင်နှင့် အစိုးရဌာနများတို့ ညှိနှိုင်း ဆောင်ရွက်ရန်၊ (ဂ) လိုအပ်သော ဥပဒေများကို ရေးဆွဲတင်ပြ ပြဋ္ဌာန်းရန်၊ (ဃ) နိုင်ငံတော် မော်ကွန်းဌာန တည်ထောင်ရေးအတွက် စီမံကိန်း ရေးဆွဲရန်။

သို့သော် အကြောင်းကြောင်းတို့ကြောင့် တကယ်တမ်း မဆောင်ရွက်နိုင် သေးချေ။ ထို့ကြောင့် မော်ကွန်းဌာနစုသည် သမိုင်းပြုစုသည့် လုပ်ငန်းတွင် အောက်ပါတို့ကို ဆောင်ရွက်လျက် ရှိနေသည်။

(က) အထောက်အထားများ စုဆောင်းရေး လုပ်ငန်းတွင် ကူညီဆောင်ရွက်ခြင်း၊ (ခ) ထိုအထောက်အထားများကို စနစ်တကျ စီစဉ် ထိန်းသိမ်းခြင်း၊ (ဂ) ကော်မရှင်တွင်းပုဂ္ဂိုလ်များအား အစီအစဉ်ဖြင့် ငှားရမ်းထုတ်ပေးခြင်း၊

မော်ကွန်းဌာနစုသည် အောက်ပါတို့ကို စုဆောင်း သိုမှီးခဲ့သည်။

(က) တရုပ်အထောက်အထား ၄,၄၇၅ ခုနှင့် ယိုးဒယားအထောက်အထား ၅၄ ခု အပါအဝင် စာအုပ်စာတမ်းပေါင်း ၇,၀၆၄ ခု၊ (ခ) မဂ္ဂဇင်း စာအုပ်ပေါင်း ၇၁၉၊ (ဂ) သတင်းစာ လစဉ်အုပ်တွဲပေါင်း ၁,၅၀၀ ခန့်၊ (ဃ) ပြည်ပသုတေသန စာစောင် စာတမ်း ၅၀၀ ခန့်၊ (င) အစိုးရ ဌာနခွဲငါးခုမှ လစဉ် အစီရင်ခံစာများ၊ (စ) အထက်ဖော်ပြပါ ကျောက်စာ၊ မင်စာ၊ စာပေ အထောက်အထား၊ တရုပ်အထောက်အထား၊ သုတေသန ခရီးမှ ရှာဖွေရသော အထောက် အထား၊ ကပ်ပြား၊ ဘာသာပြန်၊ ဘာသာစကားတို့ကို စုဆောင်း သိုမှီးထားပြီးဖြစ်သည်။

## မော်ကွန်းလုပ်ငန်း တိုးချဲ့စီစဉ်ချက်နှင့် မြော်မှန်းချက်

လုပ်အားနှင့် လုပ်ဆောင်ခွင့် အာဏာများကို မရရှိခဲ့၍ အစိုးရ မှတ်တမ်းများ ထိန်းသိမ်းရေး မော်ကွန်း လုပ်ငန်း စစ်စစ်ကို ထိရောက်စွာ စတင် မဆောင်ရွက်နိုင်ခဲ့သေးချေ။ ယင်းလုပ်အားနှင့် လုပ်ဆောင်ခွင့် အာဏာများ ရရှိလျှင်

(က) နိုင်ငံ၏ နေ့စဉ် မှတ်တမ်း မော်ကွန်းကို စီရင် ပြုစုခြင်း၊ (ခ) ထိုမှတ်တမ်း မော်ကွန်း၏ အညွှန်းများကို ပြုစုခြင်း၊ (ဂ) နိုင်ငံတော် မော်ကွန်းဌာန တည်ထောင်ရေးအတွက် မေးခွန်းလွှာများ ရေးဆွဲလျက် စုံစမ်းထောက်လှမ်းခြင်း၊ (ဃ) စီမံကိန်းနှင့် ဥပဒေကြမ်းအမိန့်များ ရေးဆွဲတင်ပြခြင်း စသည်တို့ကို ဆောင်ရွက်ရန် အစီအစဉ် ရှိသည်။ (င) ထိုမှတဆင့် နိုင်ငံတော်မော်ကွန်းကို တည်ထောင်ရန် မြော်မှန်းသည်။

## ဂီတသုတေသနလုပ်ငန်း

ကော်မရှင်၏ မူလ လုပ်ငန်းများတွင် ဖြည့်စွက် ဆောင်ရွက်နိုင်ရန်၊ ဂီတသုတေသန ဌာနစု တခုကို ၁၉၆၀ ပြည့်နှစ် နိုဝင်ဘာလမှ စတင် ထားရှိခဲ့သည်။ အောက်ပါလုပ်ငန်းစဉ်များကို ချမှတ်၍ ကော်မရှင် အဖွဲ့ဝင် လူကြီး သီရိပျံချီ ဦးသိန်းဟန်ကို ကြီးကြပ်လျက် ဆောင်ရွက်စေသည်။

(က) ရှေးသီချင်းကြီးများနှင့် သက်ဆိုင်သော ရာဇဝင် အဖြစ် အပျက် အကြောင်းအရာများကို စုံစမ်း ရှာဖွေရေးသားရန်၊ (ခ) ထိုသီချင်းကြီးများကို ရေးသားခဲ့ကြသော ပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိများကို စုံစမ်း ရှာဖွေ ရေးသားရန်၊ (ဂ) ထိုသီချင်းကြီးများနှင့် သက်ဆိုင်သော ခေတ်၏ အခြေအနေ အကြောင်းများကိုငှင်း၊ ပေ၊ ပုရပိုက်၊ အမှတ်အသား စသည်တို့ကိုငှင်း စုံစမ်း ရှာဖွေ၍ ရေးသားရန်နှင့် ရေးကူးရန်၊ (ဃ) ထိုသီချင်းကြီးများ၏ အနက် အဓိပ္ပါယ်တို့ကို စုံလင်နိုင်သမျှ စုံလင်စွာ စုံစမ်း ရှာဖွေ ရေးသားရန်၊ (င) သုတေသန ပြုပြီးသောအခါ ပုံနှိပ် ထုတ်ဝေရန်။

ဂီတသုတေသနမှူးသည် သုတေသန စာတမ်း ၅၀ ကျော်ကို ပြုစုပြီးပြီ။ အောက်တွင် အနည်းငယ် ဖော်ပြသည်။

(က) ကြောက်ဖွယ်ဘုန်းတန်ခိုး အဖြေ၊
- (၁) မူးတော် ခေါ် တူးမြောင်းတော်ကြီး၊
- (၂) အလောင်း မင်းတရားကြီး ဘုရား ဖြစ်မည့် တဘောင်များ၊

(ခ) သင်ရိုးကြိုး ငါးပုဒ်၊

(ဂ) စိန်ကြယ် လင်းညီး ရောင်နွယ် မွန်သံ သီချင်း အဖြေ၊
- (၁) ဘုရင်မ ရှင်စောပု၏ ရာဇဝင်အကျဉ်း၊
- (၂) စိန်ကြယ်လင်းညီး မွန်သီချင်း၊ မြဝတီမင်းကြီး စာမူ၊

(ဃ) အမျက်ကျောက်ရတနာ၊

(င) နန္ဒယော်ဒေါကို ဝန်ကြီးခန့် ပြန်တမ်း အမိန့်တော်၊ (သက္ကရာဇ် ၉၉၉ ခုနှစ်)

(စ) အောင်ပင်လယ် (ကန်တော်) ကြိုး စာတမ်း၊

(ဆ) ဘိုးတော်ဘုရား လက်ထက် ကုန်သည် ဦးနု ဗင်္ဂလား သွား နေ့စဉ်မှတ်တမ်း၊

(ဇ) အလောင်းဘုရား မူးမြစ်တော် ဆည်ပုံ (မြေပုံ)၊

(ဈ) ကင်းဝန်မင်းကြီး အဖွဲ့ အိန္ဒိယနှင့် ဥရောပသွား ခရီးစဉ် ဆောင်းပါး ရကန်လင်္ကာများ၊

(ည) သက္ကရာဇ် ၉၉၆ ခု၊ သာလွန်မင်းတရား အမိန့်တော်၊ (ဝင်းအဆောင် စသည့်အမိန့်)၊

(ဋ) မိုးညှင်းမင်းတရား၊

(ဌ) ရှစ်ဌာနကင်းစာရင်း၊

(၃) ဘကြီးတော်ဘုရားလက်ထက် နိုင်ငံတော် လေးမျက်နှာ တာဝန်ခံ စည်းကြပ်သော ရဲမက်တော် စာရင်း၊
(၈) အစုအင်း တိုက်စု မြို့စု ရာဇဝင် အမိန့်တော်တမ်း၊
(ဏ) မင်းကြီး ပဒေသရာဇာ၏ အစုအင်းဘွဲ့ စာတမ်း၊
(တ) လူမျိုး ၁၀၁ ပါး ရေတွက်ပုံ၊ မှုထမ်းဖွဲ့ပုံ၊ လက်နက်၊ စည်းကမ်းများ၊
(ထ) ဂီတသံများကို သုတေသနပြုထားသော ဂီတဝါဒီတ စာတမ်း၊
(ဒ) လယ်ထွန်မင်္ဂလာ စာတမ်း။

လက်ထောက် ဂီတသုတေသနမှူးသည် သီချင်းကြီး၊ သီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယား၊ ကြိုး၊ ဘွဲ့ စသည့် ရှေးသီချင်းကြီးပေါင်း ၂၀ ကျော်ကို အသံသွင်းပြီးပြီ။ အချို့သော သီချင်းကြီးတို့ကို မူကွဲအမျိုးမျိုးနှင့် တိုက်ဆိုင်လေ့လာပြီးလျှင် ဥယျောဇဉ် အဓိပ္ပါယ်ရှင်းတမ်း၊ အသံ၊ စည်း၊ ဝါးနှင့်တကွ အသံသွင်းခြင်း စသည်တို့ ပြုခဲ့လေသည်။

**ဦးဖေမောင်တင်**

**မြန်မာနိုင်ငံ သုတေသနအသင်း။** ။လူမျိုးတိုင်း၊ နိုင်ငံတိုင်းတွင် အတိတ်ကာလ၊ ပစ္စုပ္ပန် ကာလ၊ အနာဂတ်ကာလဟူ၍ ကာလသုံးပါး ရှိလေရာ၊ ကောင်းမြတ်သော အနာဂတ်ကာလကို ဖန်တီးကြရန် လွန်ခဲ့သောအတိတ်ကာလကို ပြန်လည်သုံးသပ်ခြင်းဖြင့် ပစ္စုပ္ပန်ကာလကို အသုံးချကြသည်မှာ တိုင်းကြီးပြည်ကြီး၊ လူမျိုးကြီးတို့၏ ထုံးတမ်းအစဉ်အလာ တရပ် ဖြစ်ပေသည်။ ထိုကြောင့်လည်း ရှေးမြန်မာမင်းများ လက်ထက်တော် အခါက ရှေးဟောင်းမြန်မာမှု အဝဝကို ရှာဖွေလေ့လာ၍ မှတ်စု မှတ်တမ်း ရေးသားတင်ဆက်ရန် ပညာရှိများကို အားပေးချီးမြှောက်လေ့ရှိခဲ့ခြင်းဖြစ်လေသည်။

ဗြိတိသျှတို့ လက်ထက်တွင် ဗြိတိသျှအရာရှိများ၊ သာသနာပြုပုဂ္ဂိုလ်များ၊ ကျောင်းဆရာများသည် ဗြိတိသျှ အင်ပိုင်ယာအတွင်းရှိ လူမျိုးအသီးအသီးတို့၏ ယဉ်ကျေးမှု ထုံးတမ်းအစဉ်အလာတို့ကို အရေးတယူ ရှာဖွေ လေ့လာ၍ စာအုပ်စာတမ်းများ ရေးသား ပုံနှိပ် ထုတ်ဝေကြသည်။ အသင်းအဖွဲ့များတည်ထောင်၍ သုတေသန ဟောပြောပွဲများ၊ သုတေသန ညီလာခံများ ကျင်းပကာ ရှာဖွေ တွေ့ရှိချက်တို့ကို ဂျာနယ်အဖြစ်ဖြင့် ပုံနှိပ် ထုတ်ဝေကြ၏။

ထိုစဉ်အခါက ထုတ်ဝေကြသော ဂျာနယ် စာတမ်း အမျိုးမျိုးရှိသည့် အနက် ဗင်္ဂလားပြည် ဆိုင်ရာ အာရှအသင်းကြီးက ပုံနှိပ်သော စာတမ်းများတွင်၎င်း၊ အင်ဒီးယန်း အန်တီကွာရီခေါ် မဂ္ဂဇင်းတွင်၎င်း မြန်မာနိုင်ငံ ဆိုင်ရာ ယဉ်ကျေးမှု ဆောင်းပါး မှတ်တမ်းအမျိုးမျိုးကို တွေ့ရှိ ရလေသည်။ ထိုဆောင်းပါးတို့သည် မြန်မာပြည်၏ အတိတ်ကာလကိုလေ့လာသော ဆောင်းပါးများ ဖြစ်သဖြင့်၊ ထိုဆောင်းပါးတို့ကို ဖတ်ရှု၍ ကမ္ဘာ့အရပ်ရပ်ရှိပညာရှင်တို့သည် မြန်မာ့ယဉ်ကျေးမှုကို နားလည်လာကြတော့သည်။

ထိုအခိုက်တွင် အိန္ဒိယ ပဋိညာဉ်ခံ အရာရှိ တဦး ဖြစ်သူ မစ္စတာ ဂျေ၊ အက်(စ) ဖာနီဗယ်သည် ကမ္ဘာ့အရပ်ရပ်ရှိ သုတေသနပညာ ရှာမှီးကြသော အသင်းအဖွဲ့များနှင့် ပုဂ္ဂိုလ်များ၊ အထူးသဖြင့် ယိုးဒယားအသင်းကြီးကို အားကျကာ မြန်မာပြည်တွင်လည်း ဤအသင်းမျိုး ရှိသင့်ရှိထိုက်သည်ဟု ယုံကြည်သဖြင့် ဗြိတိသျှ လူကြီးလူကောင်းများ၊ မြန်မာ ပညာရှိကြီးများကို ချဉ်းကပ် တိုက်တွန်းခဲ့ခြင်းကြောင့် ခရစ်နှစ် ၁၉၁၀ ပြည့်တွင် မြန်မာနိုင်ငံ သုတေသနအသင်းကို တည်ထောင် ဖြစ်ခဲ့လေသည်။ (ဖာနီဗယ်, ဒေါက်တာ ဂျေ၊ အက် (စ) — ရှု။)

အသင်းတည်ထောင်သည့် အခမ်းအနားကို ၁၉၁၀ ပြည့်နှစ် မတ်လ ၂၉ ရက်နေ့တွင် ဗားနတ်ပိဋကတ်တိုက်၌ ကျင်းပရာ၊ မြန်မာပြည် ဒု-ဘုရင်ခံ ဆာ ဟားဗတ် သာကယ်ဝိုက်က သဘာပတိ ပြုလုပ်၍ ဝတ်လုံတော်ရ ဦးမေအောင်က အသင်းပဏာမမိန့်ခွန်းကို မြွက်ကြားခဲ့သည်။ အသင်း၏ ပဌမဆုံး ဥက္ကဋ္ဌကား မစ္စတာ အိပ်(ချ)၊ အယ် အေးလဖြစ်၍၊ အသင်းတည်ထောင်စတွင် အဖွဲ့ဝင် ဦးရေ ၂၃၅ ဦး ရှိလေသည်။

အသင်း၏ အဓိက ရည်ရွယ်ချက်မှာ မြန်မာနိုင်ငံနှင့် ယင်း၏ ကျောခိုင်းနံစပ် နိုင်ငံများ၏ ယဉ်ကျေးမှု အနုပညာ၊ သိပ္ပံပညာ၊ စာပေ ပညာစသည်တို့ကို လေ့လာစုံစမ်း ရှာဖွေရန်နှင့် အထူးသဖြင့် မြန်မာနိုင်ငံနှင့် စပ်လျဉ်းသော သုတေသနလုပ်ငန်းများကို အားပေးရန် ဖြစ်လေသည်။

အသင်း၏ အရပ်ရပ် လုပ်ငန်းဆောင်တာများကို အသင်းအရာရှိ ၁၅ ဦးနှင့် အခြား အဖွဲ့ဝင် ၁၅ ဦးတို့ပါဝင်သော အမှုဆောင်အဖွဲ့က ကွပ်ကဲဆောင်ရွက်လေသည်။ အမှုဆောင်အဖွဲ့သည် သာမန်အားဖြင့် တနှစ်လေးကြိမ်တွေ့ဆုံစည်းဝေးကာ၊ ကြားကာလတွင် စီမံမှုအဖွဲ့ငယ်က အသင်း၏ လုပ်ငန်းများကို ကြီးကြပ် ဆောင်ရွက်လေသည်။ ပုဂ္ဂိုလ် ၁၅ ဦးပါဝင်သော အထွေထွေ ကော်မီတီအဖွဲ့က အသင်း၏ ဝါဒနှင့် စပ်လျဉ်း၍ အဆုံးအဖြတ်ပေးလေသည်။ အသင်း၏ လက်ရှိ (၁၉၆၆ ခုနှစ်) အဖွဲ့ဝင် ဦးရေမှာ ၁,၀၃၉ ဦး ဖြစ်၏။

အသင်း၏ အဓိကလုပ်ငန်းသည် သုတေသန ပြုရေးပင်ဖြစ်ရာ အသင်းသားများ သုတေသန ပြုလုပ် ရှာဖွေတွေ့ရှိထားချက် စာတမ်းများကိုဖတ်ကြားနိုင်ရန်တနှစ်လျှင်လေးကြိမ်မှ ခြောက်ကြိမ်အထိ အစည်းအဝေး ပြုလုပ်လေ့ရှိ၏။ နှစ်စဉ်ဒီဇင်ဘာလတွင်လည်း လေးရက်ကြာမျှ သုတေသန ညီလာခံ ကျင်းပပြုလုပ်ကာ၊ အရပ်ရပ် သုတေသနစာတမ်းများ ၁၀ စောင်မှ ၁၅ စောင်အထိဖတ်ကြားကြလေသည်။

ယင်း စာတမ်းများကို မြန်မာနိုင်ငံ သုတေသန အသင်း ဂျာနယ်တွင် ပုံနှိပ်ထုတ်ဝေသည်။ ဂျာနယ်ကို ၁၉၁၁ ခုနှစ်

တွင် ပဌမဆုံး စတင် ထုတ်ဝေခဲ့၍၊ ဂျာနယ်၏ ပဌမဆုံး စာတည်းမှာ ကျောက်စာဝန် မစ္စတာ စီ၊ ဒူရွားဇဲဖြစ်၏။ သုတေသနဂျာနယ်သည် ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းတွင်မှ တပါး မပြတ်မလပ်ပင် ထွက်ပေါ်ခဲ့ရာ အုပ်တွဲပေါင်း ၄၅ တွဲအထိပင် ရောက်ရှိပြီ ဖြစ်၏။ မြန်မာနိုင်ငံနှင့် ကျောခိုင်းနံ့စပ်နိုင်ငံများဆိုင်ရာ စာပေဆောင်းပါး၊ ဘာသာစကားဆောင်းပါး၊ ရာဇဝင်သမိုင်းဆောင်းပါး၊ ပုဂ္ဂိုလ်ထူး အတ္ထုပ္ပတ္တိ၊ ဓလေ့ထုံးစံ၊ ဘောဂဗေဒ၊ ဘူမိဗေဒ၊ ပထဝီဝင်၊ ရုက္ခဗေဒ ၊ပါဏဗေဒ၊ မနုဿဗေဒ စသော ပညာရပ် အသီးအသီးနှင့် စပ်ဆိုင်သည့် ဆောင်းပါး၊ စာအုပ် ဝေဖန်ချက် စသည့် အဖိုးတန် သုတေသနဆောင်းပါး စာတမ်းများ ပါရှိခဲ့လေသည်။

စစ်ကြိုခေတ်က ထုတ်ဝေခဲ့သော ဂျာနယ်များမှာ စစ်ဘေး စစ်ဒဏ်ကြောင့် အလွန် ရှားပါးလျက်ရှိပေရာ၊ ၁၉၆၀ ပြည့်နှစ်တွင် အသင်းအနှစ် ၅၀ ပြည့် အထိမ်းအမှတ်အဖြစ် ဆောင်းပါးကောင်းများကို ထုတ်နုတ်စုပေါင်းကာ နှစ် ၅၀ စာစဉ်အဖြစ် ထုတ်ဝေခဲ့၏။

သုတေသန ဂျာနယ်တို့တွင် ပျူစာကို ပဌမဆုံး ဖတ်နိုင်ခဲ့သူ မစ္စတာ ဂျီ၊အို ဗလက်ဒင်၊ ကျောက်စာဝန် မစ္စတာ စီ၊ ဒူရွားဇဲ၊ မစ္စတာ ဂျေ၊ အက်(စ)ဖာနီဗယ်၊ ပါမောက္ခ ဒီ၊ ဂျီ၊ အီ ဟော၊ မစ္စတာ အာ၊ဟာလီဒေး၊ မစ္စတာ ဂျီ၊အီ ဟာဗေး၊ ပါမောက္ခ ဂျီ၊အိပ် လု(စ)၊ ပါမောက္ခ အက်(ဖ)၊ဂျေမက်ဂစ်၊ ပါမောက္ခ ဗီ၊ အာပန်း၊ ပါမောက္ခ အယ်၊ ဒီ စတမ့်၊ပါမောက္ခ ဂျေ၊အေ စတီးဝပ် စသော အနောက်တိုင်းသား ပညာရှင် အများအပြား ပါဝင်ရေးသားခဲ့သည့်ပြင်၊ မြန်မာတို့ အထဲမှလည်း ဦးကောင်း၊ ဦးကျော်ထွန်း၊ ဦးခင်ဇော်၊ ဦးချစ်သောင်း၊ ဦးစံရွှေဘု၊ တော်စိန်ခို၊ ဦးပွား၊ ဦးဖေ၊ ဆရာကြီး ဦးဖေမောင်တင်၊ ဦးဘကျား၊ ဦးဘသိန်း၊ ဒေါက်တာဘဟန်၊ ဦးဘီ၊ ဦးဖိုးကျား၊ ဦးဘိုးဖြူ၊ ဦးမေအောင်၊ ဦးမြ၊ ဦးရွှေဇံအောင်၊ ဦးလင်း၊ ဦးလွန်း၊ ဒေါက်တာလှဖေ၊ ဦးအောင်သိန်း၊ ဦးဝန်၊ ဦးသိန်းဟန် စသော ပညာရှိအများ ပါဝင်ရေးသားကြ၏။

မြန်မာ နိုင်ငံ သုတေသန အသင်းသည် ဂျာနယ်ကို ထုတ်ဝေသည့် အပြင် ရှေးဟောင်း စာပေတို့ကိုလည်း ထုတ်ဝေခဲ့၏။ ဗြိတိသျှ အစိုးရလက်ထက်တွင် မြန်မာစကား၊ မြန်မာစာပေသည် မင်းသုံးစကား၊မင်းသုံးစာပေ၊ လွှတ်တော်ရုံးသုံးစကားစာပေ မဟုတ်တော့ဘဲ၊ အခိုက်အတန့်အားဖြင့် လျစ်လျူပြု ခံထားခဲ့ရသော စကားနှင့်စာပေ ဖြစ်ခဲ့ရာ၊ မြန်မာစကား မြန်မာစာပေ၏ထုထယ်ကြီးမားပုံ၊ နက်နဲကြွယ်ဝပုံကို ထင်ရှားစေရန် ရှေးရှေး မြန်မာပညာရှိ ကဝိအဆက်ဆက်တို့ ရေးသားပြုစုခဲ့ကြသည့် ရာဇဝင်၊ သမိုင်း၊ ဝတ္ထု၊ တရားစာ၊ မေတ္တာစာ၊ ဖြတ်ထုံး၊ စာတမ်း၊ လျှောက်ထုံး၊ ပြဇာတ်၊ သီချင်း၊ ဂီတ၊ ပျို့၊ လင်္ကာ၊ ရတု၊ ရကန်၊ လူးတား၊ ချေင်း၊ မော်ကွန်း၊ စာဟောင်းပေဟောင်း အမျိုးပေါင်း ၄၇ အုပ်ကို အသင်းမှ စံနစ်တကျ ရှာဖွေ တည်းဖြတ် ပုံနှိပ်ထုတ်ဝေခဲ့သဖြင့် မြန်မာ စာပေ၏ ဂုဏ်ကျက်သရေသည် အထူးပေါ်လွင် ထင်ရှားခဲ့သည့်အပြင်၊ တက္ကသိုလ်တွင် မဟာဝိဇ္ဇာဂုဏ်ထူးတန်းအထိ မြန်မာစာပေ သင်ကြား ပို့ချရေးကိုလည်း အားပေးကူညီနိုင်ခဲ့လေသည်။

စစ်ကြိုခေတ် တလျှောက်တွင် မြန်မာနိုင်ငံ သုတေသနအသင်းမှ တည်းဖြတ်ထုတ်ဝေခဲ့သော ကျမ်းများမှာ ဥတိန္နပျို့၊ မဟာသီလဝပျို့၊ မင်္ဂလသုတ် ပျို့၊ ရာဇောဝါဒကျမ်း၊ အင်းဝမြို့ဘွဲ့ ၁၂ ရာသီလူးတား၊ ဂဝံပတိ၊ရေစကြိုခုံတော်ဖြတ်ထုံး၊ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်၊ ဦးကုလားမဟာရာဇဝင်ကြီး၊ လောကသာရပျို့၊ကန်တော်မင်းကျောင်းမေတ္တာစာ၊ မဟာပညာကျော် လျှောက်ထုံး၊ ကျပင်း တရားစာ၊ ဒေဝကုမ္ဘာန် ပြဇာတ်၊ ပဒေသာသီချင်းများ၊ ပါပဟိန် ပြဇာတ်၊ ရွှေပြည်စိုး ဝတ္ထု၊ ဧပယ်ပင် ဝတ္ထု၊ ဥမ္မာဒန္တီပျို့၊ သုတသောမ ပျို့၊ ဂါမဏိစန္ဒ ပျို့၊ ကင်းဝန်မင်းကြီး သမိုင်း၊ ကျည်းကန်ရှင်ကြီး မေတ္တာစာ၊ နတ်ရှင်နောင်ဆိုရတု၊ တရုပ်သံရောက် မော်ကွန်း၊ ရဲတင်း မော်ကွန်း၊ အာသံနိုင် မော်ကွန်း၊ ဦးပုည မေတ္တာစာ၊ ဦးပုည သာသနာလျှောက်နှင့် ဆွမ်းတော်ကြီး စာတမ်း၊ အထူး ကောက်နုတ်ချက် ဇာတ်ဝတ္ထု၊ ပြည်ဘွဲ့မြို့ဘွဲ့ လင်္ကာညွန့်ပေါင်း၊မာတောဝါဒဆုံးမစာ၊ စတုဓမ္မသာရ ကိုးခန်းပျို့၊ သြဝါဒထူးပျို့၊ စိန္တကျော်သူဆိုရတုများ၊ ဘိုးတော်ရှင် ချေင်းနှင့် မင်္ဂလာ လူးတား၊ မှန်နန်းရကန်၊ ရတနာကြေးမုံ ဝတ္ထု၊ ပဥ္စပါပီရကန်၊ ရာဇဝင်ကျော်၊ ဟန်လင်းမြို့ သမိုင်းလင်္ကာ၊ ရာမရကန်၊ အသျှင်ဥက္ကံသမာလာ မေတ္တာစာတို့ ဖြစ်ကြ၏။ စစ်ပြီးခေတ်တွင် ယနေ့ အထိ(၁၉၆၂ ခုနှစ်) တည်းဖြတ် ထုတ်ဝေနိုင်ခဲ့သော ကျမ်းများကား တောင်ငူဆို ရတုအဖြေ၊ ဇမ္ဗူဒီပ ဥဆောင်းကျမ်း၊ ရှေးဟောင်း လက်မှုပညာ ပေါင်းချုပ်ကျမ်း၊ သတ္တုရူပကဝိလာသနီကျမ်း၊ မင်းနန်းစည် ချေင်း သုံးစောင်တွဲ၊ ဝဏ္ဏဗောဓန သတ်အင်းနှင့် မြန်မာ သံယောဂဒီပနီကျမ်းတို့ ဖြစ်လေသည်။

သုတေသန စာစဉ်များအပြင် ပါမောက္ခ ဦးဖေမောင်တင်နှင့် ပါမောက္ခ ဂျီ၊ အိပ် လု(စ)တို့က အင်္ဂလိပ်ဘာသာ ပြန်ဆိုသော မှန်နန်းရာဇဝင်ကြီးကိုလည်း အသင်းကြီးမှ ထုတ်ဝေခဲ့သည်။ယခုအခါ လန်ဒန်တက္ကသိုလ်က တည်းဖြတ်ပုံနှိပ်ဆဲဖြစ်သော မြန်မာ-အင်္ဂလိပ်အဘိဓာန်သည် မူလအားဖြင့် မြန်မာနိုင်ငံသုတေသနအသင်းက ၁၉၂၅ ခုနှစ်မှ စတင် ဆော်သြ၍ စာလုံးများကို တာဝန်ယူ စုဆောင်းပေးခဲ့ခြင်းဖြစ်ကာ၊ ယခုတိုင် အဘိဓာန်၏ စာတည်းများမှာ အသင်းသားများ ဖြစ်ကြပေသည်။ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းကလည်း မြန်မာ

ကို ကမ္ဘာက သိစေရန် အိန္ဒိယမှနေ၍ မြန်မာ့ပထဝီဝင်၊ ရာဇဝင်သမိုင်း၊ ဗုဒ္ဓအယူဝါဒ၊ ဆန်၊ သစ်တော၊ တောင်တန်း ဒေသလူမျိုးများ၊ ကရင်လူမျိုး၊ ရေနံလုပ်ငန်း၊ ငှက်များနှင့် စာရင်းအင်း အချက်အလက်များကို စာအုပ်ငယ်များ သီးခြားရိုက်နှိပ် ထုတ်ဝေခဲ့၏။

အသင်း၏ အခြား အကျိုးပြုလုပ်ငန်း တရပ်ကား မြန်မာ့ တေးဂီတများကို မော်ကွန်းတင် ထိန်းသိမ်းခဲ့ခြင်း ဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီက အသက် ရှစ်ဆဲ့ရှစ်နှစ်ရှိ ရွှေဘိုမြို့ အဝေးရောက်မင်း ဦးအောင်ကြီးကို ရန်ကုန်မြို့သို့ ပင့်ခေါ်၍ ဒေါ်စောမြကြည်၊ ဒေါ်ဒေလီညွန့်၊ ဒီးဒုတ် ဦးဘချို၊ ဦးခင်ဇော်၊ သီပေါစော်ဘွား၏ နရည်းဝိုင်းတော်သားများ စသော ပညာရှင်များ အသီးအသီး၏ အကူအညီကို တောင်းယူကာ၊ ရတု၊ ရကန်၊ အဲ၊ အန်၊ ပျို့၊ သီချင်းကြီး၊ သီချင်းခံ၊ ပတ်ပျိုး၊ ကြိုး၊ ယိုးဒယား၊ နရည်း၊ မြှောက်စည် စသည်တို့ကို ဓာတ်ပြားသွင်းပြီးလျှင် မြန်မာ့ယဉ်ကျေးမှု ရှေးဟောင်း ပညာတရပ်ကို မပျောက် မပျက် မတိမ်ကောရအောင် မှတ်တမ်း မော်ကွန်း တင်ခဲ့လေသည်။

ဒေါက်တာ ဦးညီညီ

# သစ်တောကြွယ်က ဘဏ္ဍာရ

**မြန်မာနိုင်ငံ၏ ဒုတိယဝင်ငွေအကောင်းဆုံး လုပ်ငန်းမှာ သစ်လုပ်ငန်းဖြစ်သည်။ သစ်လုပ်ငန်း၏ မှီရာကား သစ်တောများပင်ဖြစ်၏။ မြန်မာနိုင်ငံရှိ သစ်တောအမျိုးမျိုးအကြောင်းကို စုံလင်စွာ ဖော်ပြထားသည်။**

**မြန်မာနိုင်ငံ သစ်တောများ။** ။မြန်မာနိုင်ငံ၏မြေပုံအသွင်အပြင်မှာ အကြမ်းအားဖြင့် အမြီးရှိသော လေတံခွန်ကဲ့သို့သော်၎င်း၊ ဖားလောင်းကောင် ကဲ့သို့သော်၎င်း သဏ္ဍာန်တူ၍၊ အလျား အရှည်ဆုံးနေရာ မြောက်စွန်းမှ တောင်စွန်းအထိ မိုင်ပေါင်း ၁,၃၀၀ နီးပါးရှိလျက်၊အရှေ့နှင့်အနောက် အကျယ်ဆုံးနေရာတွင် အနံမိုင်ပေါင်း ၅၀၀ နီးပါးရှိ၏။ မြန်မာနိုင်ငံ၏ အရှေ့၊ အနောက်နှင့် မြောက်ဒေသများရှိ နယ်နိမိတ်တို့တွင် တောနှင့် တောင်တန်းများရှိ၍၊ တောင်ဖက်တွင်မူ မိုင်ရှစ်ရာနီးပါးရှည်လျားသော ဗင်္ဂလားပင်လယ်အော် ကမ်းရိုးတန်းကို တွေ့နိုင်ပေသည်။ ထိုအတွက် မြန်မာနိုင်ငံတွင် ရှိသော ဧရာဝတီ၊ စစ်တောင်းနှင့် သံလွင်မြစ်ကြီး သုံးသွယ်နှင့် မြစ်ငယ် ချောင်းငယ်တို့မှ ရေသည် ဗင်္ဂလား ပင်လယ်အော်ထဲသို့သာ စီးဆင်း ကြလေသည်။ ထိုမြစ်နှင့် ချောင်းကြီး ချောင်းငယ်တို့၏ အကြားတွင် ရခိုင်၊ ပဲခူးနှင့်ပေါင်းလောင်း ရိုးမတောင်တန်းများနှင့်တောင်ဆွယ် ကြီးငယ်များစွာ ရှိနေသဖြင့် မြန်မာနိုင်ငံ တဝန်းလုံးကို ခြုံ၍ကြည့်လျှင် ကျယ်ဝန်းသော မြေပြန့်ရှိသင့်သလောက် မရှိဘဲ၊ မညီညာသော မြေပြင်ကိုသာ ဒေသမြောက်များစွာတွင် တွေ့ရပေသည်။

မြန်မာနိုင်ငံ၏ အကျယ်အဝန်းမှာ တောင်တန်း နယ်များ အပါ စတုရန်းမိုင်ပေါင်း ၂၃၃,၀၀၀ ခန့်ရှိသည့်အနက်စတုရန်းမိုင်ပေါင်း ၁၄၅,၁၀၀ မှာ တောများဖြစ်၏။ သတ်မှတ်ပြီး သစ်တော ကြိုးဝိုင်းမှာ ၃၄,၇၉၉ စတုရန်း မိုင်သာ ရှိ၏။ လူဦးရေ ၂၄ သန်းနှင့် တွက်ကြည့်သော် တယောက်လျှင် ပျမ်းမျှခြင်း ၀.၉ ကေသာရှိသည်ဟု ဆိုစေကာမူ၊ လူနေအိမ်ခြေနှင့် ဝေးကွာ၍ အသုံးမချနိုင်သော တော၊ တောင်ကမ်းကြီးသော တော၊ မြက်သာပေါက်သော တော စသည်တို့လည်း ကြိုးဝိုင်းထဲတွင် ပါဝင်နေသောကြောင့် စီးပွားရေး အခြေအနေအားဖြင့် မလုံလောက်ချေ ။ထို့ကြောင့် ကြိုးဝိုင်း သစ်တောများကို ဆက်လက်၍ ပြုလုပ်ရပေဦးမည်။ ထို့ပြင် အကြောင်း အမျိုးမျိုးတို့ကြောင့် ပျက်စီးသော တောမြောက်မြားစွာကိုလည်း ပြုပြင်၍ ပေးရန် တာဝန်သည် အလွန် လေးသဖြင့် ဖြစ်မြောက်အောင် ထမ်းဆောင်ကြရန် လိုလေသည်။

### တောမျိုးများ

မြက်နှင့် သစ်ပင်ကြီးငယ်တို့ မည်သည် ရေ၊ မြေဩဇာ၊ ရာသီဥတု၊ ဒေသနှင့်အခြားသော အချက်အလက်များကို လိုက်၍ ပေါက်ကြသည်။ သို့သော် အပင်မျိုးချင်းမတူသော်လည်း အကျင့်ချင်းတူသောအပင်တို့သည် တနေရာတွင် စုပုံ၍ ပေါက်လေ့ရှိကြ၏။ ထို့ကြောင့် မြေဩဇာ၊ ရာသီဥတုနှင့် အချက်အလက် အမျိုးမျိုး ကွဲပြားလျက် နေသော မြန်မာနိုင်ငံတွင် မျက်မြင်အားဖြင့် တောများတဆက်တည်းဖြစ်နေသော်လည်း သူ့အစုနှင့်သူ ပေါက်နေသော အပင်တို့မှာ အပင်မျိုးချင်း မတူဘဲ၊ အကျင့်ချင်းတူသော အပင်မျိုးသာ များသည်။ ဤအခြင်းအရာကို လိုက်၍ မြန်မာနိုင်ငံတွင် ရှိသော တောများကို အောက်ပါအတိုင်း အမျိုးမျိုးခွဲနိုင်ပေသည်။

၁။ ဒီရေတော၊ သို့မဟုတ် ကနစိုတော၊ သို့မဟုတ် ရေငန်ပိုင်းတော၊ သို့မဟုတ် ဒီရေတော။

ဤတောမျိုးတွင် ရွှံ့နုံးပွက် အလွန်ထူထဲ၍ ဒီရေသစ်ငုတ်ခေါ် ရေငန်ပိုင်းတွင် ပေါက်သော အပင်တို့၏ လေရှူရန် ဖန်တီးထားသော အမြစ်များ မြောက်မြားစွာကို တွေ့နိုင်

ပေသည်။ ဤဒေသများတွင် ဒီရေသည် နေ့စဉ် ရောက်၏။ ထိုကြောင့် ဤတောမျိုးကို မြစ်ဝကျွန်းပေါ် ဒေသနှင့် ရေငန်ရောက်ရာ မြစ်၊ချောင်း ကမ်းရိုးတလျှောက်တွင် တွေ့ရသည်။ ဤတောမျိုးတွင် ပေါက်လေ့ ရှိသော အပင်မျိုးများမှာ ကြတ်နန် (ကြန)၊ ပင်လယ်အုန်း၊ ကနစို၊ ဗြူးခြေထောက်၊ ကဘိုင်၊ ကြံ့စာ၊ သင်ပေါင်း၊ သင်ပန်း၊ ခရာ၊ ကန့်ဗလာ၊ မဒမ၊ ဘိုင်တောင်ရှည်တို့ ဖြစ်ကြသည်။ ဤတောမျိုးမှ ထွက်သော သစ်သားကို များသောအားဖြင့် ထင်းအဖြစ် သုံးကြသည်။ကြတ်နန်(ကြန)နှင့် ကနစိုကိုကို အိမ်ဆောက်ရာ၌လည်းသုံးနိုင်၏။ ကနစိုနှင့် မဒမခေါက်တို့ကို သားရေနယ်ရာ၌ အသုံးပြုနိုင်၏။ ဂျပန်ခေတ်တွင် ဤအခေါက်မျိုးတန်ပေါင်းများစွာ ထုတ်ခဲ့သည်။

ဤတောမျိုးတွင် တောတိရစ္ဆာန် တွေ့ရလေ့မရှိ၊ ဝါးပင်များလည်း မပေါက်ချေ။

၂။ ပင်လယ် ကမ်းရိုးတန်းတော၊ သို့မဟုတ် ပင်လယ်ကမ်းနား သောင်ပြင်နှင့် သဲခုံတော။

ဤတောမျိုးကိုပင်လယ်ကမ်းရိုးတလျှောက်သောင်ပြင်အစပ်မှ စ၍ တွေ့နိုင်သည်။ သို့သော် မကျယ်လှချေ။ သစ်ပင်များသည်လည်း ကောင်းမွန်သန်စွမ်းစွာ ပေါက်လေ့မရှိပေ။အစဉ်မပြတ်တိုက်နေသော ပင်လယ်လေအရှိန်ကြောင့် အပင်များသည် ပေါက်သောအခါ အရပ် လေးမျက်နှာသို့ ဝေဆာစွာ ညီမျှသော အကိုင်းအခက် မထွက်နိုင်ဘဲ တဖက်တို တဖက်ရှည် ထွက်လျက် အပင်တို့၏ ပင်တံသည်လည်း လိုးလျက် ပေါက်ခြင်းမရှိ၊ လေမတိုက်သည့် ဖက်ကိုသာ ယွန်း၍ ပေါက်ကြ၏။ ဤတောမျိုးတွင် ပေါက်တတ်သော အပင်မျိုးမှာ တောင်ကုန်းပေါ်၌ သင်းဝင်၊ သင်ပန်း၊ နှံ့ပဲ (နဘဲ)၊ ကသစ်၊ တေ့း၊ ပင်လယ်ကဗ္ဗီး၊ တောသရက်တို့ဖြစ်လျက် နိမ့်ရာဒေသတို့တွင် ကန့်ဗလာစသော အပင်မျိုးများ ပေါက်တတ်သည်။ ဤတောမျိုးမှထွက်သော သစ်သားများသည် ထင်းနှင့် အခြားအသေးအဖွဲ့ ပစ္စည်းလုပ်ရန်သာ အသုံးဝင်သည်။

ဤတောမျိုးတွင် ဒရယ်၊ ချေယ်၊ တောကြောင်စသော တောတိရစ္ဆာန်အငယ်စားတို့ကိုသာ တွေ့ရလေ့ ရှိ၏။ ဝါးပင်များ ပေါက်လေ့မရှိချေ။

၃။ ရွှံ့နွံတော၊ သို့မဟုတ် စိမ့်တော။

မြန်မာ နိုင်ငံတွင် မိုးတွင်းအခါ၌ မြေနိမ့်သောကြောင့် ရေချိုဝပ်တတ်သော အင်း၊ ချောင်း၊ မြစ် ကမ်းဘေးများတွင် ဤတောတို့ကို တွေ့ရသည်။ ဤတောများသည် များသောအားဖြင့် မကျယ်ဝန်းလှချေ။ ထိုဒေသများ၌ ပေါက်လေ့ရှိသော အပင်များမှာ ကျည်း၊ မအူ၊ ရုံး၊ နကျယ်(နကျီ)၊ စစ်၊ ဉနဲ့၊ ပေါက်၊ ကသစ်တို့ဖြစ်၏။ ဤအပင်မျိုးမှ ရသော သစ်သားကို အလုအပ အသေးအဖွဲ့အတွက် သုံးကြသည်။ များစွာအဖိုးမတန်ချေ။ဤနေရာမျိုးတွင် နွေရာသီအခါ၌ရေရှိတတ်သဖြင့် ရေဝမ်းဘဲ၊ စစ်စလီ၊ ကလကတ်၊ ရေကြက်မ၊ ဥဗျိုင်းစသော ငှက်မျိုးစုံနှင့် နွေလယ်အခါတွင် ရေကိုအမှီပြု၍ သစ်ပင်၊မြက်နှင့်ချုံရိပ်တွင် အပန်းဖြေနားယင်းပုန်းအောင်းနေလေ့ရှိသော တောတိရစ္ဆာန်ကြီးငယ်တို့ကိုတွေ့ရတတ်၏။ ဤဒေသများတွင် ဝါးပင်များ ပေါက်ရောက်ခြင်းမရှိချေ။

၄။ မိုးများသော တောစို၊ သို့မဟုတ် အမြဲစိမ်းတော။

ထိုတောမျိုးကို နှစ်စဉ် မိုးရေလက်မ ၁၂၀ (တရာ့ နှစ်ဆယ်) အထက် ရွာသောဒေသနှင့် အရိပ်အာဝါသ ကောင်းသော တောတောင်ကြားရှိ လျှိုများတွင် တွေ့ရတတ်သည်။ ဤတောမျိုးသည် အစဉ်မပြတ် စိမ်းလန်းစိုပြည်လျက် အဖိုးထိုက်တန်သော ကညင်၊ သက်န်း၊ သက်န်းတူ (သက်ဒူး)၊ ပျဉ်းမ၊ သစ်ခါး၊ တောသရက်၊ ဆင်နင်းသရက်၊ တောင်သရက်၊ ရှောပြာ၊ လျှော်အမျိုးမျိုး၊ လုလင်ကျော်၊ သစ်ကြံပိုး၊ ကရဝေး၊ မအူ၊ ဘိုင်စသည်တို့ကိုတွေ့နိုင်သည်။ စားစရာဆိုလျှင်လည်း ကနစိုး၊ လက်ပွတ်သီး၊ သို့မဟုတ် နန့်ရွှဲ၊ ရင်ကန်းသီးပင်နှင့် အခြား အသီး အမျိုးမျိုးကို ရနိုင်ပေသည်။ ဤတောမျိုးများမှ ကညင်ဆီထွက်၏။

ဤတောမျိုးတွင်ရှိသော အပင်များသည် တဆဲ့နှစ်ရာသီ စိမ်းလန်းစိုပြည်လျက် အရိပ်အာဝါသ ကောင်းသည်။ အစာလည်းပေါ၊ ရေဆိုလျှင်လည်း တဆဲ့နှစ်ရာသီ ရနိုင်သော စိမ့်၊ စမ်း၊ အင်း၊ အိုင် စသည်တို့ ရှိတတ်သည်။ ထို့မှတပါး သစ်ပင်ကြီးများအောက်၌ ဖုံးကွယ်နေရန် ကောင်းသော မြက်၊ ချုံ၊ သင်ပေါင်း၊ ကြိမ်နွယ်တို့လည်း ရှုပ်ထွေးလျက် ရှိတတ်သည်။ ထိုကြောင့် ဤတောမျိုးထဲတွင် ဆင်၊ ကြံ့၊ ကျား၊ ကျားသစ်၊ တောဝက်၊ ဝက်ဝံ၊ ဆတ်၊ မျောက် စသောတိရစ္ဆာန်များမှစ၍ မြွေ၊ ကင်းနှင့် ပိုးမွှားများပါမကျန် အမျိုးမျိုးတို့ကို တွေ့နိုင်၏။ ဤတောမျိုးတွင် ဝါးများများမပေါက်ပေ။

၅။ ယာယီ သွေ့ခြောက်သော တော၊သို့မဟုတ် အထက်ရွက်ပြတ်ရော တောစို။

ထိုတောမျိုးသည် နှစ်စဉ် နွေအခါ၌ ပြာသိုလမှ ကဆုန်လအထိ တောင်ရိပ်များသော လျှိုမှလွဲ၍ အခြားဒေသများတွင် အရွက်ကြွေ၍ သွေ့ခြောက်လျက် နေသည်။ မိုးတွင်းအခါ၌ မူကား မိုးများသော အမြဲစိမ်း တောတို့နှင့်မခြားတွေ့နိုင်သည်။ သို့သော် ပေါက်နေသော အပင်တို့ကို ကြည့်လျှင် ခွဲခြား၍ သိနိုင်သည်။ အချို့ကား ဤတောမျိုးကို ဝါးပင်ပေါက်ခြင်းကို ကြည့်၍ ခွဲခြားကြ၏။ အောက်မြန်မာနိုင်ငံတွင် ကြသောင်းနှင့် တင်းဝါး ပေါက်လျက်၊ အထက်

မြန်မာနိုင်ငံတွင် အချို့နေရာများ၌ ကြသောင်း အစား ဝါး ဖြူ၊ သို့မဟုတ် ဝါးပိုးမျက်ဆန်ကျယ်နှင့် တင်းဝါးတို့ ပေါက် ကြသည်ဟု ဆိုကြသည်။ ဤတောမျိုးကို များသောအား ဖြင့် ပြေပြစ်သော တောင်ကမ်းပါးယံ၀ယ် မြေသြဇာ ကောင်း၍ ရေမဝပ်သော သဲမြေပွပေါ်မှာ တွေ့နိုင်သည်။ ထိုတောမျိုး၌ပေါက်သော အပင်တို့မှာ ကျွန်း၊ပျဉ်းကတိုး၊ နှော၊ နှံ့ပဲ၊ စောင်းပလွေ၊ ထောက်ကြံ့၊ မျောက်လျှော၊ ဝေ့၊ ဘင်၊ သစ်ဆိမ့်၊ ဖန်ခါး၊ ရုံး၊ စစ်၊ လယ်စာ၊ သရက်၊ စင်ပြွမ်း၊ ဆီးဖြူ၊ သပြု၊ ကြိမ်၊ မအူ၊ သပြေ၊ ပျဉ်းမ၊ ပိတောက်၊ သက်န်းတို့ဖြစ်သည်။ အမျိုးချင်းပင် တူသော် လည်း ဤတောမျိုးမှ ထွက်သော သစ်မျိုးမှာ မပွလွန်း မကျစ်လွန်း၊ အလွန်ကောင်းလေသည်။

တောတိရစ္ဆာန် တို့မှာလည်း ပြောင်၊ စိုင်၊ ဆတ်၊ ဆင်၊ ချေငယ်၊ ကျား၊ ကျားသစ်၊ ကြံ့၊ (ရခိုင်ရိုးမနှင့် ပဲခူးရိုးမ တွင် ၁၉၄၃ ခုနှစ်တိုင်အောင် အနည်းအပါး ရှိသေး၏။) ဝက်ဝံ၊ တောခွေး၊ ခွေးအ၊ ဥဒေါင်း၊ ရစ်၊ တောကြက်၊ တော ဝက်စသည်ဖြင့်မြောက်မြားစွာတွေ့နိုင်၏။ဤတောမျိုးသည်



ကျွန်းပင် ခုတ်လှဲနေစဉ်

အဖိုးတန်ဆုံး ဖြစ်၍ ရေိယာ အကျယ်ဆုံးသည် ပဲခူး ရိုးမ တောင်တန်းတွင် ရှိသည်။ ထို့ကြောင့် ၁၈၅၂ ခုနှစ်တွင် အောက်မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်သောအခါ ထို အဖိုးထိုက်တန်သော တောကြီးကို မြန်မာတို့ လက်လွှတ် လိုက်ရပေသည်။ ဤတောမျိုးတွင် အသားပါးသော ဝါးမျိုး ပေါများ၏။

၆။ တောခြောက်၊ သို့မဟုတ် အထက်ရွက်ပြတ်ရော တော ခြောက်။

ထိုတောမျိုးကို များသောအားဖြင့် အထက်ပါ တောမျိုး များနှင့် မနီးမဝေးဒေသတို့တွင် တွေ့နိုင်လျက်၊ ထိုမြေမျိုး တွင် ပေါက်လေ့ရှိသော မြင်၊ သနနှင့် သိုက်ဝါးတို့ကို မြင် ခြင်းအားဖြင့် သိနိုင်သည်။ ဤတောမျိုးသည် အထက်ပါ တောမျိုးထက် အပင်ပေါက်ခြင်း ကျဲ၍၊ ရှည်ကြာစွာ အရွက် ကြွေ၍ နေလေ့ရှိသည်။ ထိုတောမျိုးတို့တွင် ပေါက်သော သစ်ပင်တို့မှာ ကျွန်း၊ ပျဉ်းကတိုး၊ ထောက်ကြံ့၊ ပိတောက်၊ နှော၊ သစ်ဆိမ့်၊ စစ်၊ ရှား၊ ရုံး၊ ဘင်၊ သစ်ယာ၊ အင်ကြင်း၊ ပျဉ်းမ၊ မျောက်လျှောတို့ ဖြစ်၍ အထက်ပါတောနှင့် ဆင်တူ ရိုးမှား ဖြစ်သော်လည်း အပေါက်နှေးပြီးလျှင် အသား မာ ကျစ်၍ လေးလည်း ပို၍ လေးသည်။

ဤတောမျိုးထဲတွင်လည်း မိုးဥတုအခါတွင် သားရဲ တိ ရစ္ဆာန်ပေါများ၏။ သို့သော် နွေအခါ၌မူ ချေငယ်၊ ဥဒေါင်း၊ တောကြက်နှင့် ရံဖန်ရံခါ ကျားသစ်နှင့် သမင်တို့မှအပ အခြား တောကောင်များ တွေ့ရလေ့ မရှိချေ။ ဤတော မျိုးမှ အဖိုးထိုက်တန်သော သစ်အနည်းငယ်နှင့် ရှားစေး ချက်ရန် ရှားပင်များ ရနိုင်သည်။ ဤတောမျိုးတွင် မြင်၊ သိုက်စသော အသားထူသောဝါးများကို တွေ့ရလေ့ရှိသည်။

၇။ သဲကြမ်းမြေ ထူထဲသော အင်တိုင်းတော။

အင်တိုင်း တောကို မြန်မာနိုင်ငံတွင် မြေပြန့်ရာ ဒေသ၌ အနှံ့အပြား တွေ့နိုင်သည်။ ဤတောမျိုးထဲတွင် အင်မ၊ အင်ဖို၊ ယင်းတိုက်၊ ပျဉ်းကတိုး၊ သစ်ယာ၊ အင်ကြင်း၊ ဆီးဖြူ၊ ငု၊ တရှား၊ ရှစ်ရှား၊ ဖန်ခါး၊ ဗန့်ဘွေး၊ လင်းယော၊ စင်ပြွမ်း၊ ထောက်ကြံ့၊ ပျဉ်းမ၊ ကင်ပလင်း၊ မြတ်ရာ၊ တရော်၊ မျောက်လျှော စသော အပင်မျိုးများ ပေါက်လေ့ ရှိသည်။ သို့သော် အင်ပင်တို့သည် အခြား အပင်မျိုးများထက် သန် စွမ်း၍ တမျိုးတည်း သီးသန့်ကာ အပြုံလိုက် အစုလိုက် ပေါက်လေ့ ရှိ၏။ ဤတောမျိုး၌ ကျွန်းပင် မပေါက်လို ချေ။ ပေါက်ပြန်လျှင်လည်း ပိန်လှီသေးငယ်၍ အပွေးကြမ်း ၏။ ကောင်းစွာ အသုံးချနိုင်သော သစ်သား မရပေ။ အင်၊ သစ်ယာ၊ အင်ကြင်း၊ ပျဉ်းကတိုးတို့သာ အဖိုးတန်ထွက် သည်။ ဤတောမျိုးတွင် သမင်၊ ဒရယ်၊ ချေငယ်၊ ကျား

သစ်၊ တောကြောင်၊ တောခွေး စသော တိရစ္ဆာန်တို့သာ များသောအားဖြင့် တွေ့ရသည်။ ဤတောမျိုးတွင် မြင်နှင့် တင်းဝါး အနည်းအပါး တွေ့ရတတ်သည်။

၈။ ကျောက်စရစ်နှင့် သဲကြမ်းပေါသော အင်တိုင်းတော။

ဤတောမျိုးတွင် မြေလွှာသည် ကျောက်စရစ်တုံးကလေးများ ရောနှောလျက်နေသော သဲကြမ်းမြေဖြစ်၍ အောက်ဥမှုကား သဲနှင့် ရွှံ့စေးတို့သည် နွေအခါ၌ ပပ်ကြား အက်ကြောင်း မပေါ်နိုင်အောင် ကျစ်လျစ်သိပ်သည်းစွာ သွေ့ခြောက်ပြောင်လက်လျက် နေခြင်းကို တွေ့နိုင်သည်။ ဤမြေမျိုးတွင်ပေါက်သော အပင်မျိုးသည် အထက်ပါ တောတွင် တွေ့ရသော အပင်မျိုးများ ဖြစ်သော်လည်း အင်ပင်မှ အပအခြား အပင်များသည် ပို၍ သန်စွမ်းစွာ ပေါက်တတ်ကြသည်။ ဆိတ်ချေး၊ ငု၊ ကျွန်း၊ ရှား၊ ယင်းတိုက်၊ ခပေါင်း ရေကြည်၊ တည်၊ တမလန်း၊ မျောက်လျှောပင်များကိုလည်း တွေ့ရတတ်သည်။ အချို့ဒေသများတွင် ဤတောမျိုးများမှ ရှေးမြန်မာမင်းများ လက်ထက်ကသည် ယနေ့ တိုင်အောင် အသုံးပြုနေကြသော မီးခတ်ကျောက်ခေါ် အင်ကြင်းသစ်မှ ဖြစ်သော အင်ကြင်းကျောက် မြောက်မြားစွာနှင့် ထိုခေတ်က သံကျိုခဲ့သော ဖိုကြီးဖိုငယ်တည်သော နေရာဟောင်း မြောက်မြားစွာကိုလည်း တောထဲတွင် တွေ့နိုင်သည်။ ဤတောမျိုးတွင် တောတိရစ္ဆာန်မပေါမျိုးပေ။ ဝါးမှာမူ တင်းဝါးနှင့် မြင်ဝါး အနည်းအပါးသာ တွေ့နိုင်သည်။

၉။ ဂဝံကျောက် တော။

ဤတောမျိုးတွင် အချို့ ဒေသ၌ ဂဝံကျောက်တို့သည် မြေပေါ်တွင် ပေါ်နေသည်။ အချို့၌ကား မပေါ်ပေ။ ယင်းတို့ အပေါ်တွင် ကျောက်စရစ် မြေနီခဲနှင့် သဲကြမ်းရောလျက်နေသော မြေလွှာ၊ သို့မဟုတ် သဲကြမ်းသာ ရှိတတ်သည်။ ထိုမြေပေါ်တွင် ပေါက်လေ့ရှိသော သစ်ပင်တို့မှာ များသောအားဖြင့် သက်ရင်းကြီး၊ အင်၊ ကညင်၊ ထောက်ကြံ့၊ ခပေါင်း၊ ပျဉ်းမ၊ သရက်၊ စသူငယ်ဦးနှောက်၊ သို့မဟုတ် ဘုံ့ပြား၊ မြတ်ရာ၊ တရော်၊ မလွှ၊ နှော၊ လက်ထုတ်ကြီး၊ဗန့်ဘွေး၊ လုလင်ကျော်၊ ယင်းတိုက်၊ ဆီးဖြူ၊ ဖန်ခါး၊ လက်ထုတ် ကလေး၊ သစ်ဆိမ့်၊ နကျယ်၊ မျောက်လျှောတို့ ဖြစ်၍၊ ရံဖန် ရံခါ ငု၊ ရှား၊ ကျွန်း၊ ပျဉ်းကတိုး၊ သပွတ်ကြီး၊ ဥန္နဲ၊ ယင်းမာ၊ ဝေး၊ နံ့ပဲ၊ ကြက်ရိုး၊ သစ်ချ စသည်ဖြင့် ဒေသ၊ ရာသီဥတုနှင့် မြေအခြေအနေကို လိုက်၍ ပေါက်တတ်သည်။ ဤတောမျိုးကို ပင်လယ်ပြင်မှ အမြင့်ပေ ၃၀၀ ထက် မမြင့်သော ဒေသတွင် တနှစ်လျှင် မိုးရေချိန် ၄၅ လက်မထက် မနည်းလျှင် တွေ့နိုင်သည်။

ဤတောမျိုးတွင် များသောအားဖြင့် ချေယ်သာတွေ့ ရတတ်၏။ ပေါက်သောဝါးများမှာမူ ညှံ့ဖျင်းသော တင်း၊ မြင်၊ ဝါးကောက်နှင့် ကြသောင်းများသာ ဖြစ်နိုင်သည်။

၁၀။ ဖွတ်ချေးထူမြေ၊ သို့မဟုတ် ဆားနယ်မြေ တော။

ထိုတောမျိုးသည် မြန်မာနိုင်ငံအလယ်ပိုင်း သွေ့ခြောက်သော နေရာတွင် ရှိသည်။ ထိုဒေသမျိုးမှ ထုံးမြေ၊ ဆားနှင့် ဆပ်ပြာတို့ကို နွေအခါ၌ရနိုင်၏။ မိုးအခါ၌မူကား မာသော ထုံးဖြူခဲကလေးများနှင့် ခြေထောက်တွင် ကပ်လျက် ပါသော ရွှံ့စေးများဖြင့် ကျုံလျက်နေသော မြေလွှာကို တွေ့နိုင်သည်။ ဤတောမျိုးတွင် ပေါက်တတ်သော အပင်များမှာ ရှား၊ သနပ်ခါး၊ တပူ၊ ဆီး၊ လက်ထုတ်ကြီး၊ ဝေး၊ ဆူးပလွေ၊ သန်း၊ ဒဟတ်၊ ခပေါင်းရေကြည်၊ ထနောင်း၊ လက်ထုတ်ကလေး၊ ယင်းတိုက်၊ ခံ၊ နံ့ပဲ၊ တည် တို့သာ ပေါများပေသည်။

ဤတောမျိုးတွင် သမင်၊ ချေယ်နှင့် တောကြောင် လောက်ကိုသာ တွေ့ရတတ်သည်။ ဤတောမှထွက်သော ပစ္စည်းများအနက် သနပ်ခါးသည် အဖိုးအတန်ဆုံးဖြစ်၏။ သို့သော် သနပ်ခါးကိုအသုံးများ၍ခုတ်ဖန်များသောကြောင့် ယခုအခါ ကုန်သလောက် ရှိပေသည်။ ဤတောမျိုးတွင် ဝါး မပေါများပေ။

၁၁။ ထင်းရှူးတော။

ထိုတောမျိုးသည် နာဂ၊ မဏိပူရချောင်းတွင်း၊ ရှမ်းပြည်နယ်နှင့် နယ်ခြားတောင်တန်းတွင်ရှိသည်။ ထိုတောရှိဒေသသည် မအေး၍ ပင်လယ်ပြင်မှ ပေပေါင်း၂,၅၀၀ မှ ၇,၀၀၀ အထိ မြင့်၏။ ထိုနေရာတို့၌ မြေလွှာတွင် မြေနုနည်း၍ ကျောက်ကြိုကျောက်ကြားတွင် သဲကြမ်းနှင့် ကျောက်စကျောက်နတို့ကို သာတွေ့ရလေ့ရှိသည်။ ကျောက်ဆောင်များမှာ များသောအားဖြင့် ထုံးကျောက်များ ဖြစ်သည်။ ဤတောမျိုးတွင် ပေါက်လေ့ရှိသောအပင်မျိုးများမှာ သစ်အယ်၊ သစ်ချ၊ထင်းရှူး၊ သစ်အယ်နီ၊မက်လင်၊မက်မန်းစသည်တို့ဖြစ်၏။သို့သော် ယင်းတို့အနက် ထင်းရှူးပင်သည် သီးသန့်၍ အပုံလိုက် ပေါက်လေ့ ရှိသည်။ ထင်းရှူးသားသည် ပေါ့လျက် ထင်း၊ အိမ်ထောင်ပရိဘောဂမှ စ၍ အိမ်ဆောက်ရန် အသုံးဝင်၍ အဖိုးတန်သည်။ ဤအပင်မှ ထင်းရှူးဆီ ရနိုင်၏။ သို့သော် မြန်မာနိုင်ငံက ထင်းရှူးဆီကို အသုံးချနည်း မရှာသေးပေ။

ဤကဲ့သို့ တောအမျိုးမျိုးကို ခွဲသော်လည်း ထိထိရောက်ရောက် မပြည့်စုံချေ။ အဘယ်ကြောင့်ဆိုသော် သစ်ပင်တို့မည်သည် အထက်တွင် မကြာခဏ ဖော်ပြသည့်အလျောက် မြေသြဇာ၊ ရာသီဥတု၊ ဒေသ၊ အကြောင်းအရာ၊ အခြေအနေ စသည်တို့ကို လိုက်၍ ပေါက်သဖြင့်၊ တနေရာနှင့် တနေရာ၊ တကွက်ထဲတွင် မည်ကဲ့သို့ ကပ်လျက် နေသော်လည်း၊ မသိမသာ အခြေအနေအကြောင်းအရာတို့သည် ကွဲပြားသကဲ့သို့

အပင် ပေါက်ခြင်းသည်လည်း ကွဲပြား ခြားနားပေသည်။ ဥဒါဟရုဏ်အားဖြင့် ဖွတ်ချေးထူမြေနှင့် အင်တိုင်းမြေ စပ်လျက်နေသော ဒေသတို့တွင် သန်း၊ ဒဟတ်၊ ဆူးပလွေ စသောအပင်တို့သည် အင်၊ သစ်ယာ၊ အင်ကြင်း စသော အပင်မျိုးတို့နှင့် ရောနှော၍ အချို့နေရာ၌ ပေါက်တတ်၏။ ထိုအပြင် တနေရာနှင့် တနေရာ ပေါက်ရောက်နေသော အပင်မျိုးချင်း တူငြားသော်လည်း မြေ၏အခြေအနေ စသည်တို့ကွဲပြားခြင်းကိုလိုက်၍ ပေါက်သောကြောင့် တပင်နှင့်တပင် ပေါက်ပုံခြင်းမတူချေ။ ယာယီ သွေ့ခြောက်သော တော၊ သဲကြမ်းမြေ ထူထဲသောတောနှင့် တောခြောက်တို့တွင် ပေါက်သော ကျွန်းတို့မှာ တပင်နှင့်တပင် အခြေအနေလိုက်၍ ပေါက်ရသဖြင့် မတူကြချေ။ ထိုကြောင့် ကျွန်းဖရုံ၊ ကျွန်းနက်၊ ကျွန်းဝါ၊ စွံနီသားပြောင်၊ ကျွန်းပြောက် စသည်ဖြင့် အမည် အမျိုးမျိုး ဖြစ်ပေါ် လာရလေသည်။ ဤကဲ့သို့ တော အမျိုးမျိုး သစ်အမျိုးမျိုးနှင့် သစ် အတန်းအစား အမျိုးမျိုးရှိသောနိုင်ငံသည် ဤကမ္ဘာတဝန်းလုံးတွင် ကျွန်ုပ်တို့ မြန်မာတနိုင်ငံတည်းသာ ရှိသည်။ ကျွန်ုပ်တို့နှင့် ဆက်စပ်လျက် နေသော ယိုးဒယားနိုင်ငံနှင့် အာသံပြည်တို့၌ပင် မြန်မာနိုင်ငံမှာကဲ့သို့ သစ်အမျိုးမျိုး အစားစား ရှိလည်းမရှိ၊ ကောင်းသောတောများလည်း မပေါများလှပေ။

အထက်၌ ဖော်ပြသော တောများတွင် တွေ့ပြီးသား အပင်ကြီးငယ်မျိုးပေါင်း ၅,၂၀၄ ပင်ရှိ၏။ ထိုအထဲတွင် မြက်နှင့်ဝါးမျိုးများ မပါချေ။ မတွေ့သေးသောအပင် မည်မျှရှိလိမ့်မည်ဟု မခန့်မှန်း နိုင်ချေ။ သို့သော် မြောက်မြားစွာကား ကျန်မည် မဟုတ်ပေ။ ကျွန်ုပ်တို့သည် ယနေ့အထိ တောထဲတွင် အလိုအလျောက်ပေါက်သော သစ်ပင်တို့မှ သစ်များနှင့် ဘိုးဘွားဘီဘင် လက်ထက်က ရှာဖွေ စုဆောင်း၍ ထားခဲ့သော သစ်တောပစ္စည်း အသုံးချနည်းကိုသာ သိသေး၍၊ ထိုအသုံးဝင်သော သစ်နှင့် ပစ္စည်းတို့ကို ထုတ်နုတ် ရောင်းချရန်သာ ကြိုးစားလုံးပမ်းခဲ့ကြသည်။ အခြား အသုံးဝင်သော အပင်မျိုး မြောက်မြားစွာ အကြောင်းကိုသော်၎င်း၊ တောများ တည်မြဲစွာ နေနိုင်ရန် မြေသြဇာအကြောင်းကို စုံစမ်းရန် အချက်အလက်တို့ကိုသော်၎င်း ဂရုမပြုခဲ့ကြပေ။

ယခုလည်း ဤအတိုင်းပင် ရှိနေသေးသည်။ တောထဲတွင် သစ်ပင်တို့ကို ရာခိုင်နှုန်းနှင့် ကြည့်မည်ဆိုလျှင် ၁၂ ရာခိုင်နှုန်းမှာ ကျွန်းပင်များ ဖြစ်ကြောင်းကို အားလုံးက ဝန်ခံသည်။ ကျွန်းပင်တို့ကိုလည်း ဒေသ မြောက်မြားစွာတွင် တွေ့နိုင်သည်။ ဤကျွန်းပင်များကို ရှေးနှစ်ပေါင်း များစွာက စ၍ ခုတ်လှဲ ပိုင်းဖြတ် ထုတ်ယူရောင်းချ လာခဲ့ကြသော်လည်း ဤမျှလောက် ကျန်ရှိသေးခြင်းမှာ မည်သူမျှ တောများကို အပြုစုကောင်းသောကြောင့် မဟုတ်ပေ။ ကျွန်းပင်သည် အသက်ပြင်း၍ ငုတ်တက်မှ အပင်ပေါက်နိုင်ခြင်းကြောင့်လည်း တကြောင်း၊ ၁၇၅၂ ခုနှစ် မြန်မာဘုရင် အလောင်းဘုရား၏ လက်ထက်မှစ၍ "ကျွန်းပင်ဟူသရွေ့ မည်သည့်ဒေသ မည်သည့်နေရာ၌ ပေါက်ပေါက်၊ ဘုရင်မင်းမြတ်၏ ဘဏ္ဍာတော်ဖြစ်၍၊ မည်သူမျှ ခုတ်ယူ သုံးစွဲခြင်း မပြုရ "ဟု တားမြစ်ထားခဲ့သဖြင့်၊ ဤဥပဒေအတိုင်း ယနေ့တိုင်အောင် တည်မြဲလျက် ရှိနေသောကြောင့်လည်းတကြောင်း ဖြစ်ပေသည်။ သို့သော် ယခုအခါ မြေသြဇာ ညှံ့ဖျင်း၍ အပင်များလည်း မသန်စွမ်းလှတော့ချေ။

## သစ်တောဥပဒေ နှင့် သစ်တောကြိုးဝိုင်း

ရှေးအထက်ကျော် ကာရီက မြန်မာနိုင်ငံတွင် လူဦးရေနည်းပါးသောကြောင့် လုပ်ကိုင် စားသောက်ရန် ဥယျာဉ်၊ တောင်ယာ၊ လယ်မြေ စသည်တို့ကို မြောက်မြားစွာ မလိုချေ။ နိုင်ငံခြားသားများ လိုချင်ကြသော ကျွန်းသစ်မှလွဲ၍ အခြား သစ်ဝါး မြောက်မြားစွာ သုံးစွဲရန်လည်း မရှိချေ။ ထိုကြောင့် တောများကိုလည်း မရှင်း၊ တောနက်ထဲသို့လည်း လူသူ မရောက် ဖြစ်သည့်အလျောက် သစ်ပင်များသည် ဓမ္မတာအတိုင်း ပေါက်ချင်သကဲ့သို့ ပေါက်လျက် ကြီးချင်သလောက် ကြီးခဲ့ကြပေသည်။ ထိုခေတ်တွင် သစ်လုံးချော အလျားပေ ၂၅-၃၀ နှင့် တန်ချိန် ၂၅-၃၀ အထိရှိ သစ်များပင် အများအပြား ထွက်ခဲ့သည်။ တောတိရစ္ဆာန်နှင့် ကြက်ငှက်များကိုလည်း သတ်ဖြတ်ဖျက်ဆီးသူနည်းပါး၍ အလွန်တရာ ပေါများသည်။ ထိုကြောင့် မြန်မာနိုင်ငံရှိ တောများကို အထူးတလည်စောင့်ရှောက်၍ပေးရန် ထိုစဉ်အခါက မလိုခဲ့ပေ။ သို့သော် တဖြည်းဖြည်း လူဦးရေ များလာသောအခါမှစ၍ ရွာ၊ လယ်ယာ၊ ကျွဲ နွား စားကျက်၊ ခြံ၊ ဥယျာဉ် မြေအတွက်လိုသော တောများကို ခုတ်ထွင် ရှင်းလင်းခြင်း၊ သစ်ဝါးမှစသော သစ်တောထွက်ပစ္စည်းများ ပိုမို၍ လိုလာခြင်း၊ စည်းကမ်း နည်းလမ်း မရှိဘဲ သစ်ပင်နှင့် တောများကို ပါ ဖျက်ဆီးခြင်းတို့ ပေါ်ပေါက်လာသည်။ ၁၈၂၆ ခုနှစ် ရန္တပို စာချုပ်အရ ဗြိတိသျှအစိုးရသည် ရခိုင်နှင့် တနင်္သာရီတိုင်းတို့ကို သိမ်းပိုက်လိုက်သောနှစ်မှစ၍ ၁၈၅၂ ခုနှစ် အထိ ဗြိတိသျှတို့သည် ကျွန်းသစ်ပင်များကို စိတ်ရှိသည့်အတိုင်း ခုတ်လှဲ ထုတ်ယူခြင်းကို ခွင့်ပြုခဲ့သဖြင့် သစ်တော ပျက်စီးခဲ့ရသည်။ ထိုတောများတွင် သစ်ကုန်ခါနီးသောအခါ မြန်မာဘုရင်မင်းမြတ်များ ပိုင်သော တောများတွင် ဝင်ရောက် ခုတ်လှဲကြပြန်သည်။ ဤသို့ဖြင့် မသင့်မတင့် ဖြစ်ကြရာမှ ၁၈၅၂ ခုနှစ်တွင် ပဲခူးတိုင်းကို ပေးအပ်လိုက်ရသော အခါ ကျွန်း၊ အခြားသစ်မျိုးနှင့် သားရဲ တိရစ္ဆာန် အလွန်ပေါများ၍ အဖိုးမဖြတ်နိုင်လောက်သော ပဲခူးရိုးမ တောင်ကြီးကိုပါ ဗြိတိသျှတို့၏ လက်တွင်းသို့ အပ်လိုက်ရလေသည်။ ဤတောကြီးကို ရပြန်သောအခါ ယခင်အတိုင်း စည်းကမ်းမဲ့စွာ သစ်

များကို ခုတ်ဖြတ်ယူကြပြန်သည်။ နိုင်ငံခြားသားများကို အတုယူ၍ တိုင်းရင်းသားများကလည်း အဖြုန်းစံနစ်ကို လိုက်စားလာကြသည်။ ထိုအခါက သစ်တောများကို ကြီးကြပ်အုပ်ချုပ်ရန် ထားသော သူများမှာ သစ်တောပညာကို မတတ်ကြချေ။ ၁၇၅၆ ခုနှစ်ရောက်မှ ဂျာမနီနိုင်ငံတွင် သစ်တောပညာကို ဆည်းပူးခဲ့သော ဂျာမန်လူမျိုး မစ္စတာ ဗရင်းဒစ်ကို ရွေးဦးစွာ သစ်တောအုပ်ချုပ်မှူး ခန့်ခဲ့သည်။ ဗရင်းဒစ်သည် နောင်တွင် အိန္ဒိယပြည်၌ သစ်တောမင်းကြီးချုပ် ဖြစ်လျက်၊ မြန်မာပြည်ရှိ သစ်တောများကိုပါ စီမံအုပ်ချုပ်ခဲ့သော ဆာဒီအက်ထရစ် ဗရင်းဒစ် ဖြစ်လာသည်။ ဤပုဂ္ဂိုလ်ကြီးသည် ၁၈၈၁ ခုနှစ်အထိ အုပ်ချုပ်ခဲ့သည်။ ထိုသူ အုပ်ချုပ်သည့် ခေတ်ကစ၍ အိန္ဒိယ သစ်တောဥပဒေ ပေါ်ပေါက်၍လာပြီးလျှင်၊ ထိုဥပဒေမျိုးကို မြန်မာပြည်တွင် ၁၈၈၁ ခုနှစ်မှစ၍ သုံးခဲ့သည်။ သို့သော် မြန်မာပြည် ဥပဒေ မပေါ်သေးမီက အိန္ဒိယပြည် ဥပဒေကို အသုံးပြုခဲ့ပြီးလျှင်၊ ၁၈၇၁ ခုနှစ်က အင်းစိန်နယ်၊ ဝါးနက်ချောင်းနှင့် ဆင်စွယ် ကြိုးဝိုင်းတို့ကို မြန်မာပြည်တွင် ရွေးဦးစွာ တည်ထောင်ခဲ့ပေသည်။ (အချို့က မြန်မာပြည်တွင် သစ်တောကြိုးဝိုင်းများကို ၁၈၆၂ ခုနှစ်ကစ၍ လုပ်ခဲ့သည်ဟု ဆိုကြသည်။ သို့သော် မည်သည့်ကြိုးဝိုင်းကို စ၍ လုပ်ခဲ့သည်ဟု သေချာစွာ ညွှန်မပြသောကြောင့် ဟုတ်မဟုတ် စစ်ဆေးရန် မဖြစ်နိုင်ပေ။) ထိုအချိန်မှစ၍ တစတစ ကြိုးဝိုင်းများကို စစ်ဆေးပြီးလျှင် ချဲ့ထွင်လုပ်ကိုင်လာခဲ့ရာ ၁၉၄၀ ပြည့်နှစ်ရောက်သောအခါ ကြိုးဝိုင်းမြေ ၃၄,၇၉၉ စတုရန်းမိုင် ပြီးစီးခဲ့လေသည်။

## စံနစ်ချ၍ သစ် ထုတ်ခြင်း

၁၈၅၈ ခုနှစ်တွင် ဝီလျံဝါးလေ့ ဆိုသူ ပုဂ္ဂိုလ် တဦးသည် ဝါးလေ့ကုမ္ပဏီအမည်နှင့် ရန်ကုန်မြို့ ဒလဖက်တွင် သစ်စက်တခုကို ဝယ်၍၊ ရန်ကုန်နှင့် မော်လမြိုင်တွင် သစ်အလုပ်ကို စ၍ လုပ်ခဲ့သည်။ သို့သော် ထိုအချိန်က အင်္ဂလိပ်မင်းတို့ လက်တွင်းသို့ ရောက်နေသော တောဟောင်းများ ပျက်စီးနေ၍၊တောသစ်များအတွက်လည်း ဥပဒေစည်းကမ်း အကန့်အသတ်များ ပေါ်ပေါက်လာသဖြင့် လိုချင်သလောက် သစ်လုံလောက်စွာ မရနိုင်ခဲ့ပေ။ ထို့ကြောင့် ၁၈၆၂ ခုနှစ်တွင် မင်းတုန်းမင်းကြီးထံ အမိန့်ခံယူ၍ ရှေးက နင်းကြမ်းခေါ် ပျဉ်းမနားနယ်နှင့် အထက် မြန်မာနိုင်ငံရှိ အချို့ တောများကိုပါ ယူလျက် ကျွန်းသစ်ကို လုပ်ခဲ့သည်။ အလုပ်ကကြီး၍ ငွေ မလုံလောက်သဖြင့် ဘုံဘေဘားမားထရိတ်ဒင်းကုမ္ပဏီဟု အမည်ပေးကာ အစုဝင်တို့၏ ငွေဖြင့် လုပ်ခဲ့သည်။ ထိုအခါမှစ၍ ထိုကုမ္ပဏီသည် မြန်မာနိုင်ငံအစိုးရနှင့် ပဋိပက္ခဖြစ်ပြီးလျှင် ၁၈၈၄ ခုနှစ်သို့ ရောက်သောအခါ ဗြိတိသျှ အစိုးရသည် သီပေါဘုရင်ကိုပါ ဖမ်းဆီးလျက် အထက် မြန်မာနိုင်ငံကိုလည်း သိမ်းယူလိုက်သည်။ သို့သော် တိုင်းပြည် ရှုတ်တရက် မငြိမ်မသက်ခြင်းကြောင့် ၁၈၈၅ ခုနှစ်ကျမှ မြန်မာနိုင်ငံ တဝန်းလုံး ကမ္ဘောဇတိုင်းနှင့် အခြား တောင်တန်းဒေသတို့ကိုပါသိမ်းနိုင်ခဲ့သည်။ ၁၈၈၆ ခုနှစ်မှစ၍ သစ်တောအုပ်ချုပ်ရေးကို မြန်မာပြည် တခုလုံးအတွက် လုပ်ခဲ့၏။ ဤကဲ့သို့ သစ်တောအားလုံး လက်တွင်းသို့ ရောက်သောအခါ သစ်တောလုပ်ကိုင်ခြင်း စံနစ်အရ အောက်ပါအတိုင်း တောများကိုခွဲ၍ သစ်၊ ထင်း စသည်တို့ကို ယနေ့အထိ ထုတ်ယူခွင့်ပြုလေသည်။

၁။ နိုင်ငံ၏ စီးပွားရေးနှင့် အခွန်တော်များများ ရရန် လုပ်သော တော။

ဤတောမျိုးကို တဖန် သုံးမျိုး ခွဲပြန်၏။

(က) မနရှင် သစ်ကုန်သည်ကြီးများသာ လုပ်နိုင်သော တော။ ။ဤတောမျိုးသည် ကျယ်ဝန်း၍သစ်ထုတ်ရန်ခက်ခဲသည့်အပြင် မြို့ရွာနှင့် ဝေးလံသော ဒေသတို့တွင် ရှိသည်။ ဤတောမျိုးကို ငွေအင်အား၊ လူ၊ ကျွဲ၊ ဆင် စသော အင်အားစုနှင့် လုပ်ငြားသော်လည်း၊ အနည်းဆုံး နှစ်နှစ် သုံးနှစ်လောက်မှ သစ် စ၍ ထွက်နိုင်သဖြင့် နှစ်ရှည်စာချုပ်ဖြင့်လုပ်ရသည်။ အစ၌ ၄၄ နှစ်စာချုပ်၊ ထိုစာချုပ် သက်တမ်းကုန်သောအခါ ၂၅ နှစ်မှ အနှစ် ၃၀ အထိ၊နောက်ဆုံးတွင် ၁၅ နှစ် ဖြစ်၏။ဤစာချုပ်အားလုံးသည် ၁၉၄၀—၄၃ ခုနှစ်တွင် ကုန်ခဲ့သည်။ ဤစာချုပ်များအနက် ထူးကဲစွာ ရာဇဝင်တွင်ခဲ့သော စာချုပ်မှာ ၁၈၄၈ ခုနှစ်တွင် ဂျွန်မက်ကေးအင် ကုမ္ပဏီ ဆိုသော ကုမ္ပဏီတခုက အာဏာပိုင်တဦးနှင့်လက်သိပ်ထိုးပြီးလျှင် ၉၉ နှစ် ဂရန်ကြီးကို မော်လမြိုင်နယ်တွင် အရယူခဲ့ခြင်းပင် ဖြစ်သည်။ ထိုနောက် အဆိုပါ ဂရန်ကြီးကို ဖာဒီနန်ဖူးကားဆိုသော ပုဂ္ဂိုလ်သို့ လက်လွှဲ ပြောင်းပေးခဲ့သောအခါ အဆိုပါ ပုဂ္ဂိုလ်က ဖူးကား အင် ကုမ္ပဏီဖွဲ့၍ သစ်ထုတ်ခြင်း အလုပ်ကို လုပ်ခဲ့သည်။ ထိုဂရန်ကြီးသည် ၁၉၄၆—၄၇ ခုနှစ်တွင် ကုန်ဆုံးခဲ့လေသည်။

ဤကဲ့သို့သောတောကြီးမျိုးကို လုပ်ကိုင်ခဲ့ကြသော ကုမ္ပဏီများမှာ စတီးဘရားသား၊ ဖူးကား၊ မက္ကရိဂါ၊ ဘုံဘေဘားမား၊ ဖင်ဒလေအင်ဆန်း၊ဒေါ်ကြူ၊ စောသာဒွေး၊ ဦးဘအိုနှင့်သားများ၊ ဦးဘိုးထိန်၊ ဒေါ်သဲနုနှင့် အယူတို့ ဖြစ်ကြသည်။

မြန်မာနိုင်ငံတွင် မော်လမြိုင်မြို့ပေါ်၌ ၁၈၃၃ ခုနှစ်ကစ၍ သစ်စက်ကို တည်ခဲ့သည်။ ဤတောမျိုးမှ ကျွန်းသစ်ကိုသာ ထုတ်ယူ နိုင်သည်။ အခြားသစ်များကို ထုတ်ယူရန် မလွယ်ကူသည့်ပြင် စရိတ်အကုန်အကျများ၍ ရောင်းဈေး မကိုက်သောကြောင့် မလုပ်ကြပေ။ ယခုအခါ ဤတောအားလုံးကို ပြည်သူပိုင်လုပ်၍ ကျွန်းသစ်များကို ထုတ်နေ ကြသည်။ ခေတ်ကောင်းစဉ်အခါ ၁၉၁၉ ခုနှစ်မှ စ၍ ၁၉၃၉ ခုနှစ် အ

တိ ဤတောများမှ နှစ်စဉ်ကျွန်းသစ်လုံး ပျမ်းမျှခြင်း တန်ချိန် ၄၆၄,၃၇၅ တန်ထွက်ခဲ့၍ ထိုမှရသော အခွန်တော်မှာ မြန်မာငွေ တစ်ကုဋေခွဲ ဖြစ်လေသည်။

(ခ) သစ်ကုန်သည်ကလေးများ လုပ်နိုင်သော တော။ ။ ဤတောမျိုးကို ရွေးချယ်သောအခါ သစ်ကုန်သည်များ၏ ငွေအင်အားနှင့် ကျွဲ၊ နွား၊ ဆင်၊ လှည်း၊ မော်တော်ကား အင်အားတို့အပြင် သစ်ထုတ်ရန် လွယ်ကူ၍ သစ်ရောင်းနိုင်သော ဒေသနှင့် အနီးဆုံး တောများကို ရရန် သေချာစွာ စစ်ဆေးပြီးမှ ရွေးချယ် ရသည်။ ထို့ကြောင့် ဤတောမျိုးတွင် ကိုးဝိုင်း ကိုးပြင်ပါလျက်၊ မြို့ရွာ၊ မြစ်၊ ချောင်းကမ်း၊ လှည်းလမ်းနှင့် မီးရထားလမ်းများနှင့် နီးသော နေရာများတွင် တွေ့နိုင်သည်။ ဤတောမျိုးမှ ထွက်နိုင်သော သစ်များမှာ ကျွန်း၊အင်၊ ကညင်၊ အင်ကြင်း၊သစ်ယာ၊ကဒ္ဒိ(ကသစ်)၊ ပျဉ်းကတိုး၊ ပျဉ်းမ၊ ပိတောက်၊ သက်န်း၊ နော၊တောသရက်၊ တောင်သရက်၊ ဒီးဒူး၊ လက်ပံ၊ ဖန်ခါး၊ သစ်ဆိမ့်၊ ရှား၊ ရှော ပြာစသည်ဖြင့် တောကို လိုက်၍ ဖြစ်၏။ ထိုသစ်မျိုးများကို မြန်မာနိုင်ငံတွင်း သုံး၍ မကုန်သောကြောင့် နိုင်ငံခြားသို့ပင် တင်ပို့ရသေးသည်။ ၁၉၃၅–၃၆ ခုနှစ်မှ ၁၉၃၉ – ၄၀ ပြည့်နှစ်အထိ ကျွန်းမှတပါး အခြားနာမည်ရပြီးဖြစ်သော ပျဉ်းကတိုး၊ ပိတောက်၊ သစ်ယာ၊ အင်ကြင်း၊ ပျဉ်းမ၊ အင်၊ ကညင်နှင့် အခြား သစ်မျိုးများကို ပျမ်းမျှခြင်း တန်ချိန် ၄၇၂,၃၆၃ တန်မျှ နှစ်စဉ် နိုင်ငံခြားများသို့ တင်ပို့နိုင်ခဲ့သည်။ရှေးနှစ်ပေါင်းများစွာကစ၍ မြန်မာနိုင်ငံ၏အကောင်းဆုံး ဖောက်သည်သည် ကျွန်ုပ်တို့၏ အိမ်နီးချင်း အိန္ဒိယနိုင်ငံဖြစ်၍ ကျွန်ုပ်တို့နိုင်ငံမှထွက်သမျှသစ်၏ သုံးပုံနှစ်ပုံကို အိန္ဒိယနိုင်ငံမှ အစဉ်သဖြင့် လိုသည့်အလျောက် ဝယ်ယူခဲ့ပေသည်။

ဤတောမျိုးမှ ထွက်သော သစ်မှလွဲ၍ ကြိမ်၊ ဝါး၊ ရှားစေး၊ သားရေနယ်ရန် သစ်ခေါက် စသော အသေးအဖွဲ သစ်တောပစ္စည်းများမှ နှစ်စဉ် ပျမ်းမျှခြင်း အခွန်တော်ငွေ ၆၁၆,၃၂၂ ကျပ် ရခဲ့သည်။

ဤတောမျိုးကို လုပ်ခွင့် ပြုသောအခါ တော၏ အခြေအနေ၊ ထွက်မည့်သစ်တန်ချိန် စသည်တို့ကို ချင့်ချိန်၍ တနှစ်မှ ငါးနှစ်အထိ လုပ်ရန် ဖွင့်ပေးလေ့ရှိသည်။ သို့သော် အခွင့်ပြုပေးသော အချိန်တွင် မပြီးစီးနိုင်၍ နှစ်ပိုတောင်းကြသောကြောင့် အခွင့်ပြုရခြင်းက များပေသည်။

(ဂ) အစိုးရ လုပ်သော တောများ။ ။ဤတောများကို အောက်ပါ ရည်ရွယ်ချက်များနှင့် စ၍ လုပ်ခဲ့သည်။

(၁) သစ်ထုတ်ရာ၌ ကုန်ကျမည့်စရိတ်များကိုသိစေရန်။

(၂) သစ်အရောင်းအဝယ် နားလည်စေရန်။

(၃) သင့်တော်သော သစ်အခွန်တော်ကို ကြီးကြပ် ကန့်သတ်နိုင်ရန်။

(၄) သစ်ထုတ်ရန် စည်းကမ်း နည်းလမ်းများကို နားလည်၍ သစ်တောကျောင်းသားများနှင့် သင်လိုသော သစ်ကုန်သည်ကလေးများကို သင်ပြပေးရန်။

(၅) အခွန်တော် ပိုမို၍ ရရန်။

(၆) သစ်ထုတ်ရာဝယ် ချောင်း၊ မြစ် စသည်တို့ မပျက်စီးအောင်သော်၎င်း၊ ပျက်စီးသောနေရာများကို ပြုပြင်ပေးရန်နှင့် ရေဝပ်သော လတာမြေများကို ရေမဝပ်ဘဲ လယ်ယာကိုင်းများ ဖြစ်မြောက်အောင် လုပ်ပေးရန်သော်၎င်း ဖြစ်၏။ ဤနည်းအတိုင်း ပြုပြင်ပေးနိုင်သောကြောင့် သာယာဝတီနယ် မြစ်မခသစ်တောနယ်၊ သစ်ထုတ်သော အကွက်တွင် နှစ်စဉ် လယ်ကေပေါင်း ၃၀၀ နီးပါး ချဲ့ထွင်ပေးနိုင်ခဲ့သည်။

(၇) ရန်ကုန်၊ မန္တလေးနှင့် မော်လမြိုင် မြို့ကြီးများတွင်ရှိသော သစ်ကုန်သည်ကလေးများ ကျွန်းသစ်ရရန်အတွက် လေလံတင် ရောင်းနိုင်ရန်။

(၈) ရန်ကုန်မြစ်ထဲတွင် သောင်ထွန်းခြင်း၊ ရေတိမ်ခြင်း၊ ကမ်းပါး ပျက်ခြင်းမှ ကာကွယ်ပေးရန်၊ ထိုအလုပ်အတွက် ယခင်က ဆိပ်ကမ်းဌာန ဆိုင်ရာမှ နှစ်စဉ် မြစ်မခနယ်တွင် လုပ်ကြသော သစ်တော အရာရှိကြီးများ၏ လခအချို့ကို ပေးလေ့ ရှိသည်။

အစိုးရလုပ်သော တောမျိုးကို ၁၈၅၆ ခုနှစ်မှ စ၍ လုပ်ကိုင်ခဲ့သည်။ ရှေးအခါက ဤအလုပ်မျိုးကို ကသာ၊ မော်လမြိုင်၊ သာယာဝတီ၊ ဇီးကုန်း၊ ပြည်နှင့် အခြား ဒေသတို့တွင် လုပ်ခဲ့၏။ သို့သော် နောင်အခါ သစ်ကုန်သည်ကြီးများ၏ တောင်းဆိုချက်ကို လိုက်လျောကာ သာယာဝတီ၊ ဇီးကုန်းနှင့် ပြည်နယ် အောက်ပိုင်းကိုသာ လုပ်ခဲ့တော့သည်။

၂။ တောလက် ကျေးရွာနှင့် မြို့ကြီးများတွင် နေထိုင်ကြသူအားလုံး အသုံးပြုရန် လိုသလောက် သစ်၊ ဝါး၊ ထင်း စသည် ရအောင် စီမံပေးသော တော။

ဤတောမျိုးကို ရွေးချယ်သောအခါ သစ်ထုတ်ရန် လွယ်ကူလျက် မြို့ရွာနှင့် နီးပြီးလျှင် ရွာသူရွာသားတို့လိုအပ်သော သစ်တောပစ္စည်း အားလုံး လုံလောက်စွာ ရနိုင် မရနိုင်ကို ဝေဖန်ရသည်။ ထိုနောက် တောများကို တနှစ်စာ ထွက်နိုင်သော အကွက်ငယ်များ ခွဲလျက် လှည်းလမ်းများကို မြို့ရွာများမှ ထိုအကွက်သို့ ရောက်အောင် ဖောက်ပေးခြင်း၊ လွယ်လင့်တကူ သစ်၊ ထင်း၊ ဝါးမှ စသော သစ်တောပစ္စည်း ထုတ်ယူနိုင်ရန် လက်မှတ်ရောင်းသော အကောက်တဲများထားခြင်းတို့ကို လုပ်ရသည်။ ဤကဲ့သို့ လှုပင်ပန်း၍ စရိတ်ငွေမြောက်မြားစွာ အကုန်ခံရသော်လည်း တိုင်းသူ ပြည်သားများ သက်သာစိမ့်သောငှါ မဆိုလောက်သော အခွန်ကိုသာ ကောက်သည်။ ဤတောမျိုးမှ သစ်တောပစ္စည်း ထုတ်ယူရန် လက်မှတ်များမှာ အခြေအနေ၊ ပစ္စည်းကိုလိုက်၍ တရက်မှ သုံးရက် အထိသာ ခွင့်ပြုလေ့ ရှိ၏။ ဤကဲ့သို့ လက်မှတ်နှင့်မှ ထုတ်ယူခွင့် ပြုသည်ဟု ဆိုသော်လည်း သနပ်

ခါး၊ မှို၊ ဟင်းရွက် ဟင်းသီး၊ ကန်စွန်း၊ သပွတ်၊ ဗန့်ဘွေးဖက်၊ သနပ်ဖက်၊ အင်ဖက်၊ တောင်စွန်ဖက်၊ မျှစ်၊ ဖန်ခါးသီး၊ ဆီးဖြူသီး၊ မှန်ကူသီး၊ ခံသီး၊ လက်ပွတ်သီး၊ ဆီးသီး၊ သပြူသီး၊ စင်ပြွမ်းသီး၊ ကြက်မောက်သီး၊ ဝှေးသီး၊ ဝှေးဖူး၊ သပြေသီး၊ ကနစိုးသီး၊ သရက်သီး၊ ရဲယိုသီး၊ ဥသျှစ်သီး၊ ရင်ကန်းသီး၊ ပိန်းဥ၊ မြောက်ဥ၊ ဖွတ်ဥ၊ အင်ဥ၊ ကျွေးဥ၊ ကိုင်းဥ၊ ကြာပွင့်၊ ကြာဖူး၊ ကညွတ်၊ ကင်ပွန်းသီး၊ ကင်ပွန်းရွက်၊ ဆူးပုပ်ရွက်၊ ကျီးခြေမှုစ၍ ဆေးရွက်၊ ဆေးမြစ် အမျိုးမျိုး၊ ဖွတ်၊ ပုတတ်၊ ယုန်မကျန် မည်သည့် အသေးအဖွဲ့ ပစ္စည်းကိုမဆို လိုချင်သလောက် အခွန်အခမပေးရဘဲ အခါမရွေး သွားရောက်ရှာဖွေ စားသောက် ရောင်းချနိုင်သည်။ အမှန်ဆိုသော် ဤပစ္စည်းများ အပေါ်တွင် အခွန်ကောက်မည်ဆိုက ကောက်ထိုက်ပေသည်။

ထိုမှတပါး ထို တောအနီးတွင် ဘိုးဘွားလက်ထက်မှ နေလာ၍ ထိုတောထဲမှ ပစ္စည်းများကို သုံးစွဲလာသော သူများအဖို့မှာမူ ပိုင်ဆိုင်ခွင့် ရရှိကြောင်း သစ်တောဌာနမှ အသိအမှတ်ပြုပါက ထိုသူတို့သည် အခွင့်ပြုသော သစ်၊ ဝါး၊ ထင်းစသော ပစ္စည်းတို့ကို အခွန်မဆောင်ဘဲ ထုတ်ယူ သုံးစွဲပိုင်ခွင့်ရှိကြသည်။

ဤတောမျိုးကို လုပ်သောအခါ အနှောင့်အရှက် အလွန်တရာများ၏။ တောများကို မပျက်စီးအောင် စောင့်ရှောက်ထိန်းသိမ်းပေးရန်မှာ မလွယ်ကူလှပေ။ ဤတောမျိုး၏ပတ်ဝန်းကျင်တွင် ရွာပေါင်းမြောက်မြားစွာ ရှိနေ၍ ထိုရွာများမှ လူညီးလမ်းများသည် တောထဲတွင် ရှုပ်ရှက်ခတ်လျက် ရှိနေသဖြင့် နေ့ညဥ့်မရွေး ဝင်ရောက်၍ မိမိတို့လိုရာ ပစ္စည်းကို စည်းမဲ့ ကမ်းမဲ့ ယူလေ့ ရှိကြသည်။ အခါကောင်း၍ ဥပဒေကို ရိုသေသည်ဟုဆိုသော ခေတ်ကပင် ဤကဲ့သို့ ထိန်းမနိုင်အုပ်မရ ဖြစ်ခဲ့၍ ဤတောမျိုးများ အချို့ပျက်စီးကာ အချို့ကို အစိုးရက ဖျက်ဆီးခဲ့လေသည်။ ဂျပန်ခေတ်သို့ ရွတ်တရက် ရောက်လာသောအခါ တကိုယ်ကောင်း ကြံကြသော မြန်မာနှင့် ကုလားများသည် ဂျပန်များနှင့် ပူးပေါင်းလျက် သူတို့လိုသော သစ်၊ ထင်း၊ ဝါးမှ စ၍ သစ်တောပစ္စည်းမျိုးစုံကို လိုသည်ထက် ပို၍ရရန် စည်းကမ်းမဲ့ လုပ်ခဲ့ကြသည်။ မြန်မာနိုင်ငံက သစ်တောများကို မြန်မာအမျိုးသားများသာ ပိုင်၍ ရန်သူပိုင် မဖြစ်နိုင်ကြောင်းကိုသော်၎င်း၊ သစ်တောပစ္စည်းများကို စည်းကမ်းနှင့် ထုတ်ယူသင့်ကြောင်းကိုသော်၎င်း ထိုခေတ်က ဝန်ကြီးလုပ်သူ သခင်ထွန်းအုပ်၊ အတွင်းဝန် ဦးလှရှိန်နှင့် ဤစာရေးသူပါ သုံးဦးတို့သည် ဟို



မြန်မာသစ်လုပ်ငန်း၌ ဆင်များ၏လုပ်အားတန်ဖိုးကား ကြီးမားလှပေသည်။

တိုင်၊ သည့်တိုင်နှင့် နောက်ဆုံး၌ စစ်ဌာနနှင့် ဆိုင်သည်ဟု ဆို၍ ယင်းတို့နှင့် နောင်အခါတွင် အပြည့်ပြည့်ဆိုင်ရာ ဥပဒေ အရ ပြောဆိုသောအခါမှ စည်းမဲ့ကမ်းမဲ့ ပြုလုပ်ခြင်း နည်း ပါးသွားလေသည်။ ထို့ကြောင့် မြန်မာနိုင်ငံက တောများ သည် ဂျပန်ခေတ်က အများ ထင်သကဲ့သို့ မပျက်စီးခဲ့ပေ။ ဂျပန်များကြောင့် သစ်တောဌာနမှ ပျက်စီးသော တော၊ အဆောက်အအုံ၊ ဆင်၊ ကျွဲ၊ တန်တားနှင့် အခြား ပစ္စည်း စုစုပေါင်း၏ တန်ဖိုးမှာ မြန်မာငွေ နှစ်ကုဋေခွဲသာ ဖြစ်၏။ ထိုသို့ ဆုံးရှုံးသည်ကို ဂျပန်နိုင်ငံမှ စစ်လျော်ကြေး တောင်း ယူခဲ့လေသည်။

၃။ မီးရထား၊ သင်္ဘောနှင့် အခြား အသုံးအဆောင် အ တွက် ထင်းပေးရန် လုပ်သော တော။

ဤတောမျိုးကို မော်လမြိုင်၊ ပုသိမ်၊ မြောင်းမြ၊ ဟင်္သာ တ၊ ကသာ၊ ရွှေဘို၊ ပြည် စသော နယ်များတွင် လိုသည့် အလျောက် စစ်ဆေး၍ ဖွင့်ပေးသည်။

၄။ မိုးလေဝသနှင့် ရာသီဥတုမျှတလျက် ရေလုံလောက်စွာ ရရန် ထားသော တော။

မြန်မာနိုင်ငံအလယ်ပိုင်းရှိ မိုးပါးရေရှား ရပ်ဝန်း၌ အပူ ရှိန် ပြင်းထန်လှပေရာ၊ မြေများသည် မြေသြဇာဓာတ် ချို့ တဲ့ကာ ဆားငန်မြေများအဖြစ် ပြောင်းလာခြင်း၊ မိုးရာသီ အခါ ညီမျှစွာ မိုးမရွာဘဲ၊ တလနှစ်လအတွင်း မိုးသည်း ထန်စွာ ရွာတတ်သဖြင့် မြေဆီလွှာများကို ရေတိုက်စား ခြင်းတို့ကြောင့် ထိုရပ်ဝန်းသည် တဖြည်းဖြည်း သဲကန္တာရ ဆန်လာသည်။ သစ်တောဌာနသည် ထိုအန္တရာယ်ကို ကာ ကွယ်ရန် ရှိပြီးသစ်တောများ မပြုန်းတီးရေး၊ သစ်တော တည်ထောင်ရေးကို ကြိုးပမ်းလျက်ရှိသည်။ သစ်တောရှိပါ က ရေ ရရှိခြင်း၊ အပူဒဏ်နှင့် လေဒဏ်ကို ကာကွယ်ခြင်း၊ သစ်တောထွက် လူသုံးပစ္စည်းများရခြင်း စသော အကျိုး ကျေးဇူးကိုလည်း ခံစားရပေမည်။

၅။ အိုးအိမ်၊ လယ်မြေ၊ ချောင်း၊မြောင်း၊ အင်း၊ အိုင်၊လမ်း၊ တန်တားမှ စ၍ ရေလွှမ်းမိုးခြင်း ပျက်စီးခြင်းတို့မှ ကာကွယ် ပေးရန်လိုသော တော။

ဤတောမျိုးမှာ မြေဆီ မြေလွှာတို့သည် မူလနေရာမှ အ ခြားသို့ ရွှေ့လျက်နိမ့်ရာ မြစ်၊ ချောင်း၊ အင်း၊ အိုင်တို့တွင် အ နည်ထိုင်ကာ ကောစေ၍ မိုးရာသီတွင် ထိုတောများ၏ ပတ် ဝန်းကျင် တဝိုက်၌ ရှိနေသော ဒေသများသို့ ရေလွှမ်းမိုး လျက် ပျက်စီးနိုင်သည့်အပြင်၊ မူလ နေရာတို့တွင်လည်း မြေ ဆီမြေလွှာ ကုန်ခန်း၍ ရေစီးကြောင်း မြောက်မြားစွာနှင့် မြေပြင်အောက်တွင်ရှိသော ကျောက်ခဲကြီးငယ်တို့ အပြင် မည်သည့် အပင်မှ မပေါက်နိုင်သော ကျောက်ဖျာတို့ပင် ပေါ်ထွက် လာခြင်းတို့မှ တားဆီးပေးရန် လိုသော တော များပင် ဖြစ်ပေသည်။ သို့သော် ဤတောမျိုးကို ထားခါမျှ နှင့် မလုံလောက်ချေ။ မြေဆီမြေလွှာ ကုန်ခန်းခြင်းနှင့် ပျက် စီးရာ ပျက်စီးကြောင်း အကြောင်းအရာ အလုံးစုံကို စူးစမ်း ဆင်ခြင်ပြီးမှ လိုအပ်သော စည်းကမ်း နည်းလမ်းများကိုပါ ကျနသေချာစွာ ထား၍ ပြုစုလုပ်ကိုင်မှသာ ရည်ရွယ်ချက် ကို အောင်မြင်စွာ ရရှိနိုင်ပေမည်။ မြေဆီမြေလွှာတို့ကို ဖျက်ဆီးနိုင်သော အကြောင်းရင်းများမှာ သဘာဝအတိုင်း ယင်းတို့ကို မိုး၊ နေနှင့် လေတို့၏ ပြင်းထန်သောအရှိန်မှ ကာ ကွယ်၍ပေးသော အပင်ကြီးငယ်တို့နှင့် ယင်းတို့မှ ကြွေကျ၍ မြေဆွေးဖြစ်သော၊ သို့မဟုတ် ဖြစ်မည့်အကိုင်းအခက်အရွက် အမြစ်တို့ကို သုတ်သင် ရှင်းလင်း ဖျက်ဆီးခြင်းတို့ပင် ဖြစ်ပေ သည်။ ကျွန်ုပ်တို့ မြန်မာနိုင်ငံတွင် ရှေးနှစ်ပေါင်း များစွာမှ စ၍ မြေဆီ၊ မြေလွှာတို့ကို နေ့ရှိသရွေ့ ပျက်စီးအောင် လုပ် နေသော နည်းများမှာ တောင်ယာခုတ်ခြင်း၊ သစ်ပင်လှဲ ခြင်း၊ တောရှင်းခြင်း၊ တောမီး ရှို့ခြင်း စသည်တို့ ဖြစ်၏။

မြန်မာနိုင်ငံတွင်ရှိသော တောများကို ၁၈၅၆ ခုနှစ်မှစ၍ သစ်တောပါရဂူတဦး ဖြစ်သူ ဆာ ဒီအက်ထရစ် ဗရင်းဒစ်က သစ်တော မီးမလောင်ရန် အမြော်အမြင်ကျယ်စွာ စီမံကိန်း နှင့် ဥပဒေများကို ပြုလုပ်၍ နှစ်ပေါင်းများစွာ တားမြစ်ခဲ့ သည်။ ထိုစီမံကိန်းနှင့် ဥပဒေများမှာ ယနေ့အထိ တည် လျက် ရှိနေသေး၏။ သို့သော် အသုံးမပြုကြပေ။ ထိုစဉ် အခါက တောသူ တောင်သားများသည် တောမီးလောင် လျှင် အပြစ်ရမည်ကို ကြောက်ရွံ့ခြင်းကြောင့်လည်း တ ကြောင်း တောင်ယာတွင် လောင်စာများစွာ ရစိမ့်သောငှာ တကြောင်း၊ ဤအကြောင်း နှစ်ကြောင်းကို ထောက်၍ မိမိ တို့ လုပ်ကိုင် စားလောက်ရုံမျှသာ ဖြစ်မည့် တောကွက်ကို ခုတ်ထွင် ရှင်းလင်းပြီးလျှင် ထိုအကွက်၏ ပတ်ဝန်းကျင်တွင် ၁၀ ပေ ၁၅ ပေကျယ်သော မီးတားလမ်းများကို အပြောင် တန်မြက်စည်းနှင့် လှည်းပြီးမှ မိမိတို့၏ တောင်ယာကွက်ကို သာ မီးရှို့လေ့ရှိသည်။ ထိုမီးကိုလည်း ထိုအကွက် အပြင်သို့ ကူးစက်ရန် မည်သို့သောအခါမျှ အခွင့် မပြုခဲ့ကြပေ။ ထိုအ တွက် ထိုခေတ်က မြေဆီမြေလွှာပျက်စီးသည်ဟု ဆိုစေကာမူ ပြောပလောက်အောင် မဖြစ်သည့်အပြင် ယင်းတို့ကြောင့် နှစ်စဉ် ရေကြီး၍ လယ်ယာ၊ ကိုင်းကျွန်း၊ တန်တား၊ လမ်း၊ တာ၊ အိမ်မှ စ၍ ပျက်စီးသည်ဟုလည်း မှတ်တမ်းတွင် မတွေ့ ခဲ့ပေ။ သို့သော် ၁၉၀၅ ခုနှစ်မှစ၍ သစ်တော ကြိုးဝိုင်းများ ကို တစတစ မီးတားခြင်းမှ ရုတ်သိမ်း၍ ၁၉၂၂ ခုနှစ် ရောက် သောအခါ အသစ်စိုက်ပျိုးသော သစ်တောစိုက်ခင်းမှ လွဲ၍ အခြား တောများကို မီးတားခြင်း မလုပ်တော့ပေ။ ထို ကြောင့် ၁၉၂၃ ခုနှစ်လောက်မှ စ၍ ယနေ့အထိ တနှစ်ထက် တနှစ် ပိုမို၍ဆိုးရွားစွာ ရေကြီး၍ အနယ်နယ်တွင် လယ်ယာ ကိုင်းကျွန်း၊ လမ်း၊ တာတမံ၊ တာရိုး၊ အိမ်၊ ချောင်း၊ မြစ်မှစ၍ ပျက်စီးနေကြောင်းကို မိုးဥတုအခါတိုင်း သတင်းစာများတွင်

ဖတ်နေကြရပေပြီ။ ထိုမှတပါး မြန်မာနိုင်ငံ တဝှန်းလုံးတွင် ရှိသော တောင်ကုန်းကြီးငယ်တို့တွင် မြေဆီမြေလွှာ ကုန်ခန်းလာ၍ ဆိုးရွားလာသော ဒေသများတွင် မည်သည့် အပင်မှလည်း မပေါက်၊ မည်သည့် ယာမှလည်း မလုပ်နိုင်သော အခြေသို့ပင် ရောက်နေသော မြေကွက်ကြီးငယ် မြောက်မြားစွာ ရှိနေပေပြီ။ အဆိုးဆုံး နေရာများမှာ ရှမ်းပြည်နယ်၊ မိတ္ထီလာ၊ ကျောက်ဆည်၊ မြင်းခြံ၊ မကွေးနှင့် ရမည်းသင်းနယ်မြောက်ပိုင်းတို့ဖြစ်သည်။ ကျန်သော ဒေသတို့မှာလည်း မြေဆီ မြေလွှာသည် တနှစ်တခြား လျော့ပါးလာ၍ တောစိုမှ တောခြောက်၊ တောခြောက်မှ မြက်တော၊ ထိုမှ တဖန် မည်သည့် အပင်မှ မပေါက်နိုင်သော ကျောက်ဖျာနှင့် ကျောက်တုံးများအထိ ပြောင်းလဲ နေခြင်းကို ထင်ရှားစွာ တွေ့မြင်နိုင်ပေသည်။ ထို့ကြောင့် ကျွန်ုပ်တို့ တောများသည် လူအများ ထင်သည့်အတိုင်း မကောင်းတော့ချေ။ ရှေးက သစ်တန်ချိန် ၂၅–၃၀ ရှိ သစ်လုံးများပင် ထွက်ခဲ့ဘူးသည်ဟု ဆိုသော်လည်း ၁၉၂၅ ခုနှစ်လောက်က မြစ်မခနယ်မှ ငါးတန်ခွဲသာသာရှိသော သစ်လုံးကို ထုတ်လာသောအခါ အများက အံ့သြနေကြရလေပြီ။ ထို့ကြောင့် ယခုမှ စ၍ သစ်တောများကို ပြန်လည်၍ မီးတားခြင်း၊ အသုံးမဝင်သော မြေကွက်လပ်များကို ပြန်လည် ပြုပြင်ခြင်း၊ မြေဆီမြေလွှာ ကောင်းသည်ထက် ကောင်းအောင် မြက်၊ သစ်ပင်စသည်တို့ ပေါက်စေရန် စီစဉ်၍ လုပ်ထိုက်ပေပြီ။

၆။ သားရဲ တိရစ္ဆာန်မှစ၍ ကျေးငှက်၊ ပိုးမွှားမကျန် ပြုန်းတီးပျက်စီးမည်ကို စိုးရိမ်၍ ထားသော တော။

ဤတောမျိုးကို ရှေးအခါက မိဂဒါဝုန် တောများ ထားသည့်နည်းအတိုင်း ဆက်လက်၍ ထားခြင်းပင် ဖြစ်ပေသည်။ မြန်မာ တိုင်းရင်းသားများသည် အသားဆိုလျှင် လင်းတ သားကလွဲ၍ ဘာမျှ မရှောင်ကြချေ။ ထိုအတွက် ငရဲကို မကြောက်ဘဲ ရရာသတ္တဝါကို လိုက်လံရှာဖွေ၍ မျောက်၊ ဖွတ်၊ ပုတတ်၊ ငါးနှင့် ငှက်တို့မှအစ ဆင်ကောင်ကြီးများ အထိ တွေ့ရာကို အရ သတ်ဖြတ်စားသောက်ကြသည်။ ထို့ကြောင့် တရံရောအခါက ကျွန်ုပ်တို့နိုင်ငံတွင် တောတိရစ္ဆာန် အလွန် ပေါများခဲ့သော်လည်း ယခုအခါ တနေ့တခြား ရှားပါး လာသဖြင့် ယင်းတို့ ကွယ်ပျောက်၍ မသွားအောင် တဖက်ပါ တောများကို သီးသန့်၍ ထားပြီးလျှင် အထူး အရာရှိများနှင့် စောင့်ရှောက်ခဲ့ရလေသည်။

အဆိုပါ တောများကို ကန့်သတ် ထားသည့် အပြင် ဥဒေါင်း ငှက်မျိုးသည် သာသနာရေး မျက်စိနှင့် ကြည့်လျှင် အလွန် မြင့်မြတ်သော သတ္တဝါမျိုး ဖြစ်၍ အိန္ဒိယနိုင်ငံတွင် မည်သည့်နေရာ၌တွေ့တွေ့ ဖမ်းဆီးသတ်ဖြတ်ခြင်း မပြုရန် တားဆီးသကဲ့သို့ မြန်မာနိုင်ငံမှာလည်း တားဆီးပေးခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်မီက အဆိုပါ တောများတွင် တိရစ္ဆာန်တို့သည် အသင့်အတင့် များပြား၍ ယဉ်ပါးနေကြ၏။ ဒုတိယကမ္ဘာစစ် အတောအတွင်း၌ပင် ထိုတောများမှာ ဘေးမဲ့တောများအဖြစ် တည်ရှိခဲ့လေရာ ယခုအခါ ရှေးကထက် ပိုမို၍ ဂရုစိုက်စောင့်ရှောက်ရန် လိုလားအပ်ပေသည်။

| နယ် | တောအမည် | မွေးထားသော တောတိရစ္ဆာန် |
|---|---|---|
| မြစ်ကြီးနား | ပိတောင် | ဆင်၊ စိုင်၊ ပြောင်၊ ဆတ်၊ ဒရယ်၊ ချေငယ်၊ ဝက်၊ ကျား၊ ကျားသစ်၊ ဥဒေါင်း၊ ရစ်၊ ခါ၊ တောကြက်၊ ငုံး။ |
| ကသာ | ရွှေဥဒေါင်း | ကြံ့၊ ဆင်၊ ပြောင်၊ စိုင်၊ ဆတ်၊ တောဆိတ်၊ ချေငယ်၊ တောဝက်၊ ကျား၊ ကျားသစ်၊ ဝက်ဝံ၊ ဥဒေါင်း၊ တောကြက်၊ ရစ်၊ ခါ၊ ငုံး။ |
| မန္တလေး | မေမြို့ | ချေငယ်၊ တောကြက်၊ ခါ၊ ဥဒေါင်း။ |
| ထားဝယ် | မော်စကိုကျွန်း | ဆတ်၊ ချေငယ်၊ တောဝက်၊ ကြံ့။ |
| သထုံ | ကဟိလူ | တောဆိတ်၊ ဆတ်၊ ချေငယ်၊ ဒရယ် အပုစား၊ ဒရယ် အကြီးစား၊ တောကြက်။ |
| သောင်ရင်း | မူးလရစ် (မော်လမြိုင်) | ချေငယ်၊ တောဝက်၊ ကျား၊ ကျားသစ်။ |
| မင်းဘူး | ဝက်ထီးကန် | ရေကြက်အမျိုးမျိုး။ |
| | ရွှေစက်တော် | ပြောင်၊ ဆတ်၊ သမင်၊ ချေငယ်။ |
| ပဲခူး | ပကိုင်ကန် | ကြိုးကြာ၊ ကရဝိတ်၊ ဝံလို၊ ဘဲငန်း၊ ရေဝမ်းဘဲအမျိုးမျိုး၊ စစ်စလီ၊ ကလကတ်၊ ငှက်ကြီး ဒုံးစပ်၊ တင်ကျီး၊ ဥဗျိုင်း အမျိုးမျိုး၊ မယ်ညို၊ ရေကြက်မ၊ ဟောစ်မှစ၍ ရေတွင် ကြက်စားသော ငှက်အမျိုးမျိုး။ |

ဦးသိန်းလွင်

**မြန်မာနိုင်ငံ သစ်ပင်များ။** ။သတ္တလောက၌ သတ္တဝါဟု သမုတ်သည် သစ်ပင်များမှ ရရှိသော အစာ အာဟာရတို့ကို မှီဝဲ စားသောက်၍ အသက် ရှင်ကြပေသည်။ အချို့သော သတ္တဝါတို့သည် အသားကို မှီတင်း၍ အသက်ရှင်ကြသော်လည်း ထိုအစာအာဟာရဖြစ်သော အသားသည် သစ်ပင်များကို စားသုံးရာမှ ရရှိခြင်း ဖြစ်ပေသည်။ သစ်ပင်များ

သည်သာလျှင် မိမိတို့ အရွက်ပိုင်းတို့၌ အမြစ်မှ ပို့ဆောင်သောရေကို လေထဲတွင်ပါရှိသော ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်နှင့် ရောနှောပြီးလျှင် မိမိတွင် ရှိရင်းစွဲဖြစ်သော ကလိုရိုဖီခေါ် စိမ်းရောင်ဒြပ်ဖြင့် အလင်းရောင်၏ အင်အားကို ယူလျက် ကာဗိုဟိုက်ဒြိတ်ခေါ် သကြား ကစီဓါတ် စသည်တို့ကို ချက်လုပ်နိုင်လေသည်။ ထိုတွင်မက သစ်ပင်များတို့၏ အသား၊ အခွံ၊ အခေါက်၊ အသီး၊ အပွင့်၊ အဆီ၊ အစေး အမျိုးမျိုးနှင့် ဘေးဥပဒ်တို့မှ ကာကွယ်ရန် ဆေးဝါးအမျိုးမျိုးတို့သည် မြေမှ ရရှိသော နိုက်ထြိုဂျင်၊ ဖော့စဖောရပ်၊ ကယ်လဆီယမ်၊ ပိုတက်ဆီယမ်၊ မက်ဂနီဇီယမ်၊ ဆိုဒီယမ်၊ ကလိုရင်း၊ သံ၊ ဆီလီကွန်၊ မန်ဂနီ၊ အိုင်အိုဒင်း၊ ဗိုရွန်၊ သွပ်၊ ကြေးနီတို့နှင့် ကာဗိုဟိုက်ဒြိတ်များ ပေါင်းစပ်၍ ဖြစ်ပေါ် လာရသည်။ ယင်းတို့ကို လူတို့သည် အစားအစာ၊ အဝတ်အထည်၊ ဆေးဝါး၊ အိုးအိမ် စသည်တို့ ပြုလုပ်၍ သုံးစွဲကြသည်။

သစ်ပင်များသည် ကြီးပွားရန်အတွက် အလင်းရောင်၊ သင့်တော်လျောက်ပတ်သော အပူအအေးနှင့် အထက်၌ ဖော်ပြခဲ့သော သတ္တုတို့နှင့် ပြည့်စုံသော မြေဓာတ်များကို အလိုရှိကြသည်။

### ၁။ အလင်းရောင်နှင့် သစ်ပင်လောက

သစ်ပင်တိုင်းပင်လျှင် အလင်းရောင်ကို အလို ရှိကြသော်လည်း၊ အချို့သောသစ်ပင်များသည် တပင်လုံး လွတ်လပ်စွာ အလင်းရောင်ရရှိမှ ကြီးပွား သန်စွမ်းနိုင်လေသည်။ အချို့သစ်ပင်များမူကား အခြား သစ်ပင်များ၏ လောင်းရိပ်အောက်၌ အနည်းငယ်မျှသော အလင်းရောင်ဖြင့် မျှတလျက် ကောင်းမွန်စွာ ကြီးပွားနိုင်လေသည်။ ပဌမ အမျိုးအစား ဖြစ်သော သစ်ပင်မျိုးကို လင်းလုပင်မျိုးဟု ခေါ်၍ ဒုတိယ အမျိုးအစားကို လောင်းခိုပင်မျိုးဟု ခေါ်သည်။

မြန်မာနိုင်ငံ၌ မိုးရေချိန် လက်မ ၄၀ မှ ၈၀ အထိ ရွာသွန်းသော အရပ်ဒေသများရှိ ရွက်ပြတ် ရောနှောသော တောတို့၌ အုပ်မိုးပင်တို့သည် များသောအားဖြင့် လင်းလုပင်များ ဖြစ်ကြသည်။ ထိုတောမျိုးများရှိ အောက်ခံ သစ်ပင်ငယ်များနှင့် မိုးရေချိန် လက်မ ၈၀ ထက် ပိုမိုရွာသွန်းသောအရပ်ဒေသများရှိ အမြဲစိမ်း တောမျိုးတို့၌ ပေါက်ရောက်သည့် သစ်ပင်မျိုးတို့သည် လောင်းခိုပင်များဟု ယူဆနိုင်ပေသည်။

မြန်မာနိုင်ငံရှိ လင်းလုပင်များမှာ လက်ပံ၊ တမလန်း၊ စင်ပြွမ်း၊ အင်၊ အင်ကြင်း၊ သစ်ယာ၊ သစ်စေး၊ နံ့ပဲ၊ ပိတောက်၊ ရွှေး၊ ရှား၊ နှော၊ ကုက္ကို၊ သစ်မန်ကျည်း၊ ပုန်းမဲဇာ၊ စစ်၊ ရိုး၊ မျောက်ငို၊ စောင်းပလွေ၊ မအူကတိုး၊ ထောက်ကြံ့၊ ကျွန်း၊ ယမနေနှင့် ထင်းရှူးပင်များ ဖြစ်ကြသည်။

အထက်ပါ သစ်ပင်များသည် လင်းလုပင်များ ဖြစ်ကြသော်လည်း၊ ဓမ္မတာအလျောက် ငယ်ရွယ်စဉ်အခါ၌ သစ်ပင်ကြီး အနီးအနားတွင် ပေါက်ရောက်ကြရသဖြင့် ထိုအချိန်အခါတို့တွင် လောင်းရိပ်အနည်းငယ် လိုလားကြပေသည်။ သို့သော် ကြီးပွားသန်စွမ်းရန်အတွက် အလင်းရောင် လုံလောက်စွာ ရရှိမှသာလျှင် ဖြစ်ထွန်းနိုင်ပေသည်။

မြန်မာနိုင်ငံရှိ လောင်းခိုပင်မျိုးများမှာ

(၁) တောများရှိ အောက်ခံအပင်ငယ်များ။ မဏိသြဃ၊ သတီ၊ ကံ့ကော်၊ သပြု၊ သပြေ၊ မြတ်ရာနှင့် ရေမိန်။

(၂) ပျဉ်းကတိုးနှင့် ကြံ့ပင်များ။ (လောင်းရိပ်ကောင်းစွာ ခံနိုင်သော သစ်ပင်ကြီးများ ဖြစ်ကြသည်)။

(၃) အမြဲစိမ်းတောတို့၌ ပေါက်ရောက်ကြသော ကညင်၊ သင်္ကန်း၊ သစ်ခါးနှင့် သင်္ကန်းတူ (သင်္ကဒူး) ပင်များ။ (လောင်းရိပ်ခို၍ အသက်တဝက်မျှလောက် တဖြည်းဖြည်း ကြီးပွားလာကာ တောများ၏ အထက်ရွက်အုပ်သို့ ရောက်ရှိသည့်အခါ ရွက်အုပ်များကို ထိုးဖောက်၍ ထိုရွက်အုပ်များ အပေါ်မှ လင်းလုပင်များကဲ့သို့ အလျင်အမြန် ကြီးပွားတတ်သော သစ်ပင်များ ဖြစ်ကြသည်)။

လင်းလုပင်တို့၏ သဘော လက္ခဏာများမှာ အလင်းရောင်ရရှိသည့် ကွက်လပ်နေရာတို့၌ အပင်ကလေးများသည် လျင်မြန်စွာ ကြီးပွား၍ အသက်ကြီးရင့်သည့်အခါ ကြီးပွားခြင်း တဖြည်းဖြည်း ဆုတ်ယုတ်လာသည်။ များသောအားဖြင့် အရွက်ကြီး၍ အစာချက်ရာ၌ လျင်မြန်ခြင်း၊ နွေရာသီ၌ 'ချွေးထုတ်ခြင်း' ကို မခံရပ်နိုင်၍ အရွက်များ အခြားသစ်ပင်တို့ထက် ရှေးဦးကြွေကျခြင်းတို့ကို တွေ့ရ၏။ (ချွေးထုတ်ခြင်းဆိုသည်မှာ နေပူရှိန်ကြောင့် သစ်ရွက်များမှ ရေခိုး ရေငွေ့များထွက်ခွာခြင်းကို ဆိုလိုသည်။) ရွက်နုထွက်ရာ၌လည်း အခြားသစ်ပင်တို့ နောက်မှ ထွက်ခြင်း၊ ပင်စည် ကြီးပွားခြင်းနှင့် အမြစ်ကြီးပွားခြင်းတို့တွင် ရှေးဦးစွာ ပင်စည်ကြီးပွားခြင်းကို လုံ့လပြု၍ နောက်မှ အမြစ်တို့ တဖြည်းဖြည်း ကြီးပွားလာခြင်း၊ အမြစ်နှင့် ပင်စည်ရင်းတို့၌ အစာရေစာ သိုမှီးထားရှိ၍၊ အထက်ပိုင်းကို မီးလောင်ကျွမ်းသွားသော်လည်း ငုတ်ရင်းမှ ငုတ်တက်များ လျင်မြန်စွာထွက်နိုင်ခြင်း၊ အလင်းရောင်ရှိရာသို့ ကိုင်းညွတ်၍ ပေါက်ပွားခြင်းတို့ ဖြစ်၏။

လောင်းခိုပင်များ၏ သဘောလက္ခဏာများမှာ အခြား သစ်ပင်အောက်တို့၌ အလင်းရောင် အနည်းငယ်ဖြင့် ပေါက်ရောက်နိုင်ခြင်း၊ အပင်ငယ်များသည် တဖြည်းဖြည်း ကြီးပွား၍ နောက်မှ အကြီး မြန်ခြင်း၊ အစာချက်ရာ၌ နှောင့်နှေး၍၊ ချွေးထုတ်ခြင်း သက်သာရန် အလို့ငှာ အရွက်တို့၏ အပေါ်ရေ၌ ဖယောင်းဓာတ် များပြားခြင်း၊ အရွက်ကြွေရာတွင် နောက်ကျ၍ အချို့ရွက်နုများ လျင်မြန်စွာ ထွက်ပြီးလျှင် အချို့ သစ်ပင်များမှ အရွက်မပြတ်ဘဲ နေနိုင်ခြင်း၊ အမြစ်

ကြီးပွားခြင်းကို ရှေးဦးလုံ့လပြု၍ နောက်မှ ပင်စည်ကြီးပွားလေ့ ရှိခြင်း၊ ပင်စည်နှင့်အမြစ်များ၌ အစာရေစာ သိုမှီးထားခြင်း နည်းပါး၍၊ မီးဘေးစသည့် ဒဏ်တို့ကို မခံရပ်နိုင်ခြင်း၊ အလင်းရောင် ရှိရာသို့ မကိုင်းမညွတ်ဘဲ ဖြောင့်မတ်စွာပေါက်ရောက်နိုင်ခြင်းများ ဖြစ်ပေသည်။

သို့ရာတွင် အထက်ပါ သဘော လက္ခဏာများ အတိုင်း သစ်ပင်များ အားလုံးကို နှစ်မျိုး နှစ်စား ခွဲခြားထားရန် မလွယ်ကူလှပေ။ ကျွန်းစသော အချို့လင်းလုပင်များ၌မူကား သဘောလက္ခဏာ အလွန်ထင်ရှားသော်လည်း၊ မြန်မာနိုင်ငံရှိ အမြဲစိမ်းတောများ၌ ပေါက်ရောက်သော လောင်းခိုပင်မျိုးတို့၏ သဘောလက္ခဏာများမှာ ငယ်ရွယ်စဉ်အခါ၌ အသင့်အတင့် ပေါ်လွင်ပြောသော်လည်း ကြီးပြင်းလာသည့်အခါ လင်းလုပင်မျိုးကဲ့သို့ အမူအကျင့် ကွဲပြောင်း သွားတတ်ကြလေသည်။

## ၂။ ရာသီဥတု နှင့် သစ်ပင်လောက

သစ်ပင်များသည် မြေသြဇာ၊ ရာသီဥတုဟု ဆိုအပ်သော အပူ အအေး၊ မိုးရေချိန်တို့ကို လိုက်လျော၍၊ တမျိုးနှင့် တမျိုး ဆိုင်ပြိုင်ပေါက်ရောက်ကြရသဖြင့်၊ ဒေသတခုရှိ ထိုမြေသြဇာ၊ ရာသီဥတုတို့နှင့် အသင့်တော်ဆုံးသော သစ်ပင်မျိုးတို့သည်သာလျှင် တည်တံ့နိုင်၍၊ အခြား သစ်ပင်မျိုးများမှာ သေကြေ ပျက်စီးကြရပေသည်။

မြေသြဇာနှင့်ရာသီဥတုတို့ကိုလိုက်လျော၍ ပေါက်ရောက်သော မြန်မာနိုင်ငံရှိ တောများကို ဒီရေရောက်သော မြစ်ဝ ကျွန်းပေါ်များ၌ တွေ့ရသည့် ဒီရေတော၊ ပင်လယ်ကမ်းရိုးတလျှောက် သောင်ပြင်အစပ်မှစ၍ တွေ့နိုင်သည့် ပင်လယ်ကမ်းနား သောင်ပြင်နှင့် သဲခုံတော၊ မြစ်၊ ချောင်း၊ အင်း၊အိုင်နားရှိ ရေလွှမ်းမိုးသော မြေနိမ့်ရပ်များ၌ တွေ့ရသည့် ရွှံ့နွံတော၊ သို့မဟုတ် စိမ့်တော၊ မိုးရေချိန်လက်မ ၁၂၀ ကျော် ရွာသွန်း၍ အရိပ်အာဝါသ ကောင်းသော တောင်ကြားရှိ လျှိုများ၌ အစဉ် စိမ်းလန်းစိုပြည်လျက် တွေ့ရသော တောစို၊ သို့မဟုတ် အမြဲစိမ်းတော၊ ရေစီးရေလာ ကောင်းသည့် တောင်ပေါ် တောင်စောင်းများ၌ ပေါက်ရောက်သော အထက် ရွက်ပြက်ရော တောစိုနှင့် အထက် ရွက်ပြက်ရော တောခြောက်၊မြေပြန့်၌ အနှံ့အပြား တွေ့နိုင်သည့် သဲကြမ်းမြေ ထူထဲသော အင်တိုင်းတော၊ မြေလွှာသည် ကျောက်စရစ်များ ရောနေသည့် သဲကြမ်းမြေ ဖြစ်၍ အောက်ခြေ၌မူကား သဲနှင့် ရွှံ့စေးတို့သည် နွေအခါ၌ ပပ်ကြားအက်ကြောင်း မပေါ်နိုင်အောင် သွေ့ခြောက် ပြောင်လက်နေသော ကျောက်စရစ်နှင့် သဲကြမ်းပေါသော အင်တိုင်းတော၊ ဂဝံကျောက်တော၊ မြန်မာနိုင်ငံ အလယ်ပိုင်း သွေ့ခြောက်သော အရပ်များတွင် ရှိသည့် ဖွတ်ချေးထူမြေ၊ သို့မဟုတ် ဆားနယ်မြေတော၊ နဂါ၊ မဏိပူရ၊ ချင်းတွင်း၊ ရှမ်းပြည်နယ်နှင့် နယ်ခြားတောင်တန်းတွင် ရှိသည့် ထင်းရှူးတောဟူ၍ ခွဲခြားနိုင်သည်။ (မြန်မာနိုင်ငံ သစ်တောများ — လည်းရှု။)

## ၃။ မြေကြီး နှင့် သစ်ပင်လောက

သစ်ပင်များသည် ယင်းတို့၏ အင်္ဂါ အစိတ်အပိုင်းများ ကြီးပွား သန်စွမ်းရန် အလို့ငှာ လေမှ ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်၊ မြေကြီးမှ ရေနှင့် နိုက်တြိုဂျင်၊ ကန့်၊ ဖော့စဖောရပ်၊ ကယ်လဆီယမ်၊ ပိုတက်ဆီယမ်၊ မက်ဂနီဇီယမ်၊ ဆိုဒီယမ်၊ ကလိုရင်း၊ သံ၊ ဆီလီကွန်၊ မန်ဂနိ၊ အိုင်အိုဒင်း၊ ဗိုရွန်၊ သွပ်နှင့် ကြေးနီ စသော ဓာတ်သတ္တုများကို အလိုရှိပေသည်။ ယင်းတို့အနက် သံမှ ကြေးနီအထိ သတ္တုများကို မပြောပလောက်အောင် အနည်းငယ်မျှသာ အလိုရှိသော်လည်း၊ ယင်းတို့ကို မရရှိလျှင် သစ်ပင်များ အင်္ဂါချတ်ယွင်း၍ မကြီးပွားနိုင်ချေ။ ကျန်ဓာတ်သတ္တုများကိုမူကား ယင်းတို့ထက် ပိုမို၍ လိုအပ်ပေသည်။ အထူးသဖြင့် သီးပွင့်သည့် အချိန်အခါတို့၌ အလွန်အရေးကြီးပေသည်။ သာမန် မြေကြီးများသည် ထိုအလိုရှိအပ်သောသတ္တုများနှင့် ပြည့်စုံပေသည်။ သို့သော် သစ်ပင်များ၏ အသီးအရွက်တို့ကို လူများက ဆွတ်ခူးစားသုံးသောအခါ မြေသြဇာ ညံ့ဖျင်းလာတတ်သည်။ အချို့မြေတို့၌မူ အထက်ပါ ဓာတ်သတ္တုများ မပြည့်စုံ၍ သစ်ပင်များညံ့ဖျင်းသဖြင့် လိုအပ်သည့် မြေသြဇာများကို လူများက ဖြည့်စွက်ပေးရပေသည်။ လူသူမနီးသော တောကြီး တောင်ကြီးတို့၌မူကား မည်သူမျှအသီးအပွင့်အရွက်တို့ကိုမခူးဆွတ်ကြသဖြင့် ယင်းတို့ကြွေကျသည့်အခါ ယင်းတို့၌ပါရှိသည့် ဓာတ်သတ္တုများသည် မြေကြီးသို့ တဖန် ရောက်လာကြရပြန်၍ မြေကြီး၌ ထိုဓာတ်သတ္တုများ ကုန်ခန်းသည်ဟူ၍ မရှိပေ။

သစ်ပင်၏အမြစ်များသည် ကြွေကျလာကုန်သော သစ်ပွင့် သစ်သီး သစ်ရွက်များတို့ကို အစာအာဟာရ ချက်လုပ်ခြင်းငှာ အသုံးမပြုနိုင်ပေ။ ထိုအသီး အပွင့် အရွက်တို့ကို ပိုးမွှားတိရစ္ဆာန်တို့ ကိုက်ခဲ၍ အမှုန်အမွှားဖြစ်သွားပြီးနောက် ဗက်တီးရီးယားတို့၏ လက်ချက်ဖြင့် ဆွေးမြည့်ကာ လေ၌ပါရှိသည့် နိုက်တြိုဂျင် အောက်ဆီဂျင်တို့နှင့် ပေါင်းစပ်၍ အမြစ်များ ဆောင်ယူနိုင်သည့် ဓာတ်ပေါင်းများ ဖြစ်ပေါ် လာသည်။ အချို့ သစ်မြစ်များမှာ ယင်းတို့အတွင်း၌ ဗက်တီးရီးယားများ မှီခိုနေထိုင်၍ ယင်းတို့မှတဆင့် သစ်ရွက်ဆွေးများကို လွယ်ကူစွာ ဆောင်ယူနိုင်ပေသည်။ အချို့မှာမူကား မှိမှိထိပ်ဖျားများတို့၌ ဖန်းဂပ် (မှို) များ မှီခိုနေ၍ သစ်ရွက်ဆွေးများကို ယင်းတို့မှတဆင့် ဆောင်ယူနိုင်ကြပေသည်။ဤကဲ့သို့ ဗက်တီးရီးယားများနှင့် သစ်မြစ်များ၊ဖန်းဂပ်(မှို)များနှင့် သစ်မြစ်များ အချင်းချင်း ကျေးဇူးပြုပုံသည် အံ့သြဖွယ်ဖြစ်ပေသည်။

ဓာတ်သတ္တုများအပြင် မြေကြီး၏ ရုပ် အခြင်းအရာသည်လည်း သစ်ပင်များအတွက် အလွန် အရေးကြီးပေသည်။ မြေကြီးသည် မြေမှုန့်များ အပေါင်းအစပ် ဖြစ်၏။ ထိုမြေမှုန့်တို့ အကြား၌ လေဖြစ်စေ၊ ရေဖြစ်စေ သွားလာ နိုင်သည့် ကြားနေရာများ ရှိသည်။ မြေမှုန့်များ၏ အကြီးအငယ် ပုံသဏ္ဌာန်သို့ လိုက်၍ ကြားနေရာတို့သည်လည်း အကြီးအငယ် အစားစားရှိကြသည်။ ကြားနေရာ ကြီးက ရေလေတို့ ဝင်လွယ် ထွက်လွယ်၍ ရေကို ထိန်းသိမ်းခြင်း မရှိပေ။ ဥဒါဟရဏ်မှာ သဲမြေဖြစ်၏။ ကြားနေရာ ငယ်လွန်းက ရေဝင်ရောက်ရန် မလွယ်ကူချေ။ ရောက်ရှိကလည်း မထွက်နိုင်၍ ရေအပြည့်ရှိခြင်းကြောင့် လေ မဝင်ရောက်နိုင်ချေ။ ထိုအပြင်လည်း ရေဖြင့် ပွနေ၍ နေပူရှိန်ကြောင့် ရေများထွက်သွားသည့်အခါ မြေကြီးကွဲတတ်၏။ ဥဒါဟရဏ်မှာ ရွှံ့စေးမြေဖြစ်သည်။

အလယ် အလတ် ဖြစ်သော သဲနုံးမြေသည် သစ်ပင်များအတွက် အကောင်းဆုံးဖြစ်၏။ သစ်ပင်များသည် သင့်တော်သော ရေနှင့် လေကို အလိုရှိပေသည်။ လေကို မရနိုင်လျှင် အမြစ်များ အသက်မရှူနိုင်၍ သေကြေပျက်စီးရပေမည်။ ရေဝပ်သော နေရာများ၌ သစ်မြစ်များ လေမရရှိသည့်အပြင် ဗက်တီးရီးယားများလည်း မနေနိုင်သောကြောင့် ကြွေကျကုန်သော သစ်သီး သစ်ပွင့် သစ်ရွက် သစ်ကိုင်းတို့ မဆွေးမြည့်နိုင်ချေ။

## ၄။ သစ်ပင်လောက၏ ဘေးဥပဒ် အန္တရာယ်များ

သစ်ပင်များ၏ ဘေးဥပဒ် အန္တရာယ်ကို ဖြစ်စေတတ်သော အကြောင်းများကို အကြမ်းအားဖြင့် လေးမျိုး ခွဲခြားထားနိုင်ပေသည်။ ယင်းတို့ကား (၁) လူ၊ (၂) ပိုးမွှား၊ တိရစ္ဆာန်၊ (၃) ဖန်းဂပ် (မှို)နှင့် သစ်ပင်ချုန်နွယ်များ၊ (၄) မြေကြီးနှင့် ဥတု ရာသီတို့ ဖောက်ပြန်ရွှေ့လျောခြင်းများ ဖြစ်ပေသည်။

လူတို့သည် သစ်တောများရှိ သစ်ပင်များကို စည်းကမ်းမဲ့ ထုတ်ယူ သုံးစွဲခြင်း၊ လိုသည်ထက် ပိုမိုခုတ်ယူ ဖြုန်းတီးခြင်း၊ တောင်ယာ ခုတ်ထွင်ခြင်း၊ တောမီး ရှို့ခြင်း၊ ကျွဲ နွား မောင်းနှင်ခြင်း၊ ကျောင်းခြင်း စသော ပြုမူမှုတို့ကြောင့် သစ်တောများ တဖြည်းဖြည်း ပျက်စီးကြရပေသည်။ ယင်းတို့ကို ကာကွယ်ရန်အတွက် နိုင်ငံအစိုးရသည် သစ်တောဥပဒေများ ပြုလုပ်ထားရှိခြင်း၊ သစ် ထုတ်လုပ်ရန် စည်းကမ်းချက်များ ဖန်တီးပေးခြင်း၊ သစ်တောများရှိခြင်း၏ အကျိုးကျေးဇူးကို ပြည်သူပြည်သားတို့အား သွန်သင် ဟောကြားခြင်း စသော နည်းလမ်းများ ပြုလုပ်ထားရှိရပေသည်။

သစ်တောရှိ တောတိရစ္ဆာန်တို့သည် သစ်ရွက်၊သစ်ခေါက်၊ သစ်မြစ်၊ သစ်ပွင့်၊ သစ်သီး၊ အညွန့်အဖူး စသည်တို့ကို မှီဝဲစားသောက်၍ နေထိုင်ကြ၏။ ယင်းတို့တွင် အညွန့်အဖူး၊ အခေါက်၊ အမြစ်၊ အပွင့်၊ အသီးတို့ကို စားသောက် ဖျက်ဆီးကြကုန်သော ရှဉ့်၊ မျောက်၊ ဝက်၊ ယုန်၊ ဖြူ၊ ကြွက်၊ ပွေး စသည်တို့သည် အခြား တိရစ္ဆာန်များတို့ထက် သစ်ပင်များ၏ ဘေးဥပဒ် အန္တရာယ်ကို ဖြစ်စေတတ်သည်။

သစ်ပင်များကို ဖျက်ဆီးကုန်သော ပိုးတို့ကား အလွန်များပြားပေသည်။ အချို့မှာ အခေါက်၊ အခွံ၊ သစ်သားများကိုဖျက်ဆီး၏။ အချို့ကား အဖူးအညွန့်စသည်တို့ကို ဖျက်ဆီး၍ သစ်ပင်၏ ကြီးပွားခြင်းကို ရပ်တန့်စေ၏။ အချို့ကား မျိုးပွားမည့် အသီးအစေ့များတို့ကို ဖျက်ဆီးကြကုန်၏။ မြန်မာနိုင်ငံ၌ယင်းတို့၏ဒဏ်ချက်ဖြင့် တနှစ်လျှင်တန်ဖိုးသိန်းပေါင်း များစွာ နစ်နာဆုံးရှုံးရ၍ အလွန် အရေးကြီးသော ပိုးမျိုးမှာ ကျွန်းဖောက်ပိုးဖြစ်၏။ ထိုပိုးမျိုး ပျက်စီးနည်းပါးလာရန်အတွက် သုတေသနလုပ်ငန်းများ ဖွင့်လှစ်ထားရှိသည်။ အခြား အရေးကြီးသော အရာရောက်သော ပိုးမျိုးများမှာ ကျွန်းရွက်စားပိုးနှင့် ရွက်ချေးပိုး၊ သစ်ကတိုး ညွန့်ဖောက်ပိုးနှင့် ဝါးထိုးပိုးများ ဖြစ်ကြပေသည်။

ပိုးများကို ကာကွယ်ရန်အတွက် ယင်းတို့ကို အစာအဖြစ် မှီဝဲနေထိုင်၍၊ သစ်ပင်များအား အန္တရာယ်မပြုသော အခြားပိုးမျိုးများကို မွေးမြူ ပွားများစေခြင်း၊ သစ်တောက်ငှက် စသော ပိုးများကို စားသောက်သော အသုံးဝင်သည့် ငှက်မျိုးများ ပွားများလာအောင်ပြုလုပ်ပေးခြင်းနှင့် ပိုးကောင်များ သေကြေပျက်စီးတတ်သော ဆေးဝါးများ ဖြန်းကြဲခြင်းပင် ဖြစ်ပေသည်။ နောက်ဆုံး နည်းလမ်းကား ငွေအမြောက်အမြား ကုန်ကျသောကြောင့် မြန်မာနိုင်ငံ၌ ပြုလုပ်လေ့မရှိပေ။ သို့သော် ဥရောပတိုက်ရှိ တိုင်းပြည်များ၌မူကား စိုက်ခင်းများတို့၌ အမြဲပြုလုပ်လေ့ရှိပေသည်။ ထိုပြင်လည်း သစ်ပင်များ ကျွန်းမာသန်စွမ်းလျှင် ပိုးမွှားစသော အန္တရာယ်တို့ မလာရောက်နိုင်သဖြင့် သစ်ပင်များ ကျန်းမာစေရန် ပင်ကျပ် နုတ်ပေးခြင်း၊ လင်းဖွင့်ခြင်း စသည်တို့ကို ပြုလုပ်ပေးကြပေသည်။ စိုက်ခင်းများ၌ ကျွန်းတမျိုးတည်း မစိုက်ပျိုးဘဲ အခြား သစ်ပင်မျိုးတို့နှင့် ရောနှောစိုက်ပျိုးခြင်းသည် ပိုးမွှားတို့ဘေးမှ သက်သာရာ ဖြစ်စေသည်။

ဖန်းဂပ်(မှို) များ၏ အန္တရာယ်ကား ပိုးမွှားတို့ အန္တရာယ်ထက် ပိုမိုများပြား၏။ လူ၊ တိရစ္ဆာန်၊ ပိုးမွှားတို့ကြောင့် ဖြစ်သော အနာအဆာတို့တွင် ဖန်းဂပ်(မှို) များ ချက်ခြင်း ဝင်ရောက်၍ ယင်းတို့ ကြီးပွားမှုကြောင့် သစ်ပင်များ အင်အားဆုတ်ယုတ်၍ ပျက်စီးကြရပေသည်။ ဤနေရာ၌ သစ်ပင်များ၏ ကျန်းမာမှုသည် အလွန် အရေးကြီးပေသည်။ ကျန်းမာသန်စွမ်းသော သစ်ပင်များကို ဖန်းဂပ်(မှို) များ နိုင်နင်းစွာ မဖျက်ဆီးနိုင်ပေ။ ဖန်းဂပ် (မှို)ကြောင့် ဖြစ်သော ရောဂါသည် သစ်ပင်ကချက်လုပ်သောဆေးဝါးတို့ဖြင့် တဖြည်းဖြည်း ပပျောက်လာရပေမည်။ ထိုကြောင့် ဖန်းဂပ်(မှို) များကို

ကာကွယ်ရန် အတွက် သစ်ပင်များ၏ကျန်းမာရေးကို အထူး ဂရုစိုက်ရပေသည်။ ဆေးဝါး ဖြန်းကြဲခြင်းဖြင့်လည်း ဖန်းဂပ် (မှို) များ၏ အန္တရာယ်ကို ကာကွယ်နိုင်၏။ သို့သော် ငွေ အကုန်အကျ အလွန်များပြားပေသည်။

နွယ်၊ ကျီးပေါင်းနှင့် ညောင်ပင်တို့သည်လည်း သစ်ပင် များ၏ အန္တရာယ်များ ဖြစ်ချေသည်။ ယင်းတို့အတွက် ကြောင့် သစ်ပင်များ သေကြေ ပျက်စီးရခြင်းကို မျက်မြင် ဒိဋ္ဌ တွေ့ရှိကြရပေသည်။

### ၅။ သစ်တောများ ထူထောင်သည့်နည်းများ

လူတို့ မရောက်ရှိနိုင်သော သစ်တောများ၌ အချို့ သစ်ပင် တို့သည် အိုမင်း၍သော်၎င်း၊ မီး၊ လေ တို့ကြောင့်သော်၎င်း သေကြေ ပျက်စီးကြကုန်သည် ရှိသော် ယင်းတို့အောက်၌ ရှိသော အစေ့များမှ အပင်ထွက်၍ သော်၎င်း၊ လက်ရှိ အောက်ခံပင်ကလေးများ ကြီးပြင်း၍သော်၎င်း ထိုသေကြေ ကုန်သော သစ်ပင်ကြီးအစား ပြန်လည် ဖြစ်ထွန်းလာရပေ သည်။ ဤကဲ့သို့ သစ်ပင်များ အသစ်တဖန် ပေါက်ရောက် လာရခြင်းသည် အလွန် နှောင့်နှေးခြင်းကြောင့် လူတို့ အ စဉ်မပြတ် ခုတ်ယူ သုံးစွဲ၍ ကုန်ခန်းသော သစ်ပင်များကို အစားထိုးရန် မလွယ်ကူပေ။ ထိုကြောင့် သစ်တောများ တဖန် ပြန်လည် ဖြစ်ထွန်းရန် နည်းကောင်းများကို ရှာကြံ ကြရပေသည်။

သစ်တောများ မျိုးဆက် ထူထောင်ရန်အတွက် နည်းနှစ် မျိုးရှိသည်။ ယင်းတို့ကား (၁) ဓမ္မတာမျိုးဆက် ထူထောင် နည်းနှင့် (၂) ပဝတ္တိမျိုးဆက် ထူထောင်နည်းတို့ပေတည်း။

ဓမ္မတာ သဘာဝအလျောက် ကြွေကျလျက် ရှိကြသော မျိုးစေ့များ၊ ငုတ်တက်များ၊ အမြစ်များမှ သစ်ပင်များ တ ဖန် ဖြစ်ပွားလာရန် ပြုပြင်ပေးနည်းကို ဓမ္မတာမျိုးဆက် ထူ ထောင်နည်းဟုခေါ်သည်။ အစေ့များကို ကောက်ယူ၍ တ ဖန် ကြဲဖြန့် စိုက်ပျိုး၍သော်၎င်း၊ အပင်ငယ်များနှင့် ငုတ် တက်များတို့ကို စိုက်ပျိုး၍သော်၎င်း ပြုပြင်ပေးနည်းကို ပဝတ္တိမျိုးဆက် ထူထောင်နည်းဟု ခေါ်သည်။

ဓမ္မတာ မျိုးဆက် ထူထောင်နည်းကို တဖန် (၁) အ ပြောင်ခုတ်လှဲ၍ ထူထောင်နည်း၊ (၂) လောင်းရိပ်ခံ၍ ထူ ထောင်နည်း ဟူ၍ နှစ်မျိုးနှစ်စား ခွဲခြားထားပေသည်။

ပဌမနည်းအရ သစ်တောကို အပြောင် ခုတ်လှဲ၍ ထိုနေ ရာမြေပေါ်ရှိ သစ်စေ့များမှသော်၎င်း၊ အနီးအနားရှိ သစ်ပင် များမှ လေဖြင့် လွင့်ပါလာသော သစ်စေ့များမှသော်၎င်း အပင်ကလေးများ ပေါက်ရောက်၍ တဖြည်းဖြည်း ကြီးပွား ဖြစ်ထွန်းလာစေခြင်း ဖြစ်ပေသည်။ ဤနည်းအတိုင်း ပြု လုပ်လေ့ မရှိကြပေ။ ပြုလုပ်ကလည်း တောများကို မြောင်း တန်းကျဉ်းများ ခုတ်ထွင်၍ ပြုလုပ်ကြပေသည်။ ဤနည်း သည် လင်းလုပင်များအတွက်သာ သင့်လျော်ပေသည်။ များသောအားဖြင့် သစ်ပင်ကလေးများ မပေါက်ရောက်နိုင် လျှင် သစ်စေ့ကြဲခြင်း၊ အပင်ငယ် ပျိုးစိုက်ခြင်း၊ မြေကြီးကို ထွန်ယက်ပေးခြင်း စသော ကိစ္စအရပ်ရပ်ကို ပြုလုပ်ပေးကြရ ပေသည်။

ဒုတိယ နည်းအရ သစ်တောကို ခုတ်ယူရာ၌ အပြောင် မခုတ်ဘဲ မျိုးပင်များ ချန်လုပ်ထား၍ ထိုမျိုးပင်များ၏သစ် စေ့မှ ထွက်လာသော သစ်ပင်ငယ်တို့သည် မျိုးပင်များ၏ လောင်းရိပ်ကို မှီခို၍ ကြီးပြင်းလာကြပေသည်။ ထိုသစ်ပင် ငယ်များ ကြီးပွားလာကြသည့်အခါ အထက်ရှိ မျိုးပင်များ ကို တဖြည်းဖြည်း ခုတ်၍ လင်းဖွင့်ပေးရပေသည်။ ဤနည်း နှင့်တူစွာ ဥရောပတိုက်ရှိ တိုင်းနိုင်ငံများတို့၌ ပြုလေ့ရှိသော နည်းသစ် အမျိုးမျိုး ရှိပေသည်။

ရွေးချယ်ခုတ်ယူ တည်ထောင်နည်းသည်လည်း အထက်ပါ ဒုတိယနည်းအထဲတွင် ပါရှိပေသည်။ ထိုနည်းအရ သစ်တော တခုလုံးကို လိုက်လံရှာဖွေ၍ သစ်ပင်များ မျိုးဆက်ပေါက် ပွားခြင်းကို အဓိက ရည်ရွယ်ချက်ထားပြီးလျှင် သင့်တော် လျောက်ပတ်သော သစ်ပင်များကို ခုတ်ယူရန် သစ်တော ပညာ၌ လိမ်မာကျွမ်းကျင်သော အရာရှိများသည် မှတ်သား ပေးရပေသည်။ မြန်မာနိုင်ငံ၌ ဤနည်းအရ ရိုးမတောင် များရှိ ကျွန်းတောများကို တည်ထောင် ပြုပြင်ပေသည်။ သို့ သော်လည်း တတောလုံးကို မလှည့်လည်နိုင်၍ တောများ ကို သစ်တောအုပ်ချုပ်နည်းများအရ အကွက်ငယ်ကလေး များ ပိုင်းစိတ် ထားရှိပေသည်။ တနှစ်အတွင်း ခုတ်လုပ်ရန် အကွက်ငယ်ကလေးများ၏ အရေအတွက်ကို သတ်မှတ်ပေး ထားသည်။ ထိုအပြင်လည်း သစ်ပင်များကို ခုတ်ယူရန် မှတ် သားရာ၌ သစ်စေ့များမှ အပင်ကလေးများပေါက်ရောက်ရန် နှင့် သစ်ပင်ငယ်များကို ကူညီပေးခြင်းများကို မပြုလုပ်ပေ။ အဘယ်ကြောင့် ဆိုသော် ဤကဲ့သို့ပြုလုပ်ပေးလျှင် ထိုနေရာ များသို့ တနှစ်တကြိမ်သော်၎င်း၊ အနည်းဆုံး သုံးနှစ်တကြိမ် သော်၎င်း တဖန် ထိုလုပ်ငန်းများကို ပြုလုပ်ရန် လာရောက် ရပေမည်။ ထိုကဲ့သို့ မရောက်ရှိနိုင်လျှင် မိမိတို့ ကူညီ ထောက်ပံ့ခဲ့သော သစ်ပင်ငယ်များကို အခြား အကြီး မြန် သော သစ်ပင်ရိုင်းများနှင့် ပေါင်းပင်များက ဖိနှိပ် အုပ်မိုး ဖွယ်ရာ ရှိပေသည်။ မြန်မာနိုင်ငံ၌ သစ်တောများ ကျယ်ဝန်း ၍ လူအင်အား မများသောကြောင့် ဤကဲ့သို့ အကြိမ်ကြိမ် အလီလီ မပြုလုပ်ကြပေ။ ထိုအပြင်လည်း မြန်မာနိုင်ငံရှိ သစ်တောများသည် ဥရောပတိုက်ရှိ သစ်တောများနှင့် မတူ ညီဘဲ အသုံးမဝင်သည့် သစ်ပင်ရိုင်းများ အလွန်ပေါများ လျက် ရှိပေသည်။

ပဝတ္တိမျိုးဆက် ထူထောင်နည်းအရ ပြုလုပ်လေ့ ရှိသော နည်းများမှာ —

(၁) မျိုးစေ့များကို တကွက်လုံး၌ သော်၎င်း၊ မြောင်းတန်းကျဉ်းများ အလိုက်သော်၎င်း၊ ပန္နက်တွင် သော်၎င်း ဖြန့်ကြဲ၍ စိုက်ပျိုးခြင်း။

(၂) ပျိုးခင်း၌ စိုက်ပျိုးပြီးလျှင် သစ်ပင်ငယ်များကို တဆင့် နုတ်ယူ၍ တော၌ တဖန် စိုက်ပျိုးခြင်းတို့ ဖြစ်ကြသည်။

မြန်မာနိုင်ငံ၌ တောင်ယာ သမားတို့၏ အကူအညီဖြင့် ကျွန်းပျိုးခင်းများ ပြုလုပ်၍ ကျွန်းပင်ငယ်များအစား ကျွန်းငုတ်တက်ငယ်များကို တောင်ယာသမားများ၏ အသီးအနှံများနှင့် ရောနှောစိုက်ပျိုးရာ၌ ငွေအကုန်အကျ အလွန်သက်သာသဖြင့် သစ်တောအရာရှိတိုင်း အလွန် စိတ်ဝင်စား၍ ကြီးကြီး ကျယ်ကျယ် လုပ်ငန်းများ ပျိုးထောင်ရန် ရည်ရွယ်ငြားသော်လည်း ၁၉၂၈–၂၉ ခုနှစ် တို့မှစ၍ ကမ္ဘာ့သစ်စျေးများ နိမ့်ကျလာသည်တကြောင်း၊ ထိုအပြင် ဤကဲ့သို့ စိုက်ပျိုး၍ဖြစ်မြောက်သော ကျွန်းခင်းများသည် ဓမ္မတာ သဘာဝ မကျဘဲ ပင်ခြေကျဉ်း၍ မြေကြီးများ ရေစားခြင်း၊ ကျွန်းဖောက်ပိုးများ ပွားများလာခြင်း စသော အန္တရာယ် မျိုးတို့ကြောင့် တကြောင်း ၁၉၃၅ ခုနှစ်တွင် အထက်ပါ တောင်ယာဖြင့် ကျွန်းခင်း ထူထောင်နည်းတို့ကို ပြည်တွင်းသုံးရန်မှ တပါး နိုင်ငံခြားသို့ တင်ပို့ရောင်းချရန် အလို့ငှာ မစိုက်ပျိုးတော့ချေ။ ပြည်တွင်းသုံးရန် အတွက် စိုက်ပျိုးခြင်းများကိုလည်း ယခုအခါ တိုင်းပြည်ဆူပူမှုနှင့် ကြေးငွေကျပ်တည်းမှုတို့ကြောင့် ရပ်စဲထားရပေသည်။

အမြဲတစေကျွန်းတောများ မျိုးဆက် ထူထောင်နိုင်သော နည်းတမျိုးကို အထူးလိုအပ်သည်။ မြန်မာနိုင်ငံရှိတောများ၌ အသုံးမဝင်သည့်သစ်ပင်များ၏ နှောင့်ရှက်မှုများကြောင့် အသုံးဝင်သည့် သစ်ပင်များမျိုး ဆက်ဖြစ်ထွန်းနိုင်ရန် အခက်အခဲများစွာတို့နှင့် တွေ့ကြုံကြရသည်။ ထိုနည်းမျိုးတမျိုး အောင်မြင်စွာရရှိရန်အတွက် သစ်တောပြုစုပျိုးထောင်သည့် သုတေသနလုပ်ငန်းတခုကို ဖွင့်လှစ်ထားရှိရပေသည်။

သစ်တောလုပ်ငန်းများ စံနစ်တကျ ကောင်းစွာ ဖြစ်ထွန်းလာရန်အတွက် သင်ကြားရသော ပညာမှာ သစ်တောအုပ်ချုပ်ခြင်းပညာ ဖြစ်ပေသည်။ ထိုအပြင်လည်း သစ်များကို အသုံးချသည့် ပညာ၊ သစ်သားများ အလျင်အမြန် အသား သေစေနိုင်သည့်ပညာ စသော ပညာ အရပ်ရပ်များလည်း ရှိပေသေးသည်။ **ဦးစောထွန်းအောင်**

**မြန်မာနိုင်ငံ သတ္တုတွင်းများ။** ။ပြည်ထောင်စုမြန်မာနိုင်ငံ အနှံ့အပြားတွင် သဘာဝ သတ္တုရတနာမျိုးစုံ ကြွယ်ဝသည့် အလျောက်၊ သတ္တုရှာဖွေ တူးဖော်သော လုပ်ကွက်ပေါင်း မြောက်မြားစွာ ရှိလေသည်။ သတ္တု ရတနာ တူးဖော်လုပ်ကိုင်ရောင်းဝယ်သော ဓလေ့သည် ရှေးမြန်မာဘုရင်များလက်ထက်ကပင် ထွန်းကားလာခဲ့လေသည်။ သို့သော်လည်း မြန်မာ့မြေတွင် သတ္တုရတနာ မည်မျှလောက် ကြွယ်ဝသည်ကို သေချာစွာ ရှာဖွေ စူးစမ်းခြင်း မပြုရသေးပေ။ သတ္တုတွင်း တူးသည့်လုပ်ငန်းမှာ တူးဖော်မည့် မြေနေရာကွက်တွင် သဘာဝ သတ္တုရတနာ မည်မျှရှိမည်ကို သေချာစွာ စူးစမ်းတိုင်းထွာ၍ ခန့်မှန်းချေ သိရှိပြီးမှသာလျှင် သတ္တု တူးဖော်မှုကို စံနစ်တကျ စီမံ ဆောင်ရွက်ရသည်ဖြစ်ရကား၊ ပြည်ထောင်စု မြန်မာနိုင်ငံတွင် ယနေ့အထိ စံနစ်တကျ တူးဖော်သော သတ္တုတွင်း အနည်းငယ်သာ ရှိသေးသည်။ သို့သော် မိရိုးဖလာ နည်းအတိုင်း စက်ကရိယာကို အသုံးမပြုဘဲ၊ ပေါက်ပြား၊ ပေါက်ချွန်း၊ တူးရွင်း၊ ယင်းခွက် စသည်တို့ဖြင့် သတ္တု ရှာဖွေ တူးဖော်လုပ်ကိုင်သော လုပ်ကွက်ပေါင်း အတော်များများပင် ရှိလေသည်။



နမ္မတူဘော်တွင်း ရှုခင်း တစိတ်တဒေသ

ကမ္ဘာပေါ်တွင် အထင်ကရ ကျော်ကြားနေသော ပြည်ထောင်စု မြန်မာနိုင်ငံရှိ သတ္တုတွင်းများမှာ ဘော်တွင်း၊ ဟိန္ဒား၊ မော်ချီး၊ ကံပေါက်၊ ရတနာပုံ၊ တောင်သုံးလုံး၊ ဟာမြင်းကြီး၊ ကလေးဝ၊ မိုးကုတ် ပတ္တမြားတွင်းများနှင့် ကချင်ပြည်နယ် ကျောက်စိမ်းတွင်းများပင် ဖြစ်သည်။

**ဘော်တွင်း။** ။ဘော်တွင်းတွင် အသားကောင်းသော ငွေ၊ ခဲ၊ သွပ်နှင့် ကြေးနီထွက်သည်။ ၁၅ ရာစုခေတ်တွင် တရုပ်

များ စတင် တူးဖော်၍ ထိုလုပ်ငန်းအတွက် မြန်မာဘုရင်များအား အခွန်အနည်းငယ် ဆက်ခဲ့ကြသည်။ တရုပ်တို့သည် သဘာဝ သတ္တုကို တူးဖော် ကျိုချက်၍ ရွှေအနည်းငယ် ပါသော ငွေကိုသာ ယူပြီးလျှင် ကျန်သတ္တုများပါသော ချော်တုံးများကို စွန့်ပစ်ခဲ့ကြသည်။

နှစ်ဆယ်ရာစုခေတ်ဦးတွင်ထိုချော်တုံးများကိုအင်္ဂလိပ်များ တွေ့ရှိ၍ ခဲ၊ သွပ်နှင့် ကြေးနီများကို ကျိုချက် ခွဲထုတ် ရောင်းချကာ၊ ရသောငွေကို အရင်း မ တည်၍ စံနစ်တကျ ဆက်လက် တူးဖော်ကြသည်။ ၁၉၅၁ ခုနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရက ထိုအင်္ဂလိပ်ကုမ္ပဏီနှင့် ဖက်စပ်လုပ်ကိုင်ခဲ့၍ ၁၉၆၅ ခုနှစ် ဇန္နဝါရီလ ၁၀ ရက်နေ့တွင် ပြည်သူပိုင်အဖြစ် လွှဲပြောင်းယူခဲ့သည်။ ဘော်တွင်းသည် ရှမ်းပြည်နယ်၊ ကျောက်မဲ ခရိုင်တွင် ရှိသည်။ ဘော်တွင်းသို့ သွားရန် ခရီးစဉ်မှာ လားရှိုးမြို့မှ ဖြစ်စေ၊ သီပေါမြို့မှ ဖြစ်စေ မော်တော်ကားဖြင့် သွားသော် နမ္မတူမြို့သို့ ရောက်သည်။ (နမ္မတူမြို့တွင် ဘော်တွင်းမှထွက်သော သဘာဝသတ္တုများကို ကျိုချက် ခွဲထုတ်သော စက်ရုံကြီးများနှင့် ကုမ္ပဏီ၏ရုံး ရှိသည်။) နမ္မတူမြို့မှ ကုမ္ပဏီမီးရထားဖြင့် သွားသော် ကျားစခန်းကို လွန်ပြီး ဘော်တွင်းသို့ ရောက်သည်။ သတ္တုတွင်းကြီးထဲသို့ ဝင်ရန် လိုဏ်ဂူများစွာ ရှိသည်။ သို့သော်လည်း အရေးကြီးသော အပေါက်များမှာ 'မားမယွန်းရှပ်' ခေါ် စိုက်တွင်းကြီးနှင့် 'ကျားစခန်းလိုဏ်ဂူ' တို့ပင် ဖြစ်သည်။ မားမယွန်းရှပ်သည် အချင်း ၁၄ ပေ၊ အနက် ၁၄၅၀ ပေ ရှိသော စိုက်တွင်းဝိုင်းကြီး ဖြစ်သည်။ မားမယွန်းရှပ်ထဲရှိ ဓာတ်လှေကား သုံးခုဖြင့် မြေအောက် သတ္တုတူးသမားများ၊ ပစ္စည်းကရိယာများနှင့် သဘာဝ သတ္တုများကို လုပ်ငန်း အထပ် ၁၂ ထပ်တွင် အတင်အချပြုသည်။ လုပ်ငန်းအထပ်များသည် နိမ့် မြင့်ပေ ၁၀၀ ခန့်စီ ပို၍ နက်ဆင်းသွားကြသည်။ မားမယွန်းရှပ်မှတပါး မြေအောက်လှေကားများမှလည်း တထပ်မှ တထပ်သို့ ဆက်သွယ် သွားလာနိုင်ပေသည်။ အထပ်တိုင်းတွင် လုပ်ကွက်ပေါင်း မြောက်မြားစွာ ရှိသည်။ လုပ်ကွက်တကွက်လျှင် မြေအောက် သတ္တုတူးသမား ငါးယောက်ခန့် လုပ်ကိုင်ကြသည်။ အထပ်ထပ်မှ တူးဖော်ပြီးသော သဘာဝသတ္တုများကို အမှတ် ၆ အထပ်သို့ ပြောင်းရွှေ့ သယ်ဆောင်၍ မြေအောက် ဓာတ်ရထားများဖြင့် သယ်ယူကာ ကျားစခန်းလိုဏ်ဂူမှ ထုတ်ယူရသည်။ ကျားစခန်းရှိ သတ္တုသိုလှောင်အိမ်ကြီးများမှတဆင့် မီးရထားဖြင့် နမ္မတူမြို့ရှိ စက်ရုံကြီးသို့ တင်ပို့ရသည်။ ဘော်တွင်းတွင် မြေအောက်သတ္တုတူးသမား ၃၀၀၀ ခန့်သည် ရှစ်နာရီစီ အသုတ် သုံးသုတ်ခွဲ၍ ၂၄



မိုင်းတွင်းဆင်းရန် တည်ဆောက်ထားသည့် မားမယွန်းရှပ်ခေါ် ဓာတ်လှေကား



နမ္မတူနှင့် သုံးမိုင်ကွာတွင် တည်ရှိသည့် ကျားစခန်း (၆) မှ သတ္တုရိုင်းများကို သယ်ယူ ထုတ်ဆောင်ရာ သံလမ်း

နာရီ ပတ်လုံး လုပ်ငန်း ဆောင်ရွက်ရသည်။ မြေအောက်လုပ်ခွင်တွင် အလင်းရောင်ရစေရန်၊ မြေအောက် သတ္တုတူးသမားတိုင်း ကာဗိုက်မီးခွက်တခုစီကို ကိုင်ဆောင် ရသည်။ လေစုပ်ပန်ကာ လေးလုံးဖြင့် မြေအောက် သတ္တုတူးသမားများအား သန့်စင်သောလေကို ပေးရသည်။ ဘော်တွင်းသည် ပြည်ထောင်စု မြန်မာနိုင်ငံတွင် အကြီးဆုံးသော မြေအောက် သတ္တုတွင်း ဖြစ်သည်။ (ဘော်တွင်း — လည်းရှု။)

**ဟိန္ဒားး။** ။ဟိန္ဒားတွင် အလွန် အသားကောင်းသော ခဲမဖြူ ထွက်သည်။ အလောင်း မင်းတရား လက်ထက် မတိုင်မီကပင် ကရင်များသည် ဤဒေသတွင် သတ္တု တူးဖော်ခဲ့



**အထပ်ထပ်မှ တူးပြီးသော သတ္တုများကို ဤအထပ်သို့ ပြောင်းရွှေ့၍ မြေအောက် ဓာတ်ရထားဖြင့် ကျားစခန်းလိုဏ်ဂူမှ ထုတ်ယူရသည်။**

သည်။ ၁၈၂၆ ခုနှစ်တွင် အင်္ဂလိပ်ဘားမားတင်း မိုင်းကုမ္ပဏီအဖြစ် တူးဖော်ခဲ့ရာမှ ၁၉၅၅ ခုနှစ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရသည် ထိုအင်္ဂလိပ်ကုမ္ပဏီနှင့် ဖက်စပ်၍ လုပ်ငန်းဆောင်ရွက်သည်။ ၁၉၆၃ ခုနှစ်တွင် ပြည်သူပိုင်အဖြစ် လွှဲပြောင်းယူခဲ့သည်။ ဟိန္ဒားတွင်းသည် ထားဝယ်ခရိုင်တွင်ရှိပြီးလျှင် ထားဝယ်မြို့မှ မော်တော်ကားဖြင့် သွားနိုင်သည်။ သတ္တုတူးပုံမှာ တောင်ထိပ်နှင့် တောင်စောင်းကို ဖိနှိပ်အားပြင်းသော ရေပန်းကြီးများဖြင့်ရင်း၊ မြေတွန်းယာဉ်ကြီးများဖြင့်ရင်း ဖြိုချတိုက်ဖျက်၍၊ ယင်းမြောင်းများတွင် သတ္တု 'ဖမ်း'ရသည်။ ဟိန္ဒားကွင် သတ္တုတူးသမား ၄၀၀ မှ ၆၀၀ ခန့်သည် ရှစ်နာရီစီ အသုတ် သုံးသုတ်ခွဲ၍ ၂၄ နာရီပတ်လုံး မြေပေါ် လုပ်ငန်း ဆောင်ရွက်ရသည်။ ဤသတ္တုတွင်းသည် ပြည်ထောင်စု မြန်မာ နိုင်ငံတွင် အဖိုးတန်ဆုံးသော ခဲမဖြူ သတ္တုတွင်းပင် ဖြစ်သည်။

**မော်ချီ။** ။မော်ချီတွင်းတွင် အဖြိုက်နက်နှင့် ခဲမဖြူ ရောနှော၍ ထွက်သည်။ ၁၅ ရာစုခေတ်မှ စ၍ ဤဒေသတွင် ကယားများ စတင် လုပ်ကိုင်ခဲ့သည်။ ၂၀ ရာစု ခေတ်ဦးတွင် အင်္ဂလိပ်များ စံနစ်တကျ စတင် တူးဖော်ကြသည်။ ၁၉၅၇ ခုနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရက ထို အင်္ဂလိပ် ကုမ္ပဏီနှင့် ဖက်စပ်၍ လုပ်ငန်းဆောင်ရွက်သည်။ မော်ချီသည် ကယားပြည်နယ် လွိုင်ကော်ခရိုင်တွင်ရှိပြီးလျှင် တောင်ငူမြို့မှဖြစ်စေ၊ လွိုင်ကော်မြို့မှဖြစ်စေ မော်တော်ကားဖြင့် သွားနိုင်သည်။ သတ္တု တူးဖော်ပုံမှာ စောင်းနက်သော တောင်ကြီးများကို လုပ်ငန်း အထပ် ငါးထပ်ဖောက်၍ တူးဖော်ရသည်။ တူးဖော်ပြီးသော သတ္တုများကို တောင်ပေါ်မှ တောင်ခြေသို့ ကောင်းကင်ကြိုးတန်းဖြင့်ပို့ချရသည်။ တောင်ခြေတွင် သတ္တု သန့်စင်စေသည့် စက်ရုံရှိသည်။ မော်ချီတွင် မြေအောက် သတ္တုတူးသမား ၆၀၀ ခန့်သည် ရှစ်နာရီကြာသောအသုတ် သုံးသုတ် ခွဲ၍ ၂၄ နာရီပတ်လုံး သတ္တုတူးရသည်။ မော်ချီတွင်းသည် အင်္ဂလိပ်လက်ထက်က ပြည်ထောင်စု မြန်မာနိုင်ငံတွင် အဖြိုက်နက်သတ္တု အများဆုံး ထွက်သော သတ္တုတွင်း ဖြစ်သည်။ (မော်ချီမြို့ — လည်းရှု။)

**ကံပေါက်။** ။ကံပေါက်တွင်းတွင် အဖြိုက်နက်နှင့် ခဲမဖြူရောနှော၍ ထွက်သည်။ ကံပေါက်တွင်းကို ၁၉၁၀ ပြည့်နှစ်တွင် အင်္ဂလိပ်များ စံနစ်တကျ စတင်တူးဖော်သည်။ ထိုနောက် ၁၉၅၅ ခုနှစ်တွင် မြန်မာ တိုင်းရင်းသားများ အုပ်ချုပ် လုပ်ကိုင်သည်။ ကံပေါက်တွင်းသည် ထားဝယ်ခရိုင်တွင် တည်ရှိ၍ ထားဝယ်မြို့မှ ဖြစ်စေ၊ ရေးမြို့မှ ဖြစ်စေ မော်တော်ကား



နမ့်တူဘော်တွင်း ကျားစခန်းရှိ သတ္တု သယ်ဆောင်ထည့် ခရုပတ်ကွေ့ မီးရထား

ဖြင့် သွားနိုင်သည်။ ကံပေါက်တွင်းတွင် အသုံးပြုသော သတ္တုတူးဖော်နည်းများမှာ မြေပေါ်လုပ်ငန်း၊ မြေပြန့် လုပ်ငန်းနှင့် မြေအောက်လုပ်ငန်းများဖြစ်သည်။ မိုးရာသီတွင် တောင်ထိပ် တောင်စောင်းနှင့် မြေပြန့်များတွင် ဖိနှိပ်အား ပြင်းသော ရေပန်းကြီးများဖြင့် ဖြိုချ တူးဖော်ပြီးလျှင် ယင်းမြောင်းများထဲတွင် သတ္တု 'ဖမ်း' ရသည်။ နွေရာသီတွင် တောင်စောင်း၌ ဆောက်ဖြင့် လိုဏ်ဂူများ တူးဖောက်၍ သတ္တု ရှာဖွေရသည်။ သတ္တုကြောကို တွေ့သောအခါ ယမ်းဘီလူးများဖြင့် ဖောက်ခွဲ တူးဖော်ရသည်။ ကံပေါက်တွင်းတွင် သတ္တုတူးသမား ၃၀၀ မှ ၆၀၀ ထိ လုပ်ကိုင်ကြသည်။ 'ဖမ်း' ရာမှ စွန့်ပစ်လိုက်သော ရေနောက်ထဲရှိ သတ္တုမှုန်ခဲကလေးများကို ရွာသူ ရွာသားများက ယင်းခွက်ဖြင့် ကျင်ယူကြသည်။

**ရတနာပုံ။** ။ရတနာပုံ တွင်းတွင် ခဲမဖြူနှင့် အဖြိုက်နက် ရောနှော၍ ထွက်သည်။ ဤတွင်းကို ၁၉၄၅ ခုနှစ်ခန့်တွင် စတင် တူးဖော်သည်။ ၁၉၅၃ ခုနှစ်မှစ၍ မာတ်သတ္တုပင်ရင်း အခြေအမြစ်များ တိုးတက်အောင် ဆောင်ရွက်ရေး ကော်ပိုရေးရှင်းက ဦးစီး လုပ်ကိုင်သည်။ ဤတွင်းသည် မြိတ်ခရိုင်၊ တောတောင် ထူထပ်၍ လမ်းပန်း ခက်ခဲသော ဒေသတွင် တည်ရှိသည်။ ဤတွင်းသို့ သွားရန် ခရီးစဉ်မှာ မြိတ်မြို့မှ ပြည်ကြီးမဏ္ဍိုင်စခန်းသို့ စက်လှေဖြင့် သွား၍၊ ထိုမှတဖန် သတ္တုတွင်းသို့ မော်တော်ကားဖြင့် သွားရသည်။ သတ္တုတူးဖော်ပုံမှာ စောင်းနက်သော တောင်ကြီးများကို ဖိနှိပ်အားပြင်းသော ရေပန်းကြီးများဖြင့် ဖြိုချ တူးဖော်ပြီးလျှင် ယင်းမြောင်းများထဲတွင် သတ္တု 'ဖမ်း' ရသည်။ သတ္တုတွင်း တူးသမား ၃၀၀ ခန့် အလုပ် လုပ်ကိုင်ကြသည်။

**တောင်သုံးလုံး။** ။တောင်သုံးလုံးတွင်းမှ ခဲမဖြူ ထွက်သည်။ ဤဒေသတွင် ရှေးအခါကပင် မြန်မာများ လုပ်ကိုင်ခဲ့ကြပြီးလျှင် ၁၉၁၁ ခုနှစ်မှစ၍ အင်္ဂလိပ် ကုမ္ပဏီ တခုက 'ခဲခုပ်သင်္ဘော' ဖြင့် သတ္တုတူးဖော်သည်။ တောင်သုံးလုံးတွင်းကို ထားဝယ်မြို့မှ မော်တော်ကားဖြင့် သွားနိုင်သည်။ သတ္တု တူးဖော်ပုံမှာ တောင်သုံးလုံးရွာအနီး ဟင်ဒုချောင်းထဲတွင် ခဲသင်္ဘောကြီးကိုတည်ထား၍ ချောင်းရိုးတလျှောက်ရှိ ခဲမဖြူ ပါသော မြေကြီးများကို ခဲသင်္ဘောကြီးတွင် တပ်ဆင်ထားသော သံခွက်ကြီးများဖြင့် စံနစ်တကျ စုန်ချည်ဆန်ချည် ခပ်ဖွဲ့ တင်ဆောင်၍၊ ခဲသင်္ဘောကြီးပေါ်တွင်ပင် စံနစ်တကျ သတ္တု 'ဖမ်း'လေသည်။ ၁၉၆၄ ခုနှစ်တွင် ပြည်သူပိုင်ပြုလုပ်ပြီးနောက် ကျောက်မဲတောင် သတ္တုတွင်း စီမံကိန်းအဖြစ် ဆက်လက် လုပ်ကိုင်လျက်ရှိသည်။

**ဟာမြင်းကြီး။** ။ဟာမြင်းကြီးတွင်းတွင် အဖြိုက်နက်နှင့် ခဲ



နမ္မတူ ဘော်ချက်စက်ရုံ၏ ရှုခင်းပုံဖြစ်သည်။ စက်ရုံမှ ထုတ်သော ခဲအဆိပ်ငွေ့များကို မရှူမိကြစေရန် ခဲအငွေ့ထုတ်ခေါင်းတိုင်ကို တောင်ပေါ်၌ သီးခြား တည်ဆောက်ထားရသည်။



ထားဝယ်ခရိုင်၊ ဟိန္ဒားသတ္တုတွင်းတွင် သတ္တုစစ်ယူရန် မြေများကို မော်နီတာရေပန်းဖြင့် ဖြိုချစဉ်



ခဲမဖြူနှင့် ဝုလဖရမ် သတ္တုများ တူးဖော်နေစဉ်



ဖြိုချပြီးနောက် စက်၍ စုပ်ယူနေပုံ

မဖြူရေနှော၍ ထွက်သည်။ ဤသတ္တုတွင်းသည် တကြိမ်က ကမ္ဘာပေါ်တွင် အကြီးဆုံးနှင့် အဖိုးတန်ဆုံးသော အဖြိုက်နက်သတ္တုတွင်း ဖြစ်သည်။ ရှေးအခါကပင် ဤဒေသ၌ မြန်မာများ လုပ်ကိုင်ခဲ့ကြပြီးလျှင်၊ ၁၉၁၁ ခုနှစ်တွင် အင်္ဂလိပ်ကုမ္ပဏီ တခုက စံနစ်တကျ တူးဖော်လုပ်ကိုင်သည်။ ၁၉၅၉ ခုနှစ်တွင် ဤသတ္တုတွင်းကို မြန်မာများ ဆက်လက်လုပ်ကိုင်ကြလေသည်။ ထားဝယ်မြို့မှ ဟာမြင်းကြီးတွင်းသို့ မော်တော်ကားဖြင့် သွားနိုင်သည်။ ဤတွင်းတွင် သတ္တုတူးဖော်ပုံမှာ ကျောက်တောင်ကြီးများတွင် လိုဏ်ဂူများဖောက်ထွင်း၍ အဖြိုက်နက်အကြောများကို လိုက်လံဖောက်ခွဲပြီးသော် တွန်းလှည်းကလေးများထဲ ထည့်ကာ အပြင်ဖက်တွန်းယူရသည်။ အပြင်ရောက်သော် စက်ကြီးများဖြင့် ကြိတ်ချေကာ သတ္တုများကို ခွဲထုတ်ယူရသည်။ ကျောက်တောင်ကြီးများအကြားတွင် ရှိသော ချောင်းရိုးတလျှောက်တွင်လည်း ယင်းခွက်ဖြင့် ကျင်ယူ၍ သတ္တု 'ဖမ်း' ရသည်။ ဤသတ္တုတွင်းတွင် မြေအောက်နှင့် မြေပေါ် သတ္တု တူးသမားပေါင်း ၃၀၀ ခန့် ရှိလေသည်။

**ကလေးဝ**။ ။ကလေးဝတွင်းတွင် ကျောက်မီးသွေး ထွက်သည်။ ၁၉ ရာစုခေတ်ဦးက ကလေးဝ ဒေသတွင် အင်္ဂလိပ်များ နှစ်အနည်းငယ်မျှ စမ်းသပ်တူးဖော်ခဲ့ဘူးသည်။ ၁၉၅၀ ပြည့်နှစ်တွင် သတ္တုတွင်းဌာနမှ ဤကလေးဝကျောက်မီးသွေးတွင်းကို စံနစ်တကျ စတင်တူးဖော် ဆောင်ရွက်၍၊ ၁၉၅၄ ခုနှစ်တွင် ဓာတ်သတ္တု ပင်ရင်းအခြေအမြစ်များ တိုးတက်အောင် ဆောင်ရွက်ရေး ကော်ပိုရေးရှင်းက တာဝန်လွှဲယူ၍ ဦးစီးလုပ်ကိုင်သည်။ ဤကျောက်မီးသွေးတွင်းသည်အထက်ချင်းတွင်းခရိုင် (ယခုမော်လိုက်ခရိုင်) ကလေးဝမြို့နယ်တွင်ရှိပြီးလျှင် ကလေးဝမြို့မှ ဖြစ်စေ၊ ကလေးမြို့မှ ဖြစ်စေ မော်တော်ကားဖြင့် သွားနိုင်သည်။ မြေအောက်ကျောက်မီးသွေးတူးသမားများ လေကောင်းလေသန့် ရရှိစေရန် လေစုပ်ပန်ကာကြီးတခုတပ်ဆင်ထားသည်။ ဤတွင်းတွင် မြေအောက်ကျောက်မီးသွေးတူးသမား ၃၀၀ လုပ်ကိုင်နေသည်။

**ပတ္တမြားတွင်း**။ ။ပတ္တမြား၊ ကျောက်နီ၊ မြ၊ နီလာ၊ ဥဿဖယား အစရှိသော ကျောက်မျက်ရတနာများ တူးဖော်ခြင်းကို ခြောက်ရာစုခေတ်မှစ၍ ရှမ်းများ လုပ်ကိုင်ပြီးလျှင်၊ မြန်မာ ဘုရင်များအား အခွန်ဆက်ရသည်။ ၁၅၉၇ ခုနှစ်မှ စ၍ မြန်မာဘုရင်များ အုပ်ချုပ် လုပ်ကိုင်သည်။ ကမ္ဘာပေါ်တွင် အဖိုးတန်ဆုံး ပတ္တမြားလုံးဖြစ်သော ရတီချိန် ၉၀ ကျော်ရှိသည့် နန်းစဉ်မောက် ပတ္တမြားလုံးကြီးသည် အင်းဝဘုရင်ပြည်မင်း လက်ထက်တွင် ထွက်ခဲ့၍၊ လှော်ကားတင်ကြီး၊ လှော်ကား တင်ကလေး စသည့် အခြားပတ္တမြားလုံးကောင်းများလည်း ကုန်းဘောင်မင်းများလက်ထက်ကထွက်ခဲ့သည်။ (နန်းစဉ်ရတနာများ — ရှု။) ၁၈၈၅ ခုနှစ်မှ ၁၉၂၅ ခုနှစ်ထိ အင်္ဂလိပ်ကုမ္ပဏီ တခုက စံနစ်တကျ လုပ်ကိုင်ခဲ့သည်။ ပတ္တမြားတွင်းများသည် မန္တလေးခရိုင်ရှိ မိုးကုတ်၊ သပိတ်ကျင်း၊ ကျတ်ပြင်၊ ကသည်း အစရှိသော 'ရတနာမြေ' များတွင် ရှိသည်။ ထိုရတနာမြေများသို့ သွားရန် ခရီးစဉ်မှာ မန္တလေးမြို့မှ ရေဝတီမြစ်အတိုင်း သပိတ်ကျင်းမြို့သို့ သင်္ဘောဖြင့်ဖြစ်စေ၊ မိုးကုတ်မြို့သို့ မော်တော်ကားဖြင့်ဖြစ်စေ သွားရောက်နိုင်သည်။ ကျောက်မျက်ရတနာ တူးဖော်နည်း လေးမျိုးရှိပေသည်။ ထိုနည်းများမှာ မျှောတွင်း၊ တွင်းလုံး၊ လူးတွင်းနှင့် အင်းတွင်းတို့ပင် ဖြစ်သည်။ မျှောတွင်းနည်းမှာ ရတနာ ပါရှိပုံရသော တောင်စောင်းမှ မြေကို တူးဆွမျှောချပြီးလျှင်၊ ယင်းမြောင်းထဲတွင် ဗြုံးမြေ ဖမ်းကာ ဗြုံးမြေထဲတွင် ရတနာရှာရသည်။ ဤတူးနည်းတွင် သတ္တုတူးသမား သုံးယောက်မှ ငါးယောက်ထိလိုသည်။ တွင်းလုံးနည်းမှာ နေ့ရာသီတွင် လူတကိုယ် လှည့်သာရုံမျှသာ ကျယ်ဝန်းသော စိုက်တွင်းငယ်တူး၍ မြေအောက်သို့ ဆင်းပြီးလျှင်၊ ဗြုံးမြေများ တွေ့ရှိသည့်အခါ အလျားလိုက် တူး၍ ခွက်ထဲထည့်ကာ ကြိုးဖြင့် အပေါ်သို့ ဆွဲတင်ပြီးနောက်၊ ရေဆေး၍ ရတနာ ရှာရသည်။ ဤတူးနည်းတွင် သတ္တုတူးသမား သုံးယောက်ခန့်လိုသည်။လူးတွင်းနည်းမှာ ထုံးကျောက်အကြား

တွင် ရှိသော ဖြုံးမြေမှ ရတနာရှာရသောကြောင့် ယမ်းဘီလူးများကို အသုံးပြုရသည်။ ထုံးကျောက်ကို ဆောက်ဖြင့် လိုဏ်ဂူတူး၍ ဖြစ်စေ၊ သဘာဝအလျောက် ဖြစ်ပေါ်နေသော ထုံးကျောက် ပပ်ကြားအက်များ၌ ဖြစ်စေ ဖြုံးမြေရှာရသည်။ ဤတူးနည်းတွင် သတ္တုတူးသမားငါးယောက်ခန့်လိုသည်။ အင်းတွင်းနည်းမှာ မြေပြင်တွင် ချိုင့်ကြီးများ တူး၍၊ ထိုမှတဖန် ယင်းမြောင်းထဲသို့ ရေစုပ်စက်ကြီးများဖြင့် စုပ်တင်ယူပြီးလျှင် ဖြုံးမြေထဲမှ ရတနာရှာရသည်။ ဤတူးနည်းတွင် သတ္တုတူးသမား ခုနစ်ယောက်ထက်မနည်း လိုပေ



**မြန်မာနိုင်ငံတွင် အမြင့်ဆုံးမိုင်းဖြစ်သည့် ထားဝယ်ခရိုင်ရှိ ကွာချိန်ဂွမ်မိုင်းသည် အမြင့်ပေ ၅၀၀၀ ကျော်တွင် တည်ရှိ၍ ခဲမဖြူ များစွာထွက်သည်။**

သည်။ ပြည်ထောင်စု မြန်မာနိုင်ငံတွင် ယခုအခါ ပတ္တမြားတွင်းပေါင်း ၁၀၀၀ ခန့်ရှိသည်။

**ကျောက်စိမ်းတွင်း (မှော်)။** ။ကျောက်စိမ်းတွင်းလုပ်ငန်းကို ရှေးအခါက ကချင်(ကံစီ ဒူးဝါး)များ စတင် လုပ်ကိုင်ခဲ့သည်။ အခွန်တော်ငွေကို မိုးကောင်း မှော်စားက ကောက်ခံရသည်။ ရရှိသော အခွန်တော်ငွေကို ပုဂံခေတ် အနော်ရထာမင်းလက်ထက်မှစ၍ မြန်မာမင်း အဆက်ဆက်အား တင်ဆက်ရသည်။ ကချင်ပြည်နယ် မြစ်ကြီးနားခရိုင်တွင်းရှိ ဖားကန့်မှော်၊ လုံးခင်းမှော်၊ ဝှေးခါးမှော်၊ မှော်ကြီး၊ ကံစီမှော် အစရှိသော မှော်များတွင် ကျောက်စိမ်းများ ထွက်သည်။ ကျောက်စိမ်းတွင်းများသို့သွားရန် ခရီးစဉ်မှာ မိုးကောင်းမြို့မှ ကားမိုင်းမြို့၊ လုံးခင်းမြို့သို့ မော်တော်ကားဖြင့်သွား၍ ထိုမှတဆင့် ပတ်ဝန်းကျင်ရှိ မှော်များသို့ နွေရာသီတွင် မော်တော်ကားဖြင့် သွားနိုင်၍၊ မိုးရာသီတွင် မြည်းလမ်းအတိုင်း သွားနိုင်သည်။ အချို့မှော်များမှာ တောင်စောင်းတွင် ထွက်ပေါ်နေသော ကျောက်စိမ်းအကြောကြီးများကို လိုက်တူး၍ တဖြည်းဖြည်း တောင်ကိုထွင်း၍တူးဖော်ရသည်။ယမ်းဘီလူးများ အသုံးပြုနိုင်သည့် အခါ အသုံးပြုရသည်။ ယမ်းဘီလူး အသုံးပြုသောအခါ လိုဏ်ဂူပြိုကျဖွယ်ရာရှိလျှင် ဆောက်ဖြင့်သာ ထွင်းရသည်။ အခြားမှော်များတွင် ပတ္တမြားတွင်းကဲ့သို့ စိုက်တွင်းများ၊ မြောတွင်းများပြု၍ တူးဖော်ရှာဖွေရသည်။ လေးလံသော ကျောက်တုံးကြီးများကို ကျောက်မီးသွေးဖြင့် မီးပူပေး၍ ရေဖျန်းခြင်းအားဖြင့် ခွဲရသည်။ မှော်တွင်း နက်သည်ထက် နက်လာသောအခါ ရေများထွက်လာလေ့ရှိသောကြောင့် ရေစုပ်စက်ကို အသုံးပြုရသည်။ ဆောင်းရာသီ ပေါက်သည့်အခါ ရှေးဦးစွာ မှော်ထဲရှိ ရေများကို စုပ်တင်ရသည်။ ထိုနောက် ရွှံ့များကို ဖယ်ရှားပစ်ရသည်။ နွေရာသီရောက်မှသာ မှော်တူးသည့် လုပ်ငန်းကို စလေ့ရှိသည်။ မှော်တွင်းတခုလျှင် သတ္တုတူးသမားငါးယောက်ခန့် လုပ်ကိုင်ကြသည်။ ယခုအခါ မြန်မာနိုင်ငံတွင် မှော်တွင်းပေါင်း ၁၀၀၀ ခန့်ရှိသည်။

ပြည်ထောင်စု မြန်မာနိုင်ငံသည် သယံဇာတ သဘာဝ သတ္တု ရတနာ၊ ကျောက်မျက် ရတနာ အဖိုးတန်များဖြင့် ကုံလုံ ကြွယ်ဝ လှပေသည်။ ချောင်းရိုး မြစ်ရိုးတလျှောက် စက်ကရိယာမသုံးဘဲ ယင်းခွက်ဖြင့် ကျင်ယူရုံမျှဖြင့် ရွှေမှုန့်ကလေးများ ရနိုင်သည်။ တောင်စောင်း တောင်ကြီးများကို ဖြိုချ တူးဖော်လျှင် ငွေ၊ ခဲ၊ သံ၊ ကြေးနီ၊ သွပ်၊ ဝူဖရန်၊ ခဲမဖြူ၊ ခနောက်စိမ်း အစရှိသော သတ္တုမျိုးစုံ ရနိုင်သည်။ ထိုတောတောင်ကြီးများအကြားရှိ မြေပြန့်လွင်ပြင် တလွှား



ထားဝယ်ခရိုင် ကံပေါက် သတ္တုတွင်းလုပ်ငန်းတွင် သတ္တုများ စုပ်နေစဉ်

တွင်လည်း အဖြိုက်နက်၊ ခဲမဖြူ၊ ကျောက်စိမ်း၊ ပတ္တမြား အစရှိသော သတ္တုရတနာမျိုးစုံ ရနိုင်သည်။ မြန်မာနိုင်ငံ အလယ်ပိုင်း ရေဝတီ မြစ်ရိုးတလျှောက်တွင် ရေနံများစွာ ရရှိနိုင်သည်။ ဤကဲ့သို့ သဘာဝသတ္တုရတနာမျိုးစုံ ကြွယ်ဝနေသော်လည်း မြန်မာလူမျိုးတို့သည် သတ္တုတွင်းလုပ်ငန်းတွင် ပြည်ထောင်စု မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးသည့်နောက်မှသာ တစတစ စိတ်ဝင်စား၍ ဝင်ရောက် လုပ်ကိုင်ကြသောကြောင့် ယခုတိုင် ခေတ်မှီနည်းဖြင့် တူးဖော်သော သတ္တုတွင်း အလွန်ပင် နည်းပါးလေသည်။ ကမ္ဘာပေါ်ရှိ တိုး



ကံပေါက် သတ္တုတွင်းလုပ်ငန်းတွင် ယင်းခွက်ဖြင့် သတ္တုများကို ဖမ်းယူနေစဉ်

တက်နေသော နိုင်ငံတိုင်းတွင် သတ္တုတွင်း လုပ်ငန်းသည် အလွန်အရေးကြီးသော စီးပွားရေးတရပ်ပင် ဖြစ်သည်။ ထို့ကြောင့် ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရက အရေးကြီးသော သတ္တုတွင်းများကို ပြည်သူပိုင်ပြုလုပ်၍ လုပ်ကိုင်နေသည်။ သတ္တုတွင်းဌာနမှ သတ္တုတွင်းညွှန်ကြားရေးဝန်က သတ္တုတွင်းဝန်ကြီးဌာနအား သတ္တုတွင်းလုပ်ငန်းနှင့် သက်ဆိုင်သော အုပ်ချုပ်ရေးနှင့် စီမံကိန်းများတွင် အကြံဉာဏ်ပေးရသည်။ သတ္တုတွင်းစစ်ဆေးရေး ဝန်များကလည်း ပြည်ထောင်စု မြန်မာနိုင်ငံ အနှံ့အပြားသို့ ခက်ခဲပင်ပန်းစွာ သွားရောက်၍၊ သတ္တုတွင်းလုပ်ငန်း တိုးတက်စေရန်နှင့် သတ္တုတွင်း တူးသမားများ ဘေးရန်ကင်းရှင်း၍ ကျန်းမာစေရန် ညွှန်ပြ ကြပ်မပေးရလေသည်။　　ဦးလှမှိ

**မြန်မာ-ပါဠိ ကျမ်းဂန်သမိုင်း။** ။သရေခေတ္တရာခေတ်။ ၁၈၉၇ ခုနှစ်တွင် ပြည်မြို့အနီးရှိ ရှေးဟောင်း မှော်ဇာမြို့ မောင်းကန်ရွာ၌ ရွှေပြား နှစ်ချပ်ပေါ်တွင် ရေးသားသော အက္ခရာများကို တူးဖော်တွေ့ရှိကြရာ၊ ယင်းအက္ခရာတို့သည် ငါး–ခြောက် ရာစုနှစ်အတွင်း အသုံးပြုကြသော အိန္ဒိယ တောင်ပိုင်း ကဒံဗအက္ခရာများ ဖြစ်ကြကြောင်း သိရှိကြ၏။ ယင်းအက္ခရာတို့ဖြင့် ရေးသားသော ဘာသာကား ပါဠိဘာသာဖြစ်၏။ ယေဓမ္မာ ဟေတုပ္ပဘဝါ တေသံ ဟေတု.... ဟူ၍ အစပြုသော စာသုံးကြောင်းစီ ရှိသည်။ ယင်းရွှေပြားတို့ကို မြန်မာ-ပါဠိအက္ခရာများဖြင့် အောက်၌ ဖော်ပြပေအံ့။

**ပဌမ ရွှေပြား**

(၁)။ယေ ဓမ္မာ ဟေတုပ္ပဘဝါ တေသံ ဟေတုမ္တထာဂတော အာဟ တေသဉ္စ ယော နိရောဓော ဧဝံ ဝါဒီ မဟာသမနော တိ

(၂)။စတ္တာရော ဣဒ္ဓိပါဒါ စတ္တာရော သမပ္ပဓာနာ စတ္တာရော သတိပဋ္ဌာနာ စတ္တာရိ အရိယသစ္စာနိ စတုဝေသာရဇ္ဇာနိ ပဉ္စိန္ဒြိယာနိ ပဉ္စစက္ခူနိ ဆ

(၃)။အသာဓာရဏာနိ သတ္တဗောဇ္ဈင်္ဂါ အရိယော အဋ္ဌင်္ဂိကော မဂ္ဂေါ နဝလောကုတ္တရာ ဓမ္မာ ဒသ ဗလာနိ စုဒ္ဒသ ဗုဒ္ဓဉာဏာနိ အဋ္ဌာရသ ဗုဒ္ဓဓမ္မာနိ

**ဒုတိယ ရွှေပြား**

(၁)။ယေ ဓမ္မာ ဟေတုပ္ပဘဝါ တေသံ ဟေတု တထာဂတော အာဟ တေသဉ္စ ယော နိရောဓော ဧဝံ ဝါဒီ မဟာသမဏောတိ ဣတိပိ သော ဘဂဝါ အရဟံ

(၂)။သမ္မာသံဗုဒ္ဓေါ ဝိဇ္ဇာစရဏ သမ္ပန္နော သုဂတော လောကဝိဒူ အနုတ္တရော ပုရိသ ဓမ္မသာရထိ သတ္ထာ ဒေဝမနုဿာနံ ဗုဒ္ဓေါ ဘဂဝါ တိ

(၃)။စွာက္ခာတော ဘဂဝတာ ဓမ္မော သန္ဒိဋ္ဌိကော အကာလိကော ဧဟိပဿိကော ဩပနာယိကော ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟီတိ

ပဌမ ရွှေပြားတွင် အစ စကားမှ အပ ၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၄၊ ၁၈ ဟူ၍ အဆင့်ဆင့်တိုးတက်၍ ရေတွက်နိုင်သော သဒ္ဓမ္မ၏ အကြောင်းအရာများ ပါဝင်ကြသည်။ ဤသို့ ရေတွက်၍ ပြသော သဒ္ဓမ္မ အကြောင်းအရာများကို များသော အားဖြင့် အဘိဓမ္မာကျမ်းများ၌ တွေ့ရသည်။ "စတ္တာရော သတိပဋ္ဌာနာ စတ္တာရော သမ္မပ္ပဓာနာ စတ္တာရော ဣဒ္ဓိပါဒါ ပဉ္စိန္ဒြိယာနိ ပဉ္စဗလာနိ သတ္တဗောဇ္ဈင်္ဂါ အရိယောအဋ္ဌင်္ဂိကောမဂ္ဂေါ"ဟူ၍ ဝိဘင်္ဂ (လန်ဒန်မူ ၃၇၂) ၌ ဆို၏။ ပဌမ ရွှေပြားသည် ဝိဘင်္ဂကို ရည်ညွှန်းသော်လည်း အဆိုပါ ရေတွက်၍ ပြသော သဒ္ဓမ္မ အကြောင်း အရာများကို ဒီဃနိကာယ၊ မဇ္ဈိမနိကာယ၊ အင်္ဂုတ္တရ နိကာယ၊ ဥဒါနတို့၌လည်း တွေ့နိုင်သည်။

ဒုတိယ ရွှေပြားတွင် ပဌမ ရွှေပြားကဲ့သို့ အစပြုပြီးလျှင် ဣတိပိ သော အစရှိသည့် ဘုရားဂုဏ်တော်များကို ဖော်ပြ

ထားသည်။ ယင်း ဂုဏ်တော်များကို ဒီဃနိကာယ၏ မဟာပရိနိဗ္ဗာနသုတ္တတွင် ဖော်ပြထားသည်။

"ဣဓ ဘိက္ခဝေ အရိယသာဝကော ဗုဒ္ဓေ အဝေစ္စပ္ပသာဒေန သမန္နာဂတော ဟောတိ-ဣတိပိ သော ဘဂဝါ အရဟံ သမ္မာသမ္ဗုဒ္ဓေါ ဝိဇ္ဇာစရဏသမ္ပန္နော သုဂတော လောကဝိဒူ အနုတ္တရော ပုရိသ ဒမ္မသာရထိ သတ္ထာ ဒေဝမနုဿာနံ ဗုဒ္ဓေါ ဘဂဝါတိ။ အယံ ဘိက္ခဝေ ပဌမော ပုညာဘိသန္ဒော ကုသလာ ဘိသန္ဒော သုခါယ သံဝတ္တတိ၊

ပုနစပရံ ဘိက္ခဝေ အရိယသာဝကော ဓမ္မေ အဝေစ္စပ္ပသာဒေန သမန္နာဂတော ဟောတိ-သွာက္ခာတော ဘဂဝတာ ဓမ္မော သန္ဒိဋ္ဌိကော အကာလိကော ဧဟိပဿိကော ဩပနာယိကော ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟီတိ။ အယံ ဘိက္ခဝေ ဒုတိယော ပုညာဘိသန္ဒော ကုသလာဘိသန္ဒော သုခါယ သံဝတ္တတိ" ဟူ၍ အင်္ဂုတ္တရနိကာယ ပုညာဘိသန္ဒဝဂ္ဂတွင် ဖော်ပြထားသည်။ ဝိနယပိဋကဝင် ပါရာဇိကာကဏ္ဍ၊ သုတ္တဝိဘင်္ဂ စသည် တို့၌လည်း ဂုဏ်တော်တို့အား ညွှန်သည်ကို တွေ့ရ၏။

၁၉၁၀—၁၁ ခုနှစ်တွင် ကျောက်စာ အပိုင်းအစသုံးခုတို့ကို မှော်ဇာမြို့ ဗောဗောကြီး ဘုရား အနီးတွင် တွေ့ကြရာ၊ ကျောက်စာ၌ ဤသို့ ရေးထားသည်ကို တွေ့ရ၏။

(၁) (သမ္မုသ)နာ သမ္မုသိတတ္တံ ဝေဒနာက္ခန္ဓော သညာခန္ဓော သင်္ခါရက္ခန္ဓော

(၂) ........... ဒိဋ္ဌိဝိပ္ပန္နိတံ ဒိဋ္ဌိ အယံဝုစ္စတိ ဆဋ္ဌာယတန ပစ္စယာ ဖဿော တတ္ထ ကတမ(ဖ)ဿပစ္စယဝေဒန ယံစေတသိ (ကံ)

(၃) သညောဇယံဂ (ဟော) ပတိလဟော ပတိဂ္ဂဟော အဘိနိဝေသော ပရမသော မုမ္မဂ္ဂေါ ......

ဤကျောက်စာတွင် ပါသော ပါဠိနှင့်တူသော စာပိုဒ်များကို ဝိဘင်္ဂ၌ တွေ့ရကား၊ ယင်းကျောက်စာ ပါဠိသည် ဝိဘင်္ဂ စသော အဘိဓမ္မကျမ်းတို့ကိုမှတ်သားလွယ်ရန်အတိုကောက် ဖော်ပြသော စာများ ဖြစ်သည်ဟု ယူဆရ၏။

၁၉၂၆ ခုနှစ်တွင် မှော်ဇာမြို့မှ အဖိုး ရွှေပြားအတွင်း ရွှေပေ အချပ် ၂၀ တို့ကို တွေ့ရပြန်၏။ ပဌမ ၁၈ ချပ်တို့၌ မောင်းကန် ရွှေပြားအက္ခရာနှင့်တူသော စာ သုံးကြောင်းစီ ရှိ၍၊ အချပ် ၁၉ ၌ လေးကြောင်း၊အချပ် ၂၀ ၌ နှစ်ကြောင်း ရှိ၏။ ဤ ရွှေပေအချပ်ပေါင်း ၂၀ တို့တွင် ပါဠိပိဋကတ်မှ ကောက်နုတ်ချက် အပုဒ် ကိုးခုပါသည်။

အပုဒ်(၁)အချပ် ၁။ ။သိဒ္ဓံ အဝိဇ္ဇာပစ္စယာ သင်္ခါရ သင်္ခါရပစ္စယာ ဝိညာဏ ဝိညာဏ ပစ္စယာ နာမရူပံ နာမရူပ ပစ္စယာ သဠာယတနံ သဠာယတန ပစ္စယာ ဖဿော ဖဿပစ္စယာ ဝေဒနာ ဝေဒန ပစ္စယာ

၂။ ။တဏှာ တဏှာ ပစ္စယာ ဥပါဒါနာ ဥပါဒါန ပစ္စယာ ဘဝေါ ဘဝပစ္စယာ ဇာတိ ဇာတိပစ္စယာ ဇရာ မရဏံ သောက ပရိဒေဝိတ ဒုမ္မ ဒေါမနဿုပါယာသ သမ္ဘဝန္တိ။ ဝေ မေတဿ ကေဝလဿ ဒုက္ခ ခန္ဓ

၃။ ။ဿ သမုဒယော ဟောတီတိ။ အဝိဇ္ဇာယတွေဝ အသေသ ဝိရာဂ နိရောဓာ သင်္ခါရနိရောဓော သင်္ခါရ နိရောဓာ ဝိညာဏနိရောဓော ဝိညာဏနိရောဓာ နာမရူပနိရောဓော နာမရူပ နိရောဓာ သဠာယတန နိရောဓော သဠာယ

၄။ ။တန နိရောဓာ ဖဿ နိရောဓော ဖဿ နိရောဓာ ဝေဒန နိရောဓော ဝေဒန နိရောဓာ တဏှာ နိရောဓော တဏှာ နိရောဓာ ဥပါဒါန နိရောဓော ဥပါဒါန နိရောဓာ ဘဝ နိရောဓော ဘဝ နိရောဓာ ဇာတိ နိရောဓော

၅။ ။ဇာတိနိရောဓာဇရာ မရဏံ သောက ပရိဒေဝိတ ဒုမ္မဒေါမနဿုပါယာသ နိရုဇ္ဈန္တီတိ။ ဝေမေ တဿ ကေဝလ ဿ ဒုမ္မခန္ဓဿ နိရောဓော ဟောတီတိ။

အပုဒ်(၂) ။ ။ဥဒယဝယ ဘင်္ဂဘယ အဒိနဝ နိဗ္ဗိဒ မုံဇန ဥပေက္ခ

အပုဒ်(၃) ၆။ ။သိဒ္ဓ စတ္တာရော သတိပဋ္ဌာနာ စတ္တာရော သမပ္ပဓာနာ စတ္တာရော ဣဒ္ဓိပါဒါ ပဉ္စိန္ဒြိယာနိ ပဉ္စဗလာနိ သတ္တ ဗောဇ္ဈင်္ဂါနိ အရိယ အဋ္ဌင်္ဂိကော မဂ္ဂေါ။

အပုဒ်(၄) ။ ။စတ္တာရိ မာနိ ဘိက္ခဝေ တထာ ဂတဿ ဝေသာရဇ္ဇာနိ

၇။ ။ယေဟိ ဝေသာရဇ္ဇေဟိ သမန္နာဂ တော တထာဂတော အာသဘဏ္ဍာနံ ပဋိဇာနာတိ ပရိသာသု သီဟ နာဒံ နဒတိ ဗြဟ္မစက္ကံ ဝတ္တေတိ ကတမာနိ စတ္တာရိ သမ္မာသံဗုဒ္ဓဿ တေ ပဋိဇာနာတိ ဣမေဓမ္မာ

၈။ ။အနာဘိ သံဗုဒ္ဓါတိ တတြဝတ မံ သမဏောဝါ ဗြာဟ္မဏောဝါ ဒေဝေါ

ဝါ မာရောဝါ ကောစိဝါ လော အပုဒ်(၅)
ကသ္မိံ သဟဓမ္မေန ပဋိစောဒေဿန္တီ
တိ နိမိတ္တံ မေတံ ဘိက္ခဝေ န သမနု
ပဿာမိ။ တံပါဟံ ဘိက္ခဝေ နိမိတ္တံ
၉။ ။မေတံ အသမနုပဿန္တော ခေမ
ပတ္တော အဘယပတ္တော ဝေသာ
ရဇ္ဇပ္ပတ္တော ဝိဟရာမိ။ ခီဏာ
သဝဿ တေ ပဋိဇာနန္တော ဣမေ
အာသဝါ အပရိက္ခီဏာတိ တတြ ဝ
တ မံ သမဏောဝါ ဗြာဟ္မဏောဝါ
ဒေဝေါဝါ
၁၀။ ။မာရောဝါ ကောစိဝါ လောကသ္မိံ
သဟဓမ္မေန ပဋိ စောဒေဿာမီတိ
နိမိတ္တမေတံ ဘိက္ခဝေ န သမနုပ
ဿာမိ။ တံပါဟံ ဘိက္ခဝေ နိမိတ္တံ
အသမနုပဿန္တော ခေမပတ္တော အ
ဘယပတ္တော ဝေသာရဇ္ဇပ္ပတ္တော
ဝိဟရာမိ
၁၁။ ။ယေ ခေါပန တေ အန္တရာယိကာ အပုဒ်(၆)
ဓမ္မာ ဝုတ္တာ တေ ပဋိ သေဝတော
နာလံအန္တရာယာယာတိ တတြ ဝတ
မံ သမဏောဝါ ဗြာဟ္မဏောဝါဒေ အပုဒ်(၇)
ဝေါဝါ မာရောဝါ ကောစိဝါ လော
ကသ္မိံ သဟဓမ္မေန ပဋိစောဒေဿ
တီတိ နိမိတ္တံ မေတံ
၁၂။ ။ဘိက္ခဝေ န သမနုပဿာမိ။ တံ ပါ
ဟံ ဘိက္ခဝေ နိမိတ္တံ အသမနုပဿ
န္တော ခေမပတ္တော အဘယ ပတ္တော
ဝေသာရဇ္ဇပ္ပတ္တော ဝိဟရာမိ။ ယ
ဿခေါ ပန တေ အတ္ထာယ ဓမ္မော
ဒေသိတော သော နိ နိ
၁၃။ ။ယတိ တက္ကရဿ သမ္မာဒုက္ခက္ခယာ
ယာတိ တတြ ဝတ မံ သမဏောဝါ
ဗြာဟ္မဏောဝါ ဒေဝေါဝါ မာရော အပုဒ်(၈)
ဝါ ကောစိဝါ လောကသ္မိံ သဟ
ဓမ္မေန ပဋိစောဒေဿတီတိ နိမိတ္တံ
မေတံ ဘိက္ခဝေ န သမနုပဿာမိ။
တံပါဟံ ဘိက္ခ အပုဒ်(၉)
၁၄။ ။ဝေ နိမိတ္တံ အသမနုပဿန္တော ခေမ
ပတ္တော အဘယပတ္တော ဝိဟရာ
မိ။ ဣမာနိ ခေါဘိက္ခဝေ စတ္တာရိ
တထာဂတဿဝေသာရဇ္ဇာနီတိ။

ကတမေဟိ ဘဂဝါ စုဒ္ဒသေဟိ ဗုဒ္ဓ
ဉာဏေ
၁၅။ ။ဟိ သမန္နာဂတော တထာဂတော။
ဒုက္ခေဉာဏံ ဗုဒ္ဓဉာဏံ။ ဒုက္ခသမုဒ
ယေ ဉာဏံ ဗုဒ္ဓဉာဏံ။ ဒုက္ခနိရော
ဓေဉာဏံ ဗုဒ္ဓဉာဏံ။ ဒုက္ခနိရောဓ
ဂါမိနိ ပဋိပဒေ ဉာဏံ ဗုဒ္ဓဉာဏံ။
အတ္ထ ပဋိသမ္ဘိဒေ ဉာဏံ
၁၆။ ။ဗုဒ္ဓဉာဏံ။ ဓမ္မပဋိသမ္ဘိဒေဉာဏံ
ဗုဒ္ဓဉာဏံ။ နိရုတ္တိပဋိသမ္ဘိဒေဉာဏံ
ဗုဒ္ဓဉာဏံ။ ပဋိဘာနပဋိသမ္ဘိဒေ
ဉာဏံဗုဒ္ဓဉာဏံ။ ယမကပါဋိဟေရ
ဉာဏံ ဗုဒ္ဓဉာဏံ
၁၇။ ။မဟာ ကရုဏာ သမာပတ္တိယာ ဉာ
ဏံ ဗုဒ္ဓဉာဏံ။ သဗ္ဗညုတဉာဏံ ဗုဒ္ဓ
ဉာဏံ။ အနာဝရဏဉာဏံ ဗုဒ္ဓဉာ
ဏံ။ ဣမေဟိ ဘဂဝါ စုဒ္ဒသေဟိ
ဗုဒ္ဓဉာဏေဟိသမန္နာဂတောတိ။
၁၈။ ။မဂ္ဂါနဋ္ဌင်္ဂိကော သေဋ္ဌော၊ သစ္စာနံ
စတုရောပဒါ၊ ဝိရာဂေါ သေဋ္ဌော
ဓမ္မာနံ၊ ဒိပဒါနံ စ စက္ခုမာတိ။
သိဒ္ဓံ ဒန္တော ဒန္တေဟိ
သဟပုရာဏ ဇဋိလေဟိ ဝိပ္ပမုတ္တေဟိ
သိင်္ဂိနိက္ခ သဝဏ္ဏော ရာဇဂဟံ
ပဝိသိ ဘဂဝါ
၁၉။ ။မုတ္တော မုတ္တေဟိ သဟ ပုရာဏဇဋိ
လေဟိ သိင်္ဂိနိက္ခ သဝဏ္ဏော ရာဇဂ
ဟံ ပဝိသိ ဘဂဝါ တိဏ္ဏော တိဏ္ဏေဟိ
သဟပုရာဏ ဇဋိလေဟိ ဝိပ္ပမုတ္တေဟိ
သိင်္ဂိနိက္ခသဝဏ္ဏော ရာဇဂဟံပဝိသိ
ဘဂဝါ။ ဒသ ဗလေ ဒသ ဝါသော
ဒသဓမ္မ ဝိဒူ ဒသဘိ စုပေတော သော ဒသသတံ
ပရိဝါရော ရာဇဂဟံ ပဝိသိ ဘဂဝါ။
။ ။ယော ဝိရော သဗ္ဗ ဝိ ဒန္တော
သုဒ္ဓေါ အပ္ပတိ ပုဂ္ဂလော အရဟံ
သုဂတော လောကေ တဿဟံ
ပရိစာရကောတိ
၂၀။ ။ဣတိပိ သော ဘဂဝါ အရဟံ သမ္မာ
သမ္ဗုဒ္ဓေါ ဝိဇ္ဇာစရဏ သမ္ပန္နော သုဂ
တော လောကဝိဒူ အနုတ္တရော ပုရိ
သ ဒမ္မသာရထိ သတ္ထာ ဒေဝမနုဿာ
နံ ဗုဒ္ဓေါဘဂဝါတိ။ အဘိ ဘဝတု။

အထက်ရွှေပေစာတွင် (၁) အပိုဒ်သည် ပိဋကတ်သုံးပုံတွင် များစွာထင်ရှားသော ပဋိစ္စသမုပ္ပါဒ သုတ္တ ဖြစ်သည်။ မဇ္ဈိမနိကာယ (ပ) ၂၆၃–၄။ သံယုတ္တနိကာယ (ဒု) ၁–၂။ ဝိဘင်္ဂ ၁၃၈–၉။ ဓမ္မသင်္ဂဏီ ၂၂၉ တို့ကို ရှု။
(၂) အပိုဒ်သည် ဝိပဿနာဉာဏ ခုနစ်မျိုးတို့ကို ဖော်ပြသည်။ ဝိသုဒ္ဓိမဂ္ဂ၌ကား ရှစ်မျိုး ပါသည်။
(၃) အပိုဒ်သည် မောင်းကန်ရွှေပြားမှာကဲ့သို့ သဒ္ဓမ္မ၏ အကြောင်းအရာတို့ကို ဖော်ပြခြင်း ဖြစ်သည်။ ဒီဃနိကာယ (တ) ၁၀၂။ ဥဒါန ၅၆ တို့ကို ရှု။
(၄) အပိုဒ်၌ ဝေသာရဇ္ဇဉာဏ်တို့ကို ဖော်ပြထားသည်။ မဇ္ဈိမနိကာယ၏ မဟာသီဟနာဒသုတ္တန်နှင့် အင်္ဂုတ္တရနိကာယ၏ စတုတ္ထ နိပါတတို့ကိုရှု။
(၅) အပိုဒ်၌ ဗုဒ္ဓဉာဏ ၁၄ မျိုးတို့ကို ဖော်ပြထားသည်။ ပဋိသမ္ဘိဒါမဂ္ဂ (ပ) ၁၃၃ ကို ရှု။
(၆) အပိုဒ်သည် ဓမ္မပဒတွင်ပါသော ဂါထာ ဖြစ်သည်။
(၇) အပိုဒ်သည် ဝိနယ ပိဋက မဟာဝဂ္ဂနှင့် ဇာတကအဋ္ဌကထာတို့တွင် ပါသော ရာဇဂြိုဟ်ပြည်သို့ မြတ်စွာဘုရား ကြွတော်မူခြင်းကို ဖော်ပြထားသည်။
(၈) အပိုဒ်သည် ဝိနယပိဋက (ပ) တွင် ပါသော ဂါထာ ဖြစ်သည်။
(၉) အပိုဒ်သည် ဒီဃနိကာယ၏ မဟာပရိနိဗ္ဗာနသုတ္တတွင် ပါသော ဘုရား၏ဂုဏ်တော်များ ဖြစ်သည်။

၁၉၂၈–၉ ခုနှစ်တွင် မှော်ဇာမြို့အနီး ကျွန်းတော်စားရွာမှ အထက်ရွှေပေစာနှင့် အက္ခရာ တူသော ရွှေပေစာတခု တွေ့ကြပြန်သည်။ ဤရွှေပေစာ၌ ဣတိပိသော....ဗုဒ္ဓေါ ဘဂဝါတိ ဟူသော ဂုဏ်တော်များကို စာ နှစ်ကြောင်းဖြင့်ရေးထား၏။

အထက် ဖော်ပြပြီးသော ရွှေစာ ကျောက်စာတို့ကို ငါး–ခြောက် ရာစုနှစ်တွင် အိန္ဒိယတောင်ပိုင်း၌ အသုံးပြုသော ကဒံဗ အက္ခရာများဖြင့် ရေးသားကြသည်။ ဘာသာကား ပါဠိဖြစ်၍ အကြောင်းအရာကား ပိဋက သုံးပုံတွင် ပါသော အကြောင်းအရာဖြစ်သည်။

သို့ဖြစ်၍ ထိုအချိန် ထိုအခါ၌ သရေခေတ္တရာ ပြည်တွင် ထေရဝါဒ ဗုဒ္ဓသာသနာသည် ထင်ရှားလျက် ရှိကြောင်း။ ထေရဝါဒ၏ ဘာသာစကားဖြစ်သော ပါဠိကို အယုတ်သဖြင့် မြို့တော်၌ အသုံးပြုလျက် ရှိကြောင်း။ ပါဠိပိဋကသုံးပုံကို သင်ကြား လေ့ကျက်ကြလျက် ရှိကြောင်း။ ထေရဝါဒ ဗုဒ္ဓသာသနာ ထင်ရှားသော အမရာ ဝတီ၊ ကဥ္စိပုရ အစရှိသည့် မြို့များ၏ တည်ရာဖြစ်သော အိန္ဒိယ တောင်ပိုင်းသည် သရေခေတ္တရာပြည်နှင့် သာသနာအားဖြင့် ဆက်သွယ်လျက် ရှိကြောင်းတို့ကို အဆိုပါ ရွှေစာကျောက်စာတို့က ထင်ရှားစေကြ၏။

ဤအကြောင်းနှင့် စပ်လျဉ်း၍ နာဂါရ်ဇုနိ ကောဏ္ဍ ကျောက်စာကို ဖော်ပြအပ်၏။ ဤကျောက်စာကို သုံးရာစုနှစ်တွင် မာစရိပုတမင်းလက်ထက် အိန္ဒိယတောင်ပိုင်း အန္ဒြနယ်၌ စိုက်ထူကြသည်။ "ကသ္မီရ၊ ဂန္ဓာရ၊ စီန၊ စိလာတ၊ တောသလိ၊ အဝရန္တ၊ဝင်္ဂ၊ဝနဝါသီ၊ ယဝန၊ ဒမိလ၊ ပလုရနှင့် တံဗပံနိကျွန်းတို့ကို အယူဝါဒပြောင်းစေသော တံဗပံနသံဃာတို့၏ အကျိုးငှာ" တည်ဆောက်သော စေတီနှင့် သက်ဆိုင်သော ကျောက်စာဖြစ်သည်။ ဤကျောက်စာပါ တိုင်းပြည်များအနက် ကသ္မီရ၊ ဂန္ဓာရ၊ ဝနဝါသီ၊ အပရန္တက၊ ယောနတို့သည် တတိယ သင်္ဂါယနာ တင်ပြီးမှ ဗုဒ္ဓသာသနာ ခံယူသော တိုင်းပြည်များဖြစ်ကြောင်းကို သီဟိုဠ်ကျွန်းဖြစ် ဒီပဝံသ၊ မဟာဝံသတို့၌ ဆို၏။ စိလာတကား အခြား မဟုတ်၊ သက္ကတစာပေ၌ တွေ့ရသော ကိရာတပင် ဖြစ်သည်ဟူ၍၎င်း၊ ဂရိပထဝီဝင်ကျမ်းရေးသူ တော်လမီ၏ အရေးအသားများတွင် တွေ့ရသော စိရ်ရှဒေ၊ တိလဒေ၊ ဆဲဆဒေဟူသော လူမျိုးသည် ကိရာတခေါ် စိလာတပင် ဖြစ်သည်ဟူ၍၎င်း၊ ထို့ကြောင့် ကိရာတ၊ စိလာတသည် မြန်မာပြည် တောင်ပိုင်း ဖြစ်တန်ရာသည် ဟူ၍၎င်း အချို့က ယူဆကြ၏။ ထိုပြင် ကျောက်စာ၌ တံဗပံနိကျွန်းသည် သီဟိုဠ်ကျွန်းဖြစ်သော်လည်း တံဗပံနသံဃာသည် သီဟိုဠ်ကျွန်းသံဃာမဟုတ်။ တနေရာတည်း၌ သီဟိုဠ်ကျွန်းကို တံဗပံနိ၊ တံဗပံနဟူ၍ ခေါ်မည်မဟုတ်။ တံဗပံနသံဃာများက တံဗပံနိ တည်းဟူသော သီဟိုဠ်ကျွန်းကို ဗုဒ္ဓ သာသနာသို့ ပြောင်းလဲစေသည်ကို ထောက်၍လည်း တံဗပံနသည် တံဗပံနိ သီဟိုဠ်ကျွန်းမဟုတ်ကြောင်း ထင်ရှား၏။ စင်စစ်ကား တံဗပံနသည် အိန္ဒိယတောင်ပိုင်း တာမြပရ်ဏီမြစ် စီးဆင်းရာ ပါဏ္ဍယတိုင်းဖြစ်သည်။ ယင်းအယူအဆ မှန်ခဲ့ပါမူ သုံးရာစုနှစ်တွင် သရေခေတ္တရာပြည်သို့ အိန္ဒိယတောင်ပိုင်းမှ သာသနာပြုကြောင်း ထင်ရှားသော သက်သေတခုကို နာဂါရ်ဇုနိကောဏ္ဍကျောက်စာ၌တွေ့ရ၏။မည်သို့ပင်ဖြစ်စေကာမူ ငါး–ခြောက် ရာစုနှစ်၌ သရေခေတ္တရာပြည်တွင် အိန္ဒိယတောင်ပိုင်း ကဒံဗအက္ခရာများဖြင့်ရေးသားသော ပါဠိကျမ်းဂန်များရောက်ရှိကြောင်းကို အထက် ဖော်ပြအပ်သော ရွှေပြားတို့က သက်သေခံလျက်ရှိ၏။ ဤသို့ အရေးကြီးသော ရွှေပြားတို့ကို အများ သိစိမ့်သောငှာ စာကိုယ်နှင့်တကွ ဖော်ပြလိုက်ရပေသည်။

### ပုဂံခေတ်

၁၁ ရာစုနှစ်တွင် သထုံပြည်မှ ပုဂံပြည်သို့ ပိဋကသုံးပုံ ရောက်ရှိလာသည့် အခါမှစ၍ ပါဠိကို ယခုထင်ရှားလျက် ရှိသော မြန်မာအက္ခရာများဖြင့် ရေးသားကြလေသည်။ ခရစ်နှစ် ၁၁၁၂ ခု ခန့်တွင် မြစေတီကျောက်စာကို ပျူ၊ မြန်မာ၊ မွန်၊ပါဠိ လေးဘာသာဖြင့် ကျန်စစ်မင်း၏သား ရာဇကုမာရ်

အမည်ရှိသော မင်းသားသည် ရေးထိုးခဲ့လေသည်။ ခမည်းတော် အသည်းအသန် မကျန်းမမာ ဖြစ်သည့်အခါ ရွှေဆင်းတု ပြုလုပ်၍ လှူပြီးလျှင် ကျေးကျွန် လယ်မြေများကိုလည်း လှူကြောင်း စသည်တို့ကို ရေးသားထားသည်။ ထိုကျောက်စာတွင် ရေးသားသော လေးဘာသာတို့ကို ဆင်ခြင်သော် မြန်မာဘာသာသည် အရေးအသား သင်စ ဘာသာဖြစ်ကြောင်း၊ ပျူ ဘာသာသည် တိမ်ကောလုနီးသော ဘာသာဖြစ်ကြောင်း၊ မွန်ဘာသာသည် စကားလုံးအတွင်း ပစ္စည်းကို သုံးသော အခြေအနေတွင် ရှိသေးသည့် ရှေးဘာသာ ဖြစ်ကြောင်းကို သိရ၏။ မြစေတီ ပါဠိကျောက်စာမှုကား ပိဋကပါဠိကဲ့သို့ အပြစ်အဆာမရှိ၊ သဒ္ဒါနည်းအရ စီကုံးထားသော ဘာသာဖြစ်သည်။ (မြစေတီကျောက်စာ — ရှု။)

ထို့ပြင် အလောင်းစည်သူ၏ ရွှေကူကြီးဘုရား ပါဠိကျောက်စာလည်း ရှိသေး၏။

“ငါပြုသော ဤကောင်းမှုဖြင့် လူခပ်သိမ်းအား အကျိုးရှိမည့်ဆုကို ငါလို၏။ ယခုဘဝ၌သော်ငြင်း၊ တမလွန် ဘဝ၌သော်ငြင်း ဤကြွယ်ဝသော ကုသိုလ်ဖြင့် ဗြဟ္မာ၊ သိုကြား၊ မာရတို့၏ စည်းစိမ်ချမ်းသာကိုလည်း ငါ မလို။ ကေရာဇ်မင်း၏ ခမ်းနားဆန်းကြယ်သော အခြေအနေကိုလည်း ငါ မလို။ ဇိနယံ၌ တပည့်ခံရန်ကိုပင် ငါ မတောင့်တ။ သို့ရာတွင် သံသရာတည်းဟူသော မြစ်ကို ဖြတ်၍ တန်တား ထိုးပြီးလျှင် နိဗ္ဗာန်ပြည်သို့ ရောက်သည်တိုင်အောင် လူခပ်သိမ်းအား သယ်ပို့ ရွက်ဆောင်လို၏။ ငါကိုယ်တိုင် ကူး၍ ရေနစ်သူကို ဆွဲတင်အံ့။ ထိုမျှမကသေး၊ မိမိကိုယ်ကို ကြိုးနှံပြီးသော ငါသည် ဆိုနိုင်ခက်သော သူကို ကြိုးနှံစေအံ့။ နှစ်သိမ့်ခြင်း ရပြီးသော ငါသည် ကြောက်သူကို နှစ်သိမ့်စေအံ့။ နိုးကြားသော ငါသည် အိပ်သူကို နှိုးအံ့။ အေးချမ်းသော ငါသည် ပူလောင်သူကို အေးချမ်းစေအံ့။ လွတ်လပ်သော ငါသည် ချည်နှောင်ခြင်း ခံရသော သူကို လွတ်စေအံ့။ သဒ္ဓမ္မ တရားကောင်းပြသော လမ်းသို့ လိုက်၍ ငြိမ်သက်ခြင်း ရသော ငါသည် မုန်းထားခြင်းကို ငြိမ်းစေအံ့။ အတ္တ၌ အမြစ်စွဲသော လောဘ ဒေါသ မောဟ တည်းဟူသော အမြဲထင်ရှားသည့် တရားတို့သည် ငါ၌ ထင်ရှားလာသောအခါတိုင်း ယင်းတို့သည် ပပျောက်ပါစေသတည်း” အစရှိသည့် ဆုတောင်းချက်တို့ကို ပါဠိဂါထာဖြင့် စီကုံးထားသည်မှာ အလွန်မှတ်ဖွယ်ကောင်း၏။

သထုံပြည်မှ ရရှိခဲ့သော ပိဋက သုံးပုံကို မဆုတ်မနစ်သော လုံ့လဖြင့် သင်ကြား လေ့ကျက်ကြသောကြောင့်သာ ပုဂံ ပြည်သူပြည်သားတို့သည် ဤမျှကောင်းသော ပါဠိတို့ကို စီကုံး ရေးသားနိုင်ကြ၏။ သဒ္ဒါမတတ် စာမတတ် ဟူသည်နှင့် အညီ ပါဠိ စာစီစာကုံး တတ်မြောက်ကျွမ်းကျင်ခြင်းသည် ပါဠိသဒ္ဒါ တတ်မြောက်ခြင်းကြောင့် ဖြစ်၏။ အထူးသဖြင့် နရပတိစည်သူနှင့် ကျစွာမင်းတို့ လက်ထက်တွင် ပါဠိသဒ္ဒါကို အထူးသင်ကြား လေ့ကျက်ကြ၍ သဒ္ဒါကျမ်းများကို ရေးသားကြလေသည်။ သထုံပြည်မှ ပိဋက သုံးပုံကို ယူဆောင်လာခဲ့သော ပုဂံမင်းအနော်ရထာသည် သီဟိုဠ်ကျွန်းမှလည်း ပိဋက သုံးပုံကို ယူဆောင်ခဲ့စေ၏။ သီဟိုဠ်မူနှင့် သထုံမူတို့ကို နှိုင်းရှည့်ကြည့်ရှုခြင်းသည် သဒ္ဒါဉာဏ်ကို လှုံ့ဆော်ရကား၊ သဒ္ဒါတတ်သော ပုဂ္ဂိုလ်အမြောက်အမြားပေါ်ပေါက်လာ၏။ ကျန်စစ်သားတည်သော အာနန္ဒာဘုရား အတွင်း၌ ၁၀၆၄ ခုနှစ်တွင် ဓမ္မသေနာပတိရေးသော ကာရိကာသည် ရှေးအကျဆုံးသော ပါဠိသဒ္ဒါကျမ်းဖြစ်၏။ ဤကျမ်းသည် ယခုတိုင် ထင်ရှားလျက် ရှိ၏။ နရပတိစည်သူ၏ ဆရာတော် အဂ္ဂဝံသသည် ယခုတိုင်ကျော်စောသော သဒ္ဒနီတိကို ၁၁၅၄ ခုနှစ်တွင် ရေးသည်။ ဤကျမ်း၌ ပါဠိသဒ္ဒါကို အခန်း ၂၇ ဖြင့် အတိုချုံးသောသုတ္တများပါသည်။ ဓာတုမာလာ အပိုင်း၌ သက္ကတနှင့်ယှဉ်ပြိုင်ချက်များကို တွေ့ရသည်။ သဒ္ဒနီတိသည် မြန်မာနိုင်ငံမှ သီဟိုဠ်ကျွန်းသို့ ပဌမကျေးဇူးဆပ်သော မေတ္တာလက်ဆောင် ဖြစ်သည်။ ဥတ္တရဇီဝ မထေရ်သည် သဒ္ဒနီတိကျမ်းကို ယူ၍ သီဟိုဠ်ကျွန်းသို့ သွားရာ၊ သဒ္ဒနီတိသည် သီဟိုဠ်ကျွန်းဖြစ် ပါဠိသဒ္ဒါများထက် သာပါပေသည်ဟူ၍ အချီးမွမ်းခံရသည်။ ပုသိမ်မြို့အနီး မွေးဖွားရာ ရွာကို အစွဲပြု၍ ဆပဒဟုခေါ်သော သဒ္ဓမ္မဇောတိပါလသည် ဆရာဖြစ်သူ ဥတ္တရဇီဝမထေရ်နှင့် သီဟိုဠ်ကျွန်းသို့ လိုက်သွားပြီးလျှင်၊ မဟာဝိဟာရကျောင်းကြီး၌ နှစ်ပေါင်းအတန်ကြာ စာပေကျမ်းဂန် သင်ကြားခဲ့၏။ အိန္ဒိယနိုင်ငံဖြစ် ကစ္စာယနသဒ္ဒါ၏ သုတ္တတို့ကို ဖော်ပြသော သုတ္တနိဒ္ဒေသကို ရေးသည်။ ဆပဒမထေရ်သည် သဒ္ဒါအပြင် အခြား ပါဠိကျမ်းများကိုလည်း ရေးသေးသည်။ သီဟိုဠ်မထေရ် အနုရုဒ္ဓ ရေးသော အဘိဓမ္မတ္ထသင်္ဂဟ (သင်္ဂြိုဟ်) ၏ အဖွင့်ဖြစ်သော သင်္ခေပဝဏ္ဏနာကို သီဟိုဠ်ကျွန်း၌နေစဉ် ရေးသည်။ သီဟိုဠ်မထေရ် ဝါစိဿရရေးသော ကျမ်း၏ အဖွင့်ဖြစ်သည့် သိမ်နှင့် စပ်လျဉ်းသော သီမာလင်္ကာရဋီကာကိုလည်း ရေးသည်။ ဝိနည်းနှင့်စပ်လျဉ်းသော ဝိနယသမုဋ္ဌာနဒီပနီကို မိမိဆရာ (ဘုန်းကြီး) တောင်းပန်သောကြောင့် ရေးသည်။ ဝိနယပိဋက အခက်အခဲတို့ကို ဖော်ပြသော ဝိနယဂုဠ္ဌတ္ထဒီပနီကိုလည်း ရေးသည်။ အထွေထွေကျမ်းများမှ အဆီအနှစ် ထုတ်ဖော်ပြသော ဂန္ဓိသာရကျမ်း၊ အဘိဓမ္မာဆိုင်ရာ မာတိကတ္ထဒီပနီ၊ ပဋ္ဌာနဂဏနာနယကျမ်းတို့ကိုလည်း ဆပဒ ရေးသားလေသည်။ ဤကျမ်းတို့ကို ရေးသော ဆပဒသည် သဒ္ဒနီတိ ရေးသော အဂ္ဂဝံသကဲ့သို့ သီဟိုဠ်ကျွန်း၌ပင် ကျော်စော လေသည်။ သီဟိုဠ်မဟာဝိဟာရ ကျောင်း၌သာ ထေရပရမ္ပရာ အစဉ်အဆက်မပြတ်ဘဲ ရှိနေသည်ဟု ယုံကြည်သော သီဟိုဠ်ပြန် ဆပဒသည် ရာဟုလ၊ အာနန္ဒ၊ သီဝလိ၊ တာမလိန္ဒတို့နှင့်အဘူ

တကွ ပုဂံပြည်၌ သီဟိုဠ်သင်္ဃာကို တည်ထောင်လေသည်။ သို့ရာတွင် သထုံပြည်ကို သာသနာပြုသော သောဏနှင့်ဥတ္တရ တို့၏ အစဉ်အဆက်ကို ဆက်ခံခဲ့သော ပုဂံအနော်ရထာမင်း ၏ ဆရာတော်ဖြစ်သော အရဟန္တ (ရှင်အရဟံ) ၏ တပည့် တို့သည် သီဟိုဠ်သင်္ဃာနှင့် ဆန့်ကျင်ဖက်ဖြစ်သော မြန်မာ သင်္ဃာကို တည်ထောင်ကြလေသည်။ ဤကဲ့သို့ ဝိနယနှင့် စပ်လျဉ်းသော အငြင်းအခုံ ဖြစ်နေစဉ်အခိုက် ပိဋက သုံးပုံ ကိုသဒ္ဒါနည်းအတိုင်း သင်ကြားကြသော ပုဂံရဟန်းတို့သည် သဒ္ဒါကျမ်းများကို ဆက်လက်ရေးသားကြလေသည်။ သဒ္ဓမ္မ သိရိ ရေးသော သဒ္ဒါကျမ်း သဒ္ဒတ္ထဘေဒစိန္တာသည် ကစ္စာ ယနသဒ္ဒါ၏သုတ္တများနှင့် သက္ကတကျမ်းများကို အမှီပြုသော ကျမ်းဖြစ်သည်။ သက္ကတဖြိုဟ ကျမ်းကိုလည်း မြန်မာဘာ သာပြန်ဆိုသော သဒ္ဓမ္မသိရိသည် သက္ကတကို မြန်မာဘာသာ ဖြင့် ရေးသားရာတွင် ရှေးကျသော ပုဂ္ဂိုလ်တဦး ဖြစ်သည်။ ကစ္စာယန ယောဂ အနက်ဖော်ပြသော မုခမတ္တဒီပနီခေါ် ညာသနှင့် ဋီကာတို့ကို ဝိမလဗုဒ္ဓိရေးသည်။ အဘိဓမ္မတ္ထသင်္ဂ ဟ ဋီကာကိုလည်း ရေးသည်။ သဒ္ဒါနှင့် မဆိုင်သော လော ကုပ္ပတ္တိကျမ်းကို အဂ္ဂပဏ္ဍိတ ရေးသည်။ လိင်္ဂတ္ထ ဝိဝရဏ ဟူသော သဒ္ဒါကို သုဘူတစန္ဒန ရေးသည်။ လိင်္ဂတ္ထ ဝိဝရဏပ္ပ ကာသကကို ဥာနသာဂရ ရေး၍ လိင်္ဂတ္ထဝိဝရဏဋီကာကို ဥတ္တမ ရေးသည်။ ဥတ္တမသည် သီဟိုဠ် ဝိစိဿရရေးသော ဗာလာဝတာရသဒ္ဒါ၏ အဖွင့်ကိုလည်းရေးသည်။ ဝစ္စဝါစက၊ သို့မဟုတ် ဝါစ ဝါစကဟု ယခုတိုင် ထင်ရှားသော သဒ္ဒါကို ဓမ္မဒဿီရေး၍၊ ယင်း၏အဖွင့်ကို သဒ္ဓမ္မနန္ဒီ ရေးသည်။ သဒ္ဓမ္မ သိရိ၏ သဒ္ဒတ္ထဘေဒစိန္တာ သဒ္ဒါ၏ အဖွင့်ဖြစ်သော မဟာ ဋီကာကို အဘယမထေရ်ရေးသည်။ သီဟိုဠ်ဆရာတော် သင်္ဃ ရက္ခိတရေးသော သမ္ဗန္ဓစိန္တာ၏ အဖွင့်ဖြစ်သော သမ္ဗန္ဓစိန္တာ ဋီကာကိုလည်း ရေးသည်။

ကျစွာမင်း ဆရာတော်၏ တောင်းပန်ချက်အရ ဂုဏသာ ဂရသည် မုခမတ္တသာရဟူသော သဒ္ဒါကျမ်းနှင့် ဋီကာကို ရေး သည်။ ၁၄ ရာစုနှစ် အရှေ့ပိုင်းတွင် သဒ္ဓမ္မဥာဏ မထေရ်သည် ဝိဘတျတ္ထကို ရေးသည့်အပြင်၊ သီဟိုဠ်ကျွန်း၌ ၁၂ ရာစုနှစ် တွင် သင်္ဃရက္ခိတရေးသော လင်္ကာဖက်ဆိုင်ရာ ဝုတ္တောဒယ၏ အဖွင့်ဖြစ်သော ဝုတ္တောဒယ ပဥ္စိကာ (ဝါ) ဆန္ဒောသာရတ္ထ ဝိကာသိနီနှင့် လင်္ကာစပ်ခြင်းဆိုင်ရာ ဆပစ္စယ ဒီပနီတို့ကို လည်းရေးသည်။မထေရ်သည် ပါဠိကိုသာ တတ်မြောက်သည် မဟုတ်၊ ကာတန္တြ (ဝါ) ကလာပဟူသော သက္ကတ သဒ္ဒါကို လည်း ပါဠိပြန်ဆိုလေသည်။ ၁၄ ရာစုနှစ်တွင် မင်္ဂလသည် ဂန္ဓတ္ထိဟူသော သဒ္ဒါကျမ်းကို ရေးသည်။ ထိုနောက် သိရိ သဒ္ဓမ္မဝိလာသသည် သဒ္ဓမ္မနာသိနီခေါ် ကစ္စာယန ဋီကာကို ရေးသည်။

ပါဠိသဒ္ဒါကို ဘုန်းတော်ကြီး (ရဟန်းတော်) များသာ သင်ကြား ရေးသားကြသည်မဟုတ်၊ နရပတိစည်သူမင်း လက်ထက်တွင် သဒ္ဒါတတ်သော အမတ်တဦးသည် ဘုရင် မင်း၏ သမီးတော် တယောက်ကို အလွန် နှစ်သက် မြတ်နိုး၏။ ထိုအကြောင်းကို မင်းကြီးသိလျှင်၊ နက်နဲသော ကျမ်းတစောင် ရေးနိုင်လျှင် သမီးတော်နှင့် ထိမ်းမြားမည် ဟု အမိန့်တော်ရှိ၏။ အမတ်လည်း ညာသကျမ်း၏ အဖွင့်ကို ရေးပြီးလျှင် မင်းကြီးထံဆက်၏။ မင်းကြီးလည်း နှစ်သက် တော်မူ၍ သမီးတော်နှင့် ထိမ်းမြားပေးပြီးလျှင်၊ သံပျင် အမတ်အရာ၌ ခန့်တော်မူ၏။ သို့ဖြစ်၍ ယင်း ကျမ်းသည် သံပျင်ဋီကာဟု တွင်၏။

ကျစွာမင်းကိုယ်တိုင် သဒ္ဒါဆိုင်ရာ သဒ္ဒဗိန္ဒုနှင့် အဘိဓမ္မာ ဆိုင်ရာ ပရမတ္ထဗိန္ဒုကိုရေးသည်။သဒ္ဒဗိန္ဒု၏ အဖွင့်ဖြစ်သော လီနတ္ထဝိသောဓနီကို ဉာဏဝိလာသရေးသည်။ သဒ္ဒဗိန္ဒု၏ အဖွင့် ဖြစ်သော သဒ္ဒဗိန္ဒုဝိနိစ္ဆယကိုကား သိရိသဒ္ဓမ္မကိတ္တိ မဟာဖုဿဒေဝ ရေးသည်။ ပရမတ္ထဗိန္ဒု၏ အဖြေကို မဟာ ကဿပရေးသည်။ ကျစွာမင်းလက်ထက်တွင် မိန်းမနှင့် မိန်း ကလေးများပင် သဒ္ဒါကို သင်ကြားလေ့လာကြသည်။ ပါဠိ ကာရကများကို ဖော်ပြသော ဝိဘတျတ္ထကို ကျစွာမင်း သမီးတော် ရေးသောဟူ၏။

အထက်ပါ ကျမ်းဂန်စာရင်းကို ထောက်သော် ပုဂံပြည်သူ ပြည်သားတို့သည် ဝိနယ၊ အဘိဓမ္မ၊ သက္ကတတို့ကို သင်ကြား ကြသော်လည်း ပါဠိသဒ္ဒါကို အထူး သင်ကြားလေ့လာကြ ကြောင်းသိရသည်။ မြန်မာသဒ္ဒါကို ရေးသားရန် စိတ်မကူး ဘဲ၊ ပါဠိသဒ္ဒါကို ဤမျှလောက် သင်ကြားရေးသားကြသည် မှာ မှတ်သားဖွယ်ကောင်းသော အချက်တခု ဖြစ်၏။ ပုဂံ ခေတ်ကို ပါဠိသဒ္ဒါခေတ်ဟူ၍ ခေါ် အပ်၏။

ပုဂံပြည် ပျက်စီးပြီးနောက် ပင်းယခေတ်တွင်လည်း ပါဠိ ကျမ်းဂန်များကို ဆက်၍ ရေးသားကြလေသည်။ သိရိမင်္ဂလ (ဝါ) သိရိသုမင်္ဂလသည် ရှင်ဗုဒ္ဓဃောသ၏ ဝိနယအဋ္ဌကထာ ဖြစ်သော သမန္တပါသာဒိကနှင့် အဘိဓမ္မာအဋ္ဌကထာများ ဖြစ်သော အဋ္ဌသာလိနီ၊ သမ္မောဟဝိနောဒနီတို့၏ သဒ္ဒါဆိုင် ရာ အဖွင့်များကို ရေးသည်။ ၁၃၅၁ ခုနှစ်တွင် နန်းတက် သော လေးစီးရှင်ကျော်စွာမင်း လက်ထက်၌ စတုရင်္ဂဗလ အမတ်သည် မောဂ္ဂလာန၏ အဘိဓာနပ္ပဒီပိကာခေါ် ပါဠိအ ဘိဓာန်ကျမ်း၏အဖွင့်ဋီကာကို ပြုစုသည်။ အဘိဓာန်သည် သဒ္ဒါ သင်ကြားရာ၌ များစွာ အထောက်အပံ့ပြုရကား၊ ဤ ဋီကာ ကျမ်းသည် ယခုတိုင်ကျော်စောထင်ရှားလျက် ရှိ၏။ ဗေဒင်ဆိုင်ရာ ကောလဒ္ဓဇနှင့် လင်္ကာဆိုင်ရာ ဒဏ္ဍီပ္ပကရဏတို့ ၏ အဖွင့်ကိုလည်း ယင်းအမတ်ကြီး ရေးလေသည်။ အများ လေ့လာသော သဒ္ဒသာရတ္ထဇာလိနီခေါ် သဒ္ဒါကျမ်းကို ဆူး တွင်းပစ် ဆရာတော်ဟု ကျော်စောသော ရှင်နာဂိတစီရင် သည်။ ထိုမထေရ် ငယ်ရွယ်စဉ်အခါ၌ ကျောင်းမတက်သဖြင့်

ဖခင်စိတ်ဆိုး၍ဆူးချုံတွင်ပစ်ထားခြင်းခံရသောကြောင့်ဆူး တွင်းပစ်(ခဏ္ဍကခိပ)ဟု တွင်၏။ ထိုမှတပါးလည်း ပုဂံခေတ် ပင်းယခေတ်အတွင်း ပြုစုသော ကျမ်းဂန်အများရှိသေး၏။

## ရာမညဒေသ

ပုဂံမင်း အနော်ရထာသည် သထုံပြည်မှ ပိဋကသုံးပုံကို သာမက စာတတ်ပုဂ္ဂိုလ်များကိုလည်း ယူဆောင်သွားရကား ပုဂံပြည်မှာကဲ့သို့ ရာမညဒေသ၌ ကျမ်းဂန်ရေးသားခြင်းကို မပြုနိုင်ကြချေ။ ထိုအခါ၌ ရာမညဒေသတွင် ဓမ္မဝိလာသ မထေရ်သည် ကျော်စော၏။ ထိုမထေရ်သည် ပါဠိသဒ္ဒါ၊ ဝိနယ၊ အဘိဓမ္မာ ကျမ်းများကို ရေးသောကြောင့် ကျော်စောသည် မဟုတ်၊ ဓမ္မသတ်ကျမ်း ရေးသောကြောင့် ထင်ရှား ကျော်စော၏။ အတ္ထုပ္ပတ္တိကား ဤသို့တည်း။ ဒလ မြို့ ပတိပ္ပဓေယျ ရွာသားဖြစ်သော သာမဏေ သာရိပုတ္တ သည် ပုဂံပြည်သို့ သွား၍ သီဟိုဠ်ပြန် သီဟိုဠ်သင်္ဃာဝင် အာနန္ဒမထေရ်အထံ၌ ရဟန်းခံ၏။ နရပတိစည်သူ မင်းကြီး သည် သာရိပုတ္တ၏ ကျမ်းဂန်တတ်မြောက်သော ကျော်စော သံကို ကြားရကား ဆရာတော်ပြုမည် အကြံနှင့် မင်းချင်း ယောကျ်ားတို့ကို စေ၍ စုံစမ်းစေ၏။ မင်းချင်းတို့လည်း ရဟန်း၏ ခြေမဖျားပြတ်သည့် အဖြစ်ကို မြင်၍ မင်းကြီးအား ထိုအတိုင်း လျှောက်ကြ၏။ မင်းကြီးလည်း ရဟန်းသည် အလုံးစုံသော အင်္ဂါကြီးငယ်နှင့် ပြည့်စုံမူ ကောင်းလေစွဟု အောက်မေ့လျက် ရဟန်းအား အရိုအသေ ပူဇော်ခြင်းကို ပြု၍ ဓမ္မဝိလာသဟူသော တံဆိပ်ကို လှူတော်မူပြီးလျှင်၊ သာသနာ ထွန်းလင်းစေခြင်းငှာ ဒလမြို့သို့ လွှတ်လိုက်၏။

ဓမ္မဝိလာသ မထေရ်လည်း ရာမညတိုင်း မွန်သုံးရပ်တွင် အပါအဝင် ဖြစ်သော ဒလမြို့သို့ ကြွတော်မူ၍ များစွာ ကုန်သော ရဟန်းတို့ကို ကျမ်းဂန် သင်စေ၏။ ထိုအခါ ဒလ မြို့၌ ဓမ္မဝိလာသမထေရ်၏ အသင်းအပင်း ပါဝင်သော ရဟန်းသင်္ဃာ အပေါင်းကို သီဟိုဠ်ကျွန်း အသင်းအပင်း ပါဝင်သော ရဟန်းသင်္ဃာဟူ၍ခေါ် ဝေါ် ကုန်၏။ ဓမ္မဝိလာသ မထေရ်သည် မနုရင်း ဓမ္မသတ်ကိုမှီ၍ ဓမ္မဝိလာသ ဓမ္မသတ်ကို စီရင်သည်။

ဓမ္မဝိလာသ ဓမ္မသတ်ကဲ့သို့ကျော်စောသော ဓမ္မသတ်တ စောင်သည် ဝဂရု (ဝါဂရု) (ဝါရီရူ) ဓမ္မသတ် ဖြစ်သည်။ မုတ္တမ၌ ၁၂၈၀ ပြည့်နှစ်တွင် ဝဂရု (ဝါဂရု) (ဝါရီရူ) မင်း စီရင်သည်။ ဝဂရု နှင့် ဟိန္ဒူဓမ္မသတ်တို့ကို နှိုင်းရှည့်လျှင် ဗေဒယဇ် ပရောဟိတ်ဆိုင်ရာ အကြောင်းများ၊ ယဇ်ပူဇော် ခြင်း၊ ကိုယ်ကို ဆုံးမ၍ အပြစ်ဖြေခြင်း စသော ဗြာဟ္မဏ ဥပဒေများကို ဝဂရုဓမ္မသတ်၌ မတွေ့ရဘဲ ကံကြမ္မာအတိုင်း ဒုက္ခ သုခ တို့ကို တွေ့ရသည် အစရှိသော ဗုဒ္ဓတရားကို တွေ့ရသည်။ ထိုနောက် မြန်မာ မနုကျယ် (၁၇၅၇ ခုနှစ်)၌ ဇာတက၊ မိလိန္ဒ ပဉှာ၊ ဝိနယ အဋ္ဌကထာ ဖြစ်သော သမန္တပါသာဒိကာ၊ ပါတိမောက္ခ အဋ္ဌကထာ ဖြစ်သော ကင်္ခါ ဝိတရဏီ၊ ဝိသုဒ္ဓိမဂ္ဂ၊ သာရတ္ထဒီပနီ ဋီကာတို့ကို အကိုး အကားပြုသည်ကို ထောက်သော်၊ ဗုဒ္ဓတရားသည် ဓမ္မသတ် အပေါ်၌ မည်မျှ ဩဇာပြခဲ့သည်ကိုသိရ၏။ ၁၈၃၂ ခုနှစ် တွင် ရာဇဗလကျော်ထင်သည် မောဟဝိစ္ဆေဒနီဟူသော ဓမ္မ သတ်ကို ပါဠိဂါထာဖြင့်ရေးသည်။ ဤဓမ္မသတ်၌ မနုရသေ့မရှိ တော့ပြီ။ (မနုရသေ့အကြောင်းကို လုံးဝမဖော်ပြတော့ပြီ။)

၁၄ ရာစုနှစ်တွင် လောကဒီပသာရဟူ၍ ကျော်စောသော ကျမ်းကို မေဓင်္ကရ မထေရ်ရေးသည်။ မထေရ်သည်မုတ္တမတွင် ၁၃၄၇ ခုနှစ် နန်းတက်သော ဆင်ဖြူရှင် ဗညားဦးမယ်တော် ၏ ဆရာတော်ဖြစ်သည်။ သီဟိုဠ်ကျွန်းတွင် စာပေသင်ကြား ခဲ့သည်။ လောကဒီပသာရ၌ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ အစရှိ သည့် ဘဝအမျိုးမျိုးနှင့် လောကီပညာအရပ်ရပ်တို့ကို ဆိုင် ရာဝတ္ထုများနှင့် တကွ ဖော်ပြထားသည်။ ပဲခူး ဟံသာဝတီ မြို့၌ အမည်မသိ သူသည် အဘိဓမ္မာဆိုင်ရာ အဖေဂ္ဂုသာရ ဒီပနီကို ရေးသည်။

ကစ္စာယနသဒ္ဒါကျမ်းကြီးနှင့် ဆိုင်သော ကစ္စာယနဘေဒ နှင့် ကစ္စာယနသာရတို့ကို မဟာယသ ရေးသည်။ ယင်းကျမ်း နှစ်ခုတို့သည် သီဟိုဠ်ကျွန်းတိုင်အောင် ထင်ရှားကုန်၏။ ကစ္စာ ယနသာရတွင် ၁၂ ရာစုနှစ် ကျမ်းများဖြစ်သော ဗာလာဝ တာရ၊ ရူပသိဒ္ဓိ၊ စူဠနိရုတ္တိ၊ သမ္ဗန္ဓစိန္တာတို့ကို အကိုးအကား ပြု၍၊ ၁၄၄၂ ခုနှစ်ရေး ပုဂံကျောက်စာတခုတွင် ကစ္စာယန သာရကို တွေ့ရကား၊ ယင်းကျမ်းကို ၁၂ – ၁၅ ရာစုနှစ် အ တွင်းရေးကြောင်း သိရသည်။

သီဟိုဠ်ကျွန်း၌သာ ထေရဝါဒ အစဉ်အဆက်မပြတ်ဘဲ တည်ရှိသည်ဟု ယုံကြည်သော ပဲခူးဘုရင် ဓမ္မစေတီသည် ရဟန်းအပါး ၂၀ ကို သီဟိုဠ်ကျွန်းသို့ ပို့၍ ကလျာဏီမြစ်ရှိ သိမ်တွင် မဟာဝိဟာရကျောင်းထိုင် ဘုန်းတော်ကြီးများထံ၌ ထပ်မံ ရဟန်းခံစေသည်။ ယင်းသီဟိုဠ်ပြန် ရဟန်းတို့ကို အစွဲ ပြု၍ ပဲခူးမြို့၌ ကလျာဏီသိမ်ကို သမုတ်၏။ ဤသို့ ပြုခြင်း အားဖြင့် သီဟိုဠ်ထေရဝါဒနှင့် အဆက်အသွယ် ပြုခဲ့၏။ ထိုအကြောင်းအရာများကို ဖော်ပြရန် ပဲခူး၌ ကလျာဏီသိမ် ကျောက်စာကို ၁၄၇၆ ခုနှစ်၌ ကျောက်ပြား ဆယ်ချပ်တွင် ရေးထိုးလေသည်။ သီဟိုဠ်၌ သာသနာထွန်းကားပုံ၊ သာသ နာကို ဓမ္မာသောကမင်းကြီး ထောက်ပံ့ပုံ၊ သုဝဏ္ဏဘူမိ သထုံ ပြည်သို့ သောဏ ဥတ္တရ မထေရ်တို့ ရောက်ပုံကစ၍ သထုံ ပြည်မှ ပုဂံပြည်သို့ ပိဋကသုံးပုံ ယူဆောင်သွားကြောင်း စသည်တို့ကို ဤကျောက်စာတွင် ဖတ်ရ၏။ ကလျာဏီသိမ် ကျောက်စာအတိုင်း ရဟန်းခံခြင်းကြောင့် နှစ်ပေါင်း များ စွာ သီဟိုဠ်သင်္ဃာ၊ မြန်မာသင်္ဃာ အစရှိသဖြင့် ကွဲပြားနေကြ သော ရဟန်းတို့သည် တဖန် တလုံးတဝတည်း ဖြစ်ကြလေ

သည်။ သာမဏေတို့ သင်ကြားလေ့လာရန် ဖော်ပြအပ်သော ဝိနယဆိုင်ရာ ကျမ်းများကား များသောအားဖြင့် သီဟိုဠ်ကျွန်းဖြစ် ကျမ်းများ ဖြစ်ကြသည်။

## အင်းဝခေတ်

၁၅ ရာစုနှစ်တွင် ထင်ရှားသော အရိယဝံသ၏အတ္ထုပ္ပတ္တိကို ထောက်ရှုခြင်းဖြင့် ထိုအခါတွင် ကျမ်းပြုပုဂ္ဂိုလ်တို့ သင်ကြားလေ့လာနေထိုင်ပုံကို သိနိုင်သည်။ ဆပဒဂိုဏ်းဝင် ဖြစ်သော ပုဂံ အရိယဝံသသည် နရပတိ (ခရစ် ၁၄၄၂–၆၈) လက်ထက်တွင် အင်းဝ၌သီတင်းသုံးတော်မူသည်။ ထင်ရှားကျော်စောခြင်း မရမီ သဒ္ဒါသင်ရန် စစ်ကိုင်းမြို့သို့ သွားလေသည်။ မိမိထံ နေ့စဉ် လာရောက်သော အရိယဝံသအား ပရိသတ်အလယ်တွင် ခံတွင်း၌ ရေငုံတတ်သော ဆရာတော်သည် အစဦး၌ မည်သို့မျှ မပြောမဆိုသော်လည်း တနေ့၌ကား မိမိထံ လာရောက်သည့် အကြောင်းကို မေး၏။ ဆရာတော်ထံ၌ ကျမ်းဂန်သင်ရန် လာရောက်ကြောင်း လျှောက်ထားရာ၊ ဆရာတော်သည် အရိယဝံသအား အဘိဓမ္မတ္ထသင်္ဂဟ၏ အဖွင့်ဖြစ်သော အဘိဓမ္မတ္ထ ဝိဘာဝနီကို သင်နည်း အမျိုးမျိုးဖြင့် သင်ကြား ပေးလေသည်။ ဤသို့ သင်ကြားခြင်းကြောင့် ကျမ်းဂန် တတ်မြောက်သော အရိယဝံသသည် ဆရာတော်၏ တိုက်တွန်းချက် အရ မဏိသာရမဉ္ဇူသာခေါ် အဘိဓမ္မတ္ထဝိဘာဝနီ၏ အဖွင့်ကို စီရင် ရေးသားလေသည်။ ဤကျမ်းကို ဥပုသ်နေ့များတွင် ပုညစေတိယ ဘုရား၌ စုဝေးလျက် ရှိကြသော ရဟန်းများအား ဖတ်ပြ၏။ ဤကဲ့သို့ နေ့စဉ် ဖတ်ပြရာ တနေ့၌ ရဟန်းတပါးသည် မနှစ်သက်ကြောင်း ပြသော အသံကို နှစ်ကြိမ် ပြု၏။ အရိယဝံသလည်း ငြင်းဆိုသူနှင့် ငြင်းချက်ထုတ်ခြင်း ခံရသော စာပိုဒ်တို့ကို မှတ်သားထားပြီးလျှင် မိမိကျမ်းကို တဖန် စစ်ဆေးကြည့်ရှုရာ တနေရာ၌ စာစီစာကုံးအပြစ်၊ တနေရာ၌ သဒ္ဒါအပြစ် ဤအပြစ် နှစ်ခုတို့ကို တွေ့၏။ ငြင်းဆိုသူကို ခေါ်၍ ယမန်နေ့က အဘယ်ကြောင့် ငြင်းချက်ထုတ်ခဲ့သနည်းဟု မေးရာ၊ ငြင်းဆိုသူကလည်း တနေရာတွင် စာစီစာကုံးမှား၍၊ တနေရာတွင် သဒ္ဒါမှားကြောင်း ဖြေဆိုရာ ငြင်းချက်ထုတ်ခံရသော အပိုဒ်တို့သည် မိမိကိုယ်တိုင် ထပ်မံပြင်ဆင်သော အချက်များ ဖြစ်နေကြောင်း သိရှိရသဖြင့်၊ များစွာ ဝမ်းသာဝမ်းမြောက် ရှိရကား မိမိဝတ်သော သင်္ကန်းကို ချွတ်ပြီးလျှင် ထိုရဟန်းအား ဥဇ္ဈာပူဇော်၏။ ဤအချက်ကို ထောက်၍ အရိယဝံသသည် အမှားကို ဖော်ပြသူအား ကျေးဇူးတင်တတ်သော ပညာရှိ စိတ်ဓာတ်နှင့် ပြည့်ဝကြောင်း သိရ၏။ ထိုနောက် အင်းဝသို့ ရွှေ့ပြောင်း လေ၏။ ရှင်ဗုဒ္ဓဃောသ၏ အဋ္ဌသာလိနီကို ဖွင့်သော အဘိဓမ္မာဆိုင်ရာ မဏိဒီပဋီကာကို ရေးခြင်းကြောင့်လည်း အရိယဝံသသည် ကျော်စောလေသည်။ သဒ္ဒါဆိုင်ရာ ဂန္ထာဘရဏနှင့် ဇာတကဆိုင်ရာ ဇာတကဝိသောဓနတို့ကိုလည်း ရေးသေးသည်။ အဘိဓမ္မာဆိုင်ရာ အနုဋီကာ၏ အဖွင့်ကို အရိယဝံသသည် မြန်မာဘာသာဖြင့်ရေးရာ ယင်းကျမ်းသည် အဘိဓမ္မာဆိုင်ရာ မြန်မာကျမ်းဂန်များတွင် ရှေးကျသော ကျမ်းဖြစ်သည်။

## တောင်ငူခေတ်

၁၅၂၅ ခုနှစ် ရှမ်းသိုဟန်ဘွား၏ ဘေးကြောင့် သာသနာ ပျက်စီးယိုယွင်းသောအခါတွင် အရိယဝံသ၏ တပည့် သဒ္ဓမ္မကိတ္တိသည် အဘိဓာန်ဆိုင်ရာ ဧကက္ခရကောသဟု ကျော်စောသော ကျမ်းကို စီရင်လေသည်။ သာသနာ၏ မဏ္ဍိုင်သဖွယ် ဖြစ်သော ပိဋကသုံးပုံကို တတ်မြောက်ခြင်းသည် ပါဠိဘာသာ တတ်မြောက်ခြင်း အပေါ်၌ တည်သည်ဟု သဒ္ဓမ္မကိတ္တိ ယုံကြည်သည်။ တောင်ငူမြို့၌ ပျံတော်မူသည်။

တောင်ငူတည် မင်းကြီးညိုသည် သာသနာကို စောင့်ရှောက်၏။ ငြိမ်းချမ်းသာယာခြင်း ခံစားရသော တောင်ငူမြို့၌ ဝိနည်းနှင့်ဆိုင်သော အကြောင်းအရာများကို ဆွေးနွေးကြလေသည်။ သေရည် သေရက်ကို ရဟန်းတို့သောက်ခွင့် မရှိသော်လည်း ထန်းရည် အုန်းရည်ကို သောက်ခွင့်ရှိ မရှိ ငြင်းခုံကြလေသည်။ အချို့က အပင်မှ ကျခါစ ထန်းရည်ချို၊ အုန်းရည်ချိုကို သောက်ခွင့် ရှိသည်။ အချို့က သောက်ခွင့် မရှိဟု အငြင်းအခုံ ဖြစ်ရာ၊ သောက်ခွင့်ရှိသည်ဟု ယူဆသော မဟာပရက္ကမ မထေရ်၏ဆုံးဖြတ်ချက်ကို အများခံယူကြလေသည်။ မထေရ်သည် ယင်းပြဿနာအလုံးကို သုရာဝိနိစ္ဆယ ဟူသောကျမ်း၌ အကျယ်တဝင့် ရှင်းလင်း ဖော်ပြလေသည်။

ဤခေတ်တွင် ပင်းယ၌ ဝိဇိတာဝီသည် ယခုတိုင် ထင်ရှားသော ကစ္စာယနသဒ္ဒါကျမ်း၏ အဖွင့် ကစ္စာယနဝဏ္ဏနာနှင့် သဒ္ဒါအလင်္ကာပြကျမ်းဖြစ်သော ဝါစကောပဒေသတို့ကို ရေးလေသည်။

ဘုရင့်နောင် လက်ထက် ဉာဏဝိလာသ သည် သင်္ချာပကာသကကျမ်းကို အယုဒ္ဓယမြို့၌ ရေးသည်။ ဟံသာဝတီ၌ အဘိဓမ္မာဆိုင်ရာ ကျမ်းများကို ရေးကြသည်။ သဒ္ဓမ္မလင်္ကာရသည် ပဋ္ဌာနသာရဒီပနီကို ရေးသည်။ မဟာနာမ၊ သို့မဟုတ် အာနန္ဒသည် မဓုသာရတ္ထဒီပနီဟူသော အဘိဓမ္မာ အဖွင့်ကို ရေးသည်။

**၁၇ ရာစုနှစ်။** ။မြန်မာ ဘုန်းတော်ကြီးများသည် ပိဋကတ်နှင့် ဗေဒင်ကျမ်းများကို မတတ်မြောက်ကြဟု ရာမညဒေသမှ သတင်းကြားသော သာလွန်မင်းသည် စစ်ကိုင်းလေးထပ်ကြီး ကျောင်းထိုင် ဘုန်းတော်ကြီး (မထေရ်) အား ပိဋကတ် ဗေဒင်တတ် ရဟန်းအချို့ကို ရာမညဒေသသို့ ပို့ပါရန် တောင်းပန်ချက်အရ၊ တိပိဋကာလင်္ကာရ၊ တိလောကာလင်္ကာရ၊ တိသာသနာလင်္ကာရတို့ကို ပို့လိုက်၏။ ပဲခူးမြို့သို့ ရောက်

ကြလျှင် ဘုရင်မင်းသည်ရွှေမော်ဓောဘုရားအရှေ့၌ကျောင်း ဆောက်၍လှူ၏။ ဥပုသ်နေ့များ၌ ဘုရင်မင်းသည် ပိဋကတ် ဗေဒင်တတ်သော ရာမညဘုန်းတော်ကြီးတို့ကို မြန်မာဘုန်း တော်ကြီးများနှင့် တရား ဆွေးနွေးစေ၏။ ရာမညဘုန်း တော်ကြီးများက "ပိဋကတ် ဗေဒင်တတ် မြန်မာ ဘုန်းတော် ကြီးများ မရှိဟု ရှေးက ထင်မှတ်ခဲ့ကြ၏။ ယခုမူကား ဤ မြန်မာဘုန်းတော်ကြီးများသည် အလွန်တတ်မြောက်စွ တ ကား" ဟု ဝန်ခံကြ၏။ ဤနေရာ၌ ဗေဒင်ကျမ်းဆိုသည်မှာ ဗုဒ္ဓသာသနာဝင် ဘုန်းကြီးများနှင့် များစွာ မဆိုင်သော၊ ပုဏ္ဏားများ သင်ကြားအပ်သော သူရိယ သိဒ္ဓန္တ (နက္ခတ်)၊ လဃုဂြဟ (ဟူးရား)၊ ဒြဗျဂုဏ (ဆေး)၊ တန္တြသျှတ္တရ (မှော်)၊ ကာမသျှတ္တရ (ချစ်စိတ်ဓာတ်) အစရှိသည်တို့ကို သာ ဆိုသည်မဟုတ်၊ ယင်းကျမ်းတို့ကို တတ်သော ဘုန်းကြီး များသည် ပရိယတ် ပဋိပတ်၌ နိမ့်သည်ယူဆကြ၏။ ဆရာ တော် ဟူသည် သက္ကတကျမ်းမှုလာသော ရာဇနီတိ၊ လောက နီတိ၊ ဓမ္မနီတိတည်းဟူသော နီတိကျမ်းများ၌ ကျမ်းကျင်၍ ဘုရင်အား ထိုကျမ်းများအရ ဆုံးမသွန်သင်နိုင်သော အရည် အချင်းနှင့်ပြည့်စုံရသည်။ သက္ကတ ဟိတောပဒေသကျမ်းကို လည်း ဗုဒ္ဓသာသနာဝင်များ နှစ်သက်ကြ၏။ သက္ကတ သဒ္ဒါ အမရကောသျှလည်း မြန်မာနိုင်ငံ၌ ထင်ရှား၏။

တိပိဋကာလင်္ကာရ- တောင်ဖီလာဆရာတော်သည် စလင်း မြို့၌ ၁၅၇၈ ခုနှစ်တွင်ဖွားသည်။ အသက် ၁၅ နှစ်တွင် ဝေဿန္တရာပျို့ကို ရေးသည်။ တိပိဋကာလင်္ကာရဘွဲ့ကို သာလွန်မင်း တရားကြီး ပေးတော်မူသည်။ အဋ္ဌသာလိနီ နိဒါန်းဂါထာ၏ အဖွင့်ကို ရေးသည်။ စစ်ကိုင်းမြို့အနီး တောင်ဖီလာ တောင်၌ နေစဉ် ဝိနယဆိုင်ရာ ဝိနယာလင်္ကာရဋီကာ ကျမ်းကို ရေး သည်။ အမေးတော်ပုံနှင့်ယသဝဍ္ဎနကျမ်းတို့ကိုလည်း မြန်မာ ဘာသာဖြင့် ရေးသည်။

ထိုခေတ်တွင် မြန်မာစာပေ ကြီးပွားတိုးတက်လျက် ရှိ သော်လည်း ဘုရင်မင်းမြတ်တို့ကို ခြီးကျူးသော စာများကို စာဆိုတော်များသည် မြန်မာဘာသာဖြင့်သာမက၊ပါဠိဘာ သာဖြင့်လည်း ရေးကြသည်။ သာလွန် မင်းတရား ရာဇာဘိ သေကမင်္ဂလာ ပြုတော်မူသောအခါ သက္ကတတတ်သော ရ တနာကရမထေရ်သည် ရာဇိန္ဒရာဇာဘိဓေယျဒီပနီခေါ် ဘုရင် မင်းမြတ်တို့ အမည်ပေးပါဠိဂါထာများကို စီရင်လေသည်။

သဒ္ဒါ၌ အထူးတတ်မြောက်သော အရိယာလင်္ကာရသည် တိပိဋကာလင်္ကာရကဲ့သို့ ကျော်စော၏။ ဤ ၁၇ ရာစုခေတ် တွင် စစ်ကိုင်း၌ အဘိဓမ္မာကို အထူးလေ့လာကြ၏။

တိလောကဂုရု မထေရ်သည် ဋီကာ အနုဋီကာတို့ကို နှစ် ပေါင်းများစွာ လေ့လာပြီးလျှင် ဓာတုကထာ၊ ယမကအဖွင့် တို့ကို ရေးသည်။ အရေးကြီးသော ပဋ္ဌာနအဖွင့်ကိုလည်း ရေးသည်။

ပဉ္စမ အရိယာလင်္ကာရ၏တပည့် ဒုတိယ အရိယာလင်္ကာ ရသည် ရှင်ဗုဒ္ဓဃောသ၏ အဋ္ဌသာလိနီ၊ သဒ္ဓမ္မဇောတိပါလ (ဆပဒ) ၏ သင်္ခေပဝဏ္ဏနာ၊ သုမင်္ဂလ၏ အဘိဓမ္မတ္ထဝိဘာ ဝနီ (ဋီကာကျော်)၊ အဘိဓမ္မာကျမ်း ဝိဘင်္ဂ တို့ကိုအဖွင့် ရေးသည်။ ကစ္စာယနဘေဒ၏ ပါဠိဋီကာဖြစ်သော သာရတ္ထ ဝိကာသိနီကိုလည်း ရေးသည်။ ဤကျမ်းတို့ကို စစ်ကိုင်းမြို့ ရာဇမဏိစူဠာစေတီအနီး ဒက္ခိဏာဝနကျောင်းတွင်ရေးသည်။

ဉာသကို အနည်းနည်းအဖုံဖုံ တန်ဆာဆင်အပ်သော သဒ္ဒါကျမ်းပြု ပုဂ္ဂိုလ်သည် စစ်ကိုင်းတွင် သာလွန်မင်းတရား တည်ဆောက်သော ကောင်းမှုတော် စေတီ အနောက်ဖက် ကျောင်းထိုင်ဘုန်းကြီး ဖြစ်သည်။

၁၆၄၇ ခုနှစ် နန်းတက်သော ငါးထပ်ကြီးဒါယကာမင်းကြီး လက်ထက်တွင် စစ်ကိုင်းဆရာတော် ဒါဌာနာဂသည် ဉာသ ၏အဖွင့်ဖြစ်သော နိရုတ္တိသာရမဉ္ဇူသာကို ရေးသည်။ တိပိဋ ကာ လင်္ကာရ၏ ဆက်သွယ်မှုဖြင့် သာလွန်မင်းတရား ချီးမြှင့် ခြင်းခံရသော ပုဂံထေရ ဇမ္ဗုဓဇသည် သဒ္ဒါဆိုင်ရာကျမ်းများ ဖြစ်သော သံဝဏ္ဏနာနယဒီပနီ၊ နိရုတ္တိသံဂြဟ၊ သဒ္ဒဝုတ္တိဗျာ ယဒီပနီ၊ ရူပဘေဒ ပကာသနီတို့ကို ရေးသည်။

အင်းဝစီရင်စုတွင် နေသော သရဒဿိသည် အဘိဓမ္မာ ခုနှစ်ကျမ်း၏ ခက်ရာ ခက်ဆစ် တို့ကို ဖြေရှင်း ပြသော ဂဋ္ဌိတ္ထဒီပနီနှင့် ဝိသုဒ္ဓိ မဂ္ဂ၏ ခက်ရာခက်ဆစ်တို့ကို ဖြေရှင်း ပြသော ဝိသုဒ္ဓိ မဂ္ဂ ဂဏ္ဌိပဒတ္ထ တို့ကို ရေးသည်။ နေတ္တိ ပကရဏကိုလည်း မြန်မာပြန်ဆိုတော်မူသည်။ မထေရ်သည် ရွာတွင်းနေစဉ် ဦးထုပ်ဆောင်းခြင်း၊ ယပ်တောင်သုံးခြင်း စသည်တို့ကို ပြုကျင့်ခဲ့သော်လည်း ထိုအကျင့်တို့ကို စွန့်၍ တောကျောင်းတွင် သီတင်းသုံးတော်မူသည်။

၁၇ ရာစုခေတ်တွင် သဒ္ဒါအသင်အကြားနည်း၍အဘိဓမ္မာ ကို ပို၍ သင်ကြားလေ့လာကြလေသည်။ အဘိဓမ္မာ ခုနစ် ကျမ်း၏အထောက်အပံ့ဖြစ်သော ကျမ်းများတွင် ၁၂ ရာစုနှစ် သီဟိုဠ် အနုရုဒ္ဓါရေးသည့် သင်္ဂြိုဟ်ခေါ် အဘိဓမ္မတ္ထသင်္ဂဟ သည် ကျော်စော ထင်ရှား၏။ သင်္ဂြိုဟ်အဖွင့်တို့တွင် သီဟိုဠ် သုမင်္ဂလရေးသော ဋီကာကျော်ခေါ် အဘိဓမ္မတ္ထဝိဘာဝနီ သည် ကျော်စောထင်ရှား၏။ ထို့ပြင် သီဟိုဠ်ကျမ်းများဖြစ် သော ဗုဒ္ဓဒတ္တ၏ အဘိဓမ္မာဝတာရနှင့် ဓမ္မပါလရေးသော သစ္စသင်္ခေပတို့ကိုလည်း မြန်မာနိုင်ငံတွင် များစွာ သင်ကြား ကြလေသည်။ ပိဋကတ် သမိုင်းအရ သင်္ဂြိုဟ်နိသျှပေါင်း ၂၉ ရှိသည်ကို ထောက်သော် သင်္ဂြိုဟ်ကို အခြားကျမ်းများ ထက် ပိုမို၍ သင်ကြားကြကြောင်း သိနိုင်သည်။

**၁၈ ရာစုနှစ်။** ။တနင်္ဂနွေမင်း (ခရစ် ၁၇၁၄ – ၃၃) လက် ထက် အင်းဝတွင် ဥက္ကံသမာလာ မထေရ်သည် ပါဠိအရေး အသားဆိုင်ရာ ဝဏ္ဏဗောဓနနှင့် လိခနနယကျမ်းတို့ကို စီရင် သည်။ မထေရ်သည် အဋ္ဌကထာ၊ ဋီကာနှင့် အခြားကျမ်း

များကို တတ်မြောက်သည်ဟူ၏။ ဤခေတ်တွင် နှစ်ပေါင်း ၁၀၀ ခန့်အတွင်း ပါရှပန-ကေံသိက အငြင်းအခုံကြောင့် ပါဠိစာပေသည် မှေးမှိန်ခဲ့၏။ ၁၆၉၀ ခုနှစ်လောက်တွင် ဂုဏာဘိလင်္ကာရသည် သင်္ကန်းဝတ်ရာ၌ ပခုံးတဖက် ဖော်သော ကေံသိကဂိုဏ်းကို ဖွဲ့စည်းခဲ့၏။ ပခုံး နှစ်ဖက်လုံး ဖုံးသော ပါရှပနဂိုဏ်းနှင့် ဆန့်ကျင်၏။ ကေံသိကတို့သည် ဆွမ်းခံကြွရာ၌လည်း ယပ်တောင်ဆောင်ကုန်၏။

၁၇၃၃ ခုနှစ် နန်းတက်သော မဟာရာဇာဓိပတိသည် ပါရှပနဂိုဏ်းဝင် ပုဂံဇာတိ ဉာဏဝရကို ဆရာတော်ခန့်၏။ ဆရာတော်သည် သင်္ဂြိုဟ်နှင့် အဋ္ဌသာလိနီတို့ကို အနက်ဖွင့်၏။ ဝိနယဆိုင်ရာ သုရာဝိနိစ္ဆယနှင့် ပါတိမောက္ခလေခန တို့ကို စီရင်သည်။ ပါဠိအဘိဓာနပ္ပဒီပိကာကို မြန်မာပြန်၏။ ဘုရင်မင်းကို ချီးကျူးရန် ရာဇာဓိရာဇနာမတ္ထပ္ပကာသိနီ ဟူသော ဘုရင်မင်း၏ အမည်နာမနှင့်ဆိုင်သော ကျမ်းကို ရေး၏။

နောင်တော်ကြီး လက်ထက် ဆရာတော် ဉာဏလင်္ကာရ (ပါရှပန) သည် နက်နဲသောပညာကြောင့် ကျော်စော၏။ တနေ့လျှင် ပါဠိဘာဏဝါရ တဆယ်တို့ကို ရွတ်ဖတ်သင်ကြားနိုင်သည်ဟူ၏။ ပဒဝိဘာဂခေါ် သဒ္ဒါကျမ်းကို ပြုသည်။ ချာသ၊ ယမက၊ ပဋ္ဌာနတို့ကိုလည်း မြန်မာအဖွင့်ရေး၏။

၁၇၆၀ ခုနှစ်တွင် ဆရာတော် ဇမ္ဗုဒီပအနန္တဓဇသည် သီဟိုဠ် ဗုဒ္ဓဒတ္တရေးသော ဝိနယဝိနိစ္ဆယကို အဖွင့်ရေးသည်။ နောင်တော်ကြီးသည် သက္ကတစာပေကို အားပေးသည်။ ၁၃ ရာစုနှစ်တွင် ဝေါပဒေဝရေးသော သက္ကတသဒ္ဒါကျမ်း၊ မုဂ္ဓဗောဓ စသည်တို့ကို မြန်မာ ပြန်ကြသည်။

စဉ့်ကူးစား (ခရစ် ၁၇၇၆–၈၂) ကို ပါရှပန အယူမှန်ကြောင်း ထင်ရှား သိမြင်စေသော ဆရာတော် နန္ဒမာလာသည် သာသနသုဒ္ဓိ ဒီပိကာ ဟူသော သာသနာ သန့်ရှင်းစင်ကြယ်ခြင်းဆိုင်ရာကျမ်းကို ရေးသည်။

ဘိုးတော်ဘုရားသည် (ခရစ် ၁၇၈၂–၁၈၁၉) ပါရှပန-ကေံသိက အငြင်းအခုံကို ဆုံးဖြတ်သည်။ ဆုံးဖြတ်ပုံကား ဤသို့တည်း။ အလောင်းဘုရား လက်ထက်တွင် ဆရာတော်ဖြစ်ဘူးသော အတုလယသမ္မသည် ကေံသိကတို့၏ ခေါင်းဆောင်ဖြစ်သည်။ မြတ်စွာဘုရား၏တပည့်ရင်းဖြစ်သော ရှင်မောဂ္ဂလ္လာနသည် မိမိရေးသော စူဠဂဏ္ဌိပဒ၌ ကေံသိက အယူကို လိုက်နာသည်ဟု အတုလက စာတမ်း ရေး၏။ ဘိုးတော်ဘုရား၏ဆရာတော် ဉာဏာဘိဝံသ ဦးဆောင်သော ပါရှပနတို့က ဤအကြောင်းအရာကို မည်သို့ သိနိုင်မည်နည်းဟု မေးကြရာ၊ သီဟိုဠ်မှ ရှင်ဗုဒ္ဓဃောသ ဆောင်ယူလာသော ပိဋကတ္တယ အက္ခရာဂန္ထဟူသော ကျမ်း၌ ထိုအကြောင်းအရာကို ဖော်ပြထားသည်ဟု ဖြေဆိုကြ၏။ သို့ရာတွင် ကေံသိကတို့ ကိုးကားသော ကျမ်းသည် ၁၂ ရာစုနှစ်၌ မောဂ္ဂလ္လာန ဟူသော သီဟိုဠ်မထေရ်တပါး ရေးသော ဝိနယဂဏ္ဌိပဒဖြစ်၍၊ ရှင်ဗုဒ္ဓဃောသနှင့် ဘုရားတပည့်ရင်း မောဂ္ဂလ္လာနတို့ထက် ရာစုပေါင်းများစွာနောက်ကျကြောင်းကို ပါရှပနတို့က ဖော်ပြကုန်၏။ ထိုပြင် သီဟိုဠ်ကျမ်းဖြစ် ဝိနယဋီကာကြီးများ ဖြစ်သော ဝဇီရဗုဒ္ဓိဋီကာ၊ သာရတ္ထဒီပနီ၊ ဝိမတိ ဝိနောဒနီ ကျမ်းတို့တွင် အသင်တို့၏ စူဠဂဏ္ဌိပဒကို ကိုးကားသလောဟု မေးကြပြန်ရာ၊ ကိုးကားသည်ဟု ကေံသိကတို့က ဖြေကြ၏။ ဤသို့ဖြစ်လျှင် အဘယ်ကြောင့် စူဠဂဏ္ဌိပဒ၌ "ဤသို့ ဝဇီရဗုဒ္ဓိဋီကာ၌လာ၏။ ဤသို့ သာရတ္ထဒီပနီ၌ လာ၏။ ဤသို့ ဝိမတိဝိနောဒနီ၌ လာ၏" ဟု တွေ့ရသနည်းဟု မေးပြန်ရာ၊ ကေံသိကတို့သည် မဖြေနိုင်ဘဲ အရှုံးပေး ကြရတော့၏။ ဘိုးတော်ဘုရားကလည်း အငြင်းအခုံကို ဆုံးဖြတ်၍ ပါရှပနအယူကို အားလုံး အတည်ပြုရမည်ဟု အမိန့်ချမှတ်တော်မူ၏။

ဉာဏာဘိဝံသသည် သီဟိုဠ်ကျွန်းတိုင်အောင် ကျော်စောၢ၏။ အမရပူရဂိုဏ်းဟု တွင်သော ဂိုဏ်းသားများအား များစွာ ထောက်ပံ့၏။ ဆရာတော် ရေးသော ကျမ်းများကား နေတ္တိပကရဏ၏ ဋီကာဖြစ်သော ပေဋကာလင်္ကာရ၊ ဒီဃနိကာယ၏ ဋီကာဖြစ်သော သာဓုဇ္ဇနဝိလာသိနီဖြစ်၏။ စတုသာမဏေရဝတ္ထု၊ ရာဇောဝါဒဝတ္ထု၊ ဆဒ္ဒန္တနာဂရာဇုပ္ပတ္တိကထာ၊ တိဂုမ္ဘထောမနဟူသော ဝတ္ထုစာတမ်းများကိုလည်း ရေးသည်။ ဘိုးတော်ဘုရားကို ချီးကျူးသော ရာဇာဓိရာဇဝိလာသိနီသည် ပါဠိစကားပြေနှင့် ရေးသော ကျမ်းဖြစ်သည်။ နာမဝိသေသနပုဒ်များကို ဆင့်ကာ ဆင့်ကာ သုံးသော ဝါကျရှည်ကြီးများကြောင့် စာ စီကုံးရာ၌ ရှင်ဗုဒ္ဓဃောသနှင့် မတူ၊ ထူးခြား၏။ အမရပူရ ဘုရင် ဘိုးတော်ဘုရား၏ အကြောင်းကို ရေးရာ၌ မဟာသမ္မတမင်း၊ ဓမ္မာသောကမင်းတို့ကို ဖော်ပြ၏။ အဘိသေက မင်္ဂလာနှင့် စပ်လျဉ်း၍ သုတ္တံ၊ အဋ္ဌကထာ၊ ဋီကာ၊ မဟာဝံသ၊ ရာဇာသိက္ခာပဒ၊ သဒ္ဒနီတိ သဒ္ဒါကျမ်းတို့မှ ကိုးကား၏။ ဘိုးတော်ဘုရား၏ ဂုဏ်တော်များကို ချီးကျူးရာ၌ ဇာတကကိုညွှန်း၏။ ဘိုးတော်ဘုရား၏ ဆောင်ရွက်မှုများကို ဤသို့ ဖော်ပြ၏။ ပါရှပန ကေံသိက အငြင်းအခုံကို ဆုံးဖြတ်ခြင်း၊ ရာမည၊ ကသ္မီရ၊ ယောနက၊ ယဝန၊ ရက္ခင်တို့၌ အသစ်စီမံကိန်းများကိုပြုလုပ်၏။ သီဟိုဠ်ကျွန်းနှင့် သာသနာမှု ဆက်သွယ်၏။ ရခိုင်ပြည်နှင့် တရုပ်နိုင်ငံတို့မှ စေတီတော်တို့ကို ဆောင်ယူခဲ့၏။ ဘုန်းတော်ကြောင့် ပဲခူးတောမှ နိဗ္ဗာနပစ္စယဟူသော ဆင်ဖြူတော်သည် အမရပူရ မြို့တော်သို့ ရောက်လာရ၏။ ဆင်ဖြူတော်၏ ကြန်အင်လက္ခဏာတို့ကို ဖော်ပြရာ၌ ဟတ္ထိသုတ္တကို ကိုးကား၏။ ထိုပြင် ဤကျမ်း၌ ဖြိဟဇ္ဇာတက၊ သာမုဒြိကလက္ခဏ ဟူသော သက္ကတကျမ်းများကို ကိုး၏။ ပါဠိဇာတကမှ ကိုးကားသော ဇာတကများကား အလီနစိတ္တ၊ သီလဝနာဂ၊ ဝေဿန္တရ၊ တေသကုဏ၊ ဒုမ္မေဓ၊ စူဠပဒုမ၊ ဥမ္မဂ္ဂ၊ သံကိစ္စဇာတကများ ဖြစ်၏။

၁၉ ရာစုနှစ်။ ။မင်းတုန်းမင်း လက်ထက်တွင် ပညာသာမိ (ဒုတိယ မောင်းထောင်ဆရာတော်) သည် ဆရာတော် ဖြစ်သည်။ မန္တလေးမြို့တော် တည်ဆောက်ခြင်းကို အမှတ်ရစေရန် နာဂရာဇပ္ပဂ္ဂိကထာဟူသော ပါဠိလင်္ကာကို ရေးသည်။ စကားပြေဖြင့် ဥဘာဘာတိဝံသရေးသော ရာဇာဓိရာဇဝိလာသိနီသည် ဘိုးတော်ဘုရားကို ခြီးကျူးသကဲ့သို့ ပညာသာမိ ရေးသောလင်္ကာ နာဂရာဇပ္ပတ္တိကထာသည် မင်းတုန်းမင်းကို ခြီးကျူး၏။ လင်္ကာဖြင့် ရေးသောကြောင့် သာ၍ဖတ်ပျော်၏။ ပညာသာမိသည် အကျင့်စာရိတ်ဆိုင်ရာ သီလကထာ၊ ဥပါယကထာ၊ အာပတ္တိ ဝိနိစ္ဆယတို့ကိုလည်း၊ စာလုံးပေါင်းဆိုင်ရာ အက္ခရာဝိသောဓနီကိုလည်း၊ (ရဟန်း) ကျောင်းဆိုင်ရာ ဝေါဟာရတ္ထဘေဒ၊ ဝိဝါဒ ဝိနိစ္ဆယတို့ကိုလည်း ရေးသည်။ အမတ်များအဖို့ ရာဇသေဝကဒီပနီကို ရေးသည်။ နိရယကထာဒီပက၊ ဥပေါသထ ဝိနိစ္ဆယတို့ကိုလည်း ရေးသည်။ သဒ္ဒနီတိ သဒ္ဒါ၏အဖွင့်ကို ပါဠိဖြင့် ရေးသည်။ ဤစာစောင်တွင် ဖော်ပြသော အကြောင်းအရာစသည်တို့ကို အပြည့်အစုံဖော်ပြသော ကျော်စောသည့် သာသနဝံသကိုလည်း ရေးသည်။ (ကျမ်းပြုပုဂ္ဂိုလ်များ — လည်းရှု။) ဦးဖေမောင်တင်

**မြန်မာပုရပိုက်**။ ။"ပုရပိုက်" ဟူသော ဝေါဟာရမှာ သက္ကတ စကား "ပရိဒ္ဓ"မှ ယွင်းယိမ်းကာ "ပရိဗ"ဟု ပြောင်းခဲ့ပြီးလျှင် "ပုရပိုက်" ဟု နောက်ဆုံးခေါ်တွင်ဟန် ရှိသည်။ (သက္ကတ၊ ပရိဒ္ဓ- ပရိဗ- ပုရပိုက်) ပုရပိုက်ဆိုသည်မှာ ပေစာကဲ့သို့ပင် ရှေးခေတ်က မြန်မာလူမျိုးတို့ စာရေးရာ၌အသုံးပြုခဲ့သည်။ လက်ရေးစာဖြစ်သည်။ ယခုခေတ်ပေါ် စက္ကူအမျိုးအစားတမျိုးပင် ဖြစ်သည်။ လက်ဖြင့်လုပ်သောစက္ကူ ဖြစ်သည်။ များသောအားဖြင့် အယူဝါဒနှင့် သက်ဆိုင်သော စာပေအားလုံးသည် ပေစာဖြင့် ရေးသားထားပြီးရှိသကဲ့သို့ အုပ်ချုပ်ရေးဆိုင်ရာ စစ်တမ်း မှတ်တမ်း ဆုံးဖြတ်ချက်အားလုံးသည် ပုရပိုက်ပေါ်တွင် ရေးသား ထားကြလေ့ရှိသည်။

**ပုရပိုက်**။ ။ပုရပိုက်သည် ယခုခေတ် စာအုပ်များကဲ့သို့ စာရေးရသော ပြည်တွင်းဖြစ်စက္ကူ ဖြစ်သည်။ ပုရပိုက်၏ ပုံသဏ္ဌာန်သည် အမြင်အားဖြင့် ယခုခေတ် စာရင်း စာအုပ်ရှည်နှင့် တူ၍ ဖတ်သည့်အခါ စာရွက်ကဲ့သို့ တလှန်ချင်းလည်း ဖတ်ရသည်။ ဘာဂျာသဏ္ဌာန် ဆွဲဆန့်ဖတ်၍လည်း ရနိုင်သည်။

**ဝေါဟာရ**။ ။ပုရပိုက် ဟူသော ဝေါဟာရနှင့် ပုရပိုက် ပြုလုပ်ပုံ၊ ပုရပိုက် အမျိုးမျိုး၊ အသုံးချပုံ အဖုံဖုံတို့သည် မှတ်သားစရာ အလွန် ကောင်းသည်။ ပုရပိုက် ဟူသော ဝေါဟာရသည် မည်သည့်ခေတ်က စပေါ်၍ မည်သည့် ဘာသာက ဆင်းသက်လာကြောင်းကို အတိအကျ ပြောနိုင်ရန် ခဲယဉ်းသည်။ ပုရပိုက်အသုံးကို ရာဇဝင်အထောက်အထားနှင့် ပြရလျှင်ကား၊ သဝဏ္ဏဘုမ္မိ သထုံပြည်ကို ပုဂံပြည့်ရှင် အနော်ရထာမင်း မသိမ်းပိုက်မီ (ခရစ် ဆယ်ရာစုနှစ်) ပုဂံပြည်ကြီး၌ အရည်းကြီးတို့သည် ဘုရင်မင်းမြတ်၏ အကြည်ညိုကို ခံလိုကြသည်။ ထိုကြောင့် မိမိတို့ဖာသာ ကြေးနီပုရပိုက်တွင် စာရေးပြီးသော် သခွတ်ပင်ထဲ ထွင်းထည့်ထားကာ အများပြည်သူတို့ကို အိပ်မက်အရတူးဖော်ရကြောင်းဖြင့် သူတို့အယူသာလျှင် မှန်ကန်ကြောင်း ရေးထားသော ပုရပိုက်ကို ပြသည်။ ထိုအချက်ကို အထောက်အထားပြု၍ ပုရပိုက် အရေးအသားသည် ပုဂံခေတ်ကတည်းကပင် ရှိနေခဲ့ကြောင်း သိသာနိုင်သည်။

ပုဂံပြည် အနော်ရထာမင်းစော လက်ထက် မတိုင်မီ စဉ့်ကွင်းစဉ့်ပုံများတွင် သက္ကတဘာသာ အရေးအသားများကို တွေ့ရသည်။ အနော်ရထာမင်းစော သထုံပြည်ကို အောင်မြင်ပြီးနောက်တွင် ပုရပိုက်ဟူသော ဝေါဟာရသည် သက္ကတနှင့် မွန်ဘာသာ နှစ်ထွေရောပြီး ခေါ်ဝေါ်ကြသည်ဟု ယူဆနိုင်သည်။

သက္ကတဘာသာ ပရိဒ္ဓကို မြန်မာဘာသာ ပရိဗဟူ၍ရင်း၊ ပရိဗမှ ပုရပိုက်ဟူ၍ရင်း ခေါ်ဝေါ်ကြဟန် ရှိသည်။ ပုံပမာ သစ္စကပရိဗ္ဗာဇကကို သစ္စကပရိဗိုဇ်ဟူ၍ရင်း၊ ဇနပဒကို ဇနပုဒ်ဟူ၍ရင်း ပြောင်းလဲ ခေါ်သည့်ထုံး ရှိသည်။

မွန်ဘာသာ ဗဗ္ဗယပေါ ကို "ဗုယပိုက်" ဟု ပြောင်းဟန်သင့်တော်ငြားလည်း မူလရှိရင်း သက္ကတဘာသာ ပရိဒ္ဓနှင့် ရောပြီး ခေါ်ကြဟန်ရှိသည်။ အချို့ ပညာရှိများကလည်း ပုရပိုက်ဟူသည် ပါဠိဘာသာ ပုရနှင့်ပတ္တ ပေါင်းထားရာမှ ပုရပိုက် ခေါ်သည်ဟု အမိန့်ရှိကြသည်။ အဓိပ္ပါယ်မှာ ပုရ=ရှေး+ပတ္တ = ကျရောက်သည်။ စာနှစ်ခု ပေါင်းလိုက်လျှင် ရှေးဦးစွာ ပေပေါ်မတင်မီ ရေးသားသည့်စာ ဟု ဆိုလိုသည်။

ကျောက်စာဝန်ဟောင်း တော်စိန်ခို၏ အယူအဆမှာ ပုရပိုက်သည် အိန္ဒိယနိုင်ငံတွင် သုံးလေ့သုံးထ မရှိ။ တရုပ်နိုင်ငံတွင်သာ မိုင်းကိုင်စက္ကူဖြင့် ပြုလုပ်သော ပုရပိုက်ဖြူများပေါ်၌ ရေးလေ့ရှိသည်။ တရုပ်များသည် ရှေးက စာကို ပိုးဖျင်ပေါ်တွင်ရင်း၊ ခြည်ဖျင်ပေါ်တွင်ရင်း ရေးသည်။ ထိုဖျင်များကို တရုပ်ဘာသာဖြင့် ပုပိုက်ဟု ခေါ်သည်။ ရှမ်းဘာသာဖြင့် စာအုပ်ကို 'လိဂ်'ဟုခေါ်သည်။ အက္ခရာ အပြောင်းအလွဲအရ ထိုတရုပ်ဘာသာ စကားနှင့် ရှမ်းဘာသာစကား ရောနှောပြီးလျှင် ပုပိုက်လိဂ်မှ ပုလိဂ်ပိုက်၊ ထိုမှ ပုရပိုက် ခေါ်ဝေါ်သည်ဟု ဆိုသည်။ စာအုပ်တွင် စာအုပ် တအုပ်၊ ပေစာတွင် ပေစာတထုပ် သုံးသကဲ့သို့ ပုရပိုက်တွင်လည်း ပုရပိုက် တဆူ၊ နှစ်ဆူ စသည်ဖြင့် သုံးသည်။ ဆူဆိုသော စကားမှာ တရုပ်ဘာသာအားဖြင့် စာအုပ်ကို 'ရှူး' ခေါ်ရာမှ ဆူဖြစ်လာကြောင်း ဆိုသည်။

**ပုရပိုက်ဖြူပေါ်တွင် ရေးဆွဲထားသော နက္ခတ်ကျမ်း။ ပုရပိုက်ဖြူသည် တန်ဖိုးကြီး၍ ကြာရှည်ခံသော်လည်း ရေးရာ၌ မလွယ်ကူသည့်ပြင် ဖျက်ရန် ပြင်ရန် ခက်ခဲလေသည်။**

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ပုရပိုက်ဟူသော ဝေါဟာရသည် မည်သည့်ဘာသာ မည်သည့်ဝေါဟာရက ဆင်းသက်လာသနည်းဟူသည်ကို အမျိုးမျိုး ထင်မြင် ယူဆကြသည်။ သို့ရာတွင် ပုရပိုက် ဟူသော အသုံးအနှုန်းသည် ပုဂံခေတ်ကပင် ရှိပြီးဖြစ်ကြောင်း သိရသည်။

**ပုရပိုက်ပြုလုပ်ပုံနှင့် အမျိုးအစား။** ။ပုရပိုက်ကို ရွှေ၊ ငွေ၊ ကြေးနီ၊ သားရေ၊ သစ်ပင်၊ ဝါးနှင့် ကောက်ရိုးတို့ဖြင့် ပြုလုပ်ရသည်။ ရွှေ၊ ငွေ၊ ကြေးနီ ပုရပိုက်များကို ဘုရားဌာပနာသွင်းရာ၌ ပြုလုပ်ကြောင်း သိရသည်။ သားရေ ပုရပိုက်ကို ကားစာများထဲတွင်သာ တွေ့မြင် ဖတ်မှတ်ရခြင်း ရှိသည်ဟု အဆိုရှိသည်။ စက္ကူ ပုရပိုက်သည် အများသုံးပစ္စည်း ဖြစ်သည်။ သစ်ပင် ဝါးပင်၏ အခေါက်ဖြင့် စက္ကူပုရပိုက် ပြုလုပ်ရသည်။

ပုရပိုက်တွင် ပုရပိုက်အဖြူ၊ ပုရပိုက် အနက်ဟူ၍ နှစ်မျိုးရှိသည်။ ပုရပိုက်အဖြူဟု ခေါ်ရသော်လည်း အမန်မှာ ဝါကျင့်ကျင့် အရောင် ရှိ၍ ကြာရှည်ခံသည်။ ပုရပိုက်နက်သည် ပုရပိုက်ဖြူကဲ့သို့ တန်ဖိုးမကြီး၊ ရေးရာ၌ လွယ်ကူပြီးလျှင် ဖျက်ရန်၊ ပြင်ရန် လွယ်သည်။ ကျောက်သင်ပုန်းပမာ ဖျက်ပြီးသော် အသစ်ထပ်မံရေးလျှင် ရသည်။ သို့သော် ပုရပိုက် အခြေအနေ ကောင်းမှသာလျှင် ရသည်။

ပုရပိုက်ဖြူတွင် အမျိုးအစား မရှိသော်လည်း ပုရပိုက်နက်ကား လေးမျိုး ရှိသည်။

(၁) ရှမ်းပုရပိုက်၊ ရှမ်းစက္ကူဖြင့် ပြုလုပ်ထားသည်။ ကြာရှည်ခံသည်။

(၂) သရက်ချဉ် ပုရပိုက်၊ သစ်ပင်အမည်ကို အစွဲပြု၍ ခေါ်သည်။ ရှမ်းပုရပိုက်ကဲ့သို့ ကြာရှည် မခံချေ။

(၃) ဝါးရှာထိုး ပုရပိုက်၊ ဝါးမှ ပြုလုပ်၍ ရသော ပုရပိုက်ဖြစ်သည်။ ဝါးရိုးရိုးကို ပြုလုပ်ခြင်းထက် ပိုခိုင်သည်။ သာ၍ ချောသည်။ ခုန်ညင်းနှင့် သေသေချာချာ ချောမွတ်အောင် တိုက်၍ မျက်နှာဖုံး

အလွှာ နှစ်ထပ်ကို သပ်သပ်ရပ်ရပ် အလယ်က အကြောင်းကလေးခံပြီး ပြုလုပ်သည်။

(၄) ဝါးရိုးရိုး ပုရပိုက်၊ ကြမ်း၍ လက်ခံစာကြမ်း ရေးရာတွင်သာ အသုံးပြုသည်။

**ပုရပိုက် အရွယ် အစား**။ ။ပုရပိုက် အရွယ် အစားသည် ခေါက်ထားလျှင် အရှည် ၁၇ လက်မ ၁၈ လက်မခန့်ရှိ၍၊ အနံ ခုနစ်လက်မ၊ ရှစ်လက်မခန့်ရှိသည်။ အငယ်ဆုံး ပုရပိုက်သည် အရှည် သုံးလက်မ၊ အနံတလက်မနှင့် တဝက်ရှိသည်။ အထူ မှာ ၂၄ လွှာရှိ၍ စာမျက်နှာ ၄၈ မျက်နှာရှိသည်။

**ပုရပိုက် အခေါ် အဝေါ်**။ ။ပုရပိုက်တွင်ပါဝင်သော အလွှာ အထူအပါးကိုလိုက်၍ အခေါ် အဝေါ် အမျိုးမျိုးရှိသည်။ ပုရပိုက်အလွှာ တလွှာတည်းကို လွှာချင်း၊ သို့မဟုတ် တရေစီးဟု ခေါ်သည်။ (၁) လွှာချင်း၊ ဘုရင့်အမိန့်တော်များ ရေးမှတ်ရာ၌ အသုံးပြုသည်။ (၂) အလွှာ တလွှာ၊ လွှာချင်းကဲ့သို့ အလွှာမျိုးနှစ်ရေစီး ပူးလျက် ရှိသည်ကို ခေါ်သည်။ ရုံးတော်သို့ လျှောက်ကြားချက် အစီရင်ခံချက်များ ရေးရာတွင် အသုံးပြုသည်။ (၃) လွှာထပ်ကလေး၊ သုံးရေစီးမှ ငါးရေစီးထိ ပါဝင်ပြီးလျှင် အဆိုလွှာ အချေလွှာ ရေးသားရာတွင် အသုံးပြုသည်။ (၄) လွှာထပ်ကြီး၊ ခြောက်ရေစီးမှ ၁၁ ရေစီးထိ ပါဝင်သည်။ (၅) ဆူဝက်၊ ၁၂ ရေစီးမှ ၁၆ ရေစီးထိ ပါဝင်သည်။ (၆) တဆူ၊ ၃၂ ရေစီးပါဝင်သည်။

'ရေစီး' ဆိုသည်မှာ အလွှာတလွှာကို ဆိုသည်။ ယခုခေတ် စက္ကူတရွက်ခေါ်သော သဘောပင် ဖြစ်သည်။ ပုရပိုက်သည် ခေါက်ထားလျှင် သူ့အထပ်နှင့်သူ စာအုပ်ကဲ့သို့ ဖြစ်၍၊ ဖွင့်ကြည့်လျှင် ဘာဂျာသဏ္ဍာန် ဆက်နေသည်။ ပုရပိုက် တမျက်နှာကို စာ ၁၂ ကြောင်း ရေးလေ့ရှိသည်။

ပုရပိုက်များ၏ အပေါ်ဖုံးကို ယွန်းထိုးခြင်း၊ သစ္စေးသုတ်ခြင်း၊ ဟသ်ပြဒါး သုတ်ခြင်း၊ ရွှေချခြင်း၊ မှန်စီချခြင်းဖြင့် ခန့်ညား လုပရန် ပြုလုပ်ကြသည်။ ယွန်းထိုးသော ပုရပိုက်ကို ယွန်းပေါင်ပုရပိုက်ဟု ခေါ်သည်။ ထိုပုရပိုက်ထဲ၌ မှတ်သားထားသည့် မြေကို ယွန်းပေါင်တော်ပါ အရာတော်မြေဟု ခေါ်သည်။



ပုရပိုက်မြူကဲ့သို့ တန်ဖိုးမကြီး၊ ရေးရာ၌ လွယ်ကူပြီးလျှင် ဖျက်ရန်ပြင်ရန် လွယ်ကူ၍ ကျောက်သင်ပုန်းပမာ ဖျက်ပြီးသော် အသစ် ထပ်မံရေးလျှင် ရသည့် ပုရပိုက်နက်

# မြန်မာပုရပိုက်




**ပုရပိုက် မှတ်တမ်းများသည် အလွန်များပြားသည်။ နက္ခတ်ကျမ်းများကစ၍ ဘုရားစာအဆုံး ရေးမှတ်လေ့ရှိသည်။ ပုရပိုက်များသည် မြန်မာဘုရင်များခေတ်၏ ပဒေသာ မှတ်တမ်းများသဖွယ် ဖြစ်သည်။**

**မင် နှင့် ကလောင်တံ။** ။ပုရပိုက်ပေါ်တွင် စာရေးလျှင် ရေးရသည့် အရာဝတ္ထုအမျိုးမျိုးနှင့် သုံးစွဲသည့် အရောင်အမျိုးမျိုးရှိသည်။ ပုရပိုက် အဖြူကို ခုန်ညင်းနှင့် ချောမွတ်အောင် တိုက်၍ အနက်၊ အနီ၊ အဝါ၊ အပြာ၊ အစိမ်း စသည့် ဆေးများ၊ ရွှေမင်၊ ငွေမင်များနှင့် ရေးသည်။ အနက်ရောင် မီးသွေးနှင့် ရေးသည်။ မင်နှင့် ရေးသည်။ မီးသွေးဆိုရာတွင် ချက်ပြုတ်ရာ၌ အသုံးပြုသည့် မီးသွေးမျိုး မဟုတ်ချေ။ စီမံပြုလုပ်ထားသော မီးသွေးမျိုး ဖြစ်သည်။ လက်သန်းခန့် တုတ်၍ မာသော သစ်ကိုင်း၊ အထူးသဖြင့် မန်ကျည်းသားကို မီးသွေးချောင်း ဖြစ်စေရန် မီးဖုတ်ပြီးလျှင် ပုရပိုက်ဖြူပေါ်တွင် ရေးသည်။ ဤသို့ ရေးခြင်းသည် ကြာရှည်ခံရန် ရေးခြင်းမျိုး မဟုတ်ချေ။ ရေနံမင်၊ ဆီမင်ဖြင့်လည်း ရေးသည်။

အဖြူရောင် ရရန် ကန့်ကူဆံနှင့် ဖြစ်စေ၊ မြေဖြူနှင့် ဖြစ်စေ ရေးသည်။ မြေဖြူကို အမှုန့်ပြု၍ တမာစေးဖြင့် ရောကာ စုတ်တံနှင့် ရေးရသည်။ 'ခေါင်တံ' နှင့်လည်း ရေးသည်။ စုတ်တံသည် နွား၏ နားတွင်းမွေးကို ပိုးကြိုးနှင့် စုစည်းပြီးလျှင် လက်ကိုင်တံဖြင့် ချည်ထားခြင်းကို ခေါ်သည်။ ခေါင်တံမှာ အခေါင်းပါသော ကျူရိုးမာမာကို ကလောင်သွား ပမာ မားဖြင့် ချွန်ထားသည်ကို ခေါ်သည်။ ကန့်ကူဆံသည် ကျောက်သင်ပုန်းတွင် ရေးရသော ကျောက်တံနှင့် တူသည်။ ကန့်ကူဆံ တိုသွားလျှင်ရေးနိုင်ရန် ကန့်ကူဆံတံအဖြစ် ရွှေ၊ ငွေ၊ သံ၊ ကြေးဝါ၊ ကြေးနီ၊ မိုးကြိုးတို့ဖြင့် စွပ်တံ ပြုလုပ်လေ့ရှိသည်။ သုံးစွဲသူ၏ အခြေအနေအလိုက် ပြုလုပ်ခြင်းဖြစ်သည်။ ကန့်ကူဆံဖြင့် ပုရပိုက်နက်ပေါ်တွင် စာရေးလေ့ ရှိသည်။

စာရေးရာတွင် ယခုခေတ် မင်အရောင် အမျိုးမျိုး သုံးသကဲ့သို့ ရှေးကလည်း သုံးကြသည်။ ဆေးဒန်းမှ အဝါရောင်ကိုင်း၊ မဲနယ်မှ အပြာရောင်ကိုင်း၊ ဆေးဒန်းနှင့် မဲနယ် နှစ်ထွေရောစပ်လျှင် အစိမ်းရောင်ကိုင်း၊ အနီရောင်ကို ဂေ့နီနှင့် ဟင်္သပြဒါးမှ၎င်း ရကြသည်။ သံကျောက် တမျိုးမှ ဂေ့နီကို ရသည်။ ဟင်္သပြဒါးအနီရောင်လည်း အမျိုးမျိုး ရှိသည်။

ရွှေမင်၊ ငွေမင်ဖြင့် ထီးသုံး နန်းသုံး မင်းဆရာသုံး ပုရပိုက်များတွင်သာ ရေးသည်။ မင်ကလွဲ၍ အခြား အရောင်များတွင် တမာစေး ထည့်သုံးရသည်။ မင်ကိုကား ငါးကြင်းသည်းခြေထည့်ရေးလျှင် ကြာရှည်ခံ၍ အရောင်တောက်သည်။ ပုရ



ပုရပိုက်ကို ဖွင့်လိုက်လျှင် ဘာဂျာသဏ္ဌာန် ဆက်နေသည်။

ပိုက် · အဖြူပေါ်တွင် အဖြူရောင်မှတပါး အခြားအရောင်များဖြင့် စာရေးနိုင်သည်။ ပုရပိုက် အနက်တွင် အနက်ရောင်မှ လွဲ၍ ကျန်အရောင်များ ရေးနိုင်သည်။ ပုရပိုက်နက်သည် နှစ်ပေါင်း တရာ့ငါးဆယ်ခန့် ခံ၍ ပုရပိုက်အဖြူသည် အနှစ်လေးငါးရာခန့် ခံသည်။

ပိဋကတ်များ၊ ဗေဒင်ကျမ်းများ၊ ရာဇဝင်များကို ဦးစွာ၌ ပုရပိုက်နက်ပေါ်တွင် ရေး၍ နောက်မှ ပုရပိုက် ဖြူ၊ သို့မဟုတ် ပေရွက်ပေါ်တွင် ပြန်ကူးလေ့ရှိသည်။ ပုရပိုက်နက်ကို အကြမ်းရေး၊ မှတ်စုရေး အနေဖြင့် အသုံးပြုသည်။ ပုရပိုက်နက်သည် ကြာရှည်မခံ၊ ဖျက်ပစ်လျှင် အလွယ်ရသောကြောင့်တည်း။ ပုရပိုက်ပေါ်တွင် ရေးပြီးမှ ပေထက်တင်ကြောင်းကို ဇနကဝတ္ထုနိဂုံးတွင် "အမျိုးမှတ်မူ၊ ဇာတ်ဝတ္ထုကို၊ လက်နုသွယ်ဝိုက်၊ ယဉ်သိုက်မြိုက်အောင်၊ ပုရပိုက်လကွဲ၊ မလျှံမယွင်း၊ မကြွင်းချောချင်၊ ပေထက်တင်၍၊ အောင်မြင်ပြီးလတ်" ဟူ၍ ဖော်ပြထားသည်။

ပုရပိုက် မှတ်တမ်းများသည် အလွန် များပြားသည်။ မြန်မာတို့၏ ဓလေ့အတိုင်း ပုရပိုက်များကို သေတ္တာကြီးများထဲတွင် ထည့်ပြီးလျှင် အလုပ်ဌာနမှာ ထားလေ့ရှိသည်။ ထိုသေတ္တာများထဲတွင် ပုရပိုက်များနှင့် ဗောင်းနားတောင်း၊ ဝတ်လုံစသည့် အဖိုးတန် အသုံးအဆောင်များလည်း ထားလေ့ရှိသည်။ မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းပိုက်စဉ် တိုင်းပြည်မငြိမ်မသက် ဖြစ်နေချိန်တွင် လူအချို့က ထိုသေတ္တာကြီးများကိုဖွင့်၍ အထဲ၌ရှိသော အဖိုးတန် အသုံးအဆောင်များကိုယူသည်။ အချို့လည်း ပစ္စည်းရှိမည်အထင်ဖြင့် ဖွင့်၍ ရှာကြသည်။ မတွေ့လျှင်လည်း ပစ်ထားခဲ့သည့် အတွက် ပုရပိုက် အခေါက်များ ပျက်လေသည်။ မသိမ်းဆည်းဘဲ ထားသဖြင့်လည်း အမှိုက်ရှင်းလင်းသူက မီးရှို့ပစ်သည်။ ဤသို့သော အဖြစ်မျိုးနှင့် ကြုံခဲ့ရသောကြောင့် ရှေးဟောင်းယဉ်ကျေးမှုများ ပါရှိသော များစွာသော အဖိုးထိုက်သည့် ပုရပိုက်မှတ်တမ်းများ ဆုံးရှုံးခဲ့သည်။ နောက်မှ တောင်ခွင်မင်းကြီးက ကာနယ်ဆလေဒင်ထံ စာရေးတော်ကြီး ဦးမြဲကို စေလွှတ်၍ ဤကဲ့သို့ ပရမ်းပတာ မဖြစ်စေရန် ပြောမှ ကျန်တန်သမျှ ပုရပိုက်များ ကျန်ကြောင်းကို ပုရပိုက်သမိုင်းနှင့်တကွ ပုဂံဝန်ထောက် ဦးတင် ရေးသားသော "မြန်မာမင်းအုပ်ချုပ်ပုံ စာတမ်း၊ ပဉ္စမပိုင်း" စာမျက်နှာ ၉၇၊ ၁၆၂ များတွင် အသီးအသီး ဖော်ပြ ရေးသားထားသည်။

ပုရပိုက်များတွင် မြန်မာမင်း လက်ထက်က အုပ်ချုပ်ပုံအုပ်ချုပ်နည်းများကို တွေ့ရသည်။ ပုရပိုက်များကို မြို့ရွာစစ်တမ်း၊ အခွန်တော် ကောက်ခံခြင်း၊ အမိန့်တော် စသည်ဖြင့် ရုံးတော်နှင့် စပ်ဆိုင်သော ကိစ္စအရေးအသားများမှာ အသုံးများသည်။ အချို့ ပုရပိုက်ပါ မှတ်သားချက်သည် ကြာရှည်တည်တံ့ရန် ကူးရေးထားလျှင် ကောင်းပေမည်။ ပုရပိုက်များသည် ကြာရှည်မခံတတ်ချေ။ မိုးဖြစ်စေ၊ မိုးဖွဲဖြစ်စေ ထိလျှင် ပျက်စီးတတ်သည်။ မိုးငွေ့သင့်လျှင် အစိုပြန်၍၊ တရေစီးနှင့် တရေစီး ငြိကပ်ပြီးလျှင် ခွာမရဘဲ ပျက်စီးတတ်သည်။မှိုတက်လျှင်လည်း ကန့်ကူဆံကြောင်းအဖြူနှင့် မှိုမှုန့်အဖြူ ရောပြီးလျှင် စာများ ဖတ်မရအောင် ဖြစ်တတ်သေးသည်။

ယခုခေတ်တွင် ခေတ်မီ စာရေးနည်း ကရိယာ ပုံနှိပ်စက်များ ပေါ်ပြီးဖြစ်သည့်အတွက် ရှေးကျသော စာရေးနည်းဖြစ်သည့် ပုရပိုက်အရေးအသားသည် လုံးဝမရှိသလောက်ပင်ဖြစ်သည်။ ယခုအခါ မြန်မာမင်း လက်ထက်မှ ကျန်ခဲ့သော ပုရပိုက် မှတ်တမ်းများကို မြန်မာ့ယဉ်ကျေးမှု အမွေအနှစ်အဖြစ်ဖြင့်၎င်း၊ ရှေးခေတ် အုပ်ချုပ်ပုံအုပ်ချုပ်နည်း မှတ်စုမှတ်ရာ မှတ်တမ်းဟူ၍၎င်း အလွန် ချောင်ကျသော မြန်မာနိုင်ငံ အရပ်ဒေသများ၊ ယဉ်ကျေးမှု ထိန်းသိမ်းရာ ဗိမာန်များ ဖြစ်သော စာကြည့်တိုက်များ၊ အုပ်ချုပ်ရေး ဌာနများ၌သာလျှင် ရှိတော့သည်။

ပုရပိုက်များတွင် အိမ်သုံးစာရင်းက စ၍ ဘုရားစာ အဆုံး ရေးမှတ်လေ့ ရှိသည်။ ပုရပိုက်ကို မှတ်စုစာအုပ်သဖွယ် အသုံးပြုကြသည်။ တခါတရံ ဇာတ်သဘင်များတွင် အသုံးပြုလေ့ရှိသော ဇာတ်ချင်းများကိုလည်း တွေ့ရသည်။ ရပ်ရွာထဲ၌ ဆရာတော်ဘုရားကြီးများ အမှူးပြု၍ ဆွမ်းခံကြွလာလျှင် ရပ်ရွာအလိုက် ဆွမ်းအုပ်စာရင်း မှတ်သားကြသည်ကို တွေ့ရသည်။ဆေးမီးတိုနည်းများလည်း စုံလှသည်။ ဥယျာဉ်စာရင်းများကို အပင် အမျိုးအစား၊ ပင်ရေ၊ ထွက်သော အသီးအနှံ စသည်ဖြင့် အတိအကျ ပုရပိုက်များတွင် မှတ်သားထားသည်။ ဇာတာ ရက်ချုပ်မှတ်သည်လည်း ရှိသည်။ ဤသို့အားဖြင့် ပုရပိုက်များသည် မြန်မာဘုရင်များခေတ်၏ ပဒေသာ မှတ်တမ်းများသဖွယ် ဖြစ်လေသည်။

သို့ဖြစ်၍ မြန်မာ့ ယဉ်ကျေးမှု အမွေအနှစ်ဖြစ်သော ပုရပိုက်မှတ်တမ်းများကို ကြာရှည် တည်တံ့ရန် ထိန်းသိမ်းဖို့ အထူး လိုအပ်ပေသည်။ အရေးတကြီး ကူးယူ ပုံနှိပ်ထားသင့်သော ပုရပိုက် စာမူများကိုလည်း အမြန် ကူးယူ ပုံနှိပ်ထားသင့်ပေသည်။

**ဒေါ်ခင်ခင်စု**

**မြန်မာပေစာ။** ။ပေစာဆိုသည်မှာ ပေပင်မှရသော ပေရွက်ပေါ်တွင် အက္ခရာစာလုံးများ ရေးသောကြောင့် ပေနှင့် စာကို တွဲ၍ ပေစာ ဟုခေါ်သည်။ လက်ရေးစာ ဖြစ်သည်။ မြန်မာ ဆိုသည်မှာ ပြည်ထောင်စု မြန်မာနိုင်ငံ တိုင်းရင်းသားများနှင့် မြန်မာစာကို ဆိုလိုသည်။ မြန်မာများ အသုံးပြုသော မြန်မာစာဖြင့် ရေးထားသည့် ပေစာဖြစ်သဖြင့် မြန်မာပေစာဟု ခေါ်ခြင်းပင် ဖြစ်သည်။ ပုံနှိပ်ခေတ် မတိုင်မီက လောကီ လောကုတ္တရာ စာပေအားလုံးကို ပေစာများ

တွင် တွေ့နိုင်သည်။ ယခု တွေ့ရှိသော ရှေးခေတ်စာပေအား လုံးလိုပင် ပေပေါ်တွင် ရေးသားထားရှိခဲ့လေသည်။ (ပေ စာ — လည်းရှု။)

ပေရွက်မှရသော ပေချပ်များကို များသောအားဖြင့် စာ ရေးရန် ပြုလုပ် သုံးစွဲကြသည်။ တခါတရံတွင် ဘုရင်မင်း မြတ်အစရှိသော မင်းညီမင်းသားများသည် ရွှေ၊ ငွေ၊ ကြေး တို့ကို ပေရွက်သဏ္ဍာန် အပြားခတ်ကာ ရွှေပေ၊ ငွေပေ၊ ကြေးပေအဖြစ် စာပေကို မှတ်တမ်းတင်ကြသည်။ရေးသား ကြသည်။

ပေပင်သည် အပူပိုင်း အရပ်ဒေသ၌ များသောအားဖြင့် ပေါက်လေ့ရှိသည်။ ထန်းပင်နှင့် အနည်းငယ်တူသည်။ ပေ ပင်၏ အသီးသည် သေးငယ်သည်။ ပေပင်မှ ပေရည်ကို ရသည်။ ငန်သောအရသာရှိသည်။ ထန်းပင်ထက် လုံးပတ် ကြီး၍ အရွက်သည်လည်း ကြီးသည်။ ပေပင်၏ အသက် အနှစ် ၆၀ ရှည်သည် ဟုဆိုသည်။ 'ပေတသီး ကျီးတသား'ဆို သော စကားပုံအတိုင်း ပေပင်သည် အသီးတကြိမ် သီးပြီး လျှင် သွေ့ခြောက်၍ သေသွားသည်။

**ပေသုံးနည်း။** ။ပေရွက်ကို ပေပင်ပေါ်မှ ခူးပြီးလျှင် ပြီး ခြင်း ရေးရသည် မဟုတ်ချေ။ ပေရွက်ပေါ်တွင် ကညစ်ဖြင့် ရေးနိုင်သည့် အခြေတိုင်အောင် အဆင့်ဆင့် လုပ်ရသော



ပေရွက်များကို ကျမ်းခေါ် ပေရွက် အကျယ်အရှည်နှင့် ထပ်တူထပ်မျှ သော သစ်သား နှစ်ချပ်ဖြင့် ထက်အောက်ညှပ်ကာ တိဖြတ်ရသည်။

လုပ်ငန်းသည် များလှသည်။ ပေပင်၏ အသက် ရှစ်နှစ် ခန့်တွင် ပေရွက်ကို ခူးနိုင်သည်။ ခူးပြီးလျှင် အလယ်ကြောမ ကို သင်၍ အရင်းအဖျား ဖြတ်ကာ ခွေ၍ နေပူ၌ အ ခြောက်လှမ်းရသည်။ ခြောက်သော် ခွေထားသော ပေကို ဆန့်၍ ပေချပ်များ တထပ်ချင်း ထပ်ပြီးလျှင် ပြန်ခွေရ သည်။ ပေချပ် ထပ်သောအခါ ခွေနိုင်အောင် ထပ်ရသည်။

ဤသို့ ခွေထပ်ပြီးသော ပေများကို ရာဝင် စဥ့်အိုးထဲထည့် ကာ ထိုအိုးထဲသို့ ရေကို ပေခွေများ နစ်သည့်တိုင်အောင် ထည့်ရသည်။ ထို့ပြင် ထမင်းကိုလည်း သင့်တင့်အောင်ထည့် ရသေးသည်။ ပေထည့်သည့် အိုးကို နေပူပူတွင် ရက်သတ္တ တပတ်၊ သို့မဟုတ် ရက်သတ္တတပတ်သာသာ ထားရသည်။ အဖုံး ပိတ်မထားရချေ။ အပူဓာတ်ကြောင့် အမြှုပ်များ ထွက်လာလျှင် ပေကို ဆယ်ကြည့်ရသည်။ ပေရွက်၌ အစိမ်း ကွက်များ ရှိသေးလျှင် မနပ်သေးသဖြင့် ထပ်၍ စိမ်ထားရ



ပေရွက်ကို ရွှေဘော်တိုက်ရန် အမျိုးအစားအလိုက် ထုပ်ရသည်။

သည်။ ပေရွက်များသည် ညိုနေမှသာလျှင် နပ်သည်။ သို့ သော် အညိုလွန်လျှင်လည်း ဆွေးသွားတတ်သည်။ အနေ တော် နပ်မှသာလျှင် စာရေး၍ ကောင်းသည်။ ပေရွက်စိမ် လျှင် နပ်သင့်သလောက် စိမ်မိစေရန် အထူး သတိထားရ သည်။ ပေရွက်စိမ်ခြင်းသည် အနံ့အလွန်ပြင်းသဖြင့် လူသူ



အမျိုးအစား ခွဲခြားထုပ်ထားသော ပေရွက်များကို ချော မွတ်စေရန် ရွှေဘော်တိုက်စဉ်

ကင်းပေးရာနေရာ၌ စိမ်ထားရသည်။ သို့စိမ်ခြင်းသည် စာရေးရာ၌ ပျော့ပျောင်းချောမွတ်စေရန် ဖြစ်သည်။

ယင်းသို့ ပေရွက်များ နပ်လာလျှင် ဆယ်ပြီးသော် ရေအေးနှင့် စင်အောင် ဆေးရသည်။ ထိုနောက် တရွက်ချင်း ပြန်ခွဲပြီးလျှင် ထိုပေရွက်ခွေများကို အရိပ်၌ ထား၍ အခြောက်ခံရသည်။ ခြောက်လျှင် ပြန်ဖြန့်ပြီးနောက် ပေရွက်အထပ်လိုက် စည်းထားရသည်။ ပေရွက်ပြန့်စေရန်ပင် ဖြစ်သည်။ ဖြန့်မရလျှင် နှင်းရည်ခံပြီး ဖြန့်ရသည်။ ပြီးလျှင် ပေရွက်၏ ပြက်အကျယ် အကြီးအသေး ရွေးကာ ခွဲခြား၍ မျိုးတူချင်း ထားရသည်။ အမျိုးအစား ရွေးချယ် ခွဲထားပြီးသော ပေရွက်များကို ကျမ်း ဟုခေါ်သော ပေရွက်၏ အကျယ်အရှည်နှင့် ထပ်တူ ထပ်မျှသော သစ်သား နှစ်ခုဖြင့် အထက်အောက် ညှပ်ထားရပြန်သည်။ ကျမ်းသည် ပေရွက်၏ အနံအလျားကို တိုင်းသော ပစ္စည်းလည်း ဖြစ်သည်။ ကျမ်း၏အလျားကို ဗယ်ပြန်ညာပြန် သုံးချိုး တချိုး ထား၍ ပလ္လင်ပေါက် နှစ်ခု ရှိရသည်။ ပလ္လင်ပေါက်ကို စူးဖြင့် ဖောက်ထားခြင်း ဖြစ်သည်။

ပေရွက်များကိုလည်း ဗယ်ပြန်ညာပြန် သုံးချိုး တချိုး ထားပြီးသော် အပေါက်ကလေး နှစ်ပေါက် ဖောက်ရသည်။ ထိုသို့ ဖောက်သောအခါ အထက်ဖော်ပြခဲ့သော ကျမ်းခေါ် သစ်သားတချပ်ပေါ်တွင် ပေရွက်များ တင်ပြီးလျှင် အပေါ်က ကျမ်းတခု ထပ်တင်ရသည်။ ယင်းသို့ ပြုလုပ်ပြီးလျှင် ပေဖောက်စူးနှင့် ဖောက်ရသည်။ ပေဖောက်စူး၏ ထိပ်တွင် အပေါက်ကလေးရှိသည်။ ပေချပ်များ ထပ်သောအခါ၌ ပေပေါက်စူး၏အင်အားကို ကြည့်ပြီးလျှင် ပေချပ်များ ထပ်ရသည်။ ပေချပ်တိုင်း ဗယ်တချက် ညာတချက် အပေါက်ကလေး ဖောက်ရသည်။ ပေချပ်ပေါ်ရှိ အပေါက်ကို ပလ္လင်ပေါက် ဟုခေါ်သည်။ ပလ္လင်ပေါက်သည် ပေချပ်များ ထပ်ထားလျှင် တိမ်းစောင်းခြင်း မရှိဘဲ၊ ညီညာရန် ပြုလုပ်ခြင်း ဖြစ်သည်။

ပေစာ တထုပ်ကို များသောအားဖြင့် ပေ အခေါ် ၂၅ အင်္ဂါ (ချပ်ရေအားဖြင့် ၃၀၀ ချပ်)ပြည့်လျှင် ပလ္လင်ပေါက်ဖောက်ပြီး ပေချပ်များကို ပလ္လင်တိုင် ခေါ် ကောင်းမွန်ချောမွတ်စွာ ပြုလုပ်ထားသော တလက်မ၏ ဆယ်ပုံ ၁ ပုံခန့်သာ လုံးပတ်ရှိသော ဝါးတိုင်ကလေးနှစ်တိုင် သွင်း၍ ပေချပ်များ ခိုင်မြဲရန် ထိန်းပေးရသည်။ ထိုတိုင်ကလေးများကို ပလ္လင်တိုင် ဟုခေါ်သည်။ အမြင့်မှာ ထပ်ထားသော ပေချပ်၏ အမြင့်ကိုလိုက်၍ အရှည်အတို ထားရသည်။ ပေစာတထုပ်၏ အမြင့်သည် လေးလက်မ၊ ခြောက်လက်မ၊ ခုနစ်လက်မ၊ ရှစ်လက်မ စသည်ဖြင့် ကျမ်းစာ၏ စာသားကိုချင့်၍ ရှိသည်။ သစ်သားဖြင့် ညှပ်သွင်းကာ ပလ္လင်တိုင် စိုက်ပြီး ပေစာထုပ်ကို ပေရွက်များ ညီစေရန် ပေထိုးဆောက်ဖြင့် ပေရွက်၏ ထိပ်နှစ်ဖက်ကို ဖြတ်ချရသည်။ ပေထိုးဆောက်သည် ကြေးစည်ပုံသဏ္ဌာန် ရှိ၍ ထက်မြအောင် သွေးထားရသည်။ ပေထိုးဆောက် လုပ်သော သံသည် အလွန် မျိုးကောင်းရသည်။ လည်းမ ပျဉ်ဖြစ်စေ၊ အခြား တမိုက်ခန့်ထုသော သစ်သားကိုဖြစ်စေ အလယ်က ထွင်းရသည်။ အလယ် ထွင်းထားသောကြောင့် ဘေးနှစ်ဖက် မောက်နေသည့်အထဲသို့ ထိပ်ဖြတ်ထားပြီးပေချပ်များကို သွင်းရသည်။ ချောင်လျှင် သပ်ရိုက်သွင်း၍ ပေထိုးဆောက်ဖြင့် တဖက်ပြီးလျှင် တဖက်ထိုးရသည်။

**ပေမျဉ်းပစ်နည်း။** ။ပေချပ်များ တညီတည်း ဖြစ်လာသော်လည်း စာ မရေးနိုင်သေးချေ။ စာရေးရန် မျဉ်းချရပေဦးမည်။ နှစ်ပေခန့် အရှည်ရှိ၍ နှစ်လက်မ၊ သို့မဟုတ် နှစ်လက်မခွဲ အကျယ်ရှိသော လက်သန်းလုံးခန့်ရှိသည့် ဝါး၊ သို့မဟုတ် သစ်သားကို မျဉ်းကြိုးတားရန် အထစ်ကလေးများ ထစ်ထားရသည်။ ဗယ်ညာ နှစ်ဖက် ထစ်ရသည်။ သို့ထစ်ရာတွင် မျဉ်းတားလိုသောပေ၏ ပြက်အကြီးအသေးကိုလိုက်၍ ရှစ်ကြောင်းမှ ၁၂ ကြောင်းထိ များသောအားဖြင့် ပြုလုပ်ကြသည်။

ဘောင်ရိုက်ထားသော သစ်သား ဘေးနှစ်ဖက် အလယ်တိုင်ကို ကြိုးနှင့်ဖြစ်စေ၊ သံချောင်းနှင့်ဖြစ်စေ ခိုင်အောင် ပြုလုပ်ပြီးလျှင် ချည်ပွပွကလေးများကို ထစ်ကလေးများပေါ်တွင် ချည်ရသည်။ ထိုနောက် ကျမ်းညီညီပေါ်တွင် ပေရွက်ကို ချ၍ သစ်သားဘောင်ရှိ ထစ်ကလေးများမှ ကြိုးများကို နန္နင်းရေဖြင့် သုတ်ရသည်။ အပေါ်က ပေရွက်တချပ် ထပ်လိုက်ပြန်လျှင် နန္နင်းသုတ်ထားသော ကြိုးများသည် အလယ်က နေပေမည်။ ထိုသို့ ပြုလုပ်ခြင်းကို မျဉ်းပစ်သည် ဟုခေါ်

သည်။ နန္ဒင်းသုံးခြင်းသည် သာသနာတော်နှင့် လျော်ညီသည် ဟုလည်း ယူဆကြသည်။ မျဉ်းပစ်ရာတွင် စုံခွ-မ-နင်း လုပ်ရသည်။ သဘောမှာ ပလ္လင်ပေါက်ကို မျဉ်းကြောင်းမထိဘဲ၊ မျဉ်းကြောင်း ရှစ်ကြောင်း စုံထားသည် ဆိုပါက ပလ္လင်ပေါက်ကိုခွကာ တဖက်တချက် မျဉ်းကြောင်းလေးကြောင်း အညီအမျှ ထားရပေမည်။ ကိုးကြောင်း ဆိုသော် အလယ်ပလ္လင်ပေါက်ကို မျဉ်းတခု နင်းကျော်သွားပါမှ ရမည်။ နန္ဒင်းသုတ်မျဉ်းကို ပေပေါ် မှောက်ချပြီးလျှင် ထိုမျဉ်းပေါ် ပေချပ်ထပ်မှောက်၍ လက်နှင့် သပ်ပေးရသည်။ လက်နှင့် သပ်သောအခါ လက်ဝဲလက်ဖြင့် ဝဲဖက်သပ်ကာ ယာဖက်လက်ဖြင့် ယာဖက်သို့ သပ်ရသည်။

ပေချပ်များကို မျဉ်းချပြီးနောက် တလက်မပတ်လည်ရှိ ပေတိုင်း သစ်သားကို လက်မဝက်ခန့် ထစ်လျှင် လက်မဝက်ခန့် ကျန်ပေမည်။ ထစ်ထားသောဖက်တွင် ခဲသားဆန့်ရုံ သုံးလေးပေါက် အပေါက်ဖောက်ပြီးနောက် ခဲသား ထည့်ကာ အရှည်အတို လိုသလောက်ကြည့်၍ မျဉ်းတားရသည်။ ထိုသို့ ပြုလုပ်ခြင်းသည် ပေချပ်၏ ထိပ်နှစ်ဖက်တွင် ကွက်လပ်ချန်နည်း (မာဂျင်တားနည်း) ပင် ဖြစ်သည်။ ပလ္လင်ချပ်ခေါ် ပဌမ စာရေးသော မျက်နှာတွင်ကား ထိုနည်းကိုမသုံးရချေ။ ပေရွက်ဖြင့်သာ ပေချပ်၏ ပလ္လင်ပေါက် အတွင်း တဖက်တချက်ကို တိုင်းရသည်။

**စာစင်ခုံ။** ။ပေချပ်ပေါ်တွင် စာရေးနိုင်ရန် အဆင့်ဆင့် လုပ်ငန်းများပြီးလျှင် စာရေးရပေမည်။ ပေစာရေးရန် စာစင်ခုံရှိသည်။ စာစင်ခုံသည် နောက်မှီပါ အမြင့် တပေ ရှစ်လက်မခန့်ရှိ၍ ထိုင်၍ရေးရသည်။ ကြက်ခြေသဏ္ဍာန်ပြုလုပ်ထားသော ခြေထောက်နှစ်ဖက်ရှိ တိုင်များသည် သုံးလက်မခန့် အပေါ်သို့ တိုင်စွန်းကလေးများ ထွက်လျက်ရှိသည်။ ထိုခုံ၏ တပေခန့် အကျယ်ကို ကိုးလက်မသစ်သားခင်း၍ သုံးလက်မ ချန်ထားသည်။ ထိုသစ်သားခင်းသည် အောက်တွင် လေးဖက်ကာရံ၍ အံပြုလုပ်ထားလေသေးသည်။ သုံးလက်မ အတွင်း ချန်သောနေရာမှာ ပေစာရေးလျှင်အသုံးအဆောင် ပစ္စည်းများ ထည့်သွင်းထားရန် ဖြစ်သည်။ သစ်သားခင်း၏ အပြင်ဖက် ဟိုဖက် သည်ဖက် ကြက်ခြေတိုင် အပိုစွန်းတွင် အမှီ သစ်သားတန်း ရှိသည်။ စာစင်ခုံ၏အတွင်းဖက် လက်ဝဲဖက် ကြက်ခြေတိုင်စွန်းတခုတွင် မြန်မာ အမျိုးသမီးများ အင်္ကျီချုပ်ရာတွင် အသုံးပြုသော ချုပ်ခုံ၌ မြင်ရလေ့ ရှိသည့် အဝတ်ဖုလုံး၊ သို့မဟုတ် အဝတ်ကျပ်ထုပ်စည်းမျိုး ပြုလုပ်ရသည်။ လောလောဆယ်ကြည့်ကူးမည့် ပေချပ်ကို သစ်သားနောက်မှီတွင် ထောင်ထားပြီးလျှင် ကျန်ပေချပ်များကို သစ်သားခင်းပေါ်တွင် စာပုလွေခံ၍ အလိုက်သင့် တင်ထားကာ ကူးရေးမည့် ပေရွက်ကိုမူ အဝတ်ဖုလုံးပေါ် တင်၍ လက်စုပ်ကလေးဖြင့် လက်ညှိုးတွင် စွပ်ကာ ညာဖက်လက်ညှိုး လက်



မျဉ်းပစ်ရန်အတွက် ပေချပ်များကို ရှစ်ကြောင်းပေ၊ ၁၂ ကြောင်းပေ စသည်ဖြင့် ခွဲခြားရွေးချယ်ရသည်။



ပေချပ်များ ထပ်ထားလျှင် တိမ်းစောင်းခြင်းမရှိ၊ ညီညာစွာ ရှိစေရန် ပလ္လင်ပေါက် ဖောက်ရသည်။



ရွှေဘော်တိုက်ရန် ပလ္လင်တိုင်တွင် ပေရွက်များကို စွပ်ရသည်။



ပေချပ်ကို ဗယ်ဖက်လက်မ လက်ခလယ်တို့ဖြင့် ညှပ်ကာ ညာဖက်လက်မ လက်ညိုးတို့ဖြင့် ကညစ်ကိုင်ပြီး ရေးရသည်။

မဖြင့် ကညစ်ကိုင်ပြီး ရေးရသည်။ ပေချပ်ကိုကား ဝဲဖက်လက်မ လက်ခလယ်တို့ဖြင့် ညှပ်ထားရသည်။ စာရေးလျှင် ဝဲဖက်လက်မကို လက်သည်းရှည်ထား၍ အခွက်ကလေး ပြုထားမှသာလျှင် ကညစ်ကို လက်သည်းပေါ်တွင် တင်ပြီး ရေးနိုင်သည်။ ကညစ်ကို ထိန်းခြင်းသဘော ဖြစ်သည်။ ကညစ်ဆိုသည်မှာ ခဲတံလုံးခန့်ရှိ ထိပ်ဖျားချွန်သော သံချွန်ပင် ဖြစ်သည်။

**စာရေးနည်း။** ။စာရေးရာတွင် အရေးမှားခဲ့သော် မှားသော စာလုံး၏ အလယ်တွင် ဝတ်ဆံထည့်ခြင်းဖြင့် ဖျက်ပစ်လိုက်ခြင်း မည်သည်။ ရှေးက ပေ ကူးရေးရာဝယ် "က"ဖျက်ရမည့်အစား "ယ" ဖျက်မိသဖြင့် "ကဖျက် ယဖျက်"ဟူသော စကားပုံ ပေါ်ပေါက်လာခြင်းဖြစ်သည် ဟု သိရှိရသည်။ ပေကူးရာနှင့် ကျက်မှတ်ရာတွင် အမှတ်အသားကို နံနံစေ့ခန့်ပျားဖယောင်းဖြင့် စာကြောင်းကို တေးထားတတ်သည်။ ပေတွင် စာရေးသောအခါ သဘောတူ ထပ်တူထပ်မျှ အကြောင်းများ ပါလာလျှင်၊ ပေယျာလစာတမ်း ထိုးပြီး ထားသည်။ ထိုကြောင့် မြန်မာစကားတွင် ဆိုရိုးရှိသည်မှာ ချန်ခဲ့သောသဘောကို "ပေယျာလကံ၊ ဝက္ကက်ချန်" ဟု သုံးကြသည်။ အချို့ စာလုံးများကိုလည်း နိသျပြန် ပေစာများပေါ်တွင် အတိုချုံးရေးလေ့ရှိသည်မှာ "မဟာရာဇ၊ကြီး။ တွံ၊သည်"စသည်ပင် ဖြစ်သည်။

ပေချပ်များပေါ်တွင် မိမိလိုရာ ကျမ်းစာကို ကညစ်ဖြင့်ရေးသောအခါ စာသားများ ကောင်းစွာ ပြီသထင်ရှားခြင်း မရှိသေးချေ။ ရေနံသုတ်ပြီးမှသာလျှင် စာသားများ ထင်ရှားလာသည်။ ရေနံသုတ်ပြီးလျှင် ပေချပ်များကို ထပ်ကာကြိုးနှင့် စည်းပြီးသော် နေလှမ်းရသည်။ ရေနံအထဲသို့ စိမ့်မဝင်ရန် ဖြစ်သည်။ ရေနံသုတ်ခြင်းကို ရေနံကိုင်သည် ဟု ခေါ်သည်။

ပေချပ်၏ ခွက်နေသည့် ဖက်ကို ဝမ်းဖက်၊ ခုံးနေသည့် ဖက်ကို ကျောဖက် ဟု ခေါ်သည်။ ပေစာရေးလျှင် ပဌမဆုံး ပေချပ်၏ ဝမ်းဖက်မျက်နှာကို စာရေးလျှင် ပလ္လင်ပေါက်နှစ်ခု၏အတွင်း၌သာ စာရေးလေ့ ရှိသည်။ ကျောဖက်နှင့် ကျန်ပေချပ်များကိုကား ဘေးနှစ်ဖက် တလက်မခွဲခန့် ချန်၍ စာအပြည့် ရေးရသည်။ အဆုံးပေချပ်၏ ကျောဖက်ကိုကား ပဌမ ပေချပ်ကဲ့သို့ ပလ္လင်ပေါက်အတွင်း နေရာ၌သာလျှင် စာရေးသည်။ ပေစာ၏ ပဌမဆုံး ပေချပ်ကို ပလ္လင်ချပ် ဟု ခေါ်သည်။ ထိုသဘောယူ၍ စကား စပြောလျှင် စကား ပလ္လင်ခံသည် ဆိုကြသည်။

**ပေကို မျဉ်းကိုင်ခြင်း။** ။ပေချပ်များဖြင့် မိမိလိုရာ စာကို ရေးပြီးလျှင် မျဉ်းကိုင်ရပေဦးမည်။ မျဉ်းကိုင်ခြင်းကြောင့် ခန့်ညား သပ်ယပ် လှပလာသည်။ ပေစာထုပ် အမျိုးအစားလည်း ကွဲပြားလေသည်။ (၁)မျဉ်းနက်၊ (၂)

မျဉ်းနီ၊ (၃) ရွှေမျဉ်းကြံဆစ် နှင့် (၄) ရွှေမျဉ်း ရွှေပိန်း တို့ပင် ဖြစ်သည်။ သဓွေးနက် သုတ်ခြင်းကြောင့် မျဉ်းနက်ဟူ၍၎င်း၊ ဟင်္သပြဒါးသုတ်၍ မျဉ်းနီဟူ၍၎င်း ခေါ်သည်။ ရွှေမျဉ်း ကြံဆစ်မှာ ပေစာထုပ်၏ ဘေးနှစ်ဖက် အလယ်တွင် သုံးလက်မခန့် ဟင်္သပြဒါးသုတ်ပြီးလျှင် ကျန်နေရာများကို ရွှေချထားခြင်းဖြစ်သည်။ ရွှေပိန်းရွှေမျဉ်းပေမှာ ပေစာတထုပ်လုံး ရွှေချထားသည်။ ဖော်ပြပါ လေးမျိုးလေးစားမှအပ ကျန်ပေစာများကို ပေကြမ်း ဟုခေါ်သည်။

အထက်တွင် ဖော်ပြသော မျဉ်းကိုင်ခြင်းကို စာရေးပြီးမှသာလျှင် ပြုလုပ်ရသည်။ ပေစာထုပ်၏ ပဌမ ပေချပ်နှင့် နောက်ဆုံး ပေချပ်တို့ကို အပိုပေချပ် ၁၀ ရွက်ခန့်စီ ထည့်၍ ပိုးကြိုးခြည်ကြိုးတို့ဖြင့် ပလ္လင်ပေါက်ဌ်သွင်းကာ တဖက်တချက်စီ ချုပ်ရသည်။ ဗယ်ပြန် ညာပြန်ချုပ်ရသည်။ ဤသို့ ပေချပ်အပို ထည့်ခြင်းမှာ စာရေးထားသည့် ပေချပ်များ အကြောင်း တစုံတခုကြောင့် ပျောက်ရှခဲ့သော် အစားထိုးရေးထည့်ရန်ပင် ဖြစ်သည်။

ပေစာထုပ်ကို မျဉ်းကိုင်လျှင် ပေစာထုပ်၏အဖုံး ကျမ်းနှစ်ခုကို အချော ကိုင်ရသည်။ ပေချပ်များ မတိမ်းစောင်းရန် ပလ္လင်တိုင် စိုက်ရသည်။ ဘေးနှစ်ဖက်ကို ပေထိုးဆောက်ဖြင့် ထိုးပြီးလျှင် ချောမွတ်ရန် ရွှေပေါ် ထိုးသည်။ ပြီးလျှင် ရေနံ ထုတ်ရသည်။ ရေနံထုတ်သည်ဆိုသည်မှာ တောင်ပို့မြေကြီးကို ရေနှင့် ဖျော်၍ ပေစာထုပ်၏ ဘေးနှစ်ဖက်ကို သုတ်ရသည်။ မထူမပါး သုတ်ရသည်။ သို့သုတ်ပြီးလျှင် နေလှမ်းရပြန်သည်။ ထိုအခါ ရေနံကိုင်စဉ်က ရေနံများ ဘေးဖက်ထိပ်ဖက်တွင် ရှိခဲ့လျှင် ကွက်လာမည်။ ကွက်သော နေရာကို တောင်ပို့မြေ ပြန်သုတ်ပြီးလျှင် နေလှမ်းရသည်။ ရေနံကွက် မပေါ်သည့်တိုင်အောင် ပြုလုပ်ရသည်။

ထိုနောက်မှ ပေရွက် နံဘေးစောင်းများ ချောမွတ်ရန် ထီးကျောက် ခေါ် ကျောက်ဖြင့် တိုက်သည်။ မှုန်ပြီး ချောမွတ်လာမှ သဓွေးသုတ်သည်။ ပါးပါးသုတ်၍ သတ္တုပင်မှ အရွက်နှင့် တိုက်ရသည်။ သို့တိုက်သောအခါ သတ္တုရွက်ကို အခြောက်လှမ်းပြီးလျှင် ပေပေါ်က သဓွေးနည်းနည်း ကျန်သည်အထိ တိုက်ရသည်။ ထိုကဲ့သို့ သဓွေးသုတ်လိုက်၊ သဓွေးအိပ်လျှင် (ခြောက်လျှင်) သတ္တုရွက်ခြောက်နှင့် ပြန်တိုက်လိုက်ဖြင့် သုံးကြိမ်သုံးခါ ပြုလုပ်ရသည်။ ချောမွတ်စေရန် ဖြစ်သည်။



မင်းတုန်းမင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးတို့ လှူဒါန်းတော်မူသော သုတ်မဟာဝါ အဋ္ဌကထာပါဠိပေစာ



ပေချပ်များပေါ်တွင် ရေးဆွဲ၍ ပုရပိုက်သဖွယ် ကြိုးဖြင့် သီချုပ်ထားသော သုံးဆဲ့တဘုံ သရုပ်စုံ ပေစာ



ပေစာထုပ်နှင့် အကျုံးဝင်သော စာပုလွေ၊ စာထုပ်ကြိုး၊ ပလ္လင်တိုင်၊ ပေရွက်ခွာသောသန်လျက်နှင့် ကညစ် စသည့် ပစ္စည်းများ

ပေစာထုပ်၏ နံဘေးစောင်းများ ချောမွတ်လာမှ သစ္စေး သုတ်ရသည်။ မျဉ်းနက်လိုလျှင် သစ္စေးထူထူ သုတ်သည်။ မျဉ်းနီလိုလျှင် သစ္စေးပါးပါး သုတ်ကာ သစ္စေး ခြောက်လျှင် သစ္စေးနှင့် ဟင်္သပြဒါး ရော၍သုတ်ပါက အနီရောင်ရသည်။ အကယ်၍ ရွှေချလိုလျှင် သစ္စေးကို အနီရောင်ပေါ်မှာ ပါးပါး ထပ်၍ သုတ်ရသည်။ ပြီးလျှင် သစ္စေးကို အငွေ့ခြောက်ဖြင့် ပြန်သုတ်ရသည်။ သစ္စေးပြန်နုတ်သည် ဟု ခေါ်သည်။ ရွှေပြားကပ်၍ဖြစ်ရုံ သစ္စေးကျန်မှ ရွှေပြားကပ်ကာ ရွှေချသည်။ ကြံဆစ်ပေ လုပ်လိုလျှင် ဘေးနှုတ်ဖက်အလယ်တွင် လက်လေး သစ်ခန့် ချန်ထား၍၊ ရွှေမျဉ်းရွှေပိန်းဆိုလျှင် တထုပ်လုံး အပြည့်ရွှေချရသည်။ရွှေချသောအခါ ရွှေပြားသည် အချို့ နေရာ၌ အပေါက်ကျန်နေတတ်သည်။ အစွန်းအစမညီ ရှိတတ်သည်။ ထိုကြောင့် ဂွမ်းဖြင့် လိမ့်ပေးရသည်။ ဂွမ်းတကျပ်သားခန့် လောက်မှာ ရွှေတုံးကြီးပမာ ဖြစ်သွားတတ်သည်။

**ပေရေးနည်း ရောက်လာပုံ။** ။ပေပေါ်တွင် စာရေးခြင်းသည် အိန္ဒိယ နိုင်ငံမှ ကူးရောက်လာဟန် တူသည်။ စာရေးခြင်းနှင့်အတူ ပေရွက်သုံးပုံသုံးနည်းသည်လည်း တခါတည်း ပါလာဟန် ရှိသည်။ ရှေးဦးစွာ ပေနှင့် စာသည် ပျူလူမျိုးတို့ထံ ရောက်ခဲ့ပုံရသည်။ မြန်မာနိုင်ငံတွင် ရှေးအကျဆုံးတွေ့ရှိရသော ပေစာမှာ ရှေးခေတ်(အေဒီ ၄၀၀–၆၀၀) က သရေခေတ္တရာနေပြည်တော် ဖြစ်ခဲ့ဘူးသော မှော်ဇာနယ်မှ တူးဖော်ရရှိသောပေ ဖြစ်သည်။ ပေစာဆိုရသော်လည်း ပေရွက်သဏ္ဌာန်ကို ခတ်ထားသော ရွှေပြား အပေါ်တွင် စာရေးသားခြင်းပင် ဖြစ်သည်။ မျက်မြင် သက်သေသာမက အထောက်အထားကြောင့် ပေစာသည် ကျောက်စာထက်ပင် ရှေးကျသည်။ မှော်ဇာနယ်က ရရှိသော ပေများပေါ်တွင် ရေးသားထားသည့် အက္ခရာများမှာ လွန်ခဲ့သော နှစ်ပေါင်း ၁၃၀၀–၁၄၀၀ ကျော်ကျော်က သုံးစွဲသောအက္ခရာများဖြစ်သဖြင့် ပုဂံခေတ်ကျောက်စာထက် နှစ်ပေါင်း ၄၀၀–၅၀၀ ခန့် စောသည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက ရှေးအကျဆုံး ပေစာကို ပုံနှင့်တကွ ဒေါက်တာ ဂျေ အေ စတူးဝပ်က အရှေ့တိုင်းနှင့် အာဖရိကတိုက် ဘာသန္တရ ကျောင်းထုတ် စာစောင် (၇) အပိုင်း (၃) မှာ ဖော်ပြ ရေးသားထားသည်။ ပေရွက် သုံးပုံနည်းများကိုလည်း ဆာ အီမာဆင် တင်းနင့် ရေးသော သီဟိုဠ်နိုင်ငံသမိုင်းတွင်၎င်း၊ အဲလဗတ် ဖိုက် ရေးသော အတိတ်နှင့်ပစ္စုပ္ပန် မြန်မာပြည် အတွဲ ၁ တွင်၎င်း၊ ၁၉၅၀ ပြည့်နှစ် ဩဂုတ်လထုတ် မြန်မာနိုင်ငံ သုတေသန အသင်းဂျာနယ်၊ အတွဲ ၃၃၊ အပိုင်း ၂ တွင် ရန်ကုန်တက္ကသိုလ် ဘာသာပြန်နှင့်စာအုပ်ထုတ်ဝေရေးဌာန စာတည်းမှူးဦးဝန် ရေးသည့် မြန်မာနိုင်ငံ ပေစာများအကြောင်း မှတ်စုတွင်၎င်း ဖော်ပြရေးသားထားသည်။စာရေးပြီးသော ပေစာထုပ်များကို ဇာတ်နိပါတ်တော်မှ အခန်းများဖြင့် လှပသေသပ်စွာ ထု

လုပ် ရုပ်လုံးဖော်ထားသော စာတိုက်ခေါ် သေတ္တာကြီးများတွင် ထည့်သွင်းထားလေ့ ရှိသည်။ အချို့သော စာတိုက်ကြီးများကို ရွှေ ချထားသည်။ စာတိုက်ကြီး များသည် မြန်မာ အနုပညာတရပ်အနေဖြင့် ဂုဏ်ယူနိုင်သော ပစ္စည်းတခုဖြစ်သည်။ စာတိုက်မှာ အကြီးအသေးလိုက်၍ ပေစာထုပ် ၂၀ မှ ၅၀ ခန့်ထိ ထည့်သွင်းနိုင်သည်။

**ပေစာထုပ်။** ။စာတိုက်တွင် ထားသည့် ပေစာ တထုပ်ကို ယူကြည့်လျှင် စာပုလွေဖြင့် ပတ်၍ အပေါ်က စာစည်းကြိုးခေါ် စာထုပ်ကြိုးဖြင့် ရစ်ပတ်ထားသည်ကို တွေ့ရပေမည်။ စာစည်းကြိုးသည် အနံ လက်မဝက်၊ သို့မဟုတ် တလက်မ၏ လေးပုံ သုံးပုံ၊ သို့မဟုတ် တလက်မခန့်ရှိ၍ အလျား ၁၅ ပေ ရှိသည်။ ယခုအခါ ကချင်ပြည်နယ်၌ အများအပြား ယက်လေ့ရှိသော ဂျပ်ခုပ်နည်းမျိုးဖြင့် ခိုင်ခံ့ လှပ သပ်ယပ်စွာ စာလုံးဖော်၍ ယက်ထားသည်။ စာများမှာ ပေစာလှူဒါန်းသူ အမည်၊ နေရပ်၊ လှူရသော ကောင်းမှုကြောင့် မည်သို့သော ဆုကို ရပါလိုကြောင်း တောင်းဆုချွေကာ လက်ာဖြင့်၎င်း၊ စကားပြေဖြင့်၎င်း ရေးသားဖော်ပြထားသည်။ စာစည်းကြိုးကို ကြည့်ခြင်းဖြင့် ရှေးခေတ်က မြန်မာတို့၏ခြည်မျှင်ဖြစ်အောင် လုပ်ခြင်း၊ အထည်ယက်လုပ်ခြင်း၊ အိမ်တွင်းမှုအတတ် ဆေးအရောင်စပ်ခြင်း ပညာ၊ ပုံစံထုတ်လုပ်ပုံ အနုပညာ အဆင့်အတန်း မည်မျှမြင့်ကြောင်း သိသာနိုင်သည်။

စာစည်းကြိုးကို ဖြေပြီးလျှင် စာပုလွေ၊ သို့မဟုတ် စာထုပ် ပုဝါကို တွေ့ရပေမည်။ စာထုပ် ပုဝါကား အောက်ခံအဝတ်ကြမ်းခံကာ အပေါ်မှ အဖိုးထိုက်တန်သော ပိုးဖဲကတ္တီပါစများ ထပ်ချုပ်ထားသောပစ္စည်း ဖြစ်သည်။ စာပုလွေမှာ ဝါးများကို ယင်းသဖွယ် ယက်ထားသည်။ တခါတရံ ခြည်ပါရော၍ယက်သည်။ များသောအားဖြင့် အပေါ်မှ အဝတ်ဖြင့် ထပ်၍ချုပ်ထားသည်။ အနံတပေခြောက်လက်မရှိ၍ အလျား တပေ ကိုးလက်မရှိသည်။ ပေချပ်များ မကျိုးစိမ့်ခြင်းငှာ ကာကွယ်သည်။ မိမိလိုရာ အပိုင်းကဏ္ဍကို ခွဲပြီး



ပေစာရေးရန် စာစင်ခုံကို သီးသန့် လုပ်ယူရသည်။ ကြည့်ကူးမည့်ပေချပ်ကို နောက်မှီတွင် ထောင်ထားပြီး ကျန်ပေချပ်များကို သစ်သားခင်းပေါ်တွင် စာပုလွေခံကာ တင်ထားရသည်။ ကူးရေးမည့်ဒပေချပ်ကိုမူ အဝတ်ဖုလုံးပေါ်တင်၍ လက်ညှိုးတွင် လက်စွပ်တင်ကာ လက်မဖြင့် ကညစ်ကို ကိုင်ပြီး ရေးရသည်။

လျှင် စာပုလွေဖြင့် ပတ်ကာ အယူရလွယ်ရန်လည်း အသုံးကျသည်။ စာပုလွေပြီးလျှင် ပေစာထုပ်ကို ထိန်းထားသော ကွင်းလျှော်ကြိုး ရိုးရိုးရှိသည်။ ထိုကြိုး၏ အစကို သန်လျက်နှင့် တူသော ဆင်စွယ်၊ သို့မဟုတ် သစ်သားကို ပြုလုပ်ထားသော တလက်မခွဲအကျယ်နှင့် အရှည် ကိုးလက်မ၊ သို့မဟုတ် ၁၀ လက်မရှိသော ပစ္စည်းကို တဖက် အပေါက်ဖောက်၍ ချည်ထားသည်။ ပေချပ်ခွာသော ကရိယာဖြစ်သည်။ စာရေးပြီး မျဉ်းကိုင်ပြီး ပေစာထုပ်တွင် ပေချပ်များ ပူးကပ်ထပ်နေသည်ကို ခွာရန် အသုံးချရသည်။ ထိုပြင် ကျမ်း အမည်ကိုလည်း ရေးထိုးခြင်းဖြင့် ကျမ်းအမည်ကို ချက်ခြင်း သိနိုင်သည်။

ကွင်းလျှော်ကြိုးကို ဖြေပြီးလျှင် ကျမ်းကို ဖွင့်ရသည်။ ထိုကျမ်းကို အစွဲပြု၍ ယခု စာအုပ်ကို "ကျမ်းစာ" ဟု ခေါ်တွင်ကြသည်။ ပေစာများ၏ အဖုံးကျမ်းသည် အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း သစ်သားဖြစ်၍ ပေချပ် အနံအလျားကို လိုက်၍ ပြုလုပ်ရသည်။ အချို့မှာ လှပစွာ အလယ်ကထွင်း၍ ဟင်္သပြဒါးသုတ်သည်။ အချို့မှာကား ရွှေချထားခြင်း၊ ဆေးရေးရုပ် ချယ်ထားခြင်း ပြုလုပ်သည်။ သုံးစွဲသူ၏၊ သို့မဟုတ် လှူဒါန်းသူ၏ စေတနာ ငွေကြေးအလိုက် အချို့မှာ မှန်စီရွှေချ ပြုလုပ်ထားသည်။ သို့သော် ရှားပါးလှသည်။ အချို့မှာကား တန်ဆာဆင်ခြင်းမရှိ၊ ပေချပ်များ၏ အတိုင်း အထွာအတိုင်းသာ ဖြစ်သည်။ စိတ်ဝင်စားစရာ တခုမှာကား စာစည်းကြိုးကိုင်ရင်း၊ ကျမ်းကိုင်ရင်း အရောင်ချယ်လျှင် အနီရောင်ကိုသာလျှင် အသုံး များကြခြင်း ဖြစ်သည်။

ကျမ်းကို ဖွင့်သောအခါ ပေချပ်များကို တွေ့ရသည်။ ပလ္လင်တိုင်မှ နုတ်၍ ဖတ်ရသည်။ အချို့ပေစာအုပ်များ၌ ပေရွက်အလွတ် ချပ်ရေ လေး ငါး ချပ် တွေ့ပြီးလျှင် ပလ္လင်ချပ်တွေ့ရသည်။ ပလ္လင်ချပ်တွင် ဝမ်းဖက်၌ ပလ္လင်ပေါက် နှစ်ခု အတွင်း၌သာ စာရေးသားသည်။ ကျောဖက်နှင့် အခြား ပေချပ်များတွင်ကား နံဘေး မျဉ်းကွက်လပ် ချန်သည်မှအပ အပြည့်ရေးသည်။ အဆုံးပေချပ်၏ ကျောဖက်တွင်လည်း ပဌမပေချပ် ဝမ်းဖက်မှာကဲ့သို့ ရေးသည်။ ပေချပ်၏ ကျောဖက်တိုင်းတွင် ဝဲဖက်၌ စာမျက်နှာ၊ ယာဖက်၌ ကျမ်းအမည်ကို ရေးထိုးလေ့ ရှိသည်။ စာမျက်နှာအရေအတွက်ကို ဂဏန်းသင်္ကေတမသုံးဘဲ ဗျည်းနှင့်သရ သံစဉ်တွဲ၍ သုံးသည်။ ဗျည်းနှင့်သရ တွဲပုံကား က၊ ကာ၊ ကိ၊ ကီ၊ ကု၊ ကူ၊ ကေ၊ ကဲ၊ ကော့၊ ကော်၊ ကံ၊ ကား ဖြစ်သည်။ ထို ၁၂ လုံး ပေချပ်ကို တအင်္ဂါ ဟု ခေါ်သည်။ ထိုကဲ့သို့ က မှစ၍ ဗျည်း ၃၃ လုံးကို သုံးသည်။ ၃၃ အင်္ဂါထက်ပိုသော ပေစာထုပ်ကိုကား၊ က ယ ပင့်ကျမှစ၍ သရအစဉ်လိုက် သုံးသွားသည်။ ပေချပ် တချပ်တွင် စာကြောင်းရေ လေးကြောင်းမှ စပြီးလျှင် ၁၂ ကြောင်းအထိရေးလေ့ရှိသည်။

သို့ရေးသည်ကို အစွဲပြု၍ ပေစာထုပ်ကို ကျမ်းအမည်နှင့် ယှဉ်တွဲကာ လေးကြောင်းရေး ပေ၊ ရှစ်ကြောင်းရေး ပေစသည်ဖြင့် ခေါ်ကြသည်။ နောက်ဆုံးပေချပ်တွင် ကျမ်းရေးသူ၏ အမည်၊ နေရပ်၊ ကျောင်းအမည်၊ ရေးသားသော သက္ကရာဇ်တို့ကို တွေ့နိုင်သည်။

ဘုရင့် စာချွန်တော်များကိုကား ထန်းဖူးပေါ်တွင် ရေးကြသည်။ ထန်းဖူးက ပေထက်ပို၍ ကြာရှည်ခံခြင်းကြောင့် ဟု ဆိုသည်။ ဘုရင့်အမိန့်တော်ဆိုလျှင် ထန်းဖူး၊ သို့မဟုတ် ပေချပ်ပေါ်တွင် တကြောင်းတည်း ရေးသည်။ မှူးကြီး မတ်ရာများက ထုတ်ဆင့်သည့် အမိန့် ဆိုလျှင် နှစ်ကြောင်းရေးသည်။ ထိုကြောင့် တကြောင်း စာချွန်တော်၊ နှစ်ကြောင်း စာချွန်တော် ဟု ခေါ်ဝေါ်ကြသည်။

**ကျောင်းစာရေး။** ။ပေစာကို ကျောင်းစာရေး ခေါ် ပေစာရေးသူများက ရေးကြသည်။ များသောအားဖြင့် ရဟန်းပုဂ္ဂိုလ်ပညာရှိများ၏ စီကုံးနှုန်းဖွဲ့ရေးသားမှုကို လိုက်ရေးရသူများသာ ဖြစ်သည်။ ကျောင်းစာရေးများသည် ဘုန်းကြီးကျောင်းများတွင် နေလေ့ ရှိကြသည်။ ကျောင်းကပင် ထမင်းကျွေးရသည်။ ရေးခမှာ ၁၀ ကြောင်းပေ တအင်္ဂါ ငွေ တကျပ်၊ ၁၁ ကြောင်းပေ တအင်္ဂါ တကျပ် လေးပဲ စသည်ဖြင့် ပေချပ်ပေါ်ရှိ စာကြောင်းရေကို လိုက်၍ ပေးရသည်။ ကျောင်းမှ ထမင်း မကျွေးလျှင် ပေကူးခအဖိုးငွေကို တိုးပေးရသည်။ ကောင်းမှုတော်ကြီး ကျောက်စာတွင် တောင်ဖီလာ ဆရာတော် ရေးခဲ့သည့်အတိုင်းပင် ကျောင်းစာရေးများသည် အက္ခရာ တတ်ရသည်။ မြဲမြံသောသတိ ရှိရသည်။ သို့မှသာလျှင် စာရေးရာ၌ အမှားအယွင်း အကျအပေါက်ကင်းဝေးပေမည်။ ကျောင်းစာရေးသည် တနေ့လျှင် ပေခြောက်ရွက်၊ နှစ်ရက်မှာတအင်္ဂါရေးနိုင်သည်။ ရှေးခေတ်က ပေစာ တထုပ်ရေးလျှင် ငွေ ၃၀ ကျပ်၊ ၃၅ ကျပ်ခန့် ကုန်ကျသည်။ ယခုခေတ်တွင်မူ ပေအရေးအသားသည် မရှိသလောက်ပင်ဖြစ်သည်။ပုံနှိပ်စာအုပ် ထုတ်ဝေရန်သာလျှင် ပေမူကို ကော်ပီစာအုပ်ထဲသို့ ကူးရေးခြင်းရှိသည်။ သို့ကူးရေးခမှာလည်း ယခုအခါ၌ စာကြောင်းရေကို လိုက်၍ ကိုးကြောင်းပေ ဆိုလျှင် တအင်္ဂါ ကိုးကျပ် ပေးရသည်။

ပေစာအကူးမှား၍ သတ်ပုံချွတ်ယွင်းလျှင် စာအဓိပ္ပါယ်လည်း မှားသည်။ မြန်မာရှင်ဘုရင်များ နှောင်းခေတ်၌ ပေစာကူးသူတို့ ချွတ်ယွင်းချက် များသောကြောင့် သတိပေးသည့် အနေဖြင့် "ခွေးတိရစ္ဆာန်၊ မဟာဒါန်၊ နိဗ္ဗာန်နှင့်ဝေး ကျောင်းစာရေး" ဟု ဆိုစမှတ် ပြုခဲ့ကြသည်။

ကုန်းဘောင်ခေတ် ဘိုးတော်ဘုရား လက်ထက်က ပေရေးပုံကို ကျည်းကန်ရှင်ကြီး မေတ္တာစာတွင် "နှောင်ရေးကိုလည်း မရှု၊ ခုရေးကိုလည်း မမြင်၊ ဉာဏ်လီဆင်၍၊ ချစ်ရှင်

မိန့်မြွတ်၊ ပိဋကတ်တွင်၊ ရေးမှတ်သည့်ကျမ်းဂန်မှာ၊ အဘိဓာန် မာတုမာလာ၊ ဋီကာကျော် ပါဠ်နိသျတသဒ္ဒယ်၊ ရှစ်ဆယ်အင်္ဂါပေါင်း၊ ရှစ်ကြောင်း တမျိုး၊ ကိုးကြောင်း တဝက်၊ လက္ခသုံးမူးတီး၊ တသီးမှာ လေးမူးနှင့်၊ သုံးဦးသောကျမ်းရပ်ကို၊ ရေးမှတ်၍ ပြီးပါပြီ။ ဤကုသိုလ်၏အကျိုးကို၊ ဒုက္ခမျိုးကင်းဝေးလျက်၊ စကြဝတေး၊ သဒ္ဒေးမန္တတ်၊ သိကြားနတ်ကဲ့သို့၊ လူ့ရပ်နတ်ပြည်၊ ကြင် (ကျင်)လည် စုန်ဆန်၊ ချမ်းသာစံ၍၊ နိဗ္ဗာန်ရမည့် အချက်ကို၊ ပန္နက်ဆုယူကာ၊ ဆရာပြုသော ကုသိုလ်စုတို့ကိုလည်း၊ သာဓုခေါ်မည့် အကြောင်း" စသည်ဖြင့် ရေးသားထားသည်။

**ရုပ်ပုံများ။** ။ပေစာများနှင့် အတူ သရုပ်ဖော်ပုံများ ဆွဲထားသည့် ပေများမှာ အလွန်ရှားသည်။ နှစ်လက်မအကျယ်ရှိသော ပေရွက်ပေါ်တွင် ရုပ်ပုံများ ရေးဆွဲထားသည်မှာ အလွန် အံ့ဩခြီးမွမ်းစရာ ကောင်းသည်။ ၃၁ ဘုံ ပေစာထုပ် (ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်၊ ရန်ကုန်) တွင် မြင့်မိုရ်တောင်ကို အလယ်ကထားပြီးလျှင် ကျွန်းကြီးလေးကျွန်းရံနေပုံနှင့် ၃၁ ဘုံလုံးကို အစီအစဉ်ဖြင့် ရေးဆွဲထားသည်။ မြင့်မိုရ်တောင်နှင့် ကျွန်းကြီး လေးကျွန်း၊ ကျွန်းငယ်များရံနေပုံကို ဆွဲရသည်မှာ နှစ်လက်မအကျယ်ပေဖြင့် မဆန့်သဖြင့်၊ ပေချပ်များကို ကြိုးဖြင့် တချပ်နှင့်တချပ် ဆက်ကာ ပုံဆွဲထားသည်မှာ ခြီးမွမ်းအံ့ဩဖွယ်ရာ ကောင်းလှပေသည်။

**ပေ၏အကျိုးပြုပုံ။** ။ပေစာများသည် ဗုဒ္ဓဒေသနာတော်ကို မြန်မာနိုင်ငံတွင် အလွန် အကျိုးပြုသည်။ မိုင်းခိုင်းမြို့စား ရေးသားခဲ့သော "ပိဋကတ်သမိုင်း" စာတမ်းတွင် စာရင်းတင်ခဲ့သော လောကီ၊ လောကုတ္တရာ စာပေအားလုံးသည် ပေရွက်ပေါ်တွင်သာ ရေးသား မှတ်တမ်းတင်ထားခြင်းပင် ဖြစ်သည်။ ရှေးခေတ် စာပေများကို ထိန်းသိမ်းလာသည်မှာ ပေစာပင် ဖြစ်သည်။ မြန်မာနိုင်ငံသို့ ၁၈၂၆ ခုနှစ်ခန့်တွင် ပုံနှိပ်စက်များ စတင် ရောက်ရှိလာသည် ဆိုသော်လည်း အောက်မြန်မာပြည် မော်လမြိုင်၊ ရန်ကုန်မြို့များမှာသာ ဖြစ်သည်။ အသုံးမများကြသေးပေ။ ဤကဲ့သို့ ပုံနှိပ်စက်များ ပေါ်ပေါက်လာသော်လည်း ပေပေါ်တွင် စာရေးခြင်း အလေ့သည် လျော့မသွားချေ။ ယခု တွေ့ရှိရသော ပေစာများတွင် သက္ကရာဇ် ၁၂၇၀ ကျော် အထိ ရေးသားထားသော ပေစာထုပ်များကို အထောက်အထားပြု တွေ့ရခြင်းကြောင့်ပင် ဖြစ်သည်။

ပေစာများကို လေ့လာလျှင် ရှေးခေတ်က မြန်မာ နိုင်ငံတွင် စာပေရှိ၍ အယူဝါဒရေး စာပေ မည်မျှ ထွန်းကားပုံကို သိရပေမည်။ စာစည်းကြိုးကို ကြည့်ခြင်းအားဖြင့် အိမ်တွင်းလက်မှုပညာ ရက်ကန်းရက်ခြင်းအတတ်၊ ဆေးဆိုးခြင်း အတတ်၊ ပုံစံဖော်ခြင်းအတတ်များ ကောင်းစွာ ဖြစ်ထွန်းနေသည်ကိုလည်း သိရှိနိုင်ပေသည်။ စာတိုက်များတွင်လည်း ပန်းပုပညာ ပြောင်မြောက်စွာ ထွင်းလုပ်ထားခြင်းကို တွေ့ရသဖြင့် မြန်မာ့အနုပညာ မည်မျှ ဆန်းပြားကြောင်း ခန့်မှန်းနိုင်ပေသည်။ ထို့ကြောင့် ပေစာသည် မြန်မာ့ယဉ်ကျေးမှု အဖြာဖြာကို ဖော်ထုတ်သော ရတနာ တပါးပင် ဖြစ်သည်။ မြန်မာစာပေ၊ မြန်မာ့ယဉ်ကျေးမှု၊ အယူဝါဒရေးစာပေများကို ရင်းမြစ် တိကျစွာ လေ့လာလိုက်စားလိုလျှင်၊ ပေစာနှင့် ကင်း၍ မရကောင်းပေ။ ယခုအခါ ရှေးက ရေးခဲ့သော ပေစာများသာလျှင် ရှိပြီးလျှင် ခေတ်၏ တိုးတက်မှုကြောင့် အသစ် ထပ်မံရေးမှုများ မရှိသလောက် ဖြစ်၍ ပေစာများကို အလေးတမူ ဂရုပြုကာ ထိန်းသိမ်းထားရှိရန် အလွန်ပင် အရေးကြီးပေသည်။ ရှေးခေတ်က မြန်မာများသည် ဤမျှ လုပ်ငန်းဆောင်တာ အဆင့်ဆင့် များလှသော ပေစာဖြင့် အယူဝါဒရေးစာပေ၊ လောကီစာပေ စသည်တို့ကို ယခုခေတ် လူများ နည်းယူ မှတ်သား လိုက်နာလောက်အောင် ကျမ်းကြီး ကျမ်းဂန်များအဖြစ် ရေးထားခဲ့သည်မှာ ခြီးကျူးစရာ ကောင်း၍ ဂုဏ်ယူထိုက်သော အချက်ပင် ဖြစ်ပေသည်။

**ဒေါ်ခင်ခင်စု**

**မြန်မာပန်းချီ။** ။ပန်းချီ — ရှု။

**မြန်မာပြဇာတ်။** ။ပြဇာတ် — ရှု။

**မြန်မာဗိသုကာအတတ်။** ။ဗိသုကာအတတ် — ရှု။

**မြန်မာဘာသာ။** ။ **(၁) ရှေးမြန်မာ။** ။မြန်မာဘာသာသည် တိဗက် – တရုပ် မျိုးရိုးမှ ဆင်းသက်သော တိဗက်–မြန်မာမျိုးခွဲ၏ အသံ – မြန်မာအနွယ်တွင် ပါဝင်၏။ မူလ အခြေအနေအားဖြင့် တရုပ် ဘာသာကဲ့သို့ စကားတလုံး အသံတချက်ထွက်သော ဧကဝဏ္ဏဘာသာမျိုးဖြစ်သည်။ အ-အာ - အား - အတ် အစရှိသဖြင့် သံနေ သံထားကွဲ၏။ တိဗက် – တရုပ်ဘာသာများကို ပြောဆိုကြသော လူမျိုးတို့၏ မူလဖြစ်ပွားရာအရပ်သည် ယန်ဆီမြစ်နှင့် ဟွန်ဟိုမြစ် ပေါင်းဆုံရာအနီး တရုပ်နိုင်ငံ၏ အနောက်မြောက်ပိုင်း ဖြစ်ဟန် တူ၏။ ထိုလူမျိုးတို့သည် ယင်းမူလအရပ်မှ ယင်းမြစ်ကြီး နှစ်ခုကို စုန်ဆင်း၍ တရုပ်နိုင်ငံတွင်းသို့ ရောက်ကြပြီးလျှင် ဗြဟ္မပုတြမြစ်၊ ချင်းတွင်းမြစ်၊ ဧရာဝတီမြစ်၊ သံလွင်မြစ်၊ မဲနမ်မြစ်၊ မဲခေါင်မြစ်တို့ကို စုန်ဆင်းကာ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ ယိုးဒယား နိုင်ငံ၊ အာနမ်နိုင်ငံတို့သို့ ရောက်ကြ၏။ တိဗက် – မြန်မာ အမျိုးကား တောင်တန်းကြီးများမှ ဗြဟ္မပုတြမြစ် ထွက်ပေါ်ရာသို့ ရောက်သော် သုံးစုကွဲ၏။ တစုသည် ဗြဟ္မပုတြမြစ်ကို ဆန်တက်ပြီးလျှင် တိဗက်နိုင်ငံသို့ ရောက်၏။ ဒုတိယအစုသည် ယင်းမြစ်ကို စုန်ဆင်း၍ အာသံ

ပြည်သို့ ရောက်၏။ တတိယအစုကား ချင်းတွင်းမြစ်၊ ရေဝတီမြစ်တို့ကို စုန်ဆင်း၍ မြန်မာနိုင်ငံသို့ ရောက်၏။

မြန်မာ ဘာသာသည် တရုပ်ဘာသာနှင့် နီးစပ်သည်ထက် တိဗက်ဘာသာနှင့် သာ၍နီးစပ်၏။ အ၊ အကောင်၊အကျဉ်၊ အကျည်၊ အကျိပ်၊ အကျိး၊ အကွ၊ အခင် အစရှိသည်ကို ထောက်သော် မြန်မာသည် ရှေးဟောင်း တရုပ်နှင့် နီးစပ်ကြောင်း သိရ၏။ အကျဉ်၊ အကျည်၊ အကျိး၊ အကြေ၊ အကြေး၊ အကြော၊ အခ၊ အခင် အစရှိသည်တို့ကိုထောက်သော် မြန်မာသည် တိဗက်နှင့် နီးစပ်ကြောင်း သိရ၏။

**(၂) မြန်မာ နှင့် ပါဠိ။** ။ပုဂံကျောက်စာများ၌ မြန်မာ အရေးအသားကို ဦးစွာတွေ့ရသည်။ ခရစ် ၁၁၀၂ ခုနှစ် လောက်တွင် ရေးထိုးသော မြစေတီကျောက်စာ၌ မြန်မာ အပြင် ပျူ၊ ပါဠိ၊ မွန်ဘာသာတို့ကို တွေ့ရ၏။ ပျူဘာသာသည် သရေခေတ္တရာပြည်၌ ထင်ရှား၍ ပုဂံခေတ်တွင်ပင် တိမ်ကောသွားလေပြီ။ အချို့သော စကားလုံး တို့သည် မြန်မာ နှင့်တူ၏။ပုဂံပြည် မြစေတီကျောက်စာမရေးထိုးမီ နှစ်ပေါင်း ၅၀၀ လောက်က အိန္ဒိယနိုင်ငံ တောင်ပိုင်း အက္ခရာဖြင့် ရေးသော ပါဠိအရေးအသား အချို့သည် သရေခေတ္တရာပြည်သို့ ရောက်နှင့်လေပြီ။ သို့သော် ၁၁ ရာစုနှစ်တွင် ပိဋကတ်သုံးပုံကို သထုံပြည်မှပုဂံပြည်သို့ ယူဆောင်လာမှသာလျှင် မြန်မာ အရေးအသား ထင်ရှားလာ၍ ပါဠိဘာသာသည် မြန်မာ ဘာသာအား ကောင်းစွာ အထောက်အပံ့ ပြုနိုင်လေသည်။ မြန်မာ ကကြီး ခခွေး စသော သင်ပုန်းကြီးသည်လည်း မွန် အက္ခရာစဉ်မှတဆင့် သက္ကတအက္ခရာစဉ်ကို အမှီပြုလေသည်။ ထိုအခါမှစ၍ ဗုဒ္ဓသာသနာနှင့် ဆိုင်သော ယဉ်ကျေးမှုတွင် များစွာ အကျုံးဝင်သည်တိုင်အောင် ပါဠိသည် မြန်မာ ဘာသာအား ကျေးဇူးပြုခဲ့၏။ နွယ်တာ-ဝါဆို၊ နံကာ-ဝါခေါင်၊ သန္တု-သိတင်းကျွတ် အစရှိသည်တို့ကို ထောက်သော် မြန်မာ ဓလေ့ထုံးတမ်း၌ သာသနာ၏ အရှိန်အစော်ကို တွေ့ရ၏။ သာသနာနှင့် ဆိုင်သော မြန်မာ ဝေါဟာရ တိုးပွားကြွယ်ဝလာကြောင်းကိုပါဠိမှ တိုက်ရိုက်ယူသည့် ဒါယကာ၊ ရဟန္တာ၊ သံဃာ၊ အဝီစိ၊ ခန္ဓာ၊ သစ္စာ၊ ပါရမီ၊ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ မေတ္တာ၊လောက အစရှိသော စကားတို့ဖြင့် သိနိုင်၏။ စိတ္တ-စိတ်၊ နိဗ္ဗာန-နိဗ္ဗာန်၊ဝိနယ-ဝိနည်း၊ ပစ္စယ-ပစ္စည်း၊ စက္က-စက် အစရှိသည်တို့၌ကား ပါဠိအဆုံးသတ် အသံကြေပြီးမှ မြန်မာ စကားလုံး ဖြစ်သည်။ ဗုဒ္ဓတရားများကို ပါဠိမှ မြန်မာသို့ ဘာသာ ပြန်ရာတွင် တိကျမှန်ကန်စေခြင်းငှါ စကားလုံးများကို တလုံးစီ အနက်ပေးသော နိသျဘာသာပြန်နည်းဖြင့် အဓိပ္ပါယ် တိကျသော မြန်မာဝေါဟာရများ ပေါ်ပေါက်လာကြလေသည်။ ပုဂံပြည် အလောင်းစည်သူမင်း လက်ထက်၌ ပေါင်လောင်ရွာ ဇာတိ ရှင်မဟာကဿပသည် ခုဒ္ဒသိက္ခာ အဋ္ဌကထာ နိသျဟောင်းကို စီရင်သည်ဟု ပိဋကတ်သမိုင်းစာတမ်း၌ဆိုသည်။ နောက် ဆရာတော်များလည်း အခြား ပါဠိကျမ်းများကိုနိသျရေးကြကြောင်းကား ပိဋကတ်သမိုင်း စာတမ်းတွင် ထင်ရှားလျက်ရှိ၏။ ရှေးကျသော နိသျကျမ်းများ၌ ရှေးကျသော မြန်မာဝေါဟာရများကို တွေ့ရ၏။

ကြိယာသဘော ပါဝင်သော စကားစုများကိုလည်း ပါဠိမှ အနက်ပြန်ယူကြသည်။ ပြယုဂ်-ကတိကံ ကရောတိ—ကတိပြု၏။ ကထိနံ အတ္ထရတိ—ကထိန်ခင်း၏။ ကသိဏံ ဩလောကေတိ—ကသိုဏ်းရှု၏။ ကာယသံသဂ္ဂ—ကိုယ်လက်နှီးနှော။ သရီရဝလဉ္ဇ—ကိုယ် လက် သုတ်သင်။ ကာကပေယျ—ကျီး သောက်မှီအောင် ကမ်းထိပ်ထိတက်သောရေ။ကိသရောဂါ—ကြုံနာ။ ကမ္မက္ခယ – ကံကုန်သည်။

**(၃) မြန်မာနှင့် သက္ကတ။** ။မြန်မာနိုင်ငံ၌ ပါဠိ သာမက သက္ကတကိုလည်းသင်ကြားကြလေသည်။ခရစ်နှစ် ၇၀၀ ပြည့် ခန့်က ပျူစာလုံးများလည်း ပါသော သက္ကတ ကမ္ပည်းစာကို သရေခေတ္တရာပြည်၌ တွေ့ရ၏။ ယင်းအချိန် အခါလောက် တွင် သက္ကတဘာသာဖြင့် ရေးသော ရခိုင်ပြည် မြို့ဟောင်း ရှစ်သောင်းဘုရားတွင် ရှိသည့် ကျောက်စာသည် ရခိုင်မင်း ဆက်ကို ဖော်ပြသည်။ ပုဂံ ကျောက်စာများတွင်လည်း အောက်ပါ စကားတို့သည် ပါဠိမှ မဟုတ်၊ သက္ကတမှ လာကြောင်း စာလုံးပေါင်းကို ထောက်သဖြင့် သိရ၏။ ပုံစံများမှာ သဗ္ဗညုတညာဏ် ပြဿ္ဒ၊ ပြိတ္တာ၊ သုကြ္တာ၊ စကြ္တာဝတိယ်၊ ဓမ္မစကြ္တာ၊ တံပြတိတ်ပြည်၊ စကြ္တာဝဠာ၊ နိရဗန်၊ စင်ကြံ၊ သင်္ဂြိုဟ်၊ ကြမ္မာ၊ မြိဂ္ဂသိုရ်၊ သရဝန်၊ ကြတိုက်၊ ဖလဂိုန်၊ တြိလောက စန္ဒြ၊ ဘုမ္မခေတြာ၊ ရာဇသင်ကြံ၊ ဒိသာပြာမုက်၊ ဇုန္ဒြစိတ် စသည်ဖြစ်၏။ ၁၂၇၈ ခုနှစ် ပုဂံ ကျောက်စာ တခု၌ အမတ်ကြီး တဦးသည် ပိဋကတ်သုံးပုံလည်း တတ်၏။ သင်္ကြိုက် ဗျာကရိုဏ်း ဟူးရားသမား အမှုလည်း တတ်သည် ဟူ၏။ ၁၄၄၂ ခုနှစ် ပုဂံကျောက်စာတခု၌ လည်း ကျောင်းဆောက်ပြီးလျှင် လှူသော ကျမ်းဂန်စာရင်း တွင် ပိဋကတ်သုံးပုံမှ တပါးဗျာကရိုဏ်း ဟူးရား၊ ဓမ္မသတ်၊ဗေဒင်၊ ဆေးကျမ်းများနှင့် ဆိုင်သော သက္ကတကျမ်းများလည်း ပါဝင်သည်ကို ထောက်သော် ပိဋကတ်သာမကသက္ကတကျမ်း များကိုလည်း သင်ကြားကြကြောင်း ထင်ရှား၏။ မြန်မာ အဘိဓာန်၌ ကရိုဏ်း (အခါဆိုး)၊ ကရကဋ် (ရာသီ)၊ ကာကတ် (ရက်ဆိုး)၊ ကာန (ဘေးဥပဒ်)၊ ကာမသျှတ္တရကျမ်း၊ ကုဋုမ္ဗအိမ်(ရာသီ)၊ကောဇာဂြိုဟ်၊ ကောလီစုတ်၊ကတြသိဂီ (ဆေးပင်)၊ ကိတ်ဂြိုဟ်၊ ကိတ္တဂုရက်၊ ကိတ္တိမ(သားသမီး)၊ ကန် (ရာသီ)၊ ကိန္နယုတ် (ရက်)၊ ကိန်း (ဂဏန်း)၊ ကြမတ် (တရက်၏တစိတ်) အစရှိသည်တို့သည် သက္ကတအရှိန် အစော်နှင့် မကင်းသော စကားများဖြစ်ကြသည်။

**(၄) မြန်မာနှင့် မွန်။** ။ရှေးအကျဆုံး မွန်ကျောက်စာများသည် ရှစ်ရာစုနှစ်နောက်ပိုင်းတွင် အယုဒ္ဓျာမြောက်ဖက်

လောပ္ဗုရိ (လဝပုရ)၌ ရေးထိုးသော ကျောက်စာများဖြစ်သည်။ ဤကျောက်စာအက္ခရာများသည် တောင်ပိုင်းအိန္ဒိယ ပလ္လဝမူကို မှီးသည်။ ယင်းမှ မြန်မာနိုင်ငံ မွန်အက္ခရာများ ပေါ်ပေါက်လာကြသည်။ ၁၁ ရာစုနှစ်တွင် သထုံပြည်မှ ပုဂံပြည်သို့ ယူဆောင်လာသောပိဋကတ်သုံးပုံနှင့်တကွ မွန်အက္ခရာ များကိုလည်း မြန်မာတို့သည် ပြုပြင် ခံယူကြလေသည်။

ဗုဒ္ဓသာသနာကို ခံယူနှင့် ပြီးသော မွန်တို့ထံမှ ကညစ်၊ ကနုတ်၊ ကုလားတက်၊ ကန်တော့၊ ကျိတ်၊ ကျက်သရေ အစရှိသော သဿာနှင့် ဆိုင်သော စကားများကို မြန်မာတို့ ခံယူလိုက်ကြ၏။ ကကတစ်၊ ကကူရံ၊ ကဘီလူး၊ ကသပေါင်း၊ ကသဖိုး ဟူသော ငါးများနှင့် ကနန်း၊ ကနုကမာ (ပင်လယ်ယောက်သွား)၊ ကနကုတ် (ဒီချောင်းမြွေ)၊ ကဒူး (မိုးကာခမောက်)၊ ကူးတို့ (ဆိပ်)၊ ကတ္တူ (ပင်လယ် ရွက်လှေ)၊ ကုဟာသည် (ကဝါသည်)၊ ကညွတ်ပင်၊ ကတွတ်ပင်၊ ကဒတ် ဥ အစရှိသောစကားများကို မြစ်ချောင်း ကမ်းပါး ပင်လယ် အနားတွင် နေထိုင်သော မွန်တို့ထံမှ မြန်မာတို့ ရလိုက်ကြ၏။ ငါးသလောက်သည် မွန်အခေါ်ဖြင့် ကသလောက် ဖြစ်ရာ မြန်မာ-ငါးနှင့် မွန်-သလောက် ပေါင်းစပ်သော ကပြားစကား ဖြစ်၏။

မွန်တို့ထံမှချည်း မြန်မာတို့က စကားယူကြသည်မဟုတ်။ မြန်မာတို့ထံမှလည်း မွန်တို့က ယူကြ၏။ အကောက်၊ အနိုင် အထက်၊ စာရေး၊ ပြုပြင်၊ လက်ဆောင်၊ ခေါင်းချုပ်၊ အဖွဲ့၊ အိမ်ထောင်၊ လှော်ကား၊ ကွ၊ အမိန့်တော်၊ စို (ကြိယာပစ္စည်း) အစရှိသည်တို့ကို မြန်မာတို့ထံမှ မွန်တို့ ခံယူကြ၏။

(၅) မြန်မာ နှင့် ရှမ်း။ ။ရှမ်းကို စာဟောင်းများ၌ သျံ၊ သျမ်ဟုရေး၏။ ယိုးဒယားခေါ် ဆိယံနှင့်အတူတူပင် ဖြစ်၏။ အဟုံရှမ်းနှင့်လည်းတူ၏။ရှမ်းတို့သည် မိမိတို့ကို လွတ်လပ်သူ အနက်ရှိသော တိုင်ဟုခေါ်ကြ၏။ရှမ်းဘာသာသည် မြန်မာ ဘာသာကဲ့သို့ သံနေသံထားကွဲ၏။ ရှမ်းဘာသာသည် မြန်မာဘာသာနှင့် နီးစပ်သည်ထက် တရုပ်ဘာသာနှင့် သာ၍ နီးစပ်၏။ မြန်မာနှင့် ရှမ်းတို့သည် လွန်ခဲ့သော နှစ် ၂,၀၀၀ ကျော်မှစ၍ တရုပ်နိုင်ငံ အနောက်ပိုင်းနှင့် မြန်မာနိုင်ငံတွင် အတူ နေထိုင်ကြလေသည်။ ရှမ်းဘာသာ၌ မြန်မာ စကား အမြောက်အမြားရှိ၏။ မြန်မာဘာသာ၌လည်း ရှမ်းစကားများရှိကြ၏။ ရှမ်းတို့က မြန်မာတို့ထံမှ ဗုဒ္ဓတရားနှင့် ဆိုင်သော အကြောင်းအရာများကို သင်ကြား ခဲ့ကြ၏။ မွန်မြန်မာတို့ ထံမှ ရရှိသော မြန်မာနိုင်ငံ ရှမ်းစာသည် ၁၂၇၃ ခုနှစ် ယိုးဒယားအလယ်ပိုင်းတွင်ပေါ်ပေါက်သော ယိုးဒယား ရှမ်းစာလောက် ရှေးမကျချေ။မွန် မြန်မာ နမူနာကိုလိုက်၍ ရေးသားရသဖြင့် ယင်းစာသည် ရှမ်း သံနေ သံထားများကို ကောင်းစွာ မဖော်ပြနိုင်သောကြောင့် မြန်မာ ရှမ်း စာပေသည် ယိုးဒယားစာပေလောက် မအောင်မြင်ချေ။

မြန်မာဘာသာ၌တွေ့ရသော ရှမ်းစကားများကား-ငပေါ အယ်(လူအ)၊ကျိုင်း(မြို့)၊ကျမိုင်း(စော်ဘွားသားအကြီး)၊ ဟော် (နန်း)၊ စော်ဘွား အစရှိသည်တို့ဖြစ်၏။

ရှမ်းဘာသာ၌ တွေ့ရသော မြန်မာစကားများကား - အကောက်၊ အကျိုး၊ နှိုးဆော်၊ ဆေးလိပ်၊ လက်မှတ်၊ ကင်းလွတ်၊ ဝန်ကြီး၊ လက်ဆောင်၊ သူတော်ကောင်း၊ ကယ်ဆယ်၊ ကျမ်း၊ ကျောင်း၊ အိမ်ရှေ့မင်း၊ အတွင်းဝန်၊ စာရေး၊ စာချွန်၊ ဆင်ဝင်၊ သံစုံ၊ သံလိုက် အစရှိသည်တို့ ဖြစ်၏။

(၆) မြန်မာနှင့် အိန္ဒိယ တိုင်းရင်းနှင့် အခြား ဘာသာများ။ ။အချို့သော အိန္ဒိယ တိုင်းရင်းသားတို့သည် မြန်မာတို့နှင့် နှစ်ပေါင်းများစွာ ပေါင်းသင်း ဆက်ဆံခဲ့ကြလေရာ ယင်းတို့ထံမှ မြန်မာတို့သည် များသောအားဖြင့် ကူးသန်းရောင်းဝယ်ရေးနှင့် ဆိုင်သော အောက်ပါ စကားများကို ခံယူကြလေသည်။ ကစီ၊ကတီ (မွှေးအိပ်ရာ)၊ ကလောင်၊ကလိုင်၊ကာကျယ် (မျက်ခမ်းဆေး)၊ကာကီ၊ ကာလီ(ငရုတ်)၊ ကုလီ၊ ကောပီထုပ်၊ကတ္တဝါ (ကြက်တူရွေး)၊ ကျာပွတ်၊ကျင်ခပ် (ပိုးထည်)၊ ကျူလယာ အစရှိသည်ဘို့ဖြစ်၏။

ကရဝေး၊ ကပ္ပလီ၊ ကတ္တရာစေး၊ ကတ္တီပါ အစရှိသည်တို့ကား အာရဗ်ဘာသာမှ မြန်မာတို့ ရလိုက်ကြ၏။

ကမျဉ်း (နံ့သာ)၊ ကလမက် (နံ့သာ)၊ ကာကျူပွတ် (ပင်)၊ ကြိတ် (ထား) အစရှိသည်တို့ကို ပသျှူး (မလေး) တို့ထံမှ မြန်မာတို့ ရလိုက်ကြ၏။

ကာဖီ၊ ကပ္ပိတန် အစရှိသည်တို့ကို ပြင်သစ်တို့ထံမှ မြန်မာတို့ ရလိုက်ကြ၏။

(၇) မြန်မာနှင့်အင်္ဂလိပ်။ ။လွန်ခဲ့သောနှစ် ၁၀၀ ကျော်မှစ၍ မြန်မာနှင့် အင်္ဂလိပ်တို့သည် ပေါင်းသင်းဆက်ခံ လာခဲ့ကြရာ၊ အင်္ဂလိပ် စကား အများတို့သည် မြန်မာဘာသာသို့ ဝင်ရောက် ကြလေသည်။ ယဉ်ကျေးမှုကို ပါဠိဘာသာမှ မြန်မာတို့ ရလိုက်ကြသကဲ့သို့ လောကီပညာရပ်များကို အင်္ဂလိပ်ဘာသာမှ ရကြ၏။ အင်္ဂလိပ် ဝါကျဖွဲ့ပုံသည် မြန်မာ ဝါကျဖွဲ့ပုံမှ ခြားနားရကား၊ပါဠိကို တိတိကျကျ နိသျပြန်သကဲ့သို့ အင်္ဂလိပ်ကို တလုံးစီ တိုက်ရိုက် မပြန်ဘဲ ဝါကျတခုလုံးကို အလွတ်ပြန်ကြလေသည်။ ဒီမိုကရေစီ၊ ကွန်မျူနစ်၊ ကိုမ၊ ကော်မီတီ၊ ကွန်ဖရင့်၊ ကွန်ဂရက်ကဲ့သို့သော နိုင်ငံရေးပညာစကားများသည်၎င်း၊ အက်ဆစ်၊ ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ ဒိုင်နမို၊ ဗက်တီးရီးယား၊ တြိဂိုနိုမေတြီ၊ ဂျီသြမေတြီ ကဲ့သို့သော သိပ္ပံပညာစကားများသည်၎င်း၊ စတိုး၊ ကုမ္ပဏီ၊ စီးကရက်၊ မော်တော်ကား၊ ဝစ်စကီ၊ ဘောလုံး၊ ရုပ် (အင်္ကျီ) ကဲ့သို့သော စီးပွားရေး ပညာ စကားများသည်၎င်း၊ အခြား လောကီပညာရပ်များနှင့် ဆိုင်သော ဝေါဟာရများတို့သည် ၎င်း မြန်မာစကားများ ဖြစ်လာကြလေပြီ။ မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်းကြီး (စာပေဗိမာန်) ကလည်း

အင်္ဂလိပ်ဘာသာမှ စာအုပ်စာတမ်း အမြောက်အမြား အနက်ပြန်လျက် ရှိလေပြီ။

**(၈) မြန်မာ ဒေသန္တရနှင့် အစုဝင် ဘာသာများ။ ။** ရခိုင်၊ထားဝယ်၊အင်းသား၊ဓနု၊ ယော၊ ဖွန်း၊ တောင်ရိုးသည် မြန်မာဒေသန္တရ ဘာသာများ ဖြစ်ကြသည်။

ရခိုင်စကားသည် အရေးနှင့်အဖတ် များစွာ မခြားနားသဖြင့် ရှေးမြန်မာ စကားနှင့် တူ၏။ ရကောက်သည် ယခုခေတ် မြန်မာစကား၌ ယပက်လက် အသံထွက်သော်လည်း ရခိုင်စကား၌ ရကောက် အသံပင် ထွက်၏။ ကပဇာ (တံခါးပတ္တာ)၊ ငါးလက်ခွာ (ကကူရံ)၊ တောသဘော်ပင်(ကဒတ်ပင်)၊ ကပင်း (ကနုကမာ)၊ ကဖီးစာ(စုန်းတစ္ဆေမင်စာအားကျွေးသော အစာ)၊ ကုန်းဖီ (ဆင့်)၊ ကုန်းလျား (ရက်မ)၊ ကျောင်းစား(ကျောင်းထိုင်ဘုန်းကြီး)၊ကျွန်း(ကျေးတော) အစရှိသည်တို့သည် ရခိုင်စကားများ ဖြစ်ကြ၏။

ထားဝယ် စကားလည်း ရှေးမြန်မာစကားနှင့် တူ၏။ ပုဂံကျောက်စာများ၌ ကျ၊ ကျား၊ ကျောက်၊ ကျောင်း၊ ကျိုး၊ ကျွတ် အစရှိသည်တို့ကို ယ မပင့်ဘဲ လ ဆွဲသကဲ့သို့၎င်း၊ ပြည့်၊ ပြေး၊ ပြောင်းပြန်၊ မြစ်၊ မြေမြေး အစရှိသည်တို့ကို ရမရစ်ဘဲ လဆွဲသကဲ့သို့၎င်း၊ ထားဝယ် စကား၌လည်း ယင်းစကားလုံးတို့သည် ယပင့် ရရစ်သံ မထွက်ဘဲ လ ဆွဲသံထွက်ကြသည်။ ကဘုန်းသား (ခရု)၊ ကွန်းရှပ် (ပင်လယ်ငါး)၊ ဂွေးသား (ဗုဇွန်ကလေး)၊ မခဲသား (ကြက်တူရွေး)၊ ဆေဗ္ဗောင်း (ဆေးတံ)၊ က္လောင်ရှာသီး (ကြောင်လျှာသီး)၊ နားဖွက် (နားရွက်)၊ သားလှောင် (လုံချည်)၊ နို့သီး (ကြယ်သီး)၊ ပေါက်တံ ခလေးချောက် (ပုတ်သင်ညို)၊ ယောက်ခမ ရင်ကျောက်(မြင်းခွာရွက်) အစရှိသည်တို့သည် ထားဝယ် စကားများ ဖြစ်ကြသည်။

အင်းသားတို့သည် တောင်ပိုင်း ရှမ်းပြည် အင်းလေးကန်တဝိုက်တွင်နေထိုင်ကြသည်။ လွန်ခဲ့သော နှစ် ၆၀၀ လောက်က သူတို့သည် ထားဝယ်မှ ပြောင်းရွှေ့လာကြသည်ဟူ၏။ အင်းသား စကားသည် ထားဝယ် စကားနှင့် တူ၏။

ဓနုတို့သည် အင်းသားတို့ အနီး နေထိုင် ကြ၏။ ဓနု စကားသည် ရှမ်းသံ တောင်သူသံ ဝဲသော ရှေးမြန်မာ စကားနှင့် တူ၏။

ယောတို့သည် ပခုက္ကူ ခရိုင်၌ နေထိုင်ကြ၏။ ယင်းတို့သည် လွန်ခဲ့သော နှစ် လေး-ငါးရာအတွင်းမြန်မာစကားပြောသော လွင်ပြင်ချင်း လူမျိုးများ ဖြစ်သည် ဟူ၏။

ဖွန်းတို့သည် ဗန်းမော်နှင့်မြစ်ကြီးနားအကြား ဧရာဝတီမြစ်အထက် ကျဉ်းမြောင်းရာ၌ နေထိုင် ကြ၏။ လွန်ခဲ့သော နှစ် ၆၀၀ လောက်က ယူနန် အနောက်တောင်ပိုင်းမှ လာရောက်ကြသည်ဟူ၏။ ဖွန်းစကားသည် ရခိုင် စကားကဲ့သို့ ရှေးကျ၏။

တောင်ရိုးစကားကို တောင်ပိုင်း ရှမ်းပြည်၌ ပြောကြ၏။ ပုဂံကျောက်စာမှာကဲ့သို့ လ ဆွဲသံကို ကြားရသေး၏။

အထက်ပါ ဒေသန္တရများလောက် မနီးစပ်သော်လည်း မြန်မာ အစုတွင် ပါဝင်သော ဘာသာများကား အောက်ပါတို့ ဖြစ်ကြ၏။

လရှီ (လချိက္ခာ) သည် တရုပ်-မြန်မာ နယ်စပ်မှ မြစ်ကြီးနားအရှေ့ဖက် မြောက်ပိုင်းရှမ်းပြည်တွင် ထင်ရှား၏။ နမေခ (အမ်မိုင်ခ) အောက်ပိုင်းတွင် ပျံ့နှံ့၏။

မရူ (လောင်ဝေါ) သည် ကြိဂံမှ နမေခ တောင်ကြားတလျှောက် မြောက်ပိုင်း ရှမ်းပြည်တွင် သိန္နီအထိ ထင်ရှား၏။

အဇီး (ဇီး၊ တဆဲဝါ) နယ်သည် လရှီနယ်နှင့် အတူတူလိုပင် ဖြစ်၏။ တရုပ် - မြန်မာနယ်စပ် နှစ်ဖက် တလျှောက် လတ္တီတွဒ် ၂၅ံ မြောက်ဖက်မှ တောင်ဖက် လားရှိုးအထိ ထင်ရှား၏။

မိုင်းသာ(အာချန်)သည် တရုပ်-မြန်မာ နယ်စပ်တဖက်ရှိ တပိန်မြစ်တောင်ဖက် ဟိုသာနှင့် လာသာတောင်ကြားတွင် ထင်ရှား၏။ ရှမ်းဘာသာဖြင့် မန်ဆာ ဟု ခေါ်၏။

**(၉) ပေါရာဏ။ ။**များသောအားဖြင့် ယခု အသုံးမပြုတော့ဘဲ ကဗျာ၌သာ တွေ့ရသော မြန်မာ ပေါရာဏများလည်း ရှိ၏။ ပြယုဂ်-ကယုကယင် (တင့်တယ်)၊ ကနု (နှိုင်းရှည့်)၊ ကလိုင်ကလဲ(ပေါများ)၊ ကလွဲကလက်(ချွတ်ယွင်း)၊ ကိ (ပေါများ)၊ ကိုယ်ရင်းကြည် (ညစ်နွမ်း)၊ ကိုင်ကန်(ရေတွက်)၊ ကတ်လတ် (လန့်လန့်)၊ ကုတ်ပတ် (ကြိုးစား)၊ ကုတ်သဲ (ညို)၊ ကံမြစ် (တားမြစ်)၊ ကမ်းတောင်း (ကမ်းပါး)၊ ကျိကျူ (ရောနှော)၊ ကိုယ်အမ်းချ (ကြိုးစား)။

**(၁၀) ဘန်းစကား။ ။**အဓိပ္ပါယ် ဆန်းသော ဘန်းစကားများလည်းရှိသေး၏။ပြယုဂ်-ဇယ်၊စမူ(မိန်းကလေး)၊ကနဇီး (ဇာတ်သမား)၊ ကေနိကော (လင်မယားအဖြစ် ပေါင်းသင်း)၊ ကော် (ကျေးဇူးရှိ)၊ ကောပေါက် (စကားပြော)၊ ကိုင် (ပိုက်ဆံ)၊ ကစ် (တိတ်တိတ်ယူ)၊ ကုန်း (ကိုယ်ဝန်)၊ ကုန်းပွင့်(ကလေးမွေး)၊ ကွဲ (အလွန်)၊ ကွိတ် (မိန်းမရှင်)။

**(၁၁) ကပြား စကား။ ။**ဘာသာခြား စကားလုံးတခုကို မြန်မာဘာသာသို့ သွင်းလိုလျှင် အဓိပ္ပါယ် ထင်ရှားစိမ့်သောငှါ ယင်းစကားနှင့် အနက်တူသော မြန်မာ(သို့မဟုတ် မြန်မာဖြစ်ပြီး) စကားလုံးနှင့် တွဲ၍ သုံးလေ့ ရှိသည်။ ဤနည်းအားဖြင့် ကပြား စကားများ ဖြစ်လာကြ၏။ ပမာဆိုသော် ဗိုင်လာ၊ဆလင်ဒါဟူသော အင်္ဂလိပ် စကား တို့ကို အနက်တူ မြန်မာစကား ရေနွေးအိုး၊ ပြွန်နှင့် တွဲ၍ ဗိုင်လာရေနွေးအိုး၊ဆလင်ဒါပြွန်ဟူ၍ သုံးလေ့ရှိ၏။ သုံးဖန်များ၍ အဓိပ္ပါယ်ကောင်းစွာ ထင်ရှားလာသောအခါ ရေနွေးအိုး၊ ပြွန်ဟူသော အနက်ပေး စကားများကို တွဲရန်လိုတော့မည် မဟုတ်ချေ။ အင်ဂျင်စက်၌လည်း အင်ဂျင်သည် အင်္ဂလိပ်၊

စက်သည် ပါဠိစက္ကမှလာသော အနက်ပေးစကားဖြစ်သည်။ အက်ဥပဒေ၌လည်း အက် သည် အင်္ဂလိပ်၊ ဥပဒေ သည် ပါဠိ ဖြစ်သည်။ ကင်းဂါတ်ဟူသော ကပြားစကား၌ကား မြန်မာ ကင်းသည် အင်္ဂလိပ် ဂါတ်ရှေ့က နေ၏။

ပါဠိနှင့် မြန်မာကိုတွဲ၍ ဖြစ်သော ကပြားစကား၌ များ သောအားဖြင့် အနက်တူ မြန်မာစကားကို ပါဠိစကားရှေ့က ထားကြ၏။ပြယုဂ်-ပုံသဏ္ဌာန်၊ ကျမ်းဂန်၊ ကိုယ်ခန္ဓာ၊ ကျော် စော ကိတ္တိ၊ ကျင့်ဝတ်၊ အကျင့်သီလ၊ အကျိုးအာနိသင်၊ အကြီး ဥက္ကဋ္ဌ၊ အပျိုကညာ။

(၁၂) **သဒ္ဒါ**။ ။(က)ဝါကျ။ ။မြန်မာဝါကျသည် ကြိယာ နှင့် ဆုံး၏။ နာမ်နှင့် ကြိယာကို သင့်လျော်သော နောက် ဆက် (ဝိဘတ်)ဖြင့် နေရာတကျ တွဲတတ်မှ မြန်မာ စကား တတ်သည် မည်၏။ ငါး နာရီ၌ ကျောင်းသားများ အလယ် တွင် မောင်ဘသည် ခွေးကို တုတ်ဖြင့် ရိုက်၏။- ဟူသော ဝါ ကျ၌ ငါး နာရီ၌-အချိန်၊ကျောင်းသားများအလယ်တွင်-နေ ရာ၊ မောင်ဘသည်-ကတ္တား၊ ခွေးကို-ကံ၊ တုတ်ဖြင့်-အသုံးခံ၊ ရိုက်၏ - ကြိယာဟူ၍ ကြိယာနှင့်နာမ်များနောက်က သင့်ရာ နောက်ဆက် (ဝိဘတ်) ၌၊ တွင်၊ သည်၊ ကို၊ ဖြင့်၊ ၏ တို့ကို တွဲရ၏။

(ခ) ကြိယာနာမ်။ ။ကြိယာ ရှေ့က အ ကိုထည့်လျှင် ကြိယာနာမ် ဖြစ်၏။ အပြောအဆို၊ အနေအထိုင်၊ အသွား အလာ၊ အစား အသောက်။

ကြိယာနောက်က ခြင်းကိုထည့်လျှင်လည်း ကြိယာနာမ် ဖြစ်၏။ ပြောဆိုခြင်း၊ နေထိုင်ခြင်း၊ သွားလာခြင်း၊ စား သောက်ခြင်း။

(ဂ) နာမဝိသေသန။ ။ဆိုးသော လူ ဟူသော နာမဝိ သေသန၌ ဆိုး-ကြိယာနှင့် လူ-နာမ် အကြားတွင် “သော” ဟူသော အဆက် (ဝိဘတ်) ရှိ၏။ ဆိုးသောလူ ဟူ၍ ဆိုမည့် အစား လူဆိုးဟူ၍လည်း ကြိယာကို နာမ်နောက်က အဆက် (ဝိဘတ်) မပါဘဲ သုံးနိုင်၏။

ထမင်းချက် ဟူ၍ ကံနှင့်ကြိယာကို သုံးလျှင် ထမင်းကို ချက်သောသူ ဟူ၍ အနက်ရ၏။

ဘုရားတဆူ၊ ဆီးသီးနှစ်လုံး၊ လူသုံးယောက်၊ ခွေးလေး ကောင်၊ လှေငါးစင်း၊ တုတ်ခြောက်ချောင်း၊ စက္ကူခုနစ်ချပ်၊ သေနတ်ရှစ်လက်၊ အိမ်ကိုးဆောင် အစရှိသဖြင့် ဆူ၊ လုံး၊ ယောက်၊ ကောင်၊ စင်း၊ ချောင်း၊ ချပ်၊ လက်၊ ဆောင်စသော သင့်လျော်သည့် စကားလုံးများဖြင့် နာမ်၏အရေအတွက်ကို ပြသည်။

(ဃ) ကြိယာဝိသေသန။ ။အချို့ ကြိယာဝိသေသန သည် စကားနှစ်လုံး ထပ်၏။

ပြယုဂ်-အမျက် **ချောင်းချောင်း** ထွက်၏။

မျက်ရည် **ဖြိုင်ဖြိုင်** ကျသည်။

အချို့ ကြိယာဝိသေသနသည် နှစ်လုံးထပ်ရှေ့က အ ကို တွဲ၏။

ပြယုဂ်-သစ်ပင်တို့သည် **အပိုင်းပိုင်း** ပြတ်ကုန်၏။

ကျောင်းသားတို့သည် **အလှည့်လှည့်**ကစားကြ၏။

အချို့ကား နှစ်လုံးထပ်ရှေ့က တ ကိုတွဲ၏။

ပြယုဂ်-စစ်သားသည် ရန်သူကို **တစိမ်းစိမ်း** ကြည့်၏။

လျှပ်စစ်တိမ်မီးတို့သည် **တညီးညီး** ပြက်ကုန်၏။

များသောအားဖြင့် စကား ထပ်သော လေးလုံးစပ် ကြိယာ ဝိသေသနလည်း ရှိသေး၏။

ပြယုဂ်-လူအပေါင်းတို့သည် **သောင်းသောင်း အုတ်အုတ်** ငိုကြွေးကြကုန်၏။

**ပျင်းပျင်းရိရိ** မနေကြနှင့်။

အ နှင့် တွဲသော ကြိယာနာမ်ကိုလည်း ကြိယာဝိသေသန ကဲ့သို့သုံးနိုင်သည်။

ပြယုဂ်-မှူးမတ်တို့သည် **အမေ့အကျန်** နေကုန်သည်။

သားသည် မိခင်အား**အကြည်**အနူးခွင့်တောင်း၏။

(င) ဗဟုဝုစ်နောက်ဆက်။ ။ငါ **တို့** အဆွေ စစ်သား များသည် အဘယ်အရပ်မှ လာ **ကြ** သနည်း ဟူသော ဝါကျ မှာကဲ့သို့ ဗဟုဝုစ်သဘောပြလိုလျှင် နာမ်နောက်က တို့၊ သို့ မဟုတ် များ ထည့်၍ ကြိယာနောက်က ကြ ထည့်ရသည်။

ကြိယာ နောက်က **ကုန်**၊ သို့မဟုတ် **ကြကုန်** လည်း ထည့် နိုင်သည်။

ပြယုဂ်-ငါတို့သည် မျက်စိပျက် **ကုန်** ၏။

ကျောင်းသားတို့သည် ကျောင်းသို့ ရောက်ကြ **ကုန်**ပြီ။

(စ) ကာလ နောက်ဆက်။ ။ပြီးပြီ၊ ခဲ့တို့သည် ဖြစ်ပြီး ကာလကို ပြသော နောက်ဆက်များ ဖြစ်သည်။

ပြယုဂ်-မိခင် ထမင်း စား**ပြီးပြီ**။

သူ့ကို ငါ ပြော **ခဲ့**သည်။

**မည်**၊ **လိမ့်မည်**၊ **လတ္တံ့**၊ အံ့တို့သည် ဖြစ်လတ္တံ့ကာလကို ပြသော နောက်ဆက် ဖြစ်သည်။

ပြယုဂ်-အကြောင်း တစုံတခု ရှိ**မည်**။

မိုးရွာ**လိမ့်မည်**။

ဆင်းရဲသားအား ဒုက္ခများစွာ ဖြစ်**လတ္တံ့**။

ငါသည် မိခင်ဖခင်တို့ကို လုပ်ကျွေး**အံ့**။

(ဆ) ကြိယာအထောက်အပံ့။ ။ကြိယာနောက်ကနေ ၍ကြိယာ၏အဓိပ္ပါယ်ရင်းကို ပြောင်းလဲစေသောအထောက် အပံ့စကားများလည်း ရှိကြ၏။

အောက်ပါ ပြယုဂ်များ၌ ယင်းတို့ကို ခဲမဲဖြင့် ပြ၏။

ထိုသက်သေကို မင်းဒဏ် ပေး **အပ်** ၏။

ငါထမင်း မစား **အား** သေး။

ပွဲကြည့်**ပါဦး**။

ဤအသီး မစား **ကောင်း** ။
မိန်းမတို့သည် လင်ကောင်းကို အလွန်ရ ခဲ ၏။
ကျွန်တော် ရေသောက် ချင် သည်။
စစ်သားလည်း စစ်ပွဲတွင် ပင် ဆုံး **ချေ** သည်။
ဟောက္ကဲ့ ကြည့် **စမ်း** ။
သူ့ကို အိမ်သို့ ပြန် **စေ** ၏။
ခွေး ကိုက် **တတ်** သည်။
သင့်ကို ငါသတ် **တော့** မည်။
ဆင်းရဲသားလည်း နားတော်လျှောက် **တုံ** ၏။
ဤအဝတ်မျိုးကို ဆင်းရဲသား မဆင်ယင် **ထိုက်** ။
သူငယ် ကစား **နေ** သည်။
မင်းသားလည်း မင်းကြီးနှင့်အတူ နန်းတော်တွင် နေနှင့် သည်။
အိမ်သို့ လာကြ **ပါ**။
ဤသူကား တန်ခိုးကြီး **ပေ** သည်။
ငါ့ကို သင် မရိုက် **ပိုင်** ။
လူကလေးသည် ထိုစကားကိုပင် ပြော **ပြန်** သည်။
သူတို့ မလာ **ဖြစ်** ကြ။
သူ့ကို ငါမြင် **ဘူး** သည်။
သူ့ကို ငါ ဆဲ **မိ** သည်။
နတ်တို့ ကောင်းခြီးပေး **မြဲ** ပေးကုန်၏။
ဘုရင့်ဘုန်းတော်ကြောင့် ဆင်ဖြူရောက်လာ **ရ** ၏။
ငါ့ကို ဤသို့ ပြောဆို **ရက်** သည်။
သင်တို့ ဤနေရာမှာ နေ **ရစ်** ကြ။
သူတပါး ကဲ့ရဲ့ **ရာ** ၏။
ငါ့မိတ်ဆွေကြီး သေ **ရှာ** ပြီ။
အခါတပါး မိုးကြီးသည်းစွာ ရွာ **လတ်** ၏။
ဤပရိသတ်အား တရားဟော **လေ**။
စာမေးပွဲ အောင် **လို** ပါသည်။
အနားက စာအုပ်ကို ကမ်း **လိုက်** ပါ။
သစ်သီးသစ်မြစ် ရ **လွယ်** ပါ၏။
ဤခရီး ဝေး **လှ** သည်။
ကျွန်တော် မလျှောက် **ဝံ့** ပါ။
လူမိုက်ကို ဆုံးမ **သင့်** သည်။
ဤကိစ္စကို ကျွန်တော် မလွဲမရှောင် **သာ** ။
ပြောစရာတခု ရှိ **သေး** ၏။

(ဇ) မေးခွန်း။ ။ဟုတ်သည် မဟုတ်သည်ဟူ၍ အဖြေလိုသော မေးခွန်းကို "လော"၊ သို့မဟုတ် "လား" နောက်ဆက်ဖြင့် အဆုံးသတ်သည်။

ပြယုဂ်-နင်နှင့်ငါ တူသ **လော** ။
သူနှင့်ဆန့်ကျင်ဖက် မနေ **လော** ။
ဘုန်းတော်ကြီးဘုရား မာတော်မူပါသ **လား** ။
ဟန်ပန် ရနိုင်ပါမ **လား** ။

ဟုတ်သည် မဟုတ်သည်ဟူ၍ မဖြေနိုင်သော မေးခွန်းကို "နည်း"၊ သို့မဟုတ် "လဲ" နောက်ဆက်ဖြင့် အဆုံးသတ်သည်။

ပြယုဂ်-အဘယ်ကြောင့် ငါ့ထံ မလာမရောက်သ **နည်း** ။
ဘီလူးသည် သင့်ကို ဘယ်လို ညှဉ်းပန်းသ **နည်း** ။
ထုံးစံ ဘယ်မှာ ရှိသ **လဲ** ။
ငွေစ ဘယ့်လောက် များသ **လဲ** ။

(ဈ) မဟုတ်ဝါကျနှင့်တားမြစ်ခြင်း။ ။မဟုတ်ကြောင်း၊ တားမြစ်ကြောင်း ပြသော စကားလုံးကား "မ" ဖြစ်သည်။

ပြယုဂ်-သူတို့ ယနေ့ **မ** လာကြပါ။
သူ့ကို ငါ **မ** မြင်ဘူးဘူး။
တံခါး **မ** ပိတ်နှင့်။
နောင်ဤကဲ့သို့ **မ** ပြုရ။
သင်သည် မိခင်ကို တွေ့ရတော့မည် **မ** ဟုတ်။

(ည) ညွှန်ကြားခြင်း။ ။ညွှန်ကြားခြင်း ပြသော ဝါကျကို နောက်ဆက်မဲ့ကြိယာ၊ သို့မဟုတ် "လော့၊ ရမည်၊ ခဲ့၊ စေ" တခုခုနှင့် အဆုံးသတ်သည်။

ပြယုဂ်-ယခု ချက်ခြင်း **သွား** ။
နတ်သမီးကို ပေး **လော့** ။
မင်းကြီးကို ပြည်မှ နှင်ထုတ် **ရမည်** ။
ငါနှင့် လိုက် **ခဲ့** ။
အပြစ်လွှတ် **စေ** ။

(ဋ) ခွင့်ပန်ခြင်း။ ။ခွင့်ပန်ခြင်း အနက်ကို ပြလိုလျှင် "ပါရစေ" နှင့် ဝါကျကို အဆုံးသတ်သည်။

ပြယုဂ်-သင်နှင့် အတူ လိုက် **ပါရစေ** ။

(ဌ) ကျိန်ဆဲခြင်း၊ ဆုတောင်း မေတ္တာပို့ခြင်း၊ သစ္စာ ပြုခြင်း၊ ဤအနက်တို့ကို ပြလိုလျှင် "ပါစေ"၊ "စေသား"၊ "စေသော"၊ "စေသတည်း" တို့နှင့် ဝါကျအသီးအသီးကို အဆုံးသတ်သည်။

ပြယုဂ်-ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာ **ပါစေ** ။
ဒုက္ခရောက် **ပါစေသား** ။
သက်တော်ရာကျော် စံတော်မူသည်ဖြစ်**စေသော**။
အသင်မင်းကြီးအား အောင်ခြင်း မင်္ဂလာ ဖြစ်စေ **သတည်း** ။

(ဍ) အတူတကွ ဆောင်ရွက်ခြင်း၊ ဤအနက်ကို ပြလိုလျှင် " စို့ " ကို သုံးသည်။

ပြယုဂ်-ငါတို့တတွေ ကျောင်းတက်ကြ **စို့** ။

(ဎ) ကြိယာတခုမက ရှိသော ဝါကျ။ ။နောက် ဆက်ကို နာမ်နောက်က တွဲသကဲ့သို့ ကြိယာပါသော ပုဒ်စုနောက်ကလည်း တွဲနိုင်သည်။ ပြယုဂ်ဆိုသော် "ခွေးကို ငါမြင်၏" ၌ "ခွေး" နာမ်သည် "မြင်" ကြိယာ၏ကံဖြစ်ကြောင်းကို "ကို" နောက်ဆက်ကပြသည်။ ခွေးပြေးသည်ကို ငါမြင်၏ ဟူသော

ကြိယာ နှစ်ခုဝါကျ၌ကား မိမိတွင် ကတ္တားကြိယာပါသော "ခွေးပြေးသည်ကို" ဟူသည့် ပုဒ်စုသည် "မြင်" ကြိယာ၏ **ကံ** ဖြစ်၏။ သို့ဖြစ်၍ "ကို" နောက်ဆက်ကို "ခွေး" ဟူသော နာမ်နောက်က တွဲသကဲ့သို့ "ခွေးပြေးသည်" ဟူသော ပုဒ်စု **နောက်ကလည်း** တွဲနိုင်သည်။

ထိုနည်းအတူ မိုးကြောင့် ဤနေရာ၌ ငါမနေ ဟူသော ဝါကျ ၌ "မိုး" သည် ဤနေရာ၌ ငါမနေခြင်း၏ အကြောင်း ဖြစ်ကြောင်းကို "ကြောင့်" နောက်ဆက်က ပြသည်။ မိုးရွာသောကြောင့် ဤနေရာ၌ငါမနေဟူသော ကြိယာနှစ်ခုပါကျ ၌ကား "မိုးရွာသောကြောင့်" ဟူသော ပုဒ်စုသည် ဤနေရာ ၌ ငါမနေခြင်း၏ အကြောင်း ဖြစ်၏။ "ကြောင့်" နောက်ဆက်ကို "မိုး" ဟူသော နာမ်နောက်က တွဲသကဲ့သို့ "မိုးရွာသော" ဟူသော ပုဒ်စုနောက်ကလည်း တွဲနိုင်သည်။ ဤနည်းအတိုင်း သင့်ရာ နောက်ဆက်များကို ပုဒ်စုများ နောက်က တွဲခြင်းဖြင့် ကြိယာတခုမကရှိသော ဝါကျများကို ရ၏။

(ဏ) စကားဆက်။ ။ကြိယာ နှစ်ခုကိုဖြစ်စေ၊ ဝါကျ နှစ်ခုကို ဖြစ်စေ ဆက်ပေးသော စကားဆက် များလည်း ရှိသေး၏။

ပြယုဂ်-လူကလေးသည် တုတ်ကိုယူ ၍ ခွေးကို ရိုက်သည်။
ကျောင်းသားတို့သည် က **လျက်** လာကြသည်။
လူနာသည် အတော် အတန် သက်သာလာပြီ။
**သို့သော်လည်း** မထမသွားနိုင်သေး။
သူလာသည်။ **သို့ရာတွင်** ငါ့ကို စကား မပြော။
မိုးရွာနေသည်။ **သို့ဖြစ်ရာ** သူတို့ မလာကြ။
မောင်ဘ ကျောင်းပြေးသည်။ **ထို့ကြောင့်**စာမေးပွဲ မအောင်။
သမ္မန်ငယ်ကို ရွက်တိုက်၍၊ **သို့မဟုတ်** ထိုးခတ်၍ ကူးပို့ကြသည်။

(တ) ထပ်ဆင့် စကားဆက်။ ။ထပ်ဆင့် သုံးရသော စကားဆက်များလည်း ရှိသေး၏။

ပြယုဂ်-ခြသေ့် **လည်း** မင်း၊ ငါ **လည်း** မင်း ဖြစ်သည်။
လူကလေးသည် ငိုလည်းငို၏၊ ရယ်လည်း ရယ်၏။
ဆရာသည် ကျောင်းသားကို **ရှင်း**၊ ကျောင်းသူကို **ရှင်း** ရိုက်၏။
ညီတော်လည်း နောင်တော်ပူကျင့်သည်ကို **ရှင်း**၊ ခမည်းတော်ဘုရားသည် အမှုထမ်းတို့အား အပေး အကမ်း နည်းသည်ကို **ရှင်း** နှလုံးနာ၍ ခြားနား လေသည်။
ရွှေထီးရွှေနန်းကို **သော်လည်း** ပေးအပ်မည်လော၊ စစ်ပွဲ **သော်လည်း** ပြိုင်ဆိုင်မည်လော။
ကဲ့ရဲ့ **သော်လည်း** ကဲ့ရဲ့လတ္တံ့၊ သတ် **သော်လည်း** သတ်လတ္တံ့။
သား **သော်ရှင်း**၊ သမီး **သော်ရှင်း** ငါ့အနားမှာရှိ ရမည်။ သူငယ်သော် **သော်ရှင်း**၊ သူငယ်အမိသော် **သော်ရှင်း** အပြစ် အခြား မရှိ။
မိန်းမ **ဖြစ်စေ**၊ ယောကျ်ား **ဖြစ်စေ** မေးအပ်၏။
မြို့သို့ ဝင်သည် **ဖြစ်စေ**၊ မဝင်သည် **ဖြစ်စေ** အလို ရှိရာ သွားနိုင်ပါသည်။

(၁၃) **အသံ ပြောင်းလဲပုံ။** ။အချိန်ကာလ ကြာမြင့်သောအခါ စကားလုံးတို့သည် အသံ ပြောင်းလဲတတ်ကြ၏။ အသံပြောင်းလဲသည့်အတိုင်းလည်း အက္ခရာပြောင်းလဲတတ်၏။ ဤသို့ပြောင်းလဲခြင်း၏ အကြောင်းရင်းကို လိုက်စစ် ရှာဖွေသော် များသောအားဖြင့်စကားလုံးတို့သည် ခက်ခဲသော အသံမှလွယ်ကူသောအသံသို့ပြောင်းလဲကြသည်ကိုတွေ့ရ၏။ လုပ်ငန်း တခုကို ဆောင်ရွက်ရာ၌ ခက်ခက်ခဲခဲနှင့် မဟုတ်ဘဲ လွယ်လွယ်ကူကူနှင့် ပြီးစီးအောင် ကြိုးစားအားထုတ်ခြင်း သည် လူတို့၌ အကျင့်ဓလေ့ ဖြစ်ရကား၊ ပြောဆိုရေးသားရာ ၌လည်း ခက်ခဲသော အသံ အက္ခရာများမှ လွယ်ကူသော အသံ အက္ခရာများသို့ ပြောင်းလဲခြင်းသည် ပြောဆိုရေးသား သူတို့၌ အကျင့် ဓလေ့ တခု ဖြစ်၏။

အောက်ပါတို့သည် ပုဂံခေတ် အက္ခရာများမှ ယခုခေတ် အက္ခရာများသို့ ပြောင်းလဲပုံများ ဖြစ်ကြသည်။

ကျွေဋ္ဌာ-ကျေးဇူး။ အသွိင်ပုဟိာ-သခင်ဘုရား-ခင်ဗျား။ ဧစ်ကေဝ်-အစ်ကို၊အကို။အထောဘ်-အထွတ်။ဆိုဝ်ငြယ်-ဆင်းရဲ။ ဆုမ္ဘ-ဆုံးမ။ ယှတ်ကိပ်- ရှစ်ကျိပ်။ ညှန်ဆယ်-ညှဉ်းဆဲ။ အမိပုဟိာ - မိဖုရား။ ဘိုယ်-ဘေား။

အောက်ပါ မြန်မာ အသံပြောင်းပုံများကိုလည်း မှတ်သားရာ၏။

(က) ရခိုင် စကား၌ ကြားရသော 'ကြောင်း' ကဲ့သို့ ရကောက်အသံမှ 'ကျောင်း' ကဲ့သို့ ယပက်လက်အသံသို့ ပြောင်းခြင်း။

(ခ) ပုံဂံကျောက်စာ၌တွေ့ရသော'ကွ္လောင်း'ကဲ့သို့ လဆွဲသံမှ 'ကျောင်း' ကဲ့သို့ ယပင့်သံသို့ ပြောင်းခြင်း။

(ဂ) ပစ်၊ ပစ္စည်း၊ တပည့်၊ ကမ္ပည်း၊ မည်၊ မေတ္တာ အစ ရှိသည်တို့ကို ရေးရာ၌ ယပင့် မပါသော်လည်း ဖတ်ရာ၌ ယပင့်သံ ထည့်ခြင်း။

(ဃ) လာပါ ကို လာဗာ၊ ကိုယ်ပိုင် ကို ကိုယ်ဗိုင်၊ ရွာကြီး ကို ရွာဂြီး၊ ကြိမ်တုတ် ကို ကြိမ်ဒုတ်၊ ဆူးချုံ ကို ဆူးဂျုံ အစရှိ သဖြင့် အဃောသအသံကို ဃောသအသံသို့ ပြောင်းခြင်း။

(င) စာရေးကို စရေး၊ ကျားနာကို ကျနာ၊ နိမိတ်ကို နမိတ်၊ ဘီလူးကို ဘလူး၊ လည်းကောင်းကို ရှင်း၊ ဖယ်လှယ်ကို ဖလှယ်၊ ကုလားကို ကလား၊ သူခိုးကို သခိုး၊တူရွင်းကို တရွင်း၊ ကမ္ဘာကို ကဘာ၊ နံ့သာကို နသာ၊ ပန်းဘဲကို ပဘဲ၊ သေနတ် ကို သနတ်၊ အစ်မကို အမ၊ လင်းတကို လတ၊ လက်ဖက်ကို

လဖက်၊ နှုတ်ခမ်းကို နခမ်း၊ ပုံတောင်းကို ပတောင်း၊ ကျွန်မကို ကျမ၊ ခေါင်းတုံးကို ခတုံး၊ တိမ်ညင်ကို တညင် ဟူ၍ အခြားသရသံများကို အ သံသို့ပြောင်းခြင်း။

(စ) ကုန်သည်ကို ကုန်သယ်၊ တပည့်ကို တပဲ့၊ လည်းကို လဲ အစရှိသည်တို့၌ အည်၊ အည့်၊ အည်း အသံတို့ကို အယ်၊ အယ့်၊ အဲ အသံတို့သို့ ပြောင်းခြင်း။ **ဦးဖေမောင်တင်**

# ရှေးခေတ် မြန်မာအုပ်ချုပ်ပုံမှာ

**ဇမ္ဗူဒီပ ဥဆောင်းကျမ်း၌ ပါဝင်သော အမိန့်တော်၊ စစ်တမ်း စသည်တို့မှ မြန်မာမင်း အုပ်ချုပ်ပုံကို သိရ၏။ မင်းကြီးစွာစော်ကဲ၏ အမိန့်တော်၊ သာလွန်မင်း၏ အမိန့်တော် စသည့် အမိန့်တော်တို့တွင်လည်း အရပ်ရပ်အုပ်ချုပ်ရေးဆိုင်ရာ အကြောင်းအရာများနှင့်တကွ အမှုထမ်းအမျိုးမျိုးတို့၏ ဝတ်တရား စသည်တို့ ပါဝင်သည်။ အထက်ပါ အမိန့်တော်၊ စစ်တမ်းများကို အကိုးအကားပြု၍ ရှေးမြန်မာမင်းများ အုပ်ချုပ်ပုံကို ဖော်ပြထားသည်။**

**မြန်မာမင်းအုပ်ချုပ်ပုံ။** ။မြန်မာမင်းအုပ်ချုပ်ပုံကိုအမိန့်တော်၊ စစ်တမ်း စသည်တို့ပါဝင်သည့် ဇမ္ဗူဒီပဥဆောင်းကျမ်း၌ ဖတ်ရှုနိုင်သည်။ မင်းကြီးစွာ စော်ကဲ၏ ၇၂၉ ခုထုတ် အမိန့်တော်၊ သာလွန်မင်း၏ ၉၉၉ ခု ထုတ် အမိန့်တော် အစရှိသည့် အမိန့်တော်တို့တွင် အရပ်ရပ်အုပ်ချုပ်ရေး ဆိုင်ရာ အကြောင်းအရာများနှင့် အမှုထမ်း အမျိုးမျိုးတို့၏ ဝတ်တရား စသည်တို့ကို ဖော်ပြထားသည်။ အခွန် ဘဏ္ဍာဆက်သွင်းရိုး အစဉ်နှင့် စပ်လျဉ်း၍ အစစ်ခံသော မြို့သူကြီး ရွာသူကြီးတို့၏ အစစ်ခံချက် ဖြစ်သော စစ်တမ်းများ၌ ခွန်မ၊ ခွန်သေး၊ ထုံး အိုင်၊ အင်း ဆိပ်၊ ပွဲကူးတို့ စသည်တို့သာမက မြို့ရွာ၏ ရှေးဟောင်းသမိုင်း၊ မြို့သူမြို့သား ရွာသူရွာသားတို့၏ ထုံးစံဓလေ့၊ အသင်းအစုဖွဲ့ခြင်း စသည့် အုပ်ချုပ်ရေးဆိုင်ရာ အကြောင်းအရာများလည်း ပါဝင်ကြသည်။ ရှေးပြည်ခေါ် မြန်မာနိုင်ငံကို နယ်မြေအားဖြင့်၎င်း၊ ဌာနအားဖြင့်၎င်း အုပ်ချုပ်၏။ နယ်မြေအုပ်ချုပ်ပုံတွင် တဖက်၌ ဘုရင့်ကိုယ်စားအမှုထမ်းများ၊ တဖက်၌ ရိုးရာအမှုထမ်းများ ပါဝင်သော နှစ်ထပ်အစိုးရ ရှိ၏။ နယ်မြေအုပ်ချုပ်ရေးတွင် အုပ်ချုပ်ပုံ သုံးမျိုး ရှိ၏။ ယင်းတို့ကား ဤသို့ဖြစ်၏။ (၁) မြို့တော်၌ နန်းတော်ပတ်လည် ငါးတိုင်အတွင်း စီရင်ပိုင်ခွင့်ရှိသော မြို့ဝန်နှင့် လက်အောက်ခံများရှိ၏။ (၂) မြို့တော် အပြင်ဖက်၌ ဘေးဘိုးစဉ်ဆက် ကြီးစိုး အုပ်ကွပ်တိုင်ဆော်သည့် နယ်မြေအတွင်း ရိုးရာ ကျွန်တော်မျိုးဖြစ်သော တိုင်းသူရင်းတို့ကိုသာ စီရင်ပိုင်ခွင့်ရှိသော မြို့ကွပ်နှင့် အခြားအမှုထမ်းများ ရှိ၏။ (၃) ယင်းတို့ကို ကျော်၍ စော်ဘွားအစရှိသည့် ရိုးရာအကြီးအကဲတို့ လက်အောက်ရှိ အဝေးမြို့များနှင့် စစ်အစိုးရလက်အောက်၌ ရှိဟန်တူသော စစ်ကဲမြို့များရှိ၏။ မနီးမဝေးသော နယ်မြေများသို့ ခန့်အပ်သည့် အမည်ရ ကျေးစား ရွာစားများနှင့် အဝေးသို့ ခန့်အပ်သော အမှုထမ်းကြီးများဟူသော ဗဟိုအစိုးရ၏ ကိုယ်စားလှယ်များလည်း ရိုးရာ အကြီးအကဲများနှင့် ယှဉ်လျက်ရှိကြ၏။ ဤသို့လျှင် နယ်မြေအုပ်ချုပ်ပုံစံနစ်သည် ရိုးရာအကြီးအကဲအုပ်ချုပ်ရေးကို ဗဟိုအစိုးရအမှုထမ်းဖြင့် ကြီးကြပ်ကြည့်ရှုသော သွယ်ဝိုက် အုပ်စိုးခြင်း ဖြစ်ဟန်တူ၏။ နယ်မြေ အုပ်ချုပ်ရေးနှင့် ယှဉ်ကာ အတွင်းဝန်၊ ဝင်းမှူး၊ ဆင်မှူး၊ ဗိုလ်မှူး၊ သင်းမှူးအစရှိသည်တို့ ပါဝင်သော ဌာနဆိုင်ရာ၊ သို့မဟုတ် စစ်တပ်ဆိုင်ရာ အုပ်ချုပ်ရေး ရှိ၏။ ယင်းတို့မှာ မိမိတို့ လူများနှင့် မိမိတို့ ဌာနဆိုင်ရာ အကြောင်းကိစ္စများကို စီရင်ပိုင်ခွင့် ရှိကြသည်။

လူခပ်သိမ်းသည် မွေးဖွားခြင်းဖြင့်သော်၎င်း၊ အိမ်ထောင်မှုဖြင့်သော်၎င်း တပ်တခုခု အသင်းတခုခုနှင့် ဆိုင်သည် ဟုဆို၏။ တခါတရံ အသည် ဟူ၍၊ တခါတရံ တိုင်ထမ်း ဟူ၍ ခေါ်သော အခွန်တော်ထမ်းသည့် အသည် တိုင်ထမ်းသည် မြန်မာအုပ်ချုပ်ရေး စံနစ်တွင် အလွန် အရေးကြီးသော ဂုဏ်တူစု ဖြစ်သည်။ အသည်တို့မှာ အမှုထမ်းရန် တာဝန်မရှိ။ သူတို့မှာ စစ်မှုစစ်ရေးသော်၎င်း၊ မြို့ပြ ဆိုင်ရာသော်၎င်း အမှုထမ်းရန် တာဝန်ရှိသော အမှုထမ်းတို့ကဲ့သို့ မဟုတ်ဘဲ၊ အခွန်တော် ဆောင်ခြင်းမှ တပါး၊ မည်သည့် တာဝန်မျှ မရှိချေ။ စစ်အမှုထမ်းတဦးသည် ကိုယ်ပိုင်လက်အောက်ခံများကိုသာ အာဏာထားနိုင်၍၊ အခြားအစိုးရ၊ စစ်တပ်၊ အသင်း၊ အသည်၊ အစိုးရမဟုတ်သည့် ဂုဏ်တူစု တခုခုနှင့် ဆိုင်သော နေထိုင်သူများအား အာဏာမထားနိုင်။ အသည်ကို အနှောင်အဖွဲ့ ကင်းသည့် လွတ်လပ်သူနှင့်၎င်း၊ အမှုထမ်းကို နှောင်ဖွဲ့ထားသူနှင့်၎င်း နှိုင်းရှည့်အပ်၏။ အမှုထမ်းသည် အသည်အောက် ယုတ်ညံ့သည် ဟု မယူဆအပ်။ အသည် သက်သက်နှင့် ဖက်စပ်သူတို့သည် ကပ္ပားဖြစ်ကြ၏။ ဤသူတို့သည် အခြားအရပ်ရှိ အသည် ဂုဏ်တူစုမှလာ၍ နေထိုင်ခွင့် ရသူများ ဖြစ်ကြသည်။ အသည်နှင့် ကပ္ပားမှ မွေးဖွားသူကို အလာ ဟု ခေါ်သည်။ ရွာတွင် မြေလုပ်ခွင့်ရသော ကပ္ပားကို ကြိတ်စုတွင် ထည့်သွင်းသည် ဟု အသိအမှတ်ပြုကြသည်။ အစိုးရ၊ သို့မဟုတ် ဝန်ထမ်းအစု တခုခုတွင် ထည့်သွင်းအပ်သော အပြင်လူတို့ကိုလည်း ကြိတ်စုအသည် ဟု ခေါ်ကြသည်။ အသည်တို့သည် လုပ်သားများသာဖြစ်၍ အစိုးရ အမှုထမ်းတို့၏ ဂုဏ် အခွင့်အရေးများကို မခံစားကြရချေ။ အ

သည်တို့သည် မြန်မာထက် ဦးသော တိုင်းရင်းသားတို့၏ အဆက်အနွယ် ဖြစ်ဟန်တူ၏။ ထိုနောက် အစိုးရ အမှုထမ်း ခြင်း၏ အခွင့်အရေးထက် တာဝန်က ကြီးမားလာသော အခါများ၌ အမှုထမ်းများသည် အသည်ဂုဏ်တူစုသို့ မျှော ဝင်လိုကြ၏။ စစ်သော်၎င်း၊ ပုန်ကန်မှုသော်၎င်း ဖြစ်သော အခါ အသည်တို့ပင် အမှုထမ်းရန် တာဝန်ရှိ၏။

အစိုးရဝန်ထမ်း ဖြစ်သော အမှုထမ်းတို့ကို အသင်း၊ အစု၊ အစိုဖွဲ့၍ ထား၏။ ဤသည်တို့သည် များသောအားဖြင့် စစ် တပ်ဖြစ်၍၊ တပါးတို့မှာ မြို့ပြနှင့်ဆိုင်ကြ၏။ များသောအား ဖြင့် တပ်တို့သည် သူရဲ ၁၂ တပ်၌ ပါဝင်ကြဟန်တူ၏။ မြင်း၊ ဒိုင်း၊ ဆင်၊ သေနတ်၊ ကာ၊ လွှား၊ လှံရှည်တို့သည် ထင်ရှား သော စစ်မှုထမ်း ဌာနခွဲများဖြစ်ကြ၏။စစ်ဖက်မဟုတ်သော အသင်းတို့အနက် ရိုးရာလယ်သမားတော် ဖြစ်သော လမိုင်း သည် အရေးကြီး၏။ သူတောင်းစားနှင့် စက်ဆုပ်ဖွယ်ဂုဏ် တူစုတို့ကိုပင် အစုဖွဲ့၏။ အရွတ်စို့၊ စဏ္ဍာလ ငါးစို့၊ နာရီးအစို တို့ကိုလည်း တွေ့ရ၏။

အသည်တို့မှာ နေထိုင်ရာ နယ်မြေအတွင်း မြေလုပ်ကိုင်ရန် အခွင့်ရှိ၏။ အမှုထမ်းတို့ကိုကား လုပ်မြေ၊ နေမြေ၊ စားမြေ ခွဲဝေချပေး၏။ အမှုထမ်းတို့ကို ဝန်၊ သို့မဟုတ် မှူးက အုပ် ချုပ်၏။ ဤသို့လျှင် မြင်းဝန်၊ ဒိုင်းဝန်၊ ဒိုင်းမှူး ဟူ၍ တွေ့ရ ၏။ ယင်းတို့အောက်၌ အခြားသူတို့ထက် သာ၍ကျယ်သော မြေရသော သွေးသောက်၊ အဂုန်း၊ ခေါင်း၊ အိုးစားကြီးတို့ ပါဝင်သည့် ဒေသန္တရအမှုထမ်းများ ရှိကြ၏။

ဝန် ထမ်းသည် ဖြစ်စေ၊ ဝန်မထမ်းသည် ဖြစ်စေ လူထုကို ဆင်းရဲသား၊ သို့မဟုတ် ကျွန်တော်မျိုးဟု ခေါ်၏။ ကျေးရွာ နေ၊ အမှတ်၊ ငယ်သား ဟူသော ဝေါဟာရများလည်း ရှိသေး ၏။ ကျေးရွာနေသည် ကျေးလက်အတွင်း နေထိုင်သူကို ဆိုသည်။ လူတို့သည် မည်သည့်တပ်၊ မည်သည့်အသင်းနှင့် ဆိုင်သည်ကို ပြသသော သီးသန့်ထိုးကွင်းကို အမှတ် ဟု ခေါ် ဟန်တူ၏။ ငယ်သားသည် နောက်လိုက်ကိုဆို၍ ဝန်ထမ်း သမားနှင့်သာ သက်ဆိုင်၏။

အရာထမ်းများ အနက် အတွင်းဝန်သည် အတွင်းမှု စီရင် ပိုင်ခွင့်နှင့်တကွ အတွင်းသားတို့ကို အာဏာ တားနိုင်သည်။ အတွင်းသည် ပြည်ထဲကိစ္စကို ဆို၍ အတွင်းသားမှာ အရပ် ဒေသမဟုတ်ဘဲ၊ ဂုဏ်တူစုကိုဆိုသည် ဖြစ်နိုင်သည်။ အတွင်း ဝန်တို့ကို ဗြဲတိုက်အရာထမ်းမှူးများ ဟုလည်း ခေါ်ကြသည်။ နန်းတော်နောက်ပိုင်း မိန်းမဆောင်ဖြစ်သောအနောက်ရုံးကို အုပ်ထိန်းသော အရာထမ်းကို အနောက်ဝန် ဟု ရေးသည်။ ပုဂံခေတ်တွင် ထင်ရှားသော ကလန်၊ သံပျင်၊ စာချီတို့ကို လည်းတွေ့ရ၏။ကလန် ဟူသည်မှာ ရွာကိုအုပ်ချုပ်သော ရွာ သူကြီးနှင့် အလားတူ၏။ သံပျင်ကား ဘုရင့်အမိန့်တော်ကို ချသူ ဖြစ်၏။ စာချီမှာ စာရေးတော်တို့၏ အချုပ်ဖြစ်၏။

အခွန်တော်နှင့်စပ်လျဉ်း၍ မြေခွန်၊ ရေခွန်၊ ယာခွန်၊ ကိုင်း ခွန်၊ တောခွန် အစရှိသည်တို့ကို တွေ့ရ၏။ ခွန်မ၊ ခွန်သေး သည် ယေဘုယျ အခွန်ကို ဆိုသည်။ နှစ်စဉ် တလုံးတည်း ပေးရသော ငွေကို ခွန်သေ ဟု ခေါ်၍၊ တနှစ်မှ တနှစ် ပြောင်းလဲသည့် အခွန်ကို ခွန်ရှင်ဟုခေါ်သည်။ ရွှေနန်းရိုး ရွှေခွန်၊ငွေခွန်သည် မြို့တော်ရှိ အရာထမ်းတို့သို့ ထမ်းဆောင် ရသောအခွန် ဖြစ်သည်။ အချို့ ရွာတို့သည် ရွှေငွေ အစား သစ်ခွပန်း၊ သို့မဟုတ် အခြားပန်းတော်တို့ကိုဆက်ကြသည်။ တမာစေး၊ ကျှော်၊ အုံတုံခေါက်၊ ဥသျှစ်၊ တင်လဲ၊ မုရိုးမီး သွေး၊ စာရေးရန် ထန်းဖူး၊ မန်ကျည်းမှည့်၊ ရေနံ၊ အင်တွဲ၊ လဝါ၊ ကျဲကော် ဟူသော ဆဲ့နှစ်မှုထမ်းသည် တရပ်တဒေ သရှိ သာမန် သစ်တောထွက် ပစ္စည်း လက်ဆောင် ဖြစ် သည်။ သစ်တောထွက် ပစ္စည်းမှတပါး မည်သည်ကိုမျှ အခွန် အဖြစ် မပေးကြရဟန်တူ၏။ ခိုင်ကြေး ပွဲခကို ဆိုလိုဟန် တူ သော အပိုအကဲ ခေါ်သော ရေးစား၊ တိုင်စားကဲ့သို့သော အခွန် အတုတ်ငယ် အမျိုးမျိုးလည်း ရှိ၏။ တရားကွမ်းဖိုး၊ ကွမ်းဖိုး၊ တရားစကား ဟု ခေါ်သော တရားစီရင်မှုအခငွေ များလည်း ရှိ၏။ ကျွဲသေ နွားသေ၏ အနံ့တင်ပါးသည် လည်း ဆုလပ်တခု ဖြစ်၏။ ဒေသန္တရ အကြီးအကဲ တို့သည် အသေကောင်၏ အပိုင်းကို ရမြဲဖြစ်၏။ ကျွဲ နွားဖြစ်စေ၊ ကျွန်ဖြစ်စေ ရောင်းလျှင် အကောက်ပေးရ၏။ လေလွင့် သော ကျွဲ၊ နွားထောင်ခလည်း ရှိ၏။ ကျွဲဝင် နွားဝင်ဟု ခေါ်၏။ ကျွန်၊ ကျွဲ နွား ပွဲခကို ကျွန်ဦးရေ၊ ကျွဲ နွား မြီးရေ အားဖြင့် ရေတွက်၏။ ပွဲဟူသောစကားသည် ပွဲစားကိုင်း၊ ပွဲခကိုင်း ဆိုလို၏။ ဓောင်းပလုံးဖြင့် ခြင်တွယ်သည့် ကုန် စည်ပွဲခ၊ သို့မဟုတ် ဤကိစ္စမျိုးကို ကြီးကြပ်သူကို တည် ဟု ခေါ်၏။ အလေး ချိန်ရသော ကုန်စည်ပွဲခကို ရာဇူဟုခေါ် သည်။အလေးချိန်သောချိန်ခွင်ကိုလည်း ရာဇူ ဟုခေါ်သည်။ ချိန်ခွင်ကိုင်ကို ရာဇူကိုင် ဟု ခေါ်၏။ ကင်းစောင့်၊ ချောပို့၊ ကူးတို့ခတို့သည် အများကုန်ကျစရိတ်များ ဖြစ်ကြ၏။

နိုင်ငံရေး ပထဝီဝင်နှင့် စပ်လျဉ်း၍ သုံးသော ဝေါဟာရ များအနက်၊ တိုင်းသည် လူမျိုးတမျိုး ပေါင်းစု၍ နေသော အရပ်ကိုဆိုသည်။ ဇမ္ဗူဒီပကျွန်းကိုတိုင်းကြီး ၁၆ တိုင်းအား ဖြင့် ပိုင်းခြားသကဲ့သို့၊ မြန်မာနိုင်ငံကိုလည်း သုနာပရန္တ၊ တမ္ဗဒီပ၊ သီရိခေတ္တရာ၊ ဇေယျဝဍ္ဎန၊ ရာမည၊ သုဝဏ္ဏဘုမ္မိ၊ ကမ္ဗောဇ၊ စိန္နဟူသော တိုင်းငယ် ရှစ်တိုင်းအားဖြင့် ပိုင်းခြား ၏။ များသောအားဖြင့် ပြည်သည် တိုင်းကြီးလောက် မနှံ့ ပြားသောနေရာကို ဆိုသည်။ မြန်မာနိုင်ငံပတ်လည်ရှိ ကျော် ကသည်းပြည်၊ ဂျမ်းပြည် အစရှိသည်တို့ကိုလည်း ပြည် ဟု ခေါ်သည်။ အောက်မြန်မာပြည်ကို အောက်မြစ်စဉ်တ လျှောက်ဟူ၍၎င်း၊ရာမည၊သို့မဟုတ် မုတ္တမ၊ ဥပါယ်ခို၊ ပုသိမ် ပါဝင်သော တလိုင်း(မွန်)သုံးရပ်ဟူ၍၎င်း ခေါ်၏။ မြန်မာ

ပြည် မြောက်ပိုင်းကို အထက်မြစ်စဉ်တလျှောက်ဟူ၍လည်း ခေါ်သည်။ ရှမ်းဒေသကို ကိုးကျိုင်း၊ ကိုးမိုင်း၊ ကိုးထား၊ ကိုးမော ဟု များသောအားဖြင့် ခေါ်သည်။

ကျောက်ဆည် ကိုးခရိုင်၊ သို့မဟုတ် လယ်တွင်း ကိုးခရိုင်၊ ဇင်းမယ် ၅၇ ခရိုင်၊ ပုသိမ် ၃၂ မြို့ခရိုင်ဟူ၍ ခရိုင်ကို သုံးသည်။ တခါတရံ ခရိုင်တို့ကို စု၍ နယ်၊ မြို့နယ်ဟု ခေါ်၏။ ဇင်းမယ် ၅၇ ခရိုင်ကို ဇင်းမယ် ၅၇ မြို့နယ်ဟူ၍လည်း ခေါ်၏။ တောင်ဖက်တိုက်၊ မြောက်ဖက်တိုက်၊ အရှေ့ဖက်တိုက်၊ အနောက်ဖက်တိုက်၊ ဆင်ကျည်တိုက်၊ တွင်းသင်းတိုက်၊ မဟာဒါန်တိုက် ဟူ၍ အရပ်ရပ်ဆိုင်ရာ အုပ်ချုပ်ရေး ဌာနခုနစ်ဌာနရှိ၏။ ပဌမ လေးဌာန၏ အမည်တို့သည် နယ်မြေအပိုင်းအခြားနှင့် စပ်ဆိုင်ကြောင်း ညွှန်ပြ၏။

အဝေးမြို့သည် အရေးကြီးသော အုပ်ချုပ်မှု လက္ခဏာဖြစ်သည်။ အတွင်း၊ သို့မဟုတ် ပြည်ထဲနယ်မြေနှင့် ဆန့်ကျင်ဖက် ဖြစ်ဟန်တူ၏။ အဝေးမြို့တွင် ရှမ်းပြည်နှင့် မြို့စားများအား ခွဲဝေချထားအပ်သော အခြားမြို့များ ပါဝင်ကြသည်။ ဧရိယာအားဖြင့် တိုက်၊ ခရိုင် တို့အောက် ငယ်၍၊ အုပ်ချုပ်ရေး စံနစ်တွင် အရေးအကြီးဆုံးသော ကေမူကား မြို့ဖြစ်သည်။ ဌာနချုပ်မြို့ကို မြို့မ ဟူ၍၎င်း၊ လက်အောက်ခံမြို့ကို မြို့ရံဟူ၍၎င်း ခေါ်၏။ မြို့နှင့်နယ် ပေါင်း၍ခေါ်သော မြို့နယ်ကိုလည်း တွေ့ရှိရ၏။ အထက် မြန်မာပြည်၌သုံးသော မြို့အစား အောက်မြန်မာပြည်၌သန်လျှင် (သံလျင်)သုံးတိုက်၊ ဟံသာဝတီ ခုနစ်တိုက်ကဲ့သို့ "တိုက်"ကို သုံးကြသည်။ မြို့အတွင်းရှိ ရွာသူကြီး အရေအတွက်သည် ရွာအရေအတွက်လောက် မများချေ။ **ဦးဖေမောင်တင်**

**မြန်မာ မုံ့များ။** ။မြန်မာတို့အဖို့ ထမင်းဟင်းကဲ့သို့ မူလထား၍ စားသောက်ကြသော အစား အစာမျိုး မဟုတ်ဘဲ၊ အဆာပြေ အငြိမ်းပြေ စားကြသော သွားရည်စာဟု ခေါ်သည့် မုံ့အမျိုးအမည်တို့ကား များပြားလှသည်။ မြန်မာတို့သည် မုံ့ပဲ သွားရည်စာတို့ကို အငြိမ်းပြေ၊ အဆာပြေသာမက သင်္ကြန်၊ ဝါဝင် ဝါထွက် စသော အခါကြီး ရက်ကြီးများ၌လည်း ကောင်းနိုးရာရာ မုံ့တို့ကို လုပ်ကိုင်ပြီးလျှင် ရဟန်းသံဃာတို့နှင့် ဆွေမျိုး မိတ်သင်္ဂဟတို့အား ဖိတ်၍ ကျွေးမွေးခြင်း၊ အိမ်များသို့ ဝေငှခြင်း စသော အစဉ်အလာတရပ်ကိုလည်း ဆောင်ရွက်လေ့ ရှိကြရာ၊ မြန်မာတို့၏ နှစ်သက်ဖွယ်ရာ ယဉ်ကျေးမှုတရပ် ဖြစ်ပေသည်။ ယင်းသို့ လှူဒါန်းဝေငှရန် မုံ့များကို များများစားစား လုပ်ကိုင်ကြသည့် အခါ ဆိုင်ရာ မုံ့သည်များထံ မှာယူသည်ထက်၊ ဆွေမျိုး မိတ်သင်္ဂဟ အသိုင်း အဝန်းများဖြင့် တစုတဝေး တယောက် တလက် ဝိုင်းကူလုပ်ကိုင်၍ ကျွေးမွေးရခြင်းကို ပို၍ ဂုဏ်ယူကြလေသည်။

မြန်မာနိုင်ငံသည် ဆန်နှင့် ကောက်ညှင်း အထွက်ကောင်းသော နိုင်ငံ ဖြစ်သည့်အလျောက် မြန်မာတို့သည် မုံ့ပဲအမျိုးမျိုးကို စီမံ လုပ်ကိုင်ကြရာ၌ ဆန်နှင့် ကောက်ညှင်းကို မူလထား၍ အုန်းသီး၊ သကြား၊ ထန်းလျက်၊ နှမ်း၊ မြေပဲ စသော ပြည်တွင်းထွက် အသီးအပွင့်တို့ကို အသုံးအဝန်း ပြုလေသည်။ မြန်မာမုံ့များကို လုပ်ကိုင်ရာ၌ အရသာ ခြောက်ပါးအနက် အချိုနှင့် အဆိမ့်ကို ပို၍ အလေးထားသည်ကို များသောအားဖြင့် တွေ့ရသည်။ မြန်မာနိုင်ငံ၏ ရေ မြေ အနေအထားသည် တပြေးတညီတည်း မဟုတ်ပေရာ၊ အစားအစာများသည်လည်း ရေမြေဌာန ဒေသအလိုက် အနည်းနှင့်အများ ကွာခြားမှု ရှိတတ်လေသည်။ အချို့မုံ့မျိုးတို့သည် ဒေသ အလိုက် အသုံးအစား များ၍ ထိုဒေသ၌သာ ကျော်ကြားသည်။ အချို့ မုံ့မျိုးတို့ကမူ အထက်အောက် မြန်မာတနိုင်ငံလုံး၌ လူသိများပြား၍ ခုံခုံ မင်မင် လုပ်ကိုင်စားသောက်ကြသော မုံ့မျိုး ဖြစ်သည်။ ပုံစံအားဖြင့် နှမ်းမနဲ့ (ထမင်းနဲ့) သည် နိုင်ငံနှင့်အဝှန်း သူ့ရာသီချိန်ခါ၌ ခြိမ့်ခြိမ့်သဲသဲ၊ နှမ်းမနဲ့ထိုးပွဲကြီးများ ကျင်းပကာ လှူဒါန်း စားသောက် ကြရသော မုံ့မျိုး ဖြစ်သည်။ ခွက်ပုတ်ဟု ခေါ်သော ကောက်ညှင်းမုံ့မျိုး တမျိုးကိုမူ အထက်မြန်မာနိုင်ငံ၌ လူသိများသော်လည်း အောက်မြို့ကျေးရွာတို့၌ စားဘူးသူ ရှားသည်။ မြန်မာ အများစု၏ အသည်းစွဲ မုံ့တမျိုး ဖြစ်သော မုံ့ဟင်းခါးသည်ပင်၊ မြစ်ဝကျွန်းပေါ် ချက် မုံ့ဟင်းခါး၊ မြေလတ်ပိုင်းချက် မုံ့ဟင်းခါး၊ ရခိုင်ချက် မုံ့ဟင်းခါး စသည်ဖြင့် မတိမ်းမယိမ်း ကွဲပြားကြလေသည်။

မြန်မာတို့သည် မုံ့အမျိုးမျိုးကို လုပ်ကိုင်ရာ၌ ပေါင်းခြင်း၊ ပြုတ်ခြင်း၊ ကျိုခြင်း၊ ကင်ခြင်း၊ ဖုတ်ခြင်း၊ ချက်ခြင်း၊ နှပ်ခြင်း၊ အိုးကင်းကပ်ခြင်း၊ လှော်ခြင်း၊ ကြော်ခြင်း စသော နည်းမျိုးစုံကို အသုံးပြုကြရာ ချိုဆိမ့်အရသာ အမျိုးမျိုး ပေါ်၍ မြန်မာ့လျှာနှင့် အဆင်ပြေလှသည်။ ထို့ကြောင့် မြန်မာပီသသူ ကြီးငယ်မဟူ မြန်မာ မုံ့တို့ကို နှစ်သက် ကြပေသည်။ မြန်မာကြိုက် ထိုထိုမုံ့မျိုးစုံတို့ကို ဖော်ပြရလျှင် —

ကောက်ညှင်းပေါင်း၊ ကောက်ညှင်းပြန်ပေါင်း၊ ခေါ်ပြင်၊ မုံ့ထုပ်ကြီး၊ မုံ့စိမ်းပေါင်း၊ မုံ့ဗိုင်းတောင့်၊ ဘီးမုံ့၊ ပဲမုံ့၊ မုံ့ဖက်လိပ် (မုံ့ကြာလိပ်)၊ မုံ့လိပ်ပြာ၊ မုံ့ပေါင်းမုံ့ကတော့၊ စလူမုံ့၊ အညာသား ကျောကုန်း (မုံ့ဖက်ထုပ်)၊ ငှက်ပျောမုံ့၊ ကောက်လန်းတီမုံ့၊ ထန်းသီးမုံ့၊ ကတတ်မုံ့ စသည်တို့သည် ပေါင်း၍ ပြုလုပ်ရသော မုံ့မျိုး ဖြစ်ကြသည်။ ယင်းတို့အနက် ကောက်ညှင်းပေါင်းနှင့် ပြန်ပေါင်း၊ ခေါ်ပြင်၊ မုံ့ထုပ်ကြီးတို့သည် ကောက်ညှင်းမုံ့များ ဖြစ်ကြ၍၊ ကျန်မုံ့မျိုးတို့ကား ဆန်မုံ့များဖြစ်ကြလေသည်။

ကောက်ညှင်းပေါင်း (ခေါ်တပေါင်း၊ ပဲလွန်းစေ့ရောအဖြူပေါင်း)၊ ခေါ်ပြင်၊ မုံ့စိမ်းပေါင်း၊ မုံ့ဗိုင်းတောင့်၊ ဘီးမုံ့၊ ပဲမုံ့



ယနေ့တိုင် မရိုးသေးသည့် မုန့်စိမ်းပေါင်း

တို့ကို အုန်းသီးပေါသော ဒေသ၌ အုန်းသီးမှုန့် နိုင်နိုင်ဖြူး၍ နှမ်းထောင်းသင်းသင်းကလေး စွက်ကာ စားကြသည်။ အုန်းသီးရှားသော အထက် အညာကဲ့သို့ ဒေသများတွင် စားတော်ပဲပြုတ် ဆီရွှဲရွှဲဖြင့် ရောနယ် စားကြသည်။ ကောက်ညှင်းပေါင်းကို အုန်းနို့ဖြင့်နယ်၍ တဖန် ပြန်ပေါင်းပြီးလျှင် အုန်းသီးမှုန့်၊ ဗုဇွန်မှုန့် ဖြူးစားရသော ကောက်ညှင်း ပြန်ပေါင်းသည် အောက်မြို့ကျေးရွာ၏ အရသာရှိသော မုန့်တမျိုး ဖြစ်သည်။ ခေါပြင်သည် ကောက်ညှင်းပေါင်း အဖြူကို ကြေညက် စေးပိုင်အောင် ထောင်း၍ ဗန်းတခု၌ အပျဉ်ကြီး ဖြစ်အောင် ဖြန့်ရသည်။ နှမ်းထောင်း၊ အုန်းသီးမှုန့် နိုင်နိုင်ဖြင့် စားကြသည်။ အချို့က ခေါပြင်သည် ရှမ်းမုန့်တမျိုးဟု ဆိုကြသည်။မုန့်စိမ်းပေါင်းသည် မုန့်ညက်တွင် ထန်းလျက် ရောပေါင်းထားခြင်း ဖြစ်၍ မွှမွှကလေးနေသဖြင့် အုန်းသီးမှုန့်၊ နှမ်းထောင်းတို့ စွက်လိုက်လျှင် စား၍ တမျိုးအရသာ ရှိသည်။ မုန့်ဗိုင်းတောင့်၊ ဘီးမုန့်နှင့် ပဲမုန့်တို့သည် တွဲဖက်စားလေ့ရှိကြသော မုန့်သုံးမျိုး ဖြစ်သည်။ဗိုင်းတောင့်ကလေးများသဏ္ဌာန် ပြုလုပ်ထားသဖြင့် မုန့်ဗိုင်းတောင့်ဟူ၍၎င်း၊ ဘီး၏ အသွားရာကလေးများ ထင်အောင် ပြုလုပ်ထားသဖြင့် ဘီးမုန့်ဟူ၍၎င်း ခေါ်ကြသည်။ ပဲမုန့်မှာ မုန့်ညက်တွင် ပဲလွန်းစေ့ပြုတ်များ ရောနယ်ထား၍ အရောင်မှာ အညိုနုရောင်ဖြစ်သည်။

အုန်းသီးမှုန့် နိုင်နိုင်ဖြင့် စားလေ့ ရှိကြသော ငှက်ပျောမုန့်၊ ထန်းသီးမုန့်၊ ကောက်လန်းတီမုန့်တို့သည် အနံ့သင်းသော မုန့်များ ဖြစ်ကြသည်။ ငှက်ပျောသီးမှည့်ကို ဆန်နှစ်ရော၍ ပြုလုပ်သဖြင့် ငှက်ပျောမုန့် ဖြစ်လာ၍ ထန်းသီးမှည့် အခွံမှ အနှစ်ကို ဆန်နှစ်ရော၍ ပြုလုပ်သဖြင့် ထန်းသီးမုန့် ဖြစ်လာသည်။ လယ်တောကွင်းပြင်များ၌ ပေါက်လေ့ရှိ၍ လှပသော အပြာရောင် အပွင့်ကလေးများ ဖြစ်သည့် ကောက်လန်းတီကို ဆန်မုန့်နှစ်ဖြင့် ပြုလုပ်သော ကောက်လန်းတီမုန့်သည် အဆင်း မညီးနက်သော်လည်း အရသာသည် စွဲမက်ဖွယ်ရာ ကောင်းသည်။

အချို့က မုန့်ဖက်ထုပ်ဟုလည်း ခေါ်သော မုန့်ထုပ်ကြီးသည် မုန့်လုံးအတွင်း အုန်းယို၌ ပနာ၍ ဖက်ဖြင့် သုံးထောင့်ပုံနီးနီး ထုပ်ထားသည်။ မုန့်ရည်တွင် ထန်းလျက်ရည်ရော၍ မုန့်သားပါးပါးကို ပေါင်းအိုး အဝတ်ပေါ်၌ ဖြန့်ချ၍ ပေါင်းပြီးလျှင် အလိပ်ကလေး ဖြစ်အောင် လိပ်ရသော မုန့်ဖက်လိပ်ကို မုန့်ကြာလိပ်ဟုလည်း ခေါ်သည်။ မုန့်လိပ်ပြာသည် မုန့်ဖက်လိပ်ကဲ့သို့ မုန့်သားပါးပါး ပြုလုပ်ရသော်လည်း မုန့်ရည်၌ ထန်းလျက် မရောပေ။ မုန့်အလယ်တွင် ပဲယိုထည့်၍ လေးထောင့်ပုံ နီးနီး ခေါက်ရသည်။အုန်းသီးပေါသော ဒေသတို့တွင် အုန်းသီးမှုန့် ဖြူးစားကြသည်။

မုန့်ကတော့သည် ထန်းလျက်ရည် ရောထားသော မုန့်ညက်ကို ဖက်ကတော့၌ ထည့်ပြီးလျှင် ထိပ်၌ အုန်းသီးစိတ် ကပ်ထားသည်။ စလူမုန့်ဆိုသည်မှာ ထန်းလျက်ရည် ရောထားသော ဆန်မှုန့်ညက်ကို နယ်သားရအောင် ပြုကာ ဆီလူးထားသော စလူဖက်၌ ထည့်၍ အတောင့်ကလေး ဖြစ်အောင် ပြုပြီးလျှင် ထိပ်နှစ်ဖက်၌ ကြိုးဖြင့် စုချည်ထားသည်။ အုန်းသီးမှုန့် ဖြူးစားရသော မုန့်မျိုးပင်ဖြစ်သည်။ အညာသား ကျောကုန်းသည် ဆန်နှင့် ကောက်ညှင်းရော၍ ပြုလုပ်ရသော မုန့်မျိုး ဖြစ်သည်။ မုန့်ညက်၌ ထန်းလျက်ရည် ရောပြီးလျှင် ဆီသုတ်ထားသော တောင်စွန်ဖက်ဖြင့် လေးထောင့် ရှည်ရှည်ပုံ ထုပ်ရသည်။ မုန့်သား၏ အလယ်တွင် ဖက်၏အလယ်ရိုးနှင့် အကြောပုံများ ထင်ရှားစွာ ပေါ်နေတတ်သည်။ အညာသား ကျောကုန်း မုန့်ကိုလည်း မုန့်ဖက်ထုပ် ဟုခေါ်ကြသေးသည်။ သာကူစေ့ဖြင့် ပြုလုပ်သော သာကူ မုန့်ဖက်ထုပ်လည်း ရှိပေသေးသည်။

မုန့်ကတိုးဖွာဟုလည်း ခေါ်သော ကတတ်မုန့်ကို ကတတ်ဥဖြင့် ပြုလုပ်သည်ဟု ဆိုသည်။ ဆန်မှုန့်ကို ပန်းကန်ခွက်ခွက်၌ ထည့်ပြီးလျှင် ပေါင်း၍ပြုလုပ်ရသော မုန့်ပေါင်းကို ဆီမွှေးမွှေး ဆမ်း၍ စားလေ့ ရှိကြသည်။

ရေနွေးဖြင့် ပြုတ်ရသော မုန့်မျိုးတို့တွင် မုန့်လုံးရေပေါ်၊ မုန့်လုံးကြီး၊ မုန့်ပိန္နဲစေ့၊ မုန့်ကြာစေ့၊ ကောက်ညှင်းထုပ်၊ မုန့်ငါးကလေး၊ မုန့်လုပ်ဆောင်း၊ မုန့်ကြာရိုး၊ ကျူမုန့်တို့ ပါဝင်သည်။ မုန့်လုံးရေပေါ်မှ ကောက်ညှင်းထုပ်အထိ မုန့်မျိုးတို့သည် ကောက်ညှင်းမုန့်များ ဖြစ်ကြ၍ ကျန်မုန့်မျိုးတို့သည် ဆန်မုန့်များ ဖြစ်ကြသည်။

မုန့်လုံး ရေပေါ်သည် လူသိများပြား ထင်ရှားသောမုန့်ဖြစ်သည်။ မုန့်၏ အရသာကို အစွဲပြု၍ ကျော်ကြားသည်ထက်

သကြ္ဂန်ကဲ့သို့ အခါကြီး ရက်ကြီးများတွင် လူစု လူဝေးဖြင့် တပျော်တပါး လုပ်ကိုင်၍ စတုဒိသာ ကျွေးမွေးလေ့ ရှိခြင်းကြောင့် ထင်ရှားခြင်း ဖြစ်သည်။ မုန့်လုံးကြီးကြီး လုံးရသော မုန့်လုံးကြီးသည် အလယ်၌ အုန်းယို၌ပနာ ပါသည်။ မုန့်ပိန္နဲစေ့၊ မုန့်ကြာစေ့တို့သည် မုန့်လုံးကြီးထက် အလုံး သေးငယ်၍ ဌာပနာ မပါချေ။ မုန့်လုံးကြီးကို အုန်းနို့ ဆမ်းစားကြသည်။ မုန့်ကြာစေ့၊ မုန့်ပိန္နဲစေ့တို့ကို အုန်းနို့စိမ်းအပြင်၊ ထန်းလျက်ရည် စိမ်၍လည်း စားကြသည်။

ကောက်ညှင်းထုပ်ကို အချို့အရပ်ဒေသတို့၌ ကောက်ညှင်းဆိုင်းဟုလည်း ခေါ်သည်။ ငှက်ပျောသီးမှည့် ဌာပနာသော ငှက်ပျောသီးထုပ်၊ ကောက်ညှင်းနှင့်ပဲလွန်း ရော၍ထုပ်သော ပဲထုပ်၊ ကောက်ညှင်းချည်းသက်သက် ထုပ်သော အဖြူထုပ်ဟူ၍ အမျိုးမျိုး ရှိသည်။ ကောက်ညှင်းထုပ်ကို စလူဖက်၊ မနိုဖက်၊ ငှက်ပျောဖက်၊ တောင်စွန်ဖက် စသည်တို့ဖြင့် ထုပ်ရသောကြောင့် ထုပ်ရာ၌ အသုံးပြုသောဖက်ကို လိုက်၍ ပုံသဏ္ဍာန်အမျိုးမျိုး ရှိရာ၊ အတောင့်များ၊ ပုဝိုင်းဝိုင်းထိပ်ချွန်များ၊ လေးထောင့် ရှည်ရှည်ပြားပြား အထုပ်များ ဖြစ်ကြသည်။

မုန့်ငါးကလေးနှင့် မုန့်လုပ်ဆောင်းတို့သည် မုန့်နှစ်ကို ရေနွေးဆူဆူထဲ ဆန်ကာဖြင့် ဖိချရသော မုန့်များဖြစ်သည်။ မုန့်ငါးကလေးကို ထန်းလျက်ရည်၌ စိမ်ပြီးလျှင် အုန်းသီးမှုန့် ဖြူးစားကြသည်။ မုန့်လုပ်ဆောင်းကို အုန်းနို့ဖြင့်၎င်း၊ ထန်းလျက်ရည်ကျဲကျဲဖြင့်၎င်း စိမ်၍ သောက်စားကြသည်။ ဆန်မှုန့်ညက်ကို အပြား ပြုလုပ်၍ ရေနွေး၌ ပြုတ်ပြီးလျှင် ပါးပါးလှီးစိတ်၍ ထန်းလျက်ရည်ဆမ်း၊ အုန်းသီးမှုန့်တို့ဖြင့် စားရသော မုန့်တမျိုးကို မုန့်ကြာရိုးဟု ခေါ်သည်။ ကျူမုန့်သည် ထန်းလျက်ရည် ရောထားသော မုန့်ရည်ပျစ်ပျစ်ကို ကျူရိုးခေါင်းပွ၌ ထည့်၍ ထိပ်မှ ဖက်ရွက်ဖြင့် ဆို့ပိတ်၍ ပြုတ်ရသော မုန့်တမျိုး ဖြစ်သည်။

ကျိုရသော မုန့်များသည် များသောအားဖြင့် ဆန်မုန့်များဖြစ်ကြ၍ ကျောက်ကျော၊ သာကူစေ့၊ ရွှေကြည်မှုန့်တို့ဖြင့် ပြုလုပ်ရသော မုန့်မျိုးတို့လည်း ပါဝင်သည်။ မုန့်ဦးနှောက်သည် မုန့်နှစ်ထဲတွင် အုန်းနို့ ရောကျိုထားခြင်း ဖြစ်သည်။ ခွက်၊ လင်ဗန်း၊ ဖက် စသော ထည့်စရာတမျိုးမျိုး၌ ထည့် အအေးခံ၍ ခဲလျှင် သကြားဖြူးစားရသည်။ မုန့်ကျွဲသည်းသည် ဆန်နှစ်တွင် ထန်းလျက်ရည် ရောကျို၍ အအေးခံထားပြီးလျှင် ခဲအောင် ပြုရသည်။ အုန်းသီးမှုန့် ဖြူးစားရသော မုန့်မျိုးပေတည်း။ အရောင်အဆင်း ညို၍ ပျော့ပျော့အိအိနေသည်။ အုန်းနို့ကျောက်ကျောသည် ကျောက်ကျော၊ အုန်းနို့၊ သကြားတို့ဖြင့် ရောကျို၍ အအေးခံပြီးလျှင် ခဲအောင် ပြုရသည်။ နှင်းဆီရည်၊ သစ်ခွရည် စသည်တို့ထည့်ကာ လှပသော အရောင်ရရန်လည်း ပြုလုပ်ကြသည်။ သာကူ နနွင်းမကင်းသည် သာကူစေ့၊ အုန်းနို့သကြားတို့ကို ရောကျို၍ သာကူပွလာလျှင် နနွင်းမကင်းအိုးထဲသို့ လောင်းထည့်ပြီးသော် အအေးခံရသည်။ အုန်းသာကူ၊ ထန်းလျက်သာကူ၊ နို့သာကူတို့သည်လည်း သာကူပွအောင် ကျို၍ အုန်းနို့၊ ထန်းလျက်ရည်၊ နွားနို့တို့ကို လောင်းထည့်ရသည်။ အာလူး၊ ကန်စွန်းဥများကို အစိတ်ကလေးများပြု၍ ထည့်ကျိုကြသည်လည်း ရှိသည်။ အုန်းနို့ထမင်း၊ နွားနို့ထမင်းတို့သည်လည်း ဆန်ကိုပြုတ်၍ အုန်းနို့၊ နွားနို့တို့ဖြင့် ကျိုရခြင်းဖြစ်သည်။ ရွှေရင်အေးသည် သာကူစေ့၊ မိုးသီးခေါ် သာကူစေ့ကြီးတို့ကို ကျို၍ အပျဉ်ဖြစ်အောင် မပြုဘဲ အအေးခံပြီးလျှင် အုန်းနို့၌စိမ်၍ သောက်သော မုန့်မျိုးဖြစ်သည်။ အုန်းနို့မပါဘဲ ကျိုထားသော ကျောက်ကျောကိုလည်း ခြစ်ထည့်ကြသည်။

အစာမဝင်သော လူမမာများအတွက် အထူးပြုလုပ်ပေးလေ့ ရှိသော မုန့်နပ်သည် ကျိုမုန့်မျိုးဖြစ်သည်။ ဆန်မှုန့်ကို လှော်၍ ထန်းလျက်နှင့် နှမ်းဆီ အနည်းငယ်စပ်ကာ ကျစ်အောင် ကျိုရလေသည်။

ဖုတ်ရသော မုန့်မျိုးတို့၌ ကောက်ညှင်းကျည်တောက်၊ ငွေထမင်း၊ ရွှေထမင်း၊ နနွင်းမကင်း (ရွှေကြည်၊ ဆန်၊ ပလောပီနံ)၊ ဘိန်းမုန့် (အထက်မီး အောက်မီး၊ အေးမုန့်၊ ရန်နိုင်မုန့်၊ ကောက်ညှင်းဘိန်းမုန့်)၊ ကြွေမုန့်၊ မန်းမရွှေ၊ ဆန်ကြမ်းမုန့်လေပွေတို့ ပါဝင်သည်။ ကောက်ညှင်း ကျည်တောက်ကို ခဲလံကျည်တောက်ဟုလည်း ခေါ်ကြသည်။ (ခဲလံကျည်တောက်—ရှု)။ အခေါင်းပွ ဝါးအတွင်း ရေစိမ်ပြီး ကောက်ညှင်းဆန်ကိုထည့်၍ ဖုတ်ထားခြင်း ဖြစ်သည်။ ဝါး၏အတွင်း အမြှေးပါးကလေးများဖြင့်ကပ်၍ အတောင့်ကလေးဖြစ်ကာ နပ်နေသော ကောက်ညှင်းကို ငါးကြော်၊ အုန်းသီးစိတ်၊ ထန်းလျက်ခဲတို့ဖြင့် တွဲဖက်စားကြသည်။

ငွေထမင်းကို ကောက်ညှင်းရွှေကြည် ဟုလည်း ခေါ်ကြသည်။ ပေါင်းပြီးသော ကောက်ညှင်းကို အုန်းနို့ဖြင့် နယ်၍ အထက်မီး အောက်မီးတင်ကာ ဖုတ်ရသည်။ အထက်မီးမတင်မီ ညှိထားသော မျက်နှာပြင်ပေါ်သို့ ဘိန်းစေ့ကလေးများ ဖြူး ကြသည်။ ရွှေထမင်းသည် ငွေထမင်းနှင့် အမည်ချင်းဆင်ဆင် တူသော်လည်း လုပ်နည်းလုပ်ဟန် အနည်းငယ်ကွဲပြားသည်။ ရွှေထမင်းကို အုန်းနို့ဖြင့် မနယ်ဘဲ ထန်းလျက်ရည်ဖြင့် နယ်သည်။ မီးပေါ် ခေတ္တ ပြန်တင်ရသော်လည်း အထက်မီး အောက်မီးဖြင့် မဖုတ်ချေ။ ငွေထမင်းကဲ့သို့ သူချည်းသက်သက် မစားဘဲ အုန်းသီးမှုန့် ဖြူးစားကြလေသည်။

နနွင်းမကင်းကို ရွှေကြည်မှုန့်၊ ဆန်၊ ပလောပီနံ တို့ဖြင့် ပြုလုပ်ကြသည်။ ယင်းတို့ တမျိုးမျိုးတွင် အုန်းနို့၊ သကြား၊ ဘဲဥ၊ ဆီတို့ကို အချိုးကျရောစပ်၍ ကျိုပြီးနောက် အထက်မီး အောက်မီး တင်၍ ဖုတ်ရသည်။ ဆန်နနွင်းမကင်း ကျိုလျှင်



ကျောင်းသားသူငယ်တို့သည် မုန့်ပဲသွားရည်စာကို ထမင်းဟင်းထက် ပို၍ မက်မောကြသည်။

ဆန်ကို ကြိတ်၍၊ ပလောပီနံ နနွင်းမကင်း ကျိုလျှင် ပလောပီနံကို ခြစ်၍ထည့်ကြသည်။ ဆန်နနွင်းမကင်းနှင့် ပလောပီနံ နနွင်းမကင်းတို့ကို အုန်းနို့ချက်ဆမ်း၍လည်း စားကြသည်။

ဘိန်းမုန့်၊ အထက်မီး အောက်မီး၊ အေးမုန့်၊ ကောက်ညှင်း ဘိန်းမုန့်နှင့် ရန်နိုင်မုန့်တို့သည် ဆင်တူရိုးမှား ဖြစ်ကြသည်။ ဘိန်းမုန့်၊ အထက်မီး အောက်မီး၊ အေးမုန့်၊ ရန်နိုင်မုန့်တို့သည် ဆန်ကြမ်းမုန့်များ ဖြစ်ကြသည်။ ဘိန်းမုန့်နှင့် အေးမုန့် ခြားနားချက်မှာ ဘိန်းမုန့်ကို အေးမုန့်ကဲ့သို့ နနွင်းမကင်းအိုးဖြင့် မဖုတ်ဘဲ၊ စောက်တိမ်တိမ် အိုးငယ်ဖြင့် ဖုတ်သည်။ ဘိန်းမုန့်၏ မျက်နှာပြင်၌ ဘိန်းစေ့ကလေးများပါ၍ အေးမုန့်အတွက် အုန်းသီးစိတ်ပါးပါးကလေးများနှင့် နှမ်းစေ့ ဖြူးကြသည်။ အေးမုန့်ကို ယခင်က အထက်မီး အောက်မီးဟု ခေါ်ခဲ့ကြသော်လည်း ပူပြင်းသော အဓိပ္ပါယ် ပါသည်ဟူ၍ အေးမုန့်ဟု အမည်ပြောင်းခဲ့ခြင်း ဖြစ်သည်။ ကောက်ညှင်းဘိန်းမုန့်သည်ကောက်ညှင်းဖြင့်ပြုလုပ်၍ ဆန်ဘိန်းမုန့်နှင့် ခြားနားချက်မှာ ဆန်ဘိန်းမုန့်ကဲ့သို့ ပွပွရွရွ မရှိဘဲ ကျစ်လျစ်၍ ပြားကပ်ကပ် နေသည်။ ရန်နိုင်မုန့်သည် ဂျပန်ခေတ်ပေါ် မုန့်ဖြစ်၍၊ အေးမုန့်၊ ဘိန်းမုန့် တို့နှင့် ခြားနားချက်မှာ အုန်းသီးစိတ် မထည့်ဘဲ အုန်းသီးမှုန့်ကို သုံး၍ မြေပဲဆန်နှင့် နှမ်းလှော်တို့ကိုထည့်သည်။ အပေါ်မီး ခပ်ပြင်းပြင်းဖြင့် ဖုတ်ထားသဖြင့် အနံ့သင်း၍ ကြွပ်ကြွပ်ရွရွ ဖြစ်နေလေသည်။

ဖုတ်ရသော မုန့်တမျိုးဖြစ်သည့် ကြွေမုန့်သည် ကောက်ညှင်းဆန်ကို ကြိတ်၍ အလုံးကလေးများ ပြုပြီးလျှင် သဲပူ၌ ဖုတ်ရသဖြင့် ပွပွမွမွ မုန့်မျိုးဖြစ်သည်။ မန်းမရွှေးသည် ကြွေမုန့် ဖုတ်သကဲ့သို့ ပြုလုပ်ပြီးလျှင် ထန်းလျက်ရည် လောင်းထားခြင်း ဖြစ်သည်။ ဆန်မုန့်လေပွေသည် ဆန်ကြမ်းမုန့်နှစ်ကို အပြားပါးပါး ဝိုင်းဝိုင်းကလေးများ ပြုလုပ်၍ အခြောက်လှန်းပြီးလျှင် သဲပူ၌ ဖုတ်ထားခြင်း ဖြစ်သည်။ ကြွပ်ကြွပ် ရွရွ ဆန်မုန့်လေပွေကို အတန်ငယ်ချေ၍ ဆီမွှေးမွှေး ဆမ်းထားလျှင် စား၍ကောင်း ဝါး၍ကောင်းသော မုန့်တမျိုးပေတည်း။

ကောက်ညှင်း မုန့်လေပွေနှင့် ကောက်ညှင်းကင် တို့သည် ကင်ရသော မုန့်မျိုး ဖြစ်ကြသည်။ ကောက်ညှင်းမုန့်လေပွေနှင့် ဆန်မုန့်လေပွေတို့ ခြားနားချက်မှာ ကောက်ညှင်းမုန့်လေပွေ အပြားများကို ညှပ်၌ထည့်၍ ပြန့်ကား ကြွပ်ရွ လာအောင် မီးကင်ရသည်။ လူစည်ကားသော ပွဲ ဈေးတန်းများ၌ ကောက်ညှင်းမုန့်လေပွေ ဝယ်စားလျှင် လူတိုးမိက ကြွေကျ

ကြေမွသွားတတ်သဖြင့် ကလေးသူငယ်များအတွက် ငိုသူ ငို ရယ်သူရယ်ရသော မုန့်မျိုးလည်း ဖြစ်ပေသည်။ ကောက်ညှင်း ကင်သည်လည်း ပွဲဈေးတန်း မုန့်တမျိုး ဖြစ်သည်။ ပေါင်းပြီး ကောက်ညှင်း၌ အုန်းသီးစိတ် အနည်းငယ် ထည့်၍ ဖက်ဖြင့် ထုပ်ကာ ညှပ်ဖြင့် မီးကင်ထားလေသည်။

မုန့်ဆန်း၊ မုန့်ဆန်းမရွှေး၊ ပေါက်ပေါက်ဆုပ်တို့သည် အိုးကင်း၌ လှော်ရသော မုန့်မျိုးဖြစ်ကြသည်။ ကောက်ညှင်းစပါး အရည်တည်စကို အိုးကင်း၌ လှော်ပြီးနောက် လက်ဆုံ၌ ထောင်းကာ ဖွဲကြမ်းကို ပြာထုတ်၍ ကျန်ရှိသော အပြားကလေးများကို မုန့်ဆန်းဟုခေါ်သည်။ မိုးကုန်၍ ဆောင်းဥတုသို့ ကူးပြောင်းစ ကောက်ဦးပေါ်ချိန်၌ မုန့်ဆန်းကို ရေစင်စင် ဆေးပြီးလျှင် သကြား၊ အုန်းသီးမှုန့်တို့ဖြင့် နယ်၍ ဘုရားရှင်နှင့် တကွ ရဟန်းသံဃာတို့အား ကောက်ဦးဆွမ်း ကပ်လှူလေ့ ရှိကြသည်။ ကျေးလက်များ၌ မုန့်ဆန်းထောင်းခြင်းသည် ကာလသား၊ ကာလသမီးတို့ လက်စွမ်းပြပွဲလည်း ဖြစ်သည်။ စုပေါင်း၍ မုန့်ဆန်းထောင်းခြင်း ပြုကြရာ၌ လူပျိုတို့က မုန့်ဆန်းထောင်း၍ လူရေး ပြကြသကဲ့သို့၊ လုံမပျိုတို့ကလည်း မုန့်ဆန်းပြာခြင်းဖြင့် မိမိတို့၏ လက်စွမ်းကို ဖော်ပြသည်။ မုန့်ဆန်းပြားများကို ဒယ်အိုးပူပူ၌ လှော်၍ ဖောက်ခြင်းဖြင့် ထမင်းစေ့ကဲ့သို့ လုံးလုံးရွရွကလေး ဖြစ်လာသော မုန့်ဆန်းလှော်ကို ဆားအနည်းငယ် စွက်လိုက်ပါက စားမဝနိုင်သော သွားရည်စာတမျိုး ဖြစ်လာသည်။ ထိုကဲ့သို့ ဖောက်ထားသော မုန့်ဆန်းလှော်ကို ထန်းလျက်ရည်ဖြင့် ရော၍ အဖျဉ်ထူထူ ပြုလုပ်လျှင် မုန့်ဆန်းမရွှေး ဖြစ်လာလေသည်။ ပေါက်ပေါက်ဆုပ်သည် ကောက်ညှင်းစပါးကို အိုးကင်း၌ ထည့်၍လှော်ကာ ပေါက်ပေါက်ဖောက်ပြီးလျှင် ပေါက်ပေါက်ပွင့်များကို ထန်းလျက်ရည်ဖြင့်နယ်၍ အလုံးအဆုပ် ပြုလုပ်ထားခြင်း ဖြစ်လေသည်။

နှပ်၍ ပြုလုပ်ရသော မုန့်မျိုးတို့၌ နှမ်းမနဲ့ (ထမင်းနဲ့)၊ ကောက်ညှင်း ဆီထမင်း၊ ကောက်ညှင်း နန်းကထိတို့ ပါဝင်သည်။ ချမ်းအေးသော ပြာသို၊ တပို့တွဲ လများတွင် နှမ်းမနဲ့ (ထမင်းနဲ့) ထိုးလေ့ ရှိကြသည်။ (ထမင်းနဲ့ — ရှု။) ထိုအချိန်အခါ ရာသီရောက်လျှင် မြန်မာတို့သည် နှမ်းမနဲ့ကို တောင့်တကြစမြဲဖြစ်သည်။နှမ်းမနဲ့ထိုးပွဲများကို စုပေါင်းလုပ်ကိုင်ကြ၍ ယာဂု နှမ်းမနဲ့ဆွမ်း လောင်းခြင်း၊ အရပ်သို့ ဝေငှခြင်းလည်း ပြုလေ့ရှိကြရာ တယောက်တလက် ဝိုင်းကူ လုပ်ကိုင်လေ့ရှိကြသော နှစ်သက်ဖွယ်ကောင်းသည့် မြန်မာတို့၏ လေ့စရိုက်ကို နှမ်းမနဲ့ထိုးပွဲများ၌ တွေ့မြင်နိုင်ကြပေသည်။

ကောက်ညှင်း ဆီထမင်းသည် ဆီသတ်၍ ကောက်ညှင်း ထည့်ပြီးနောက် ရေအနည်းငယ် ထည့်ကာ နပ်အောင် ပြုယင်း ဂျိုးရအောင်လည်း ပြုလုပ်ကြသည်။ ကောက်ညှင်း ဆီထမင်း ဂျိုးကောင်းကောင်းကို ဗုဇန်မှုန့်၊ အုန်းသီးမှုန့် ဖြူးစားကြသည်။ ငါးကြော်၊ ကြက်သားကြော်၊ အမဲသားကြော်တို့ဖြင့်လည်း တွဲဖက် စားကြသည်။ ကောက်ညှင်း နန်းကထိသည် ကောက်ညှင်းကိုချက်၍ နှပ်ပြီးနောက် အုန်းနို့ဆမ်းစားရသော မုန့်တမျိုး ဖြစ်လေသည်။

ခေါက်မုန့်၊ မုန့်ပျားသလက်၊ မုန့်အုပ်ကလေး၊ မုန့်သိုင်းခြုံ၊ ရေမုန့်၊ မုန့်ဆတ်သွားဖူး၊ ဒေါင်းဖန်ဝါမုန့်တို့သည် အိုးကင်းပူကပ်ရသော မုန့်များ ဖြစ်သည်။ ခေါက်မုန့်သည် ခပ်ပျစ်ပျစ် မုန့်ရည်ကို အိုးကင်း၌ဖြန့်၍ ထန်းလျက်ရည် တင်ပြီးသော် ပဲလွန်းစေ့ပြုတ် (စားတော်ပဲပြုတ်)နှင့် အုန်းသီးမှုန့်ဖြူးပြီးလျှင် မုန့်ပြားအဝိုင်းကို ထက်ဝက်ချိုးခေါက်ထားခြင်း ဖြစ်သည်။ မုန့်ပျားသလက်သည် ခေါက်မုန့်လုပ်ပုံလုပ်နည်းနှင့် ဆင်ဆင် တူသော်လည်း မုန့်ပြားအဝိုင်းငယ်ငယ်နှင့်ထူထူတွင် ထန်းလျက်ရည် တင်လိုက်သည့်အခါ အလယ်၌ အပေါက်ငယ်ကလေးများ ဖြစ်လာ၍ ပျားသလက်နှင့် ဆင်ဆင်တူသဖြင့် ထိုအမည် တွင်ခဲ့သည်။ ကျောက်ပေါက်မာ ထူသူများ၏ မျက်နှာကို မုန့်ပျားသလက်နှင့် နှိုင်းယှဉ်၍ နောက်ပြောင်လေ့ ရှိကြသည်။ မုန့်ပျားသလက်ကို ခေါက်မုန့်ကဲ့သို့ မချိုးခေါက်ဘဲ အပြန့်အတိုင်း အုန်းသီးမှုန့်ဖြူးစားကြသည်။ မုန့်အုပ်ကလေးသည် အုန်းနို့ရောထားသော မုန့်ရည်ပျစ်ပျစ်ကို အချိုင့်အခွက်များပါသော အိုးကင်းထဲသို့ လောင်း၍ တခွက်လျှင် စလောင်းတခုစီ အုပ်ထားရသည်။ ကျက်လျှင် ကော်ထုတ်၍ သကြားဖြူးပြီးလျှင် မုန့်နှစ်ခု အုပ်၍ ထားရသည်။ မုန့်သိုင်းခြုံသည် မုန့်ဖတ်ခပ်ပြားပြားကို လေးထောင့်ပုံ ခေါက်ချထားသော ပုံသဏ္ဌာန် ရှိသည်။ အိုးကင်း ပြန့်ပြန့်ပက်ပက်၌ ဆီရွှဲရွှဲဆမ်း၍ မုန့်ရည်ပျစ်ပျစ်ကို ဖြန့်လောင်းပြီးလျှင် အလယ်၌ အုန်းယိုထည့်သည်။ အထုပ်ကလေးပြုပြီးနောက်တွင် ရုတ်ချည်း မဆယ်သေးဘဲ ဟိုဖက်သည်ဖက် လှန်၍ ခေတ္တထားသေးသည်။ ရေမုန့် သည်လည်း အိုးကင်းပက်ပက်၌ ဆီသုတ်ပြီးလျှင် မုန့်ရည်ကို အလွန်ပါးလှစွာ ဖြန့်ချပြုလုပ်ထားခြင်းဖြစ်သည်။ မုန့်သားကို ဆီအဝတ်ဖြင့် ရိုက်ပေးပြီးလျှင် စားတော်ပဲပြုတ်၊ သို့မဟုတ် ပဲလွန်းပြုတ်၊ ကြက်သွန်မြိတ်၊ နံနံပင်တို့ကို ဖြူးရသည်။ မူလက မြေလတ်ပိုင်း၌ ကျော်ကြားသော မုန့်တမျိုး ဖြစ်သော်လည်း ယခုအခါ ရန်ကုန်၌ လူကြိုက်များသော မုန့်တမျိုး ဖြစ်နေလေပြီ။ မုန့်ဆတ်သွားဖူးသည် အိုးကင်း ပက်ပက်၌ အင်တွဲမှုန့် သုတ်ပြီးလျှင် အမှုန့် ထောင်းထားသော ကောက်ညှင်းဆန်မှုန့်တို့ကို ဘဲဥပုံသဏ္ဌာန် ပါးပါးဖြန့်ကာ အလယ်၌ အုန်းယို ထည့်ပြီးလျှင် ထိပ်မပိတ်ဘဲ လက်သုံးလုံးခန့် အလိပ်ခပ်ပြားပြားဖြစ်အောင် လိပ်ထားသည်။ ဒေါင်းဖန်ဝါမုန့် ပြုလုပ်ရာ၌ မုန့်နှစ်ထဲတွင် ဘဲဥ၊ သကြား၊ အုန်းနို့ရော၍ အိုးကင်း ပက်ပက်၌ ပါးပါးဖြန့်၊ ထိုနောက် ကြွပ်ရွလာမည့် အချိန်၌ အလိပ်၊ သို့မဟုတ် အခေါက် ပြုလုပ်ရသည်။ ကြက်ဥနှစ်ရောင်အဆင်း ရှိ၍ အုန်းနံ့သင်းပြီးလျှင် ကြွပ်ကြွပ်ရွရွဖြစ်သော ဒေါင်းဖန်ဝါ

မုန့်ကလေးများသည် တော်ရုံစား၍ မဝနိုင်ပေ။ ပသျှူးမုန့် တမျိုးဟုလည်း ဆိုကြ၍ မော်လမြိုင် ဒေါင်းဖန်ဝါမုန့်သည် လူကြိုက် များလှပေသည်။

နိုင်ငံခြားသားတို့က မြန်မာလူမျိုးတို့သည် အလွန် အကြော်အလှော် စားသည်ဟု ဆိုကြသည်။ မြန်မာမုန့်ပဲ သွားရည်စာများ၌လည်း အကြော် အလှော်များ ပါဝင်ရာ၊ မုန့်စလင်းထောင်ကြော် (မုန့်ကြာခွက်ကြော်)၊ မုန့်ဆီကြော်၊ မုန့်လုံးကြီးကြော်၊ မုန့်ချိုသွင်း၊ မန္တလေးပဲကြော်၊ မုန့်လက်ကောက်ကြော်၊ပဲကပ်ကြော် စသည်တို့သည် မြန်မာဆီကြော်မုန့်များ ဖြစ်ကြပေသည်။

မုန့်စလင်းထောင်ကြော်ကို မုန့်ကြာခွက်ဟုလည်း ခေါ်ကြသည်။ ဆန်မှုန့်နှစ်ကို အနည်းငယ်အချဉ်ခံ၍ ထန်းလျက်ရည်ရောပြီးလျှင် ကြာခွက်အရွယ် မုန့်ပြားကို အလယ်သားထူစေ၍ နှုတ်ခမ်းသား ပါးပါးကို ကြွပ်ကြွပ်ရွရွကလေး ဖြစ်အောင် ကြော်ထားသည်။မုန့်ဆီကြော်သည် ကောက်ညှင်းဆန်နှစ်တွင် ထန်းလျက်ရည်ရော၍ ပါးပါးပြားပြား ဖြန့်ကြော်ထားခြင်း ဖြစ်သည်။ မုန့်လုံးကြီးကြော်သည် ကောက်ညှင်းမုန့်လုံး အတွင်း၌ အုန်းယို၊ သို့မဟုတ် ပဲယို ဌာပနာ၍ ကြော်ထားသည်။ မုန့်ကြက်အုဟုလည်း ခေါ်ကြသော မုန့်ချိုသွင်းသည် ကောက်ညှင်းဆန်နှစ်ရည်ကို မုန့်ညှစ်၌ ထည့်၍ ဆီပူထဲ ညှစ်ချကာ ကြော်ပြီးလျှင် ထန်းလျက်ရည်၌ ထည့်၍ စိမ်ရသည်။ မန္တလေးပဲကြော်၊ သို့မဟုတ် ပဲလွန်းကြော်သည် ကောက်ညှင်းဆန်နှစ်တွင် ပဲလွန်းစေ့ပြုတ်နှင့် ချင်းအနည်းငယ် ထည့်နယ်၍ အပြားဝိုင်းငယ်များ ပြုလုပ်ပြီး ကြော်ထားသည်။ လက်ကောက် ပုံသဏ္ဍာန် ပြုလုပ်ထားသဖြင့် မုန့်လက်ကောက်ခေါ် မုန့်ကြော်သည် ကောက်ညှင်းဆန်ဖြင့် ပြုလုပ်၍ ကြော်ပြီး မုန့်ကို ထန်းလျက်ရည်ဖြင့် တို့စားရသည်။ ကောက်ညှင်းဆန်နှစ်ဖြင့် ပြုလုပ်ထားသော မုန့်အပြားဝိုင်းထူထူတွင် ကုလားပဲခြမ်းစေ့များကပ်၍ ကြော်ထားသော မုန့်ကြော်ကို ပဲကပ်ကြော်ဟု ခေါ်သည်။ ဘူးသီး၊ ငှက်ပျောသီး၊ ကြက်သွန်နီ၊ ဂေါ်ရခါးသီး၊ ပဲပင်ပေါက်၊ မြက်ကြွပ်ရွက် စသည်တို့ကိုလည်း ပဲမှုန့်၊ ကောက်ညှင်းမှုန့်၊ ဆန်မှုန့်နှစ်တို့ဖြင့် လူး၍ ကြော်စား



ပွဲဈေးတန်းများ၌ ပြုလုပ်ရောင်းချလေ့ရှိသော မုန့်လေပွေ

ကြရာ လက်ဖက်ရည်ကြမ်းဖြင့် အလွန်လိုက်ဖက်သော မုန့်ကြော်များ ဖြစ်ကြလေသည်။

နေရာဒေသအလိုက် လူကြိုက်များပြား၍ ထင်ရှားသော မုန့်မျိုးတို့လည်း ရှိပေသေးသည်။ အောက်မြို့ ကျေးရွာတို့၌ မုန့်ဟင်းခါးကို လူတန်းစားမရွေး ကြီးငယ် ရွယ်လတ် မကျန် ကြိုက်နှစ်သက်ကြသည်။ မုန့်ဆန်နှစ်ရည် ပျစ်ပျစ်ကို မုန့်ညှစ်ပုံစံဖြင့် ရေနွေးဆူဆူထဲသို့ ညှစ်ချရသော မုန့်ဟင်းခါးမျှင်များကို ဆီချက်ဖြူး၊ ဟင်းရည်ဆမ်း၍ စားရသည်။ မုန့်ဟင်းခါးဟင်းရည်ဆိုသည်မှာ ငခူ၊ ငကျည်း၊ ငရံ့ စသော ငါးတမျိုးမျိုးကို ပြုတ်၍ အသားထွင်ယူပြီးလျှင် ဧပါးလင်၊ ချင်း၊ ငရုတ်သီး၊ ငရုတ်ကောင်း၊ ဆန်လှော်မှုန့်စသည်တို့ အချိုးကျထည့်၍ စီမံချက်ပြုတ်ရပြီးလျှင် ငှက်ပျောအူဖတ်၊ ကြက်သွန်ဥ၊ ဘဲဥတို့လည်း စွက်ထား သေးသည်။ မုန့်ဟင်းခါးနီးပါး လူကြိုက်များသော ဟင်းရည်ဆမ်းမုန့်တမျိုးမှာ အုန်းနို့ခေါက်ဆွဲဖြစ်သည်။ ကြက်သား စသော အသားတမျိုးမျိုးကို ငရုတ်၊ ကြက်သွန် ထောင်း၍ ဆီသတ်ပြီးလျှင် အုန်းနို့၊ ကုလားပဲမှုန့် အရည်ဖျော်တို့ လောင်း၍ ဘဲဥ၊ ကြက်သွန်ဥခတ်ထားသော ဟင်းရည်ကို ခေါက်ဆွဲ၌ ဆမ်းကာ ပါးပါးလှီးထားသော ကြက်သွန်စိမ်း၊ မုန့်ကြွပ်ကြော်တို့ ဖြူးစားကြလေသည်။

အောက် မြန်မာနိုင်ငံ၌ မုန့်ဟင်းခါးနှင့် အုန်းနို့ခေါက်ဆွဲတို့သည် နာမည်ကျော်သကဲ့သို့ အထက် မြန်မာနိုင်ငံတွင် မန္တလေးမုန့်တီသည် နာမည်ကြီးလှသည်။ ဆန်ကြာဆံ အလုံးကြီး၊ သို့မဟုတ် မုန့်ဟင်းခါး အမျှင်အလုံးကြီးကြီးကို ကြက်သား ဆီပြန်ချက်၊ မုန့်ကြွပ်၊ ပဲမှုန့်၊ နံနံပင်စသော အသိုင်းအဝန်းတို့နှင့် ရော၍ နယ်ဖတ်ပြီးလျှင် ကြက်ရိုးပြုတ် ဟင်းရည်ဖြင့် တွဲဖက်စားရလေသည်။

မန္တလေး ထိုးမုန့်သည် အထက် မြန်မာနိုင်ငံ၏ ကျော်ကြားသော အချို မုန့်တမျိုး ဖြစ်လေသည်။ ကောက်ညှင်းဆန်ကို ကြိတ်၍၊သို့မဟုတ် ထောင်း၍ ရေနွေးဖြင့် နယ်သားရအောင် နယ်ရသည်။ ထိုနောက် ချက်ထားသော ဆီကိုလည်း တဖြည်းဖြည်းချင်းထည့်၍ မွှေပြီးလျှင် မွှေသား အတော်ရလာလျှင် သကြားထည့် မွှေရထိုးရ ပြန်သည်။ မွှေသားထိုးသားရလျှင် ပါးပါးစိတ်စိတ် လှီးထားသော အုန်းသီးဆံ၊ ဗာဒံစေ့၊ သစ်ကြားသီးဆံတို့ကို ထည့်ရလေသည်။ ရက်ကြာကြာထား၍ စားနိုင်သော မုန့်တမျိုးဖြစ်လေသည်။

တနင်္သာရီ တိုင်းသည် အုန်းသီးနှင့် ဓနိသကြား ပေါများသော ဒေသဖြစ်သဖြင့် အချိုအဆိမ့်မုန့်အမျိုးမျိုးကို လုပ်ကိုင်စားလေ့ ရှိကြသည်။ မုန့်ဝမ်းသာခေါ် မုန့်သည် ကောက်ညှင်းမုန့်လုံးကလေးများတွင် ပေါက်ပေါက်ပါသော အုန်းယို ဌာပနာ၍ စားသည့်အခါ အုန်းသီးမှုန့် ဖြူးစားကြသည်။ ထိုပြင် မုန့်ပတ်ဝန်းခေါ် မုန့်မှာ ဆန်နှစ်၊ ဓနိသကြားတို့ဖြင့် ပြုလုပ်သော မုန့်ကျွဲသည်းကို မုန့်ဖတ်အပြားငယ် အလယ်၌ ထည့်၍ ထိုမုန့်ဖတ်အပြားကို ခေါက်ချိုးချပြီး နှုတ်ခမ်းနှစ်ခု မကွာအောင် ကပ်ပေးရသည်။ ထိုပြင် မုန့်ခေါက် ပို၍ ခိုင်မြဲစေရန် လက်နှစ်သစ်ခန့် ဖက်ရွက်ဖြင့် မုန့်ခေါက်အလယ်၌ ပတ်ဝန်းပေးပြီးလျှင် ပေါင်းရသည်။ မြစ်ဝကျွန်းပေါ် ဒေသမှ မုန့်လုံးကြီးထက် အရွယ်သေး၍ မုန့်လုံးကြီးကဲ့သို့ အုန်းယိုဌာပနာပါပြီးလျှင် အုန်းနို့ရည်ဆမ်းစားရသော မုန့်ဗုဒ္ဓန်ခေါ် မုန့်တမျိုးရှိသေးသည်။ မုန့်ငရုံ့ဆိုသည်မှာ ကောက်ညှင်း အနည်းငယ်ရောသော ကမာကြည်ဆန်ကို ကြိတ်၍ ပျော့ပျောင်းအောင် နှဲပြီးလျှင် ပျဉ်ချပ် ချောချောပေါ်၌ နာနာလှိမ့်ထားသော မုန့်ပြားကို အရှည်သုံးလက်မခန့် အဖျားသွယ်သွယ် ဖြစ်အောင် ဖြတ်လိုက်လျှင် ငရံ့ ပေါက်စကလေးများနှင့် ဆင်ဆင် တူသည်။ ထိုမုန့်ဖတ်များကို ရေနွေး၌ ပြုတ်ပြီးလျှင် အုန်းနို့ဆမ်းစားကြလေသည်။ မုန့်ပေါင်းနှင့် ဆင်ဆင် တူသော မုန့်တမျိုးကို တနင်္သာရီတိုင်း၌ မုန့်ဆားဟု ခေါ်ပြီးလျှင် နှမ်းထောင်းနှင့် အုန်းသီးမှုန့် ဖြူးစားကြသည်။

နာတာလူး ပွဲတော်ချိန်တွင် ခရစ်ယန် အယူဝါဒီတို့ ပြုလုပ်လေ့ ရှိသော ဒိုဒိုမုန့်နှင့် ဆင်တူသည့် မုန့်တမျိုးကိုလည်း တနင်္သာရီတိုင်းတွင် မုန့်ကုလားမည်းဟု ခေါ်သည်။ ကောက်ညှင်းငချိတ်နှင့် ဆန် ဆတူထည့်ကြိတ်၍ အုန်းနို့နိုင်နိုင်ဖြင့် မွှေပြီးလျှင် သကြား၊ နှမ်းဆီတို့ပါ ထည့်၍ အနည်းဆုံး ငါးနာရီခန့် ထိုးရသည်။ ကောက်ညှင်း ငချိတ်ကြောင့် အရောင်မည်းသော်လည်း အရသာ ကောင်းလှသည်။

ထားဝယ်မုန့်ဟုခေါ်သော မုန့်မျိုးသည် ကောက်ညှင်းပေါင်းပြီးကို ညက်စွာထောင်း၍ မုန့်လုံးကလေးများ ပြုလုပ်ရသည်။ ပြီးမှ နှမ်းထောင်းပါသော အုန်းယိုကို မုန့်လုံးကလေး၏ထိပ်ကို ဓားဖြင့် ခွဲ၍ သိပ်ထည့်ပြီး စားရသဖြင့် ထိုမုန့်ကို မုန့်ဖြဲသိပ်ဟု လည်း ခေါ်ကြလေသည်။

ဌာနဒေသအလိုက် စားလေ့ စားထရှိကြသော အခြားမုန့်အမျိုးအမည်များလည်း ရှိပေလိမ့်ဦးမည်။ တခါတရံ လုပ်ပုံလုပ်နည်း ဆင်တူယိုးမှား ဖြစ်သော်လည်း ဌာနဒေသလိုက်၍ အမည်တမျိုးစီ ဖြစ်နေသည်လည်း ရှိသည်။ မြန်မာနိုင်ငံ တိုင်းရင်းသားလူမျိုးများအနက် ကရင်၊ မွန်၊ မြန်မာ၊ ရခိုင်စသော မြေပြန့်သားများ၏ အစား အသောက်တို့သည် များသောအားဖြင့် အခြေခံ တူကြသည်။ တောင်ပေါ်သားများတွင် ရှမ်းလူမျိုးတို့၏ အစားအသောက် မုန့်ပဲ သွားရည်စာ များစွာတို့ကို မြေပြန့်သားတို့ ခံတွင်းတွေ့၍ မြန်မာမှုပြုထားသည်များလည်း ရှိပေသည်။ ကချင် (ဂျင်းဖော)၊ ကယား၊ ချင်း စသော တောင်ပေါ်သားတို့၏ အစား အသောက်တို့သည်မူ မြေပြန့်သားတို့နှင့် အနည်းနှင့် အများခြားနားပေသည်။ ယင်းသည်လည်း ရေမြေ အခြေအနေကို လိုက်၍ ဖြစ်ပေသည်။ မြေပြန့်သားတို့သည် ကာလ ဒေသကို လိုက်၍ အစားအသောက် မုန့်ပဲသွားရည်စာတို့ကို အမျိုး

မျိုး စီမံဖန်တီး စားသောက်နိုင်သော အခြေအနေရှိသဖြင့်လည်း စားသောက်ရေး၌ ဇယား ချဲ့ခဲ့ကြသည်။ မြန်မာနိုင်ငံသို့ နိုင်ငံခြားသားတို့ ရောက်လာပြီးသည့် နောက်ပိုင်းတွင် ယင်းတို့၏ အစားအစာ ဗီစကွတ်၊ ချောကလက် စသော မုံ့ပဲသွားရည်စာ အမျိုးမျိုးကို မြန်မာတို့ လျှာအရသာ တွေ့အောင် ဖန်တီးခဲ့သဖြင့် နိုင်ငံခြားစားသောက်ဖွယ်ရာတို့သည် မြန်မာ နိုင်ငံ၏ ငွေယိုပေါက်ကြီးတခု ဖြစ်ခဲ့လေသည်။ မြန်မာ မုံ့ပဲသွားရည်စာတို့ကိုလည်း စံနစ်တကျ ကောင်းမွန်စွာ လုပ်ကိုင်ပါက မြန်မာမုံ့များ၏ အရသာကို မခုံမင် မနှစ်သက်သော မြန်မာလူမျိုးကား ရှားပေလိမ့်မည်။

**မြန်မာယွန်းထည်လုပ်ငန်း။** ။ယွန်းထည် ဟု ဆိုလိုက်လျှင် လက်ဖက်ဆီဝနေပြီးလျှင် နက်မှောင် ပြောင်လက်နေသည့် လက်ဖက်အုပ်ကလေးကို ပြေးမြင်မိသူက မြင်မိပေလိမ့်မည်။ နှီးဖြင့်ရှင်း၊ သစ်ပျော့ဖြင့်ရှင်း ပြုလုပ်ထား၍ သစ်စေးသားရိုးကိုင်ပန်းပြောက်ခြယ်ထားသောယွန်းထည်များသည် မြန်မာ့ရိုးရာ အသုံး အဆောင်များတွင် အပါအဝင် ဖြစ်သည်။ ဖန်ထည်၊ မှန်ထည်၊ မြေထည်၊ ကြေထည်၊ ပလပ်စတစ်ထည် များကို ခေတ်သုံး တွင်လျက်ရှိလင့်ကစား၊ ယွန်းထည် အသုံးသည် ယခုခေတ်တိုင် တိမ်ကောပျောက်ကွယ်ခြင်း မရှိသေးပေ။ ရှေးမြန်မာ မိသားစုတို့သည် ယွန်းဒေါင်းလန်းကြီးတွင် တစုတဝေး လက်ရေတပြင်စီး ထမင်းလက်ဆုံစားခဲ့ကြသဖြင့် တဦးနှင့်တဦး ပို၍ ခင်မင် တွယ်တာကြသည်။ မိသားစုစိတ်ဓာတ် ပိုမိုခိုင်မြဲသည်ဟု ဆိုကြသည်။ ယွန်းရေခွက်ထဲမှ သောက်ရေသည် ပို၍ ရင်အေးသည်ဟု အယူ ရှိခဲ့ကြသည်။ ရုပ်စုံ ကွမ်းအစ်၊ ရုပ်စုံ လင်ဗန်း၊ ရွှေရေး ပန်းစိုက်၊ ရွှေရေး ဆေးလိပ်ဗူး စသည်တို့သည် အိမ်ကျက်သရေဆောင် ပစ္စည်းများအဖြစ် ဝင့်ကြွားစွာ ရှိနေကြသည်။ တဦးနှင့်တဦး အမြတ်တနိုး လက်ဆောင်ပေးရသော ပစ္စည်းများဖြစ်နေကြသည်။ ကျေးလက်များတွင် မင်္ဂလာဆောင်နှင့် ရှင်ပြုအခမ်းအနား ဥပုသ်သီတင်း ဆောက်တည်မှု ပြုကြရာ၌ ဆွမ်းအုပ်၊ ဆွမ်းတောင်း၊ ဆွမ်းချိုင့်တို့သည် မပါမပြီးသော အသုံးအဆောင်များ ဖြစ်ကြပေသည်။ မြန်မာနိုင်ငံတွင် ယွန်းထည်များကို ပုဂံနှင့် ညောင်ဦး၊ မုံရွာခရိုင်အတွင်းရှိ ကျောက်ကာရွာနှင့် မောင်းထောင်ရွာများတွင် အများအပြား လုပ်ကိုင်ကြသည်။ ရှမ်းပြည်၊ ကျိုင်းတုံနယ်မှ အလှသုံး ရွှေချယွန်းထည်များထွက်သည်။ ယွန်းထည်ဟုသိမ်းရုံး၍ ဆိုရလင့်ကစား ကျောက်ကာချိုင့်၊ မောင်းထောင်ခွက် စသည်ဖြင့် ထွက်ရှိရာ အရပ်ဒေသကို အစွဲပြု၍ ခေါ်ဝေါ်ခြင်းလည်း ပြုကြသည်။ အခြေခံအားဖြင့် လုပ်ကိုင်ပုံ၌ စံနစ်ချင်း တူကြသော်လည်း မွမ်းမံပြင်ဆင်မှု၌ တရပ်နှင့်တရပ် တဒေသနှင့်တဒေသ တကျောင်းတဂါထာ၊ တရွာ တပုဒ်ဆန်း၍ အနည်းငယ် ကွဲပြား ခြားနားမှု ရှိလေသည်။ ပုဂံထွက် ယွန်းထည်များမှာ များသောအားဖြင့် တကြောင်းဆွဲ ဆေးသွင်းပန်းချီပုံများဖြင့် ခြယ်လှယ်ထားသည်။ ကျောက်ကာထည်များသည် တောက်ပြောင်သော အနက်ရောင်၊ အနီရောင် ဖိန်းသက်သက်များ များပြားသည်။ ကျိုင်းတုံ ယွန်းထည်များမှာ ရွှေချ ရုပ်ကြွ၊ ပန်းကြွကလေးများဖြင့် မွမ်းမံထားလေသည်။

ယွန်းထည်ဟု ခေါ်ဝေါ်သည့် ဝေါဟာရ၏ အရင်းဇာစ်မြစ်ကို ရှာသည့်အခါ ယွန်းထည်၏သမိုင်းကို ပြန်၍ လေ့လာရပေလိမ့်မည်။ "ယွန်း" ဟူသော အခေါ်အဝေါ်သည် မြန်မာဝေါဟာရ မဟုတ်ဟု ဆိုကြသည်။ ဘုရင့်နောင် မင်းတရား လက်ထက်ကရင်း၊ အနောက်ဖက်လွန် မင်းတရားလက်ထက်ကရင်း ဇင်းမယ်ကိုအောင်နိုင်သော အခါ ဇင်းမယ်မှ အနုပညာရှင်၊ အတတ်ပညာရှင်များသည် မြန်မာနိုင်ငံသို့ ပါလာကြသည်။ ယွန်းထည် ပစ္စည်းမျိုးသည် ရှေးကပင် မြန်မာနိုင်ငံ၌ ရှိကောင်းရှိမည် ဖြစ်သော်လည်း ဇင်းမယ်မှ အတတ်ပညာသည်များ ပါလာသောအခါ ထိုလုပ်ငန်းသည် မြန်မာနိုင်ငံ၌ ပို၍ဖွံ့ဖြိုးလာခဲ့ဟန်တူပေသည်။ ရှမ်းပြည်၊ လဲချားနယ်သည် တခေတ်က ယွန်းထည်လုပ်ငန်း၏ အချက်အချာ ဖြစ်ခဲ့သည်ဟု ဆိုသည်။ ရှမ်းပြည် ယွန်းလုပ်ငန်းသမားတို့၏ အဆိုမှာ အနောက်ဖက်လွန် မင်းတရား လက်ထက် ဇင်းမယ်ချီ တပ်များတွင် လဲချားမြို့စား၏ သားတော်နှစ်ပါး ကွပ်ကဲသော တပ်စုတပ်စိတ်များလည်း ပါသည်။ သားတော်ကြီးသည် ဇင်းမယ်သူနှင့် အကြောင်းဆက်၍ သားတယောက် ထွန်းကားသည်။ နောင်အခါ လဲချားမြို့စား၏ ရာထူးကို ဇင်းမယ်သူ၏သားက ဆက်ခံရသောအခါ အမိ၏ အဆွေအမျိုး အိမ်ထောင်စုတို့ကို လဲချားသို့ ခေါ်ယူသည်။ ထိုအိမ်ထောင်စုတို့တွင် ယွန်းအတတ်ပညာသည်များဖြစ်သော ယွန်းကလောင် အမျိုးစုတို့ ပါသည်။ ယွန်းကလောင်တို့သည် မိမိတို့၏ လုပ်ကိုင်ရင်းစွဲ အလုပ်ကို လဲချား၌လုပ်ကိုင်ခြင်းဖြင့် ယွန်းလုပ်ငန်းကို လဲချား၌ မျိုးစေ့ချသည်။ ယွန်းကလောင်၊ သို့မဟုတ် ယွန်းလူမျိုးတို့ လုပ်ကိုင်သောပစ္စည်းများဖြစ်၍ ယွန်းထည်ဟု ခေါ်ဝေါ်ခဲ့ကြဟန်တူ၍ "ယွန်း" ဟူသော ဝေါဟာရ ဖြစ်ပေါ်လာခဲ့သည်ဟု ယူဆရလေသည်။ ထိုလုပ်ငန်းသည် လဲချားမြို့၌ ထွန်းကားခဲ့သော သာကေမှာ ဇင်းမယ်သူ၏သား အမိန့်ဖြင့် ယွန်းကလောင်တို့သည် စေတီတဆူ တည်ထားခဲ့ရာ ထိုစေတီ၌ မွမ်းမံအပ်သော နတ်၊ နဂါး၊ ဆင်ရုပ်၊ မြင်းရုပ် စသည်တို့ကို ယွန်းကလောင်တို့၏ အနုပညာလက်ရာအတိုင်း တွေ့မြင်ကြရလေသည်။

သို့သော် ပုဂံခေတ်ကပင် ယွန်းထည် ပစ္စည်းများသည် ပုဂံပြည်သို့ ရောက်ခဲ့သည် ဟူသော အဆိုတရပ် ရှိပြန်သည်။

ပုဂံမြို့ မင်္ဂလာစေတီ၌ ခရစ် ၁၂၇၄ ခုနှစ်ခန့်ကဟု ခန့်မှန်းရသော ယွန်းကြုတ်တခုကိုတွေ့ရသည်ဟု ဆိုသည်။ထို့ကြောင့် ပုဂံပြည့်ရှင် အနော်ရထာမင်း လက်ထက်ကပင် ယွန်းအတတ်ပညာသည်များသည် ဇင်းမယ်နှင့်နီးစပ်သော သထုံပြည်သို့ ရောက်ရှိ နေခဲ့ဟန်တူ၍ သထုံကို အနော်ရထာ သိမ်းပိုက်သောအခါ ထိုအတတ်ပညာသည်များလည်း ပုဂံသို့ ပါလာဟန်တူသည်ဟု ဆိုကြလေသည်။

အခြား အယူအဆ တခုမှာ ယွန်းလုပ်ငန်း၏ မူလဘူတဖြစ်သော လောနိုင်ငံနှင့် ရှမ်းပြည်သည် နီးစပ်သဖြင့် ယွန်းလုပ်ငန်းသည် ရှမ်းပြည်သို့ ပျံ့နှံ့ရောက်ရှိခဲ့ရာ အနော်ရထာမင်းလက်ထက်တွင် ရှမ်းပြည်မှ ယွန်းအတတ်ပညာသည်များကို ပုဂံသို့ ခေါ်ယူ လုပ်ကိုင်စေခြင်းလည်း ဖြစ်နိုင်သည်ဟု ဆိုကြပြန်သည်။ မည်သို့ပင် ဖြစ်စေ ပုဂံယွန်းထည်နှင့် လဲချားယွန်းထည်များ၏ မူလဘူတသည် တခုတည်းသာ ဖြစ်မည်ဟု ယူဆရသည်။ အထက် မြန်မာနိုင်ငံနှင့် ရှမ်းပြည်သည် ရှေးယခင်ကပင် အဆက်အဆံ ရှိခဲ့ရာ ရှမ်းပြည်မှ ယွန်းထည်များသည် ပုဂံသို့ ရောက်နိုင်၍ ပုဂံမှ ယွန်းထည်များသည် ရှမ်းပြည်သို့ အပြန်အလှန် ရောက်ရှိနိုင်ပေသည်။

လက်ရာများကို နှိုင်းရှည့် ကြည့်သည့်အခါ လဲချားယွန်းထည်များသည် ပုဂံထည်များထက်ပိုံစံရှေးကျသည်။လဲချားယွန်းထည်များသည် ပုဂံယွန်းထည်များကဲ့သို့ ပန်းချီပုံများဖြင့် ချယ်လှယ်ခြင်း မပြုဘဲ နှီးဖြင့် ယက်လုပ်ထားသည့် အကွက်အဆင် အတိုင်း ပေါ်အောင် သရိုးကိုင်ထားသည်။ ရှေးပုဂံယွန်းထည်များတွင် ထိုအကွက်အဆင်များကို ဆေးရောင်ဖြင့် လိုက်ထားသည်။ ထိုအချက်ကို ထောက်ရှု၍ လဲချားယွန်းထည်သည် ပုဂံယွန်းထည်ထက်ပို၍ ရှေးကျပြီးလျှင် ယွန်းအတတ်သည် လဲချားမှ ပုဂံသို့ ရောက်လာခြင်း ဖြစ်မည်ဟုလည်း ယူဆဖွယ်ရာ ရှိပေသည်။

ယွန်းလုပ်ငန်းကို ရှေးက ပန်းယွန်းဟုလည်း ခေါ်ကြသည်။ ယွန်းထည် လုပ်ကိုင်ရာ၌ မူလထား၍ အသုံးပြုရသော ပစ္စည်းများမှာ တင်းဝါး၊ သစ်စေး နှင့် ဟင်္သပြဒါးတို့ ဖြစ်ကြသည်။ ယင်းတို့အနက် သစ်စေးသည် အခရာ ဖြစ်သည်။ သစ်စေးကို သစ်စေးပင်မှ ရရှိသည်။ သစ်စေးပင်သည် မိုးပါးသောဒေသများတွင် မြေပြင်အမြင့် ပေ ၃,၅၀၀ အထိ ပေါက်ရောက်သော သစ်တောများတွင် တွေ့ရှိရသည်။ သစ်စေးကို ထိုအပင်၏အခေါက်မှ ရရှိသည်။တင်းဝါးသည် ချင်းတွင်းမြစ်ဝှမ်း၌ ပေါများသည်။ ဟင်္သပြဒါးကို တရုပ်နိုင်ငံမှ တင်သွင်းရသည်။ အရောင်တင်ရန် အတွက် ရှမ်းဆီကို အသုံးပြုကြသည်။ တင်းဝါးကို ရရှိရန် မခက်ခဲဘဲ တန်ဖိုးလည်း မများလှသော်လည်း သစ်စေးနှင့် ဟင်္သပြဒါးမှာ တန်ဖိုး ကြီးလှလေသည်။ (သစ်စေးပင်၊ ဟင်္သပြဒါး — လည်းရှု။)

ယွန်းထည် ပစ္စည်းများ လုပ်ကိုင်ပုံမှာ ဦးစွာ ဝါးကို ခွဲ၍ ဝါး၏ အတွင်းအူသားနှင့် အကြောများကို ထုတ်ပစ်ပြီးလျှင် အတွင်းသားကို နှီးဖျာရသည်။ တင်းဝါး တလုံးလျှင် သောက်ရေခွက် အလုံး အစိတ်ခန့် ရနိုင်၍ လက်ဖက်အုပ်ဆိုလျှင် ၁၅ လုံးခန့်ရနိုင်လေသည်။ နှီး ဖျာရာ၌ နှီးပြားနှင့် နှီးလုံး ဖျာခြင်းဟူ၍ ရှိသည်။ နှီးပြားကို လက်ဖက်အုပ်၊ ဆွမ်းအုပ်စသည်တို့ ပြုလုပ်ရာ၌ အသုံးပြု၍ နှီးလုံးကိုမူ ရေခွက်ရက်လုပ်ရာ၌ အသုံးပြုကြလေသည်။ကွမ်းအစ်အတွက်ကိုမူ နှီးလုံးသုံးသူသုံး၍ နှီးပြားသုံးသူ သုံးကြသည်။

ရေခွက်များ ရက်လုပ်ရာတွင် သစ်သားဖြင့် ပြီးသော ရေခွက် ပုစံတွင်ကပ်၍ နှီးကို ရက်သည်။ ယင်းသို့ ရက်လုပ်သည်ကို လုပ်ငန်းအခေါ်အားဖြင့် 'ကြောင်လိမ်' ဟု ခေါ်၍၊ ရက်လုပ်ပြီး အဖြူထည်များကို 'ခွက်ဖြူကြောင်လိမ်' ဟု ခေါ်သည်။ ကွမ်းအစ် စသည်တို့ကို ရက်လုပ်ရာ၌မူ စပါးပုတ်တည်သကဲ့သို့ ရက်လုပ်ရသဖြင့် 'ပုတ်တည်သည်' ဟုခေါ်သည်။ လက်ဖက်အုပ်များ ပြုလုပ်ရာ၌မူ နှီးပြားကလေးများကို နာရီသံပတ် ခွေသကဲ့သို့ ရစ်ခွေ၍ အဆုံးသတ် နေရာတွင် သတ်ကလေးနှက်ရသည်။ ယွန်းသေတ္တာ၊ ယွန်းဆေးလိပ်ဗန်း (အချို့အခေါ် ကျောက်ကာသေတ္တာ၊ ကျောက်ကာ ဗန်း) များကိုမူ ဝါးဖြင့်မရက်လုပ်ဘဲ ဘိုင်သား၊ သို့မဟုတ် ရေတမာသား၊ ဒီးဒူးသား စသည်တို့ဖြင့် အဖြူထည် ပြုလုပ်ကြသည်။

အဖြူထည်ပစ္စည်းများကို အဖုအထစ် မရှိအောင် ဓားဦးထက်ထက်ဖြင့် ခြစ်ပေးပြီးလျှင် သားရိုးကြမ်း ကိုင်(သားရိုးကြမ်းဖြင့် သုတ်လိမ်း) ပေးရသည်။ သားရိုးကြမ်းမှာ ကျွန်းလွှစာကို သစ်စေးနှင့် ရောပြီးလျှင် သစ်ဆုံတွင် ထည့်၍ ထောင်းတေထားခြင်း ဖြစ်သည်။ ကျွန်းလွှစာ သုံးခြင်းမှာ သားရိုးမြဲ၍ ကြာရှည်ခံစေရန် ဖြစ်သည်။ သားရိုးကြမ်းကိုင်သည်ကို သားရိုးကြမ်း 'ထေ' သည်ဟုလည်း ခေါ်သည်။ သားရိုးကိုင်ပြီးနောက်တွင် သားရိုး 'အိပ်'စေရန် တိုက်သိပ် (တိုက်သွင်း)ရသည်။တိုက်သိပ်သည်ဆိုခြင်းမှာမြေအောက်တွင် မြေကိုတူး၍ အုတ်အင်္ဂတေတို့ဖြင့် အခိုင်အမာ အခန်းပြုလုပ်ထားပြီးလျှင် အဖုံးတခါးလည်း ရှိသော မြေတိုက်ထဲတွင် အဆင့်များ ပြုလုပ်ထား၍ သားရိုးကိုင်ပြီးသော အထည်များကို ငါးကပ်များဖြင့် တင်ရသည်။ သားရိုးအိပ်အောင် တခါ တိုက်သွင်းလျှင် အနည်းဆုံး လေးရက် ထားရသည်။ သားရိုးအိပ်စေရန် နေလှန်း၍လည်းမရ။ အအေးခံထား၍လည်း မရချေ။ မြေတိုက်တွင်း၌ လှောင်နေသဖြင့် မြေခိုးရိုက်၍ ချွေးစီးပြန်သော အခြေအနေ မျိုး၌သာ သားရိုးအိပ်လေသည်။

လေးရက်စေ့၍ မြေတိုက်မှ ထုတ်ယူ ပြီးသောအခါ သားရိုးကြမ်းကိုင်ထားသည်များကို ဓားကောက်ဖြင့် ခြစ်၍ ညှိပေးရသည်။ ယင်းသို့ အဖုအထစ်များ ချောသွားအောင် ညှိပေးခြင်းကို'ချောစား'သည်ဟုခေါ်သည်။ချောစားပြီးလျှင်

သားရိုးပျော့ သုတ်ရပြန်သည်။ သားရိုးပျော့သည် နုံးဖွဲ့ပြာမှုန့်နှင့် သစ်စေးတို့ကို ရောတေထားခြင်း ဖြစ်၍ သရိုးပြာဟုလည်း ခေါ်သည်။ သားရိုးပြာ သုတ်လိမ်းပြီးနောက်တွင် တိုက်သွင်းရပြန်သည်။ ရက်စေ့လျှင် ထုတ်၍ ချောစားရပြန်သည်။ သားရိုးကိုင်ခြင်း ပြီးလျှင် တိုက်သိပ်၍ ရက်စေ့ပြန်လျှင်ထုတ်ပြီး ချောစားခြင်း စသော လုပ်ငန်းအဆင့်ဆင့်ကို လေးကြိမ်ထက်မနည်း ပြုလုပ်ရသည်။ တဆင့်ပြီး တဆင့်တက်လာလေ၊ သားရိုးကိုင်ခြင်း၊ ချောစားခြင်းတို့ကို ပို၍ နုနုနယ်နယ် ကိုင်ရလေ ဖြစ်သည်။ အထည်နုလေ၊ လုပ်ငန်းအဆင့် ပိုများလေ၊ ပို၍ နုနုနယ်နယ် ကိုင်ရလေဖြစ်သည်။ ပုံစံအားဖြင့် သားရိုးကိုင်ရာတွင် အသုံးပြုသော ပြာသည် အထည် အကြမ်းအနုကို လိုက်၍ နွားချေး၊ စပါးခွံ၊ အရိုးစသည်တို့ကို ပြာချ အသုံးပြုသကဲ့သို့ ချောစားရာ၌ အသုံးပြုသော ပစ္စည်းများသည်လည်း တဆင့်ထက် တဆင့် နုလာသည်။ ထို့ကြောင့် ဓားဖြင့် ခြစ်ခြင်း၊ စပါးခွံနှင့် ရေကိုသုံး၍ တိုက်စားခြင်း၊ တောင်ဦးကျောက် (မိုးပါးရေရှား ရပ်ဝန်း၌ တွေ့ရတတ်သော ကျောက်ပွ တမျိုး) ဖြင့် တိုက်စားခြင်း၊ ကော်ပတ်အနုစားနှင့်တူသော ဒဟပ်ဖက်ဖြင့် တိုက်စားခြင်းဟူ၍ အဆင့်ဆင့် ရှိသည်။ ချောစားရာ၌ ပန်းပွတ်ခေါ် လက်ဖြစ် ပွတ်ခုံနှင့် တွဲဖက် လုပ်ကိုင်ရသည်လည်း ရှိသည်။ ပုံစံအားဖြင့် ရေခွက်ကို ချောစားသည့်အခါ ပွတ်စင်တွင် ရေခွက်နှင့် အံကိုက်ပြုလုပ်ထားသော ပွတ်လုံးတွင် ရေခွက်ကို တပ်ထားသည်။ တောင်ဦးကျောက်ခဲတုံးကို လက်တဖက်က ကိုင်၍ ရေခွက်ပေါ် ဖိထားရသည်။ ကျန်တဖက်က ကြိုးသိုင်းထားသော တုတ်ချောင်းကို ရှေ့တိုးနောင်ငင် တွန်းပေးရသည်။ ပွတ်လုံးကို ကြိုးက ကြက်ခြေခတ် သိုင်းထားသဖြင့် တုတ်ချောင်းကို ရှေ့တိုးနောက်ငင် ပြုပေးသောအခါ ပွတ်လုံးသည် လည်လာ၍ ရေခွက်လည်း လည်၍ လိုက်လာသဖြင့် တောင်ဦးကျောက်ဖြင့် မညီမညွတ်သောသားရိုးများကို ဖိ၍ဖိ၍ ညှိပေးရလေသည်။

ခွက်ဖြူ ကြောင်လိမ်များကို သစ်စေးထေခြင်း၊ ဓားကောက်ခြစ်ခြင်း၊ချောစားခြင်း၊တိုက်သိပ်ခြင်း စသည့် လုပ်ငန်းများကို အနည်းဆုံးလေးကြိမ်လုပ်ကိုင်ပြီးနောက် ဟသ်ပြဒါးကို လိုအပ်သလို သုတ်လိမ်း၍ လေးညဥ့်ထက်မနည်း တိုက်သိမ်းခြင်းကို နှစ်ကြိမ်တိုင် ပြုရသည်။ ဟသ်ပြဒါးသုတ်သည် ဆိုရာ၌ ဟသ်ပြဒါးချည်းသက်သက် သုံးရသည် မဟုတ်ချေ။သာမန်ရောသည့် ဆနွန်းမှာဟသ်ပြဒါး တဆယ်သားလျှင် သစ်စေးရစ်ကျပ်သား ရောရသည်။ အနီရောင်ယွန်းထည်များ မဟုတ်လျှင် အတွင်းဖက်၌သာ ဟသ်ပြဒါးသုတ်သည်။ နောက်ဆုံး အကြိမ် သားရိုးကိုင်ခြင်း၊ ဟသ်ပြဒါးသုတ်ခြင်းတို့ကို ပြုလုပ်သည့်အခါ အရောင်တောက်ပြောင်စေရန် သစ်စေး၊ ဟသ်ပြဒါးတို့တွင် ရှမ်းဆီအနည်းငယ်ကို ထည့်ပေးရသည်။ ဟသ်ပြဒါး အသုံးများသည့် အလျောက် ယွန်းထည်၏တန်ဖိုး တက်သွားသည်။ ထို့ကြောင့် အနက်ရောင် ယွန်းထည်များထက် အနီရောင် ယွန်းထည်များက ပို၍ ဈေးများပေရာ၊ အဖိုးတန်သော ဟသ်ပြဒါးကဲထားရခြင်းကြောင့် ဖြစ်လေသည်။

ထိုအဆင့်မှ လွန်သောအခါ မွမ်းမံသည့်အဆင့်သို့ ရောက်သည်။ ပုဂံ၊ ညောင်ဦး ယွန်းထည်များတွင် ယွန်းထိုးသည့် အဆင့်သို့ ရောက်ပေပြီ။ ယွန်းထိုးသည် ဆိုသည်မှာ ဖော်ပြခဲ့သော လုပ်ငန်းအဆင့်ဆင့် ဆောင်ရွက်ပြီးသည့် အထည်များတွင် တကြောင်းဆွဲ ပန်းချီ ပုံစံများဖော်ခြင်း ဖြစ်ပေသည်။ ပန်းချီပုံဖော်သူများကို ယွန်းသမားဟု ခေါ်သည်။ ယွန်းထိုးမည့် အထည်များပေါ်တွင် သံစုတ်ဖြင့် ခြစ်ကာ ပုံဖော်ရသည်။ များသောအားဖြင့် အစဉ်အလာ ရေးရိုးပြုကြသော ဇာတ်နိပါတ်များမှ ထုတ်နုတ် ဖော်ပြသည့် ဘုရင်မိဖုရားမင်းညီမင်းသား စသည်တို့နှင့် မင်းခမ်းမင်းနားတို့ ပါဝင်သော ပန်းချီခန်းများ၊ ခြူးပန်း ခြူးနွယ်၊ ကြာလိပ်၊ ကြာခွေများ၊ ဆဲ့နှစ်ရာသီခွင် အရုပ်များ၊ နဂါး၊ဂဠုန်၊ ကိန္နရီ ကိန္နရာ၊ ဆင်မြင်း စသော တိရစ္ဆာန်များ၏ ပုံများကို တကြောင်းဆွဲမျဉ်းဖြင့် ပုံဖော်သည်။ ထို့နောက် ပုံဖော်ထားသော ခြစ်ကြောင်းကလေးများ ထဲသို့ အသင့် ဖျော်ထားသော ဆေးရည် ဝင်အောင် သုတ်လိမ်းပေးရသည်။ ဆေးသွင်းသည်ဟု ခေါ်သည်။ သွင်းသည့် ဆေးအရောင်တို့မှာ အဝါ အနုအရင့်၊ အနီ၊ အစိမ်းဟူ၍ လေးရောင်မျှသာ ဖြစ်သည်။ ဆေးဒန်းကို ဖျော်လျှင် အဝါနုရောင်ရ၍ ဆေးဒန်းနှင့် ဟသ်ပြဒါး စပ်၍ ဖျော်လျှင် အဝါရင့်ရောင်၊ သို့မဟုတ် စံကားဝါရောင်ရသည်။အစိမ်းရောင်ကိုမူ ဆေးဒန်းနှင့်မဲနယ်ရောစပ်ရသည်။ အနီရောင်အတွက် ဟသ်ပြဒါးကို ဖျော်ရသည်။ ဆေးရောင်လေးမျိုးကို တကြိမ်တည်း မသွင်းပေ။ ဆေးရောင် တမျိုးနှင့် ဆိုင်သော ပုံများကို ရေးခြစ်ပြီး၍ ဆေးတရောင် သွင်းပြီးလျှင် တိုက်တခါ သွင်းသည်။ ရက်စေ့လျှင် တိုက်မှ ထုတ်ကာ နောက်ထပ် ဆေးတရောင်သွင်းမည့် ပန်းချီပုံများကို ခြစ်ကြောင်းပေး၍ ဆေးသွင်းပြန်သည်။ပြီးလျှင် တိုက်သွင်း၍ ဆေးအိပ်စေပြန်သည်။အထည်၌ ပုံဖော်သည့် ပန်းချီခန်းများ၌ ဆေးရောင်တမျိုး သုံးလျှင် တထပ်ယွန်း၊ နှစ်မျိုးသုံးလျှင် နှစ်ထပ်ယွန်း၊ သုံးမျိုး သုံးလျှင် သုံးထပ်ယွန်း စသဖြင့်ခေါ်သည်။ အရပ်သုံး ဝေါဟာရအားဖြင့်မူ တစုတ်ထိုး၊ နှစ်စုတ်ထိုး၊ သုံးစုတ်ထိုး စသည်ဖြင့် သုံးနှုန်းကြသည်။ ခြစ်ကြောင်းများအတွင်းသို့ ဆေးသွတ်သည့်အခါ ဆေးသွင်းသည့် အခါ ခြစ်ကြောင်းများသည် မြောင်းကလေးများသဖွယ် ချိုင့်ဝင်နေသဖြင့် ဆေးတင်၍ ကျန်ရစ်သည်။ ကျန်မျက်နှာပြင်တွင် ပေကျံနေသော ဆေးများကို သုတ်ပစ်ရသည်။



ၥွန်းထည်များလုပ်ကိုင်ပုံမှာ ဦးစွာဦး (၁) ဝါးနှီးသပ်၍ ယွန်းအစ်အောက်ခံရက်ကာ ချေပြီးနောက် အဖြူထည် ထောင်ရသည်။



(၂) နှီးစမပေါ် အဖုအထစ်မရှိ ချောနေရန် ဓားကောက်ဖြင့်ခြစ်ကာ × ×



(၃) သားရိုးကြမ်းကိုင်၊ တိုက်သိပ်၊ သစေးထေ၊



(၄) ချောစား၊ သားရိုးပျော့ကိုင်၊ တိုက်သိပ်ရသည်။



(၅) နှစ်ကြိမ်မျှ ဟသ်ပြဒါး (သစေးရော၍) သုတ်၊ တိုက်သိပ်ရသည်။





ထိုနောက် အထည်များတွင် တကြောင်းဆွဲ ပန်းချီပုံစံများ ဖော်ခြင်းဟူသော ယွန်းထိုးခြင်း(လယ်)၊ ပုံဖော်ထားသော ခြစ်ကြောင်းကလေးများထဲသို့ ဆေးရည်ဝင်အောင် သုတ်လိမ်းပေးခြင်းဟူသော ဆေးသွင်းခြင်း (ယာ) တို့ကို ပြုပြီးမှ ကြာရှည်ခိုင်စေရန် တိုက်သွင်းရပြန်လေသည်။ (ဝဲ)



ရုပ်ပုံများ၊ ပန်းလိမ်ပန်းခက်များ၊ ဓနကွက်များ ဖော်ရာ၌ အသေအချာ ပန္နက်ပုံမချဘဲ လက်မှန်းဖြင့် ရေးခြယ်သွားပုံမှာ သေချာကျနစွာ အတိုင်းအတာ ချ၍ ရေးခြယ်သကဲ့သို့ အထည်၏ ပုံပန်းသဏ္ဌာန် အနေအထား၊ ပမာဏနှင့် လျော်စွာ အံဝင်ခွင်ကျ ဖြစ်အောင် ရေးသားနိုင်သည်မှာ ချီးကျူးဖွယ်ရာ ဖြစ်သည်။ ပုံစံမှာ ရေခွက် တလုံးတွင် ဆဲ့နှစ်ရာသီခွင် အတွက် ဓနကွက် ၁၂ ကွက်ကို ရေခွက်၏ ပမာဏ၊ ရေခွက်၏ အနေအထားဖြင့် ကိုက်ညီအောင် ရေခွက်ပတ်လည်၌အကွက် ၁၂ ကွက် အညီအညွတ်ပေါ် စေရန် လက်မှန်းဖြင့် ပုံဖော်နိုင်ကြသည်။ ကွမ်းအစ်တလုံးမှ ပန်းချီခန်း နှင့် အခြားတလုံးမှ ပန်းချီခန်းတို့သည် လက်ဖြင့် ရေးထားလင့်ကစား တခုနှင့်တခု ရွေ့မရလောက်အောင် တူလှသဖြင့် စက်ဖြင့် ရေးလေသလောဟု ထင်မှားဖွယ်ရာ ရှိလေသည်။

ရွှေရေးယွန်း ဟုလည်း ခေါ်သော ရွှေဇဝါထည်များကိုမူ သံစုတ်ဖြင့် ယွန်းမထိုးချေ။ အရောင်တင် သစ်စေးကိုင်ပြီးလျှင် အနက် အောက်ခံပေါ်၌ ဆေးဒန်းနှင့် တမာစေးကော်ကို ဖျော်၍ စုတ်အနုကလေးဖြင့် ခြူးပန်း ခြူးနွယ်၊ ကြာခွေကြာလိပ် ရေးခြင်း၊ ဓနကွက်ဆင်ခြင်းများကို ပြုလုပ်ပြီးသည့်အခါ ရွှေဗိန်းချသည်။ ပြီးမှ ရေဖြင့် ဆေးချလိုက်လျှင် မူလပန်းပုံစံများတွင်သာ ရွှေများတင်၍ ကျန်ရစ်ပြီးလျှင် ရွှေရောင်တဝင်းဝင်းဖြင့် လှပသော ရွှေဇဝါထည်များ ဖြစ်လာကြလေသည်။

ဆေးလိပ်သေတ္တာ၊ ဆေးလိပ်ဖန်းကလေးများ၊ လင်ဗန်းကလေးများကို သဘော်ဆေးဖြင့် ပန်းပုံစံများ ခြယ်လှယ်မွမ်းမံခြင်းလည်း ပြုကြသည်။ သဘော်ဆေးဖြင့် ရေးခြယ်ခြင်းမှာ အထက်ဖော်ပြခဲ့သော မွမ်းမံနည်း နှစ်မျိုးလောက်လက်မဝင်လှဘဲထိုအထည်မျိုးမှာတန်ဖိုးလည်းမများလှပေ။

ယွန်းထည် လုပ်ငန်းသည် တဆင့်ပြီးလျှင် တိုက်သွင်း၊ တိုက်ပိတ် ပြုရခြင်း၊ အထည်နု အထည်ချောလေ လုပ်ငန်းအဆင့်များလေဖြစ်ရာ အချို့အထည်နုများဆိုလျှင် လုပ်ငန်းအဆင့်ပေါင်း ၂၆ ဆင့်ထက် မနည်းရှိ၍ အချိန်ကာလအားဖြင့် ငါးလ၊ ခြောက်လခန့်ပင် ကြာတတ်လေသည်။ သာမန်ရောင်းတန်းအထည်များသည်ပင် တလခွဲ၊ နှစ်လခန့် ကြာတတ်လေသည်။ ပုဂံ ယွန်းထည် သမားများသည် မိမိတို့၏ အထည်များကို ပေါ့နိုင်သမျှပေါ့အောင် ကြံဆလျက်ရှိကြသည်။ ရှေးက ဝါးနှီးကို အလွန်နုအောင်စိတ်ဖျာ၍ နှီးကို အတိုင်ထားပြီးလျှင် မြင်းမြီးကို အဖောက်ထားကာ ရက်လုပ်ခဲ့ကြရာ အလွန်ပေါ့ပါး ပျော့ပျောင်း၍ ချိုးခေါက်၍ပင်ရနိုင်သည်ဟု ဆိုကြသည်။

ကျိုင်းတုံ ယွန်းထည်များသည် ရွှေဖြင့် မွမ်းမံထားသော အထည်များ ဖြစ်သော်လည်း ပုဂံ ရွှေဇဝါထည်များနှင့်မူ မတူချေ။ ပုံစံ ဒီဇိုင်းသည်လည်း မြန်မာယွန်းထည်များနှင့် ခြားနားသည်။ ကျိုင်းတုံထည်များမှာ ရွှေချထားသော ရုပ်ကြွ ပန်းကြွများဖြင့် တန်ဆာဆင်ထား၍ ကြွကြွရွရွဖြင့် တမျိုးတဖုံ လှပလေသည်။ ထူးခြားသည့် အချက်မှာ ကျိုင်းတုံယွန်းထည် ယွန်းထည်များ၏ မူလဘူတဖြစ်သော လောနိုင်ငံနှင့် နီးစပ်လင့်ကစား လဲချားယွန်းထည်များ၏ လုပ်နည်းလုပ်ဟန်ကိုသာ ဆက်ခံ လုပ်ကိုင်ကြလေသည်။

ယွန်းထည်လုပ်ငန်းနှင့် ဆက်စပ်နေသော မြန်မာ လက်မှုအနုပညာတရပ်မှာ မှန်စီရွှေချလုပ်ငန်း ဖြစ်သည်။ မှန်စီရွှေချအတတ်သည် ယွန်းထည်၊ သစ်ပန်းပုထည်များကို ဆက်လက် မွမ်းမံသောလုပ်ငန်း ဖြစ်သည်။ ယွန်းထည်ကို မှန်စီရွှေချ လုပ်ကိုင်ရာ၌ ယွန်းထည်၏ လုပ်ငန်း အဆင့်ဆင့်အတိုင်း သစ်စေးနှင့်သားရိုးကို အခြေခံ အသုံးပြုရသည်။ ထိုလုပ်ငန်းတွင် အပိုင်းကြီး ငါးပိုင်း ခွဲခြားနိုင်ရာ၊ (၁) ပြာတင်၊ ကျောက်တိုက်၊ သစ်စေးသုတ်ခြင်း၊ (၂) ကြိုးခင်းခြင်း၊ (၃) ပန်း၊ အရုပ် ဖော်ခြင်း၊ (၄) မှန်စီခြင်းနှင့် (၅) ရွှေချခြင်းအပိုင်းတို့ ဖြစ်ကြသည်။

## (၁) ပြာတင်၊ ကျောက်တိုက်၊ သစ်စေးသုတ်ခြင်း

မှန်စီရွှေချ ပြုလုပ်မည့် အထည်တို့ကို ရှေးဦးစွာ အချောတိုက်ပေးရသည်။ စောင်းကဲ့သို့ ပစ္စည်းမျိုးဆိုလျှင် စပါးဖွဲကြမ်းကို ပြာချ၍ သစ်စေး စိမ်းနှင့် ရောကာ အထည်တခုလုံးကို သုတ်ပေးရသည်။ယင်းသို့ ပြုလုပ်ခြင်းကို ပြာတင်သည်ဟု ခေါ်သည်။ အချို့အထည်များကိုမူ သစ်စေးသုတ်လိုက်၊ ပြာဖြူးလိုက်ဖြင့် တထပ်စီ ပြာတင်ခြင်းပြုရသည်။ သစ်သားပန်းပုထည်များကိုမူ သစ်သားရှိအနာအဆာပေါက်များ ပိတ်ဆို့ ချောမောသွားစေရန် 'သုံးဦးစပ်' ဖြင့် ထေပေးရသည်။ 'သုံးဦးစပ်' ဆိုသည်မှာ သစ်စေးစိမ်း၊ လွှစာမှုန့်နှင့် ထမင်းရည်တို့ သုံးမျိုးကို စပ်၍ ထောင်းတေထားခြင်း ဖြစ်၍ 'ထောင်းသားရိုး' ဟုလည်း ခေါ်ကြသည်။ ထောင်းသားရိုးနှင့် ထေး၍၎င်း၊ ပြာတင်ပြီးလျှင်၎င်း သစ်စေးအိပ်စေရန် တိုက်သွင်းရသည်။ သစ်စေး အိပ်လောက်သည့် ရက်တွင် ပြန်ထုတ်၍ ကျောက်တိုက်ရသည်။ ကျောက်တိုက်သည်ဆိုသည်မှာ ကျောက်ပွတ်ဖြင့် ချောစားပေးခြင်း ဖြစ်လေသည်။ အထည် ကောင်းသည်ထက် ကောင်းစေလိုလျှင် ကျောက်တိုက်ပြီးလျှင် တဖန်ပြန်၍ သစ်စေး သုတ်ပေးရပြန်သည်။

## (၂) ကြိုးခင်းခြင်း

ယွန်းထည်များပေါ်တွင် ပန်းများ၊ အရုပ်များ ကြွကြွရွရွ ပေါ်လွင်လာစေရန် သားရိုးဖြင့် ပုံဖော်ခြင်းကို ကြိုးခင်းသည်ဟု ခေါ်သည်။ ကြိုးခင်းရန်အတွက် တေ သားရိုးကို ဖော်စပ်ရသည်။ စင်စစ်အားဖြင့် သားကောင်၏ အရိုးကို ပြာချ အမှုန့်ပြု၍ သစ်စေးနှင့် ရောစပ်ထားခြင်းကို သားရိုး

ဟု ခေါ်ဆိုခဲ့သည်။ သို့သော် သားကောင် အရိုးမှုန့်ဖြင့် ပြုလုပ်သောသားရိုးသည် အလွန်မာလှယ်သဖြင့် နွားချေးပြာမှုန့်ကို အစားထိုး အသုံးပြုခဲ့ကြသည်။

တေသားရိုး ပြုလုပ်သည့်အခါ သစ်စေးအစိမ်းကို ကျို၍ နွားချေးပြာကို အနေတော် ချိန်ဆထည့်ပြီးလျှင် သမအောင် တေပေးရသည်။ ထိုအခါ လိုသလို ကိုင်တွယ်၍ ရသော ပျော့ပျောင်းသည့်သားရိုး ဖြစ်လာသည်။ ထိုသားရိုးသည် ဖော်စပ်သည့်နေ့၌ ပျော့ပျောင်း၍ လိုသလို ကွေးညွတ်တွန့်ကောက်၍ ပုံဖော်နိုင်သော်လည်း နေ့ကူးသွားလျှင် သံချောင်းကဲ့သို့ မာကျောသွားသဖြင့် သားရိုးကို တနေ့စာ အတွက်သာ ဖော်စပ်ကြသည်။

ပုံဖော်သည့် အခါ တေ သားရိုးကို ရှေးဦးစွာ သစ်သားကျစ်ပြင်ပေါ်တွင် တင်၍ လက်ဝါးစောင်းနှစ်ဖက်ဖြင့် ကြိုးဖြစ်လာအောင် လွန်းယူရသည်။ သားရိုးကြိုး အရွယ်အစား အနေတော်ရအောင် ပိတောက်သား ဂျပ်ဖြင့် ပွတ်လိမ့်ဆွဲငင်ပေးရသည်။ အသုံးနှင့် အညီ ရနိုင်အောင် သရိုးကြိုး အရွယ်မျိုးစုံ ခွဲခြားပြုလုပ်၍ တပုံစီထားရသည်။ အချို့ကို တန်းကြိုးနေရာ၌ အသုံးပြုနိုင်ရန် ရိုးရိုးလုံးချော မဟုတ်ဘဲ ပုလဲလုံးကလေးများ သဏ္ဌာန် 'ရွှဲပုံ' နှိပ်ပေးရလေသည်။

သားရိုးကြိုးများ ပြည့်စုံ၍ အထည်တခုကို ကြိုးခင်းတော့မည်ဆိုလျှင် ရှေးဦးစွာ သစ်စေးအခံ သုတ်ပေးရသည်။ ပြီးနောက် ရွှဲပုံ နှိပ်ထားသော တန်းကြိုးများကို စ၍ ခင်းသည်။ ကြိုးခင်းခြင်းသည် သားရိုးကြိုးကို သစ်စေးအခံပေါ်တွင် လက်သဲစောင်းဖြင့်နှိပ်၍ လကျာမှလက်ဝဲသို့ တစတစ ကပ်ပေးသွားရခြင်း ဖြစ်သည်။ တန်းကြိုးများသည် ပန်းများကို တကန့်စီ နယ်နိမိတ် သတ်မှတ်ပေးလေသည်။

## (၃) ပန်း၊ အရုပ်ဖော်ခြင်း

တန်းကြိုးများအတွင်း ပန်းကြိုးခင်းပုံမှာ စိတ်ကြိုက် အကျော်အနင်း ပန်းသွားကို ပဌမ စက္ကူပေါ်၌ ရေး၍ ရွေးချယ်သည်။ ထိုနောက် သစ်စေးပေါ်၌ လက်သဲစောင်းဖြင့် လျှာထား သတ်မှတ်၍ ပန်းတခုနှင့်တခု အကွာအဝေး ညီညွတ်သည့်အခါမှ သားရိုးကြိုးစကိုယူကာ သစ်စေးအခံပေါ်တွင်ကပ်၍ ပန်းကြိုး ခင်းသွားလေသည်။

ကြိုးခင်းမဟုတ်ဘဲ ရောင်းတန်း ယွန်းထည်များ၌ ထည့်သော သားရိုးပန်းများကို လက်လုပ်ပန်းဟု ခေါ်သည်။ လက်လုပ်ပန်း ဖော်ပုံမှာ တေ သားရိုးကို လက်ညှိုးဖြင့် လိမ့်ယူ၍၊ ကျွဲချိုဖြင့် ဓားမောက်သဏ္ဌာန်ပြုလုပ်ထားသော 'ဒန်' ဟုခေါ်သည့် ဓားကို အသုံးပြုကာ ဓားအမြီးဖြင့် တလှည့်၊ ဓားသွားဖြင့် တလှည့် နှိပ်၍ ပန်းဖော်သည်။ ယွန်းအုပ်များတွင် ထိုသို့ လက်လုပ်ပန်းများ ထည့်လေ့ ရှိသည်။ အရုပ်များဖော်မည်၊ မှန်များစီမည်ဆိုလျှင် ကြိုး ခင်းကတည်းက တိုင်းတာ၍ နေရာ သတ်မှတ် ချန်လှပ်ထားရသည်။ မှန်မစီဘဲ ပန်းချည်းသက်သက် ဖော်ထားလျှင် ကြိုးနုခင်းသည်ဟု ခေါ်သည်။

## (၄) မှန်စီခြင်း

ဖြတ်ထားပြီး မှန်ချပ်ကလေးများကို ထိပ်တွင် သားရိုး အနည်းငယ် ပါသော တုတ်ကလေးဖြင့် တို့ယူပြီးနောက် ကြိုးခင်းသူ ချန်လှပ်ထားသော နေရာများတွင် သစ်စေးအခံပေါ်၌ ကပ်ပေးရသည်။ ဆစ်တန်းဟု ခေါ်သော မှန်ကလေးများသည် အလျားရှည်၍ အနံတိုသည်။ မှန်ကလေးများဖြင့်

အပွင့် ပြုလုပ်လျှင် ခြယ်သည်ဟု ခေါ်သည်။ အပွင့်ခြယ်ရာ၌ အလယ်တွင် ကျောက်ပြာထည့်လျှင် ဘေးမှ ကျောက်ဖြူဖြင့် ရံပေးရသည်။ ပုလဲ၊ ပလာဖြူ၊ ပြောင်ပြာ၊ မန်းကျည်းရွက်၊ ခြောက်ကွက်တွက် စသည်ဖြင့် ကျောက်တုမျိုးစုံရှိသည်။ အစီ အခြယ် သမားများသည် အသွေးအရောင် လိုက်လျောမှု၊ ဆန့်ကျင်မှု၊ တောက်ပမှုတို့ကို နားလည်၍ ပန်းချီမျက်စိ ရှိရန် လိုလေသည်။

## (၅) ရွှေချခြင်း

မှန်မစီဘဲ ကြိုးနခင်းသည့် ယွန်းထည်ဖြစ်လျှင် ကြိုးခင်းပြီး၍ သုံးလေးရက်အတွင်း ကြိုးဖုံးရည် သုတ်ပေးရသည်။ သို့မှသာ ပန်းများခိုင်မြဲသည်ဟုဆိုသည်။ မှန်စီထည်ဖြစ်လျှင် မှန်ဖုံးရည် သုတ်ရသည်။သို့မှသာ ရွှေချပြီးသောအခါ မှန်ခွာ၍လွယ်သည်။ကြိုးဖုံးရည်၊ မှန်ဖုံးရည်တို့သည် သစ်စေးကို ရေရောထားခြင်းဖြစ်သည်။ ထိုအရည်များ သုတ်ပြီးလျှင် တိုက်သွင်း၍ အိပ်အောင်ထားရသည်။ အရောင်ရည်များ ထပ်ကာလဲလဲသုတ်၍ စိတ်ကြိုက်အရောင်တက်လာသောအခါနောက်ဆုံးဖြစ်သော ရွှေခံရည်ကို သုတ်ရသည်။ ရွှေခံရည်သည် စံကားဝါရောင်ဆေးကို ရေနွေးပျော၍ သစ်စေးနှင့် ရောထားခြင်း ဖြစ်သည်။ ရွှေခံရည်မသုတ်မီ သစ်စေးသုတ်ပြီးတိုင်း တိုက်သွင်းရသည်။မြေတိုက်မှထုတ်တိုင်းပန်းများလွတ်သောနေရာ ပြောင်ကွက်လပ်များကို ကျောက်တိုက်ပေးရသည်။ ရွှေခံရည် သုတ်ပြီးလျှင်မူ ကျောက် မတိုက်ရတော့ပေ။

ရွှေခံရည် အိပ်သောအခါ ရွှေချမည့်နေရာလွတ်ဟူသမျှကို ဟသ်ပြဒါးနှင့်သစ်စေး ရော၍ သုတ်ရသည်။ သစ်စေး၏ သဘာဝမှာ သစ်စေးစစ်လျှင် ကျဲ၍ ရေရေလေ ပျစ်လေ ဖြစ်သည်။ ရွှေချမည့် သစ်စေးမှာ အစေးနည်းရန် ရေရော ထားသဖြင့် အလွန်ပျစ်သည်။ ယင်းကို ဂွမ်းဖြင့် တို့ယူ၍ ရွှေချမည့်နေရာများတွင် သုတ်ပေးရသည်။ ဂွမ်းနှင့် တို့မရသည့်နေရာများကို ဝက်မွေးစုတ်တံနှင့် ခပ်ပေးရသည်။ ထိုနောက် ထိုနေရာများတွင် သစ်စေးပြောင်သွားအောင် ဂွမ်းဖြင့်ပင် ပွတ်ပေးရသည်။ ယင်းသို့ သစ်စေးကို ဂွမ်းဖြင့် သုတ်ပြန်၍ ပွတ်ခြင်းကို 'အသုတ်အနုတ်' ပြုသည်ဟု ခေါ်သည်။ စင်စစ်အားဖြင့် ရွှေချခြင်းသည် သစ်စေးအငွေ့ကလေးမျှဖြင့် ကပ်နေစေခြင်းဖြစ်ပေသည်။

သစ်စေးသုတ်နုတ်ထားသော နေရာများတွင် ရွှေဆိုင်းပြားများကို တခုချင်း စီ၍ ကပ်သည်။ ဂွမ်းဖြင့် ဖိပေးသည်။ ရွှေပေါက်သော နေရာများကို ဖာထေးရသည်။ ရွှေအဆိုင်းလိုက် မဝင်သာသော ပန်းများနေရာတွင် နွားနားမွေးစုတ်ဖြင့် ရွှေကိုတို့ယူရသည်။ ပြီးနောက် ဖြူစင်သောဂွမ်းဖြင့် ရွှေချထားပြီးသော နေရာများကို ခပ်ဖွဖွပွတ်ပေးခြင်းဖြင့် ရွှေရောင် ဝင်းလက် တောက်ပြောင် စေလေသည်။ ကျိုင်းတုံ ရွှေချယွန်းထည်များ၏ လုပ်နည်း လုပ်ဟန်သည် ထိုအတိုင်းပင် ဖြစ်ပေမည်။

မှန်စီရွှေချရာတွင် အောက်ခံယွန်းထည် သစ်သားထည်များကို အပေါက်အပွဲ၊ အဖုအထစ် မရှိရအောင် ဖာထေးပြုပြင်ရသည်။ ပြီးလျှင် သစ်စေး၊ သားရိုးနှင့် အခံရည်တို့ကို အထပ်ထပ် သုတ်ပေးခြင်းဖြင့် အောက်ခံ အထည်များကို ပိုးမွှားဖျက်ဆီးခြင်း၊ ရာသီဥတုဒဏ်ခံရခြင်းတို့မှ ကာကွယ်ပေသည်။ ထို့ကြောင့် မှန်စီရွှေချခြင်းသည် ယွန်းပညာရှင်၊ ပန်းပုပညာရှင်တို့၏ လက်ရာများကို ကာလရှည်ကြာစွာ ခိုင်ခံ့စေသည်။ ရွှေရောင် မှန်ရောင် တဝင်းဝင်းဖြင့် တမျိုးတဖုံ ခန့်ညားတင့်တယ် စေလေသည်။

ယွန်းထည် များ၌၎င်း၊ မှန်စီရွှေချထည်များ၌၎င်း ခြူးပန်း ခြူးနွယ်များ၊ ဘုရင်၊ မိဖုရား၊ မင်းညီမင်းသား အရုပ်များ၊ ဂဠုန် နဂါးအစရှိသော အရုပ်များဖြင့် မြန်မာ့ရိုးရာ ယဉ်ကျေးမှု အနုပညာရုပ်များကို ရှုချင်စဖွယ် မွမ်းမံတန်ဆာဆင်ထားသည်။ ထို့ကြောင့်ပင် မြန်မာမှ လိုလားသူတို့သည် ယွန်းထည်များကို မြတ်နိုး ခုံမင်ကြသည်။ ထိုသို့ ယဉ်ကျေးမှု အနုပညာသရုပ်ပြ ယွန်းထည်၊ မှန်စီရွှေချထည် များကား အလွန် လက်ဝင်လှသည်။ အနု စိတ်လှသည်။ လုပ်ငန်းကျယ်ပြန့်လှသည်။ အချိန် ကုန်လှသည်။ထို့ကြောင့် ထိုလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းသူ ပညာရှင်များမှာ မသေရုံစား၍ မအားရုံ နေရလင့်ကစား၊ ရိုးရာလုပ်ငန်းကို မြတ်နိုး တွယ်တာစွာဖြင့် ယခုကဲ့သို့ ထိန်းသိမ်းထားနိုင်သည်မှာ ချီးကျူးဖွယ်ရာ ဖြစ်ပေသည်။ မြန်မာအစိုးရသည် ယွန်းလုပ်ငန်းကို တိုးတက်စေ၍ အရှည်တည်တံ့စေရန် ပုဂံမြို့တွင် ယွန်းကျောင်း ဖွင့်လှစ်ထားပြီးလျှင် ယွန်းလုပ်ငန်းဖြင့် အသက်မွေးကျောင်းလိုသူတို့ကို ထိုကျောင်း၌ တက်ရောက် သင်ကြားခွင့်ပြုလေသည်။

**မြန်မာ ရာဇဝင်များ။** ။ပြည်သူလူထုနှင့် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ သက်ဆိုင်သည့် အဖြစ်အပျက်တို့ကို သော်၎င်း၊ ပြည်သူ လူထုအား အကျိုးသက်ရောက်စေသော၊ သို့မဟုတ် အကျိုးပျက်စေသော အဖြစ်အပျက်နှင့် ဆောင်ရွက်ချက်တို့ကိုသော်၎င်း၊ ပြည်သူလူထု၏ အတွေးအခေါ် အနေအထိုင်၊ ယဉ်ကျေးမှု စသည်တို့ကို ပြုပြင်ပြောင်းလဲစေသည့် တီထွင်မှုတို့ကိုသော်၎င်း ကျွန်ုပ်တို့ မကြာခဏကြားရ၊ သိရ၊ မြင်ရ၏။ ထိုအဖြစ်အပျက်နှင့် ဆောင်ရွက်ချက်တို့သည် နိုင်ငံတွင်းနှင့်သော်၎င်း၊ နိုင်ငံပနှင့်သော်၎င်း ဆက်သွယ်နေသည်ကိုလည်း တွေ့ရ၏။ ထိုသို့သော အရေးအခင်းတို့သည် တခုနောက်တခု ဆက်၍ ဖြစ်ပျက်လျက်ရှိရာ သက်ဆိုင်ရာ နိုင်ငံသားတို့၏ ဖြစ်စဉ်များအဖြစ် တည်ရှိခဲ့လေသည်။ ကာလ ကြာမြင့်လာသော် ထိုဖြစ်စဉ်တို့သည် သက်

ဆိုင်ရာနိုင်ငံ၏သမိုင်းဖြစ်လာလေသည်။ ရှေးအခါကတည်းက မြန်မာနိုင်ငံတွင် ထိုကဲ့သို့သောဖြစ်စဉ်များရှိလာခဲ့သည်သာမက၊ အချိန်ကာလအလျောက် မိမိတို့ အမြင်အတိုင်း မှတ်တမ်း တင်ခဲ့သူများလည်း ရှိလေသည်။ ယင်းသို့အားဖြင့် မြန်မာရာဇဝင်ကျမ်းများ ပေါ်ထွက်လာခဲ့လေသည်။ ထိုရာဇဝင်ကျမ်းများမှာ တိုင်းသူပြည်သားတို့၏ ဖြစ်စဉ်ထက် အုပ်ချုပ်သည့် ဘုရင်တို့နှင့် ယင်းတို့၏ အသိုင်းအဝိုင်း အကြောင်းကိုသာ အဓိကထား၍ ရေးခဲ့သောကျမ်းများ ဖြစ်ကြလေသည်။

မြန်မာ ရာဇဝင် ကျမ်းများသည် မင်းတို့၏ ဖြစ်စဉ်များကိုပင် ဖော်ပြထားသည် ဟု ဆိုရစေကာမူ၊ တရုပ် နိုင်ငံမှအပ အခြား အိမ်နီးနားချင်း နိုင်ငံတို့နှင့်စာလျှင် မှတ်တမ်းပြည့်စုံသော ကျမ်းများ ဖြစ်ပေသည်။ ထို့ကြောင့် မြန်မာနိုင်ငံ အောက်ပိုင်းတွင် ဝန်ရှင်တော်မင်းကြီးဖြစ်ခဲ့သူ ဆာ အာသာ ဖယ်ယာ၏ မြန်မာရာဇဝင် စာအုပ် (ခရစ် ၁၈၈၃ ခုနှစ်ထုတ်) နိဒါန်း၌ ထိုအချိန်က ရှိခဲ့ပြီးဖြစ်သော မြန်မာတို့၏ အမျိုးသား ရာဇဝင်မှတ်တမ်းများ ပြည့်စုံပုံကို အမွှမ်းတင် ဖော်ပြ၍ ဟိန္ဒူဘုရင်တို့ အုပ်စိုးသော နိုင်ငံတို့၌ အလားတူ ရာဇဝင် ကျမ်းများကို မတွေ့ရပုံ၊ ယိုးဒယားနိုင်ငံ၏ ရာဇဝင်မှတ်တမ်းတို့မှာ မြန်မာရာဇဝင် မှတ်တမ်းတို့ကဲ့သို့ ပြည့်စုံခြင်း မရှိပုံ၊ အဆက်ဆက် မှတ်တမ်းတင်ခြင်း မရှိပုံတို့ကိုလည်း နှိုင်းရှည့် ဖော်ပြထားလေသည်။

တဖန် ခရစ် ၁၈၈၃ ခုနှစ်ထက် စောလျက် မြန်မာရာဇဝင်ကို အများဆုံး လေ့လာခဲ့သူ ပါမောက္ခ လပ်စင်က "မြန်မာတို့၌ ရှည်လျားလှသော ရာဇဝင်မှတ်တမ်းများ ရှိ၏။ မိမိတို့ အတွက်သာမက၊ ရခိုင်၊ ပဲခူး၊ ဇင်းမယ်၊ လဇန်နှင့် အခြား အိမ်နီးချင်း နိုင်ငံတို့၏ ရာဇဝင်များပါ ပါဝင်သည်။ ရေးသားသူတို့သည် မိမိတို့ ရာဇဝင်တွင် ဂုဏ်ယူဖွယ်၊ ချီးမွမ်းဖွယ် ကောင်းသော ဖြစ်စဉ်များကိုသာမက ဂုဏ်သိမ်ဖွယ် အပြစ်တင်ဖွယ်ကောင်းသော ဖြစ်စဉ်များကိုပါ ဖော်ပြကြသဖြင့် ထိုရာဇဝင် ကျမ်းတို့မှာ အားလုံး ခြုံ၍ကြည့်ပါက မှန်ကန်သည်ဟု ချီးမွမ်းခြင်းကို ခံထိုက်ပေသည်" ဟူ၍ ချီးကျူးထောမနာ ပြုထားကြောင်းကိုလည်း ဆာအာသာ ဖယ်ယာ၏ မြန်မာရာဇဝင် နိဒါန်း၌ပင် ဖော်ပြ ထားလေသည်။ (ဖယ်ယာ, ဆာ အာသာ — လည်း ရှု။)

ထိုမှတ်ချက်တို့သည် အင်္ဂလိပ်–မြန်မာ တတိယစစ်ပွဲ မဖြစ်မီက ရေးသားချက်များဖြစ်သည့် အပြင်၊ ထိုကျမ်းပြုပုဂ္ဂိုလ်တို့သည် ရာဇဝင်ကျမ်း ပေမူ၊ ပုရပိုက်မှုတို့ကို ပြည့်စုံစွာ ရရှိလေ့လာခဲ့ရသူများ ဖြစ်လေသည်။ ထို့ကြောင့် အာရှတိုက် အရှေ့တောင်ပိုင်းတွင် မြန်မာတို့သည် မိမိတို့၏ ရာဇဝင်ကို အပြည့်အစုံဆုံး ရေးသားခဲ့သူများ ဖြစ်သည် ဟု ဆိုနိုင်လေသည်။

ယခုခေတ်တွင် စက်တင် ပုံနှိပ်ပြီးဖြစ်သော မြန်မာ ရာဇဝင်ကျမ်းတို့အနက် ရှေးအကျဆုံးကျမ်းမှာ ရှင် မဟာသီလဝံသ စီရင်၍ မြန်မာသက္ကရာဇ် ၈၆၄ ခုနှစ်တွင် ပြီးစီးသော ရာဇဝင်ကျော် ဖြစ်သည်။

ရာဇဝင်ကျော် အလျင်က ပေါ်ပေါက်ခဲ့သော ရာဇဝင် ကျမ်းများ ရှိသေးကြောင်းကိုလည်း မြန်မာ သက္ကရာဇ် ၁၂၈၄ ခု နှစ်က ပုံနှိပ်ထုတ်ဝေ၍ ဆရာလွန်း (သခင်ကိုယ်တော်မှိုင်း) စီရင်အပ်သော မှန်နန်းရာဇဝင်တော်သစ် ပဌမ အုပ် နိဒါန်း၌ –

"ရှေးဖျားမဆွ ရှိနှင့်ပြီးဖြစ်ကြသော ရာဇဝင်နှင့် ဆိုင်ရာ အနေ်ရထာမင်းစော တိုင်အောင် ဖော်ပြအပ်သော စူဠဝင်ကျမ်း။

ကျန်စစ်သားမင်း၏ ဖွားရင်း သက္ကရာဇ် စသည်များကို ဖော်ပြသည့် ပုဂံမြို့ဖြစ် စေတီယဝံသ ကထာကျမ်း။

ပုဂံ ဇေယျသိခ် နန်းတောင်းများမင်း၏ ဆရာ ပေါင်လောင်ရှင်ကဿပ စီရင်သည့် ဗောဓိဝင် ဋီကာ။

ရှင်ဝဇီရ စီရင်သည့် ရာဇဝင် ပါဌ်။

ငှက်ပစ်တောင် ပထမ ရှင်ဂေါဓာဝရ စီရင်သည့် ရာဇဝံသ ပါဌ်။

ဗြဟ္မဏပဏ္ဍာ စီရင်သည့် ပုဂံရာဇဝင်ဟောင်း။

အရှင် ဥာဏသည်းခံကြီး စီရင်သည့် တောင်ငူ ရာဇဝင်။

ရှင် မဟာ သီလဝံသ စီရင်၍ သက္ကရာဇ် ၈၆၄ ခုတွင် ပြီးသော ရာဇဝင်ကျော်။

ပြည်မင်းတရား တောင်းပန်၍ မြောက်နန်းကျောင်းဆရာတော်စီရင်သည့် မြောက်နန်းကျောင်း ရာဇဝင်။

ထို့အပြင် သမိုင်းတော်အကျယ်၊ သက္ကရာဇ်ပုံအင်းစောက်မှ စ၍ မြန်မာရာဇဝင် အစောင်စောင် ရှိသည်တွင်"ဟူ၍ ရှေးက ရှိခဲ့သော ရာဇဝင်ကျမ်းတို့၏ အမည်များကို ဖော်ပြထားလေသည်။

ထိုရှေးဟောင်း ရာဇဝင်ကျမ်းတို့သည် အကြောင်းအမျိုးမျိုးတို့ကြောင့် တစောင်နှင့်တစောင် မညီညွတ်ဘဲ ကွဲလွဲနေသောကြောင့် ညောင်ရမ်းမင်းဆက် တနင်္ဂနွေမင်းလက်ထက် မြန်မာ သက္ကရာဇ် ၁၀၇၆ – ၁၀၉၅ ခုတွင် စဉ့်ကိုင်ရွာနေ သဒွေး ဒေဝသေဋ္ဌ နှင့် သဒွေးကတော် မဏိဩဇာတို့၏သား ဦးကုလားသည် ရှိပြီးရာဇဝင် အသီးအသီးတို့ကို ပေါင်းစည်းပြီးလျှင် မဟာရာဇဝင်ကြီး၊ ရာဇဝင်လတ်နှင့် ရာဇဝင်ချုပ်တို့ကို ပြုစုစီရင်ခဲ့လေသည်။ (ကုလား၊ ဦး — ရှု။)

တဖန် ကုန်းဘောင်ခေတ်သို့ ရောက်သောအခါ ဘိုးတော်ဘုရားလက်ထက်တွင် တွင်းသင်းမင်းကြီး မဟာစည်သူသည် အနယ်နယ်အရပ်ရပ်မှ စုဆောင်းရရှိလာသော ကျောက်စာများနှင့် ညှိနှိုင်း၍ ရာဇဝင်သစ်ကျမ်းတစောင်ကို စီရင်ပြုစုခဲ့ပြန်လေသည်။

ထိုနောက် တဖန် ဘကြီးတော်ဘုရား လက်ထက်သို့ရောက်သောအခါ "လောကမာရ်အောင် စေတီတော် ဒါယကာ တနင်္ဂနွေမင်းလက်ထက် စဉ့်ကိုင်သဌေးသား ကေလား ရေးသည့် ရာဇဝင်ကြီးဟောင်းသည် ကျမ်းဂန်ပါဠိ၊ စာတမ်း၊ စာဟောင်း၊ ကျောက်စာ၊ ရတု၊ ရကန်၊ ဧချင်း၊ မော်ကွန်း၊ သမိုင်းများနှင့် မညီမညွတ်သည်ကို သက္ကရာဇ် ၁၁၈၁ ခု၊ နယုန်လဆန်း ၁ ရက်နေ့က စ၍ ရဟန်းပညာရှိ၊ လူပညာရှိ၊ ပုဏ္ဏားပညာရှိတို့ကို စည်းဝေးစေပြီးလျှင်၊ ဘဝရှင် မင်းတရားကြီးကိုယ်တော်တိုင် မှန်နန်းတော်ဦး နန်းမ စနုဆောင်တော်တွင် ကျမ်းဂန်ပါဠိအထွက်အရှိ၊ ကျောက်စာ စာတမ်းစာဟောင်း၊ ရတု၊ ရကန်၊ ဧချင်း၊ မော်ကွန်း၊ သမိုင်းများနှင့် ညီညွတ်သုတ်သင်စီရင်တော်မူသည်။ မှန်နန်းတော် မဟာရာဇဝင်တော် ထုပ်ရေ ငါး၊ တွဲရေ သုံးဆဲ့ရှစ်တွဲများကို စီကုံးရေးသား၍၊ သုံးနှစ်ကျော် လေးနှစ်လောက်မှ ပြီးသောဟူ၏။" ဟူ၍ သက္ကရာဇ် ၁၂၂၉ ခုနှစ် တော်သလင်း လဆန်း ၅ ရက်နေ့ကစ၍ မင်းတုန်းမင်း အမိန့်အရ ပညာရှိများ ဆက်လက်ပြုစုသည့် ဒုတိယ မဟာရာဇဝင်တော် စတုတ္ထတွဲတွင် ဖော်ပြထားသည်ကို တွေ့ရလေသည်။

ဘကြီးတော် ဘုရားသည် ထိုမှန်နန်း မဟာရာဇဝင်တော်ကြီးကို ပြုစုရန်အတွက် ပညာရှိတို့ ပါဝင်သော အဖွဲ့အစည်းကို ဖွဲ့စည်းပေးတော်မူ၍ အသီးအသီး တာဝန်ချမှတ်ခဲ့လေသည်။ ရာဇဝင်ကျမ်းပြုစုသည့် အဖွဲ့တွင်(၁)မုံရွေး ဇေတဝန်ဆရာတော်၊ (၂) သော်ကပင် ဆရာတော်၊ (၃) ချည်ပါတောင်ရွာ မြောက်ရွာစား မင်းတိုင်ပင်အမတ်ကြီး မဟာဓမ္မသင်္ကြံ၊ (၄) မြင်းစုဝန်ကြီး ဦးရောက်၊ (၅) သံတော်ဆင့် ဦးချိန်၊ (၆) စာရေးတော်ကြီး ဦးဖျော်၊ (၇) ဘိသိက်တော်ဆက် ပုဏ္ဏား ဇယဒေဝ၊ (၈) ဘိသိက်တော်ဆက် ပုဏ္ဏား ကုမုန္ဒြ၊ (၉) ဗြဲတိုက်သံဆင့် မောင်ရွှဲ၊ (၁၀)စာရေး မောင်လူကြီး၊ (၁၁) စာရေး မောင်အောင်သာ၊ (၁၂) အတွင်းဝန် ဆောမြို့စား မင်းကြီး သီရိ မဟာနန္ဒသင်္ကြံ၊ (၁၃) စဉ့်ကူးမြို့စား အတွင်းဝန်၊ အသည်ဝန်တို့ဖြစ်သော ရဟန်းပညာရှိ၊ မှူးမတ်ပညာရှိ၊ ပုဏ္ဏားပညာရှိတို့ ပါဝင်ကြလေသည်။

ထိုပညာရှင်အဖွဲ့ ရေးသားသော ရာဇဝင်ကျမ်းတွင် အလောင်း မင်းတရားကြီး နန်းတက်သည်အထိ ဖြစ်သော အပိုင်းကို "မဟာရာဇဝင်တော်ကြီး"၊ သို့မဟုတ် "မှန်နန်း မဟာရာဇဝင်တော်ကြီး"ဟု ခေါ်၍၊ ကုန်းဘောင်ခေတ် အပိုင်းကို "ဒုတိယ မဟာရာဇဝင်တော်ကြီး"၊ သို့မဟုတ် "ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး" ဟု ခေါ်လေသည်။ ထိုပဌမအဖွဲ့ ပြုစုသော မှန်နန်းမဟာရာဇဝင်တော်ကြီးကျမ်းမှာ ဘိုးတော်ဘုရား နတ်ရွာစံပြီးနောက် နှစ်နှစ် (မြန်မာ ၁၁၇၃ ခု၊ ခရစ် ၁၈၁၂ ခု) အထိ ရောက်ခဲ့လေသည်။

ကျန်ရှိသော အပိုင်းကိုမူကား မင်းတုန်း မင်းတရား လက်ထက် ၁၂၂၉ ခုနှစ် (ခရစ် ၁၈၆၇ ခုနှစ်) သို့ ရောက်မှ ဆက်လက်ရေးသားခဲ့လေသည်။ ထိုရာဇဝင်ကျမ်းပြု ဒုတိယ အဖွဲ့တွင် ပါဝင်သော ပညာရှိ လူပုဂ္ဂိုလ်တို့မှာ (၁) ကန်နီအတွင်းဝန် မင်းကြီး မဟာ မင်းခေါင် သခ်ယာ၊ (၂) အရှင် နန်းမတော် ဖုရားဝန် မိုင်းခိုင်း မြို့စား၊ ပိဋကတ်တော်အုပ် မဟာသီရိဇေယသူ၊ (၃) အိမ်ရှေ့အတွင်းဝန် မဟာ မင်းလှ သခ်ယာ၊ (၄) စာရေးကြီး မင်းလှဇေယသူ၊ (၅) စာရေးတော်ခေါင်း နေမျိုး စည်သူ ရာဇာတို့ ဖြစ်လေသည်။

ဒုတိယမဟာရာဇဝင်တော်ကြီးကို မှန်နန်းတော်ရှေ့ ဇေတဝန်ဆောင်တွင် ရဟန်းပညာရှိ၊ ပုဏ္ဏားပညာရှိ၊ မှူးမတ်ပညာရှိတို့နှင့်ညှိနှိုင်းတိုင်ပင်ပြီးလျှင် အသင့်ယုတ္တိရှိရာ ကျောက်စာ၊ စာတမ်း၊ စာဟောင်း၊ မော်ကွန်း၊ အမိန့်တော် နေ့စဉ်မှတ်တမ်းတို့နှင့် အညီ ဆက်လက် ရေးသားခဲ့လေသည်။ ထိုဒုတိယမဟာရာဇဝင်တော်ကြီးတွင် သက္ကရာဇ် ၁၁၇၃ ခုနှစ် နတ်တော်လ မဇ္ဈိမဒေသ မဟာဗောဓိပင်၊ အထူးထူးသော အတင်တော်၊ အလှူတော်များနှင့်တကွ စေလွှတ်တင်လှူသည့် အခန်းကစ၍၊ သက္ကရာဇ် ၁၂၁၆ ခုနှစ်(ခရစ် ၁၈၅၄ ခု) ဥက္ကင်တော်ဖွင့် အခန်းတိုင် ပဌမထုပ် တွဲရေ ၇။ ဒုတိယထုပ် တွဲရေ ၃။ ၂ စု တွဲရေ ၁၀။ အင်္ဂါ ၂၆ အင်္ဂါကျော်ရှိသည်ဟု ပိဋကတ်သမိုင်းစာတမ်း၌ ဖော်ပြထားလေသည်။

ဤသို့အားဖြင့် မင်းတုန်း မင်းတရားလက်ထက် သက္ကရာဇ် ၁၂၁၆ ခုနှစ် အထိသာ ပြီးလေရာ၊ မင်းရဲသီဟ ဘွဲ့ခံ မြင်းမှူး မင်းသားကြီး၏သား၊ အငြိမ်းရိက္ခာတော်ရ ဝန်ထောက်၊ ကျက်သရေဆောင် ရွှေစလွယ်ရမင်း၊ အမှုထမ်းကောင်း တံဆိပ်ရမင်းဘွဲ့များကိုရရှိသူ ဦးမောင်မောင်တင်သည် အင်္ဂလိပ်အစိုးရမင်းတို့ လက်ထက် အမှုထမ်းရွက်နေစဉ် ၁၂၆၇ ခုနှစ်ကစ၍ စုဆောင်း ရှာဖွေ ဆက်လက်ရေးသားခဲ့၍၊ ၁၂၈၄ ခုနှစ်တွင် အငြိမ်းစားနေထိုင်စဉ် ချွတ်ယွင်း ပြင်ဆင် ရေးသားအောင်မြင်သဖြင့် သီပေါမင်း နတ်ရွာစံသည်အထိ ပြီးမြောက်လေသည်။

ပိဋကတ်သမိုင်း စာတမ်း၊ ရာဇဝင် စာရင်းတွင် ငါးဆူ ဒါယကာမင်း အမှာပုံ၊ ဟံသာဝတီပါမင်း အမှာပုံ၊ စလင်းမင်းသားကြီး မောင်အိုနှင့် အကြီးတော် မောင်ရေးတို့ စီရင်သော ရာဇဝံသ ဒီပကာ၊ စက္ကိန္ဒာဘိ သီရိ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု ညောင်ကန်ဆရာတော် ဦးပုတ် စီရင်သော မဇ္ဈိမဒေသ သီဟဠဒီပ မြန်မာရာဇဝင်ချုပ်၊ ဟံသာဝတီ ဆင်ဖြူများရှင် လက်ထက်၊ ဝန်ကြီး ဗညားဒလ စီရင်သော ရာဇာဓိရာဇ်အရေးပုံ၊ အမည်မသိဆရာ စီရင်သော ဟံသာဝတီ ဆင်ဖြူများရှင် အရေးပုံ၊ အလောင်းမင်းတရားကြီး လက်ထက် သံတော်ဆင့် လက်ဝဲ နော်ရထာ စီရင်သော အလောင်းမင်းတရားကြီး အရေးပုံ၊ အလုံမြို့ အထက်တိုက်

မောင်းထောင်ရွာ ဇာတိ၊ တွင်းသင်းတိုက်ဝန်မင်းကြီး မဟာစည်သူ စီရင်သော အလောင်းမင်းတရားကြီး အရေးပုံ၊ အမည်မသိဆရာ စီရင်သော ဓမ္မစေတီအဋ္ဌုပ္ပတ္တိ စာတမ်း၊ မဟာပညာကျော် လျှောက်ထုံးနှင့် ရာဇဝင်ချုပ်၊ ဒုတိယ ကြေးနီကျောင်းနေ ကျော်အောင်စံထား ဆရာတော် စီရင်သော ဝံသဒီပနီ၊ ညောင်ကန် ဆရာတော် ကဝိန္ဒာဘိ သိရိ သဒ္ဓမ္မ ရာဇာဓိရာဇဂုရု စီရင်သော ဝံသမာလာကျမ်း၊ မုံရွေးဆရာတော် စီရင်သော သာသနဝံသ ဒီပနီ ကျမ်းနှင့် ရာဇဝင် သံပေါက်၊ ပိဋကတ် တိုက်စိုး၊ ချောင်းဦး ဆယ်ရွာစား ရမ္မသိရိ ကျော်ထင် စီရင်သော သာသနဝံသကျမ်း၊ တရားသူကြီး မြင်းခုံတိုင် မြို့စား၊ မင်းကြီး အတုလ မဟာ ဓမ္မိက ရာဇာ စီရင်သော ရာဇဝင် သံပေါက်၊ အတွင်းဝန် နေမျိုး သီဟသူ စီရင်သော အမရပူရမြို့သမိုင်း၊ ရဟန်းတော် ရှင်သဒ္ဓမ္မာလင်္ကာရ စီရင်သော မဏိရတနာပုံ အစရှိသော ရာဇဝင် ကျမ်းပေါင်း ၄၀ စာရင်းကို ဖော်ပြထားလေသည်။

ခေတ် အပြောင်းအလဲ၊ ယဉ်ကျေးမှု အပြောင်းအလဲ ရှိလာသည်နှင့် အမျှ ရာဇဝင်ဆိုင်ရာ အယူအဆတို့သည်လည်း ပြောင်းလဲခဲ့လေသည်။ ရှေးအခါက ဘုရင်ကြီးစိုးခဲ့၍ ရာဇဝင်မှာ မင်းတို့၏ အကြောင်းကို မူတည် ရေးရသောကြောင့် ရာဇဝံသ အမည်ပေးခဲ့ကြလေသည်။ ယခုခေတ်၌ မူကား ဘုရင်များ၊ နိုင်ငံကို အုပ်စိုးသူများ အကြောင်းထက် နိုင်ငံတွင်းနေ လူစု၏ အကြောင်းကို အဓိက ထား၍ ရေးသားဖော်ထုတ်ရန် လိုလားလာကြလေသည်။ သို့ဖြစ်၍ ရာဇဝင်ဟူသော ဝေါဟာရအစား နိုင်ငံသမိုင်း၊ လူ့သမိုင်း စသည်ဖြင့် လဲပြောင်း ခေါ်လာကြခြင်း ဖြစ်လေသည်။

မြန်မာနိုင်ငံသည် လွတ်လပ်သော ပြည်ထောင်စု ခေတ်သို့ ရောက်လာသောအခါ၌ ခေတ်အလျောက် အမှန်ကန်ဆုံးနှင့် အပြည့်စုံဆုံးဖြစ်သော ပြည်ထောင်စု နိုင်ငံသမိုင်းကို ကျယ်ပြန့် ပြည့်စုံစွာ ရေးသားရန် လိုအပ်သဖြင့် နိုင်ငံတော်အစိုးရသည် ၁၉၅၅ ခုနှစ် ဇန္နဝါရီလ ၂၆ ရက်နေ့တွင် မြန်မာနိုင်ငံသမိုင်း ကော်မရှင်အဖွဲ့ကို ဖွဲ့စည်းခဲ့လေသည်။ (မြန်မာနိုင်ငံ သမိုင်းကော်မရှင် — ရှု။) ကွယ်လွန်သူ ပညာမင်းကြီး စည်သူ ဦးကောင်းကိုလည်း ထိုသမိုင်းကော်မရှင်အဖွဲ့တွင် ဥက္ကဋ္ဌအဖြစ် ခန့်အပ်လေသည်။ ထို့နောက် ယူနီဗာစီတီကောလိပ် ကျောင်းအုပ်ဟောင်း ဦးဖေမောင်တင်နှင့် ပါမောက္ခ ဒေါက်တာကျော်သက်တို့က ဥက္ကဋ္ဌအဖြစ် ဆက်လက် ဆောင်ရွက်လျက် ရှိလေသည်။

မြန်မာနိုင်ငံ သမိုင်းကော်မရှင် အဖွဲ့ ဆောင်ရွက်ရမည့် တာဝန်မှာ ရှိပြီးရာဇဝင်၏ အဆက်ကို ဆက်လက် ရေးသားရန်မဟုတ်ချေ။ လူတို့ အသိဉာဏ်မှီလောက်သည့် ကာလမှ ယနေ့တိုင်ဖြစ်သော မြန်မာနိုင်ငံ၏ သမိုင်း အစစ်အမှန်ကို ရေးသားရန် ဖြစ်လေသည်။ တာဝန်မှာ ကျယ်ပြန့်သဖြင့် လုပ်ငန်း စေ့စပ် သေချာစွာ ပြီးမြောက်နိုင်ရေးအတွက် ဆပ်ကော်မရှင် ခေါ် ကော်မရှင်အဖွဲ့ခွဲများကို ဖွဲ့စည်းပြီးလျှင် အပြင်ပမှ ပညာရှင်တို့ကို မေတ္တာရပ်ခံ၍ ကော်မရှင် အဖွဲ့ခွဲများတွင် ပူးပေါင်း ကူညီဆောင်ရွက်မှုကို ရယူလျက် ရှိနေလေသည်။

ထိုကော်မရှင် အဖွဲ့ခွဲများကို သမိုင်းခေတ်အလိုက် ခွဲခြား သတ်မှတ်ထားရာ၊ အစောဆုံး ကာလမှ ခရစ် ၁၃၀၀ ခုနှစ်ထိ (ကျောက်ခေတ်မှ ပုဂံခေတ် ကုန်သည်အထိ) ကာလကို ကော်မရှင် အဖွဲ့ခွဲ (က) အတွက်ငှင်း၊ ၁၃၀၀ ခုနှစ်မှ ၁၇၅၂ ခုနှစ် ကုန်းဘောင်ခေတ် စသည် အထိ ကာလကို ကော်မရှင်အဖွဲ့ခွဲ (ခ) အတွက်ငှင်း၊ ၁၇၅၂ ခုနှစ်မှ မြန်မာနိုင်ငံ ဗြိတိသျှ ပဒေသရာဇ်ချုပ်ကိုင်ခြင်းဖြစ်သော ၁၈၂၄ ခုနှစ်အထိကို ကော်မရှင် အဖွဲ့ခွဲ (ဂ) အတွက်ငှင်း၊ ဗြိတိသျှတို့ ကြီးစိုးသောခေတ်ကို ကော်မရှင် အဖွဲ့ခွဲ (ဃ) အတွက်ငှင်း အသီးအသီး ခွဲခြား သတ်မှတ်ထားလေသည်။

တဖန် ကော်မရှင် အဖွဲ့ခွဲ (က) ကို အရှေ့တိုင်းနှင့် မြန်မာနိုင်ငံသမိုင်း အထူးပါမောက္ခ ဒေါက်တာ ဂျီ၊ အိပ်ချ်၊ လုစ ကငှင်း၊ ကော်မရှင် အဖွဲ့ခွဲ (ခ) ကို ဇေယျကျော်ထင် ဗိုလ်မှူးဘရှင်ကငှင်း၊ ကော်မရှင်အဖွဲ့ခွဲ (ဂ) ကို အရှေ့တိုင်းနှင့် မြန်မာနိုင်ငံ သမိုင်းဌာန ပါမောက္ခ ဒေါက်တာ ကျော်သက်ကငှင်း၊ ကော်မရှင်အဖွဲ့ခွဲ (ဃ) ကို နိုင်ငံသမိုင်းဌာန ပါမောက္ခ ဦးဘညွန့်ကငှင်း၊ ကော်မရှင်အဖွဲ့ခွဲ (င) ကို အင်္ဂလိပ်စာဌာန ပါမောက္ခ သိရိပျံချီ ဦးမျိုးမင်းကငှင်း သမိုင်းဆိုင်ရာ အထောက်အထား စုဆောင်းမှုနှင့် သုတေသန ပြုမှုတို့ကို ဆောင်ရွက်လျက် ရှိကြလေသည်။ ကော်မရှင် အဖွဲ့ခွဲ (င) သည် မော်ကွန်းထိန်း တာဝန်ကိုလည်း ယူရသည်။

နိုင်ငံသမိုင်းကော်မရှင်အဖွဲ့သည် မြန်မာနိုင်ငံနှင့်စပ်လျဉ်း၍ ရှေးအကျဆုံးကာလမှ ယခုတိုင် ရေးထိုး၊ ရေးသား ထုတ်ဝေလျက်ရှိသည့် ရနိုင်သမျှသော ကျောက်စာ၊ စာအုပ် စာတမ်း၊ မှတ်တမ်း၊ ဓာတ်ပုံ၊ ပန်းချီကား စသည်တို့ကို စုဆောင်း၍ သုတေသန လုပ်ငန်းအတွက် အားကိုးနိုင်သည့် ပိဋကတ်တိုက်နှင့် မော်ကွန်းတိုက်ကို စတင် တည်မိခဲ့လေပြီ။ နိုင်ငံတွင်းနှင့် နိုင်ငံပမှ ပညာရှင် အပေါင်းတို့က ယုံကြည်စိတ်ချစွာ အထောက်အထား ပြုနိုင်မည့် မြန်မာနိုင်ငံသမိုင်း ကျမ်းကြီး ထွက်ပေါ် ရေးအတွက်ကိုလည်း အခြေချမိပြီ ဖြစ်လေသည်။

**မြန်မာ ရက်ကန်း ပညာ။** ။လွန်ခဲ့ပြီးသော နှစ်ပေါင်း ၁၀၀၀ ကျော်ခေတ်က ရှေးမြန်မာများ ရက်လုပ်သော အထည် အဝတ်များ၏ အကြောင်းကို ဂျီ၊ အီ၊ ဟာဗေး၏ မြန်မာနိုင်ငံသမိုင်းတွင် အောက်ပါအတိုင်း ရေးသား ဖော်ပြထားပေသည်။

"မြန်မာ ဘုရင်၏ တိုင်းပြည်တွင် တွေ့ရှိရသော အထည်အဝတ်မျိုးကို အခြား အရပ်ဒေသများတွင် မတွေ့ရချေ။ ထိုအထည်သည် အလွန်ပါးလှပ် ချောမွတ်သောကြောင့် ယင်းဖြင့် ချုပ်လုပ်ထားသော အင်္ကျီကို လက်စွပ်ကွင်းထဲသို့ ပင် ထည့်သွင်း နိုင်လေသည်။ ထိုအထည်ကို ဝါဂွမ်းဖြင့် ရက်လုပ်ထား၏။ ကျွန်ုပ်တို့ကိုယ်တိုင် ထိုအထည်မျိုးကို တွေ့ရဘူးလေသည်။"

ရှေးအခါကပင် မြန်မာလူမျိုးများသည် နူးညံ့သိမ်မွေ့ ချောမွတ်လှပတင့်တယ်သော အထည်အဝတ်များကို ခေတ်အား လျော်စွာ ဝတ်ဆင်သုံးစွဲလေ့ ရှိကြကြောင်းကို သမိုင်းက ထောက်ခံထား၏။

အိန္ဒိယ နိုင်ငံမှ နှစ်ပေါင်း များစွာက ထိုကဲ့သို့ ထွက်ရှိသော ခြည်ထည်ချောများကို အနောက် နိုင်ငံများရှိ ပြတိုက်ကြီးများ၌ ယခုတိုင်တွေ့ရှိနိုင်သောကြောင့် ဟာဗေး၏ မြန်မာနိုင်ငံသမိုင်းတွင် ဖော်ပြသော ရှေးမြန်မာလုပ် ခြည်ထည်ချော၏ အကြောင်းသည် မှန်ကန်သော အကြောင်းဖြစ်သည် ဟု ယူဆရပေမည်။ ထို့ပြင် သီရိဓမ္မာသောကမင်းကြီး၏ လက်ထက်၌ အတိုင်းတိုင်း အပြည်ပြည်တို့တွင် ရှင်တော်မြတ်ဘုရား၏ တရားကို ပျံ့နှံ့စေရန် ရဟန်းတော်များသည် သာသနာပြုကြစဉ် အခါက နိဗ္ဗာန်သို့ ရောက်ရာရောက်ကြောင်း ဖြစ်စေသော လောကုတ္တရာ တရားများနှင့် တွဲဖက်လျက် လူတို့ သုံးဆောင်သည့် ဝတ္ထုပစ္စည်း အမျိုးမျိုး လုပ်ကိုင်သော နည်းနာနိသျှများကိုပါ လူအများအား သင်ကြားကြသည် ဟု အိန္ဒိယနိုင်ငံ သမိုင်းများတွင် ဖော်ပြထားလေသည်။

ထိုအကြောင်းများကို ထောက်ရှုခြင်းအားဖြင့် ဝါဂွမ်းစိုက်ပျိုးသော လုပ်ငန်းနှင့် တကွ အထည်ချော ရက်လုပ်သော အတတ်ကို ဗုဒ္ဓသာသနာတော်နှင့် အတူ အိန္ဒိယနိုင်ငံမှ မြန်မာနိုင်ငံသို့ ရောက်ရှိလာသည် ဟု ယူဆရပေမည်။ ထိုကဲ့သို့ ယဉ်ကျေးမှုများ ဖြစ်ပေါ်လာသည့် အချိန်မှ စ၍ မြန်မာ အိမ်တိုင်း၌လိုပင် ဝါ(ဂွမ်း) ပင်နှင့် အတူ မဲပင်၊ နီပါးဆေးပင်၊ သီတင်းပင်များကို စိုက်ပျိုးကြပြီးလျှင်၊ မြန်မာ အိမ်ရှင်မများသည် ဝါကြိတ်ခြင်း၊ ဝါဖန်ခြင်း၊ ဗိုင်းလိပ်ခြင်း၊ ဗိုင်းငင်ခြင်း၊ ဆေးရောင်စုံ ဆိုးခြင်း၊ ရက်ကန်း ရက်ခြင်း စသော အိမ်တွင်းလုပ်ငန်းများကို လုပ်ကိုင်လေ့ ရှိကြပေသည်။ ထို့ကြောင့် မိန်းမများသည် ရက်ကန်းမတတ်လျှင် အကျိုးနှင့် တူသည်၊ ယောကျ်ားများသည် စာမတတ်လျှင် အကန်းနှင့်တူသည် ဟူသော ရှေးစကားဟောင်း တခုကိုပင် ကြည့်ခြင်းအားဖြင့် ရှေးမြန်မာဘုရင်များသည် လက်မှု လုပ်ငန်းများနှင့် တကွ ယဉ်ကျေးသိမ်မွေ့မှု ဖြစ်စေသော ပညာ သင်ကြားရေးကို ခေတ်အားလျော်စွာ အားပေးချီးမြှင့်ခဲ့ကြောင်း ထင်ရှားစွာ သိနိုင်ပေသည်။

လက်မှု လုပ်ငန်းများ တိုးတက်မှုနှင့် စိတ်ယဉ်ကျေးမှု ဖြစ်စေသော စာပေပညာ တတ်ကျွမ်းခြင်းတို့သည် တခုနှင့်တခု အမှီသဟဲ ပြုလေ့ရှိပေသည်။ ထိုအကြောင်းရင်းခံကြီး နှစ်ခုကိုပင် ရှေးဘုရင်များ၏ အားပေးမှုကြောင့် ဝါ (ဂွမ်း) စိုက်ပျိုးခြင်း၊ ဗိုင်းငင်ခြင်းနှင့် အထည်ရက်လုပ်ခြင်း စသော လက်မှု လုပ်ငန်းများသည် အထက်တန်း ကျရောက်ကြသည့် အလျောက် တိုင်းသူ ပြည်သား လူအများ၏ စိတ်နေ စိတ်ထားများသည်လည်း အလွန် နူးညံ့ သိမ်မွေ့ ယဉ်ကျေးကြသော အခြေအနေသို့ ရောက်ရှိခဲ့ကြသည်။ ထိုအချိန် ထိုအခါက မြန်မာတိုင်းလိုပင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ နိပါတ်၊ ပျို့ ကဗျာ၊ လင်္ကာ၊ ဗေဒင်စသော စာပေများကို ဆည်းပူးလေ့ရှိကြပေသည်။

နှစ်ပေါင်း ၇၀၀ ကျော်က စိုးမိုးအုပ်ချုပ်ခဲ့သော ကျစွာမင်းကြီးသည် ပိဋကတ်သုံးပုံကို အာဂုံဆောင်နိုင်လျက် သာသနာရေးဆိုင်ရာ ကျမ်းဂန်များကို ရေးသားခဲ့သည့် အပြင်၊ ထိုမင်း၏ သမီးတော် သံပျင်မင်းသမီးသည်လည်း ပိဋကတ်သုံးပုံကို ကောင်းစွာတတ်ကျွမ်းကာ ရဟန်းတော်များကိုပင်လျှင် စာပေပို့ချခဲ့သည်ဟု နိုင်ငံသမိုင်းများတွင် တွေ့ရသည်။ ထိုအကြောင်းများကို ကြည့်ခြင်းအားဖြင့် ရှေးဘုရင်များသည် ပညာသင်ကြားရေးကို အထူးအားပေးသည် ဟု သိနိုင်သည်။ ထိုကဲ့သို့ စိတ်နေစိတ်ထား ယဉ်ကျေးမှု ဖြစ်စေသော အထက်တန်းပညာ အခြေခံရှိကြသည့် အလျောက် ယောကျ်ားများက လယ်ယာကိုင်းကျွန်းမှစ၍ လူသုံးပစ္စည်း အမျိုးမျိုးရရှိရန်နှင့် အိမ်ရှင်မများက ဝါကြိတ်ခြင်း၊ ဝါဖန်ခြင်း၊ ဗိုင်းလိပ်ခြင်း၊ ရက်ကန်းရက်ခြင်း၊ ဆေးရောင်စုံ ဆိုးခြင်း၊ ဆန်ဖွပ်ခြင်း၊ အိမ်ထောင်ထိန်းသိမ်းခြင်း စသော အိမ်တွင်း လုပ်ငန်းများကို လုပ်ကိုင်ကြလေသည်။ ထိုသို့ လုပ်ငန်းအဝဝကို ဆောင်ရွက်နေခိုက်တွင်ပင်လျှင် အနိစ္စ၊ ဒုက္ခ၊ အနတ္တ တည်းဟူသော ဝိပဿနာ တရားများကို ပွားများလျက် အလုပ် လုပ်လေ့လုပ်ထ ရှိကြပေသည်။ အထည် ရက်လုပ်သော လုပ်ငန်းသည် အာရုံစူးစိုက်၍ မျက်ခြည်မပြတ် လုပ်ရသော လက်မှုလုပ်ငန်း ဖြစ်သဖြင့် သမာဓိတရားကို ရစေရန် အားပေးသော လုပ်ငန်းတခုဟု ဆိုရပေမည်။ တဖန် အလွန်နူးညံ့ ချောမွေ့ သေးယဉ်လှသော ခြည်မျှင် အပင်ပေါင်း များစွာတို့ကို တချပြီးတခု ကျနစွာ စီစဉ်စုပေါင်း၍၊ တဖြည်းဖြည်း အထည်အဖြစ်သို့ ရောက်အောင် လုပ်ရသောကြောင့် လက်ပစ်တတ္တက်တွင် ကုဋေတသိန်းမျှ တဖွားဖွား ဖြစ်ပျက်လျက်နေသော ရုပ်နာမ်တို့၏ ခယ ဝယ သဘော တရားများကိုပင်လျှင် ထင်မြင်စေနိုင်ရန် အကြောင်းတခု ဖြစ်ပေသည်။

ထိုအချိန် ထိုအခါက ရဟန်း သံဃာတော်များသည် ၂၂၇ ပါးသော သိက္ခာပုဒ်များကို ထိန်းသိမ်းလျက် ဆင်းရဲ ချမ်း



လွန်းပျံရက်ကန်းစင်တွင် စံနစ်တကျ ရက်လုပ်နည်းကို နည်းပြဆရာမကိုယ်တိုင် လက်တွေ့ သင်ပြပေးစဉ်

သာ မင်းမျိုးမင်းနွယ် မရွေး လူအများအား ပညာအမျိုးမျိုး သင်ပေးကြ၏။ တိုင်းပြည်ကို စိုးမိုးအုပ်ချုပ်သော မင်းစိုးရာဇာ အမှုထမ်း အရာထမ်းများကလည်း အဂတိ လေးပါး လိုက်စားခြင်း မရှိဘဲ မင်းကျင့်တရားဆယ်ပါး၊ နာယကဂုဏ် ခြောက်ပါးတို့ကို ထိပ်ဝယ် ထား၍ တိုင်းပြည်ကို စီမံအုပ်ချုပ်ကြ၏။ တိုင်းသူ ပြည်သားများကလည်း သမ္မာဒိဋ္ဌိတရား၊ ဗြဟ္မစိုရ်တရား၊ ဝိပဿနာ တရားများနှင့် မွေ့မြုံကြလျက်၊ မိမိတို့ ဆိုင်ရာလူသုံးပစ္စည်းများရရှိရေးအတွက် လုပ်ငန်းဆောင်တာများကို တဦးနှင့်တဦး ညှဉ်းပန်းနှိပ်စက်ကလူ မပြုကြဘဲ ညီညာဖြဖြ မိသားစုကြီးသဖွယ် ဂရုတစိုက် အားကြိုးမာန်တက် လုပ်ကိုင်ကြ၏။ ထိုသို့ ကိုယ့်တာဝန် ကိုယ်ထမ်းခြင်းအားဖြင့် ယဉ်ကျေးမှုတွင် အထက်တန်းကျခဲ့သော ရှေးမြန်မာနိုင်ငံကြီးကို တည်ထောင်ခဲ့ကြပေသည်။

ထိုယဉ်ကျေးမှု၏ ယခုတိုင် ထင်ရှားစွာရှိသော သက်သေသာဓကများမှာ ရန်ကုန်မြို့ရှိ ရွှေတိဂုံစေတီတော်ကြီးနှင့် အခြား စေတီတော်များ၊ လှည်းဝင်ရိုးသံ တည်ညံ့(၄,၄၄၆, ၇၃၃) မျှ ရှိသော ပုဂံမြို့၏စေတီပုထိုးများ၊ အမြို့မြို့အရွာရွာတွင် အနှံ့အပြားရှိသော စေတီ ပုထိုး သိမ် ကျောင်း ဇရပ် ရေတွင်း ရေကန်များ ဖြစ်ပေသည်။

ထိုအခါက အိမ်သားတစုတို့သည် လူသုံးပစ္စည်းများ ရရှိရန် လုပ်ကိုင်အပ်သော လက်မှုလုပ်ငန်းများကို ယောကျ်ားမိန်းမ မရွေး လုံ့လဉဿဟ စိုက်ထုတ်လျက် လုပ်လေ့ လုပ်ထရှိခဲ့ကြသောကြောင့် မိမိတို့၏ စားရေး ဝတ်ရေး နေထိုင်ရေးများအတွက် လုံလောက်ရုံမျှမက လူသုံးပစ္စည်းများမှာ ပိုလျှံကြသဖြင့် ရပ်ဆွေရပ်မျိုး ရဟန်းသံဃာ ဆရာသမားများနှင့် လူကြီး မိဘတို့အား စေတနာသဒ္ဓါ ဖြူစင် ထက်သန်စွာနှင့် ထောက်ပံ့ သင်္ဂြိုဟ် ပူဇော်သက္ကာရ ပြုကြခြင်းတည်းဟူသော ကောင်းမှုကုသိုလ် ဒါနတို့ကို အစဉ်မပြတ် ပြုလုပ်နိုင်ခဲ့ကြပေသည်။ ထိုမျှမက တိုင်းပြည်ကို စီမံအုပ်ချုပ်မင်းလုပ်သော ရှင်ဘုရင်နှင့်တကွ မင်းမှုထမ်းများကို စရိတ်ထောက်ပံ့ရန် အတွက် အချိုးကျ အခွန်တော်များကိုလည်း ပေးဆောင် နိုင်ခဲ့ကြပေသည်။ ဤနည်းအားဖြင့် ရှေးမြန်မာများသည် ကာယသုခ စိတ္တသုခ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာဖြင့် နေထိုင်လာခဲ့ကြရသော အချိန်သည် နှစ်ပေါင်းများစွာ ကြာရှည်ခဲ့ပေသည်။ သို့ဖြစ်ခြင်းကြောင့် ရှေးမြန်မာများ၏ စိတ်နေစိတ်ထား ယဉ်ကျေးမှုများသည် အထက်တန်း ကျသည်နှင့် အညီ ဝါ (ဂွမ်း) စိုက်ပျိုးခြင်း၊ ဗိုင်းငင်ခြင်း၊ ရက်ကန်း ရက်ခြင်း စသည့် လုပ်ငန်းများသည်လည်း

ရှေးအခါက မြန်မာနိုင်ငံတွင် အထက်တန်း ကျခဲ့ဘူးပေသည် ဟု ဆိုရပေမည်။

အထည် အဝတ်သည် လူတိုင်းလူတိုင်းတွင် မရှိလျှင် မဖြစ်သော အခြေခံ လူသုံးဝတ္ထုပစ္စည်း သုံးမျိုးအနက် တမျိုး အပါအဝင် ဖြစ်ပေသည်။ ထိုအခြေခံ ဝတ္ထုပစ္စည်း သုံးမျိုးမှာ (၁) အစာအာဟာရများ၊ (၂) အထည် အဝတ်များနှင့် (၃) နေထိုင်ရန် နေအိမ်များ ဖြစ်ပေသည်။ ထိုဝတ္ထုပစ္စည်း သုံးမျိုးကို ရရှိရန်အတွက် လူများသည် အမြဲထာဝစဉ် ရှာဖွေ စိုက်ပျိုး ပြုပြင် လုပ်ကိုင်ကြရပေသည်။

ရှေးအခါက အိမ်သားတစုတို့ နေထိုင်လျက်ရှိသော နေအိမ်များ၏ အနီးပတ်ဝန်းကျင်တွင် အိမ်သားတစုတို့ ကိုယ်တိုင် လှုံ့လထုတ်၍ စိုက်ပျိုးပြုပြင် လုပ်ကိုင်ကြသောကြောင့် မိမိတို့လိုအပ်သော ဝတ္ထုပစ္စည်း မျိုးစုံတို့ကို ပြည့်စုံ လုံလောက်စွာ ရရှိလေသည်။ အစာ အာဟာရများ ရရှိရန်အတွက် မိမိတို့၏ အိမ်နီးပတ်ဝန်းကျင်တွင် စိုက်ပျိုးကြခြင်း၊ အထည်အဝတ်ကို မိမိတို့၏ အိမ်နီးပတ်ဝန်းကျင်တွင် စိုက်ပျိုး၍ ထားသော ဝါပင်၊ မဲပင်၊ သီတင်းပင်၊ နီပါးဆေးပင် စသည့် အပင်များမှ အသီးအပွင့်တို့ကို အသုံးပြုလျက် ဖိုင်းငင်ခြင်း၊ ရက်ကန်းရက်ခြင်းအားဖြင့် အိမ်တွင်းတွင် ပြုပြင် လုပ်ကိုင်ကြ၏။ နေထိုင်ရန် နေအိမ်များ ဆောက်လုပ်ရန် အတွက် အနီးပတ်ဝန်းကျင်ရှိ သစ်ပင် ဝါးပင်တို့ကို အသုံးပြုလျက် ဆောက်လုပ်ခြင်းအားဖြင့် ကာယသုခ စိတ္တသုခ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာ နေထိုင်လေ့ ရှိခဲ့ကြပေသည်။

ဤနည်းအားဖြင့် နေထိုင်ကြစဉ် အခါက လူသုံး ဝတ္ထုပစ္စည်းအတွက် လူအများမှာ ကြောင့်ကြမှု တောင့်တမှု အလွန်နည်းပါးခဲ့ကြသည်။ စားရေး ဝတ်ရေးနှင့် နေထိုင်ရေးများအတွက် လိုအပ်သော ဝတ္ထုပစ္စည်းများမှာ လူတိုင်း၌လိုပင် ပြည့်စုံကြခြင်းကြောင့် ဝတ္ထုပစ္စည်းများကို အကြောင်းပြု၍ လူတစုက ဩဇာအာဏာ လွှမ်းမိုးပြီးလျှင် လူအများအား စေခိုင်းလုပ်ကိုင်ခြင်းအားဖြင့် တဦးနှင့်တဦး နိုင်ထက်စီးနင်း ပြုကျင့်မှုများ မရှိခဲ့ကြချေ။

မိမိတို့ ဆိုင်ရာ နေ့စဉ် လုပ်သင့် လုပ်ထိုက်သည့် အလုပ်အကိုင်များကို ကိုယ်ထိလက်ရောက် မလုပ်မကိုင်ဘဲ လူအများလုပ်ကိုင်၍ ဖြစ်ပေါ်လာသော လူသုံးဝတ္ထုပစ္စည်းများကို ခေါင်းပုံဖြတ် အညွန့်ခူး၍စားသော လူဖျင်း သူခိုးသူဝှက် ဓားပြလူဆိုးများလည်း အလွန်နည်းပါးလေသည်။ တဦးနှင့်တဦး ဂုဏ်တုဂုဏ်ပြိုင် လုပ်ကြပြီးလျှင် မနာလိုဝန်တိုမစ္ဆရိယ စိတ်များလည်း မရှိခဲ့ကြပေ။

ဘာရေး နာရေးရှိပါက ရပ်ရွာရှိ လူများက ဝိုင်းဝန်းကူညီဆောင်ရွက်လေ့ ရှိကြပေသည်။ ဥပုသ်သီတင်းနေ့များ၌ ရွာဦးရှိ ဘုန်းကြီးကျောင်းများ ယောကျ်ား မိန်းမ ကလေး လူကြီး မကျန် ဆုံစည်းကြပြီးလျှင် ငါးပါး၊ ရှစ်ပါး၊ ဆယ်ပါး အစရှိသော သီလတို့ကို ထိန်းသိမ်းလျက် ဓမ္မသဝန ဓမ္မဒေသနာ ဖြစ်ကြစေရန် တရားစကားများကို ဆွေးနွေးလေ့ရှိကြသည်။

ထို့ပြင် ထူးခြားသော ယဉ်ကျေးမှုတရပ်မှာ မိန်းမများသည် လွတ်လပ်စွာ နေထိုင် လုပ်ကိုင် စားသောက်ကြလျက် ယောကျ်ားများနှင့် တန်းတူ လူမှုရေးရာ ကိစ္စအဝဝတို့ကို တညီတညွတ် ဆောင်ရွက်ကြခြင်း ဖြစ်ပေသည်။

ရှေးအခါက လူသုံးပစ္စည်းရရှိရေးအတွက် ယခုခေတ်အခါကဲ့သို့ ဝေးလံသော အရပ်ဒေသများနှင့်သော်၎င်း၊ လူ အမြောက်အမြားနှင့်သော်၎င်း ဆက်သွယ်ရန် မလိုပေ။ ထို့ပြင် ယခုကဲ့သို့ လူသုံး ပစ္စည်းများကို ငွေနှင့် ဝယ်ယူ သုံးစွဲရန်လည်း မလိုပေ။ စုဆောင်းထားသော ငွေနှင့် လူသုံး ဝတ္ထုပစ္စည်းများကို ဝယ်ခြမ်းသိုလှောင်ပြီးလျှင် ဈေးတင်၍ရောင်းချသော အလုပ်မျိုးကိုလည်း လုပ်ရန် မလိုပေ။ ထိုကဲ့သို့ မိမိအိမ်သားတစုတို့ စားရေး ဝတ်ရေး နေထိုင်ရေးအတွက် မိမိအိမ်အတွင်းတွင် ပြည့်စုံစွာရရှိနိုင်ကြပေသောကြောင့် လူသုံးပစ္စည်းအတွက် လူတဦးနှင့်တဦး ဆက်သွယ်ခြင်းများ နည်းပါးသည့် အလျောက် ယခုခေတ် အခါကဲ့သို့ ဝတ္ထု ပစ္စည်းများကို သိုလှောင်ထားပြီးလျှင် ဝတ္ထုပစ္စည်းလိုသူများအား မလုံမလောက် မပြည့်မစုံ ဖြစ်စေခြင်းအားဖြင့် ညှဉ်းပန်းနှိပ်စက်ဘိသကဲ့သို့ မမျှမတမှုများသည်ရှေးအခါကမရှိခဲ့ကြပေ။

ထိုအကြောင်းများကြောင့် လူတဦးနှင့် တဦး ဆက်ဆံကြရာ၌ လောဘ၊ ဒေါသ၊ မောဟ တရားများ ကင်းကွာလျက် မေတ္တာ၊ ကရုဏာ၊ မုဒိတာ တည်းဟူသော တရားများကိုသာ ရှေးရှုပြီးလျှင် တဦးနှင့်တဦး သင်္ဂြိုဟ် ထောက်ပံ့ ကူညီအားပေးနိုင်ကြပေသည်။ ထိုကဲ့သို့ စိတ်နေစိတ်ထား ယဉ်ကျေးသိမ်မွေ့စွာ လူတဦးနှင့်တဦး ပေါင်းသင်းဆက်ဆံနေထိုင်ကြခြင်းကြောင့် ရောဂန္တရကပ်၊ သတ္ထန္တရကပ်၊ ဒုဗ္ဘိက္ခန္တရကပ် တည်းဟူသော ဒုက္ခဘေးဆိုး အမျိုးမျိုးနှင့် ကင်းလွတ်စွာ နေနိုင်ခဲ့ကြပေသည်။

သို့ရာတွင် ရှေးအထက်ကျော် ကာရီက ခြည်ချော ဖိုင်းငင်၍ ရသော ဝါဂွမ်း အမျိုးအစားသည် မြန်မာနိုင်ငံ၌ ယခုအခါတွင် လုံးဝ တိမ်ကော ပျောက်ကွယ်ခဲ့ပေသည်။ ယခုစိုက်ပျိုး ရရှိသော ဝါဂွမ်းများမှာ ညံ့ဖျင်းသော အမျိုးအစားများဖြစ်၍ ခြည်မျှင်ကြမ်းမျှသာ ဖိုင်းငင်၍ ရလေသည်။ ရှေးရှေးသော အခါက ထွက်ရှိသော ဝါဂွမ်းအကောင်းစားများ တိမ်ကော ပျောက်ပျက်သည်နှင့်အညီ ဖိုင်းငင်ခြင်း၊ ရက်ကန်း ရက်ခြင်း စသော လုပ်ငန်းများသည်လည်း တစထက် တစ ဆုတ်ယုတ်ခဲ့ရာ ယခု မြန်မာနိုင်ငံ၌ ထွက်ရှိသော မြန်မာ့ လက်ငင်ခြည်နှင့် ရက်လုပ်သည့် အထည်များမှာ အလွန် ထူထဲကြမ်းထမ်း၍ များစွာ အောက်တန်း ကျသော အခြေအနေသို့ ရောက်ရှိ နေပေသည်။ ထို့ပြင် ထူးခြားထင်

ရှားသော အချက်တချက်မှာ ထိုဝါဂွမ်း စိုက်ပျိုးခြင်း၊ ဗိုင်းငင်ခြင်း၊ ရက်ကန်းရက်ခြင်း စသောလက်မှုပညာများ ဆုတ်ယုတ်သည်နှင့်အညီ ဗြဟ္မစိုရ်တရား၊ သမ္မဒိတရား၊ မင်းကျင့်တရား ဆယ်ပါး၊ နာယကဂုဏ် ခြောက်ပါး စသော တရားများကို အခြေခံထား၍ တည်ထောင်ခဲ့သော ရှေးမြန်မာများ၏ ယဉ်ကျေးမှုများသည်လည်း တစထက်တစ ဆုတ်ယုတ် လာခဲ့လေသည်။

## ခေတ်သစ်ပြောင်းချိန်

၁၇၃၈ ခုနှစ်တွင် အင်္ဂလန်နိုင်ငံရှိ ဗာရီမြို့သား ဖြစ်သော ဂျွန်ကေး ဆိုသူသည် အထည်ရက်လုပ်သော ရက်ကန်း အသစ်အဆန်းကို စထွင်လုပ်ကိုင်သဖြင့် ကမ္ဘာတွင် ခေတ်သစ်ပြောင်းရန် အကြောင်းရင်းခံကြီးတခုဖြစ်ပေါ်လာပေသည်။ ဂျွန်ကေးသည်ပင်လျှင် ခေတ်ဟောင်းကို ကျော်လွန်စေ၍ ခေတ်သစ်ကို စထွင် တည်ထောင်ခဲ့သော ပါရဂူပုဂ္ဂိုလ်ကြီး ဖြစ်ပေသည်ဟု နိုင်ငံသမိုင်း ဆရာကြီးများက ချီးကျူး ထောမနာ ပြုကြလေသည်။ ထိုအချိန်ထိုအခါက ဆိုလျှင် ညောင်ရမ်းခေတ် အကုန်နှင့် အလောင်းမင်းတရား ကုန်းဘောင်ခေတ်အဝင် စပ်ကူးမကူး အချိန် ဖြစ်လေသည်။

ဂျွန်ကေး တီထွင်၍ ဆောက်လုပ်သော ရက်ကန်းစင် မပေါ်မီက ကမ္ဘာတခန်းလုံးရှိ တိုင်းပြည် အသီးအသီးတို့တွင် အသုံး ပြုနေကြသော ရက်ကန်းစင်တို့မှာ တခုနှင့်တခု မည်မည်ရရ ထူးခြားခြင်း မရှိကြပေ။ ရက်ကန်းစင် အဟောင်းများဖြင့် ရက်လုပ်ရာတွင် လွန်းကို လက်တဖက်က ကိုင်၍၊ ခြည်မျှင်ကြားတွင် ထိုးသွင်းသော အခါ အခြား လက်တဖက်ဖြင့် ထိုလွန်းကို ဖမ်းရသည်။ ထိုကဲ့သို့ လွန်းကို လက်ဖြင့် ထိုးခြင်း၊ လက်ဖြင့် ဖမ်းခြင်းပြုလုပ်ရသည့်အတွက် ရက်ကန်းရက်ရာ၌ အချိန် အလွန် နှောင့်နှေးလေသည်။ အခြား ချို့ငဲ့သော အချက်တခုမှာ လက်လှမ်းတလှမ်းထက် ကျယ်သော အထည် အနံကြီးကို မရက်လုပ်နိုင်ခြင်း ဖြစ်၏။

ထိုကဲ့သို့ နှောင့်နှေး၊ ကြန့်ကြာသော ရက်ကန်းစင်၏ သဘာဝကို ဂျွန်ကေးသည် နှစ်ပေါင်း များစွာ လက်တွေ့စမ်းသပ်ရှာဖွေခြင်းကြောင့် လွန်းကို လက်ဖြင့် ပစ်ခြင်း၊ ဖမ်းခြင်း မပြုလုပ်ရတော့ဘဲ ခလုတ်ကို ကြိုးနှင့် ဆွဲခြင်းအားဖြင့်သာ ရက်ကန်းကို ရက်၍ရနိုင်သော နည်းသစ်ကို ရရှိခြင်း ဖြစ်ပေသည်။ ထိုနည်းသစ်၏ အကျိုးအာနိသင်မှာ အထည် ရက်လုပ်ရာ၌ ရက်ကန်းအဟောင်းထက် လျင်မြန်ခြင်းနှင့် အနံကြီး အထည်များ ရက်လုပ်နိုင်ခြင်း ဖြစ်ပေသည်။

သို့ရာတွင် ခေတ်ဟောင်း ပျောက်စေ၍ သတ္တဝါ အများအကျိုး ရှိရာရှိကြောင်း ဖြစ်စေတတ်သော နည်းသစ် ဉာဏ်သစ် ခေတ်သစ်များကို စတင် တည်ထောင်သော ထူးချွန်သည့် ပုဂ္ဂိုလ်ကြီးများသည် ထိုအချိန်ထိုအခါက လူသတ္တဝါများ၏ နည်းပါးသောအသိဉာဏ်နှင့် အောက်တန်းကျသော စိတ်အားထက်သန်ခြင်းကြောင့် ချီးမွမ်းထောမနာ သြဘာပေးခြင်းများကို မခံကြရဘဲ ညှဉ်းပန်းနှိပ်စက် ဒုက္ခအမျိုးမျိုး ပေးခြင်း များကိုသာ ခံစား ကြရပေသည်။ ဂျွန်ကေး



ရက်ကန်းပညာတွင် အကျုံးဝင်သော ချားပုတ်နည်း (ယာ)၊ ရစ်နည်း (ဝဲ) စသည့် အခြေခံများမှစ၍ ကိုယ်တိုင်ကိုယ်ကျ လက်တွေ့သင်ယူကြစဉ်

သည်လည်း ထိုဖြစ်တတ်သော လောကသဘာဝကို မလွန်ဆန်နိုင်သဖြင့် မိမိရပ်ရွာရှိ ရက်ကန်းသည်များ၏ ညည်းပန်းနှိပ်စက်ခြင်းများကို ခံရပြီးလျှင် ပြင်သစ်နိုင်ငံသို့ ထွက်ပြေးတိမ်းရှောင် နေထိုင်လျက်နှင့်ပင် သေဆုံးရရှာသည်။

မောပန်း ကြီးစွာ အားထုတ်လုပ်ရသော အလုပ်တခုကို သက်သက်သာသာနှင့် ဖြစ်စေနိုင်သော နည်းသစ်နည်းဆန်း လက်နက်ကရိယာ အသစ်အဆန်းတို့ကို ဘောဂဗေဒ ပညာသဘောအားဖြင့် လူတို့သည် နှစ်ခြိုက်တတ်သော သဘာဝတခု ဖြစ်သည့်အတိုင်း ထိုနည်းသစ်နည်းဆန်းများကို လူတို့သည် အသိဉာဏ် တိုးတက်ခြင်းအလျောက် အနှေးနှင့်အမြန် လိုသလို အသုံးပြုတတ်ကြပေသည်။ ထိုဘောဂဗေဒသဘာဝအရ အင်္ဂလန်နိုင်ငံရှိ ရက်ကန်းသည်တို့သည် လက်တွေ့အားဖြင့် အကျိုးခံစားရကြောင်းကို သိကြရသောအခါ ဂျွန်ကေး တီထွင်ခဲ့သော ရက်ကန်းကရိယာ နည်းသစ်ကိုပင်လျှင် အသုံးပြုကြခြင်းအားဖြင့် ရက်ကန်းကရိယာနည်းဟောင်းများကို စွန့်ပစ်ကြလေသည်။ ထိုရက်ကန်းကို လွန်းပျံရက်ကန်း ဟု ခေါ်တွင်ကြသည်။ ထိုလွန်းပျံ ရက်ကန်းကို ယခုအခါ မြန်မာနိုင်ငံတွင် စက်ရက်ကန်းဟူ၍လည်း တမျိုးအားဖြင့် ခေါ်ဝေါ်ကြသေးသည်။

၁၉၄၅–၄၆ ခုနှစ်များက မြန်မာနိုင်ငံရှိ ရက်ကန်းစင် စာရင်းများကို စုဆောင်း ရှာဖွေခြင်းအားဖြင့် သိရှိရသည်မှာ လွန်းပျံ၊ သို့မဟုတ် စက်ရက်ကန်းများ၏ အရေအတွက်သည် ၂၀,၀၀၀ ခန့်မျှ ဖြစ်၍၊ ဂျွန်ကေး တီထွင်သော စက်ရက်ကန်းမျိုးမပေါ်မီ အချိန်က အသုံးပြုခဲ့ကြသော လက်ထိုး လွန်းရက်ကန်းမျိုးများမှာ ယခုထက်တိုင် အရေအတွက်အားဖြင့် ၁၇၀,၀၀၀ ကျော် ရှိကြောင်းကိုသိရသည်။ မြန်မာရက်ကန်းခေတ်သည် ယခုတိုင် အနှစ် ၂၀၀ ကျော်ခန့် နောက်ကျနေသဖြင့် ထိုခေတ်ဟောင်းကို ယခုအချိန်မှစ၍ ပြောင်းရန်အချိန်တန်ပြီ ဟု ဆိုရပေမည်။

သိပ္ပံပညာ ထွန်းကားသော တိုင်းပြည်ကြီးတို့တွင် လျှပ်စစ်ဓာတ်အားဖြင့် မောင်းနှင်သော ခေတ်မီ စက်ရက်ကန်းမျိုးကို ယခုအခါ၌ အများအပြား အသုံးပြုနေကြပေသည်။ ထိုခေတ်မီ စက်ရက်ကန်း၏ အကျိုးအာနိသင်မှာ ရက်ကန်းသည် တယောက်သည် စက်ရက်ကန်းစင်ပေါင်း ၄၀ ကျော်ကို ရက်လုပ်နိုင်ပေသည်။ ထိုစက်ရက်ကန်းနှင့် မြန်မာနိုင်ငံတွင် ယခုတိုင် အများအပြား အသုံးပြုလျက် နေသော လက်ထိုးလွန်းရက်ကန်းတို့၏ ခြားနားခြင်းကို ယှဉ်ပြိုင်ကြည့်ပါက ခေတ်မီ စက်ရက်ကန်းတခုသည် လက်ထိုးလက်ရက်ကန်း ၁၀ စင်ခန့်နှင့် အထည်အထွက်တွင် ညီမျှလေသည်။

ရက်ကန်းသည်များ၏ လုပ်ငန်း တွင်ကျယ်ပုံကို တွက်ကြည့်ပါက ခေတ်မီ စက်ရက်ကန်းများဖြင့် အထည် ရက်လုပ်သော ရက်ကန်းသည်တယောက်၏ လုပ်ငန်းသည် လက်ထိုးလွန်း ရက်ကန်းစင်ဖြင့် ရက်လုပ်သော ရက်ကန်းသည် ၄၀၀ တို့၏ လုပ်ငန်းနှင့် ညီမျှလေသည်။ တနည်းအားဖြင့် ဝင်ငွေကို အကြမ်း တွက်ကြည့်လျှင် လက်ထိုး လွန်းရက်ကန်းဖြင့် ရက်လုပ်သော ရက်ကန်းသည်တယောက်သည် တနေ့လျှင် ငွေတကျပ် ဝင်ငွေရှိခဲ့သော် ခေတ်မီ စက်ရက်ကန်းဖြင့် ရက်လုပ်သော ရက်ကန်းသည် ဘယောက်၏ တနေ့ဝင်ငွေသည် ငွေလေးရာခန့်ဟု ဆိုရပေမည်။ ထိုကဲ့သို့ ရှေးခေတ်ဟောင်း ရက်ကန်းစင်များနှင့် ခေတ်မီ စက်ရက်ကန်းတို့၏ ကွာခြားမှုကြောင့် ယခုအခါ၌ မြန်မာများ အသုံးပြုရန် အထည်အဝတ်အမျိုးမျိုးတို့ကို ရရှိရန်အတွက် သိပ္ပံပညာထွန်းကားသော တိုင်းပြည်ကြီးများကို အားကိုး၍နေရပေသည်။

သို့ဖြစ်ခြင်းကြောင့် ရက်ကန်းခေတ်သစ်ကို မြန်မာနိုင်ငံတွင် ထူထောင်ရန်အတွက် ရန်ကုန်မြို့အနီး၌ ဆောက်လုပ်ထားသော မြန်မာနိုင်ငံအစိုးရ ခြည်မျှင်နှင့် အထည် စက်ကြီးတွင် ခေတ်မီ စက်ရက်ကန်းစင် ၄၀၀ နှင့် အထည် ကိုက်ပေါင်း ကိုးသန်းကျော် (၁၉၅၂–၅၃) ထုတ်လုပ်ခဲ့သည်။ တိုင်းရင်းဖြစ်အထည်အလိပ်လုပ်ငန်းတွင် ရွှေမှုမားမားမတ်မတ် ရပ်တည်နေ၍ ဇင်၊ တွီ၊ ဆယ်လျူလာ၊ ဗျူတီကော့၊ ပိတ်ညို၊ ပိတ်ချောများကို တစတစ အမျိုးအစားကောင်းသည်ထက် ကောင်းအောင် ကြိုးပမ်းထုတ်လုပ်နေသည်။

## ကျယ်ဝန်းသော မြန်မာ့ ရက်ကန်းပြဿနာ

ဒုတိယကမ္ဘာစစ် မဖြစ်မီ ၁၉၄၀ ပြည့်နှစ် ထွက်ကုန် ဝင်ကုန်စာရင်းအရ အိန္ဒိယ၊ ဂျပန်၊ အင်္ဂလန်နှင့် အခြားနိုင်ငံများမှ မြန်မာနိုင်ငံအတွက် ဝယ်ယူ အသုံးပြုကြရသော အထည်အဝတ်များမှာ အောက်ပါအတိုင်း ဖြစ်ပေသည်။

| အမျိုးအစား | | | တန်ဖိုးငွေ–ကျပ် |
|---|---|---|---|
| ၁။ အထည်ကြမ်း | ၂၁,၆၃၇,၉၈၅ | ကိုက် | ၃,၂၅၁,၃၃၁ |
| ၂။ ချွတ်ထည်ချော | ၅၆,၀၅၁,၆၅၁ | ။ | ၁၁,၅၄၈,၄၀၄ |
| ၃။ ပွင့်ရိုက်အရောင်ဆိုးများ | ၁၇၈,၄၉၇,၄၂၉ | ။ | ၃၇,၉၃၁,၈၇၁ |
| ၄။ ဝါဂွမ်းခြည်မျှင်များ | ၂၂,၃၂၈,၄၅၂ | ပေါင် | ၁၂,၃၃၂,၄၄၃ |
| | ပေါင်း | | ၆၅,၀၆၄,၀၄၉ |

ထိုမျှလောက် နှစ်စဉ်နှစ်စဉ် ငွေပေါင်း ခြောက်ကုဋေခွဲပိုးခန့်ရှိသော အထည်အဝတ်များ ခြည်မျှင်များကို နိုင်ငံခြားများမှ ဝယ်ယူ အသုံးပြုရသော အကြောင်းရင်းမှာ မြန်မာနိုင်ငံတွင် အထည် အဝတ်များကို ခေတ်မီစက်များဖြင့် ထမြောက်အောင်မြင်စွာ ကြိုးစားအားထုတ် လုပ်ကိုင်ခြင်းမပြုကြသေးသောကြောင့် ဖြစ်ပေသည်။

မြန်မာနိုင်ငံတွင် လူဦးရေ ၂၄ သန်းခန့်ရှိသဖြင့် လူတိုင်း လူတိုင်း ခေတ်မှီလူတမ်းစေ့ နေနိုင်ရန်အတွက် လူတယောက် လျှင် တနှစ်အတွက် ပျမ်းမျှအထည်အဝတ်ကိုက် ၃၀ ခန့်၊ သို့ မဟုတ် အတောင် ၆၀ ခန့် ရရှိရပေမည်။ အိန္ဒိယနိုင်ငံတွင် လည်း လူတယောက်လျှင် တနှစ်အတွက် အထည် အဝတ် ကိုက် ၃၀ ရရှိစေရန် စီစဉ်လျက် ရှိသည်။ လူဦးရေ ၂၄ သန်း အတွက် တယောက်လျှင် ကိုက် ၃၀ ကျနှင့် တွက်ခဲ့သော် တ နှစ်လျှင် အထည်ကိုက်ပေါင်း ၇၂၀,၀၀၀,၀၀၀ (ခုနစ်ဆဲ့နှစ် ကုဋေ) လိုလေသည်။ ထိုမျှလောက် အထည်များ ထွက် ရှိရန်အတွက် ရစ်ထိုင် ၂၀,၀၀၀ ပါရှိသော ခြည်မျှင်စက်ရုံကြီး ပေါင်း ၁၀၀ ကျော်ခန့်နှင့် ခေတ်မှီ စက်ရက်ကန်း ၂၀၀ ပါ ရှိသော စက်ရုံပေါင်း ၃၀၀ ကျော်ခန့် မြန်မာနိုင်ငံတွင် ရှိရ ပေမည်။ ဝါဂွမ်းကိုလည်း လုံလောက်စွာ ရရှိရန် မြေကေ ပေါင်း များစွာတိုးချဲ့၍ စိုက်ပျိုးရပေမည်။ ခြည်မျှင်အချော နှင့် အထည်အချော ဖြစ်စေရန်အတွက် ဝါဂွမ်းမျှင်များ ပိုမိုရှည်လျားလာစေရန် စမ်းသပ်စီမံပြုပြင်၍ ပေးရပေမည်။

ထို့ပြင် အထည်အဝတ် စက်ရုံကြီးပေါင်း ၄၀၀ ကျော် အတွက်၊ မြင်းအကောင် ၃၀၀,၀၀၀ (သုံးသိန်းခန့်) အားရှိ သော ရေအားလျှပ်စစ်ဓာတ်အားပေး စက်ရုံကြီးများ တည် ဆောက်ရပေမည်။ ထိုစက်ရုံကြီးများနှင့် တွဲဖက်၍ ခြည်မျှင် စက်နှင့် အထည်စက်အတွက် လိုအပ်သော စက်ကရိယာ များ လုပ်သည့် စက်ရုံကြီးများကိုလည်း တည်ဆောက်ရပေ မည်။ အထည်အဝတ်များကို အဖြူချွတ်ရန်နှင့် အရောင် အမျိုးမျိုး ဆိုးရန် လိုအပ်သော ဓာတ်ဆေးများ ပြုပြင်လုပ် ကိုင်သည့်ဓာတုဗေဒစက်ရုံကြီးများလည်း အမြောက်အမြား တည်ဆောက် ရပေမည်။ ထိုမြောက်မြားကျယ်ဝန်းလှသော မြန်မာ ရက်ကန်းပြဿနာကို ဖြေရှင်းနိုင်ရန်အတွက် မြန်မာ လူငယ်များသည် ခေတ်မှီရက်ကန်းပညာနှင့် သက်ဆိုင်သော စက်ကရိယာနှင့် ဓာတုဗေဒပညာရပ်အမျိုးမျိုးတို့ကို သင် ကြား ဆည်းပူးကြရပေမည်။ ဤသို့ အဖက်ဖက်မှ ပြုပြင်ပေး လျှင် မြန်မာ ရက်ကန်းပညာသည် မုချတိုးတက်ထွန်းကား လာဖွယ်ရာအကြောင်း ရှိပေသည်။ **ဦးခင်မောင်**

# ပြည်သူ့အသိပညာပေး လုပ်ငန်းတရပ်

**ရုပ်ရှင်လုပ်ငန်းသည် ပြည်သူလူထုကို အသိပညာပေးသော လုပ်ငန်းတရပ် ဖြစ်၏။ အနောက်နိုင်ငံများ၌ ရုပ်ရှင်လုပ်ငန်း ပေါ်ပြီးနောက် အနှစ် ၄၀ အကြာတွင်မှ မြန်မာရုပ်ရှင်လုပ်ငန်းကို စတင်ပျိုးထောင်ခဲ့ရသည်။ မြန်မာရုပ်ရှင်လုပ်ငန်း စတင် ပေါ်ပေါက်လာခဲ့သည့် အချိန်မှစ၍ မျက်မှောက်ခေတ်အထိ အဆင့်ဆင့် တိုးတက်ပြောင်းလဲလာပုံကို ဖော်ပြထားသည်။**

**မြန်မာရုပ်ရှင်။** ။အနောက် နိုင်ငံ များ၌ ရုပ်ရှင်လုပ်ငန်း ပေါ် ပေါက် လာပြီးနောက် အနှစ်လေးဆယ်ခန့် အကြာတွင် မှ မြန်မာရုပ်ရှင် လုပ်ငန်းကို စတင် ပျိုးထောင်ခဲ့ရသည်။ မြန်မာရုပ်ရှင် လုပ်ငန်း၏ ဖခင်မှာ လန်ဒန်အတ် ဦးအုန်း မောင် ဖြစ်လေသည်။

ဦးအုန်းမောင်သည် ဓာတ်ပုံရိုက်ကူးသော ပညာကို ၀ဂ္ဂ စတပ်ထံတွင် သင်ကြားခဲ့ပြီးနောက် ထိုပညာ တတ်မြောက် သောအခါ လခစား အဖြစ် ဒီ၊ အေ၊ အဟူဂျာထံတွင် ကူး ပြောင်း လုပ်ကိုင်သည်။ သို့သော် လခစား ဘဝနှင့် မတင်း တိမ်နိုင်ဘဲ ကိုယ့်ဒူး ကိုယ်ချွန် လုပ်လိုသောစိတ် ပေါ် ပေါက် လာသဖြင့် ၁၉၁၅ ခုနှစ်တွင် ရန်ကုန်မြို့ကုန်သည်လမ်းနှင့် ၃၀ လမ်းထောင့်တွင် လန်ဒန်အတ် ဓာတ်ပုံကူးတိုက်ကို ဖွင့်လှစ် ခဲ့သည်။ ဦးအုန်းမောင်၏ ကြိုးစားမှုနှင့် အမျှားနှင့် ဆက်ဆံ ရာတွင် ကောင်းမွန်မှုတို့ကြောင့် အတက်တန်းစား မြန်မာ အမျိုးသား အမျိုးသမီးတို့၏ မြှောက်စားခြင်းကို ခံခဲ့ရလေ သည်။ သို့သော်လည်း ဦးအုန်းမောင်သည် ရုပ်သေဓာတ်ပုံ များကိုသာ ရိုက်ကူးရသည့် လုပ်ငန်းနှင့် မတင်းတိမ်နိုင်၍ ရုပ်ရှင်ဓာတ်ကား ရိုက်ကူးရန် ၁၉၁၈ ခုနှစ်တွင် စ၍ ကြံစည် အားထုတ်ခဲ့လေသည်။

ထိုသို့ အားထုတ်ခဲ့ရာတွင် ဦးအုန်းမောင်သည် ကံအား လျော်စွာ အီ အမ် ဒီဆူဇာ ဆေးတိုက်မှ သုံးမရ၍ ထိုးထား သော မှန်ဘီလူး(လင်းစ)မပါသည့် ရုပ်ရှင်ကင်မရာတလုံးကို ကျပ်ငွေ တရာပေးကာ ဝယ်ယူ ရရှိခဲ့သည်။ ထိုသို့ ဝယ်ယူပြီး လျှင် ကင်မရာ၌ မရှိသော မှန်ဘီလူးအတွက် စုံစမ်းရှာဖွေရ ပြန်ရာတွင် ယခုအခါတွင် ဗိုလ်ချုပ်ဈေး ဖြစ်နေသော နေရာ၌ ရှိသည့်ရုပ်ရှင်ရုံများအနက် တရုံဖြစ်သော စီနီမာ ဒီ ပဲရစ်ရုံပိုင် ရှင်ကို အကြောင်းပြု၍ ရုပ်ရှင်ရိုက် ကင်မရာ မှန်ဘီလူးတခုကို ရရှိခဲ့သဖြင့် သူဝယ်ထားသော ကင်မရာတွင် တပ်ကြည့်ရာ အံ ကိုက်ဖြစ်နေလေသည်။ ဦးအုန်းမောင်တွင် ရှိသော ကင်မရာ သည် ဖလင်ကော်ပြားလိပ် ပေတရာသာ ဝင်လေသည်။

ဦးအုန်းမောင်သည် ထိုကင်မရာဖြင့်ပင် ဗိုလ်တ်သွား မြန် မာကိုယ်စားလှယ်ကြီး ဦးထွန်းရှိန်၏ ဈာပနသတင်းကား ကို ပဌမဆုံး စမ်းသပ် ရိုက်ကူးသည်။ ထိုသို့ ရိုက်ကူးသော ကားသည် နှစ်ပိုင်းမျှသာ ရှည်သည်။ ထိုကားကို ၁၉၂၀



အောင်မင်္ဂလာ ရုပ်ရှင်မှ ရိုက်ကူးပြသသည့် အောင်ခြင်းရှစ်ပါး ရောင်စုံဇာတ်ကား



မြန်မာရုပ်ရှင် လုပ်ငန်း၏ ဖခင်ကြီး လန်ဒန်အတ် ဦးအုန်းမောင်

ပြည့်နှစ်၌ အင်္ဂလိပ် ရယ်ရွှင်ဖွယ်ကား တပိုင်း၊ ကောင်းဘွိုင်ကား ခြောက်ပိုင်းနှင့် တွဲ၍ စီနီမာ ဒီ ပဲရစ်ရုံတွင် ပြသလေသည်။ ထို့ကြောင့် မြန်မာနိုင်ငံရှိ ပရိသတ် ရှေ့မှောက်တွင် ပဌမ တင်ဆက်သော ဦးထွန်းရှိန်၏ ဈာပနသတင်းကား နှစ်ပိုင်းသည် ပဌမ မြန်မာရုပ်ရှင် ဖြစ်သည်ဟု ဆိုရပေမည်။

ဦးအုန်းမောင်၏ လက်စွမ်းကို တွေ့မြင် ရသော အခါ ဇာတ်လမ်းပါသော ဇာတ်ကားများကို ရိုက်ကူးရန် အတွက် အစုစပ် ကုမ္ပဏီ တည်ထောင်၍ အားပေး လာကြသည်။ ပဌမဆုံး တည်ထောင်သော မြန်မာရုပ်ရှင် ကုမ္ပဏီမှာ ဘားမားဖလင်း ဖြစ်၏။ ထိုရုပ်ရှင်ကုမ္ပဏီမှ ပဌမဆုံး ဇာတ်လမ်းနှင့် ဇာတ်ကား ဖြစ်သော "မေတ္တာ နှင့် သူရာ" ကို ရိုက်ကူးခဲ့၏။

မေတ္တာနှင့် သူရာ ဇာတ်ညွှန်းကို ပညာ့အလင်း သတင်းစာ အယ်ဒီတာ အဖွဲ့ဝင် ပိုက်ဆံကြီး (ပီမိုးနင်း) က ရေးသည်။ ဇာတ်လိုက် မင်းသားမှာ မြန်မာအဆွေ ကုမ္ပဏီပိုင်ရှင် ဦးဘညွန့်၏ ဒုတိယသား ဟိုက်စကူး ကျောင်းသား ကိုညီပု၊ မင်းသမီးမှာ ကြည့်မြင်တိုင်မှ မရီ၊ လူကြမ်းမှာ နာမည်ကျော် ဘောသမား မောင်မောင်ချစ်တို့ ဖြစ်သည်။ ဦးအုန်းမောင်သည် ထိုဇာတ်ကား၏ ဒါရိုက်တာလည်း ဖြစ်၊ ဓာတ်ပုံ ဆရာလည်း ဖြစ်၍ ဇာတ်ဆောင်သူများ၏ အမူအရာကို ပညာ အလင်း သတင်းစာ မန်နေဂျာ ဦးပု (နောင် ဒါရိုက်တာ ဦးတုတ်ကြီး)က သင်ပြပေး၏။ ထိုဇာတ်ကားသည် ၁၀ ပိုင်းမျှ ရှည်ပြီးလျှင် ရုံတင်ပြသရာတွင် အောင်မြင်ခဲ့လေသည်။ ရုပ်ရှင်ပေါ်စ သုံးနှစ် အတွင်းတွင် ဇာတ်ကားများ၏ အမည်များကို အင်္ဂလိပ်အမည်များနှင့် တွဲ၍ ပေးလေ့ ရှိခဲ့ကြသည်။ ပြသရာတွင်လည်း မြန်မာ စာတမ်းကိုသာ မပြဘဲ အင်္ဂလိပ် စာနှင့် တွဲ၍ နှစ်ဘာသာဖြင့် ပူးတွဲပြသခဲ့သည်။ အင်္ဂလိပ်ဘာသာသို့ ပိုက်ဆံကြီး (ပီမိုးနင်း) က ပြန်ဆိုပေးသည်။

ဘားမား ဖလင်း ကုမ္ပဏီမှ ပဌမ ဇာတ်ကားဖြစ်သော မေတ္တာ နှင့် သူရာ အပြီးတွင် ဆက်လက်၍ ရိုက်ကူးသော ရုပ်ရှင်ကားမှာ ကျေးတောသူမနု ဇာတ်ကား ဖြစ်သည်။ နာမည်ကျော် ရုပ်ရှင်မင်းသမီးကြီး ခင်ခင်နုသည် ထိုကားမှစ၍ ပွဲဦးထွက် ပါဝင်ခဲ့လေသည်။ (ခင်ခင်နု — လည်းရှု။) တတိယ ဇာတ်ကားမှာ "ရွှေပေးလို့ မရ" ဖြစ်သည်။ ထိုဇာတ်ကားတွင် ဦးဆင်၊ ဒေါ်ဌေး၏သား ဦးမောင်မောင်က ဇာတ်လိုက်မင်းသားအဖြစ် ပါဝင်လေသည်။ ထိုခေတ်က လူကုံထံများသည် မြန်မာရုပ်ရှင်ကို အားပေးသည့် အနေဖြင့် အပျော်တမ်း ပါဝင်လေ့ ရှိ၏။ ဦးမောင်မောင်သည် မိတ်ဆွေများနှင့် စုပေါင်းပြီးလျှင် ဒဂုန်ရုပ်ရှင်ကုမ္ပဏီ ဟု တည်ထောင်ခဲ့သေးသည်။ သို့သော် "တေးဘုံမှာ" ဇာတ်ကားနှင့်ပင် ပျက်သွားခဲ့သည်။

စတုတ္ထ ဇာတ်ကားမှာ "တိမ်တလုံး" ဖြစ်၍ ပဥ္စမ ဇာတ်ကားမှာ "စိတ်အာရုံ" ဖြစ်သည်။ ဆဋ္ဌ ဇာတ်ကားမှာ "ခင်ခင့်မှားတော်ပုံ" ဖြစ်သည်။ ထိုဆဋ္ဌ ဇာတ်ကားတွင် ဦးအုန်းမောင်သည် သူ၏ ရုပ်ရှင်ပညာစွမ်းကို ပြသခဲ့လေသည်။ ကင်မရာတွင် ကရိယာ မစုံလင်ဘဲနှင့် လူတကိုယ်ကို နှစ်ကိုယ်ခွဲသော ဇာတ်ကားဖြစ်သည်။ ထိုဇာတ်ကားတွင် ဒဂုဏ်ပ ဦးဘတင်သည် မောင်မောင်တင်နှင့် မောင်မောင်လွင် အမွှာပူး ညီအစ်ကိုအဖြစ် ပါဝင်ခဲ့လေသည်။ သတ္တမ ဇာတ်ကားမှာ "တသက်လုံး ဖုံးသမျှ ကုန်းတော့မှပေါ်" ဖြစ်သည်။ ထိုကားမှစ၍ နာမည်ကျော် ရုပ်ရှင်မင်းသား မောင်ဘတင့်သည် ခင်ခင်နုနှင့် တွဲဖက် ပါဝင်ခဲ့လေသည်။ သူ၏နာမည်ရင်းမှာ မောင်ကျင် ဖြစ်သည်။ (ဘတင့် — လည်းရှု။)

ထို့နောက်တွင် ဦးအုန်းမောင်သည် အစုစပ် လုပ်ရာတွင် စိတ်ရှုပ်သဖြင့် မခံနိုင်၍ ဘားမားဖလင်းကို ၁၉၂၃ ခုနှစ်တွင် မြန်မာအဆွေလက်သို့ လွှဲပြောင်း ပေးလိုက်လေသည်။ ဦးအုန်းမောင်သည် ရှစ်လမျှ အနားယူပြီးလျှင် လန်ဒန်အတ် ကုမ္ပဏီကို သူတဦးတည်း တည်ထောင်ကာ "ရတနာပုံ" ဇာတ်ကားကို ရိုက်ကူးလေသည်။ ထိုကားတွင် ဘတင့်နှင့် ခင်ခင်နုတို့က မင်းသားနှင့် မင်းသမီးအဖြစ် ပါဝင်ကြ၍ တုတ်ကြီးက ဒါရိုက်တာအဖြစ် ဆောင်ရွက်လေသည်။ ဤကားတွင် ပါဝင်သော ဘတင့်၊ ခင်ခင်နုနှင့် ဒါရိုက်တာ တုတ်ကြီးတို့၏ အကူ

အညီဖြင့် ဇာတ်ကားကောင်း မြောက်မြားစွာကို ရိုက်ကူး ပြသနိုင်သဖြင့် ဦးအုန်းမောင်၏ စီးပွားရေး သည်လည်း ဒီရေတက်သကဲ့သို့ တက်ခဲ့လေသည်။ ထို့ကြောင့်လည်း ရုပ်ရှင်သဌေး ဦးအုန်းမောင် ဟူ၍ပင် အခေါ် ခံခဲ့ရလေသည်။

ဦးအုန်းမောင်၏အောင်မြင်မှုကို တွေ့မြင်ရသဖြင့် ၁၉၂၀–၂၉ ခုနှစ်များအတွင်း မြန်မာရုပ်ရှင် ကုမ္ပဏီပေါင်း လေးဆယ်ကျော် ပေါ်ပေါက်ခဲ့လေသည်။ ထိုနှစ်များ အတွင်း အသံတိတ် ရုပ်ရှင်ဇာတ်ကား တနှစ်လျှင် ပျမ်းမျှ ကား ၂၀ မျှရိုက်ကူး ပြသနိုင်ခဲ့၏။ သို့သော် နှစ်ကြာစွာ တည်တံ့ နိုင်သော ကုမ္ပဏီကြီးများမှာ မြန်မာအဆွေ ရုပ်ရှင် ကုမ္ပဏီ (ဘားမား ဖလင်းကုမ္ပဏီကို အမည်ပြောင်းလိုက်သည်။) ဗြိတိသျှ ဘားမားရုပ်ရှင်ကုမ္ပဏီနှင့် ဦးအုန်းမောင်ပိုင် လန်ဒန်အတ်ကုမ္ပဏီ တို့ ဖြစ်သည်။ ထိုကုမ္ပဏီကြီးများမှ လွဲ၍ ကျန်ရုပ်ရှင်ကုမ္ပဏီ များသည် တကားစ နှစ်ကားစ ရိုက်ကူးယင်း တိမ်မြုပ်သွားကြလေသည်။ စီးပွားပျက်ကပ် နှစ်များအတွင်း ဦးအုန်းမောင် ကြိုးစားငြားသော်လည်း လန်ဒန်အတ် ကုမ္ပဏီလည်း ပျက်သွားရပြန်သည်။ မြန်မာအဆွေ ရုပ်ရှင်ကုမ္ပဏီသည် ၁၉၃၃ ခုနှစ်မှ စ၍ အေဝမ်းရုပ်ရှင်ကုမ္ပဏီဟု အမည်သစ် ပြောင်းလိုက်လေသည်။

ထိုစဉ်အခါက ရုပ်ရှင် လုပ်ငန်းသက် မရင့်သေးသည့် အလျောက် မြန်မာရုပ်ရှင်ကားများသည်လည်း အဆင့်အတန်း



စစ်ကြိုခေတ်က နာမည်ကြီးခဲ့သော ရုပ်ရှင် ဇာတ်လိုက် စုံတွဲ မောင်မောင်အေး နှင့် ခင်ခင်ကြည်

မမြင့်လှသေးချေ။ ထိုးခန်း ကြိတ်ခန်းများသော စတန့်ခေါ် အကြမ်း ဇာတ်ကားမျိုးကို ဗြိတိသျှဘားမား၏ ရွှေသဇင် ဇာတ်ကားမှ စတင်ခဲ့၏။ ခမ်းနားသော သိုက်သမိုင်း ဇာတ်ကားများ၊ ရာဇဝင်သမိုင်း ဇာတ်ကားများ၊ တန်ခိုးဣဒ္ဓိပါဒ်ရှင်တို့၏ မြေလျှိုးမိုးပျံခန်းများ ပါသည့် ကင်မရာ လှည့်စားမှုကို အသားပေးသော ဇာတ်ကားများကို မြန်မာရုပ်ရှင် သမိုင်းတလျှောက်လုံး မရိုးနိုင်အောင် ရိုက်ကူး ကြသည်။ ခမ်းခမ်း နားနား ရိုက်ကူးရာ၌ မြန်မာအဆွေ (အေဝမ်း) ကုမ္ပဏီမှာ ထိပ်တန်း ဖြစ်လေသည်။ ထို့ပြင် အပိုင်းရှည် ဇာတ်ကားကြီးများကိုလည်း ရိုက်ကူး ပြသကြ၏။ လန်ဒန်အတ်မှ ရတနာပုံ (၁၉၂၃) နှင့် မြန်မာအဆွေမှ မှိုင်းဝေဝေ (၁၉၂၅) ဇာတ်ကားကြီးများသည် အပိုင်းအရှည်ဆုံးဇာတ်ကားများ ဖြစ်သည်။ ထိုမှတပါး လူ့ဘဝဖြစ်စဉ်နှင့် နီးကပ်စွာ ရိုက်ကူးတင်ပြသော ဇာတ်ကားများလည်းပေါ် ပေါက်ခဲ့၏။

၁၉၂၈ ခုနှစ်တွင် ကာတွန်း ရွှေတလေး အမည်ခံ ဦးဘကလေးသည် "ကြင်စဦး" နှင့် ၁၉၂၉ ခုနှစ်တွင် "ဝေလွင့်လွင့်" ဇာတ်ကားများကို ကိုယ်တိုင် ခေါင်းဆောင်ကာ ပါဝင် ရိုက်ကူးခဲ့သည်။ ဇာတ်ပေါင်းလျှင် ပျော်ရွှင်စွာ အဆုံးသတ်ခြင်းကိုသာ နှစ်ခြိုက်သော မြန်မာရုပ်ရှင် ပရိသတ်၏ လိုလားချက်ကိုဆန့်ကျင်ကာ ရိုက်ကူးခဲ့သော်လည်း သဘာဝကျ၍ အဆင့် အတန်းမြင့်သဖြင့် အောင်မြင်ကျော်ကြားခဲ့လေသည်။

ဦးဘကလေးသည် မြန်မာအဆွေ ရုပ်ရှင်ကုမ္ပဏီ၏ ပဌမ ဇာတ်ကားဖြစ်သော "တောမှိုင်စွန်းက လွမ်းအောင်ဖန်" (၁၉၂၁) ဇာတ်ကားတွင် အဖိုးကြီး ဦးရွှေရိုး အဖြစ် ပါဝင်ခဲ့ရာမှ နာမည်ကျော်လာသည်။ ရုပ်ပြောင်း ရုပ်လွဲ အလွန်ကောင်း၍ အလွမ်းအသော စွယ်စုံနိုင်သည့် အနုပညာသည် တဦး ဖြစ်သည်။ သို့သော် လူရွှင်တော် ဇာတ်လိုက် အဖြစ်ပို၍ လူကြိုက်များသည်။ (ဘကလေး။ ဦး (ရွှေတလေး) — ရှု။) ဟာသဇာတ်ကားများကို ခေါင်းဆောင် ရိုက်ကူးခဲ့ရာ တောသားလေးရွှေရိုးဇာတ်ကားတွင် သရုပ်ဆောင်ပုံမှာဗမာ ချာလီချက်ပလင် ဟုခေါ် လောက်ပေ၏။ ဦးရွှေရိုး အပြင် မြန်မာရုပ်ရှင်လောက၌ ဆားဘထွန်း၊ ထိတ်ပိတ်၊ မှတ်ကြီး၊ ဖူးကြီး၊ စံပ၊ စိုင်တမော့၊ သာဂေါင်၊ ရွှံကြီး၊ ဖိုးပါကြီး၊ ဖိုးပါလေး၊ ကျွန်တော် ချစ်မောင်၊ ကြယ်နီ၊ ဂျော်လီဆွေ၊ မြင့်ဖေ စသော လူရွှင်တော် ဇာတ်လိုက်များ ပေါ်ထွက် ခေတ်စား လာခဲ့၏။

၁၉၃၀ ပြည့်နှစ်မှ ၁၉၄၁ ခုနှစ်အထိ အသံတိတ် ရုပ်ရှင် ဇာတ်ကား တနှစ်လျှင် ပျမ်းမျှ ၃၅ ကားနှင့် အသံထွက်ကား နှစ်ကားမျှ ပြသနိုင်ခဲ့၏။ ထိုနှစ်များအတွင်း အေဝမ်း၊ ဗြိတိသျှဘားမား၊ ရန်ကုန်ရုပ်ရှင်၊ ပဲရော်၊ ရွှေပြည်စိုး၊ သက်နှင်း ဘုရားသား၊ မောင်မောင်စိုး ရုပ်ရှင်၊ ရွှေမြင့်မိုရ် စသည်တို့မှ လွဲ၍ အခြား ရုပ်ရှင်ကုမ္ပဏီများ တိမ်မြုပ်သွားကြ၏။



မြန်မာ့ရုပ်ရှင်ကို တိုးတက်အောင် ကြိုးပမ်းခဲ့သူ ဦးညီပု

မြန်မာအဆွေရုပ်ရှင်ကုမ္ပဏီမှ ဒါရိုက်တာဦးညီပုကိုယ်တိုင်ပါဝင်၍ခင်ခင်နုနှင့်တွဲဖက်ရိုက်ကူးခဲ့သော ဆုထူးပန် (၁၉၂၇) ဇာတ်ကားကို ၁၉၃၁ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပို့ပြီးလျှင် အင်္ဂလိပ် ဘာသာဖြင့် ဇာတ်လမ်းကို ဖော်ပြ၍ ဂီတသံစုံသွင်းကာ ပြခဲ့ဘူးသည်။ ၁၉၃၇ ခုနှစ်တွင် အေဝမ်းရုပ်ရှင်ကုမ္ပဏီမှ ဇာတ်လိုက် ညွန့်မောင်နှင့် မေမြင့်တို့ ပါဝင်၍ မြန်မာတာဇံဇာတ်ကားဟု ဆိုလောက်သည့် မှိုင်ယံဘွား ဇာတ်ကားကို အိန္ဒိယနိုင်ငံမဒရပ်မြို့သို့တင်ပို့ပြသခဲ့ဘူးသည်။

မြန်မာရုပ်ရှင်သမိုင်း တလျှောက်လုံး၌ သိုက်သမိုင်း ရာဇဝင်ဇာတ်ကားများ၊ စတန့်ကားများကို ရိုက်ကူးပြသခဲ့သော်လည်း တခါတရံ မြန်မာရုပ်ရှင်တွင် အမျိုးသားရေး လှုပ်ရှားမှုများသည် အနည်းငယ် အရိပ်ထင်ခဲ့သည်။ ဗြိတိသျှဘားမားမှ ဒါရိုက်တာ ဦးဥာဏ၏ ကုမ္မာရီ ဇာတ်ကားသည် အမျိုးသားစိတ် နိုးကြားရေးကို လှုံ့ဆော် ပေးလေသည်။ ပဲရော့ ရုပ်ရှင်၏ အလံတော်ဇာတ်ကားတွင် ဂျွန်သူပုန်အရေး အရိပ်ထင်ခဲ့၏။ ဒုတိယ ကျောင်းသားသပိတ် ခေါင်းဆောင်တဦး ဖြစ်သူ ကိုနု (ဝန်ကြီးချုပ်ဟောင်း ဦးနု) သည် ကျောင်းသားသပိတ်အရေးကိုဘွိုင်ကောက်တားဇာတ်ကားတွင် တင်ပြ ရိုက်ကူးခဲ့သည်။ အေဝမ်းရုပ်ရှင်မှ ဒါရိုက်တာ ကိုတင်မောင်၏ အောင်သပြေ (၁၉၃၇) အသံထွက်ဇာတ်ကားတွင် သီပေါဘုရင် ပါတော်မူခန်းမှာ အမျိုးသားစိတ်ဓာတ် လှုံ့ဆော်ပေးရာကျသည်ဟု ယူဆသဖြင့် ပြသနေဆဲမှာပင် မြန်မာပြည်ဘုရင်ခံ၏အမိန့်ဖြင့် အပိတ်ပင်ခံရလေသည်။

ဒါရိုက်တာ ဦးဉာဏသည်လည်း ရုပ်ရှင်ပရိသတ် အလိုသို့ မလိုက်ဘဲ အဆင့်အတန်းမြင့်၍ သဘာဝကျသော ဇာတ်ကားကောင်းများကို ရိုက်ကူး ခဲ့သည်။ တကယ့် ဇာတ်လိုက်များကို အသားမပေးဘဲ ဇာတ်ရံကို ဇာတ်ဆောင်သူအဖြစ် အသားပေး ရိုက်ကူးသော မေမေ ဇာတ်ကားသည်၎င်း၊ လူတိုင်း အော့နှလုံးနာကြသော မင်းသားကြမ်း လှမောင်ကြီးကို အလှမ်းမင်းသားကြီး ဖြစ်စေသော ကုမ္မာရီ ဇာတ်ကားသည်၎င်း ထင်ရှားသော သာဓကများ ဖြစ်သည်။

ရုပ်ရှင် လောကတွင် ကာတွန်း ဇာတ်ကားများလည်း ပေါ်ထွက်ခဲ့သည်။ စာရေးဆရာ ဇဝနနှင့် ကာတွန်း ဦးဟိန်စွန်းတို့သည် လာမယ်လာမယ် မကြည့်ရဲ့ သီချင်းကို ကာတွန်းရုပ်ရှင် ရိုက်ကူးခဲ့သည်။ သို့သော် ကာတွန်း ဦးဘဂျမ်းနှင့် ဦးဟိန်စွန်းတို့၏ ကြက်တောင်ကွ ဇာတ်ကားမှာမူ ဇာတ်လမ်း ပါရှိသဖြင့် ပဌမဆုံး ကာတွန်း ဇာတ်ကား ဟု ခေါ်ဆိုရပေမည်။

ပဌမဆုံး မြန်မာ အသံထွက် ဇာတ်ကားမှာ "ငွေပေးလို့ မရ" ဖြစ်သည်။ ထိုကားကို ၁၉၃၂ ခုနှစ်တွင် ပြသခဲ့သည်။ သို့သော် မြန်မာ အသံထွက်ကားပင် ဖြစ်သော်လည်း ထိုကားကို အိန္ဒိယလူမျိုးပိုင် အင်ပီးရီးယယ် ကုမ္ပဏီမှ ဘုံဘိုင်မြို့တွင် သွားရောက်ရိုက်ကူးသည်။ ဇာတ်လိုက်များ အဖြစ် မောင်မောင်ခင်၊ အေးကို၊ ခင်မေကြီး၊ ခင်မေလေး၊ ယူနီဗာစီတီ မြသန်းကြည်၊ (အငြိမ့်မင်းသမီး)တို့ ပါဝင်သည်။ သို့သော် အသံများ မပီမသ ဖြစ်နေသည်။ ၁၉၃၄ ခုနှစ်တွင် ဗြိတိသျှဘားမား ကုမ္ပဏီမှ ရန်ကုန်မြို့၌ပင် ပဋိက္ခရားနှင့် ရွှေအိမ်သည်အပိုင်းတို ဇာတ်ကားကိုရိုက်ကူးရာ အောင်မြင်ခဲ့သည်။ ထိုဇာတ်ကားတွင် အဆိုအကနိုင် သူ မင်းသားကိုလှဖေနှင့် ခင်ခင်ရီတို့ ပါဝင်သည်။ ထိုနောက် ဗြိတိသျှဘားမားမှ ဒါရိုက်တာဦးမောင်ကြီးက ဇာတ်လမ်းပါ အသံထွက်ကားအဖြစ် လောကနိဗ္ဗာန် ဇာတ်ကားကို ဘတင့်နှင့် ခင်ခင်ကြည်တို့ကို ခေါင်းဆောင်စေကာ ရိုက်ကူးခဲ့သည်။

အေဝမ်း ရုပ်ရှင် ကုမ္ပဏီမှ ကိုညီပုနှင့် ကိုတင်ဖေ (ဇာတ်လိုက်မင်းသား မောင်မောင်စိုး) တို့သည် ထိုခေတ်က အရှေ့နိုင်ငံများတွင် ရုပ်ရှင်လုပ်ငန်း၌ ထိပ်တန်းဖြစ်နေသော ဂျပန်နိုင်ငံသို့ သွားရောက်၍ အသံထွက်ရုပ်ရှင် ပစ္စည်းများ ဝယ်ယူလေ့လာယင်း ဂျပန်နိုင်ငံ၌ပင် လေးလရာသီ ဂျပန်ပြည် သတင်းကားနှင့် ဇာတ်လမ်းပါရှိသော ဂျပန်နှင့်ရင်သွေး ဇာတ်ကားများကို ရိုက်ကူးခဲ့၏။ ဂျပန်နှင့်ရင်သွေး ဇာတ်ကားတွင် ကိုညီပု၊ မောင်မောင်စိုးနှင့် ဂျပန် ဇာတ်လိုက်မင်းသမီး မေမိစံတို့ ပါဝင်ကြသည်။

ဒုတိယ ကမ္ဘာစစ် မတိုင်မီခေတ်တွင် မြန်မာရုပ်ရှင်ကြည့် ပရိသတ်တို့ အဆင့်အတန်း တိုးတက်လာသည့် အလျောက် ရုံဖန်ရုံခါ အသံထွက် ဇာတ်ကားကောင်းများ ပေါ်ပေါက်ခဲ့



မြန်မာရုပ်ရှင် ဇာတ်ကွက်တခု ရိုက်ကူးစဉ်

သည်။ အသံထွက်သောခေတ် ရောက်လာသဖြင့် ဇာတ်လမ်းများမှာ အတီးအမှုတ် အဆိုအကစသော သဘင်ပညာများ တွဲဖက်ပါသော ဇာတ်လမ်းများကို ထွင်ကြရသည်။ လူကြိုက်များသော ဇာတ်ကားများမှာ ဂူဠဝံ (ဗြိတိသျှ ဘားမား)၊ ဂူတ္တိယ (ဗြိတိသျှ ဘားမား)၊ အပျိုစင်(ဗြိတိသျှ ဘားမား)၊ ပန်းစေတီ (ဗြိတိသျှဘားမား)၊ အချစ်ဆုံး (ဗြိတိသျှ ဘားမား)၊ သူဇာ (ဗြိတိသျှ ဘားမား)၊ ဗိုလ်အောင်ဒင် (ဗြိတိသျှဘားမား)၊ ချစ်စနိုး (အေဝမ်း)၊ မြွားနတ်မောင် (အေဝမ်း)၊ ချစ်အမျှ (အေဝမ်း)၊ ချစ်ရေစင် (အေဝမ်း)စသည်တို့ဖြစ်၏။ ဗြိတိသျှဘားမားမှ ဒါရိုက်တာ ရွှေဒုံးဦးဘီအောင်၏ ဗိုလ်အောင်ဒင်ဇာတ်ကားသည် စစ်ကြိုခေတ်၌ရင်း၊ စစ်ပြီးခေတ်၌ရင်း အကြိမ်ကြိမ် အဖန်ဖန် ပြန်၍ပြတိုင်း လူကြိုက်များကာ ဝင်ငွေကောင်းခဲ့လေသည်။

ရုပ်ရှင် ဒါရိုက်တာများ အနက် ဦးအုန်းမောင်၊ ဦးတုတ်ကြီး၊ ဒဂုဏ်ပဦးဘတင်၊ ဆရာခန့်၊ ဦးမောင်ကြီး၊ ဦးတင်နွယ်၊ ဦးဉာဏ၊ ဦးညိုပု၊ ဦးလွန်းဖေ၊ ဆရာရွှေ၊ ဦးဘရှင် စသူတို့သည် လက်ဟောင်းနာမည်ကျော် ဒါရိုက်တာကြီးများ ဖြစ်ကြသည်။ ဒုတိယကမ္ဘာ့စစ်ကြိုခေတ်နှင့် စစ်ပြီးခေတ်တွင် ထင်ရှား လာသော ဒါရိုက်တာများမှာ အေဝမ်း ဦးတင်မောင်၊ ဗြိတိသျှဘာမား ဦးချန်ထွန်း၊ ဦးတင်ယု၊ ရွှေဒုံးဦးဘီအောင်၊ ရွှေညာမောင် အမည်ခံ ဦးချင်းစိန်၊ ဦးသုခ၊ ဦးမြမောင်၊ တက္ကသိုလ် ဦးဝင်းဖေ၊ ဦးချစ်ခင်၊ ဦးရွှေဘော်၊ ဦးသာဓု စသူတို့ ဖြစ်ကြလေသည်။

ဇာတ်လိုက် များတွင် ကိုဘတင့်နှင့် ခင်ခင်နုတို့ စုံတွဲ၊ မောင်မောင်အေးနှင့် ခင်ခင်ကြည်တို့ စုံတွဲမှာ ရုပ်ရှင်လောက၌ နှစ်ပေါင်းများစွာ ခေတ်မတိမ်ဘဲ ထင်ရှားခဲ့ကြသည်။ ကိုဘမြင့်နှင့် ခင်မေလေးတို့ စုံတွဲကိုလည်း လူကြိုက်များခဲ့သည်။ ထိုအတူ မြန်မာအဆွေ (အေဝမ်း) ရုပ်ရှင်မှ မောင်မောင်လေး၊ ခင်ခင်အေးတို့သည်လည်း ကျော်ကြားသည့် ရုပ်ရှင်စုံတွဲ ဖြစ်သည်။

ကိုဘချစ်၊ ကိုအေးကိုတို့သည် ကိုဘတင့်နှင့်မရှေးမနှောင်း ပေါ်ထွက် နာမည်ရခဲ့သည်။ ကိုဘချစ်သည် စစ်ပြီးခေတ်တွင် ကွယ်လွန်သည်အထိ လူကြီးဇာတ်လိုက်အဖြစ် ရုပ်ရှင်လောကတွင် ခေတ်စားခဲ့သေးသည်။ ကိုအေးကိုသည် အိန္ဒိယနိုင်ငံသို့ သွားရောက်ရိုက်ကူးသော ပဌမဆုံး မြန်မာ့အသံထွက် ဇာတ်ကားဖြစ်သည့် ငွေပေးလို့ မရတွင် ပါဝင်ခဲ့သည်။

ရုပ်ရှင် မင်းသမီး ခင်ခင်နု၊ ခင်ခင်ကြည်တို့ကဲ့သို့ပင် ထင်ရှားခဲ့သော ရုပ်ရှင်မင်းသမီးများမှာ ခင်မေကြီး၊ ခင်မေလေး၊ ခင်ခင်ဉ၊ ခင်ခင်အေး၊ ခင်မြရင်၊ ခင်ခင်မြင့်တို့ ဖြစ်ကြသည်။ ခင်မေကြီးသည် ဒါရိုက်တာ ရွှေရိုး၏ ကြင်စဦး၊ ဝေလွင်လွင်

စသော ဇာတ်ကားများတွင် ရွှေရိုးနှင့် တွဲဖက် ပါဝင်ခဲ့ရာမှ နာမည် ရလာသည်။ အဝတ်အစား ဆန်းဆန်း ပြားပြား ဝတ်ဆင်ရာ၌ ကျော်ကြားသည်။ ခင်မေလေးသည် ခင်မေကြီးကဲ့သို့ပင် ပဌမဆုံး မြန်မာအသံထွက် မင်းသမီး ဖြစ်သည်။ မင်းသားချော ကိုဘမြင့်နှင့် တွဲဖက်၍ နာမည်ကျော်ကြားသည်။ ခင်ခင်ဥသည် သိုက်သမိုင်း ဇာတ်ကားများတွင် အလွမ်းမင်းသမီး အဖြစ် ကျော်ကြားသည်။

နောက်ပိုင်း ခေတ်တွင် ကျော်ကြားလာသူများမှာ အေဝမ်းမှ ကိုတင်မောင် (ဒါရိုက်တာ မင်းသား)၊ ခင်နှင်းရီ၊ မေရှင်၊ မေမြင့်၊ ဗြိတိသျှဘားမားမှ အဆိုကျော် မင်းသား ခင်မောင်ရင်၊ မေမေဝင်း၊ ခင်ခင်ရီ တို့ ဖြစ်ကြလေသည်။

ဒါရိုက်တာ ဦးတင်နွယ်နှင့် ကိုတင်မောင်တို့ ပူးပေါင်းရိုက်ကူးသော အေဝမ်း ရုပ်ရှင်၏ ချစ်စနိုး (၁၉၃၈) ဇာတ်ကားတွင် ဇာတ်ကောင်များ၏ အမူအရာမှာ သဘာဝ ကျလှ၍ လူကြိုက်အများဆုံး ဇာတ်ကား တကား ဖြစ်ခဲ့၏။ ထိုဇာတ်ကားတွင် ဇာတ်ဆောင် မင်းသမီး ခင်နှင်းရီ၏ ကလေးဆန်ဆန် ဟန်အမူအရာကို ပရိသတ် အသဲစွဲကြသည်။ ကိုတင်မောင် ပဌမဆုံးဇာတ်လိုက်အဖြစ် ပါဝင်၍ သဘာဝကျသော အမူအရာကြောင့် ပဌမတန်း ဇာတ်လိုက်ကျော် ဖြစ်လာသည်။ ထိုနောက် အေဝမ်းရုပ်ရှင်၏ မြှားနတ်မောင် ဇာတ်ကားတွင် ကိုတင်မောင်သည် မေရှင်နှင့် တွဲဖက် ပါဝင်ခဲ့ရာ၊ တင်မောင် မေရှင် စုံတွဲသည်လည်း ဖက်ညီ၍ ပရိသတ်အသဲစွဲ ရုပ်ရှင်စုံတွဲ ဖြစ်လာခဲ့လေသည်။ မေရှင်သည် တည်တည်ခန့်ခန့်နှင့် သဘာဝကျကျသရုပ်ဆောင်ရာတွင် ပရိသတ်သဘောကျသည်။ အေဝမ်းရုပ်ရှင်၏ ချစ်အမျှ (၁၉၄၀)ဇာတ်ကားတွင်၎င်း၊ ချစ်ရေစင် (၁၉၄၁) ဇာတ်ကားတွင်၎င်း သူ၏ ဟန်အမူအရာကို အထူးနှစ်ခြိုက်ကြသည်။ သူ၏သီချင်းသံများကိုလည်း အများကပင် နှစ်သက် စွဲလမ်းကြလေသည်။

ဗြိတိသျှဘားမား၏ ဗိုလ်အောင်ဒင် ( ၁၉၄၁ ) အသံထွက် ဇာတ်ကားတွင် အဆိုကျော် ဇာတ်လိုက် ခင်မောင်ရင်၏ သဘာဝ ကျသော အမူအရာကို ရုပ်ရှင်ပရိသတ်များ အထူး စွဲလမ်း ခဲ့ကြသည်။ ရုပ်ရှင်မင်းသမီး မေမေဝင်းသည် မူလက စတန့်ခေါ် အကြမ်းဇာတ်ကားများတွင် ပါဝင်ခဲ့ရာမှ အသံထွက် ဇာတ်ကား များတွင် ပါဝင် လာရသောအခါ ကျော်ကြားလာသည်။ ခင်ခင်ရီသည် ဗြိတိသျှဘားမား၏ ဣတ္ထိယ အသံထွက် ဇာတ်ကားမှ အစပြု၍ နာမည်ကျော်ကြားလာသည်။

စတန့်ခေါ် အကြမ်း ဇာတ်ကားများတွင် ကျော်စိုး၊ ကျော်မိုး၊ ကျော်ဟိုး၊ တင်ငွေ၊ တင်ဖေ၊ တင်ဆွေ၊ ကျော်အေး၊ ချစ်ဆွေ၊ ကျော်ညွန့်နှင့် မြမြ(နောက် မေမောင်း)၊ ခင်စန်းနှင့် မေသန်းတို့မှာ အခုန်အပျံ အကျော် အလွှားတို့ဖြင့် နာမည်ကျော်သူများ ဖြစ်ကြလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက စစ်ရေးကြောင့်၎င်း၊ ဖလင်လိပ်နှင့် ရုပ်ရှင်ကရိယာ ရှားပါးမှုတို့ကြောင့်၎င်း ရုပ်ရှင်ရိုက်ကူးခြင်း လုံးဝ မပြုနိုင်ခဲ့ပေ။ ပြဇာတ်များသာ ခေတ်စားခဲ့သည်။ စစ်ပြီးခေတ်၌ပင် မြန်မာရုပ်ရှင်လုပ်ငန်းကို ရုတ်တရက် ပြန်လည်မထူထောင်နိုင်ခဲ့ချေ။ ၁၉၄၆ ခုနှစ်တွင် စစ်ကျန်ဖလင်များနှင့် အေဝမ်းနှင့် ဗြိတိသျှဘားမား ရုပ်ရှင်ကုမ္ပဏီတို့သည် အသံတိတ်ကားများ ပြန်လည်စတင် ရိုက်ကူးခဲ့၏။ နောက်တနှစ်တွင် ပဲရေခံ၊ လျှပ်စစ်ရုပ်ရှင်၊ ရန်ကုန်ရုပ်ရှင်၊ ဆွေဗမာ၊ ရွှေမြင့်မိုရ်၊ နယူးဘားမား (အသစ်) စသော ကုမ္ပဏီများပါ အသံတိတ်ကားများ ရိုက်ကူးလာကြသည်။

ဒုတိယ ကမ္ဘာစစ်ကြီးအပြီးတွင် ဖက်ဆစ်ဂျပန်ကို တော်လှန်ပြီးစ ဖြစ်၍ လူထု၏ စိတ်ဓာတ်တွင် မတရား လုပ်သူကို တော်လှန်ရန် ထကြွနေသောအခါ ဖြစ်သဖြင့် ဇာတ်ကားများကိုလည်း ခေတ်နှင့် လျော်ညီအောင် ရိုက်ကူး ပြသကြသည်။ လုယက် တိုက်ခိုက် သတ်ဖြတ်သူတို့ကို သတိရလေအောင် ဖန်တီးပြသသော ဇာတ်ကားများ ဖြစ်သည်။ ထိုအထဲတွင် သစ်ဆန်းရုပ်ရှင်မှ စာရေးဆရာ ဦးသုခ၏ ချစ်အဏ္ဏမြူ ဇာတ်ကားသည် ထိုးခန်း နှိပ်စက်ခန်းမပါ၊ သဘာဝ ကျသော အချစ်ဇာတ်ကား ဖြစ်၍ ကားကောင်း တခုဖြစ်သည်။ ဇာတ်မြူးများ ဟူ၍ ရန်ကုန်ရုပ်ရှင်မှ ဖိုးပါကြီးကို အသားပေးရိုက်ထားသော ဇာတ်ကားများ ထွက်ခဲ့လေသည်။

အေဝမ်း ရုပ်ရှင်နှင့် ဗြိတိသျှ ဘားမား ရုပ်ရှင်ကုမ္ပဏီတို့သည် အသံထွက်ကားများကို ကြိုးစား ရိုက်ကူး လာသော်လည်း ပစ္စည်းကရိယာ မစုံလင်သောကြောင့် အသံပီသခြင်း၊ ရုပ်ရှင်ကား ကြည်လင် ပြတ်သားခြင်း မရှိလှသေးပေ။ ထိုကြောင့်လည်း စစ်ပြီးခေတ်တွင် မြန်မာရုပ်ရှင်ကားများ အဆင့်အတန်း လျော့ကျသွားသည်ဟု ဆိုနိုင်လေသည်။

စစ်ပြီး ခေတ်တွင် ကျော်ကြား လာသူများမှာ ကိုခင်မောင်၊ ကိုမျိုးချစ်၊ ကိုကျော်ဝင်း၊ ကိုဇေယျ၊ မောင်မောင်တာ၊ ကျော်ဆွေ၊ မြင့်အောင်၊ ဖိုးပါကြီး၊ ထွန်းဝေ၊ ရွှေဘ၊ တင်ညွန့်၊ မြတ်လေး၊ ကောလိပ်ဂျင်နေဝင်း၊ ဝင်းဦး၊ ကြည်စိုး၊ ဝင်းညွန့်၊ ညွန့်ဝင်း၊ ဒေါမောင်ယဉ်ထွေး၊ တင်တင်မူ၊ ကြည်ကြည်ဌေး၊ မေသစ်၊ မြင့်မြင့်ခင်၊ မြင့်မြင့်ဌေး၊ မေလွင်၊ မေရီမြင့်၊ မေမြ၊ ရှယ်လီမြ၊ မေရီမြ၊ ဝါဝါဝင်းရွှေ၊ ခင်ယုမေ၊ သီသီ၊ ခင်သန်းနု၊ စံရှားတင်၊ တင်တင်အေး၊ သင်းသင်းလဲ့၊ မြတ်မွန်၊ စမ်းစမ်းအေး စသူတို့ ဖြစ်ကြသည်။

အငြိမ့်မင်းသမီးများ ဖြစ်ကြသော နွဲ့နွဲ့စန်း၊ အမာစိန်၊ ရွှေမန်းရီ၊ ကျင်ကျင်မြိုင်တို့ ရုပ်ရှင်မင်းသမီး ဖြစ်လာ ကြသည်။ ရုပ်ရှင်မင်းသား မင်းသမီး ဖြစ်လာကြသော အဆိုတော်များမှာ မြင့်မြင့်ရှိန်၊ ဒဂုန်ခင်၊ ဘေဘီနွဲ့၊ ကြည်ရှင်၊ ခင်ယုမေ၊ သန်းသန်းဆင့်၊ မြကြီး၊ စိန်စိန်၊ မြင့်သီတာ၊ ချိုပြုံး၊

သန်းဖေလေး၊ အကော်ဒီယန် အုန်းကျော်၊ မာသီ၊ မောင်ကြည်တိုး၊ တံ့တေး သိန်းတန်၊ မျိုးမြင့်လေး၊ ပျဥ်းမနား ကိုမြင့် စသူတို့ဖြစ်ကြလေသည်။

မြန်မာ နိုင်ငံ၌ ၁၆ မီလီမီတာ ဆေးရောင်စုံ ဇာတ်ကား ချစ်သွေးညီ (၁၉၄၇ ခုနှစ်) ကို ရန်ကုန်ရုပ်ရှင်မှ ပဌမဆုံး ရိုက်ကူးပြသခဲ့၏။ ဒါရိုက်တာ ရွှေဘော် ဖြစ်သည်။ ဗြိတိသျှဘားမား ရုပ်ရှင်ကုမ္ပဏီမှလည်း ၁၉၅၀ ပြည့်နှစ်တွင် ၁၆ မီလီမီတာ ဆေးရောင်စုံ ဇာတ်ကား မာမရှိန်းကို ဒါရိုက်တာ ဆရာခန့် ရိုက်ကူး ပြသခဲ့၏။

မြန်မာ နိုင်ငံတွင် ၁၉၅၂ ခုနှစ်မှ စတင်၍ ရုပ်ရှင် အကယ်ဒမီ ရွှေစင်ရုပ်ဆုများ ချီးမြှင့်ခဲ့ရာ၊ ထိုနှစ်တွင် အောဝမ်းရုပ်ရှင်မှ ဦးတင်မောင်၏ တင်မောင်၊ ကြည်ကြည်ဌေး၊ သိန်းဇော်၊ မေလှိုင်တို့ ပါဝင်သော "ချစ်သက်ဝေ" အသံထွက် ဇာတ်ကားက အကယ်ဒမီ ရွှေစင်ရုပ် ပဌမဆု ရရှိခဲ့သည်။ ပဌမဆုံး အမျိုးသား ပညာသည် အကယ်ဒမီ ရွှေတံဆိပ်ဆုကို ဗြိတိသျှဘားမား ဒါရိုက်တာ ရွှေဒိုးဘီအောင်၏ မာလာရီ ဇာတ်ကားမှ မင်းသားကျော်ဝင်းက ရရှိသည်။ အမျိုးသမီး ပညာသည် အကယ်ဒမီ ဆုအတွက် ချစ်သက်ဝေမှ မင်းသမီး ကြည်ကြည်ဌေးက ရရှိလေသည်။ ကြည်ကြည်ဌေးသည် မူလက ဇာတ်မင်းသမီး ဖြစ်၍၊ ပြဇာတ်များတွင် ပါဝင်ကပြခဲ့ရာမှ နာမည်ကျော်ကြား လာပြီးလျှင် ချစ်သက်ဝေ အသံထွက်တွင် ပဌမဆုံးအကြိမ် ရုပ်ရှင်မင်းသမီးအဖြစ် ပါဝင်ရိုက်ကူးခဲ့သည်၌ ထိုပဌမဆုံး ရိုက်ကူးသော ဇာတ်ကားဖြင့်ပင် အကယ်ဒမီ ရွှေတံဆိပ်ဆုကို ပဌမဆုံးဆွတ်ခူးခဲ့သူဖြစ်၍ ထူးခြားလေသည်။

၁၉၅၂ ခုနှစ်မှ အစပြု၍ အကယ်ဒမီ ရွှေစင်ရုပ်ဆုရ ရုပ်ရှင်ဇာတ်ကားများမှာ ချစ်သက်ဝေ (အောဝမ်း-၁၉၅၂)၊ ရတနာပုံ(အောဝမ်း-၁၉၅၃)၊ ဖိုးပြုံးချို (ရွှေဝယ်သီရိ-၁၉၅၅)၊ ဘဝသံသရာ(မန္တလေးရုပ်ရှင် ပွဲဦးထွက် အသံထွက်ကား-၁၉၅၆) ဒေါက်တာ အောင်ကျော်ဦး (ဗြိတိသျှဘားမား-၁၉၅၇) စွဲတဲ့ မေတ္တာ (မြဇော် ဖလင်း-၁၉၅၈)၊ ချစ်တော့ ချစ်တယ် (စန်းသော်တာ-၁၉၅၉)၊ ရေမြေဆုံးတိုင် (မန္တလေးရုပ်ရှင်-၁၉၆၀)၊ ကိုယ်ပိုင်မေတ္တာ (မန္တလေး ရုပ်ရှင်-၁၉၆၁) တို့ ဖြစ်သည်။ ၁၉၆၁ ခုနှစ်တွင် အကယ်ဒမီ ရွှေစင်ရုပ်ဆုများ ချီးမြှင့်ခြင်းမရှိဘဲ၊ ၁၉၆၂ ခုနှစ်၊ ၁၉၆၄ ခုနှစ်နှင့် ၁၉၆၅ ခုနှစ်များအတွက် အကယ်ဒမီရွှေစင်ရုပ်ဆုရ ရုပ်ရှင်ဇာတ်ကားများလည်း ထွက်ပေါ်ခြင်း မရှိခဲ့ပေ။

အကယ်ဒမီ ရွှေစဥ်ရုပ်ဆုရ ဒါရိုက်တာ ရုပ်ရှင်မင်းသားမင်းသမီးများ၊ ဓာတ်ပုံ ဆရာနှင့် ဇာတ်ရံများမှာ ကျော်ဝင်း (မာလာရီ-၁၉၅၂)၊ ကြည်ကြည်ဌေး(ချစ်သက်ဝေ-၁၉၅၂)၊ ကိုတင်မောင် (ရတနာပုံ-၁၉၅၃)၊ မေမြင့် (ပွဲခါသောင်ရေ-၁၉၅၃)၊ ဇာတ်ဆောင် အမေပု (မေမေ-၁၉၅၄)၊ ဒါရိုက်တာ ဦးသုခ (ဩြော်မိန်းမ-၁၉၅၄)၊ ဒါရိုက်တာ ဦးချင်းစိန် (ကိုယ့်ရင်သွေး-၁၉၅၅)၊ ဖိုးပါကြီး (ဖိုးပြုံးချို-၁၉၅၅)၊ မေလှိုင်(ချစ်မမ-၁၉၅၅)၊ ခလေး ဇာတ်လိုက် ဝင်းမာ အထူးဆု (ဖိုးပြုံးချို-၁၉၅၅)၊ဒါရိုက်တာ ဦးသုခ(ဘဝသံသရာ-၁၉၅၆ ဒုတိယအကြိမ် ရရှိသည်။) ဇေယျ (ဘဝသံသရာ-၁၉၅၆)၊ ကြည်ကြည်ဌေး (ချစ်ခွင့် မပိုင်-၁၉၅၆၊ ဒုတိယအကြိမ် ရရှိသည်။) ဦးချစ်ဖွယ်၊ ဦးချစ် (ဓာတ်ပုံ အကယ်ဒမီဆု၊ ယမ်း





ဗြိတိသျှဘားမား ရုပ်ရှင်ကုမ္ပဏီ တည်ထောင်စက အသုံးပြုခဲ့သော မှိုင်ကင်မရာကို ယာနှင့်ဝဲဖက်ဘေးတို့မှ ဖွင့်ပြထားစဥ်

ငွေဝေဝေ-၁၉၅၆)၊ဒါရိုက်တာရွှေဒုံးဦးဘီအောင်(ဒေါက်တာအောင်ကျော်ဦး- ၁၉၅၇)၊ ထွန်းဝေ (ဗိုလ်မြဒင်-၁၉၅၇) မြင့်မြင့်ခင်(ချစ်ညီမ-၁၉၅၇)၊ ဓာတ်ပုံဦးထွန်းလှိုင်(မြတ်ပန်းဝတ်ရည် - ၁၉၅၇)၊ ဒါရိုက်တာ ဦးချစ်ခင် (ဖြေလျော့ခွေ-၁၉၅၈)၊ဦးကျော်သောင်း(ဖြေလျော့ခွေ-၁၉၅၈)၊မြင့်မြင့်ခင်(ဖြေလျော့ခွေ-၁၉၅၈၊ ဒုတိယ အကြိမ် ရသည်။) ဓာတ်ပုံဦးထွန်းမြင့် (စွံတဲ့ မေတ္တာ-၁၉၅၈)၊ ဒါရိုက်တာ ဦးသာခု (ကကြိုးရေက-၁၉၅၉)၊ မြတ်မွန် (ကကြိုးရေက-၁၉၅၉)၊ ဇာတ်ဆောင် ဒေါ်ခင်ညွန့် (ကကြိုးရေက-၁၉၅၉)၊ ထွန်းဝေ (ကကြိုးရေက၊ ချစ်တော့ချစ်တယ်၊ ဗိုလ်အောင်နိုင်-၁၉၅၉၊ ဒုတိယ အကြိမ် ရရှိသည်။)၊ ဓာတ်ပုံ ဦးဘကြည် (ဗိုလ်အောင်နိုင်-၁၉၅၉)၊ မောင်သင် (ရေမြေဆုံးတိုင်၊ စိုးပါနဲ့မေရယ်၊ ချစ်သွေးသစ္စာ-၁၉၆၀)၊ မေသစ် (မေတ္တာရွှေရည်-၁၉၆၀)၊ဓာတ်ပုံ ဦးတင်ယု (မေတ္တာရွှေရည်-၁၉၆၀)၊ ဒါရိုက်တာ ဦးသာခု (အငိုလွယ်သည်-၁၉၆၀၊ ဒုတိယအကြိမ် ရရှိသည်။) ခင်ယုမေ (ကိုယ်ပိုင် မေတ္တာ-၁၉၆၁)၊ မြတ်လေး (အမုန်း၏ နောက်ဝယ်-၁၉၆၁)၊ ဒါရိုက်တာ တက္ကသိုလ်ဦးဝင်းဖေ (ပြည်တန်တဲ့ကျည်ဆံ-၁၉၆၁)၊ ဓာတ်ပုံ ဦးမောင်ကလေး (ကိုယ်ပိုင်မေတ္တာ-၁၉၆၁)၊သီသီ (အတွေ့-၁၉၆၂)၊ အမျိုးသားဇာတ်ရံ ဦးကျောက်လုံး (အတွေ့-၁၉၆၂)၊ အမျိုးသမီး ဇာတ်ရံ မေနွဲ့ (ရွှေရင်သိမ်းသစ်-၁၉၆၂)၊ အမျိုးသမီးဇာတ်ရံ မေသစ် (ရင်ဝယ်တသိမ့်သိမ့်-၁၉၆၄)၊ အမျိုးသားဇာတ်ရံ ဦးကျောက်လုံး (ရင်ဝယ်တသိမ့်သိမ့်-၁၉၆၄)၊ ဓာတ်ပုံ ဦးဘကြည် (ချိန်းမိလေသော ည - ၁၉၆၄)၊ ဝါဝါဝင်းရွှေ (ချစ်သမီး-၁၉၆၅)၊ အမျိုးသမီး ဇာတ်ရံ တင်တင်မူ (သဲလွန်စ-၁၉၆၅)၊ အမျိုးသား ဇာတ်ရံ ဦးကျောက်လုံး (ချစ်သမီး-၁၉၆၅)တို့ ဖြစ်ကြလေသည်။

မြန်မာ ရုပ်ရှင် လောကတွင် ၁၉၅၆ ခုနှစ်ခန့်မှ အစ ပြု၍ အသံတိတ်ကားများ ပျောက်သလောက် ခေတ်ကုန် သွား၍ အသံထွက်ကားများသာ ရိုက်ကူး လာကြလေသည်။ ၁၉၅၇ ခုနှစ်၌ မင်္ဂလာညွန့်ဖလင်းမှ ဒါရိုက်တာ အေဝမ်းညွန့်မောင်၏ မင်းစန္ဒကုတ် ဇာတ်ကားကို ရိုက်ကူး၍ ပြသရာတွင် ယင်းကိုယ်တိုင် စမ်းသပ်တီထွင်လိုက်သော မင်္ဂလာဗီးရှင်း မြင်ကွင်းကျယ်တပိုင်း ပူးတွဲပြသလေသည်။ ၁၉၅၈ ခုနှစ်တွင် မန္တလေးရုပ်ရှင်မှ ယင်းတို့ စမ်းသပ်သော ၁၃၂၀ ပြည့်နှစ် သင်္ကြန်၏ ရွှေမန်းရေသဘင်သတင်းကား စီနီမာစကုတ် မြင်ကွင်းကျယ်ကို ရိုက်ကူးပြသသည်။ ထိုနှစ် ဇွန်လ ၂၇ ရက်နေ့မှ စ၍ ရန်ကုန်တွင် ရုံတင်ပြသသော ဆွေဗမာဖလင်း၏ ရွှေတိဂုံသမိုင်းဇာတ်ကားမှာ ဆွေဗမာ စကုတ် မြင်ကွင်းကျယ် ဖြစ်လေသည်။ ထိုနှစ် ဇူလိုင်လ ၄ ရက်နေ့မှ စတင်၍ ရန်ကုန်မြို့တွင် ရန်ကုန်ရုပ်ရှင်၏ ၂၅ နှစ်မြောက် ငွေရတုသဘင် အောင်မြင်ချက်ဖြစ်သော ချစ်ခဲ့တာအမှန်ပါဘဲ ဆေးရောင်စုံ အသံထွက် ဇာတ်ကားနှင့် အတူ ၁၃၂၀ ပြည့်နှစ် ရန်ကုန်သင်္ကြန် ဆေးရောင်စုံ မြင်ကွင်းကျယ်ကို ပူးတွဲပြသသည်။ ထိုနှစ်တွင်ပင် မင်္ဂလာညွန့်ဖလင်း၏ အိုဘယ့်တဏှာ မင်္ဂလာဗီးရှင်း မြင်ကွင်းကျယ် ဇာတ်ကားကို စတင်ပြသခဲ့၏။

၁၉၅၈ ခုနှစ် ဒီဇင်ဘာလမှ စ၍ ရန်ကုန်တွင် ရုံတင်ခဲ့သော မန္တလေးရုပ်ရှင် “ဤလူဘောင်တွင်” ဇာတ်ကားသည် ပဌမဆုံး စီနီမာစကုတ် မြင်ကွင်းကျယ် ဖြစ်သည်။ ၁၉၅၉ ခုနှစ်တွင် ရန်ကုန်မြို့တွင် စတင် ရုံတင် ပြသခဲ့သော ရန်ကုန်ရုပ်ရှင်၏ သစ္စာလွင်ပြင် ဇာတ်ကားသည် ပဌမဆုံး ဆေးရောင်စုံ မြင်ကွင်းကျယ် စီနီမာစကုတ် “ရန်ကုန်စကုတ်” ဖြစ်လေသည်။ ထိုနောက်တွင် စီနီမာစကုတ် မြင်ကွင်းကျယ် ရိုးရိုးများ၊ ဩဘာလေဘာကဲ့သို့ တပိုင်းဆေးရောင်စုံညှပ် မြင်ကွင်းကျယ်များ ရိုက်ကူးလာကြလေသည်။

၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် တော်လှန်ရေးအစိုးရ တက်လာပြီးနောက်၊ ဇူလိုင်လထဲ၌ စုန်းနတ်ကဝေ တစ္ဆေနှင့် လမ်းသူရဲဆန်သော ဇာတ်ကားများ မရိုက်ကူးရန် မေတ္တာရပ်ခံလေသည်။ ရှိပြီးသား စုန်းနတ်ကဝေ တစ္ဆေဇာတ်ကားများကို ဒီဇင်ဘာလ ၃၁ ရက် နောက်ဆုံးထား၍ ပြသခွင့်ပြုပြီးလျှင် ၁၉၆၃ ခုနှစ်၊ ဇန်နဝါရီလ ၁ ရက်နေ့မှ စ၍ ပိတ်လိုက်လေသည်။ ထိုပြင် ရုပ်ရှင် ရိုက်မည့် ဇာတ်လမ်းများကို ရုပ်ရှင် မြင့်တင်ရေး (ပြည်သူ့ရုပ်ရှင် အုပ်ချုပ်ရေး) သို့ တင်ပြပြီးလျှင် ခွင့်ပြုချက်ရမှ ရိုက်ခွင့်ပြုလေသည်။ ပြည်သူ့ရုပ်ရှင် (အစိုးရ) ကလည်း ရုပ်ရှင်ဇာတ်ကားများ ရိုက်လေသည်။

**မြန်မာ ရုပ်သေး။** ။ရုပ်သေး — ရှု။

**မြန်မာလူမျိုး။** ။**မျိုးရိုးဗီဇ**။ ။မြန်မာလူမျိုးသည် ပြည်ထောင်စု မြန်မာနိုင်ငံ တိုင်းရင်းသားတို့အနက် မြန်မာအစုဝင် လူမျိုး ဖြစ်သည်။ မြန်မာ အစုမှာ တိဗက်-တရုပ်ဘာသာစကား အနွယ်ကြီး၏ အနွယ်တခု ဖြစ်သော တိဗက်-မြန်မာ အနွယ်ဝင် လူမျိုးစု တစု ဖြစ်သည်။ လူမျိုးဗီဇအားဖြင့် မြန်မာအစုဝင် လူမျိုးတို့မှာ နက်ကျော၍ သွယ်ဖြောင့်သော ဆံပင်နှင့် ဝါသော၊ သို့မဟုတ် ညိုသော အသား အရောင် ရှိသည့် မွန်ဂိုလွိုက်များ ဖြစ်ကြသည်။

### အနွယ်တူ လူမျိုးစုများ

မြန်မာ အစုဝင် ဘာသာ စကားတို့နှင့် လွန်စွာ နီးစပ်၍ အနွယ်တူ ဖြစ်သော ဘာသာစကားများကို ပြောဆို ကြသည့် လူမျိုးစုတို့ကို ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်း၌သာမက၊ နယ်နိမိတ်ချင်း ဆက်စပ်နေသော အိမ်နီးချင်းနိုင်ငံတို့၌လည်း တွေ့ရှိရ၏။ ယင်းလူမျိုးစုတို့မှာ (၁) မြန်မာနိုင်ငံတွင်းနေ သက်၊ ကရင်၊ နာဂ၊ ချင်း ကချင်နှင့် လိုလို

လူမျိုးစု၊ (နာဂ၊ ချင်း၊ ကချင်နှင့် လိုလိုလူမျိုးစုတို့ကို မြန်မာနိုင်ငံ၏ အပြင်ဖက်၌လည်း တွေ့ရသည်။) (သက်လူမျိုး။ ကရင်လူမျိုး။ နာဂ လူမျိုး။ ချင်းလူမျိုး။ ကချင်လူမျိုး — လည်းရှု။) (၂) မြန်မာနိုင်ငံ၏ အပတွင် အများစု နေထိုင်ကြသော တိဗက်နှင့် မစ်ရှမီ လူမျိုးစုများ နှင့် (၃) မြန်မာနိုင်ငံ အပတွင်သာ တွေ့ရသော ဗိုဒ္ဓိနှင့် ဆီဖန်လူမျိုးစုတို့ ဖြစ်ကြသည်။ အထက်တန်း ကျသော ယဉ်ကျေးမှုရှိ၍ မြန်မာနိုင်ငံတွင် ထင်ရှားသော ရှေးဦးလက်မှန် နိုင်ငံကို တည်ထောင်ခဲ့သော ပျူ လူမျိုးသည်လည်း မြန်မာတို့နှင့် လွန်စွာ နီးစပ်သော မြန်မာအစုဝင် လူမျိုးတမျိုး ဖြစ်ပေသည်။ ပျူလူမျိုးတို့သည် ယခုအခါတွင် ရောနှော ကွယ်ပျောက် နေပြီဖြစ်၏။ (ပျူလူမျိုး — ရှု။)

## မြန်မာအစုဝင် လူမျိုးများ

မြန်မာ့ ဝေါဟာရ အခေါ် အဝေါ် ဖြစ်သော လူမျိုးတရာ့ တစ်ပါးတွင် "သက်နှင့် ရခိုင်၊ နိုင်းပြိုင် တောင်သူ၊ ပျူ ကမ်းယံ ယော၊ ထားဝယ် နှောက၊ မျိုးသတ္တ" ဟု မြန်မာ ခုနစ်မျိုး ပါဝင်ကြောင်း အဆိုရှိခဲ့ပေသည်။ အမျိုးတူသည်ကို လိုက်၍ လူမျိုးစုတို့ကို သတ်မှတ် ခွဲခြားသည့် ဘာသာဗေဒ သုတေသန နည်းအရ ဆိုလျှင် မြန်မာလူမျိုးဆိုရာ၌ —

(က) ခေတ် မြန်မာစကားကို ပြောဆိုနေကြသော အများစု ဖြစ်သည့် **မြန်မာများ**။

(ခ) မြန်မာ စကားပင် ဖြစ်သော်လည်း ခေတ်ဟောင်း ဝေါဟာရများကို ဆက်လက် သုံးစွဲ၍ အသံအချို့တွင် ခေတ်မြန်မာ စကားနှင့် မတူဘဲ ကွဲပြား ခြားနားသည့် **အသံကွဲ မြန်မာစကားများကို ပြောဆိုကြသော လူမျိုးများ** နှင့်

(ဂ) ရှေးပဝေဏီက မြန်မာ အစုဝင် အခြားလူမျိုးတို့နှင့် အတူတကွ နေခဲ့ကြ၍ ရွှေ့ပြောင်းလာကြရာ လမ်းခရီးတွင် ဝေးလံစွာ ကျန်နေရစ်ခဲ့သော **ရှေးဦး မြန်မာ စကားများကို ပြောဆိုကြသော လူမျိုးများ** ဟူ၍ သုံးမျိုးသုံးစား ရှိပေသည်။

## အသံကွဲ မြန်မာစကား ပြောသူများ

အသံကွဲ မြန်မာစကားများကို ပြောဆိုကြသူ တို့တွင် စစ်တွေ ခရိုင်ရှိ ရခိုင်များ၊ ရမ်းဗြဲခရိုင်ရှိ ရမ်းဗြဲသားများ၊ ကုလားတန် မြစ်ဝှမ်းတွင် နေကြသည့် ချောင်းသားများ၊ ထားဝယ် ခရိုင်တွင် တွေ့ရသော ထားဝယ်သားများ၊ မြိတ် ခရိုင်တွင် တွေ့ရသော မြိတ်သားများ၊ ပခုက္ကူခရိုင် ယော တွင်းတွင် နေထိုင်ကြသည့် ယောသားများ၊ သာယာဝတီ ခရိုင် ပဲခူးရိုးမတောင်စွယ် တဖက်တချက်တွင် နေကြ၍ ယခုအခါကွယ်ပျောက်လုပြီဟု ယူဆရသော ဇဗိန်းခေါ် ယဗိန်းများ၊ မြေပြန့်နှင့် ရှမ်းကုန်းပြင်မြင့်တို့ စပ်မိရာ တလျှောက် မြောက်ဖက် နောင်ချိုနယ်မှ တောင်ဖက် အင်းလေးကန် အနောက်ဖက်ရှိ မြေလတ်ဒေသ တောင်ဖက်စွန်း အထိ ဖြစ်သော ကုန်းပြင်မြင့် အနောက်စွန်း ဒေသတွင် တွေ့ရသော ဓနုများ၊ တောင်ကြီးခရိုင် မြေလတ် ဒေသတွင် နေထိုင်သော တောင်ရိုးများနှင့် ယင်းဒေသ အင်းလေးကန်နှင့် ပတ်ဝန်းကျင်ဒေသရှိ အင်းသားများ ပါဝင်ကြသည်။ (ရခိုင်လူမျိုး။ ထားဝယ်လူမျိုး။ ဓနုလူမျိုး။ တောင်ရိုးလူမျိုး။ အင်းသားလူမျိုး — လည်းရှု။)

## ရှေးဦး မြန်မာစကား ပြောသူများ

ရှေးဦး မြန်မာ စကားများကို ပြောဆို သူတို့မှာ မရူ၊ အဇီး၊ သို့မဟုတ် ဇီး၊ လရှီ၊ အာချန်ခေါ် မိုင်းသာနှင့် ဖွန်းလူမျိုးများဖြစ်ကြ၏။ မရူတို့ကို ကချင်ပြည်နယ် အရှေ့ပိုင်းနှင့် ရှမ်းပြည်နယ် အနောက်မြောက်ပိုင်း၊ ဇီးနှင့် လရှီတို့ကို ကချင်ပြည်နယ် အရှေ့ပိုင်း၊ မိုင်းသာတို့ကို ဗန်းမော်ခရိုင် အရှေ့မြောက်ပိုင်း၊ ဖွန်းတို့ကို မြစ်ကြီးနားနှင့် ဗန်းမော် ခရိုင်တို့ဆုံရာရှိ ကျောက်တွင်းခေါ် ဧရာဝတီမြစ်၏ ပဌမ မြစ်ကျဉ်းတလျှောက်တွင် အသီးအသီး တွေ့ရသည်။ မရူ၊ ဇီး၊ လရှီနှင့် မိုင်းသာတို့သည် တရုပ်ပြည် ယူနန်နယ် အနောက်ပိုင်း တရုပ်-မြန်မာ နယ်စပ်တလျှောက် ယူနန်နယ်အတွင်းထိ ပျံ့နှံ့နေထိုင်ကြ၏။ (မရူလူမျိုး။ လရှီလူမျိုး။ မိုင်းသာလူမျိုး။ ဖွန်းလူမျိုး — လည်းရှု။)

## မြန်မာဟူသော အမည်

မြန်မာ ဟူသော အမည်နှင့် စပ်လျဉ်း၍ မြန်မာသည် ဗြဟ္မာ၊ ဗြဟ္မာတို့မှ ပြောင်းလဲလာသော အမည်ဖြစ်သည်ဟု ဗြဟ္မာနှင့် မြန်မာကို ဆက်စပ်၍ ရှေးက ဝိဂ္ဂိုဟ် ပြုခဲ့ကြဘူးလေသည်။ ယခုခေတ်တွင် မြန်မာတို့သည် မိမိတို့ကိုယ်ကို ဗမာဟု ပြောဆိုခေါ် ဝေါ်ကြ၏။ ရှေးကျလှသော မွန်-ခမာ အနွယ်ဝင် လူမျိုးများ ဖြစ်ကြသည့် ထနော့ (ဓနော) နှင့် ယင်းကျား လူမျိုးတို့က မြန်မာလူမျိုးကို "မွန်း" နှင့် "မရန်း" ဟု အသီးအသီး ခေါ် ဝေါ် ကြသည်။ မြန်မာနိုင်ငံရှိ ရှမ်းများ၊ ယိုးဒယားနိုင်ငံ တောင်ပိုင်းရှိ ယွန်းရှမ်းများနှင့် ကချင် တို့က "မန်" ဟုငင်း၊ ယိုးဒယားနိုင်ငံ တောင်ပိုင်း သားတို့က "ဖမာ့" ဟုငင်း ခေါ်သည်။ တရုပ်တို့ကမူ "မျန်" ဟုခေါ်ကြသည်။ ဤ အခေါ်အဝေါ်ကို တရုပ်နိုင်ငံ ယွန်(မွန်ဂို) မင်းဆက် ရာဇဝင်ကျမ်းများနှင့် မှတ်တမ်းတို့တွင် စတင် တွေ့ရှိရ၏။ အေ၊ ဒီ ၁၂၇၃ မတိုင်မီက သုံးစွဲခဲ့သည်ကို မတွေ့ရသေးပေ။

သက္ကရာဇ် ၅၅၂ ခုနှစ် (အေ၊ ဒီ ၁၁၉၀) ပါ ရှေးဟောင်း မြန်မာ ကျောက်စာ တခုတွင် မြန်မာဟူသော အသုံးကို

အစောဆုံး တွေ့ရသည်။ ထို သက္ကရာဇ်ထက် အနှစ် ၉၀ ခန့် စောသော ကျန်စစ်သား မင်းကြီး၏ နန်းတည် ရွှေး မှန်ကျောက်စာ (အေ၊ ဒီ ၁၁၀၂) တွင် မြန်မာကို "မိရမာ" ဟု ရေးထိုးထား၏။ အေ၊ ဒီ ၁၃၄၂ ထိုး ရွှေးမြန်မာ ကျောက်စာတွင် မြံမာဟု ရေးထိုးသည်ကို အစောဆုံး တွေ့ရသည်။ ထိုနောက်သော် ကျောက်စာနှင့် မင်စာတို့တွင် မြန်မာ၊ မြံမာ၊ သို့မဟုတ် မြမ္မာဟု ရေးထိုး လာကြလေသည်။

## လူဦးရေနှင့် ပျံ့နှံ့နေထိုင်ပုံ

ပြောဆိုသည့် ဘာသာစကားအရ ပြည်ထောင်စု မြန်မာနိုင်ငံသားတို့၏ လူဦးရေစာရင်းကို ဖော်ပြသည့် နောက်အကျဆုံး သန်ကောင် စာရင်းမှာ ၁၉၃၁ ခုနှစ် သန်ကောင် စာရင်း ဖြစ်သည်။ ယင်း စာရင်းအရ ထိုစဉ်က မြန်မာ အစုဝင် ဘာသာစကားများကို ပြောဆိုသော နိုင်ငံသားတို့မှာ နိုင်ငံလူဦးရေ၏ ၆၇.၃ ရာခိုင်နှုန်း (သုံးပုံနှစ်ပုံကျော်) ရှိခဲ့သည်ဟု သိရ၏။

ဤ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ မြန်မာ အစုဝင်တို့ ပျံ့နှံ့ နေထိုင်ခဲ့ကြပုံမှာ အောက်ပါအတိုင်း ဖြစ်သည်။ မြေပြန့် ဒေသ၌ မြန်မာအစုဝင်တို့၏ ဦးရေမှာ ၇၅ ရာခိုင်နှုန်း ကျော်သည်။ ဧရာဝတီ မြစ်ဝှမ်း၏ အလယ်ပိုင်း ဒေသတွင် ၉၅ ရာခိုင်နှုန်း အထိ ရှိ၏။ မန္တလေး ခရိုင်တွင်မူ လူဦးရေ အားလုံးလောက် ၉၈ ရာခိုင်နှုန်းမှာ မြန်မာများ ဖြစ်ကြသည်။ တောင်ဖက်ပိုင်း ဖြစ်သော မြစ်ဝကျွန်းပေါ် ဒေသတွင် မြန်မာတို့၏ ဦးရေမှာ သုံးပုံ နှစ်ပုံထက် ပိုသည်။ သို့ရာတွင် ဤအချိုးအစားမှာ ခရိုင်တိုင်း၌ တသမတ်တည်းရှိသည် မဟုတ်ပေ။ ပုံပမာ သာယာဝတီခရိုင်တွင် မြန်မာတို့မှာ ၉၁ ရာခိုင်နှုန်း ရှိသော်လည်း မအူပင်ခရိုင်၌မူ ၆၆ ရာခိုင်နှုန်းသာ ရှိပေသည်။ ယခင် မေယုနယ်ခြားခရိုင် အပါအဝင်ဖြစ်သော ရွှေးရခိုင်တိုင်း တခုလုံးကို ခြုံကြည့်လျှင် မြန်မာ အစုဝင်တို့၏ ဦးရေမှာ သုံးပုံနှစ်ပုံခန့်သာ ရှိသော်လည်း ကျောက်ဖြူနှင့် သံတွဲခရိုင်တို့၌မူ ၉၀ ရာခိုင်နှုန်းစီ ရှိကြောင်း တွေ့ရပေသည်။ တနင်္သာရီတိုင်း ထားဝယ် ခရိုင်တွင် ၇၅ ရာခိုင်နှုန်း၊ တောင်ဖက်စွန်း ဖြစ်သော မြိတ်ခရိုင်တွင် ၆၆ ရာခိုင်နှုန်း၊ ကော်သူးလေပြည်နယ် မတည်ထောင်မီကဖြစ်သော မူရင်း သထုံခရိုင်တွင် ၃၁ ရာခိုင်နှုန်း၊ မူရင်း ကျိုက္ခမိ ခရိုင်တွင် ၂၀ ရာခိုင်နှုန်း အသီးအသီး ရှိခဲ့ကြ၏။

မြောက်ဖက် အစွန်ပိုင်း ဖြစ်သော ကချင်ပြည်နယ်၊ နာဂတောင်တန်းခရိုင်၊ အနောက်ဖက်စွန်ရှိ ချင်းဝိသေသတိုင်း၊ အရှေ့ဖက်ပိုင်းဖြစ်သော ရှမ်းပြည်နယ်၊ ကယားပြည်နယ်နှင့် ကော်သူးလေ ပြည်နယ်တို့တွင် မြန်မာအစုဝင်တို့သည် လူများစု မဟုတ်ကြပေ။ ကချင်ပြည်နယ်၊ နာဂတောင်တန်းခရိုင်၊ မော်လိုက်(အထက်ချင်းတွင်း) ခရိုင်နှင့် ကသာခရိုင်တို့ကို ခြုံ၍ကြည့်လျှင် မြန်မာ အစုဝင်တို့သည် ၄၅ ရာခိုင်နှုန်းသာ ရှိခဲ့သည်ကို တွေ့ရ၏။ ရှမ်းပြည်နယ်တွင် ၂၅ ရာခိုင်နှုန်း၊ ယခု ကယားပြည်နယ်နှင့် ကော်သူးလေ ပြည်နယ်တို့တွင် လေးရာခိုင်နှုန်းစီသာ အသီးအသီး ရှိခဲ့ကြ၏။ ချင်းဝိသေသတိုင်း၌မူ လူဦးရေအားလုံးလောက်မှာ ချင်းအစုဝင် လူမျိုးများ ဖြစ်ကြလေသည်။

ဤပျံ့နှံ့နေပုံမှာ လွန်ခဲ့သော နှစ် ၃၀ ကျော်က ဖြစ်သည်။ ဤကာလအတွင်း ဒုတိယ ကမ္ဘာစစ်ကြီး၏ ဒဏ်ရာ ဒဏ်ချက်တို့ကြောင့်၎င်း၊ ပြည်တွင်း ဆူပူ သောင်းကျန်းမှု၏ ဒဏ်ရာ ဒဏ်ချက်တို့ကြောင့်၎င်း၊ လူဦးရေ တိုးတက်ခြင်းနှင့် စက်မှု လက်မှု လုပ်ငန်းများ တဖြည်းဖြည်း တိုးတက်လာခဲ့ခြင်းတို့ကြောင့်၎င်း အများစုဖြစ်သော မြန်မာ အစုဝင်တို့၏ လူဦးရေ ပျံ့နှံ့မှုအသွင်မှာ အတော်အသင့် ပြောင်းလဲမှုရှိခဲ့ပေသည်။ သို့ရာတွင် အထက်ဖော်ပြပါ ပျံ့နှံ့နေပုံ၏ အသွင်ကို တမျိုးတဖုံ ဖြစ်သွား စေနိုင်သည့် ပြောင်းလဲချက်မျိုးကား ဖြစ်နိုင်မည် မဟုတ်ဟု ယူဆရပေသည်။

## ပြည်ထောင်စု မြန်မာနိုင်ငံအပသို့ ရောက်နေသော မြန်မာများ

ပြည်ထောင်စု မြန်မာနိုင်ငံ နှင့် နယ်နိမိတ်ချင်း ဆက်စပ်နေသော အိမ်နီးချင်း နိုင်ငံတို့သို့လည်း မြန်မာ အစုဝင်တို့သည် ပျံ့နှံ့ ရောက်ရှိနေကြပြီ ဖြစ်၏။ အနောက်ဖက်တွင်ရှိသော ပါကစ္စတန်နိုင်ငံ အရှေ့ပိုင်း၏ စစ်တကောင်း တောင်တန်းဒေသရှိ မောင်း တိုက်နယ်၊ ဗိုမောင်း တိုက်နယ်၊ စစ်တကောင်း ခရိုင်အတွင်းရှိ ရာမူး၊ ကော့ဗဇာ၊ ဗာရာဆဲ ဒေသ အဝကျွန်းတို့တွင် မြန်မာတို့သည် မြို့ပြကျေးရွာ တည်ထောင်နေထိုင်လျက် ရှိကြ၏။ ဤမြန်မာတို့ကို အိန္ဒိယနှင့် ပါကစ္စတန် နိုင်ငံသားတို့က "မာ့ဃ်" ဟု ခေါ်ကြသည်။ အရှေ့ပါကစ္စတန်တွင် မရမာဂရီး (မြန်မာကြီး) ခေါ်သော သူများ ရှိကြသေးသည်။ ထိုမရမာဂရီးတို့သည် ဗုဒ္ဓအယူဝါဒီများ ဖြစ်ကြသော်လည်း ဗင်္ဂါလီစကားကို ပြောဆိုကြသူများ ဖြစ်ကြသည်။

ယိုးဒယားနိုင်ငံ မြောက်ပိုင်း ရွှေး ယောနကရဋ္ဌ တိုင်းသို့လည်း မြန်မာအချို့တို့သည် ပျံ့နှံ့ရောက်ရှိလျက် ရှိကြ၏။ ဤကဲ့သို့ ပြည်ထောင်စု မြန်မာနိုင်ငံ၏ အပြင်ပသို့ ရောက်နေကြသော မြန်မာတို့အနက် အများစုမှာ မူရင်း ယဉ်ကျေးမှုနှင့် ဘာသာစကားတို့ကို ထိန်းသိမ်းခဲ့ကြသော်လည်း အချို့မှာမူ ပတ်ဝန်းကျင် အခြေအနေ၏ လွှမ်းမိုးမှုတို့ကြောင့် ရောက်ရာဒေသ၏ ထုံးစံ ဓလေ့၊ ယဉ်ကျေးမှုနှင့် ဘာသာစကားတို့ကို တဖြည်းဖြည်း ခံယူလျက် ရှိကြပေသည်။

တရုပ်နိုင်ငံ ယူနန်ပြည်နယ် အနောက်ပိုင်း မြန်မာ နယ်စပ်တလျှောက်တွင် ရွှေးဦး မြန်မာလူမျိုးစုများ ဖြစ်သော မရှူ၊

အဇီးခေါ် ဇီး၊ လရှီ၊ အာချန်ခေါ် မိုင်းသာတို့သည် အနည်းနှင့်အများ နေထိုင်လျက်ပင် ရှိကြကြောင်းကို အထက်၌ ဆိုခဲ့ပြီ ဖြစ်၏။

### ဗဟိုဒေသမှ ရွှေ့ပြောင်းနေထိုင်ကြသူများ

ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်းနှင့် နိုင်ငံ၏ ပြင်ပဒေသတို့တွင် မြန်မာအစုဝင် ဘာသာစကားများကို ပြောဆိုသည့် လူမျိုးစုတို့ ပျံ့နှံ့နေပုံနှင့် ဒေသလိုက် လူဦးရေ အနည်းအများတို့ကို လေ့လာကြည့်ရှုခြင်းအားဖြင့် မြန်မာအစုဝင်တို့ ဝင်ရောက် လာကြပုံ၊ မြန်မာနိုင်ငံအတွင်း စတည်းချခဲ့ရာ အဓိက ဒေသကြီး၊ ယင်းမှ တဆင့် ပျံ့နှံ့ခဲ့ပုံ စသည့် မြန်မာအစုဝင်တို့၏ ရွှေ့ပြောင်း နေထိုင်ခဲ့ပုံ သမိုင်းကို ခန့်မှန်းချိန်ဆ နိုင်ပေမည်။ အထက်ပါ ပျံ့နှံ့နေပုံအရ မြန်မာ နိုင်ငံတွင်း၌ မြန်မာအစုဝင်တို့၏ အချက်အခြာ ဒေသမှာ ရောဝတီမြစ်ဝှမ်း အလယ်ပိုင်း ဖြစ်၍ ယင်းဒေသမှ အနောက်ဖက်၊ တောင်ဖက်နှင့် မြောက်ဖက် ဒေသများသို့ ရွှေ့ပြောင်း နေထိုင်ခဲ့ကြခြင်းကို သိနိုင်ပေသည်။ အနောက်ဖက်သို့ ရွှေ့ပြောင်းသူတို့သည် ရခိုင်တိုင်းမှ တဆင့် မြန်မာနိုင်ငံ၏ နယ်နိမိတ်ကို ကျော်လွန်ကာ အရှေ့ပါကစ္စတန် နိုင်ငံတွင်းသို့ ရောက်နေကြခြင်း ဖြစ်သည်။ ရခိုင်တိုင်း၊ ယောတွင်း၊ အရှေ့ပါကစ္စတန် နိုင်ငံ၊ တနင်္သာရီ တိုင်း၏ တောင်ဖက် အစွန်ဒေသတို့သို့ ရောက်နေကြသော မြန်မာအစုဝင်တို့ကို ဗဟိုဒေသကြီးမှ ရွှေ့ပြောင်း ရောက်နေကြသူများဟု ယူဆနိုင်ပေသည်။ ယိုးဒယားနိုင်ငံ မြောက်ပိုင်း ရောက် မြန်မာတို့ကိုလည်း အလားတူပင် ရောက်ရှိနေကြသူများဟု ဆိုဖွယ်ရာ ရှိ၏။

### ဝင်လာကြစဉ် ကျန်ရစ်ခဲ့သူများ

ရှမ်းပြည်နယ် မြေလတ်ဒေသရှိ ဓနုနှင့် တောင်ရိုး လူမျိုးများ၊ ကချင် ပြည်နယ်နှင့် ရှမ်းပြည်မြောက်ပိုင်းရှိ မရူ၊ အဇီး၊ လရှီ၊ မိုင်းသာနှင့် ဖွန်းလူမျိုးများကိုမူ မြန်မာပြည်မသို့ မရောက်ဘဲနေရစ်ခဲ့သူများဟု ဆိုရပေမည်။ ထိုလူမျိုးစုတို့သည် မြန်မာနိုင်ငံတွင်းသို့ မြန်မာအစုဝင်တို့ ဝင်ရောက်ခဲ့စဉ်က လမ်းခရီးတွင် ကျန်နေရစ်ခဲ့သော ရှေးဟောင်း လူမျိုးစုများ ဖြစ်ကြောင်းကို သူတို့၏ ယဉ်ကျေးမှု၊ ဓလေ့ ထုံးစံနှင့် ဘာသာစကားတို့က ထင်ရှားစွာ သက်သေ ထူလျက် ရှိပေသည်။ အင်းသားတို့မှာမူ ထားဝယ်မှတဆင့် ရောက်လာကြသူများဟု အဆို ရှိပေသည်။

ဤကဲ့သို့ နိုင်ငံတွင်းနှင့် နိုင်ငံပတို့သို့ ပျံ့နှံ့ရောက်ရှိနေကြသော ဤမြန်မာ အစုဝင်တို့သည် မည်သည့်ဒေသမှ မည်သည့် ကာလလောက်က ယခု ဒေသများသို့ မည်သို့ မည်ပုံ ရောက်ရှိ လာခဲ့ကြသည် ဟူသော မြန်မာတို့၏ ရှေးဦးလက်မွန် ဖြစ်စဉ် သမိုင်းမှာ စိတ်ဝင်စားဖွယ် ကောင်းသော လေ့လာမှုတရပ် ဖြစ်ပေသည်။

### မြန်မာတို့၏ မူလအစ

"မြန်မာအစ တကောင်းက" ဟု မြန်မာတို့၏ မူလအစနှင့် စပ်လျဉ်းသော အဆိုတရပ် ရှိပေသည်။ ယင်းအဆိုမှာ ကုန်းဘောင်ခေတ် အေဒီ ၁၈၂၉ ခုနှစ်တွင် ရေးသား ပြုစုသော မှန်နန်း မဟာရာဇဝင်တော်ကြီးတွင် စတင် တွေ့ရသည်။ ဤရာဇဝင်တော်ကြီး၏ တတိယတွဲတွင် "အာဒိစ္စဝံသ သာကီယ အနွယ်တော်လျှင် အမွန်ရှိသော မြန်မာမင်းတို့၏ တည်ရင်းအစ ပဌမဖြစ်သော တကောင်းပြည်ကြီးကို အစမူလဖြင့် ထိုထိုသော ပြည်ထောင်ထီးဆောင်း မင်းအပေါင်းတို့၏ အနွယ် အလာ သာသနာတော်မြတ်၏ အမြစ်အခြေ မွေတော် ဓာတ်တော် စသော အလုံးစုံသော မြန်မာပြည် မြန်မာမင်းတို့ အကြောင်းအရာကို ဆိုပေအံ့" ဟု အစချီ၍ ဂေါတမမြတ်စွာဘုရား ပွင့်တော်မမူမီ မဇ္ဈိမဒေသ ကပိလဝတ်ပြည်မှ အဘိရာဇာမည်သော သကျ သာကီဝင်မင်းသည် မြန်မာနိုင်ငံ ဖက်သို့ ရွှေ့ပြောင်းလာ၍ တကောင်းပြည်ကို တည်ထောင် လာသည့် အကြောင်းနှင့် မြန်မာရာဇဝင်ကို စတင် ရေးသားထားပေသည်။ တဖန် မြတ်စွာဘုရား သက်တော်ထင်ရှား ရှိနေချိန်တွင် ကပိလဝတ်ပြည် ပျက်၍ ဓဇရာဇာမည်သော သာကီဝင်မင်း ရောက်ရှိလာပြန်ကာ၊ ယခင်ရောက်ရှိပြီးဖြစ်သော သာကီဝင်ဆက်နှင့် ဆက်သွယ်မိပြီးလျှင် တကောင်းပြည်ကို ပြန်လည် တည်ထောင်ခဲ့ပြန်သည်။ ဤမင်းဆက်တို့၏ အနွယ်တို့သည် ရခိုင်ပြည် ဓညဝတီ၊ သရေခေတ္တရာပြည်မြို့တို့ကို တည်ထောင် အုပ်ချုပ်ခဲ့ကြ၏။ သရေခေတ္တရာမှ သာကီဝင်နွယ် မင်းဆက်သည် ပုဂံကို ဆက်လက် တည်ထောင်ကာ နောက်ဆုံး ကုန်းဘောင်ခေတ်အထိ အနွယ်အဆက်မပြတ်ဘဲ အုပ်ချုပ်ပုံကို ဖော်ပြထားပေသည်။

သို့ရာတွင် ဤအဆိုတွင် တကောင်းမှာ မြန်မာ လူမျိုး၏ အစဟုမဆိုဘဲ မြန်မာနိုင်ငံမင်းတို့၏ အစဟုသာ ဆိုထားခြင်း ဖြစ်သည်။ ဤမှန်နန်းရာဇဝင်တော်ကြီး၏ အလျင်က ပေါ်ပေါက်ခဲ့သော ရှင်မဟာသီလဝံသရေး ရာဇဝင်ကျော် (အေဒီ ၁၄၆၀) နှင့် ဦးကုလားရေး မဟာရာဇဝင်တော်ကြီး (အေဒီ ၁၈ ရာစု နှစ်ဦးပိုင်း) တို့တွင် မြန်မာမင်းတို့သည် သကျသာကီယအနွယ်ဝင် ဖြစ်ကြောင်းကို ဆိုထားခြင်း မရှိပေ။ ရှေးက ပေါ်ခဲ့ပြီးသော ရာဇဝင်ကျမ်းတို့၌ ဤအဆိုကို ဖော်ပြခဲ့ခြင်း မရှိကြောင်းကို ဤမှန်နန်း မဟာရာဇဝင်တော်ကြီးတွင်လည်း ဤသို့ ဖော်ပြထားပေသည်။ သာကီဝင်ဆက် ဖြစ်ပုံကို ဖော်ပြပြီးနောက် "ဤမျှလောက်သော စကားအစဉ်ကား ရာဇဝင်ကြီး ရာဇဝင်သစ်တို့၌ မဆိုမပြ ကြွင်းကျန်

လေသည်ကို မြန်မာဦးစွန်း ထွန်းစဖြစ်သော တကောင်းပြည်ကြီး၏ အခြေအမြစ်ကိုလည်းကောင်း၊ အာဒိစ္စဝံသ သာကီယဝင်ဖြစ်သော မြန်မာမင်းတို့၏ အနွယ်အလာ ကိုလည်းကောင်း နှောင်ထင်ရှားစိမ့်သောငှာ....ထုတ်နုတ်ပြဆိုသော စကားတည်း။" သစ်ဟောင်း အထောက်အထားတို့ကို ဖော်ပြ၍ ရေးသားထား၏။ ဤရာဇဝင်ကျမ်းသည် မြန်မာမင်းတို့မှာ အာဒိစ္စဝံသ သာကီယဝင်ဖြစ်ကြောင်းကိုရင်း၊ ဆွေစဉ်မျိုးဆက် ဆက်သွယ်မှု မပြတ်ပုံကိုရင်း အထူးဂရုပြု၍ ရေးသားထားပေသည်။

မြန်မာ လူမျိုးတို့သည် အရှေ့ မြောက်ဖက် ယူနန်နယ်မှ ဝင်ရောက်လာသည် ဟူသော အဆိုတရပ်လည်း ရှိနေပေသေးသည်။

တရုပ်နိုင်ငံ အနောက် မြောက်ပိုင်းတွင် တူးဖော် တွေ့ရှိရသော ကျောက်ခေတ်သစ်ဆိုင်ရာ ရှေးဟောင်း အထောက်အထား ပစ္စည်းများ၊ ရှေးခေတ်ဟောင်း တရုပ် ရာဇဝင်ကျမ်းများနှင့် မှတ်တမ်းများ၊ မြန်မာနိုင်ငံရှိ လူမျိုးစုတို့ ပြောဆိုသော ဘာသာစကားများ၊ မြန်မာနိုင်ငံတွင် တွေ့ရသော ရှေးဟောင်းပစ္စည်းများနှင့် မြန်မာနိုင်ငံ ရှေးဟောင်း ကမ္ပည်းကျောက်စာများ စသည့် ခိုင်လုံသော အထောက်အထားများကို အခြေထားကာ နှိုင်းယှဉ် သုတေသန ပြုပြီးနောက် မြန်မာတို့၏ မူလအစနှင့် ရွှေ့ပြောင်း နေထိုင်လာခဲ့ပုံအကြောင်းကို ဖော်ထုတ်သော ရန်ကုန်တက္ကသိုလ် ကမ္ဘာ့အရှေ့ဖျားဆိုင်ရာနိုင်ငံများ သမိုင်းဌာန၏ အထူးပါမောက္ခဖြစ်သူ ဒေါက်တာ ဂျီ၊ အိပ်၊ လုစ၏ ရှာဖွေ တွေ့ရှိချက်များနှင့် ယူဆချက်များမှာ အောက်ပါ အတိုင်း ဖြစ်လေသည်။

## ရှေးတရုပ်နှင့် တိဗက်တို့ စပ်ကြားဒေသ

မြန်မာ အစုဝင်တို့ အပါအဝင် ဖြစ်သော တိဗက်-မြန်မာ အနွယ်ဝင် တို့၏ ဒေသမှာ ရှေးတိဗက်နှင့် တရုပ်လူမျိုးတို့၏ မူရင်းနေရာ နှစ်ခုစပ်ကြားရှိ တရုပ်ပြည်မ၏ အနောက်မြောက်ဖက်နှင့် တိဗက်ပြည်၏ အရှေ့မြောက်ဖက်ရှိ ကန်စုနယ်၏ တောင်ပိုင်းဒေသ ဖြစ်ခဲ့ဟန်တူ၏။ အေ၊ ဒီ ၂၀၀၀ ခန့်က ထိုဒေသရှိ ထော၀် မြစ်ဝှမ်းတွင် နေထိုင်ခဲ့ကြသူတို့သည် တရုပ်ပြည် အခြား ဒေသများတွင် ရှိခဲ့သူတို့ နည်းတူ တိုးတက်၍ အဆင့်အတန်း မြင့်လှသော ကျောက် ခေတ်သစ် ယဉ်ကျေးမှုကို ရရှိနေကြသော လူများ ဖြစ်ကြ၏။ သူတို့၏ အိုးခွက် လုပ်ငန်းသည် လက်ရာ ပြောင်မြောက်လှကြောင်း တွေ့ရသည်။ တရုပ်ပြည်တွင် ထင်ရှားလှသော ကြေးခေတ် ယဉ်ကျေးမှုမှာလည်း ဤ တိဗက်-မြန်မာတို့ နေထိုင်ခဲ့ရာဒေသမှ တဆင့် တရုပ်ပြည်သို့ ရောက်ရှိခဲ့ခြင်း ဖြစ်လေသည်။

## ချီအင် သိုးထိန်းသားများ

ဘီ၊ စီ ၁၁၀၀ ခန့်က ရေးခဲ့သည်ဟု ခန့်မှန်းရ၍ တရုပ်ပြည် မြစ်ဝါမြစ်၏ မြောက်ဖက် မိုင် ၇၀ ခန့်အကွာရှိ အန်ယင်ဒေသတွင် တွေ့ရှိခဲ့သော ရှေးဟောင်း တရုပ်အရိုးစာတမ်းတို့အရ သိုးထိန်းခြင်းဖြင့် အသက်မွေးသော ချီအင်ခေါ် လူမျိုး တမျိုးသည် အန်ယင်၏ အနောက်ဖက်ပိုင်းတွင် နေထိုင်ခဲ့ကြောင်း သိရပေသည်။

တရုပ်မင်းဆက်များ အင်အား ကြီးမားလာသောအခါ ယင်း ချီအင်တို့ကို တိုက်ခိုက်ကြ၏။ ယဇ်ပူဇော်ရန် ဖမ်းဆီးကြ၏။ သို့ဖြစ်၍ ချီအင်တို့သည် တရုပ်တို့၏ဘေးရန်မှ ကင်းဝေးရအောင် အနောက်ဖက်သို့ ရွှေ့ပြောင်းခဲ့ရာ ဘီ၊ စီ ၅၀၀ ခန့်တွင် အန်ယင် အနောက်ဖက် မိုင် ၆၀၀ ခန့် ကွာသော ဒေသသို့ ရောက်နေကြောင်း သိရသည်။ အချို့မှာ တောင်ဖက်သို့ ရွှေ့ပြောင်းကြသည်။ နောက်ထပ်ဆက်ခံသော တရုပ်မင်းဆက်တို့၏ လိုက်လံတိုက်ခိုက်မှုကြောင့် တောင်ဖက်သို့ ဆက်လက် ရွှေ့ပြောင်းခဲ့သော ချီအင်တို့သည် ခရစ်နှစ် အစလောက်တွင် စုချွမ်နယ် အနောက်ပိုင်းနှင့် ယူနန်နယ် မြောက်ပိုင်းအထိ ရောက်နေခဲ့ပြီ ဖြစ်ကြောင်း နောက်ပိုင်း တန်ရာဇဝင်ကျမ်းမှ သိရပေသည်။

## ရှေးဦးချီ ပျူများ

ဘီ၊ စီ ၁၁၀၀ ခန့်မှ စ၍ ရှေးဟောင်း တရုပ်စာတို့တွင် တွေ့ရသော ဤချီအင် လူမျိုးတို့သည် တိဗက်-မြန်မာအနွယ်ဝင်များဖြစ်ကြပေသည်။ အေ၊ ဒီ ၃၅၀ လောက်တွင် တိဗက်-မြန်မာ အနွယ်ဝင်တို့၏ ရွှေ့ပြေးလူမျိုးစု တစု ဖြစ်သော ပျူ လူမျိုးတို့သည် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်နေပြီ ဖြစ်ကြောင်း ရှေးဟောင်း တရုပ်စာပေ အထောက်အထားအရ သိရသည်။ မြန်မာနိုင်ငံတွင်းသို့ ပျူတို့ ဝင်ရောက်ချိန်တွင် သက်၊ ကဒူးနှင့် ချင်း လူမျိုးတို့သည် ရောက်နှင့်ကြပြီဟု ယူဆရ၏။ ကန်စုနယ်ဖက်မှ ရွှေ့ပြောင်းလာခဲ့ကြစဉ် သက်၊ ကဒူးနှင့် ချင်းတို့သည် တိဗက်ပြည် နှင့် နီးကပ်စွာ အနောက်ဖက်ကြောင်းမှ ရွှေ့ပြောင်းကြ၍ မြန်မာနိုင်ငံ အနောက်မြောက် အာသံပြည်ဖက်မှ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ခဲ့ကြခြင်း ဖြစ်ပေသည်။ ရှေးမြန်မာတို့မှာမူ တရုပ်ပြည်နှင့် နီးကပ်စွာ အရှေ့ဖက်ကြောင်းမှ တောင်ဖက်သို့ ရွှေ့ပြောင်းလာခဲ့၍ မြန်မာနိုင်ငံ အရှေ့မြောက်ဖက် ယူနန်နယ်ဖက်မှ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ခဲ့ကြ၏။

## ယဉ်ကျေးမှုကို စွန့်လွှတ်၍ အခြေပြောင်းခဲ့ရပုံ

အာရှတိုက် အလယ်ပိုင်း ဂိုဗီ သဲကန္တာရ၏အစွန် သမပိုင်းဇုန်အတွင်း ကျရောက်သော မူရင်း ဒေသမှ တောင်ဖက်သို့ ရွှေ့ပြောင်းချိန်တွင် ရှေးမြန်မာတို့သည် တရုပ်တို့နှင့် တန်းတူ

ဖြစ်သော ယဉ်ကျေးမှု အဆင့်အတန်းကို ရရှိနေပေပြီ။ သို့ရာတွင် တရုပ်တို့၏ ဖိနှိပ်မှုကို မခံလိုသဖြင့် မူရင်းဒေသနှင့် အထက်တန်း ကျသော ယဉ်ကျေးမှုနှင့် လူမှုဖွဲ့စည်းပုံတို့ကို စွန့်လွှတ်ကာ တောင်ဖက်သို့ ရွှေ့ပြောင်း လာခဲ့ပေသည်။ ဤသို့ ရွှေ့ပြောင်းရာတွင် နေထိုင်မှု စံနစ်ကို တကြိမ်ထက်မက ပြောင်းလဲ ခဲ့ကြရဟန် တူ၏။ မူရင်းဒေသ၌ မြက်ခင်းတွင် သိုးကျောင်းသားဘဝ၊ ထိုနောက် သဲကန္တာရသားဘဝ၊ တောင်ဖက် အလွန်အေးချမ်းသည့် ရေခဲလွှမ်းသော ကုန်းမြင့်ဒေသသို့ရောက်သောအခါတွင် ရေခဲပြင်သားဘဝ၊ စုချွမ်နယ်သို့ ရောက်သောအခါ တော တောင်၊ လျှို၊ မြောင်၊ စိမ့်စမ်းတွင် နေရသော တောတွင်းသား ဘဝ၊ ယူနန်နယ်တွင်းသို့ ရောက်သောအခါတွင် သစ်တောပါးသော ကုန်းပြင်မြင့်တွင် နေထိုင်ရသည့် ကုန်းမြင့်သားဘဝ ဟူ၍ ရာသီဥတု၊ ပတ်ဝန်းကျင်ဒေသ အခြေအနေ လုပ်ကိုင်စားသောက်မှုမှ စ၍ ကွဲပြား ခြားနားသည့် လူနေမှု စံနစ်အမျိုးမျိုးကို ပြောင်းလဲ နေထိုင်ခဲ့ကြရသည်။ ဤသို့အားဖြင့် ရှေး မြန်မာတို့သည် မူရင်းက ရှိခဲ့သော အထက်တန်းကျသည့် ယဉ်ကျေးမှုအချက်အလက်တို့ကို မေ့ပျောက် ဆုံးရှုံးခဲ့ရ၏။

## ယဉ်ကျေးမှုထက် လွတ်လပ်ရေးကို မြတ်နိုးခြင်း

ဘီ၊ စီ ၂၀၀၀ က တန်းတူရှိခဲ့သော တရုပ်ယဉ်ကျေးမှုနှင့် နှိုင်းစာလျှင် ဤခရီးရှည်ကြီးအတိုင်း လူအဆက်ဆက် ရွှေ့ပြောင်း နေထိုင်လာခြင်းဖြင့် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ချိန်တွင် ရှေးမြန်မာတို့သည် ယဉ်ကျေးမှုဖက်တွင် နှစ်ပေါင်း ၂၀၀၀ ခန့် နောက်ကျနေခဲ့လေပြီ။ သို့သော် "ရှေးမြန်မာတို့သည် ယဉ်ကျေးမှုနှင့် လွတ်လပ်ရေးတို့တွင် လွတ်လပ်ရေးကို ရွေးချယ်ကြ၍ ခရီး တလျှောက်လုံးတွင် မိမိတို့၏ လွတ်လပ်ရေးကို ရဲဝံ့စွာ ကာကွယ် ထိန်းသိမ်းခဲ့ပေသည်။"

## နန်ကျောဝ်ရောက် ရှေးမြန်မာများ

ရွှေ့ပြောင်းရာ ခရီးရှည်ကြီးတွင် တထောက် နားရသည့် ဒေသဖြစ်သော ယူနန်နယ် အနောက်ပိုင်း နန်ကျောဝ် (နန်ချောင်) ပြည်သို့ ရောက်နေစဉ် အေ၊ ဒီ ခုနှစ် ရာစုနှစ်မှ ကိုးရာစုနှစ်အထိဖြစ်သော ရှေးမြန်မာတို့၏ အကြောင်းကို ခေတ်ပြိုင် တရုပ်အထောက်အထားတို့မှ အတော်အတန် သိရှိရပေသည်။ တထောက်နားသည် ဟုဆိုသည့်တိုင်အောင် အလျှင်ရောက်နှင့် သူတို့သည် အခွင့်သာလျှင် သာသလို တစိမ့်စိမ့်နှင့် ဆက်လက်ရွှေ့ပြောင်းပြီး ရွှေ့ပြောင်းဆဲဖြစ်ပေသည်။

အေ၊ ဒီ ခုနှစ် ရာစုနှစ်တွင် တန်ခိုး ကြီးလာသော တရုပ်ပြည် ထန်အင်ပိုင်ယာနှင့် တပြိုင်နက်တည်း အင်အား ကြီးလာသော တိဗက်နိုင်ငံတို့ အပြိုင်အဆိုင်ဖြစ်ပွားခဲ့သော စစ်မှုရေးရာ များသည် ရှေးမြန်မာတို့၏ ရွှေ့ပြောင်းမှုကို ပိုမိုလျင်မြန်စေခဲ့၏။ ဤအတွင်း ယူနန်နယ် အနောက်ပိုင်းတွင် နယ်များကိုစုပေါင်း၍ နန်ကျောဝ် (နန်ချောင်) ပြည်ထောင်စုဟူသော နိုင်ငံသည် ပေါ်ပေါက်လာခဲ့ပြန်သည်။ ယခင်က တိဗက်နှင့် တရုပ်သာ ယှဉ်ပြိုင် တိုက်ခိုက်ခဲ့သော်လည်း ယခုနန်ကျောဝ်ပါ ပါဝင်လာသဖြင့် တန်ခိုးအင်အား ပြိုင်မှုမှာ သုံးပွင့်ဆိုင် ဖြစ်လာခဲ့လေသည်။ ဤသုံးပွင့်ဆိုင် တိုက်ခိုက်ယှဉ်ပြိုင်မှုကြားမှ ရှေးမြန်မာတို့သည် ဖြတ်သန်း ရွှေ့ပြောင်းသွားရ၏။ နေထိုင်ခဲ့ရ၏။ ယှဉ်ပြိုင်မှုတို့တွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင် ဆင်နွှဲခဲ့ရသည်လည်း ရှိ၏။

## မင်းစောဟု တွင်ခြင်း

နန်ကျောဝ် နယ်တွင် ရောက်နေသော ရှေးမြန်မာတို့သည် မြန်မာဟု မတွင်သေးပေ။ လူမျိုးစု တစု၏ အမည်ကို ယင်းလူမျိုးအား အုပ်စိုးသူကို ခေါ်ဝေါ်သည့် ဝေါဟာရ အတိုင်း တရုပ်တို့က ခေါ်ခဲ့ကြသည် ဖြစ်ရာ၊ ရှေး မြန်မာလူမျိုးစုတို့သည် မိမိတို့ကို အုပ်စိုးသူကို ခေါ်သည့် ဝေါဟာရ ဖြင့် အမည် တွင်ခဲ့ကြပေသည်။ ယင်းလူမျိုးစု အမည်တို့မှာ မန်၊ သို့မဟုတ် မန်ကျောဝ်၊ ဝမ်ကျူ၊ ဝမ်ဝိုင်ယူ၊ ဖူ စသည်တို့ ဖြစ်၏။

မန်မှာ မင်းဖြစ်၍ မန်ကျောဝ်မှာ မင်းစော ဖြစ်သည်။



ရှေး မြန်မာအမျိုးသား

မြန်မာတို့၏ အကြီးအကဲ ဘုရင်ကိုခေါ်သော ဝေါဟာရပင် ဖြစ်သည်။ အနော်ရထာခေါ် အနိရုဒ္ဓ မင်းကြီးသည် အနော်ရထာမင်းစောဟု တွင်သည်ကို ထောက်ထား ကြည့်ရှုနိုင်သည်။ ဝမ် နှင့် မန်၊ ကျော ် နှင့် ကျူတို့မှာ အသံဖလှယ်နိုင်သော **စကားများ၊** အသံကွဲစကားမျှသာ ဖြစ်သည်ကိုလည်း သတိပြုမိပေမည်။

ဤ ရှေး မြန်မာလူမျိုးစုတို့သည် အေ၊ ဒီ ရှစ်ရာစု နှစ်များ အစလောက် ကတည်းက နန်ကျော်ပြည်တွင်းတွင် ထင်ထင်ရှားရှား ရှိနေကြပြီ ဖြစ်ကြောင်းကို သိရပေသည်။

## စစ်ထိုး ကောင်းသူများ

ယခု ပေါင်ရှန်မြို့၏ အနောက် မြောက်ဖက်တွင် ဝမ်ဝိုင်ယူ လူမျိုးစုနေထိုင်ခဲ့၏။ ဝမ်ဝိုင်ယူတို့သည် ရန်သူတို့ ရပ်တည်ခုခံခြင်း မပြုနိုင်လောက်အောင် စစ်ထိုးကောင်းသူ၊ စစ်ထိုးပြင်းထန်သူများ ဖြစ်ကြသည်။ သူတို့၏ စစ်လက်နက်တို့မှာ လှံများ၊ လှံပုဆိန်များနှင့် သစ်သားဖြင့် ပြုလုပ်ထားသော လေးများ ဖြစ်ကြ၏။

အိမ်ထောင် မပြုရသေးသော အမျိုးသမီးတို့သည် ဆံထုံးတခုသာ ထုံးကြ၍ အိမ်ထောင်ပြုပြီး ဖြစ်လျှင် ဆံထုံးနှစ်ခုထုံးသည့် ဓလေ့ ရှိကြသည်။

## မြင်းသည်ကျော်များ

တာလီဖူမြို့၏ တောင်ဖက်၊ မဲခေါင်မြစ်၏ အရှေ့ဖက်ဒေသမှာ ဝမ်ကျူ လူမျိုးစု၏ ဒေသဖြစ်သည်။ သူတို့သည် မြင်းသည်ကျော်များ ဖြစ်ကြ၏။ မြင်းရေးနှင့် လှံရေးတို့တွင် အထူးကျွမ်းကျင်သူများ ဖြစ်ကြသည်။ နန်ကျော် တပ်မတော် စစ်ချီတက်သော အခါတွင် ဝမ်ကျူတို့၏ မြင်းတပ်သည် စစ်ဦးစစ်ဖျားမှ လိုက်ပါရစမြဲ ဖြစ်၏။ ဤအဦးချီ မြင်းတပ်တို့တွင် ဝမ်ကျူ အမျိုးသားများသာမက အမျိုးသမီးများလည်း ပါဝင်ကြ၏။ စစ်ဝတ်တန်ဆာတို့မှာ ကြဲသေးအင်္ကျီတို့နှင့် အောင်းမွေး တလူလူလွင့်နေသော သံခမောက်တို့ဖြစ်၏။ မြင်းကို ကုန်းနှီးမပါဘဲ စီး၍ လှံနှင့် လှံပုဆိန်တို့ကို ဝင့်ကာဝင့်ကာဖြင့် ဝမ်ကျူတို့သည် လျှပ်ပြက်သည့်နှယ် လျင်မြန်စွာ တိုက်ခိုက်နိုင်သူများ ဖြစ်ကြ၏။

## ခွန်အားကြီးသူများ

ဖူ လူမျိုးတို့သည် ပေါင်ရှန်မြို့၏ အနောက်ဖက်တွင် နေထိုင်ကြ၏။ အရပ်ရှည်၍ ခွန်အား ကြီးသူများ ဖြစ်သည်။ စစ်သွေး စစ်စိတ်ရှိ၍ ရဲဝံ့ကြသည်။ ကြောက်ဖွယ်ကောင်းသူများ ဖြစ်၏။ ဖူတို့က သူတို့၏ အကြီးအကဲကို ချီယူ (စိုး) ဟု ခေါ်ကြသည်။ စစ်သည်ကောင်းများ ဖြစ်သော ဖူတို့သည် စက်ဝိုင်းပုံရှိသော ကာ အငယ်စားများ၊ လှံများနှင့် ဝါးဖြင့်ပြုလုပ်ထားသော လေးတို့ကို စွဲကိုင်စစ်ဆင်ကြသည်။ ရန်သူတို့က ဖမ်းမိ၍ လက်ကို ဖြတ်ပစ်သည်အထိ နှိပ်စက်ညှဉ်းပန်း သော်လည်း ဖူတို့သည် စကားတုံ့ပြန်ခြင်း မပြုပေ။ ညည်းတွား အော်ဟစ်ခြင်းလည်း မပြုကြပေ။ ဤမျှ သတ္တိကောင်းသော ရှေးမြန်မာများ ဖြစ်ကြ၏။

ပေါင်ရှန်မြို့၏ တောင်ဖက် ယခု သိန္နီနယ်တွင် မန်ကျော်ခေါ် မင်းစောလူမျိုးစုတို့ နေထိုင်ကြသည်။ မိမိတို့၏ အကြီးအကဲများကို မန်(မင်း) ဟုခေါ်ကြသည်။ နန်ကျော်တို့က မူ မန်ကျော်(မင်းစော)ဟုခေါ်ကြသည်။ မင်းစောလူမျိုးစု အမျိုး အတော်များများရှိ၍ ရောနှော နေထိုင်ကြသည်။ သူတို့၏ မြို့များတွင် မြို့ရိုး မြို့တာများ မရှိပေ။ အိမ်ကို တိုင်များနှင့် အမြင့်ဆောက်၍ နေထိုင်ကြသည်။ ကျွဲလောက်သာရှိသော ဆင်ပုကလေးများကို မွေးမြူ၍ ယင်းဆင်တို့ဖြင့် ထွန်ယက် စိုက်ပျိုးကြသည်။ ပုဂံခေတ် ရှေးဟောင်းကျောက်စာတခုတွင် မူးမြစ်ဝှမ်း၌ ဆင်ထွန်ရွာ ဟုခေါ်သော ရွာတရွာရှိကြောင်း တွေ့ရ၏။ ဤရွာမှာ ရှေးမြန်မာတို့ ဆင်နှင့်လယ်ထွန်သည့် ဓလေ့နှင့် ဆက်သွယ်နေသလောဟု တွေးဖွယ်ရာရှိသည်။ သူတို့၏ အိမ်မြင့်များအနီးရှိ သစ်ပင်များပေါ်တွင် ဒေါင်းတို့သည် အသိုက်ဖွဲ့၍ နေထိုင်ကြသည်။ ရှေး မြန်မာ အလံတွင်ပါသော ဒေါင်းရုပ်အထိမ်းအမှတ်သည် မင်းစောလူမျိုးတို့၏ အထိမ်းအမှတ်ပေလောဟု တွေးဖွယ်ရာ ရှိသည်။ အမျိုးသားတို့သည် အပြာရောင်ရှိသော ဗောင်းဘီများကို ဝတ်ဆင်ကြ၏။ သျှောင် ထုံးထားသော ဦးခေါင်းကို ပါးလွှာသော အနီရောင် ပိုးပုဝါဖြင့် ခေါင်းပေါင်းပေါင်းသည့် မြန်မာတို့၏ဓလေ့မှာ ယနေ့တိုင် တည်တံ့လျက်ပင် ရှိပေသေးသည်။ အမျိုးသမီးတို့၏ အဝတ်အထည်တို့မှာ အရောင်ငါးမျိုး ရှိသည်ဟူ၏။

## နန်ကျော် နှင့် မြန်မာ တူညီချက်များ

ဤလူမျိုးစုတို့၏ အမည်တို့မှာ မြန်မာအခေါ်အဝေါ် နှင့် တိုက်ရိုက် ဆက်စပ်နေသည်။ ထို့ပြင် သူတို့၏ ဓလေ့ထုံးစံနှင့် အစဉ်အလာတို့ကို အသွင် အနည်းငယ် ပြောင်း၍ ယနေ့ မြန်မာပြည်တွင် ဆက်လက်လိုက်နာလျက်ပင် ရှိ၏။ ဤအချက်တို့ကို ထောက်ခြင်းအားဖြင့် မူလ ဖြစ်ပေါ်လာခြင်းကို သိနိုင်ရာ၏။

ဤအစဉ်အလာနှင့် ဓလေ့ တူညီချက်တို့ အပြင် ရှေးဟောင်းပုံပြင် ဒဏ္ဍာရီတို့၌လည်း နန်ကျော်နှင့် မြန်မာတို့၌ တူညီချက်များ ရှိပေသည်။ မြန်မာရာဇဝင်ကျမ်း အချို့တွင် ပါရှိသော နဂါးဥမှ ပေါက်ဖွားသည့် ပျူစောထီး ဒဏ္ဍာရီမျိုးကို နန်ကျော်၌လည်း တွေ့ရ၏။ ခပ်ဆင်ဆင် တူသော နန်ကျော်ဒဏ္ဍာရီ နှစ်ခုရှိရာ ရှေးဦးပေါ် ဥမှ မင်းသားပေါက်သည့် အကြောင်းပါသော ဒဏ္ဍာရီတွင် ဗုဒ္ဓအယူဝါဒနှင့်

ဆက်စပ်သော မည်သည့် အရိပ်အမြွက်ကိုမျှ မတွေ့ရပေ။ ဒုတိယ ဒဏ္ဍာရီတွင်မူ ဥမှပေါက်ခြင်း မဟုတ်တော့ဘဲ၊ ဖျော်ကျူတီသည် မဇ္ဈိမဒေသ ဗုဒ္ဓသာသနာပြု ကေရာဇ် အသောကမင်း၏ သားတော် ဖြစ်ကြောင်း ဆိုထား၏။ ဖျော်ကျူတီ၏ သားမှာ တီမင်ကျူ ဖြစ်ကြောင်းလည်း သိရသည်။ ဤဖျော်ကျူတီနှင့် တီမင်ကျူ အမည်တို့သည် မြန်မာ ရာဇဝင်လာ ပျူစောထီး၊ ထီးမင်းယဉ်တို့၏ အမည်များနှင့် ထပ်တူလောက်ပင် တူနေသည်ကို တွေ့ရပေသည်။

## အမည်ပေးသည့် စံနစ်

ထိုမှ တပါး အဖအမည်၏ နောက်ဆုံး စာလုံးကို ယူ၍ သားအမည်၏ ရှေ့ဆုံး စာလုံးအဖြစ်သုံးသော နန်ကျောဝ် မင်းတို့၏ အမည်မှည့်နည်း အစဉ်အလာကိုလည်း ပုဂံခေတ် ရှေးဦးပိုင်းမင်းတို့၏ အမည်များတွင် တွေ့ရသည်ဖြစ်ရာ ဤ အစဉ်အလာအရ မှည့်ထားသော ရာဇဝင် ကျမ်းများလာ ပုဂံခေတ် ရှေးဦးပိုင်းမင်းတို့၏ အမည်များမှာ နန်ကျောဝ် တွင် နေခဲ့စဉ်က အုပ်စိုးခဲ့သော ရှေးမြန်မာမင်းတို့၏ အမည် များပင်လော ဟု တွေးထင်ဖွယ်ရာ ဖြစ်နေပေသည်။ နန် ကျောဝ်နှင့် ပုဂံ ရှေးဦးပိုင်း မင်းတို့တွင် ဤအမည်ပေးအစဉ် အလာအရ အမည်တွင်ခဲ့သော မင်းတို့မှာ ....

| နန်ကျောဝ်မင်းများ | ပုဂံမင်းများ |
|---|---|
| လောသျှဲန် | ပျူစောထီး |
| သျှဲန်လောပိ၊ | ထီးမင်းယဉ် |
| ပိလောကော၊ | ယဉ်မင်းပိုက် |
| ကောလောဖဲန်၊ | ပိုက်သေဉ်လည် |
| ဖဲန်ကျိ-ယာ-ယိ၊ | သေဉ်လည်ကြောင် |
| ယိမိုရှုန်း | ကြောင်တူရစ် |

တို့ဖြစ်၏။

ဤ အစဉ်အလာ နည်းအရ အမည် ပေးခြင်းမျိုးမှာ နန် ကျောဝ်နှင့် ရှေးမြန်မာတို့၌သာ ရှိခဲ့သည် မဟုတ်ချေ။ ရှေး ဦး မြန်မာလူမျိုးစုတွင် အပါအဝင် ဖြစ်သော မရူနှင့် လရှီ လူမျိုးတို့၌လည်း ယနေ့တိုင် ရှိနေပေသေးသည်။ နန်ကျောဝ် ပြည်၌ ရှေး မြန်မာလူမျိုးစုတို့ နေထိုင်ခဲ့ဘူးကြောင်းကို ဤ အထောက်အထားကလည်း ထင်ရှားစေပေသည်။

## ရှေး မြန်မာ နှင့် မြင်း

ရှေး မြန်မာတို့ အကြောင်းကို ပြောဆိုလျှင် မြင်း အ ကြောင်းကို ချန်လှပ်ထား၍ မရချေ။ ခရစ်နှစ် ပဌမရာစု အနည်းငယ် အတွင်းက အာရှတိုက် အရှေ့တောင်ပိုင်း ဒေသ တွင် မြင်းသည် ရှားပါးသော သတ္တဝါတမျိုးဖြစ်၏။ အထက် တွင် တွေ့ခဲ့ရသော မြင်းရေးတွင် ကျွမ်းကျင်လှသော နန် ကျောဝ်ရောက် ရှေး မြန်မာလူမျိုးစုတို့သည် မြင်းမွေးသူများ လည်းဖြစ်ကြ၏။ ဘီ၊ စီ သုံးရာစုနှစ်ခန့်မှ အစပြု၍ ယူနန်နယ် အနောက်ပိုင်းဒေသ ထင်ယွေး တဝိုက်သည် မြင်းအကြီး အကျယ် မွေးမြူခဲ့သောဒေသ ဖြစ်ပေသည်။ ရွှေ့ပြောင်းလှုပ် ရှားမှုကို လွယ်ကူလျင်မြန်စေသော မြင်းကို ပိုင်ဆိုင်၍ အသုံး ပြုသူသည် မြင်းရှားပါးသော နိုင်ငံတွင် များစွာ အခွင့်အရေး သာမည် ဖြစ်၏။ မြင်းသည် ရှေးမြန်မာတို့၏ ဂုဏ်ယူဖွယ်ရာ ကောင်းလှသော အဘိုးတန် "ယာဉ်" ဖြစ်ပေသည်။ အာရှ တိုက် အရှေ့တောင်ပိုင်းတွင် မွန်တို့သည် မြင်းကို ပဌမပိုင် ဆိုင် ရရှိကြ၏။ ကရင်ဘာသာ စကားများနှင့် တောင်ပိုင်း ချင်းဘာသာ စကားအချို့တို့တွင် မြင်းကို မွန်ဝေါဟာရနှင့် သာ ခေါ်ကြ၏။ မြောက်ပိုင်း ချင်းဘာသာစကားတို့တွင်မူ မြင်းကို "နိုင်ငံခြား တိရစ္ဆာန်"၊ သို့မဟုတ် "မြန်မာပြည်မှ တိရစ္ဆာန်" ဟုခေါ်ကြသည်။ ရှမ်းပြည်ရှိ မွန်ခမာအနွယ်ဝင် ပလောင်၊ ဝ၊ ရိယန် (ယင်း)စသည့် လူမျိုးစုတို့၏ စကားတို့ တွင် မြင်းအတွက် ဝေါဟာရမှာ မွန်စကားနှင့် မဆက်သွယ် ဘဲ မြန်မာစကားနှင့် ဆက်သွယ်နေသည်ကို တွေ့ရသည်။ ယင်းလူမျိုးစုတို့က မြင်းကို မရန်း (င်) ဗရန်း(င်) စသည် ဖြင့် ခေါ် ဝေါ်ကြသည်။

## မြင်းရေး နှင့် မြင်းခင်းပွဲများ

ရှေးမြန်မာတို့သည် နန်ကျောဝ်တွင် နေခဲ့စဉ်က အရေး တယူ ပြုလုပ်ဆောင်ရွက်ခဲ့သည့် မြင်းရေး လေ့ကျင့်မှုများကို မြန်မာနိုင်ငံတွင်းသို့ ရောက်လာသောအခါ၌ ဆက်လက်၍ ပြုလုပ်ခဲ့ကြ၏။ စိုက်ထားသော တိုင်ပေါ် တွင် ခပ်မြင့်မြင့် ဆွဲထားသော စက်ဝိုင်းကို မြင်းစီးသူသည် အပြေးစီးလာ သောမြင်း ခုန်နေစဉ် အဲမောင်းလုံဖြင့် ထိအောင် ပစ်ရထိုး ရသည့် လေ့ကျင့်မှုမျိုး ရှိခဲ့ကြောင်းကို ကျောက်ဆည်နယ် ရှိ မြင်းခုန်တိုင် မြို့ဟောင်းက ထောက်ခံလျက်ရှိ၏။ ကျောက် ဆည်ခရိုင် မြင်းစိုင်းအရပ် စသည့် မြင်းနှင့် ဆက်သွယ်သော ရှေးကျသည့် အခေါ် အဝေါ် များလည်း ရှိပေသေးသည်။ ဤ အကြောင်းအချက်များနှင့် မြင်းရေး ပြပွဲ ပြိုင်ပွဲများကို ကုန်းဘောင်ခေတ် မြန်မာဘုရင်များ လက်ထက် အထိ မြင်း ခင်းသဘင်တို့တွင် အစဉ်အလာကျင်းပလာခဲ့သည့် အချက်တို့ က မြင်းကို ပိုင်နိုင်စွာ အသုံးပြုခြင်းဖြင့် ရှေးမြန်မာတို့သည် နန်ကျောဝ်ဒေသမှ မြန်မာနိုင်ငံတွင်းအထိ အောင်မြင်မှုများ ရရှိခြင်း ဖြစ်သည်ဟူသော အချက်ကို ထောက်ခံနေပေသည်။

## နန်ကျောဝ်မှ အလုံးအရင်းနှင့် ရွှေ့ရခြင်း၏အစ

နန်ကျောဝ်ပြည်၌ နေစဉ် ရှေးမြန်မာတို့သည် နန်ကျောဝ် ၏ လက်အောက်ခံ ဖြစ်ခဲ့ရသည်မှာ မှန်သော်လည်း မိမိတို့ လူမျိုးစုဆိုင်ရာ အကြီးအကဲများနှင့် တသီးတခြား နေခဲ့ကြ

သူများ ဖြစ်၏။ လက်အောက်ခံဆိုသည့် တိုင်အောင် ကာကွယ်ရေးနှင့် စစ်ဆင်ရေးမှ စ၍ နန်ကျော၀် ပြည်ထောင်စု တာ၀န်များနှင့် အရေးအခင်းတို့တွင် ရှေ့တန်းမှနေ၍ အရေးပါစွာ ပူးပေါင်း ကူညီဆောင်ရွက်ခဲ့သူများ ဖြစ်ကြပေသည်။ တရုပ် နိုင်ငံ၊ တိဗက်နိုင်ငံ၊ အာရှအရှေ့တောင်ပိုင်း နိုင်ငံတို့နှင့် ဆင်နွှဲခဲ့ရသည့် နန်ကျော၀်၏ စစ်တို့တွင်လည်း ရှေးမြန်မာတို့သည် မြင်းသည်ကျော်၊ စစ်သည်ကျော်များအဖြစ် ဆိုးတူကောင်းဖက် ပါ၀င်ဆင်နွှဲခဲ့ရသည့် အတွေ့အကြုံနှင့် အလေ့အကျင့် ကောင်းများကို ရခဲ့သူများလည်း ဖြစ်ပေသည်။ ဤကဲ့သို့ တိုင်းပြည်အတွက် အေးအတူ ပူအမျှ ဆောင်ရွက်ပါလျက် ပျူနိုင်ငံအတွင်းလောက်သို့ ရောက်နေပြီဟု ယူဆရသော သိန္နိနယ်ရှိ ရှေးမြန်မာ မင်းစောလူမျိုးတို့သည် နန်ကျော၀်မင်း ယိမိုယွန်းလက်ထက် အေ၊ ဒီ ၇၉၄ တွင် နန်ကျော၀်တပ်တို့၏ တိုက်ခိုက်ခြင်းကို ခံခဲ့ရ၏။

လွတ်လပ်ရေးကို အမှန်အမြတ် ထားသည်က တကြောင်း၊ ရရှိနေပြီ ဖြစ်သော မိမိတို့၏ စစ်ရည် စစ်သွေးနှင့် အတွေ့အကြုံတို့ကို ယုံကြည်စိတ်ချသောကြောင့် တကြောင်း၊ လွတ်လပ်စွာ တိုင်းပြည်ထူထောင် နေထိုင်နိုင်မည့် အခွင့်အလမ်း ရှိနေပြီဟုယုံကြည်သောကြောင့်တကြောင်း ဤအကြောင်းများကြောင့် နန်ကျော၀်တို့၏ ဖိနှိပ်တိုက်ခိုက်ခြင်းကို ခံရသော ရှေးမြန်မာတို့သည် ရှစ်ရာစုနှစ်များ ကုန်လုနီးတွင် မိမိတို့ အလျင်က မြေစမ်းခရမ်းပျိုးသည့်နှယ် တစိမ့်စိမ့်နှင့် မြန်မာ နိုင်ငံတွင်းသို့ ရွှေ့ပြောင်းလျက်ရှိကြသော သားချင်း ရှေးမြန်မာတို့၏ ခြေရာကို နင်း၍ အင်တိုက် အားတိုက် အလုံး အရင်းနှင့် လျင်မြန်စွာ ရွှေ့ပြောင်းခဲ့ကြသည်ဟု ယူဆဖွယ်ရာ ရှိပေသည်။

## မြန်မာနိုင်ငံတွင်းသို့ ၀င်ရောက်ခဲ့ပုံ

အမြင့်ပေ ၃၀၀၀ ကျော်တွင် ရှိသော နှင်းကြောင်း၏ အထက် အေးမြ၍ စိုစွတ်သောရာသီဥတုနှင့် ကုန်းမြင့်တောင်ရိုး၏ သဘာ၀အခြေအနေတွင် အစဉ်အဆက် နေထိုင် လာခဲ့သူတို့အဖို့ ပူပြင်းသွေ့ခြောက်၍ ပတ်၀န်းကျင်နှင့် သဘာ၀ အခြေအနေ ပြောင်းသည့်နှယ် ကွဲလွဲနေသည့် မြန်မာနိုင်ငံ အလယ်ပိုင်း မိုးခေါင်ရေရှား ရပ်၀န်းသို့ ဆင်းသက်နေထိုင်ရန်မှာ လွယ်ကူသောကိစ္စ မဟုတ်ပေ။ ပြောင်းလဲသည့် ရာသီဥတုနှင့် ပတ်၀န်းကျင် အခြေအနေတို့တွင် တဖြည်းဖြည်း ကျင့်သား ရလာရန် လိုအပ်ပေသည်။

ဤ ရှစ်ရာစုနှစ်များ ကုန်လုနီးခန့်တွင် မြန်မာနိုင်ငံတွင်းသို့ အလုံးအရင်းနှင့် ရွှေ့ပြောင်း ၀င်လာကြသော ရှေးမြန်မာတို့အဖို့ ဤကဲ့သို့ ကျင့်သားရသည်တိုင်အောင် စောင့်ဆိုင်းရန် အချိန်ရခဲ့ဟန် မတူပေ။ စွဲမြဲသော ရည်မှန်းချက်နှင့် ယုံကြည်ချက်၊ ခိုင်မြဲသော ဆုံးဖြတ်ချက်၊ မဆုတ်မနစ်သော ဇွဲနှင့် သူမတူသောသတ္တိ ရှိသောကြောင့်သာ ဤကဲ့သို့ စွန့်စား ရွှေ့ပြောင်းလာနိုင်ခဲ့ခြင်း ဖြစ်ပေမည် ။ ဤရွှေ့ပြောင်းမှုတွင် ရှေးမြန်မာလူမျိုးစု ဟူသရွေ့ တယောက်မကျန် ရွှေ့ပြောင်းလာခြင်းမျိုးမဟုတ်ပေ။ နန်ကျော၀်ပြည်တွင် မူရင်းနေရာတို့တွင် နေရစ်ခဲ့ကြသူများ ရှိသေး၏။ မြေပြန့်သို့ ဆင်းရန် ကုန်းမြင့်အစွန်သို့ ရောက်ခါမှ မလိုက်လိုတော့ဘဲ ချန်၍ နေခဲ့ကြသူများလည်း ရှိသည်။ ရှေး ယခင် ကတည်းက တရွေ့ရွေ့တဖြည်းဖြည်း ရွှေ့ပြောင်းရောက်ရှိ၍ မြန်မာနိုင်ငံ မြေပြန့်တွင် အခြေစိုက်နေထိုင်လျက် ရှိပြီးဖြစ်သော ရှေးမြန်မာတို့လည်း ရှိမည်သာဖြစ်၏။

## စစ်ဆင်မှုတရပ်

အလုံးအရင်းနှင့် ယခု အကြိမ် ရွှေ့ပြောင်း ၀င်ရောက်နေထိုင် လာရာတွင် သာမန် ရွှေ့ပြောင်း နေထိုင်လာခြင်းမျိုး မဟုတ်ပေ။ ရှေး မြန်မာတို့သည် စစ်ရေး စစ်ရာတွင် အတွေ့အကြုံကောင်းများ ရရှိခဲ့သူများ ဖြစ်သည့်အား လျော်စွာ ဤရွှေ့ပြောင်းမှုကို စစ်ဆင်ရေးတရပ် အနေဖြင့် စံနစ်တကျ ချိန်ဆစီစဉ်မှုများ ပြုလုပ်ပြီးမှ ၀င်ရောက် သိမ်းပိုက် နေထိုင်လာခြင်းမျိုးဖြစ်သည်ဟု ဆိုနိုင်၏။ အခြေအနေက ပေးလာ၍ ၀င်ရောက်ရန် အခွင့်အခါ ကောင်းသည့် အချိန်ကာလနှင့် ၀င်ရမည့် နေရာကို ရွေးချယ်ရပေမည်။ နေရာဆိုရာ၌တောတွင် လယ်တီခြင်း မပြုဘဲ လွယ်လင့်တကူ ထွန်ယက်စိုက်ပျိုးနိုင်၍ လူဦးရေ အတော်များများအတွက် စားနပ်ရိက္ခာ ရရှိနိုင်မည့် ဒေသမျိုးနှင့် အနှောင့်အရှက် အဟန့်အတားနည်းသည့် ဒေသမျိုးဖြစ်ရန် လိုပေသည်။

## ရိက္ခာပေါ၍ အဟန့်အတား နည်းရာဒေသ

ထိုစဉ်က စားနပ်ရိက္ခာကို လုံလုံလောက်လောက်ထုတ်လုပ်နိုင်သော ဒေသတို့သည် ရှေးမဆွက လူသူ နေထိုင်လျက်ရှိပြီးဖြစ်သော ဧရာ၀တီမြစ်ကြောင်း၏ အလယ်ပိုင်း တလျှောက်နှင့် မြစ်၀ကျွန်းပေါ် အရှေ့ပိုင်းဒေသတို့ ဖြစ်ကြသည်။ ဧရာ၀တီမြစ်၀ှမ်း၏ အလယ်ပိုင်းတွင် ယင်းမြစ်၏ လက်တက်ဖြစ်သော မြစ်ငယ် မြစ်တွင်းသို့ စီး၀င်ကြသည့် ဇော်ဂျီ၊ ပန်းလောင်နှင့် စမုန်မြစ်တို့ ဖြတ်သန်း စီးဆင်းရာ ဒေသတွင် တူးမြောင်းများ ဖောက်လုပ်ရေသွယ်၍ လယ်ယာစိုက်ပျိုးမှုကို ပြုလုပ်လျက်ရှိပြီးဖြစ်သည်။ သို့ဖြစ်၍ ကျောက်ဆည်ခရိုင် ဒေသသည် မိုးခေါင်ရေရှား ရပ်၀န်းတွင် ဆန်စပါး၊ ကောက်ပဲသီးနှံတို့ လုံလောက်စွာ ထွက်သော စိမ်းလန်းစိုပြေသည့် ဒေသကောင်းတခု ဖြစ်သည့် အလားတူပင် ဧရာ၀တီမြစ်တွင်းသို့ အနောက်ဖက်မှ စီး၀င်သော စလင်း၊ မုန်းနှင့် မန်းချောင်းတို့ ဖြတ်သန်းစီးဆင်းရာ ယခု မင်းဘူးခရိုင်တွင်လည်း ပလောင်နှင့် စကောကရင် လူမျိုးတို့က

တူးမြောင်းများ ဖောက်လုပ် ရေသွယ်၍ ဆန်စပါး စိုက်ပျိုး နေပြီး ဖြစ်သဖြင့် ထိုဒေသသည်လည်း ကျောက်ဆည် ခရိုင် ကဲ့သို့ပင် မိုးခေါင်ရေရှား ရပ်ဝန်းအတွက် စပါးကျီ တခု ဖြစ်နေပေပြီ။

ကျောက်ဆည် ခရိုင်သည် ရှေးမြန်မာတို့ နေထိုင်ခဲ့ရာ ရှမ်း ကုန်းပြင်မြင့်နှင့် အနီးဆုံး ဖြစ်သည်။ ဤခရိုင်၏ တောင်ဖက် ရှိစစ်တောင်းမြစ်ဝှမ်းသည်လည်း ရှမ်းကုန်းပြင်မြင့်နှင့်နီးကပ်၏။ သို့သော် စိုက်ပျိုးလုပ်ကိုင်မှုများစွာ ရှိဟန် မတူပေ။ လူ နေမှုလည်း ပါးလှမည် ဖြစ်၏။ မြောက်ဖက်ရှိ ယခု ရွှေဘို ခရိုင်တွင်မူ သရေခေတ္တရာ ပျက်ပြီးနောက် ရွှေပြောင်းတည် လာခဲ့သော ပျူတို့၏ မြို့တော် (ဟန်လင်းကြီး) ရှိနေသေး ရာ ပြင်ပမှလူမျိုးစုတို့ လွယ်ကူစွာ ဝင်ရောက်နိုင်မည် မဟုတ် ပေ။ (ဟန်လင်းမြို့ဟောင်း — လည်းရှု။) ယင်း၏ မြောက် ဖက်ရှိ ယခု ကသာခရိုင်တွင်လည်း ကဒူးကနန်း လူမျိုးစုတို့ သည် အင်အား ကောင်း၍ သင်းတွဲပြည်ဟု ခေါ်သော တ ကောင်းမြို့၌ အခိုင်အခံ့ နေထိုင်လျက် ရှိကြသည်။ စားနပ် ရိက္ခာလည်းထွက်၊ လူနေအိမ်ခြေလည်း ရှိ၊ အပဟန့်အတား အခု အခံလည်း နည်း၍ အနီးဆုံးလည်း ဖြစ်သော ယခု ကျောက်ဆည်ခရိုင် သာလျှင် ဝင်ရောက်နေထိုင်ရန် အသင့် လျော်ဆုံးသောဒေသ ဖြစ်နေပေသည်။

### မြန်မာတို့ ဝင်စအချိန် မြန်မာနိုင်ငံ အခြေအနေ

မြန်မာတို့ ဝင်ရောက်စ အချိန်က မြန်မာနိုင်ငံ အလယ်ပိုင်း နှင့် မြောက်ပိုင်းတွင် ပျူလူမျိုးတို့၏ နိုင်ငံရှိ၍ မြန်မာနိုင်ငံ တောင်ပိုင်းတွင် မွန်တို့၏နိုင်ငံ ရှိနေသည်။ ထိုပျူနှင့် မွန်တို့ အပြင် သက်များ (ရေဝတီ အလယ်ပိုင်း)၊ ပလောင်များ (ရေဝတီနှင့် ချင်းတွင်း မြစ်တို့ ဆုံရာ ဒေသနှင့် မင်းဘူး ခရိုင်)၊ လဝများ (ရေဝတီနှင့် ချင်းတွင်းဆုံရာ ရေဝတီမြစ် အနောက်ဖက်)၊ စကောကရင်များ (ယခု ကယားပြည်နယ် အခြေမှ မင်းဘူးခရိုင်အထိ) စသော မွန်-ခမာနှင့် တိဗက်- မြန်မာ အနွယ်ဝင်တို့သည် ရေဝတီမြစ်ဝှမ်း မြေပြန့်တွင် အရေရေ အထွေထွေ ပျံ့နှံ့လျက် ရှိခဲ့ကြ၏။ ပျူနှင့်မွန် နိုင်ငံတို့သည် စုစုစည်းစည်းရှိ၍ အင်အားတောင့်တင်းသော နိုင်ငံများ မဟုတ်တော့ပေ။ ရှေး မြန်မာတို့ အလုံးအရင်းနှင့် ဝင်ရောက်လာစ အချိန် ဖြစ်သော အေ၊ ဒီ ကိုးရာစုနှစ် အစ လောက်တွင် ဤနှစ်နိုင်ငံတို့၏ အင်အားသည် ယိမ်းယိုင်စ ပြု နေပြီဟု ဆိုရပေမည်။ ပျူနိုင်ငံကို နန်ကျောဝ်တပ်တို့သည် အေ၊ ဒီ ၈၃၂ ခုနှစ်တွင် တိုက်ခိုက် ဖျက်ဆီးခဲ့၏။ ပျူ ၃၀၀၀ ကျော်ကို သုံ့ပန်းအဖြစ် ဖမ်းဆီး ခေါ်ဆောင်သွားကြ သည်။ နောက် သုံးနှစ်ကြာသော် မွန်နိုင်ငံဟု ယူဆရသော မိချဲန် နိုင်ငံမှာလည်း ပျူတို့တွေ့ခဲ့ရသော ကံကြမ္မာမျိုးကို ရင်ဆိုင်ခဲ့ရပြန်၏။ နန်ကျောဝ်တို့သည် ထောင်ပေါင်း များ စွာသော မိချဲန် နိုင်ငံသူနိုင်ငံသားတို့ကို ဖမ်းဆီး၍ ရေဝတီ မြစ်ဖျားဒေသတို့တွင် ရွှေကျင်ရန် ခေါ်ဆောင်သွားခဲ့သည်။

### အခွင့်အရေး ပေးလာခြင်း

ဤကဲ့သို့ မွန်နှင့်ပျူ နိုင်ငံတို့ ပျက်ပြုန်း၍ တိုင်းပြည် အတွင်း ကစဉ့်ကလျား ဖြစ်နေချိန်မှာ ဝင်ရောက် သိမ်းပိုက် ၍ ရွှေပြောင်းနေထိုင်ရန် အခါအခွင့် အသင့်ဆုံး ဖြစ်ပေ သည်။ ရှေးမြန်မာတို့သည် ရှမ်းပြည်မြောက်ပိုင်းမှ မြစ်ငယ် မြစ်ဝှမ်းအတိုင်း ဆင်းလာ၍ မြေလတ်နယ်မြောက်ပိုင်းဒေသ ကို ဖြတ်ကာ ရှမ်းကုန်းပြင်မြင့်၏ အစွန်တလျှောက်တွင် မြေပြန့်သို့ ဆင်းနိုင်မည့် အခွင့်အခါကောင်းကို စောင့်နေခဲ့ ကြဟန်တူ၏။ ယခုသော် အခြေအနေက ဖန်တီးပေးလာပြီ ဖြစ်သော အခွင့်အခါကောင်းကို လက်မလွတ်ရအောင် စစ် အတွေ့အကြုံ များလှသော မြင်းသည်ကျော် ရှေးမြန်မာတို့ သည် ကျောက်ဆည်ခရိုင်၏ အရှေ့တောင်ထောင့်ရှိ နတ်ထိပ် တောင်ကြားလမ်းအတိုင်း မြင်းတပ်များဖြင့် ကျောက်ဆည် ခရိုင်ကို လျင်မြန်စွာ ဝင်ရောက် သိမ်းပိုက်ခဲ့ဟန် တူပေသည်။ တချိန်တည်းလောက်မှာပင် အခြားစစ်ကြောင်း တခုသည် တောင်ဖက်သို့ ချီတက်၍ အခြားစပါးကျီတခု ဖြစ်သော မင်းဘူး နယ်ကို သိမ်းပိုက်ခဲ့ဟန်တူ၏။ အခြား စစ်ကြောင်း တခုကမူ မြောက်ဖက် မန္တလေးခရိုင် တောင်ပြုံးနယ်သို့ ချီတက် တပ်စွဲခဲ့ဟန် တူသည်။ ရေဝတီနှင့် မြစ်ငယ် မြစ် ကြောင်းဖက်မှ မိမိတို့နည်းတူ ဝင်ရောက်လာနိုင်သည့် လူမျိုး စုတို့ကို ဟန့်တားရန် ဖြစ်ပေမည်။

### ခရိုင်များ

ပုဂံခေတ် ကျောက်စာတို့၌ ခရိုင်ခေါ်သော ဒေသသုံးခု ကိုသာ တွေ့ရသည်။ ကျောက်ဆည်ခရိုင် ဒေသတွင် **မွစ်သာ ၁၁ ခရိုန်၊** မင်းဘူး ဒေသတွင် **ခြေ့ာက် ခရိုန်**နှင့် မန္တလေး ခရိုင်တွင် **တောင်ပွလ္လန် ခရိုန်** တို့ ဖြစ်ကြသည်။ ထို့ပြင် ယင်း ကျောက်စာတို့၌ မြန်မာအမည် စစ်စစ် ဖြစ်သော ရပ်ရွာ အမည်များကို ကျောက်ဆည်ခရိုင်တွင် အများဆုံး တွေ့ရ သည်။ ဤဒေသတွင် မြေအုပ်ချုပ်မှု စံနစ်နှင့် တိုင်းထွာမှု တို့မှာလည်း တိကျ သေချာလှသည်။ နယ်သစ် ပယ်သစ် များမှာကဲ့သို့ မဟုတ်ပေ။ သို့ဖြစ်၍ ခရိုန်ဒေသတို့မှာ မြေပြန့် တွင် ရှေးမြန်မာတို့ ရှေးဦးစွာ အခြေစိုက် နေထိုင်ခဲ့ရာ ဒေသ များဖြစ်သည်ဟု ဆိုရခြင်းဖြစ်ပေသည်။ ဤအဆိုကို အခြေ ပြု၍ ရှေးမြန်မာတို့ မြန်မာပြည် မြေပြန့်သို့ ဝင်ရောက်လာပုံ ကို အထက်ဖော်ပြပါအတိုင်း ယူဆဖော်ပြရခြင်း ဖြစ်၏။

### ပုဂံကို တည်ခြင်း

ဤကဲ့သို့ သိမ်းပိုက်၍ အခြေစိုက်ထားသော ဒေသ သုံးခု ကို ဗဟိုကျသော နေရာမှ လွယ်လင့်တကူ ချုပ်ကိုင် ထိန်း



ရှေးမြန်မာ မိသားစု

သိမ်း ထား၍ ဆက်သွယ်နိုင်ရန် မြန်မာနိုင်ငံ၏ သဘာဝ လမ်းမကြီး ဖြစ်သော ဧရာဝတီမြစ်၏ အရှေ့ဖက် ကမ်းပေါ်ရှိ အရိမဒ္ဒနပူရ မည်သော ပုဂံမြို့ တည်ထောင်ခဲ့ကြ၏။ ပုဂံမြို့ တည်နေရာမှာ ပူပြင်း သွေ့ခြောက်သော တတ္တဒေသ ဖြစ်ကြောင်း ကျန်စစ်သားမင်းကြီး၏ နန်းတည် ကျောက်စာ၌ ဖော်ပြထားရာ ဤဒေသကို အုပ်ချုပ်ရေး ဗဟိုဋ္ဌာန အဖြစ် ရွေးချယ်ခြင်းမှာ ထူးဆန်းနေသည်ဟု ဆိုရန်ရှိ၏။ သို့သော် မြေပြန့်တွင် ရှေးမြန်မာတို့၏ အချက်အချာ ဒေသတို့နှင့် လွယ်ကူစွာ ဆက်သွယ်နိုင်ခြင်းက တကြောင်း၊ ဆက်လက် ရွှေ့ပြောင်းနေရဆဲဖြစ်သော ရှေးမြန်မာတို့အတွက် မြောက်ဖက်၊ အနောက်မြောက်ဖက်၊ အနောက်ဖက်နှင့် တောင်ဖက်တို့သို့ လွယ်လင့် တကူ ရွှေ့ပြောင်း နိုင်သည့် ပထဝီ အနေအထား ရှိနေသောကြောင့်တကြောင်း ဤအကြောင်းတို့ကြောင့် ပုဂံဒေသကို အုပ်ချုပ်ရေး အချက်အချာ ဒေသအဖြစ် ရွေးခဲ့ကြခြင်း ဖြစ်ဟန် တူ၏။ ရှေး မြန်မာတို့သည် မြောက်ဖက်သို့ ဧရာဝတီမြစ်ကြောင်း အတိုင်းလည်းကောင်း၊ အနောက် မြောက်ဖက်သို့ မူးမြစ်နှင့် ချင်းတွင်းမြစ်ကြောင်းတို့ အတိုင်းလည်းကောင်း၊ အနောက်ဖက်သို့ ယောချောင်း၊ မုန်း၊ မန်းနှင့် စလင်းချောင်းများ အတိုင်းလည်းကောင်း၊ တောင်ဖက်သို့ ဧရာဝတီမြစ်ကြောင်း အတိုင်းလည်းကောင်း ရွှေ့ပြောင်းနိုင်ရေးအတွက် ပုဂံမြို့သည်အသင့်တော်ဆုံးသော ပေါင်းကူး ခြေကုပ်စခန်း ဖြစ်ပေသည်။ အမှန်အားဖြင့် ပုဂံခေတ်အတွင်း ဤလမ်းများအတိုင်း ရှေးမြန်မာတို့ ဆက်လက်ရွှေ့ပြောင်း နေထိုင်ခဲ့ကြကြောင်းကို ကျောက်စာ အထောက်အထားတို့မှ အထင်အရှား သိရပေသည်။

## ပုဂံတည် ခုနှစ်

ပုဂံမြို့ကို တည်ထောင်ခြင်းနှင့် စပ်လျဉ်း၍ မြန်မာရာဇဝင်ကျမ်းတို့တွင် ကောဇာ သက္ကရာဇ် ၂၁၁ ခုနှစ်တွင် ပျဉ်ပြားမင်းက တည်ထောင်ကြောင်းနှင့် ဖော်ပြ ပါရှိ၏။ ပုဂံတည်သည့် ယင်းသက္ကရာဇ် ၂၁၁ (အေ ဒီ ၈၄၉ ) ခုနှစ်မှာ ပျူမြို့တော် ပျက်ပြီးနောက် ၁၇ နှစ်၊ မိခဲ့နန်မြို့ ပျက်ပြီးနောက် ၁၄ နှစ် အကြာတွင်ဖြစ်သည်။ ရှေးမြန်မာတို့ ရွှေ့ပြောင်းနေထိုင်လာခြင်းနှင့် ဆက်စပ်နေသော ဖြစ်ရပ်တို့နှင့် ချိန်ဆကြည့်လျှင် မြန်မာရာဇဝင်ကျမ်းလာ ပုဂံတည်သည့် ဤခုနှစ်သည် ယုတ္တိတန်သည်ဟု ဆိုဖွယ်ရာ ရှိပေသည်။

## ရှမ်း တိုင်းရင်းသားတို့နှင့် ပြိုင်ဆိုင်ရပုံ

တိုင်းပြည် ဖရိုဖရဲ ဖြစ်၍ ပြည်တွင်းသားတို့က သူတလူငါတမင်း ပြုချိန်တွင် မြန်မာနိုင်ငံ မြေပြန့်သို့ ရောက်နေပြီး

ဖြစ်သော သက်-ကဒူး-လူမျိုးစု၊ ကရင်လူမျိုးစုနှင့် ချင်းတွင်း မြစ်ဝှမ်းတွင် ရောက်နေသော ချင်းလူမျိုးစုတို့သည် ပျူနိုင်ငံ၏ အမွေအနှစ်ကို ကြီးစိုးကြရန် ရှေးမြန်မာတို့နှင့် အပြိုင်အဆိုင် ကြိုးစားခဲ့ကြမည်သာ ဖြစ်သည်။ ဤ အပြိုင် ကြိုးစားမှုတွင် ရောက်စ လူမျိုးသစ်ဖြစ်၍ သွေးသစ်၊ အားသစ်၊ စိတ်ဓာတ်သစ်တို့ရှိသော ရှေး မြန်မာတို့သည် စစ်မှုရေးရာတွင် မြင်းတပ်ကို အသုံးချနိုင်ခဲ့ကြသဖြင့် အနိုင် ရခဲ့ကြခြင်း ဖြစ်သည်ဟု ဆိုနိုင်ပေသည်။

## ရှေးမြန်မာတို့၏ အရည်အသွေးများ

ရှေးမြန်မာတို့သည် ယဉ်ကျေးမှုနှင့် လူမျိုး၏ အခြေအနေ တိုးတက်မှုတို့ထက် လွတ်လပ်ရေးကို မြတ်နိုးကြသူများ ဖြစ်သည်။ မူရင်းဒေသ ကန်စုမှ ဖဲခွာ လာကြရာတွင် တရုပ်နိုင်ငံနှင့် နီးကပ်စွာ အရှေ့ဖက်ကြောင်းမှ ဆင်းသက် လာကြရသဖြင့် ဒုက္ခဆင်းရဲနှင့် ကြပ်တည်းပင်ပန်းမှုတို့ကို တိဗက်ပြည်နှင့် နီးကပ်စွာ အနောက်ဖက်ကြောင်း ဆင်းသက် လာခဲ့သော အခြား တိဗက်-မြန်မာ အနွယ်ဝင်တို့ထက် ပိုမို တွေ့ကြုံခံစား ခဲ့ကြရသူများ ဖြစ်သည်။ ဤကဲ့သို့ ဒုက္ခဆင်းရဲများကို ကြုံကြုံ့ ခံ၍ ရွှေ့ပြောင်း ခဲ့ကြရာမှ ဆင်းရဲမှုတို့ကို ခံယူနိုင်ခြင်း၊ ဇွဲ၊ သတ္တိနှင့် အမျိုးအတွက် ဂုဏ်ယူတတ်ခြင်း၊ လူမျိုးစု ယဉ်ကျေးမှုနှင့် ဓလေ့တို့ကို ထိန်းသိမ်းလိုခြင်း၊ စည်းလုံးညီညွတ်လိုခြင်း စသည့် စိတ်ဓာတ်နှင့် အရည်အသွေးများကို ခိုင်ခိုင်မြဲမြဲ ရခဲ့သူများလည်း ဖြစ်၏။ ဘဝ အတွေ့အကြုံတို့မှ အဆင့်ဆင့် ရလာခဲ့သော ဤမွန်မြတ်သည့် အရည်အသွေးများနှင့် ဘဝရပ်တည်မှုအတွက် လိုအပ်သော သတ္တိနှင့် ဇွဲတို့အပြင် နန်ကျောဝ်ဒေသတွင် နေခဲ့ရစဉ်က ကိုယ်တိုင်ပါဝင် ဆင်နွှဲခဲ့ရသော စစ်များနှင့် တိုက်ပွဲများမှ ရရှိခဲ့သော အတွေ့အကြုံ တို့ကြောင့် စစ်ဆင် စစ်ထိုးအတတ်နှင့် တိုက်ရည် ခိုက်ရည်တို့မှာ ပိုမို ကောင်းမွန် တိုးတက်ခဲ့မည်သာ ဖြစ်ပေသည်။ ထိုမှတပါး ဆိုခဲ့ပြီးဖြစ်သော မြင်းများကိုပိုင်ဆိုင်၍ ကျွမ်းကျင်လိမ္မာစွာ အသုံးပြုတတ်ကြသဖြင့် စစ်ဆင်ရေးတွင် အခြားသူများထက် ပို၍ စွမ်းဆောင်နိုင်သူများ ဖြစ်ကြလေသည်။

## လူမှုနှင့် စီးပွားရေး အတတ်

ရှေးက ပိုင်ဆိုင်ခဲ့၍ ကာလကြာမြင့်စွာ ရွှေ့ပြောင်း ဆင်းသက်ခဲ့ရာတွင် မေ့ပျောက်ခဲ့ရသည့် မြင်း၊ နွား စသည့် လူသုံးတိရစ္ဆာန်များကို မွေးမြူရေး အတတ်၊ လှေခါးထစ် စိုက်ပျိုးရေး၊ ရေသွယ်၍ ဆည် ကန်သင်းတို့ဖြင့် စပါးစိုက်ပျိုးရေး စသည့် စီးပွားရေးဆိုင်ရာ ပညာရပ်များနှင့် အုပ်ချုပ် စီမံခန့်ခွဲရေး ဆိုင်ရာ လူနေမှု ဖွဲ့စည်းပုံနှင့် အုပ်ချုပ်ရေးပညာတို့ကို နန်ကျောဝ်တွင် နေသည့်အတွင်း ပြန်လည် တတ်မြောက်ခဲ့ကြပေသည်။ ဤလူမှုရေးနှင့် စီးပွားရေး အတတ်ပညာတို့သည် ရောဝတီမြစ်ဝှမ်း အလယ်ပိုင်း မြေပြန့် ဒေသကို အောင်နိုင်ရေးနှင့် လူမျိုးစုတို့ကို စုစည်းကာ တိုင်းသစ်ပြည်သစ် ထူထောင် အုပ်ချုပ်နိုင်ရေးတို့အတွက် ရှေးမြန်မာတို့ကို များစွာ အထောက်အကူ ပြုခဲ့ပေသည်။

## တိုက်ဒေသများ

မြေပြန့်တွင် ရှေးမြန်မာတို့ ပဌမ အခြေစိုက်ခဲ့သော ခရိုင်ဒေသတို့သည် စားရေရိက္ခာ ကောင်းစွာ ထွက်သဖြင့် လူဦးရေတိုးတက်မှုကို များစွာ အားပေးခဲ့၏။ ရှမ်းကုန်းပြင်မြင့်တွင် ကျန်ခဲ့သော ရှေးမြန်မာတို့လည်း အခြေအနေ ကောင်းသည့် အလျောက် နောက်ထပ် ဝင်ရောက်လာကြ၍ အင်အားကို ဖြည့်တင်းပေးခဲ့ကြသည်။ ဤသို့ဖြင့် ခရိုင်ဒေသတို့တွင် လူဦးရေများစွာ တိုးတက်လာရာ ယင်း ဒေသတို့မှ အရပ်မျက်နှာ အားလုံးလောက်သို့ ရှေးမြန်မာတို့သည် ဆက်လက်ရွှေ့ပြောင်း၍ ပျံ့နှံ့ခဲ့ကြ၏။ ပုဂံခေတ်တလျှောက် ဖြစ်ပေါ်ခဲ့သော ဤရွှေ့ပြောင်းနေထိုင်မှုတို့သည် တောင်ဖက်ရှိ လယ်ယာမြေ ဒေသဖြစ်သော **တောင်ထွင်** (တောင်တွင်းကြီး)၊ ယင်း၏ တောင်ဖက် နယ်စပ်ခံတပ် ဖြစ်သော **ပြည်တော်သာဃွန်** (မိကျောင်းရဲ အနီး၊ ရောဝတီ မြစ်တွင်းရှိ ကျွန်းတော်) အထိလည်းကောင်း၊ အနောက်ဖက် **ယဝ်ဦ** (ဆိတ်ဖြူ) မှ **ယဝ်တွင်** (ပေါက်) **ပုန်တောင်ရိပ်**၊ **ကြောမြစ်** (ကျောမြစ်) နှင့် **ထိလင်** (ထီးလင်း) အထိလည်းကောင်း၊ အနောက်မြောက်ဖက် **ကုခန်** (ပုခန်းကြီး)၊ **ကြံဘူ** (အနိမ့်-အမြင့်) **ပင်ဏ္လီ ၁၀ တိုက်** (ပန်းချီ ၁၀ တိုက်) နှင့် မုံရွာအထိလည်းကောင်း၊ မြောက်ဖက် မြင်မူမှ မူးမြစ်ဝှမ်းအတိုင်း **ဝက်လက်၊ ဟန်လင်၊ မုဆိုဝ်ခြုံ၊ မုဆိုဝ်ဖိုဝ်**၊(ရွှေဘို)၊ **ထိပေအ်သျှင်** (ဒီပဲယင်း)၊ **မွှိယ်ဘူ** (မြေဒူး) အထိလည်းကောင်း၊ **တောင်ပွ္လုန်**(တောင်ပြုံး) မှ ရောဝတီမြစ်ကို ဆန်၍ မြောက်ဖက် **သစ္စိမ်** (သစ်ဆိမ့်ကြီး) နှင့် **တကောင်** (တကောင်း) အထိလည်းကောင်း အသီးအသီး ပျံ့နှံ့ ရောက်ရှိခဲ့ကြ၏။ ယင်းဒေသတို့တွင် ရှေးမြန်မာတို့သည် အခြားတိုင်းရင်းသားတို့နှင့် ရောနှော၍ နေထိုင်ခဲ့ကြသည်။ ဤဒေသများမှာ တိုက်ဒေသများ ဖြစ်ကြ၏။

## နိုင်ငံ ဒေသများ

ဤ တိုက်ဒေသများကို လွန်သော် နောက်ထပ် တိုက်ခိုက်အောင်နိုင် ရရှိသော နိုင်ငံဒေသများ ရှိသည်။ **ပြည်**(ပျူမြို့တော်ဟောင်း) **တလ၊ ယုန်ပိုဝ်** စသော မြစ်ဝကျွန်းပေါ်ဒေသ၊**ပယ်ကူ**၊ သို့မဟုတ် **ဥဿိ**ဟုခေါ်သော ပဲခူးနယ်၊**ဒဝါယ်** (ထားဝယ်)၊ **တနင်သရေ** (မြိတ်နှင့် တနင်္သာရီဒေသ) အထိ ဖြစ်သော တောင်ပိုင်းရှိ နိုင်ငံဒေသများ၊ **တကောင်း**ကို

လွန်၍ **ကောင်စင်** (ကောင်းစင်)နှင့် **ငဆောင်ချံ** (ငဆောင်ချမ်း) အထိ ဖြစ်သော မြောက်ဖက်ပိုင်းရှိ နိုင်ငံဒေသများ ပါဝင်ကြ၏။ ထိုဒေသများ၌ မြန်မာတို့သည် လူနည်းစုများ ဖြစ်ကြသည်။ မြိတ်ဒေသမှာကဲ့သို့ပင် ရခိုင်ဒေသသို့လည်း ရှေးမြန်မာတို့ ရောက်ရှိ၍ အခြေစိုက် နေထိုင်ခဲ့ကြ၏။

## ပြည်တော်

ပုဂံကို အခြေပြု၍ ရှေးမြန်မာတို့ ခိုင်လုံစွာ ကာကွယ် ထိန်းသိမ်းခဲ့သော ပဌမ ပြည်တော်မှာ ယခု မန္တလေးခရိုင်တွင် အနောက်ဖက်သို့ ကွေ့စီးပြီးလျှင် ထိုနောက် မြင်းခြံလောက်မှ တောင်ဖက်သို့ တန်းစီးသော ဧရာဝတီ မြစ်ပိုင်း၏ တောင်ဖက်နှင့် အရှေ့ဖက် ဒေသနှင့် မင်းဘူးတို့ ဖြစ်သည်ဟု ဆိုရပေမည်။ အချုပ်အားဖြင့်ဆိုသော် ခရိုင်ဒေသ သုံးခုကို ဆက်စပ်မိအောင် သဘာဝနယ်နိမိတ်ဖြင့် သတ်မှတ် ထားသော ဒေသကြီးဖြစ်သည်။ မင်းဘူးနယ်မှ အပ အနောက်ဖက်တွင် ဧရာဝတီမြစ်သည် နယ်နိမိတ်ဖြစ်၍ အရှေ့ဖက်တွင် ရှမ်းကုန်းပြင်မြင့်၏ အနောက်စွန်သည် နယ်နိမိတ် ဖြစ်ပေသည်။ ဧရာဝတီ မြစ်၏ အရှေ့ဖက်ဒေသသည် တမ္ဗဒီပဟု တွင်၍ မြစ်၏ အနောက်ဖက်သည် သုနာပရန္တဟု တွင်သည်။ ဤပဌမ အချက်အခြာဒေသကို ဖြတ်စီး၍ အဓိက သယ်ယူပို့ဆောင်ရေး လမ်းမကြီးဖြစ်သော ဧရာဝတီ မြစ်ပေါ်တွင် မြောက်ဖက်၌ ယခု ရွာသစ်ကြီးဒေသသည် မြောက်တံခါးမကြီးဖြစ်၍ တောင်ဖက်တွင် ကျွန်းတော်သည် တောင်တံခါးမကြီး ဖြစ်သည်ဟု ယူဆရသည်။ အကြောင်းမှာ ဤနေရာနှစ်ခုလုံးသည် ရှေးက ပြည်တော်သာဟု တွင်ခဲ့သောကြောင့် ဖြစ်၏။ ဤဒေသတို့မှာ ခံတပ်များ ဖြစ်ခဲ့သည်။ ဤဒေသတို့ကို လွန်သော် မြေပြန့်တွင် ရှေးမြန်မာတို့၏ အချက် အခြာဒေသဖြစ်သော သာယာလှသည့် ပဌမပြည်တော်သာသို့ ချဉ်းနင်း ဝင်ရောက်မိသည် ဖြစ်သောကြောင့် ဤ အထက်အောက် ဝင်ပေါက်ဒေသများကို ပြည်တော်သာဟု အမည်ပေးထားခဲ့လေသလောဟု တွေးတောဖွယ်ရာ ဖြစ်ပေသည်။

## ဆန်းကျယ် ထူးခြားသော ပုဂံခေတ်ကောင်းကြီး

မြန်မာနိုင်ငံ အလယ်ပိုင်း မြေပြန့်သို့ ဝင်လာစက ယနေ့ ရှမ်းပြည် အနောက်ပိုင်းတွင် တွေ့နေရသော ကုန်းမြင့်သား မနု၊ တောင်ရိုးတို့နှင့် ယဉ်ကျေးမှု အဆင့်အတန်း မကွာခြားလှသေးသော ရှေး မြန်မာတို့သည် နှစ် ၁၀၀-၁၅၀ ခန့် ကာလအတွင်း ကြီးကျယ် ခမ်းနား ဆန်းပြားလှသည့် အာနန္ဒာ၊ သဗ္ဗညုကဲ့သို့သော ကူဘုရားကြီးများကို တည်ဆောက်နိုင်သည့် အဆင့်အတန်းသို့ ရောက်အောင် တိုးတက်လာခဲ့ပေသည်။ ခြောက်သွေ့လှသော မြေပြန့်ကွင်းပြင်တွင် သစ်တော သစ်အုပ်၊ သီးနှံပင်၊ ပန်းမာလ်တို့နှင့် စိမ်းလန်း စိုပြေသော ပုပ္ပားတောင်ကြီး တည်နေပုံမှာ စုံစုံကြီး ပေါ်ထွက်နေဘိသကဲ့သို့ ရှိ၍ ထင်ရှား ပေါ်လွင်လှပေသည်။ အလားတူပင် သဲကန္တာရ တပိုင်းဖြစ်နေသော မိုးခေါင်ရေရှားရပ်ဝန်း၏အလယ်ပိုင်းပုဂံမြို့တွင် စေတီပုထိုး ကူဘုရားအဆောက်အအုံတို့သည် မှိုပေါက်ဘိသကဲ့သို့ ပေါ်ပေါက်ခဲ့၏။ ထုထည်ကြီးမား၍ ဥာဏ်တော် မြင့်မားလှသော အဆောက်အအုံကြီးများရှိသည်။ သေးငယ်၍ ဥာဏ်တော်နိမ့်သော အဆောက် အအုံများလည်း ရှိ၏။ ပုံအမျိုးမျိုး အရွယ် အမျိုးမျိုးရှိကြ၏။ ကူဘုရား စေတီ ပုထိုးတိုင်းမှာ တမျိုးတဖုံ အနုပညာလက်ရာတို့နှင့် တန်ဆာ ဆင်ထားပေသည်။ ဤသို့ တဟုန်ထိုး ပေါ်ထွန်းလာသော ပုဂံယဉ်ကျေးမှုသည်လည်း ပုပ္ပား တောင်ကြီးနှယ် အထီးတည်း ထင်ရှား ပေါ်လွင်လှတော့သည်။ ပုဂံခေတ် မြန်မာတို့၏ အနုပညာလက်ရာ အဆောက်အအုံ လက်ရာတို့သည် အဆင့်အတန်း မြင့်လှသည်။ ဆန်းကျယ် ထွေပြား၏။ မရိုးနိုင်သော လက်ရာမျိုး ဖြစ်သည်။ အချို့တွင် ယခုခေတ်တိုင် တွေးတော ကြံဆ၍ မရနိုင်သေးသည့် ထူးခြားချက်များရှိသည်။ စာရေး စာဖတ် အတတ် ပေါ်ပေါက် ထွန်းကားခဲ့၏။ အဆင့်အတန်းလည်း မြင့်ခဲ့သည်။ မွန်၊ မြန်မာ၊ ပါဠိ၊ ပျူ၊ သက္ကတ ဘာသာများကို တတ်သိခဲ့ကြ၏။ ပန်းချီ၊ ပန်းပု၊ ပန်းရံ၊ ပန်းတမော့မှ စ၍ အနုပညာများ၊ ဝါဂီနစ် အနုသုခုမ ပညာများ၊ အဆောက်အအုံ ပညာ၊ လူနေမှု ဖွဲ့စည်းပုံ၊ စီးပွားရေးနှင့် စိုက်ပျိုး လုပ်ကိုင်ရေးတို့ဖက်၌လည်း တိုးတက် ထွန်းကားခဲ့ပေသည်။ဤခေတ်သည် အကြမ်းအားဖြင့် နှစ် ၃၀၀ နီးပါးကြာညောင်းခဲ့သည်။ မြန်မာနိုင်ငံသမိုင်း တလျှောက်တွင် ပြိုင်ဖက်ကင်းသော ခေတ်ကောင်းကြီးဟု ဆိုရပေမည်။ ဤကဲ့သို့သော ခေတ်ကောင်းကြီး ပေါ်ထွန်းလာအောင် ရှေးမြန်မာတို့သည် မည်သို့အားဖြင့် ဖန်တီး ဆောင်ရွက် နိုင်ခဲ့ကြသနည်း။

## တိုင်းရင်းသားချင်း ပူးပေါင်းဆောင်ရွက်မှု

ဆိုခဲ့ပြီး ဖြစ်သည့် အတိုင်း ရှေးမြန်မာတို့၌ အမြဲတေ သဖွယ် ကောင်းမွန်လှသော လူမျိုး၏ ဗီဇ၊ ဓလေ့နှင့် စရိုက်များ ရှိခဲ့သည်။ ဆင်းသက်လာခဲ့စဉ်က တရုပ်ပြည်နှင့် နီးကပ်စွာ အရှေ့ဖက်ကြောင်းမှ ဆင်းသက်ခဲ့၍ ဘေးအန္တရာယ်များနှင့် မကြာခဏ ရင်ဆိုင်ခဲ့ရသည်။ သို့သော် တရုပ်ယဉ်ကျေးမှုများနှင့် ထူးခြားသော အရည်အသွေးများကို ရခဲ့ကြသည်။ ဤခရီးရှည်တွင် မူရင်း ယဉ်ကျေးမှု အချက်အလက်များ ကွယ်ပျောက် ဆုံးရှုံးခဲ့သော်လည်း နန်ကျောဝ်တွင် နေရစဉ်က ယဉ်ကျေးမှု အချက်အလက်များ၊ စီးပွားရေးနှင့် လယ်ယာစိုက်ပျိုးမှု၊ လူမှုရေးနှင့် စစ်ရေးပညာတို့ကို ပြန်လည်ရခဲ့ကြ၏။ ဤကဲ့သို့ အသင့်ပြင်ဆင်ထား ဘိသကဲ့သို့

ရှိသော ရှေးမြန်မာတို့သည် မြန်မာနိုင်ငံ မြေပြန့်သို့ရောက်၍ အရေးသာခဲ့ပြီးနောက် တင်ကြို ရောက်နှင့်ပြီးဖြစ်သော ပျူ၊ မွန်၊ သက်၊ ကဒူး၊ ကရင်၊ ပလောင်၊ ဝ အစရှိသော အခြားတိုင်းရင်းသားတို့နှင့် ဆုံစည်း မိခဲ့ကြ၏။ တိုင်းရေး ပြည်ရာတို့ကို ပူးပေါင်း ဆောင်ရွက်ခဲ့ကြ၏။

ရောက်နှင့်ပြီး ဖြစ်သော မွန်၊ ပလောင်၊ စကော ကရင်၊ သက်နှင့် ကဒူးတို့သည် မင်းဘူးခြောက်ခရိုင်နှင့် မြစ်သာ ၁၁ ခရိုင်ဒေသတို့တွင် တူးမြောင်းဖြင့် ရေသွယ်၍ လယ်ယာစိုက်ပျိုးရေး လုပ်ငန်းကို ဆောင်ရွက်လျက် ရှိပြီး ဖြစ်၏။ ရှေးမြန်မာတို့ ရောက်လာသောအခါတွင် အဆိုပါ တိုင်းရင်းသားတို့နှင့် ပူးပေါင်း၍ တိုင်းပြည် စီးပွားရေး၏ အရင်းအမြစ်ဖြစ်သည့် ဤစိုက်ပျိုးရေး လုပ်ငန်းကို ဖွံ့ဖြိုးတိုးတက်အောင် ချဲ့ထွင် ဆောင်ရွက်ခဲ့ကြောင်း သိရပေသည်။

မြစ်သာ ၁၁ ခရိုင်တွင် ရှေးဦးလက်မွန် တွေ့ဆုံရသော ရှေးမွန်တို့ထံမှ စာရေးစာဖတ် အတတ်ကို ရရှိခဲ့ကြောင်း ခိုင်လုံသောအကြောင်းများ ရှိပေသည်။ မြန်မာ အက္ခရာတို့မှာ ပျူအက္ခရာတို့နှင့် မတူမူ၍ မွန်အက္ခရာတို့နှင့် ထပ်တူမျှရှိနေသည်ကို တွေ့နိုင်ပေသည်။ အခြေခံ အဆောက်အအုံပညာကို ပျူတို့ထံမှလည်းကောင်း၊ အဆောက်အအုံ တို့၏ အတွင်းအပြင် တန်ဆာဆင်မှု ပညာကို မွန်တို့ထံမှလည်းကောင်း၊ လူမှုဆိုင်ရာ ယဉ်ကျေးမှု အချက် အလက်များ၊ အခြား အနုသုခုမ ပညာရပ်များနှင့် ကိုးကွယ်ယုံကြည်မှု စသည်တို့ကို ပျူနှင့် ရှေးမွန်တို့ထံမှလည်းကောင်း အသီးအသီး ခံယူတတ်သိ ခဲ့ကြသည်ဟု ဆိုရပေမည်။

### နိုင်ငံခြားများနှင့် ဆက်သွယ်မိခြင်း

ပျူနှင့် ရှေးမွန်တို့၏ ကိုးကွယ် ယုံကြည်မှု၊ ယင်းကိုးကွယ်ယုံကြည်မှုကို အကြောင်းပြု၍ ပေါ်ပေါက်လာသော စာပေ၊ အနုပညာ၊ ဗိသုကာပညာ စသည့် ယဉ်ကျေးမှု အချက်အလက်တို့၏ အခြေခံ တို့သည် အိန္ဒိယပြည်ဖက်မှ ရောက်ခဲ့ခြင်း ဖြစ်ပေသည်။ အနော်ရထာ (အနိရုဒ္ဓဒေဝ)မင်း လက်ထက် အေဒီ ၁၀၅၀ ခန့်တွင် မြန်မာနိုင်ငံတောင်ပိုင်းကို သိမ်းပိုက်မိသောအခါ ပင်လယ်နှင့် တိုက်ရိုက်ဆက်သွယ်မှုကို ရှေးမြန်မာတို့ ရခဲ့ကြပေသည်။ ဤတွင် မြန်မာနိုင်ငံ တောင်ပိုင်း ပင်လယ်ကမ်းရိုးတန်း ဒေသတွင် နေထိုင်လျက် ရှိကြသော အိန္ဒိယနိုင်ငံသားများနှင့် အဆက်အသွယ် ဖြစ်ခဲ့ကြသည်သာ မက ဗင်္ဂလားပင်လယ်အော် တဝိုက်ရှိ ဒွါရဝတီ (ယိုးဒယားနိုင်ငံ တောင်ပိုင်း)၊ မလ္လာယု၊ သီဟိုဠ်၊ အိန္ဒိယပြည် တောင်ပိုင်းရှိ တေလင်္ဂန၊ ဗင်္ဂလား၊ ပဋိက္ကရား ခေါ် ပတ္တိကေရစသော တိုင်းပြည်တို့နှင့်လည်း ကူးလူး ဆက်ဆံနိုင်ခဲ့ ကြ၏။ ဤဆက်သွယ်မှုတို့ကို အကြောင်းပြု၍ ဆန်းသစ်သော ယဉ်ကျေးမှု အချက်အလက်တို့ကို ရရှိ ခဲ့၏။ ယဉ်ကျေးမှုချင်းလည်း ဖလှယ်နိုင်ခဲ့၏။

### အရည်အသွေးနှင့် ယဉ်ကျေးမှုများ ရောစပ်မိခြင်း

ဝင်ရောက် လာကြသော ရှေးမြန်မာတို့သည် လူမျိုးသစ်ဖြစ်သည်။ သွေးသစ်၊ အားသစ်၊ ထက်မြက် လန်းဆန်းသော စိတ်ဓာတ်သစ်များ ရှိနေသူများ ဖြစ်သည်။ တောင်ပေါ်သား ဘဝမှ မြေပြန့်သားအခြေသို့ ပြောင်းလဲ လာရသဖြင့် တိုးတက်မှုအတွက် ကြိုးစား ဆောင်ရွက် လိုကြသည်။ အပင်ပန်း ခံကာ စွန့်စား လိုကြသည်သာ ဖြစ်ပေမည်။ သူတို့သည် ဦးဆောင်မှုကိုပေးခဲ့ကြသည်။ အားပေးမှု တိုက်တွန်းမှုနှင့် ကူညီမှုတို့ကိုလည်း ပြုခဲ့သည်။ ရောက်နှင့်ပြီး ဖြစ်သော တိုင်းရင်းသားတို့ကလည်း ပူးပေါင်း ဆောင်ရွက်ခဲ့ကြသည်။ ရှိနှင့်ပြီးသူ တို့၏ အရည်အသွေးများနှင့် ယဉ်ကျေးမှု အချက်အလက်များ၊ ဝင်ရောက် လာသူတို့၏ အရည်အသွေးများနှင့် ယဉ်ကျေးမှု အချက်အလက်များ ရောစပ်မိကြ၍ တိုင်းရင်းသား အားလုံးကို အကျိုးပြုစေနိုင်မည့် အရည်အသွေးများနှင့် ယဉ်ကျေးမှု အချက်အလက်များ ပေါ်ထွန်းလာအောင် ဖန်တည်း နိုင်ခဲ့ကြသည် ဟု ယုံကြည်ရပေသည်။

### ယဉ်ကျေးမှု အိုင်ကြီး သုံးအိုင်

ဤ၌ ထွန်းကားခဲ့သော ပျူယဉ်ကျေးမှုနှင့် ရှေးမွန်ယဉ်ကျေးမှုတည်းဟူသော အိုင်ကြီး နှစ်အိုင်မှ စီးဆင်းလာသော ယဉ်ကျေးမှု ရေယဉ်နှစ်သွယ်သည် ရှေးမြန်မာယဉ်ကျေးမှု အိုင်ကြီးမှ စီးဆင်းလာသော ယဉ်ကျေးမှု ရေယဉ်နှင့် ပေါင်းစပ်မိသဖြင့် သောက်သုံး၍ မကုန်နိုင်သော ကြီးကျယ် ခန့်ညားလှသည့် ပုဂံယဉ်ကျေးမှု တည်းဟူသော အိုင်ကြီး တခု ဖြစ်ပေါ် လာ၏။ ပျူနှင့်မွန် ယဉ်ကျေးမှုတို့တွင် နက်နဲ၊ ဆန်းကျယ်၊ နူးညံ့သိမ်မွေ့သော ဂုဏ်ရည်များ ရှိ၏။ ရှေးမြန်မာတို့၏ ယဉ်ကျေးမှု အချက်အလက်တို့တွင် လူမှုရေး၊ စီးပွားရေး၊ စီမံခန့်ခွဲမှုတို့နှင့် စပ်လျဉ်း၍ လက်တွေ့ကျမှု၊ အရှိန် တက် ကြွမှုစသည့် အခြေခံ စရိုက်တို့ ပါဝင်နေသည်။ ဤသို့ ပူးပေါင်းမိသောကြောင့် နက်နဲဆန်းကျယ် သိမ်မွေ့ခဲ့သော ယဉ်ကျေးမှု အချက်အလက်တို့သည် လက်တွေ့ကျကျ အဟုန်ပြင်းပြင်းနှင့် တိုးတက် ဖွံ့ဖြိုးလာခဲ့ခြင်း ဖြစ်သည်ဟု ယူဆရပေသည်။

ဤသို့အားဖြင့် ယနေ့ ပြည်ထောင်စု မြန်မာနိုင်ငံသားတို့ အဖို့ မြန်မာနိုင်ငံသား ဖြစ်ရသည်မှာ ဂုဏ်ယူဖွယ်ရာပေတကားဟု စိတ်ဓာတ် တက်ကြွစေနိုင်သည့် ခမ်းနား ကြီးကျယ်လှသော ယဉ်ကျေးမှု အမွေအနှစ်တို့ကို ဥဒါန်းတွင်ရစ်အောင် ပေးထားခဲ့သော ပုဂံခေတ်ကောင်းကြီး၏ အုတ်မြစ်ကို စတင်ချနိုင်ခဲ့ကြ၍ ယင်း ယဉ်ကျေးမှု အုတ်မြစ်ပေါ်တွင် တည်ဆောက်ခဲ့သော ပုဂံခေတ် ယဉ်ကျေးမှုနှင့် အစဉ်အလာတို့သည် တိုးတက်မှုအတွက် ကြိုးပမ်းကြသော ပြည်ထောင်စု

သား တိုင်းရင်းသား အဆက်ဆက်တို့အဖို့ မျှော်မှန်းချက် ပန်းတိုင်အဖြစ် ထားရသော စံနမူနာများပင် ဖြစ်ပေသည်။

ရှေး မြန်မာတို့သည် မြေပြန့်သို့ ရောက်လာသောအခါ ဗုဒ္ဓ အယူဝါဒကို လက်ခံ ရရှိခဲ့ကြ၏။ မြေပြန့်သို့ ရောက်စ အရိုးခံသာ ဖြစ်သော တောင်ပေါ်သား မြန်မာတို့အား ဤ အယူဝါဒက အတွေးအခေါ်သစ် စိတ်ဓာတ်သစ်တို့ကို ပေးခဲ့၏။ စွဲမြဲတည်တံ့သော သဒ္ဓါယုံကြည်မှုကိုလည်း ပေး ခဲ့ပေသည်။ ပုဂံခေတ် အတွင်း ဤအယူဝါဒသည် နိုင်ငံ အတွင်း ကောင်းစွာ ပျံ့နှံ့ခဲ့၏။ ဗုဒ္ဓ အယူဝါဒသည် ပုဂံ ခေတ် တိုင်းရင်းသားတို့အား တခုတည်းသော ရည်မှန်း ချက်သို့သာ အာရုံ စူးစိုက်လာအောင် ဆွဲဆောင် စေနိုင် သည့် အဟုန်ကြီးကို ဖန်တီး ပေးခဲ့သည်။ ဤအဟုန် ကြောင့် နိုင်ငံ၏အရေးနှင့် ဗုဒ္ဓအယူဝါဒ၏ အရေးတို့၌သာ စိတ်ဝင်စားခဲ့ကြ၍ အာရုံကွဲပြားမှု မရှိဘဲ စူးစူးစိုက်စိုက် ဆောင်ရွက်ခဲ့ကြပေသည်။

### တခုတည်းသော ရည်မှန်းချက်သို့ ညီညာစွာ အာရုံစူးစိုက်ခြင်း

ဤကဲ့သို့ တခုတည်းသောရည်မှန်းချက်သို့သာ ရှေးရှု၍ ရှေး မြန်မာတို့ ဦးဆောင်သော တိုင်းရင်းသား အားလုံး သည် စည်းလုံး ညီညွတ်စွာဖြင့် ရှိသမျှသော စိတ်ဓာတ်အား၊ လုပ်အား၊ ပညာအားနှင့် စီးပွားအားတို့ကို အပြည့်အစုံအသုံး ပြုကာ အားသွန် ခွန်စိုက်၊ စိတ်ပါ ဝင်စားစွာ ဆောင်ရွက်ခဲ့ ကြ၏။ ဆောင်ရွက်ရချက်တို့ကို အမြတ်တနိုး ရှိကြသည်။ စည်းကမ်းလည်း ရှိခဲ့ကြ၏။ စံနစ်လည်း ရှိခဲ့ကြ၏။ ဤသို့ ဆောင်ရွက် နိုင်ခဲ့သောကြောင့် အံ့သြခြီးကျူးအပ်သော ပုဂံခေတ်ကောင်းကြီးကို ဖန်တီးနိုင်ခဲ့ခြင်း ဖြစ်ပေသည်။

### ပုဂံအစဉ်အလာသည် မြန်မာ့အစဉ်အလာ

ဤပုဂံခေတ်ကောင်းကြီးမှာ မြန်မာ၊ မွန်၊ ပျူ သက်တို့ ၏ စွမ်းဆောင်မှုများနှင့် ယဉ်ကျေးမှုတို့ကို ရောစပ်၍ ဗုဒ္ဓ အယူဝါဒအားဖြင့် အမွမ်းတင် ချယ်လှယ်ထားသည် ဖြစ်ရ ကား ဤခေတ်၏ ယဉ်ကျေးမှုနှင့် အာဥ်အလာတို့မှာ အမှန် စင်စစ် မြန်မာနိုင်ငံသမိုင်း တလျှောက်တွင် နိုင်ငံသားတို့၏ အခြေခံယဉ်ကျေးမှုနှင့် အစဉ်အလာ ဖြစ်လာခဲ့ပေသည်။ ပုဂံ ခေတ် အစဉ်အလာများသည် မြန်မာ့ အစဉ်အလာများ ဖြစ် နေကြပေသည်။

### ပုဂံအစဉ်အလာအုတ်မြစ်

နှစ်ပေါင်း ၃၀၀ ကြာမျှ ထွန်းကားခဲ့ပြီးနောက် အေ ဒီ ၁၃၀၀ တွင် ပုဂံ ပျက်သုဉ်းခဲ့၏။ ဤသို့ ပျက်သုဉ်းခြင်းမှာ အောက်ခြေအုတ်ခုံပေါ်တွင် ဆောက်တည်ခဲ့သည့် ပြာသာဒ် စုလစ်မွန်ချွန်နှင့်တူသော ပုဂံခေတ်၏တန်ခိုးအာဏာနှင့် အင် အားတို့ ယိမ်းယိုင် ပြိုလဲခြင်းသာ ဖြစ်ပေသည်။ ပုဂံခေတ်၏ ယဉ်ကျေးမှုအရှိန်နှင့် အစဉ်အလာ တည်းဟူသော အောက် ခြေ အုတ်မြစ်၊ အုတ်ခုံကြီးမှာကား ကျန်နေခဲ့ပေသည်။

### မြန်မာတို့ နိမ့်ကျခဲ့ချိန်

နိုင်ငံသမိုင်း၏ ထပ်တလဲလဲ ဖြစ်ပျက်တတ်သည့် သဘော တရား အလျောက် မြန်မာတို့သည် ပုဂံပျက်ပြီးနောက် အနှစ် ၂၄၀ ခန့် ကြာမျှ နိမ့်ကျခဲ့ကြရ၏။ ဤကာလမှာ လူမျိုးသစ် ဖြစ်သော ရှမ်းအမျိုးသားတို့ ဝင်ရောက်ခဲ့ချိန်မှ စတင် ခဲ့ သည်။ ဤကာလအတွင်း ပုဂံခေတ်မှာကဲ့သို့ မြန်မာတို့၏ အရည်အသွေး ထင်ရှားခြင်း မရှိခဲ့ပေ။

### အာရှအရှေ့ပိုင်း နိုင်ငံတို့၏ လေးစားခြင်း ခံရစဉ်

ထိုနိမ့်ကျ ကွဲပြားသည့်ခေတ် ကုန်ဆုံးပြီးနောက် အေဒီ ၁၅၃၉ ခုနှစ်တွင် မြန်မာတို့၏ ဂုဏ်နှင့် အင်အားကို ထင်ရှား စေခဲ့သည့် တောင်ငူခေတ် ပေါ် ပေါက်ထွန်းကားလာပြန်၏။ မြန်မာတို့ပင် ဦးဆောင်၍ တိုင်းရင်းသားလူမျိုးတို့ စည်းလုံး



ရှေးမြန်မာတို့သည် ရှာသုံးရေတွင်းကို သပ်ယပ် စင်ကြယ်စွာ ထား လေ့ ရှိသည်။

ညီညာစွာ ကြိုးစားဆောင်ရွက်နိုင်သောကြောင့် ဖြစ်သည်။ တပင်ရွှေထီးနှင့် ဘုရင့်နောင် ကျော်ထင်နော်ရထာတို့၏ ဦးစီးခေါင်းဆောင်မှုဖြင့် တောင်ငူခေတ် မြန်မာများနှင့် တိုင်းရင်းသား တို့သည် ပုဂံအစဉ်အလာ တည်းဟူသော အခြေခံ အုတ်မြစ်ပေါ်တွင် စွမ်းအားနှင့် တန်ခိုးတည်းဟူသော ပြာသာဒ်နှင့် စုလစ်မွန်ချွန်တို့ကို တဖန် တည်ဆောက်နိုင်ပြန်ခြင်းဖြစ်၏။ တောင်ငူခေတ် မြန်မာနိုင်ငံနှင့်တိုင်းရင်းသားတို့သည် အာရှတိုက် အရှေ့ပိုင်းနှင့် အရှေ့တောင်ပိုင်းတို့တွင် အခြားနိုင်ငံတို့က အလေးဂရု ပြုရသည့် အင်အားကြီးနိုင်ငံနှင့် တိုင်းရင်းလူမျိုးစုအဖြစ် နှစ်ပေါင်း ၃၀ ကျော် ဂုဏ်တင့်ခဲ့ပြန်လေသည်။

အေဒီ ၁၆၀၀ ပြည့်လောက်တွင် ပဲခူးမြို့ ပျက်ခဲ့ရာတွင် မြန်မာတို့၏ အင်အားသည် ယာယီအားဖြင့် ယိမ်းယိုင်ခဲ့၏။ သို့ရာတွင် ညောင်ရမ်း မင်းတရားကြီး လက်ထက်တွင် မြန်မာတို့သည် အင်အား ပြန်လည် စုစည်းနိုင်ခဲ့၏။ အနောက်ဖက်လွန် မင်းတရား လက်ထက်၌မူ ကိုလိုနီစနစ်ဟောင်းနှင့် နယ်ချဲ့ ခြေကုပ်ယူလာသော ပေါ်တူဂီ နယ်ချဲ့အင်အားကို အမြစ်မှနေ၍ အောင်မြင်စွာ တွန်းလှန်ဖယ်ထုတ်ခဲ့ကြသည်။ ဤညောင်ရမ်းခေတ် နောက်ပိုင်းတွင်မူ အင်းဝမြို့ကို ဗဟိုပြု၍ အေးဆေးစွာ နေလာခဲ့ကြပေသည်။ ဤ ကာလအတွင်း မြန်မာတို့၏ အင်အားမှာ ထင်ထင်ရှားရှား တိုးတက်ခြင်း မရှိပေ။ သို့သော် စာပေနှင့် ယဉ်ကျေးမှုတို့ဖက်၌ကား ထူးခြားသော တိုးတက်မှုများ ရှိခဲ့ပေသည်။

၁၆၅၇ ခုနှစ် ၏ နောက်တွင် နိုးကြားမှု၊ ကြိုးစား လှုံ့ဆော် ဆောင်ရွက်မှုတို့ဖက်တွင် လူမျိုး တမျိုး၊ နိုင်ငံတနိုင်ငံ အနေနှင့် မြန်မာတို့၏ ဆောင်ရွက်မှုတို့မှာ ထူးခြား ထင်ရှားခြင်း မရှိပေ။ ၁၇၃၀ ပြည့်နှစ် နောက်ပိုင်းတွင်ကား နိုင်ငံသားတို့ အစုစု ကွဲပြားခဲ့ကြ၏။ မြန်မာတစု၊ မွန်တစုနှင့် ကွေ့ရှမ်းတစု ဟူ၍ ထင်ရှားသော အစုသုံးစုရှိခဲ့သည်။ ယင်းအစုတို့ ကွဲပြားကြသဖြင့် တိုင်းရေးပြည်ရာ နိမ့်ကျခဲ့ရ၏။

ဤသို့ နိမ့်ကျသည့် အချိန်တွင် တိုင်းပြည်ကို စိုးမိုး အုပ်ချုပ်နိုင်ရန် မွန်၊ ကွေ့ရှမ်းနှင့် မြန်မာတို့သည် အသီးအသီး အပြိုင် အဆိုင် ကြိုးစားခဲ့၏။ ဦးစွာ၌ မွန်တို့သည် အင်းဝကို သိမ်းပိုက်မိသည်အထိ အောင်ပွဲ ရခဲ့ကြ၏။ ကွေ့ရှမ်းတို့မှာကား တဖြည်းဖြည်းနှင့် မှေးမှိန်သွားခဲ့ကြ၍ မကြာမီအတွင်း အလောင်းမင်းတရားကြီး ပေါ်ပေါက်လာ၍ ပြိုင်ပွဲတွင် လုံးဝ အနိုင်ယူကာ တိုင်းရင်းသားတို့ကို စည်းလုံး ပေးခဲ့၏။ ဤသို့ဖြင့် မြန်မာတို့၏ ရှေးဖြစ်စဉ်တွင် ထင်ရှားသော ကဏ္ဍတခုဖြစ်သည့် ကုန်းဘောင်ခေတ်ကြီး (အေဒီ ၁၇၅၂–၁၈၂၄) ပေါ် ပေါက်လာခဲ့ပေသည်။

ကုန်းဘောင်ခေတ်တွင်လည်း မြန်မာတို့နှင့် အခြား တိုင်းရင်းသားတို့သည် ကမ္ဘာ့အရှေ့ဖျားတွင် နိုင်ငံ အသီးသီးတို့၏ အလေးဂရု ပြုခြင်း ခံရလောက်အောင် အင်အားတောင့်တင်းသော တိုင်းရင်းသားများ ဖြစ်ခဲ့ကြ၏။ အင်းဝခေတ်နောက်ပိုင်းနှင့် တောင်ငူခေတ်တို့မှာကဲ့သို့လည်း လူမှုရေးနှင့် ယဉ်ကျေးမှု ဖက်တို့တွင် ထွန်းကား တိုးတက်ခဲ့ပေသည်။ ပြည်တွင်း စည်းရုံးမှုသာမက၊ မဏိပူရ၊ ယိုးဒယား စသည့် နိုင်ငံများသို့လည်း အာဏာလက်ရုံး ဆန့်နိုင်ခဲ့သည့် စွမ်းအားရှိခဲ့၏။ အထူးသဖြင့် ထိုစဉ်က ကမ္ဘာ့အင်အားကြီး လက်နက်နိုင်ငံကြီး ဖြစ်သော မန်ချူးတရုပ်နိုင်ငံ၏ တပ်ကြီးများက ကျူးကျော် ဝင်ရောက် တိုက်ခိုက်ခဲ့ခြင်းများကို အောင်နိုင်စွာတွန်းလှန်ခဲ့၍ အနိုင်နှင့် အဆုံးသတ်နိုင်ခဲ့၏။ ဤသည်မှာလည်း အခြေခံရထားပြီးဖြစ်သည့် ပုဂံ အစဉ်အလာတည်းဟူသော အုတ်ခုံကြီးပေါ်တွင် ကုန်းဘောင်ခေတ် တည်းဟူသော ပြာသာဒ်နှင့် စုလစ်မွန်ချွန်တို့ကို တည်ဆောက်၍ မွမ်းမံနိုင်ခဲ့ခြင်း ဖြစ်ပေသည်။

## ပြည်သူလူထု၏ လုပ်အားနှင့် လူနေမှု ဖွဲ့စည်းပုံ

ပုဂံခေတ်၏ အခြေခံ အုတ်မြစ်ကြီးများနှင့် ပုဂံခေတ် ယဉ်ကျေးမှု၏ အညွန့်အခက်တို့ကို စတင် ဖန်ဆင်းတည်ဆောက်ခဲ့ကြသူတို့မှာ ကျွမ်းကျင်မှုရှိသော ပညာရှင် အလုပ်သမားများနှင့် လုပ်အားကို ပေးနိုင်သော သာမန်အလုပ်သမားများ ဖြစ်သည့် ပြည်သူလူထုတို့ပင်ဖြစ်သည်။ ယင်း ပြည်သူလူထုတို့သည် ပုဂံခေတ် ခရိုင်ဒေသများတွင် နေခဲ့ကြစဉ်က အညီအညွတ် တိုင်ပင်ဆောင်ရွက်သော အသင်းအဖွဲ့နှင့် ဖြစ်သည်။ ပုဂံတွင် မင်းဧကရာဇ် စံနစ်ဖြင့် အုပ်စိုးလာသည်မှ စ၍ ထိုပြည်သူလူထုဖြစ်သော မြန်မာတို့နှင့် အခြားတိုင်းရင်းသားတို့သည် ပဒေသရာဇ်နှင့် ဧကရာဇ်စံနစ်၏ လူနေမှု ဖွဲ့စည်းပုံအရ နေထိုင်လာခဲ့ကြရသည်။ ခေတ်အသီးအသီးတို့တွင် ဤစံနစ်အရ ဦးဆောင်မှုကို ပေးခဲ့သော မင်းဧကရာဇ်သည် ရေမြေ့ရှင်အဖြစ်ငှင်း၊ အသက်ဦးဆံပိုင် ဘဝရှင်အဖြစ်ငှင်း ထိုပြည်သူလူထုကို စိုးမိုးခြယ်လှယ်၍ အုပ်စိုးလာခဲ့ကြသည်။ ပြည်သူလူထုဖြစ်သော မြန်မာနှင့် အခြားတိုင်းရင်းသားတို့မှာကား အသုံးတော်ခံအအုပ်စိုးခံဘဝဖြင့် အမှု ထမ်းဆောင်ရွက်ခဲ့ ကြရသည်။ ဤစံနစ်အောက်တွင် ပြည်သူလူထု၏ ဆောင်ရွက်မှုတို့သည် ထင်ပေါ်ခြင်း မရှိခဲ့ပေ။ သူကြီးဘုရားရွာသားကုသိုလ် အဖြစ်လောက်နှင့်သာ စခမ်းသိမ်းခဲ့ရ၏။

အေဒီ ၁၈၂၄ ခုနှစ်တွင် အရင်းရှင်စံနစ်ကို အခြေပြုသော ဗြိတိသျှ အရှေ့အိန္ဒိယ ကုမ္ပဏီသည် မြန်မာနိုင်ငံ၏ အစိတ်အပိုင်းတို့ကို စတင် လုမ်းမိုးသိမ်းပိုက်ခဲ့၏။ ၁၈၅၂ ခု နှစ်တွင် နောက်တကြိမ် သိမ်းပိုက်ပြန်၍ ၁၈၈၆ ခုနှစ်တွင် တနိုင်ငံလုံးကို ဗြိတိသျှ အင်ပါယာတွင်းသို့ သွတ်သွင်းခဲ့သဖြင့် မြန်မာတို့နှင့်တကွ တိုင်းရင်းသား အားလုံးတို့သည် ဗြိတိသျှ အရင်းရှင်စံနစ်အောက်သို့ လုံးဝ ကျရောက်ခဲ့ကာ ထိုအရင်းရှင်စံနစ်၏

လူနေမှု ဖွဲ့စည်းပုံအရ ဗြိတိသျှ အင်ပါယာတွင်းတွင် နေလာခဲ့ကြရ၏။ ပဌမ ကမ္ဘာစစ်၏ နောက်ပိုင်းတွင် မျိုးချစ်စိတ်များ နိုးကြားလာကာ လွတ်လပ်ရေး လှုံ့ဆော်မှုတို့ကို စတင်ခဲ့ကြ၏။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ မြန်မာတို့နှင့် တိုင်းရင်းသားတို့သည် ဂျပန်အကူအညီနှင့် ဗြိတိသျှတို့ကို တော်လှန်ခဲ့ကြ၏။ သို့ရာတွင် ဂျပန်တို့က ပိုမိုဆိုးဝါးသည့် ဖက်ဆစ်ဝါဒနှင့် အုပ်ချုပ်လာပြန်ရာ မြန်မာတိုင်းရင်းသားတို့သည် ယင်းဝါဒကိုပါ တဆက်တည်း တော်လှန်ခဲ့ကြပြန်လေသည်။ မြန်မာ တိုင်းရင်းသားတို့သည် လွတ်လပ်ရေး လှုံ့ဆော်မှုကို ဤသို့ စွန့်စား ဆောင်ရွက်ခဲ့သောကြောင့် ၁၉၄၈ ခုနှစ်တွင် အချုပ်အခြာ အာဏာပိုင်သော လွတ်လပ်ရေးကို ရရှိခဲ့ကြသည်။

သို့ပင် လွတ်လပ်ခဲ့လင့်ကစား အရင်းရှင် နယ်ချဲ့စနစ်ခေတ်က ရရှိလာခဲ့သော အစဉ်အလာ၊ လူနေမှု ဖွဲ့စည်းပုံနှင့် စီးပွားရေးစနစ်တို့သည် ဆက်လက် လွှမ်းမိုးနေခဲ့သဖြင့် တိုင်းပြည်၏အခြေအနေမှာ စိုးရိမ်ဖွယ်ရာအခြေသို့ ရောက်ခဲ့ရလေသည်။ သို့ဖြစ်၍ ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ယင်း အခြေအနေကို ထိန်းသိမ်းနိုင်ရန်ငှင်း၊ အရင်းရှင် စီးပွားရေးစနစ်၏ အငွေ့အသက် မကုန်သေးသော စီးပွားရေး စနစ်နှင့် လူနေမှု ဖွဲ့စည်းပုံတို့ကို ပြုပြင် ပြောင်းလဲပစ်နိုင်ရန်ငှင်း တော်လှန်ရေး အစိုးရသည် ပေါ်ပေါက် လာခဲ့ပေသည်။ စီးပွားရေး စနစ်ဟောင်းတို့ကို တော်လှန် ဖြိုဖျက်ပစ်၍ မြန်မာ့နည်းအရဖြစ်သော ဆိုရှယ်လစ်ဝါဒ အခြေခံသည့် စီးပွားရေးစနစ်နှင့် လူနေမှု ဖွဲ့စည်းပုံတို့ကို လုပ်သားပြည်သူလူထုနှင့် တကွ ဖန်တီးတည်ဆောက်လျက် ရှိပေသည်။

ဦးဘရှင်

**မြန်မာသီချင်း။** ။မြန်မာစာပေတွင် သီချင်းကို ကဗျာလင်္ကာ အဖွဲ့အနွဲ့တမျိုးအဖြစ် သတ်မှတ်ထားသည်။ (ကဗျာလင်္ကာ — ရှု။)အကြောင်းချင်းတ တရပ်ကို ဟဒယနှလုံးရွှင်ပြုံး ကြည်လင်စေရန်ငှင်း၊ နှစ်သိမ့် ကြည်နူးစေရန်ငှင်း၊ ကြေကွဲ ဝမ်းနည်းစေရန်ငှင်း ဖွဲ့နွဲ့သီကုံးထား၍ သုံးမတြာခန့်ကြာအောင် အသံကို ရှည်ရှည်လွှင်လွှင် ဆွဲငင် သီကျူးအပ်သော သီချင်း၊ သို့မဟုတ် ဂီတသည် သတ္တဝါတို့၏ နားသောတသို့ ပြေးဝင် စွဲငြိစေတတ်သော သဘောရှိပြီးလျှင် သတ္တဝါတို့၏ စိတ်နှလုံးကို ယူကျုံး ဆွဲဆောင်တတ်သော သတ္တိလည်း ရှိပေသည်။ ထိုကြောင့် ဂီတ၊ သို့မဟုတ် သီချင်းသည် သတ္တဝါတို့၏ စိတ်နှလုံးကို ဆွဲဆောင်ရာ၌ ထက်မြက်သောလက်နက်တရပ်ဖြစ်ပေသည်။ (သီချင်း(ဂီတ)—ရှု။)

မြန်မာနိုင်ငံတွင် ရှေးနှစ်ပေါင်း ၁,၅၀၀ ကျော်ခန့်ကပင် သီဆို တီးမှုတ် ကခုန်ခြင်းသည် အနုပညာတရပ် အနေဖြင့် ထွန်းကားခဲ့သည်။ (မြန်မာဇာတ်သဘင် — ရှု။)ခရစ် ရှစ်ရာစုနှစ်ခန့်က တရုပ်နိုင်ငံသို့ ချစ်ကြည်ရေးအတွက် သွားရောက်ခဲ့သော သရေခေတ္တရာမှ ပျူ ယဉ်ကျေးမှုအဖွဲ့သည် သီချင်း ၁၂ မျိုးကို သီဆို တီးမှုတ် ကပြခဲ့ကြောင်း တရုပ်မှတ်တမ်းများ အရ သိရသည်။ ထိုသီချင်း ၁၂ မျိုးတို့မှာ များသောအားဖြင့် ဘုရားဂုဏ်တော်ကို ချီးကျူးထားပြီးလျှင် စျာနလာဘီ ရှင်ရသေ့ဘွဲ့၊ ဘုန်းတော်ဘွဲ့၊ စားတော်ခေါ်ခြင်းဘွဲ့၊ ပျော်တော်မူခြင်းဘွဲ့၊ အောင်တော်မူဘွဲ့၊ အင်ကြင်းပန်းဘွဲ့၊ ဥချိုးငှက်ဘွဲ့၊ ကြိုးကြာငှက်ဘွဲ့၊ ဥဒေါင်းမင်းဘွဲ့၊ ဟင်္သာငှက်ဘွဲ့၊ ကြိုးကြာငှက်ဘွဲ့ တို့လည်း ပါဝင်သည်ဟုဆိုထားလေသည်။ ထိုသီချင်းတို့သည် ကြိုးကြိုး ဘွဲ့ကြိုးမျိုး ဖြစ်မည် ဟုခန့်မှန်းရသည်။ ငါးရာစုနှစ်မှ ၁၁ ရာစုနှစ်အတွင်းက စည်ပင် ဖွံ့ဖြိုးခဲ့သော မွန်တို့ဒေသ သထုံပြည်၌လည်း အဆိုအက အတီးအမှုတ် ပညာ ထွန်းကားကြောင်းကို တူးဖော်တွေ့ရှိရသော ထိုခေတ်၏ စဉ့်ကွင်းများမှ သိရှိရသော်လည်း မည်သို့သော သီချင်းမျိုးကို စပ်ဆိုသီကုံးခဲ့ကြကြောင်းကိုမူ မခန့်မှန်းနိုင်ပေ။

ပုဂံပြည့်ရှင် အနော်ရထာမင်းစော၏ လက်ထက်တွင် မြန်မာတနိုင်ငံလုံးကို ပေါင်းစည်းခဲ့သဖြင့် ပျူ၊ မွန်၊ မြန်မာယဉ်ကျေးမှုတို့ ရောစပ်ကာ အနုပညာ ယဉ်ကျေးမှုတို့ တိုးတက်ခဲ့သည်။ ထိုစဉ်က သီဆို တီးမှုတ် ကခုန်မှုအတတ်သည်လည်း တိုးတက်မည် မလွဲကေန် ဖြစ်သော်လည်း တည်တံ့ခိုင်မြဲစွာ မှတ်တမ်းတင်ထားခြင်း မပြုခဲ့သဖြင့် ပုဂံခေတ်၏ သီချင်း အမျိုးအစားကို အထောက်အထား ခိုင်လုံစွာ မပြနိုင်ချေ။ သရေခေတ္တရာခေတ်၊ သထုံခေတ်၊ ပုဂံခေတ်၌ သုံးခဲ့ကြသော တူရိယာ ပစ္စည်းတို့ကိုမူ တရုပ်မှတ်တမ်းများအရငှင်း၊သထုံခေတ် စဉ့်ကွင်းပါရုပ်ပုံများမှငှင်း၊ ပုဂံကျောက်စာများ၊ ကူဘုရား နံရံ ပန်းချီများမှငှင်း သိရှိနိုင်ခဲ့ကြပေသည်။

ပုဂံ ပျက်၍ ပင်းယ ကောင်းစားသော ခေတ်တွင်သာ မှတ်တမ်းတင်ထားသော မြန်မာသီချင်းများကို အဦးဆုံး တွေ့ရသည်။ ထိုခေတ်တွင် တျာဘွဲ့သီချင်း၊ ကာချင်း၊ စည်ချင်းများ ပေါ်ပေါက်ထွန်းကားသည်။ (ကာချင်း၊ တျာချင်း — လည်းရှု။)ထိုခေတ်ကို အင်းဝခေတ်ဦးပိုင်းဟုခေါ်ဆို၍၊ ယင်းသည်မှ စပြီးလျှင် နှစ်ပေါင်း ၅၀၀ ခန့် အဓွန့်ရှည်သော အင်းဝခေတ် တလျှောက်လုံး၌ အနုပညာ အရပ်ရပ်တို့သည် တိုးတက်ခဲ့ရာ တေးဂီတ ကဗျာလင်္ကာ အရေးအသားတို့သည်လည်း ဖွံ့ဖြိုးတိုးတက်ခဲ့လေသည်။

အင်းဝခေတ် နောက်ပိုင်းတွင် အချိုကြီးသံ၊ အချိုငယ်သံ၊ ဆရာတောင်းသံ၊ ဆရာပန်သံ၊ ဆရာညွန်းသံ၊ အတွင်းတီးပြေသံ၊ အပြင်တီးပြေသံ၊ ဆင်ဖြူရေချသံ၊ ရွှေပလ္လင်တည်သံ၊ ဗောဓိညောင်ရွက်သံ၊ ဇမ္ဗူ့သပြေသီး ကြွေသံ၊ ငါးကြင်းမြီးခတ်သံ၊ ခရုသင်းသံ၊ ခွက်ခွင်းသံ၊ ဘီလူးမဝမ်းစည်သံ၊ မြစ်တွေးလန့်တွန်သံ၊ သိကြားအုပ်ဆောင်းသံ၊ သိကြားခလုက်

သံ၊ သိကြား ရေကန်တင်သံ၊ သိကြား လောပစ်သံ၊ ကင်းပတ်ငယ်သံ၊ ထုံးကိုးတံသံ၊ မျောက်မင်းအူသံ၊ မိတ္ထိလာကန်ပေါက်သံ၊ သပြေလားသံ၊ ပြုံးကာရယ်ရှင်သံ၊ က သာ ဝန်းလည်သံ၊ ပွင့်လှရွှေဝါ သံ၊ နောက်မြင်းလှသံ၊ လက်ာကုတ္တိသံ၊ မြင်းလှစာတောင်းသံ၊ မြင်းလှခွာသံ၊ တံငါမ အဲချင်းသံ၊ သိကြားမင်း ဘိသိက်မြှောက်သံ အစရှိသည့် ကြိုးသီချင်းများ၊ တျာချင်းများနှင့် သီချင်းခံများ ခေတ်စားခဲ့သည်။

အိုင်ချင်းများလည်း ထိုခေတ်၌ပင် ပေါ်ပေါက်ကြောင်းသိရသည်။ ထိုခေတ်၏ ထင်ရှားသော ဂီတစာဆိုကြီးမှာ ဝန်ကြီးပဒေသရာဇာ ဖြစ်သည်။ ဝန်ကြီး ပဒေသရာဇာသည် ကြိုးသီချင်း၊ သီချင်းခံ၊ တျာချင်း ဧာတ်ချင်းတို့ကို စပ်ဆိုခဲ့သည်။ ပုဂံပြည်သို့ ဗုဒ္ဓသာသနာ မရောက်မီက နတ်ကိုးကွယ်မှုတို့ ရှိခဲ့သည် ဖြစ်ရာ နတ်ပွဲကျင်းပ၍ သီဆို ကခုန်မှုတို့ကို ပြုခဲ့ကြသည်။ ထို့ကြောင့် အင်းဝခေတ်တိုင်အောင် ကျေးလက်များ၌ နတ်ပွဲ ကျင်းပမှုများ ရှိနေသေး၍ ဝန်ကြီးပဒေသရာဇာသည် ၃၇ မင်း နတ်သံ (အဲချင်း) များ၊ နတ်ယိုင်သံများကိုလည်း ရေးစပ်ခဲ့သည်။ အတီးအမှုတ် တူရိယာဖက်တွင် ပတ်ဆိုင်းများသည် ထိုခေတ်မှစ၍ ပေါ်ပေါက်ခဲ့လေသည်။

ကုန်းဘောင်ခေတ်၏ နှစ်ပေါင်း ၁၀၀ ခန့်အတွင်း၌ ဂီတသဘင်ပညာသည် အဖက်ဖက်မှ တိုးတက်ဖွံ့ဖြိုးလာသည်။ နိုင်ငံခြားနှင့် အဆက်အဆံ များလာသဖြင့်လည်း ဂီတအနုပညာတို့သည် ပို၍ ကြွယ်ဝလာသည်။ အတီးအမှုတ် တူရိယာပစ္စည်းများလည်း ပိုမို များပြား စုံလင်လာသည်။ ဘကြီးတော် စစ်ကိုင်းမင်း လက်ထက်တွင် ဘိုးတော်မင်းတရား လက်ထက်က ကျင်းပခဲ့သော နတ်ပွဲ အစီအစဉ်များနှင့် ရှေးက သီဆိုတီးမှုတ်ပုံများကို စုဆောင်း မှတ်သားရန် မြဝတီဝန်ကြီး ဦးစအား တာဝန်ပေးအပ်တော်မူသည်။ ထို့ပြင် မုံရွေး ဇေတဝန် ဆရာတော်အား ရှေးသီချင်းများကို စုဆောင်းပေးရန် လျှောက်ထားသဖြင့် ရှေးသီချင်းများကို စုဆောင်း ပေးခဲ့ရလေသည်။

ကုန်းဘောင်ခေတ်တွင် အထူး ခေတ်စားခဲ့သော သီချင်းများမှာ ပတ်ပျိုး၊ ယိုးဒယား၊ တေးထပ်၊ ဘောလယ်၊ လေးချိုး၊ သဖြန်နှင့် မွန်သီချင်းများဖြစ်သည်။ ယင်း သီချင်းများမှာ အထူးသဖြင့် နန်းတွင်း၌ အသုံးတော်ခံရသော အိနောင်၊ ရာမ၊ သခ်ပတ္တာ၊ ကေသာသီရိဧာတ်တို့၏ ဧာတ်ကွက် ဧာတ်လမ်းဆိုင်ရာအတွက် စပ်ဆိုသီကုံးကြခြင်း ဖြစ်သည်။ နိုင်ငံတိုင်းခြားနှင့် အဆက်အဆံများသော ခေတ်ဖြစ်၍၊ တေးသွားများတွင် ကြေးခရာသံ၊ ဗရင်ဂျီသြသံ၊ ထားဝယ်ဒိန်းသံ၊ ကရင်သြသံ၊ ယိုးဒယားသံ၊ ကောင်းတုံသံ အစရှိသည့် အသံများကို အတုယူ၍ ဆန်းသစ် တီထွင် စပ်ဆိုခြင်း ပြုကြသည်။ (မြန်မာဧာတ်သဘင် — ရှု။) ယင်းသို့ နိုင်ငံခြားသံများကို ယူသော်လည်း မြန်မာ့မူ၊ မြန်မာ့ဟန် မပျက်စေအောင် သိမ်းသွင်းသောနည်းဖြင့် သီချင်းများကို စပ်ဆိုခဲ့ကြလေသည်။

ကုန်းဘောင်ခေတ်၏ ထင်ရှားသော တေးဂီတ စာဆိုတော်ကြီးများမှာ မြဝတီဝန်ကြီး ဦးစ၊ ပြင်စည်မင်းသား၊ ဧာတ်ဆရာ ဦးကျောက်ခဲ၊ ငယ်တိုး အတွင်းဝန် ဦးကျီစိုး၊ မင်းကြီးကတော် ခင်ဆုံ၊ အနောက်နန်း မိဖုရား မမြကလေး၊ လှိုင်ထိပ်ခေါင်တင်တို့ ဖြစ်ကြသည်။ ဦးစ စပ်ဆိုသော သီချင်းများအနက် သီချင်းခံနှင့် ပတ်ပျိုးတို့သည် မြန်မာဂီတသမိုင်းတွင် မှတ်တမ်းတင်ရလောက်အောင် ထူးခြားကောင်းမွန်သည်။ ပြင်စည်မင်းသား၏ ယိုးဒယားသံ ရှစ်မျိုးဖြင့် သီကုံး စပ်ဆိုထားသော ယိုးဒယားသီချင်း ရှစ်ပုဒ်သည်လည်း ထူးခြားကောင်းမွန်သော သီချင်းများ ဖြစ်ကြသည်။ ဂီတသမိုင်းတွင် ထူးခြားကောင်းမွန်သော အဖွဲ့တဖွဲ့အဖြစ် မှတ်တမ်းတင်ရသော သီချင်းတမျိုးမှာ လှိုင်ထိပ်ခေါင်တင်၏ ဘောလယ် ဖြစ်လေသည်။ ဦးစနှင့် ပြင်စည်မင်းသားတို့သည် နိုင်ငံခြားသံများကို အများဆုံး အသုံးပြု၍ မြန်မာသီချင်းများကို ရေးစပ်ခဲ့ကြသော်လည်း အရိုးကို အရွက်မဖုံးစေခဲ့ကြပေ။

မြန်မာသီချင်းများကို စပ်ဆိုကြရာ၌ တေးသွားထက် တေးသား စကားလုံး အဓိပ္ပါယ်ရှိပြီးလျှင် ကာရန် ပြေပြစ်မှုကို ပို၍ အလေးအနက် ထားကြသည်။ ကုန်းဘောင်ခေတ်တွင် သဘင်သည်များသည် အအုပ်အခံ၊ ကာရန်ဝါကျ မညီသော သီချင်း၊ ဂိုဏ်းမလွတ်သော သီချင်း၊ သာသနာကို ထိပါးပုတ်ခတ်သော သီချင်းများကို စပ်ဆိုခြင်း မပြုရချေ။ ထိုသီချင်းမျိုး မစပ်ဆိုကြရန် သဘင်ဝန်များက ကြပ်မပေးရ၍၊ ယင်းသီချင်းမျိုး သီဆိုခဲ့လျှင် သီကုံးသူအား လက်ကို၊ သီဆိုသူအား လျှာကို အပြစ်ပေးလေသည်။

သရေခေတ္တရာ၊ သထုံ စသော နိုင်ငံများခေတ်မှ စ၍ ရာဇဝင်တလျှောက် စိုးစံခဲ့သော မြန်မာမင်းများ လက်ထက်တွင် အဆိုအတီး စသော သဘင်ပညာသည် အစဉ်အဆက် တိုးတက်ခဲ့သည်။ ထီးသုံးနန်းသုံး ပညာတရပ်ဖြစ်၍ ဘုရင်စိုးမင်းတို့၏ မြှောက်စားချီးမြှင့်မှုကို ခံယူနိုင်ရန် စပ်ဆို သီကုံးကြသော သီချင်းများသည်လည်း ဘုန်းတော်ဘွဲ့များသာ များပြားခဲ့သည်။ တောဘွဲ့၊ တောင်ဘွဲ့၊ မြို့ဘွဲ့၊ မောင်ဘွဲ့တို့ကိုပင်လျှင် ထီးသုံးနန်းသုံး စကားလုံးများဖြင့် စပ်ဆိုကြ၍ ဘုရင့်ဘုန်းတော်ကို မသိမသာ ထည့်သွင်း ချီးကျူးကြလေသည်။

သို့သော် မြန်မာအမျိုးသားတို့သည် ဂီတဝါသနာ ထက်သန်သော လူမျိုး ဖြစ်သည်။ ထို့ကြောင့် အဆိုအက အတီးအမှုတ်သည် ရွှေနန်းတော်တွင်း၌သာ စည်ပင် ဖွံ့ဖြိုးနေသည် မဟုတ်ပေ။ ရွှေနန်းတော်သုံး တေးဂီတများ (ဝါ)

သီချင်းများကို စာဆိုတော် အကျော်အမော်များက သီကုံး ဆက်သွင်းနေစဉ်၊ မြို့နေလူထုနှင့် ကျေးလက်လူထုတို့သည်လည်း မိမိတို့၏ မိရိုးဖလာ ဓလေ့ထုံးစံများ၊ မိမိတို့ဆောင်ရွက်ရသော လုပ်ငန်းများ အကြောင်းကို တေးသီ၍ ဆိုကြသည်။ ထိုကြောင့် အဲချင်းများ၊ အိုင်ချင်းများ၊ ပုံကြီးသံများ၊ မောင်းထောင်းသံ သီချင်းများလည်း ပေါ်ပေါက်ခဲ့သည်။ ရှေးနန်းတွင်းသုံး ပိမ္ပာလွှဲချင်း၊ ယောဉ်လွှဲချင်းတို့ကို သီကုံးစပ်ဆိုကြသကဲ့သို့ အရပ်သုံး သားချော့သီချင်းများကိုလည်း စပ်ဆို သီကုံးခဲ့ကြသည်။ နန်းတွင်းသုံး သီချင်းများသည် ရွှေတိုက်စာရင်းဝင်များ ဖြစ်၍ မှတ်တမ်းတင်ထားခဲ့သောကြောင့် အစဉ်အဆက် တည်တံ့နိုင်ခဲ့သော်လည်း၊ အရပ်သုံး သီချင်းများကိုမူ အဆက်ဆက်က မှတ်တမ်းတင်ခဲ့မှု နည်းပါးလှသဖြင့် မိဖဘိုးဘွားမှ သားမြေးများသို့ နှုတ်တိုက် ချပေးသော အမွေအနှစ်များ အဖြစ်ဖြင့်သာ တည်တံ့နိုင်ခဲ့ပြီးလျှင် ရှေးပဝေဏီက အရပ်သီချင်း၊ ရိုးရာသီချင်းများစွာတို့ တိမ်ကော ပျောက်ပျက်ကုန်ခဲ့မည်မှာ ယုံမှားဖွယ်ရာ မရှိချေ။

သီပေါဘုရင် ပါတော်မူပြီးနောက်တွင် ရှေးမြန်မာသီချင်းကြီးများကို ရှေးဂီတပညာရှင်ကြီးများက အထူး ထိန်းသိမ်းခဲ့ကြသည်။ ရှေးသီချင်းကြီးများသည် တေးသွားတမျိုးတည်းကိုပင် နှစ်မျိုးသုံးမျိုး ကွန့်၍ သီဆိုနိုင်သည်။ တနည်းအားဖြင့်ဆိုလျှင် ဆိုနည်းဆိုဟန်ကွန့်၍ ဆိုနိုင်သည်။

သီချင်းကြီးများသည် ခက်ခဲနက်နဲလှသဖြင့် သီချင်းကြီးတပုဒ်ကို စည်းဝါးကျနစွာဖြင့် စံနစ်တကျ သီဆိုနိုင်ရန် ဂီတဆရာများထံ စံနစ်တကျ သင်ယူကြရသည်။ ထိုကြောင့် ဝါသနာ ကြီးလွန်းသူများမှ တပါး သီချင်းကြီးများကို လေ့လာလိုက်စားသူ နည်းပါးသည်။ အချို့သည် ကြားဘူးနားဝ ရှိသမျှဖြင့် ဆိုကြတီးကြသဖြင့် ဆိုဟန်တီးဟန်တို့ ကွဲပြားခဲ့သည်များလည်း ရှိသည်။ ထိုကြောင့် ရှေးဂီတပညာရှင်ကြီးများသည် ရှေးသီချင်းကြီးများ မူမှန်အတိုင်း ရှိလေအောင် ကြိုးစား ထိန်းသိမ်း ပေးကြသည်။ တိမ်မြုပ်ပျောက်ကွယ်သွားခြင်း မဖြစ်ရလေအောင် ရှေးသီချင်းကြီးများကို စုဆောင်း သိမ်းဆည်း၍ စာတအုပ် ကျမ်းတစောင် ဖြစ်အောင် ပြုစုခဲ့ကြသဖြင့် ဂီတမေဒနီကျမ်း၊ မဟာဂီတသစ်၊ မဟာဂီတပေါင်းချုပ်၊ ဂီတဝိသောဒနီကျမ်း စသည်တို့ ပေါ်ထွက်ခဲ့သည်။ ကဗျာဗန္ဓသာရကျမ်းတွင် ကဗျာလင်္ကာ သီချင်း စပ်ဆိုနည်းများနှင့် ပုံစံပြ ကဗျာလင်္ကာ သီချင်းများကိုပါ ထည့်သွင်း ဖော်ပြထားလေသည်။

မြန်မာသီချင်းများသည် တူရိယာ အတွဲအဖက်နှင့် သီဆိုက ပို၍ နားဝင်ပြိမ့်ညောင်း သာယာပြီးလျှင် ဂီတအရသာ ပိုမို ပြောင်မြောက်လေသည်။ ထိုကြောင့် သီချင်းများကို သောတလင်္ကာရဂီတ ဟုခေါ်ဆိုသည်။ ကြိုးဘွဲ့၊ သီချင်းခံ စသည်တို့သည် သောတလင်္ကာရ တေးဂီတမျိုး ဖြစ်ကြသည်။ တူရိယာ အတီးအမှုတ် မပါဘဲ သီဆိုနိုင်သော ရတု၊ ရကန်၊ လူးတား စသည်တို့ကို ဝစနာလင်္ကာရ ဟုခေါ်ဆို၍ ယင်းတို့ကို ရှေးပညာရှင်တို့က သီချင်း အမျိုးအစား၌ မထည့်သွင်းခဲ့ပေ။ (ကဗျာလင်္ကာ — ရှု။) သို့သော် ယခုခေတ်တွင် ထိုအဖွဲ့အနွဲ့မျိုးတို့ကို သီဆိုသည့်အခါ တေးသွားအတိုင်း မဟုတ်ဘဲ သီဆိုသူ အသံ ဝဲ မသွားစေရန် ထိန်းပေးသော သဘော၊ အထောက်အကူ ပေးသော သဘောဖြင့် တူရိယာ အတီးသမားတို့က တခါတရံ တူရိယာတို့ကို 'တို့' ပေးကြလေသည်။

သီချင်း သီဆိုတီးမှုတ်သူတို့သည် နာရီနှင့် သံစဉ်ကို သိနားလည်ထားရန် လိုအပ်ပေသည်။ နာရီ ဟူသည် အချိန်ကို ဆိုလို၍ သီဆိုသံကို၎င်း၊ တီးမှုတ်သံကို၎င်း ပိုမို ရသပေါ်အောင် ပိုင်းဖြတ်ပေးသော စည်းနှင့်ဝါး ဖြစ်သည်။ သံစဉ် ဆိုသည်မှာ သီဆိုသော တေးဂီတနှင့် တူရိယာတို့၏ အသံများသည် နားဆင်ကြသူများ၏ သောတအာရုံ၌ ပြိမ့်ညောင်း သာယာစေခြင်းငှါ ပညာရှင်တို့ စီစဉ်ထားသော မိတ်ဖက်သံများ ဖြစ်လေသည်။ သီချင်းတေးသွား တီးလုံးပုံစံ အမျိုးအစား များပြားသည်နှင့်အမျှ စည်းဝါး သံစဉ်များလည်း များပြားလာရာ သီဆိုတီးမှုတ်သူတို့ တညီတညွတ်တည်း ပုံသေကားချ လိုက်နာကြရန် စည်း၊ ဒုန်း၊ သံစဉ် ဟူ၍ စံနစ်မူများ ဖြစ်ပေါ်လာရလေသည်။

သီချင်းတပုဒ်ကို သီဆိုတီးမှုတ်သောအခါ အဆိုနယ်၊ အတီးနယ်၊ အမှုတ်နယ် ဟူ၍ ရှိကြရာ ဆိုင်ရာ တာဝန်ကို ကျေပွန်၍ သူတပါး၏ နယ်ကို မနှောင့်ယှက်မိစေရန် စည်းဝါး သံစဉ်တို့ကို သက်ဆိုင်သူတို့သည် သဘောပေါက် နားလည်ထားကြသည်။ မြန်မာဂီတတွင် အတီးသည် အဆို၏ အခြံအရံ (အဖေးအမ သဘော) မဟုတ်ချေ။ သဘောတူဖက်တွဲထားခြင်းမျိုးသာ ဖြစ်သည်။ ဆိုသူသည် တီးကွက် အဝင်အထွက်၊ စည်းဝါး အဝင်အထွက်ကို စောင့်၍ ခွင်ကျအောင် ဆိုရသည်။ တီးသူကလည်း ဆိုကွက် အဝင်အထွက်၊ စည်းဝါး အဝင်အထွက်ကို စောင့်၍ ခွင်ကျအောင် တီးရသည်။ ဆိုသူနှင့် တီးသူတို့သည် ခွင်ကျအောင် ဆို တီး နေသမျှ ကာလပတ်လုံး ခွင်အတွင်းတွင် ဆိုသူကလည်း ကွန့်ချင်တိုင်း ကွန့်နိုင်သည်။ တီးသူကလည်း ကွန့်ချင်တိုင်း ကွန့်နိုင်သည်။

အဆိုကောင်းသူ၏ သဘောသည် အသံ၏ ဩဇာဂုဏ်ထက် လေယူလေသိမ်း၊ အဆွဲအငင်၊ မေးဝဲမေးရိုက် စသော ကျွမ်းကျင်မှုဂုဏ် ဖြစ်လေသည်။ တူရိယာသံစုံတို့သည် သီဆိုသော တေးဂီတ၏ တေးသွားကို အနီးကပ်ဆုံး ပီသအောင် လိုက်လျော တီးမှုတ်ပေးရ၍၊ သီချင်း၏ အမျိုးအစား၊ တေးသွား အဓိပ္ပါယ်ကို လိုက်ကာ အရှင်အခန့်၊

အသာအယာ၊ အလွမ်းအဆွေး ရသ ပေါ်အောင် တီးမှုတ်ပေးရသည်။ သီဆိုသူကလည်း တူရိယာကို အပြန်အလှန် လိုက်လျောသောအားဖြင့် သီဆိုပေးရာ၌ တေးသွား၏ သာယာမှုကိုသာ ပဓာနမထားဘဲ တေးသား၏ စကားလုံးတို့ကို အတတ်နိုင်ဆုံး ပီသအောင် ဆိုပေးမှသာလျှင် သီချင်း၏ အဓိပ္ပါယ် ပေါ်နိုင်သည်။ သီဆို တီးမှုတ်သူတို့သည် တျာ တေ တျော ဟူသော ဂီတသံစဉ်၏ မိတ်ဖက်သံများကို အထူး သိနားလည်ထားကြရသည်။ ကဗျာတွင် ကာရန်မှန်ရန် လိုအပ်သကဲ့သို့ သီချင်းတွင် အသံမှန်ရန် လိုအပ်ပေသည်။ (မြန်မာဂီတ — ရှု။)

ရှေးမြန်မာသီချင်းများတွင် အစ၊ အလယ်၊ အဆုံး သုံးပိုင်း ပါရှိသည်။ စာပေတပုဒ်၌ နိဒါန်း ခေါ် စကားချီးကဲ့သို့ သီချင်းတွင်လည်း ခွန်းထောက် ဟူ၍၎င်း၊ သံဖြန့် ဟူ၍၎င်း ရှိသည်။ သီဆိုသူသည် မိမိ သီဆိုမည့် အသံနှင့် တူရိယာ၏ တျာသံကို ထောက်လှမ်း အသံစမ်းခြင်း ဖြစ်သည်။ ထိုနောက်မှ စာကိုယ် တေးသွားကို သီဆိုကြသည်။ နောက်ဆုံး၌ စာတပုဒ်၏ နိဂုံးကဲ့သို့ သံဖြန့်ဖြင့်၎င်း၊ သံထောက်ဖြင့်၎င်း အပြီးသတ်ကြသည်။ သီချင်း၏ နိဒါန်းဖြစ်သော ခွန်းထောက်၊ သံဖြန့်တို့ကို၎င်း၊ နိဂုံးဖြစ်သော သံဖြန့်၊ သံထောက်တို့ကို၎င်း ဆိုမည့် တေးသီချင်းနှင့် ဆီလျော်အောင် စပ်ဆိုထားကြလေသည်။

အဆိုပိုင်း၌ အထက်ပါအတိုင်း သုံးပိုင်းရှိသကဲ့သို့ အတီးပိုင်း၌လည်း အခံ၊ အခင်း၊ အခု၊ သို့မဟုတ် အဖြည့်၊ အတော ဟူသော အင်္ဂါရပ်များဖြင့် ပြည့်စုံရသည်။ သီဆိုမည့် သီချင်းကို တူရိယာ၏ မူတည်သံအား အခြေထား၍ သီဆို တီးမှုတ်ရသည် ဖြစ်ရာ၊ အတီးအမှုတ်က မူတည်သံ၏ တျာ တေ တျော မိတ်ဖက်သံများဖြင့် အသံ စမ်းပြပြီးလျှင် တေးခံသင့်သော သီချင်းများကို သီချင်း အမျိုးအစား အလိုက် အခံ တီးပေးကြရခြင်းကို အခံ ဟု ခေါ်သည်။ ကြိုးခံ၊ ဘွဲ့ခံ၊ ပတ်ပျိုးခံ စသော တေးခံတို့သည် သီဆိုမည့် သီချင်းနှင့် ဆီလျော်သက်ဆိုင်မည့် နာရီသံစဉ်တို့ဖြင့် စီစဉ်ထားသော တီးလုံး ဖြစ်လေသည်။

တူရိယာက အခံ တီးပေးပြီးနောက်၊ သီဆိုမည့် သီချင်း၏ တေးသွား စာသား၏ ရှေ့က အလိုက်သိစွာ တင်ကြို၍ နားထောင်ကောင်းအောင် စည်းဝါး၏ တစိတ်တဒေသမျှ လောက် တီးမှုတ် လမ်းခင်းပေးသည်ကို အခင်း ဟုခေါ်သည်။ နာရီစည်းဝါးအတွင်း၌ တေးသွားစာသားနှင့် ဝါးချက်တွင် ဟာ၍၊ သို့မဟုတ် ဟနေသော နောက်ပိုင်းကို နားထောင်ကောင်းအောင် တီးမှုတ် ဖြည့်စွက်ပေးခြင်းကို အခု၊ သို့မဟုတ် အဖြည့် ဟုခေါ်သည်။ တေးသွားအပိုဒ်တို့၏ အဆုံးများတွင် တီးမှုတ်ပေးရခြင်းကို အတော ဟုခေါ်သည်။ မြန်မာသီချင်းများကို နှစ်ခါပြန် ဆိုလေ့ရှိရာ၊ နရီစည်းဝါးတို့သည် ပဌမအကြိမ် ဆိုသည့်အတိုင်း ဒုတိယအကြိမ်၌လည်း ကိုက်ညီကြောင်းကို ပြသရန်ဖြစ်လေသည်။

တူရိယာနှင့် တွဲ၍ သီဆိုရသော သီချင်းကြီးများကို စတင် သင်ကြား ဆည်းပူးရာ၌ ဝါးလတ်စည်း သုံးသော ကြိုးသီချင်းများက စ၍ စည်းဝါး ပိုင်နိုင်အောင် စတင် သင်ကြားကြရာ၊ ပဌမဆုံး သင်ကြားသင့်သော ကြိုးသီချင်းသည် ဝန်ကြီး ပဒေသရာဇာ ရေးသား စပ်ဆိုခဲ့သော ထံတျာ တေရှင် အစချီ ပုစဉ်းတောင်သံကြိုးဟု ဂီတပညာရှင်ကြီးများက ဆုံးဖြတ်ခဲ့ကြသည်။

မြန်မာဘုရင် ပါတော်မူပြီးသည့်နောက်တွင်မူ ရှေးမြန်မာ သီချင်းကြီး သီချင်းခံများကို စပ်ဆိုသီကုံးမှု မရှိသလောက် ဖြစ်ခဲ့သည်။ ထိုခေတ်မှ စ၍ နောက်ပိုင်းတွင် စပ်ဆိုကြသော သီချင်းများကို ကာလပေါ် သီချင်းများ ဟုခေါ် ဆိုကြလေသည်။ ဗြိတိသျှ အစိုးရတို့၏ အုပ်ချုပ်ရေးခေတ် အဦးပိုင်းတွင် မင်းပွဲစိုးပွဲ အလှူပွဲများ၌ မင်းသမီးကြီးများကို ငှါး၍ သီချင်းကြီးများဖြင့် သီဆိုဖျော်ဖြေသော အလေ့အထ ရှိခဲ့ရာ အငြိမ့်ထိုင်ဆို ဟုခေါ်သည်။ နာမည်ကျော် ဇာတ်မင်းသား မင်းသမီးများအတွက် သီချင်းများကို များသောအားဖြင့် ဂီတစာဆိုကြီး ဦးလူကလေးက ရေးစပ်ပေးသည်။ ဦးဘိုးစိန်၏ ဂီတစာဆိုများ ဖြစ်ကြသော ဦးကျော်လှ၊ ရေဝဏ် ဦးအောင်ဒွန်းနှင့် ဦးသာဇံတို့အပြင် ဦးပြုံးချို (မဟာဂီတ)၊ ပိဋကတ် ဆရာမောင်၊ ဦးကြည် တို့သည် ဂီတအရသာ ပြည့်ဝ၍ စာသား အဓိပ္ပါယ် လေးနက်သော သီချင်းများကို ရေးစပ်ခဲ့ကြလေသည်။ ၁၉၁၀ ပြည့်နှစ်ခန့်မှ စ၍ မြန်မာနိုင်ငံတွင် ဓာတ်စက်ဓာတ်ပြားများ ခေတ်စားလာရာ သီချင်းကြီးများ၊ ဇာတ်ထုပ်များ၊ နာမည်ကျော် ဆိုင်းဆရာကြီးများ၏ ဆိုင်းတီးလုံးများကို ဓာတ်ပြား သွင်းခဲ့လေသည်။

ပဌမ ကမ္ဘာစစ်အတွင်းမှ စတင်၍ မြန်မာဂီတတွင် အနောက်တိုင်း ဂီတသည် တစတစ ပါဝင် ရောရှက်လာသည်။ ပဌမတွင် ကာလပေါ် သီချင်းများကိုလည်း သီချင်းကြီးများကဲ့သို့ ရှည်ရှည်လေးလေး ဆွဲငင် သီဆိုကြရသည်။ အနောက်တိုင်း ဂီတ၏ အငွေ့အသက် ဝင်ရောက်လာသော အခါ ခပ်ဆတ်ဆတ်၊ ခပ်ပြတ်ပြတ် သီဆိုရသော သီချင်းမျိုးကို စပ်ဆိုလာကြသည်။ တေးသွား ဆန်းသစ်လာသည်နှင့် အမျှ တူရိယာ အဖက်အစပ်တွင်လည်း ဆန်းသစ်လာ၍ အနောက်တိုင်း တူရိယာ ပစ္စည်းများကို အသုံးပြုလာကြသည်။သီချင်းဓာတ်ပြားများလည်းပို၍ထွက်လာလေသည်။

ထိုခေတ်တွင် အသံတိတ် မြန်မာရုပ်ရှင်များ ပေါ်ထွက်လာရာ၊ ဇာတ်လမ်း ဇာတ်ကွက် ပို၍ လေးနက်ပြီးလျှင် သရုပ်ပေါ်စေရန် အပြင်မှ တေးသံဖြင့် ဖြည့်စွက်ပေးရသည်။ ထိုကြောင့် အသံတိတ် ရုပ်ရှင်များတွင် တူရိယာ

အဖွဲ့များ ပါရသော အစဉ်အလာ တရပ် ဖြစ်လာသည်။ ကိုတူရိယာအဖွဲ့များသည် ရုပ်ရှင်အတွက်သာမဟုတ် အလှူ အတန်း ပွဲနေပွဲထိုင်များတွင်လည်း ဧည့်ခံ တီးမှုတ် ဖျော်ဖြေ ပေးကြသည်။ ထိုအဖွဲ့များသည် ကာလပေါ် သီချင်းများကို များသောအားဖြင့် သီဆိုတီးမှုတ် ဖျော်ဖြေပေးကြရာ၊ ထိုခေတ်၏ ကာလပေါ် ဂီတစာဆိုများမှာ ဆရာခါ၊ ဆရာတာ၊ နန်းတော်ရှေ့ ဆရာတင်၊ ဝိုင်အမ်ဘီ ဆရာတင်၊ မြန်မာညွန့် ဆရာတင် စသည်တို့ ဖြစ်ကြလေသည်။

ဗြိတိသျှ အစိုးရ၏ အအုပ်အချုပ်ခံ ကာလအပိုင်းအခြားအတွင်း ရေးစပ်ကြသော သီချင်းများမှာ များသောအားဖြင့် အချစ်ရေးကို အဓိက ထားသည်သာ များသည်။ ၁၉၃၀ ပြည့်နှစ် တဝိုက်တွင် ဝိုင်အမ်ဘီ ဆရာတင် ရေးစပ်ခဲ့၍ ယခု နိုင်ငံတော် သီချင်း၏ ရှေ့ပြေးဖြစ်သော တို့ဗမာ သီချင်းကဲ့သို့ အမျိုးသားစိတ် လှုံ့ဆော်ပေးသည့် သီချင်းမျိုး၊ နန်းတော်ရှေ့ ဆရာတင်၏ သဒ္ဒေဝါဒကဲ့သို့ အယူအဆတခုခုကို ဖော်ပြသော သီချင်းမျိုး၊ ရွှေတိုင်ညွန့် ရေးစပ်သော ဝိစိတြနှင့် မိဘမေတ္တာကဲ့သို့ ဇာတ်၊ နိပါတ်တော်တို့မှ အဖြစ်အပျက် အကြောင်းအရာတို့ကို တင်ပြသော သီချင်းမျိုးတို့လည်း ရံဖန်ရံခါ ပေါ်ထွက်ခဲ့သည်။ ထိုခေတ်တွင် ထင်ရှားသော ဂီတစာဆိုများမှာ ဦးကျင်ခဲ၊ နန်းတော်ရှေ့ ဆရာတင်၊ ဝိုင်အမ်ဘီ ဆရာတင်၊ မြန်မာညွန့် ဆရာတင်၊ ဒဂုန်ဆရာတင်၊ အရှေ့ပိုင်း ဆရာချစ်၊ ၁၂ လမ်း ဆရာဖောင်၊ ရွှေတိုင်ညွန့်၊ ဆရာတောက်၊ အေဝမ်း ဆရာညွှာ၊ သဟာယ ဆရာတင်၊ မြို့မငြိမ်းစသည်တို့ ဖြစ်ကြသည်။

ဒုတိယ ကမ္ဘာစစ် မတိုင်မီ ခေတ်တွင် မြန်မာအသံထွက် ရုပ်ရှင်များ ပေါ်ထွက်လာရာ၊ ရုပ်ရှင်မှ သီချင်းများ၊ ရုပ်ရှင်ဇာတ်လိုက်များက သီးခြား ဓာတ်ပြားသွင်းသော သီချင်းများကိုအလွန် လူကြိုက်များခဲ့သည်။ရေးဖွဲ့သောအကြောင်းရပ်များမှာ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ချစ်ရေးချစ်ကိစ္စ၊ မောင်ဘွဲ့ မယ်ဘွဲ့ သီချင်းမျိုးတို့သာ များပြားသည်။ နန်းတော်ရှေ့ ဆရာတင်၊ ရွှေတိုင်ညွန့်၊ အေဝမ်း ဆရာညွှာ၊ သဟာယ ဆရာတင်၊ မြို့မငြိမ်းတို့၏ လက်ရာ သီချင်းများသည် ခေတ်စားလျက်ပင် ရှိသည်။ ထိုခေတ်တွင် အသံလွှင့်ဌာနကို ဖွင့်လှစ်ခဲ့ရာ၊ သီချင်းကြီး တီးဝိုင်းမှ သီချင်းကြီးများ၊ ကာလပေါ် တီးဝိုင်းမှ ကာလပေါ် သီချင်းများကို အသံ လွှင့်ခဲ့ကြလေသည်။

ဥရောပတိုက်၌ ဒုတိယကမ္ဘာစစ်ကြီး စတင် ဖြစ်ပွားလာသောအခါ မြန်မာပြည်တွင် နိုင်ငံရေး လှုပ်ရှားမှုများ ပြင်းထန်လာသည်။ ထိုအခါ အမျိုးသားစိတ် နိုးကြားရေး၊ တက်ကြွရေးကို လှုံ့ဆော်ပေးသော သီချင်းများ ပိုမို ပေါ်ထွက်လာသည်။ တေးဂီတတို့တွင်လည်း ခေတ်၏ အဖြစ်သနစ်တို့သည် ထင်ဟပ်ပြတတ်ပေရာ၊ ဒုတိယကမ္ဘာစစ်ခေတ်အတွင်း ဗြိတိသျှအစိုးရသည် မြန်မာ့မြေပေါ်မှ ဆုတ်ခွာခဲ့ရပြီးနောက်၌ မြန်မာ့လွတ်လပ်ရေးအတွက် ကြိုးပမ်းခဲ့ကြသော ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသည့် ရဲဘော်သုံးကျိပ်အား ခြီးကျူး ဖွဲ့ဆိုသော သီချင်းများ၊ မြန်မာ့မြေပေါ်၌ ကြီးစိုးနေကြသော ဖက်ဆစ် ဂျပန်တို့အား တော်လှန်ရန် အမျိုးသားစိတ် တက်ကြွစေသော သီချင်းများကို သီကုံးစပ်ဆိုခဲ့ကြသည်။

မြန်မာပြည်တွင် ဂျပန်တို့ စိုးမိုးနေစဉ်အတွင်း ရန်ကုန်မြို့၌ လူရုပ်ရှင်ဆန်သော ပြဇာတ်များ ပေါ်ပေါက်ခဲ့ရာ၊ ပြဇာတ်သီချင်းများ ခေတ်စားခဲ့ပြန်သည်။ သို့သော် စစ်ကြီးပြီး၍ ရုပ်ရှင်များ ပြန်လည် ရိုက်ကူးထုတ်လုပ်နိုင်ကြသောအခါ ပြဇာတ်များ ခေတ်တိမ်၍ ရုပ်ရှင်များ တွင်ကျယ်လာသည်။ အသံလွှင့်ဌာနမှ ကာလပေါ် သီချင်းများ ရေပန်းစားစ ပြုလာလေသည်။

လွတ်လပ်ရေးခေတ်တွင် လွတ်လပ်ရေး ကြွေးကြော်သံ သီချင်းများ ပေါ်ပေါက်ခဲ့သည်။ သို့သော် ခေတ်အလိုက် ပေါ်ပေါက်သော တေးဂီတများ ဖြစ်၍ အချိန်ကာလ ကြာမြင့်စွာ ခေတ်စားခဲ့ခြင်း မရှိချေ။ လွတ်လပ်ရေး ရပြီးသည့်နောက်ပိုင်းတွင် ဂီတသီချင်း စပ်ဆိုမှု၌ ထူးခြားတိုးတက်မှု မရှိလှသည့်ပြင်၊ ဂီတ ဦးတည်ချက်သည်လည်း မည်မည်ရရ မရှိခဲ့ပေ။

နိုင်ငံရေး အစိုးရ၏ စီမံကိန်းများကို သရုပ်ဖော်သော တေးသီချင်းများကို တခါတရံ ရေးစပ် သီဆိုကြသော်လည်း မကြာမီ တိမ်မြုပ် ပျောက်ကွယ်သွားကြသည်။ နိုင်ငံခြားသီချင်းများကို ပုံတူကူးချ သီဆိုကြသော သီချင်းပေါင်းမြောက်မြားစွာ ပေါ်ထွက်ခဲ့သည်။ ဂီတစာဆို အများအပြားက သီချင်းများကို ရေးစပ်ကြ၍ များပြားလှစွာသော အဆိုတော်များက အသံလွှင့် သီဆိုကြသည်။ အနောက်တိုင်း တူရိယာများကို တီးမှုတ်သုံးစွဲမှု အလွန်များလာသည်။ တေးသွား သာယာငြိမ့်ညောင်းပြီးလျှင် စာသား အဓိပ္ပါယ် လေးနက်၍ အသား ပါသော မြန်မာဆံဆံ ကာလပေါ် သီချင်းမျိုးကား အလွန်နည်းပါးစွာလျှင် ပေါ်ထွက်ခဲ့သည်။ တော်လှန်ရေး အစိုးရ၏ ဆိုရှယ်လစ်နိုင်ငံထူထောင်ရေးခေတ်တွင်မူ လယ်သမား၊ အလုပ်သမား အရေးကို စပ်ဆို သီကုံးသော သီချင်းမျိုးတို့ ခေတ်စားလာလေသည်။

သီချင်းကြီးပိုင်းတွင်မူ လွတ်လပ်ရေးခေတ်မှ စ၍ တော်လှန်ရေး အစိုးရ လက်ထက်တိုင်အောင် သီချင်းကြီးများ ဆိုနည်းဆိုဟန် တီးကွက်တီးဟန်များ စံနစ်တကျ ရှိ၍ ရှေးမူမပျက် ထိန်းသိမ်းနိုင်လေအောင် အာဏာပိုင်များ၏ အကူအညီဖြင့် ဂီတပညာရှင်များ၊ စာပေပညာရှင်များ ပါဝင်သော အဖွဲ့တဖွဲ့ဖွဲ့စည်းကာဆောင်ရွက်လျက်ရှိလေသည်။

**မြန်မာ သဒ္ဒါ**။ ။သဒ္ဒါ မတတ်-စာမတတ် ဟူရာ၌ စာဟူသည်ကား စက္ကူပေါ်တွင် ရေးသားထားသော အက္ခရာကိုသာ ဆိုသည်မဟုတ်။ အက္ခရာ၏အသံကိုသာ ဆိုသည်လည်း မဟုတ်။ ရေးသူ၏ စိတ်ကူး စိတ်သန်းများကို အက္ခရာအသံတို့ဖြင့် နေရာကျနစွာ ဖော်ပြသော အသုံးခံကို ဆိုသည်။ သို့ဖြစ်၍ စာတတ်သည် ဟု ဆိုလျှင် စာအားဖြင့်ဖော်ပြထားသော စိတ်ကူး စိတ်သန်းများကို နားလည်သည် ဟု ဆို၏။ စိတ်ကူး စိတ်သန်းများကို နေရာတကျ ရေးသားဖော်ပြနိုင်အံ့သောငှာ ဝါကျ ဟု ခေါ်သော အဓိပ္ပါယ်ပြည့်စုံသည့် စကားစုကိုဖွဲ့တတ်ရမည်။ လိုရင်းအနက်အဓိပ္ပါယ် ပေါ်အောင် ဝါကျတွင် စကားလုံးများကို မည်သို့စီစဉ်ရမည်နည်း။ ဝါကျတွင် ပါဝင်သော စကားလုံးများသည် တခုနှင့်တခု မည်သို့ဆက်စပ်ကြသနည်း ဟူသော အချက်များသည် သဒ္ဒါနှင့်စပ်ဆိုင်သော အချက်များ ဖြစ်ရကား သဒ္ဒါတတ်ရန်လိုသည်။ သဒ္ဒါတတ်မှ စာတတ်သည် မည်၏။ သို့ဖြစ်၍ မြန်မာသဒ္ဒါ၌ အရေးကြီးသော အချက်များကို ဤတွင် အတိုကောက် ဖော်ပြပေအံ့။

**အခြေခံ ဝါကျများ**။ ။လူ၊ ငါး၊ ယောက်ျား အစရှိသည်တို့ကဲ့သို့သော အမည်စကားလုံးကို နာမ် ဟုခေါ်သည်။ စား၊ သေ၊ ရှိ အစရှိသည်တို့ကဲ့သို့သော ပြုခြင်း ဖြစ်ခြင်း ရှိခြင်းကို ပြသည့်စကားလုံးကို ကြိယာ ဟုခေါ်သည်။ နာမ်နှင့်ကြိယာကို အချင်းချင်း ဖြစ်စေ၊ သင့်လျော်သော နောက်ဆက်ဖြင့်ဖြစ်စေ ပူးတွဲလျှင် လိုရာဝါကျကို ရ၏။ မြန်မာဝါကျသည် ကြိယာနှင့် အဆုံးသတ်သည်။ စကားလုံး တခုနှင့်တခု မည်သို့စပ်ဆိုင်သည်ကို ပြလိုလျှင် လိုအပ်သော နောက်ဆက်ဖြင့် ပြ၏။ ပြယုဂ် —

နေပူသည်—၌ 'ပူ' သည် ကြိယာဖြစ်ကြောင်းကို 'သည်' နောက်ဆက်က ပြသည်။

မောင်ဘသည် စာရေးဖြစ်၏—၌'မောင်ဘ'သည် ကတ္တားဖြစ်ကြောင်းကို 'သည်' နောက်ဆက်က ပြသည်။ နောက်ဆက်မဲ့ 'စာရေး' သည်'မောင်ဘ' ဟူသော ကတ္တား၏ အဖြစ်ကို ဖော်ပြသော အဖြည့်စကားလုံး ဖြစ်သည်။ 'ဖြစ်'သည် ကြိယာဖြစ်ကြောင်းကို '၏' နောက်ဆက်က ပြသည်။

ခွေးသည် လူကို ကိုက်၏—၌ 'ကို' သည် 'လူ' ဟူသော ကံ နောက်က တွဲသော နောက်ဆက် ဖြစ်သည်။

အစိုးရသည် မောင်ဘကို မြို့အုပ် ခန့်၏—၌ နောက်ဆက်မဲ့ 'မြို့အုပ်'သည် 'မောင်ဘ' ဟူသော ကံအား တစုံတခုပြုလုပ်သည်ကို ဖော်ပြသည့် အဖြည့်စကားလုံး ဖြစ်သည်။

လူကလေးသည် လက်ဆောင်ကို ဆရာအား ပေး၏ — ၌ 'ဆရာ' သည် လက်ခံသူ ဖြစ်ကြောင်းကို 'အား' နောက်ဆက်က ပြသည်။

သူတို့သည် ရန်ကုန်မှ မန္တလေးသို့ သွားကြသည် — ၌ 'ရန်ကုန်'သည် ထွက်ခွာရာ ဖြစ်ကြောင်းကို 'မှ' နောက်ဆက်က ပြသည်။ 'မန္တလေး 'သည် ရွေးရှုရာ ဖြစ်ကြောင်းကို 'သို့' နောက်ဆက်က ပြသည်။

မိုးကြိုး နန်းမှာ ကျသည်—၌ 'နန်း' နောက်ကတွဲသော 'မှာ' သည် နေရာကိုပြသည့် နောက်ဆက် ဖြစ်သည်။

ဤအိုင်သည် ရွေး၌ မရှိ—၌ 'ရွေး' နောက်ကတွဲသော '၌' သည် ကာလကိုပြသည့် နောက်ဆက် ဖြစ်သည်။

ငါ့ကြောင့် မင်း ဆင်းရဲပေသည် — ၌ 'ငါ့' နောက်ကတွဲသော 'ကြောင့်' သည် အကြောင်းပြသည့် နောက်ဆက် ဖြစ်သည်။

ခွေးကို တုတ်ဖြင့် ရိုက်သည်—၌ 'တုတ်' နောက်က တွဲသော 'ဖြင့်'သည် အသုံးခံကိုပြသည့် နောက်ဆက်ဖြစ်သည်။

**နာမ်ပေါင်း ကြိယာ**။ ။နောက်ဆက်မဲ့ နာမ်နှင့် ကြိယာ ပေါင်း၍ဖြစ်သော ကြိယာများလည်း ရှိသေး၏။ ပြယုဂ်—တောင်တို့သည် အခိုးထွက်ကုန်၏—၌'တောင်'သည် ကတ္တား၊ 'အခိုးထွက်'သည် ကြိယာဖြစ်၏။ ယင်းကြိယာ၌'အခိုး' ဟူသောနာမ်ကို 'ထွက်' ဟူသော ကြိယာနှင့် ပေါင်းထား၏။ တောင်တို့မှ အခိုးသည် ထွက်၏—ဟုမဆိုဘဲ၊ တောင်တို့သည် အခိုးထွက်ကုန်၏—ဟု ဆိုခြင်း ဖြစ်သည်။ ထိုနည်းအတူ ရတနာ ကျောက်သည် အရောင်ထွက်၏—ဆိုရာ၌ 'အရောင်ထွက်'သည် နာမ်ပေါင်းကြိယာဖြစ်၏။ ငါသည် တန်ခိုးကြီး၏။ ငါ့သန်လျက်ကား သံကောင်း၏။ ဤပန်းသည် အဆင်းလှ၏ အစရှိသည်တို့၌လည်း 'တန်ခိုးကြီး'၊'သံကောင်း'၊ 'အဆင်းလှ'တို့သည် နာမ်ပေါင်းကြိယာများ ဖြစ်ကြ၏။

**နာမ်စား**။ ။နာမ်၏ အစား သုံးသော စကားလုံးကို နာမ်စား ဟု ခေါ်၏။

(၁) ပြောဆိုသူက မိမိကိုယ်ကို ညွှန်သော နာမ်စား။
**ငါ**သည် မိခင် ဘခင်တို့ကို လုပ်ကျွေး၏။
**ကျွန်ုပ်**သည် ညောင်စောင့်နတ်ကို ထမင်း ပို့ပါမည်။
ရထားနောက်က **အကျွန်ုပ်** လိုက်ပါမည်။

(၂) ပြောဆိုသူက နာခံသူကို ညွှန်သောနာမ်စား။
ငါ့ကြောင့် **မင်း** ဆင်းရဲပေသည်။
**နင့်**ကိုသာ ငါ လိုလှ၏။
**သင့်**ကို ငါ မခေါ်။
**ညည်း**နှင့် ငါ လိုက်ပါရစေ။
**ခင်ဗျား**တို့ နိုင်ငံတွင် ကျွန်ုပ်တို့ မနေနိုင်ပါ။

(၃) ပြောဆိုသူနှင့် နာခံသူတို့၏ ပြောဆိုရာ ပြောဆိုကြောင်း ဖြစ်သော အပြောခံ ပုဂ္ဂိုလ် အရာဝတ္ထုကို ညွှန်သော နာမ်စား။
**သူ**တို့ ပြေးကြလေပြီ။
**ချင်း**၏ စကားကို မယုံအပ်။

**ယင်း**ကို ငါတို့ မနှစ်သက်ကြ။
**သင်း**လာမှ ငါ သွားမည်။
လူတို့သည် **မိမိ**တို့ အိမ်မှ ထွက်ပြေးကြ၏။

**ကြိယာနမ်။** ။နာမ်သဘော သက်ရောက်သော ကြိယာကို ကြိယာနာမ် ဟုခေါ်သည်။ နာမ်၏အစား သုံးနိုင်သည်။

(၁) ကြိယာရှေ့က 'အ' ကို ထားလျှင် ကြိယာနာမ်ဖြစ်၏။
ဤမြို့၌ **အစားအသောက်** ပေါ၏။

(၂) ကြိယာနောက်က 'ခြင်း' ကို ထားလျှင်လည်း ကြိယာနာမ်ဖြစ်၏။
ဆံပင်တို့သည် **ကျွတ်ပြတ်ခြင်း**ကြောင့် နည်းပါးကုန်၏။

(၃) ကြိယာနောက်က 'ရန်'၊ 'ဘို့'၊ 'ဘွယ်'၊ 'ဘွယ်ရာ'၊ 'ရာ'၊ 'စရာ' တို့ဖြင့် တွဲသော ကြိယာနာမ်သဘော သက်ရောက်သည့် အဖွဲ့များလည်း ရှိသေး၏။ ပြယုဂ် —
သင်၌ ကြောင့်ကြ**ရန်** မရှိ။
ပြော**ဘို့** ဟော**ဘို့**ကား လိုရင်း မဟုတ်။
ဤခဲ**ဘွယ်** စား**ဘွယ်**တို့ကို စားလော့။
အဘယ်သို့ ပြစ်တင်ကဲ့ရဲ့**ဘွယ်ရာ** ဖြစ်သနည်း။
သူတို့၌ မှီခို**ရာ** မရှိ။
**စားစရာ** ရောက်လာပြီ။

**နာမဝိသေသန။** ။နာမ်ကို ထူးခြားစေသော ပုဒ်ကို နာမဝိသေသန ဟုခေါ်သည်။

(၁) ဂုဏ်အရည်အချင်း ပြသည့် နာမဝိသေသန။
ကောင်းသော လူ-ဟူသည့် ဂုဏ် အရည်အချင်းပြသော နာမဝိသေသန၌ ထူးခြားစေသော ကြိယာ 'ကောင်း' နှင့် ထူးခြားအပ်သော နာမ် 'လူ'ကို 'သော' နောက်ဆက်က ဆက်ပေး၏။

'ကောင်းသောလူ' ဟူ၍ မဆိုဘဲ 'လူကောင်း' ဟူ၍လည်း ကြိယာကို နာမ်နောက်က နောက်ဆက် မပါဘဲလည်း ထားနိုင်သည်။

(၂) အညွှန်းနာမဝိသေသန။
မည်သည့်ပုဂ္ဂိုလ် အရာဝတ္ထုကို ဆိုလိုသည် ဟု ညွှန်ပြသော နာမဝိသေသနကို အညွှန်းနာမဝိသေသန ဟု ခေါ်သည်။ နာမ်ရှေ့က ကပ်၍ ထားရသည်။

(က) 'ထို'သည် ဖော်ပြပြီးသောနာမ်ကို ညွှန်ပြသည်။
သိဝိရာဇ် မင်းကြီး မင်းပြု၏။ **ထို**သိဝိရာဇ်မင်းကြီး၏ သားတော်ကား သိဥ္စည်း အမည်ရှိ၏။

(ခ) 'ဤ'၊ 'သည်'တို့သည် အနီးရှိနာမ်ကို ညွှန်ပြကြသည်။
**ဤ**အရပ်ကား အဘယ် အရပ်နည်း။
**သည်**သူကို ငါမသိ။

**မှတ်ချက်။** ။**ထိုသို့သော** အစာကို မစားနှင့် — ဟု ဆိုလျှင် 'ထိုသို့သော' သည် အထက်က ဖော်ပြချက်နှင့် ညီသော ဟု အနက်ရ၏။
**ဤသို့သော** ဂုဏ်လည်းရှိ၏ — ဟု ဆိုလျှင် 'ဤသို့သော' သည် ယခု ဖော်ပြချက်နှင့်ညီသော ဟု အနက်ရ၏။

(ဂ) '၎င်း' နှင့် 'ယင်း' သည် 'ထို' နှင့် အသုံး၏တူ။ ၎င်းသင်္ဃာတော်များကို မင်းကြီးကဆွမ်းကပ်လှူ၏။
**ယင်း**စကားကိုလည်း ပြောနိုင်ပေမည်။

(ဃ) ညွှန်ပြထားသော နာမ်ကို သေချာစွာ မဖော်ပြလျှင် 'အကြင်' ကို သုံးသည်။ များသောအားဖြင့် 'အကြင်' ဝါကျကို 'ထို' ဝါကျဖြင့် ဟပ်၏။
**အကြင်** မိန်းမတို့၌ အပြစ်ခြောက်ပါး ရှိ၏။
**အကြင်**အရပ်၌ ဤစာကို ငါ ရ၏။ **ထို**အရပ်သို့ ငါ သွားအံ့။

(၃) မေးခွန်း နာမဝိသေသန။
ဤသူကား **အဘယ်**သူနည်း။
**ဘယ်**သူ ကြံဆောင်ပေလိမ့်နည်း။
ငါတို့အဆွေငါးများ **အတီ**အရပ်မှလာကြသနည်း။
ငါ၏ မိဖုရား ဖုဿတီ **မည်သည့်**အရပ်မှာ ဖြစ်လေသနည်း။

(၄) အရေအတွက် အတိုင်းအတာကို ပြသော နာမဝိသေသန။
ထိုသူမှာ သား**နှစ်**ယောက် ရှိ၏။
ထိုနေ့၌ပင်လျှင် **ငါးရာ**သော အမှုးအမတ်တို့ အိမ်ဝယ်လည်း သတို့သား **ငါးရာ**တို့ကို ဖွားမြင် လေကုန်၏။
လူ**အပေါင်း**တို့သည် ဝမ်းမြောက်ကြကုန်၏။
**တစုံတယောက်** သူတို့မျှ မမြင်ချေ။
ဆရာသည် **အလုံးစုံသော** ပရိသတ်တို့အား ဟောကြား၏။
သူ**တကာ**ကို မပြောနှင့်။
လူ**ခပ်သိမ်း**တို့ ရောင့်ရဲလွယ်ကုန်သည်။
မင်းကြီးလည်း **အသီးသီး**သော မြို့ရွာသို့ တမန်စေလွှတ်တော်မူ၏။

ကုန်သည် တ**ဦး**၊ ပုတီး နှစ်**ကုံး**၊ နွား သုံး**ကောင်**၊ မျဉ်း လေး**ကြောင်း**၊ လက်စွပ် နှစ်**ကွင်း**၊ ခုံ တခု၊ ပန်းနှစ်**ခိုင်**၊ ဖျာ နှစ်**ချပ်**၊ အပ် သုံး**ချောင်း**၊ ကြိုးတ**ခွေ**၊ စကား တ**ခွန်း**၊ မြင်း ငါး**စီး**၊ လှေ သုံး**စင်း**၊ ထင်း တ**စည်း**၊ စာ တ**စောင်**၊ ဘိနပ် တ**စုံ**၊ ဘုရား တ**ဆူ**၊ အိမ် နှစ်**ဆောင်**၊ ကြက်သွန် တ**တက်**၊ စပျစ်သီး တ**တွဲ**၊ ဆပ်ပြာနှစ်**တုံး**၊ အုတ် နှစ်**ထပ်**၊ အင်္ကျီ နှစ်**ထည်**၊ ညောင် လေး**ပင်**၊ ရဟန်း သုံး**ပါး**၊ ပိုက်ဆံ တ**ပြား**၊

ငှက်ပျော တဖီး၊ ခြေ နှစ်**ဖက်**၊ ကိုယ်စိတ် နှစ်ဖြာ၊ သေနတ် ငါး**လက်**၊ တောင်းနှစ်လုံး၊ စက္ကူ သုံး**လွှာ**၊ မြစ် နှစ်**သွယ်**၊ လူတ**ယောက်**၊ ခြေစွပ် တရံ၊ နွား တရှဉ်းဟူ၍ 'ဦး'၊ 'ကုံး'၊ 'ကောင်' အစရှိသော သင့်လျော်သည့် စကားလုံးဖြင့် နာမ်၏ အမျိုးအစားကို လိုက်၍ အရေအတွက်ကို ပြသည်။ တောတတော၊ အိမ် တအိမ် ဟူ၍ တခါတရံ နာမ်ကို ထပ်၍လည်း သုံးနိုင်သည်။

အောက်ပါတို့သည် နာမဝိသေသန သဘော သက်ရောက်သော အဖွဲ့များ ဖြစ်ကြ၏။

(၁) '၏'သည် ပိုင်ဆိုင်ရာ ပြသော နောက်ဆက် ဖြစ်သည်။
သင်၏ စာအုပ်ကို ငါ မယူပါ — ဌ 'သင်၏' သည် စာအုပ်ကို ပိုင်ဆိုင်ခြင်းအနက်ဖြင့် ထူးခြားစေ၏။
'၏' ကြေလျှင် အောက်မြစ်သံ ကျန်ရစ်ခဲ့၏။
**သင့်**စကားကို ငါ နားထောင်မည် — ဌ 'သင့်' သည် 'သင်၏' ကို ဆိုလိုသည်။

(၂) ပုဂ္ဂိုလ် တဦးကို ဂုဏ်ဖြင့် တမျိုးတမည် ဆင့်၍ခေါ်သော အမည်။
ဂေါတမ မြတ်စွာဘုရား—ဌ 'ဂေါတမ' သည် 'မြတ်စွာဘုရား'၏ အမည်ဖြစ်၍ နာမဝိသေသနသဘော သက်ရောက်၏။

(၃) ရှေ့နာမ်က နောက်နာမ်ကို ထူးခြားစေသည်။
ရွှေလက်စွပ် — ဟုဆိုလျှင် 'ရွှေ' သည် 'လက်စွပ်' ကို နာမဝိသေသနကဲ့သို့ ထူးခြားစေသော နာမ် ဖြစ်သည်။

(၄) 'ဘွယ်' 'ရန်' 'ရာ' 'စရာ' တွဲသော ကြိယာနာမ်တို့လည်း နာမဝိသေသနကဲ့သို့ နောက်ကနာမ်ကို ထူးခြားစေသည်။
သင်တို့အား ဆို**ဘွယ်**အပြစ် မရှိ။
သောက်**ရန်** ရေ ရှိသလား။
အကျွန်ုပ်နေ**ရာ** ဗိမာန်ကို မဖျက်ပါနှင့်။
ဆန် ထည့်**စရာ** အိုးတလုံး ဝယ်ခဲ့ပါ။

**ကြိယာဝိသေသန။** ။ကြိယာကို ထူးခြားစေသော ပုဒ်ကို ကြိယာဝိသေသန ဟု ခေါ်သည်။

(၁) နောက်ဆက်မဲ့ ကြိယာဝိသေသန သက်သက်။
**နက်ဖြန်** ငါ လာမည်။
**ချက်ခြင်း** သွားပါ။
**ယခု** ငါ မပြောနိုင်သေး။
**အလကား** အိပ်မနေနှင့်။
ဤမိန်းကလေး **အလွန်**ချောသည်။
**အမှန်** ငါ သိသည်။
ဘုရား **ဧကန်** ဖြစ်လိမ့်မည်။

(၂) ကြိယာနောက်က 'စွာ' နောက်ဆက်တွဲသော ကြိယာဝိသေသန။
သားသည် မိခင်အား **ကောင်းမွန်စွာ** လုပ်**ကျွေး**၏။
သူတို့ **ညီညွတ်စွာ** နေထိုင်ကြ၏။

(၃) နှစ်လုံး ထပ် ကြိယာဝိသေသန။
**မြန်မြန်** လာပါ။
**တိုးတိုး** ပြောပါ။
အမျက် **ချောင်းချောင်း** ထွက်၏။
ငါ့စာအုပ်ကို **လျှင်လျှင်** ပေးလိုက်ပါ။

(၄) နှစ်လုံးထပ်ရှေ့က 'အ' တွဲသော ကြိယာဝိသေသန။
လူကလေးတို့သည် **အချင်းချင်း** ရိုက်ပုတ်ကြသည်။
ဤသို့ **အကြိမ်ကြိမ်** မပြုပါနှင့်။
သစ်ပင်တို့သည် **အပိုင်းပိုင်း** ပြတ်ကုန်၏။

(၅) နှစ်လုံးထပ်ရှေ့က 'တ' ကိုလည်း တွဲနိုင်သည်။
သူသည် သူခိုးကို **တစိမ့်စိမ့်** ကြည့်၏။
လျှပ်စစ်တို့သည် **တညီးညီး** ပြက်ကုန်၏။
စစ်သားတို့သည် **တဖြည်းဖြည်း** ချီတက်ကြ၏။

(၆) များသောအားဖြင့် စကားထပ်သော လေးလုံးစပ် ကြိယာ ဝိသေသန။
သူသည် အိမ်မှ **အလျင်တဆော** ထွက်သွား၏။
တမြို့လုံး **အုတ်အုတ်ကျက်ကျက်** ဖြစ်၏။
လူအပေါင်းတို့သည် **သောင်းသောင်း အုတ်အုတ်** ငိုကြွေးကြ၏။
**မေ့မေ့ လျော့လျော့** မနေနှင့်။
သူတို့ **ကတိုက်ကရိုက်** သွားကြ၏။

(၇) 'အ' တွဲ ကြိယာနာမ်ကို ကြိယာဝိသေသနကဲ့သို့ သုံးနိုင်သည်။
**အကြည်အနူး** ခွင့်တောင်း၏။
**အသာအကြည်** ခွင့်လွှတ်တော်မူပါ။
သူတို့သည် **အမေ့အကျန်** နေကြသည်။

**အများပြ နောက်ဆက်။** ။ငါတို့ အဆွေ ကျောင်းသားများသည် အဘယ်သို့ သွားကြသနည်း—ဟူသော ဝါကျမှာကဲ့သို့ အများပြ ဗဟုဝုစ်သဘောကို ပြလိုလျှင် နာမ် နာမ်စားနောက်က 'တို့'၊ သို့မဟုတ် 'များ' ကို ထည့်၍၊ ကြိယာနောက်က 'ကြ' ကို ထည့်ရသည်။ ကြိယာနောက်က 'ကုန်' 'ကြကုန်' ကိုလည်း ထည့်နိုင်သည်။ ပြယုဂ် —
သူတို့သည် မျက်စိ ကွယ်**ကုန်**၏။
လူအပေါင်းတို့သည် တောင်းပန်**ကြကုန်**၏။

'ကြ'သည် **အသီးအသီး** ပြုသည် ဖြစ်သည် ရှိသည်ကို အထူးသဖြင့် ထင်ရှားစေလိုသော နောက်ဆက် ဖြစ်သည်။ 'ကုန်' သည် **အားလုံး**ပြုသည် ဖြစ်သည် ရှိသည်ကို အထူးသဖြင့် ထင်ရှားစေလိုသော နောက်ဆက် ဖြစ်သည်။ 'ကြကုန်' သည်

**အသီးအသီး အားလုံးပြုသည် ဖြစ်သည် ရှိသည်ကို အထူး** သဖြင့် ထင်ရှားစေလိုသော နောက်ဆက် ဖြစ်သည်။

'များ' နှင့် 'တို့'ကို တရံတခါ ပူးတွဲ၍လည်းသုံးနိုင်သည်။

**ငါး များတို့ သည် ညဥ့်နံနက် အမြဲ ခစားကုန်၏။**

**ကာလနောက်ဆက်။** ။ဤစာတမ်းတွင် အထက်ပါ ဝါကျများ၌ တွေ့ရသော '၏' 'သည်' တို့သည် ဖြစ်ဆဲကာလကို သော်၎င်း၊ ဖြစ်ပြီး ကာလကိုသော်၎င်း ပြသော ကြိယာ နောက်ဆက်များ ဖြစ်ကြသည်။ အောက်ပါတို့သည်လည်း ကာလ နောက်ဆက်များ ဖြစ်ကြသည်။

**ပြီ။** ။(၁) ကြိယာ ဖော်ပြသော အခြေအနေ တမျိုးသို့ စင်စစ်ရောက်ရှိကြောင်းကို ပြသည်။

ငါ အောင်**ပြီ**။

သင်သည် ငါ့အစာ ဖြစ်**ပြီ**။

(၂) ကြိယာ၏ လုပ်ငန်းသည် အဆုံးတိုင်ရောက်ကြောင်းကို ပြလိုလျှင် 'ပြီးပြီ'ကို အသုံးပြု၏။

ဤစာကို ရေး**ပြီးပြီ**။

ထမင်း စား**ပြီးပြီ**။

(၃) 'ပြီ'ကို'မ' နှင့် တွဲလျှင် စိတ်ပြဋ္ဌာန်းခြင်းကိုပြသည်။

သူနှင့် မတွေ့ရသမျှ ဤနေရာမှ ငါ **မ**သွား**ပြီ**။

ဟုတ်သည်အတိုင်း မဆိုသော် သင့်အသက် **မ**ရှိ**ပြီ**။

**မည်။** ။(၁) ဖြစ်လတ္တံ့ ကာလ သက်သက်ကို ပြသည်။

အကြောင်းတပါး ရှိ**မည်**။

သည်နှစ် စပါး ကောင်း**မည်**။

(၂) စိတ်ပြဋ္ဌာန်းခြင်းကို ပြသည်။

ငါ နောက်မှ လာ**မည်**။

ဤအိမ်တွင် ငါ နေ**မည်**။

(၃) စည်းကမ်း ထားခြင်းကို ပြသည်။

အရှင် ကောင်းမှ ကျွန်ကောင်း**မည်**။

ငွေရမှ ငါ သွား**မည်**။

**အံ့။** ။စိတ်ပြဋ္ဌာန်းခြင်းကို ပြသည်။

ငါ နတ်ပြည်သို့ သွား**အံ့**။

ရှင်ရဟန်းကို ငါ ပြဿနာ မေး**အံ့**။

**လတ္တံ့။** ။ဖြစ်လတ္တံ့ ကာလ နောက်ဆက် လတ္တံ့သည် လတ်အံ့နှင့် အသုံးတူ၏။

ပြည်သူတို့အား များစွာ စီးပွားဖြစ်**လတ္တံ့**။

လူတွင်ထင်ရှား ဘုရားဖြစ်**လတ္တံ့**။

**လိမ့်။** ။ဖြစ်လတ္တံ့ ကာလ နောက်ဆက် 'လိမ့်' သည် 'လေအံ့' နှင့် အသုံးတူ၏။ များသောအားဖြင့် 'လိမ့်မည်' ဟူ၍ တွေ့ရသည်။

အကြောင်းဘယ်လို ရှိပါ**လိမ့်**။

အောင်ပွဲ ခံ**လိမ့်မည်**။

**မေးခွန်းဝါကျ။** ။(၁)ဟုတ်သည် မဟုတ်သည်ဟူ၍ အဖြေလိုသော မေးခွန်းဝါကျကို 'လော'၊ သို့မဟုတ် 'လား' နှင့် အဆုံး သတ်သည်။

သူခိုးကို နင်တို့ တွေ့၏**လော**။

နင်နှင့် ငါနှင့် တူသ**လော**။

ဤသို့ မဟုတ်**လော**။

ပြေးရသော် မကောင်း**လော**။

ရွှေထီး ရွှေနန်းကိုသော်လည်း ပေးအပ်မည်**လော**၊

စစ်ပွဲသော်လည်း ပြိုင်ဆိုင်မည်**လော**။

ထီးနန်းကို သိမ်းယူနိုင်ရာအံ့**လော**။

မိုးရွာမည် ထင်သ**လား**။

သံတော်တို့ ပျော်ပါ၏**လား**။

ဘုန်းတော်ကြီး ကျန်းမာတော်မူပါ**လား**။

သူတို့နှင့် သွားမည်**လား**။

အမျက် ပြေပြီ**လား**။

(၂) ဟုတ်သည် မဟုတ်သည် ဟူ၍ မဖြေနိုင်သော မေးခွန်း ဝါကျကို 'နည်း'၊ သို့မဟုတ် 'လဲ' နှင့် အဆုံးသတ်သည်။

အဘယ်ကြောင့် ငါ့ကို ရိုက်သ**နည်း**။

ဤမြို့ကား အဘယ်မြို့**နည်း**။

အဘယ်သို့ ပြုလုပ်မည်**နည်း**။

အဘယ်အကျိုး ရှိအံ့**နည်း**။

ထုံးစံ ဘယ်မှာရှိသ**လဲ**။

ဘာပြု မ**လဲ**။

ဘာ **လဲ**။

**မဟုတ်ဝါကျ။** ။'မ' သည် မဟုတ်ကြောင်းပြသော စကားလုံး ဖြစ်သည်။

ဆရာသည် မည်သို့မျှ **မ**ဆို။

သူတို့ ယနေ့တိုင် **မ**လာကြသေး။

သင်သည် ဤမြို့၌ နေရတော့မည် **မ**ဟုတ်။

ငါသည် ရေမသောက်ဘဲ အိပ်လေ့**မ**ရှိ။

သူ **မ**လာမီ ငါ သွားအံ့။

ငါ **မ**သွားဘူး။

ရန်ကုန်မြို့သို့ **မ**ရောက်ဘူးဘူး။

ငါ့အိမ်သို့ **မ**လာနှင့်။

ဆရာ **မ**ကြောက်လင့်။

ဤသို့ **မ**ပြောရ။

**ညွှန်ကြားခြင်း။** ။ညွှန်ကြားခြင်းပြသောဝါကျကို နောက်ဆက်မဲ့ကြိယာ၊ သို့မဟုတ် 'လော့' 'ရမည်' 'ခဲ့' 'စေ' တခုခုနှင့် အဆုံးသတ်သည်။

ဤနေရာမှာ **ထိုင်**။

ထမင်းစားပြီးမှ **လာကြ**။

စာအုပ်ကို ငါ့အား ပေး**လော့**။
ထိုင်ကြ**လော့**။
လူမိုက်ကို ဆုံးမ**ရမည်**။
ငါနှင့် လိုက်ခဲ့ကြ။
ငါ့ထံ ထားခဲ့လော့။
အပြစ်လွတ်**စေ**။

**ခွင့်ပန်ခြင်း**။ ။ဤအနက်ကို ပြလိုလျှင် 'ပါရစေ'နှင့် အဆုံးသတ်သည်။

ကျွန်တော် သွား**ပါရစေ**။

**ကျိန်ဆဲခြင်း၊ ဆုတောင်းမေတ္တာပို့ခြင်း၊ သစ္စာပြုခြင်း**။ ။ဤအနက်တို့ကို ပြလိုလျှင် 'ပါစေ' 'စေသား' 'စေသော' 'စေသတည်း' တို့နှင့် အဆုံးသတ်သည်။

ဒုက္ခရောက်**ပါစေ**။
စာမေးပွဲ အောင်ပါ**စေသား**။
သက်တော် ရာကျော် စံတော်မူသည် ဖြစ်**စေသော**။
မင်းကြီးအား အောင်ခြင်းမင်္ဂလာ ဖြစ်**စေသတည်း**။

**အတူတကွဆောင်ရွက်ခြင်း**။ ။ဤအနက်ကို ပြလိုလျှင်'စို့' ကို သုံးသည်။

ကျောင်းတက်ကြစို့။

**ကြိယာအထောက်အပံ့**။ ။ကြိယာနောက်က နေ၍ ကြိယာ၏ အဓိပ္ပါယ်ရင်းကို ပြောင်းလဲစေသည့် အထောက် အပံ့ စကားလုံးများလည်း ရှိကြ၏။

(၁)**အပ်**။ ။(က) ဆောင်ရွက်သင့်သည်ကို ပြသည်။
လူမိုက်ကို ဆုံးမ**အပ်**၏။
(ခ) ဆောင်ရွက်ခြင်းကို ခံပြီးကြောင်း ပြသည်။
ယမန်နေ့၌ ငါသည် တယောက်သော ပုဏ္ဏားအား သား သမီး နှစ်ယောက်တို့ကို လှူ**အပ်**ပြီ။

(၂)**အား**။ ။(က) ဆောင်ရွက်ရန် အချိန်အခွင့် ရှိသည်ကို ပြသည်။
ငါ သွား**အား**သည်။
(ခ) ငဲ့ညှာခြင်း ကင်းသည်ကို ပြသည်။
ပြုတော်မူ **အား** ရန်ကော့၊ မျက်ထားတော်သုန်။

(၃)**ဦး**။ ။အခြားအမှုကို မဆောင် ရွက်မီ၊ ဖော်ပြထားသောအမှုကို အလျင်ဆောင်ရွက်သည်ကို ပြသည်။
ပွဲကြည့်ပါ**ဦး**။
လျှောက်ပါရစေ**ဦး**။

(၄)**ကောင်း**။ **စကောင်း**။ ။ဆောင်ရွက်ရန် သင့်လျော်သည်ကိုပြသည်။
ဤအသီး မစား**ကောင်း**။
အစိုးရသောသူနှင့် ခိုက်ရန် မပြု**စကောင်း**။

(၅) ခဲ။ ။ဆောင်ရွက်ရန် မလွယ်သည်ကို ပြသည်။
မိတ်ဆွေကောင်းကိုအလွန်ရ**ခဲ**၏။

(၆) ခဲ့။ ။(က) ပြုမူ ဖြစ်ပျက်ရာ နေရာမှ ကတ္တား ထွက်ခွာသော သဘော သက်ရောက်သည်။
သူ့ကို တော၌ ထား**ခဲ့**၏။
(ခ) ညွှန်ကြားသူထံ၌ရှိစေလိုကြောင်း ကို ပြသည်။
စာအုပ်ကို ငါ့ထံ ထား**ခဲ့**လော့။

(၇)**ချင်**။ ။အလိုရှိသည်ကို ပြသည်။
ငါထမင်း စား**ချင်**သည်။

(၈)**ချေ**။ ။အခါအခွင့် ဆိုက်ရောက်သည်အခိုက် ပြုမူ ဖြစ်ပျက်သည့် သဘော သက်ရောက်သည်။
ထိုဆရာထံ၌ ပညာသင်**ချေ**။
ငါ့ကို သင် မရိုက်ပိုင်**ချေ**။

(၉)**စမ်း**။ ။ပြုလုပ်ရုံမျှ ပြုလုပ်ရန် တိုက်တွန်းသည့် သဘော သက်ရောက်သည်။
ဟောကွဲ့ ကြည့်**စမ်း**။

(၁၀) **စေ**။ ။ဆောင်ရွက်ဖြစ်အောင် ပြုလုပ်သည်၊ ခွင့်ပြုသည်ကို ပြသည်။
သူနာကို ထမင်း စား**စေ**၏။

(၁၁)**တတ်**။ ။(က) ဓမ္မတာ အတိုင်း ဖြစ်သည်ကို ပြသည်။
ခွေး ကိုက်**တတ်**သည်။
(ခ) ကျွမ်းကျင်ခြင်းကို ပြသည်။
စောင်း တီး**တတ်**သလား။
(ဂ) စွမ်းခြင်းကို ပြသည်။
ငါသည် ဈာန်ဝင်ခြင်းငှာ **မတတ်**နိုင်။

(၁၂)**တော့**။ ။(က) ညွှန်ကြားရာ၌ လိုက်လျောခြင်း သဘော သက်ရောက်သည်။
အချိန်ကျပြီ၊ သွား**တော့**။
(ခ) ဆောင်ရွက်ချိန် နီးကြောင်းကို ပြသည်။
မီးရထား ထွက်**တော့**မည်။
(ဂ) အဓိပ္ပါယ် လေးနက်စေသည်။
လူမိုက်ကို ဆုံးမသင့်လှပါ**တော့**သည်။

ဤမျှသာ ပြောပါရစေ**တော့**။
(ဃ) 'မ' နှင့် တွဲလျှင် 'တော့' သည် ဆက်လက် မပြုလုပ်ရန် တိုက်တွန်းခြင်းကို ပြသည်။
ရေ မချိုးနှင့်**တော့**။

(၁၃) **တုံ**။ ။အလှည့်ကျ ပြုမှု ဖြစ်ပျက်သည့် သဘောသက်ရောက်သည်။
မင်းကြီးလည်း မြင်းလေးစီးသား တို့ကို ရှေက ပေါက်**တုံ**၊ လက်ဝဲ ပေါက်**တုံ**၊ လက်ယာ ပေါက်**တုံ**၊ သုံးကြိမ်နှင့်နှင့် စီးပြီးမှ မြို့တော်သို့ ပြန်တော်မူလေ၏။

(၁၄) **ထိုက်**။ ။ဆောင်ရွက်ရန် သင့်လျော်ကြောင်း ပြသည်။
ဤ အဝတ်မျိုးကို သူ ဝတ်**ထိုက်**၏။

(၁၅) **နေ**။ ။ဆက်လက် လုပ်ကိုင်လျက် ရှိသည်ကို ပြသည်။
မိခင် အိပ်**နေ**သည်။

(၁၆) **နိုင်**။ ။ဆောင်ရွက်ရန် စွမ်းသည့်၊ အခွင့်ရသည့် သဘော သက်ရောက်သည်။
ဤသို့သော သူကို ချစ်**နိုင်** ပါမည်လား။
အလိုရှိရာ သွား**နိုင်**သည်။

(၁၇) **နှင့်**။ ။ကြိုတင် ပြုမှုဖြစ်ပျက်သည်ကို ပြသည်။
ငါ ဈေးက စောင့်နေ**နှင့်**မည်။

(၁၈) **ပါ**။ ။ယဉ်ကျေးမှုကို ပြသည်။
ငါနှင့် အတူ လိုက်ခဲ့**ပါ**။

(၁၉) **ပေ**။ ။ဝန်ခံသော အနေ၊ သဘောကျသော အနေကို ပြသည်။
ဟုတ်**ပေ**သည်။
ဆရာကြီးကား ပညာ ကြီး**ပေ**သည်။

(၂၀) **ပိုင်**။ ။ပြုလုပ်ခွင့် ရှိကြောင်း ပြသည်။
ငါ့ကို သင် ရိုက်**ပိုင်**သည်။

(၂၁) **ပြန်**။ ။တဖန် ထပ်မံ ပြုလုပ်သင့်သည့် သဘော သက်ရောက်သည်။
ကျောင်း တနေ့ ပိတ်**ပြန်**ပြီ။

(၂၂) **ဖြစ်**။ ။ကိစ္စပြီးမြောက်သည်ကို ပြသည်။
မန္တလေးသို့ သွား**ဖြစ်**သလား။

(၂၃) **ဘူး**။ ။တွေ့ကြုံ ဖြစ်ပျက်ပြီးသည်ကို ပြသည်။
တရုပ်ပြည်သို့ ရောက်**ဘူး**သလား။

(၂၄) **မိ**။ ။(က) မပြုသင့်ဘဲ ပြုသည်ကို ပြသည်။
သူ့ကို ငါ ဆဲ**မိ**သည်။
(ခ) ထိထိ ရောက်ရောက် ပြုသည့် အခြေအနေကို ပြသည်။
ငုပ်မိ သဲတိုင်၊ တက်နိုင် ဖျားရောက်။

(၂၅) **မြဲ**။ ။ရှေးကအတိုင်း ဆက်၍ ဆောင်ရွက်သည်ကို ပြသည်။
သူတို့သည် လာ**မြဲ** လာကြသည်။

(၂၆) **ရ**။ ။(က) မလွဲသာသည်ကို ပြသည်။
ဘုန်းတော်ကြောင့် ဆင်တော် ရောက်လာ**ရ**သည်။
(ခ) အခွင့်အရေးကို ပြသည်။
သူ့ကျေးဇူးကြောင့် ငါ ချမ်းသာစွာ နေ**ရ**သည်။
(ဂ) 'မ'နှင့် တွဲလျှင် 'ရ' သည် တားမြစ်ခြင်းကို ပြသည်။
ဤသို့ မလုပ်**ရ**။

(၂၇) **ရက်**။ ။ငဲ့ညှာခြင်း မရှိသည်ကို ပြသည်။
ငါ့ကို ဤသို့ ပြောဆို**ရက်**သည်။

(၂၈) **ရစ်**။ ။နောက်ချန်နေပြီး ပြုမှုဖြစ်ပျက်သည်ကို ပြသည်။
သည်တောမှာ နေ**ရစ်**တော့။

(၂၉) **ရာ**။ ။(က) ဆောင်ရွက်သင့်သည်ကို ပြသည်။
မိခင်ကို လုပ်ကျွေး**ရာ**၏။
(ခ) ဖြစ်ပျက်နိုင်သည့် သဘော သက်ရောက်သည်။
သူတပါးတို့ ကဲ့ရဲ့**ရာ**၏။

(၃၀) **ရှာ**။ ။ကရုဏာ သဘောကို ပြသည်။
ငါ့မိတ်ဆွေကြီး သေ**ရှာ**လေပြီ။

(၃၁) **လတ်**။ ။စကား ပြေပြစ်စိမ့်သောငှာ သုံးသည်။
တရံရောအခါ ဥရေပတိုက်၌ စစ်ကြီး ဖြစ်**လတ်**၏။

(၃၂) **လေ**။ ။(က) စကားပြေပြစ်စိမ့်သောငှာသုံးသည်။
တနေ့သ၌ မုဆိုးသည် ဆင်ရိုင်းတစီးနှင့် တွေ့**လေ**၏။
(ခ) ညည်းတွားခြင်း သဘော သက်ရောက်သည်။
ဖြစ်ရ**လေ**၊ မိတ်ဆွေရယ်။
(ဂ) တိုက်တွန်းခြင်း သဘော သက်ရောက်သည်။
ထမင်း စား**လေ**။

**(၃၃) လို**။ ။ဆန္ဒရှိကြောင်း ပြသည်။
ဤအရပ်သို့ ငါ သွား**လို**သည်။

**(၃၄)လိုက်**။ ။(က) ဆောင်ရွက် ပြီးမြောက်သည့် သဘော သက်ရောက်သည်။
မိခင်သည် သားကို ဆရာ့ထံသို့ စေလွှတ်**လိုက်**၏။

(ခ) ဆောင်ရွက် ပြီးမြောက်အောင် စေခိုင်းခြင်းကို ပြသည်။
အထုပ်ကို အိမ်ပေါ် မှ ပစ်ချ**လိုက်**။

**(၃၅)လွယ်**။ ။ဆောင်ရွက်ရန် မခက်သည်ကို ပြသည်။
ဤတော၌ သစ်သီး သစ်မြစ် ရ**လွယ်**ပါ၏။

**(၃၆) လှ**။ ။အမြောက်အမြား သဘော သက်ရောက်သည်။
ခရီး ဝေး**လှ**သည်။

**(၃၇) ဝံ့**။ ။ဆောင်ရွက်ရန် ရဲရင့်သည့်သဘော သက်ရောက်သည်။
ဤအရပ်သို့ ငါ သွား**ဝံ့**သည်။

**(၃၈)သင့်**။ ။ဆောင်ရွက်ဖို့ ကောင်းကြောင်း ပြသည်။
ဤစကားကို ဆို**သင့်**သည်။

**(၃၉)သာ**။ ။ဆောင်ရွက်ရန် အခါအခွင့် ကောင်းသည်ကို ပြသည်။
ဤမြို့၌ နေ**သာ**ပါသည်။

**(၄၀)သေး**။ ။(က) ယခုတိုင် ပြုမူ ဖြစ်ပျက်လျက် ရှိသည်ကို ပြသည်။
ဤသူငယ် ကစားတုန်းပင် ရှိ**သေး**သည်။

(ခ) ဖော်ပြ ထားသော ကြိယာကိုလည်း ဆောင်ရွက်သည့် သဘော သက်ရောက်သည်။
ခွေးကိုလည်း ရိုက်**သေး**သည်။

**နာမ်ပုဒ်စု**။ ။နောက်ဆက်ကို နာမ် နောက်က တွဲသကဲ့သို့ ပုဒ်စု ဟု ခေါ်သော ကတ္တား ကြိယာပါသည့် စကားစု နောက်ကလည်း တွဲနိုင်သည်။

**ပြယုဂ်**။

ခွေးကို ငါမြင်၏—၌ 'ခွေး'နာမ်သည် 'မြင်' ကြိယာ၏ ကံ ဖြစ်ကြောင်းကို 'ကို' နောက်ဆက်ကပြသည်။ ခွေးပြေးသည်ကို ငါမြင်၏—ဟူသော ကြိယာနှစ်ခုဝါကျ၌ကား၊ မိမိကတ္တား ကြိယာ ပါသော 'ခွေးပြေးသည်' ဟူသည့် ပုဒ်စုသည် 'မြင်' **ကြိယာ၏ ကံ**ဖြစ်သည်။ သို့ဖြစ်၍ 'ကို' နောက်ဆက်ကို'ခွေး' ဟူသော နာမ်နောက်က တွဲသကဲ့သို့၊ ခွေးပြေးသည်ဟူသော ပုဒ်စုနောက်ကလည်း တွဲနိုင်သည်။ နာမ်သဘော သက်ရောက်သော ယင်းပုဒ်စုကို နာမ်ပုဒ်စု ဟု ခေါ်သည်။

ဘဏ္ဍာကျိကြ ယုတ်သည် ဖြစ်ရာ၏—၌ 'ဘဏ္ဍာကျိကြ ယုတ်သည်' ဟူသော နာမ်ပုဒ်စုသည် 'ဖြစ်ရာ၏' ဟူသော ကြိယာ၏ ကတ္တား ဖြစ်သည်။

နက်ဖြန် ငါလာမည် ဟု အဖေက ပြောသည်—၌ 'နက်ဖြန် ငါလာမည်' နာမ်ပုဒ်စုသည် 'ပြောသည်' **ကြိယာ၏ကံ**ဖြစ်ကြောင်းကို 'ဟု' စကားလုံးက ပြသည်။

**နာမဝိသေသနပုဒ်စု**။ ။နာမ ဝိသေသန နောက်ဆက် ဖြစ်သည့် 'သော' ကို ဆိုင်ရာ နာမ်ရှေ့က ထားရကြောင်းကို အထက်က ဖော်ပြခဲ့ပြီ။ နာမဝိသေသန သဘော သက်ရောက်သော ပုဒ်စုကိုလည်း ဆိုင်ရာ နာမ်ရှေ့က 'သော' နှင့် ဆက်စပ်နိုင်သည်။

**ပြယုဂ်**။

မင်းသည် မေးအပ်သော ပြဿနာ အပေါင်းတို့ကို ဝိဒူရ သုခမိန်သည်ဖြေပေ၏—၌'မင်းသည် မေးအပ်သော(သည်)' ဟူသော ပုဒ်စုသည် 'ပြဿနာအပေါင်းတို့ကို' ထူးခြား စေသည် ဖြစ်၍ နာမဝိသေသနသဘော သက်ရောက်သည်။

စင်စစ်ကား 'သော' ဟူသော နာမဝိသေသန နောက်ဆက်သည် 'သည်' ဟူသော ကြိယာနောက်ဆက်သဘော သက်ရောက်ရကား 'သော' အစား 'သည်'၊ သို့မဟုတ် အောက်မြစ်သံ ပါသော 'သည့်' ကိုလည်း သုံးနိုင်သည်။

**ပြယုဂ်**။

ဤရတနာ သုံးလုံးသည် မောင့်ခမည်းတော် လက်ထက်တွင်သာ ပေါ်ပေါက်လာ**သည့်** ရတနာမဟုတ်။

ထိုနည်းအတူ ဖြစ်လတ္တံ့ကာလကို ပြလိုလျှင် 'သည့်' အစား 'မည့်'ကို သုံးသည်။

**ပြယုဂ်**။

ဤသူငယ်သည် ယခုကပင်လျှင် ငါ့ကို အကျွမ်းတဝင် ရန်ကြမ်း**မည့်** လက္ခဏာရှိ၏။

**ကြိယာဝိသေသနပုဒ်စု**။ ။မိုးကြောင့် အဝတ်စိုသည်—ဟူသော ဝါကျ၌ 'မိုး' သည် အဝတ်စိုခြင်း၏ အကြောင်းဖြစ်ကြောင်းကို 'ကြောင့်' နောက်ဆက်က ပြသည်။

မိုးရွာသောကြောင့် အဝတ်စိုသည်-ဟူသော ကြိယာနှစ်ခု ဝါကျ၌ကား 'မိုးရွာသောကြောင့်' ဟူသော ပုဒ်စုသည် အဝတ်စိုခြင်း၏ အကြောင်း ဖြစ်၏။ 'ကြောင့်' နောက်ဆက်ကို 'မိုး' ဟူသော နာမ်နောက်က တွဲသကဲ့သို့ 'မိုးရွာသော (သည်)' ဟူသော ပုဒ်စုနောက်ကလည်း တွဲနိုင်သည်။ သို့ဖြစ်၍ 'မိုးရွာသောကြောင့်' ဟူသော ရှေ့ပြေး ပုဒ်စုသည် 'စိုသည်' ဟူသော အဆုံးသတ်ကြိယာနှင့် အကြောင်း ပြရာ၌ ကြိယာဝိသေသနသဘော သက်ရောက်သည်။

အောက်ပါ ပြယုဂ်အသီးအသီး၌လည်း ကြိယာ ဝိသေသန သဘော သက်ရောက်သော ရှေ့ပြေးပုဒ်စုသည် အဆုံးသတ်

ကြိယာနှင့် မည်သည့်အနက်၌ သက်ဆိုင်သည်ကို ကွင်း အတွင်းရှိ မှတ်ချက်ဖြင့် သိနိုင်သည်။

သဌေးကြီး သေခဲ့သည်ရှိ**သော်** ရွှေငွေ ဥစ္စာ ကျန် နွား **စသည့်** ပရိက္ခရာတို့ကို မင်းကြီးလျှင် ရလေသတည်း။ (**'သော်'** နောက်ဆက်ဖြင့် အချိန်ကာလကို ပြသည်။)

မြေနိမ့်**ရာ** လှံစိုက်။ (**'ရာ'** နောက်ဆက်ဖြင့် နေရာကို ပြသည်။)

သူငယ် နှစ်ယောက်ကို သူ မသိ**အောင်** ဖျောက်လေ။ (**'အောင်'**နောက်ဆက်ဖြင့် အကျိုး မျှော်သည်ကိုပြသည်။)

ထိုမိန်းမကိုရ**မှ** ဤအိမ်က ငါထမည်။ (**'မှ'** နောက်ဆက်ဖြင့် စည်းကမ်း သတ်မှတ်ခြင်းကို ပြသည်။)

သူသည် ငါ့ကို ခေါ်**သော်လည်း**၊ ငါမသွား။ (**'သော်လည်း'** နောက်ဆက်ဖြင့် ဆန့်ကျင်ဖက်ကို ပြသည်။)

မင်းသမီးကို ကောင်းမွန်စွာ ငါလုပ်ကျွေးပါ**သကဲ့သို့** ငါ့ကိုလည်း အဆွေ လုပ်ကျွေးပါဦး။ (**'ကဲ့သို့'** နောက်ဆက်ဖြင့် နှိုင်းဆ ဖော်ပြခြင်းကို ပြသည်။)

သမင်ကို ရှာ**လျက်** ငါသွား၏။ (ကြိယာ နှစ်ခုကို တပြိုင်နက် ပြုကြောင်းကို **'လျက်'** နောက်ဆက်က ပြသည်။)

ငှက်လင်းတ တခုသည် သားတစ်ကို ချီ**၍** နန်းတော်တွင် နားလာသည်။ (**'ချီ'** ကြိယာကို ပြုလုပ်ပြီးမှ **'နား'** ကြိယာကို ပြုလုပ်ကြောင်းကို **'၍'** နောက်ဆက်က ပြသည်။)

**စကားဆက်။** ။ဝါကျနှစ်ခုကို ဆက်ပေးသော စကားဆက်။

သူနာသည် အတော်အတန် သက်သာ လာပြီ၊ **သို့သော်လည်း** ထမင်း မစားရသေး။ (ဆန့်ကျင်ဖက် သဘော)

သူလာသည်၊ **သို့ရာတွင်** ငါနှင့် မတွေ့။ (ဆန့်ကျင်ဖက်သဘော)

မိုးရွာ နေသည်။ **သို့ဖြစ်၍** သူတို့ မလာကြ။ (အကြောင်းပြ)

မောင်ဘ ကျောင်းပြေးသည်၊ **ထို့ကြောင့်** စာမေးပွဲ မအောင်။ (အကြောင်းပြ)

သမ္ဗန်ငယ်ကို ရွက်တိုက်၍၊ **သို့မဟုတ်** ထိုး ခတ်၍ ကူးပို့ကြသည်။ (တခုမဟုတ် တခု ပြုလုပ်သည်ကို ပြသည်။)

**ထပ်ဆင့်စကားဆက်။** ။အောက်ပါ စကားလုံးတို့ကို နှစ်ခါဖြစ်စေ၊ နှစ်ခါမက ဖြစ်စေ ထပ်ဆင့် သုံးနိုင်သည်။

**လည်း။** ။အကျုံးဝင်သည့် သဘော သက်ရောက်သည်။

ကျားကို**လည်း** ကြောက်ရ၊ ကျားချေးကို**လည်း** ကြောက်ရ။

နာ**လည်း** လုပ်ကျွေး၊ သေ**လည်း** သင်္ဂြိုဟ်ပို့။

နီးစွာ**လည်း** မထားအပ်၊ ဝေးစွာ**လည်း** မခွာအပ်။

ညှို့လွန်းလျှင်**လည်း** မကောင်း၊ ထက်လွန်းလျှင်**လည်း** မကောင်း။

အဘယ်ကြောင့် ငို**လည်း**ငို၊ ရယ်**လည်း** ရယ်သနည်း။

**လည်းကောင်း(ငှင်း)။** ။'လည်း'ကို 'ကောင်း' ဖြင့် လေးနက်စေသော စကားလုံး ဖြစ်သည်။ အကျုံးဝင်သည့် သဘော သက်ရောက်သည်။

ဤအမဲကင်ကို လူသည်ငှင်း၊ ခွေးသည်ငှင်း စွန့်ပစ်လေပြီ။

ညီတော်သည် နောင်တော် ပြုကျင့်သည်ကို ငှင်း၊ ခမည်းတော်သည် ရဲမက်တော် အမှုထမ်းတို့ကို အပေးအကမ်း နည်းသည်ကိုငှင်း နှလုံးနာ၏။

**သော်လည်း။** ။ဖော်ပြထားသည်တို့တွင် တခုမဟုတ် တခု ပြုမှုဖြစ်ပျက်ခြင်းအနက်ကို ပြသည်။

ရွှေထီး ရွှေနန်းကို**သော်လည်း** ပေးအပ်မည်လော၊ စစ်ပွဲ**သော်လည်း** ပြိုင်ဆင်မည်လော။ ကဲ့ရဲ့**သော်လည်း** ကဲ့ရဲ့လတ္တံ့။ သတ်**သော်လည်း** သတ်လတ္တံ့။

**သော်လည်းကောင်း။** ။'သော်လည်း' ကို 'ကောင်း' ဖြင့် လေးနက်စေသော စကားလုံး ဖြစ်သည်။ ဖော်ပြထားသည်တို့တွင် တခုမဟုတ် တခု ပြုမှု ဖြစ်ပျက်ခြင်း အနက်ကို ပြသည်။

သား**သော်ငှင်း**၊ သမီး**သော်ငှင်း** တယောက်ယောက် သေ၏။

သူတပါးတို့ ဆောင်ရွက်**သော်ငှင်း**၊ မဆောင်ရွက်**သော်ငှင်း** ငါသည် မချွတ်မလွဲ ဆောင်ရွက်ပေအံ့။

**ဖြစ်စေ။** ။ဖော်ပြထားသည်တို့တွင် တခု မဟုတ် တခု ပြုမှု ဖြစ်ပျက်ခြင်းအနက်ကို ပြသည်။

မြေပြန့်**ဖြစ်စေ**၊ ကုန်းမြေ**ဖြစ်စေ**၊ တောင်**ဖြစ်စေ** တကွက်တရပ် လစ်လပ်သည် မရှိ။

မြို့သို့ ဝင်သည်**ဖြစ်စေ**၊ မဝင်သည်**ဖြစ်စေ** အလိုရှိရာသို့ သွားနိုင်ပါသည်။

**ကြိယာ နှစ်ခု မက ဝါကျကို ပုဒ်ခွဲပြခြင်း။** ။

ပေါလဇနကမင်းထံ ခစား ထမ်းရွက်ဘူးသော အမှုထမ်း အမတ် သူရဲတို့သည်ငှင်း(၁)၊ ထိုမှတပါး ပေါလဇနကမင်းကို မြတ်နိုးကုန်သော အမတ်သူရဲတို့သည်ငှင်း (၂) အိမ်ရှေ့မင်း ချီလာကြောင်းကို ကြားလျှင်ပင် (၃)၊ မိမိတို့၌ ရှိသော ဆင် မြင်း စသည့် လက်နက်နှင့်တကွ မြို့မှ ထွက်လာလတ်၍

(၄)၊ ပေါလဇနကမင်းထံ ဝင်စားလာကြကုန်၏ (၅)။

........အမှုထမ်း အမတ် သူရဲတို့သည်ရှင်း (၁) ၊........ အမတ်သူရဲတို့သည်ရှင်း (၂) ၊........ကြားလျှင်ပင် (၃) ၊........ထွက်လာလတ်၍ (၄) ၊........ဝင်စား လာကြကုန်၏ (၅) ဟူ၍ ကတ္တား နှစ်ခု၊ ကြိယာ သုံးခုတို့က ပြသော ဝါကျလမ်းကြောင်းသည် ထင်၏။

'ကြားလျှင်ပင်' (၃) သည် 'ထွက်လာလတ်၍ '(၄) နှင့်အချိန်ပြ အနက်၌ သက်ဆိုင်၏။ ထွက်လာလတ်၍ (၄) ဟူသော ကြိယာကို ပြုလုပ်ပြီးမှ 'ဝင်စားလာကြကုန်၏' (၅) ဟူသော အဆုံးသတ်ကြိယာကို ပြုလုပ်ကြောင်း '၍'နောက်ဆက်က ပြသည်။

**အပိုင်း ၁။** ။'ပေါလဇနကမင်းထံ ခစား ထမ်းရွက် ဘူးသော' သည် 'အမှုထမ်း အမတ်သူရဲတို့' ကို ထူးခြားစေသော နာမဝိသေသနပုဒ်စု ဖြစ်သည်။ ယင်း၌ 'ခစား ထမ်းရွက်ဘူး'ဟူသော ကြိယာ ပါသည်။ 'ပေါလဇနကမင်းထံ'သည် နေရာပြသောပုဒ် ဖြစ်သည်။

**အပိုင်း ၂။** ။'ထိုမှတပါး ပေါလဇနကမင်းကို မြတ်နိုးကုန်သော' သည် 'အမတ်သူရဲတို့' ကို ထူးခြားစေသော နာမဝိသေသနပုဒ်စုဖြစ်သည်။ ယင်း၌ 'မြတ်နိုး' ဟူသော ကြိယာ ပါသည်။ 'ပေါလဇနကမင်းကို' သည် 'မြတ်နိုး' ကြိယာ၏ ကံဖြစ်သည်။ 'ထိုမှတပါး'သည် ကြိယာဝိသေသန ဖြစ်သည်။

**အပိုင်း ၃။** ။'အိမ်ရှေ့မင်း ချီလာကြောင်းကို' သည် 'ကြား' ကြိယာ၏ ကံပုဒ်စု ဖြစ်သည်။ ယင်း၌ 'အိမ်ရှေ့မင်း' သည် ကတ္တား၊ 'ချီလာ' သည် ကြိယာ ဖြစ်သည်။ 'လျှင်' သည် 'ကြား' ကြိယာ နောက်က ကာလနောက်ဆက် ဖြစ်သည်။ 'ပင်'သည် လေးနက်စေသော စကားလုံးတည်း။

**အပိုင်း ၄။** ။'မိမိတို့၌ ရှိသော' သည် 'ဆင်မြင်း စသည့် လက်နက်' ကို ထူးခြားစေသော နာမဝိသေသန ပုဒ်စု ဖြစ်သည်။ ယင်း၌ 'ရှိ' ကြိယာ ပါသည်။ 'မိမိတို့၌' သည် နေရာပြပုဒ် ဖြစ်သည်။ 'နှင့်တကွ' သည် တပါတည်း အနက်ရှိသော စကားစု ဖြစ်သည်။ 'မြို့မှ' သည် ထွက်ခွာရာပြသောပုဒ် ဖြစ်သည်။

**အပိုင်း ၅။** ။'ပေါလဇနကမင်းထံ' သည် နေရာပြပုဒ် ဖြစ်သည်။ 'ဝင်စားလာကြကုန်၏။'သည် အဆုံးသတ်ကြိယာ ဖြစ်သည်။

**ဦးဖေမောင်တင်**

**မြန်မာ အငြိမ့် မင်းသမီးများ။** ။အငြိမ့် ဆိုသည်မှာ အဆို အတီး အက သုံးမျိုး ရောစပ်ထားသော သဘင်တမျိုး ဖြစ်သည်။ကြည့်ရ ကြားရသူတို့၏ စက္ခုအာရုံသောတအာရုံ၌ ငြိမ့်ငြိမ့် ငြောင်းငြောင်း ရှိစေသော အဆို အတီး အကမျိုး ဖြစ်သဖြင့် အငြိမ့်ဟု ခေါ်ကြောင်းဖြင့် ဆိုကြသည်။ ဆိုသူ တီးသူ ကသူ အားလုံးသည် ယဉ်ကျေးစွာ ဆိုကြ၊ တီးကြ၊ ကကြရပြီးလျှင် အိန္ဒြေရရ သိမ်သိမ် မွေ့မွေ့ နူးနူး ညံ့ညံ့ ငြင်ငြင် သာသာ ကပြ သီဆိုကြရသဖြင့် အလွန် သိမ်မွေ့ နူးညံ့သော သဘင်တရပ် ဖြစ်သည်။ မြန်မာဇာတ်သဘင် ကဲ့သို့ အဆို အတီး အက အငို အသော အလွမ်း စသည်တို့ကို စုပေါင်း၍ ဇာတ်၊ လုပ်ဇာတ်၊ ဗုဒ္ဓဝင်၊ ရာဇဝင်၊ မဟာဝင်နှင့် နိပါတ်တော်လာများ သရုပ် ဆောင်ရခြင်းမျိုး မဟုတ်ဘဲ၊ ဆိုခြင်း၊ တီးခြင်း၊ ကခြင်းမျှသာ ဖြစ်ရာ စက္ခုအာရုံ၌ရော သောတအာရုံ၌ပါ နားဝင်ပီယံ ဖြစ်ကာ၊ ကြည်လင် ရွှင်ပြ၍ ချမ်းမြေ့နှစ်ခြိုက်စရာများကို ဖန်တီး ပေးနိုင်စွမ်းရှိသည့် သဘင်ပညာ တမျိုးဟု ဆိုရပေမည်။ ထို့ကြောင့် မြန်မာ ဆေးဆရာကြီးများသည် သွေးပျစ်၍ အေးသောသူ၊ သွေးကျဲ၍ မူးသောသူ၊ သည်းခြေနာသမား များအား စောင်းကောက် အငြိမ့်ဖြင့် ငြိမ့်ငြိမ့်ကလေး ကပြ သီဆို ကုသကြောင်းဖြင့် သဘင်ဝန် ဦးနုက သူ၏ မှတ်တမ်းတွင် ဆိုထားလေသည်။ အခြားအကသဘင်များနှင့် မတူသည့် အငြိမ့်၏ ထူးခြားချက် တရပ်မှာ မင်းသားဟူ၍ လုံးဝ မပါခြင်းပင် ဖြစ်သည်။

အငြိမ့်ကို နှစ်မျိုးနှစ်စား ခွဲနိုင်သည်။ ထိုင်ဆို အငြိမ့်နှင့် တပင်တိုင်အကအငြိမ့် ဖြစ်သည်။

ထိုင်ဆို အငြိမ့်သည် ရှေးဦးပေါ်ပေါက် သော အငြိမ့်မျိုး ဖြစ်သည်။ ယင်းကို နန်းတွင်း ဧည့်ခံဖျော်ဖြေမှုများ၌ တွေ့ရသည်။ ထိုနောက် တပင်တိုင် အကနှင့် တွဲဖက်ဖြေဖျော်ရာမှ တပင်တိုင်အကအငြိမ့် ပေါ်လာခြင်း ဖြစ်သည်။ ပုဂံ အာနန္ဒာ အုတ်ကျောင်းအတွင်းရှိ ကုန်းဘောင်ခေတ် ပန်းချီလက်ရာဖြစ်သော ပုံတပုံတွင် မိကျောင်းတုရိယာကို တဦးက တီး၍ အခြားအမျိုးသမီး နှစ်ဦးက ကပြ နေကြဟန်ကိုင်၊ ပုဂံမြို့ စူဠာမဏိဘုရားမှ ကုန်းဘောင်ခေတ် ပန်းချီဆေးရေး ရုပ်တခု၌ ပုံတလုံး၊ လေမှုတ်ကရိယာ တခု၊ ခတ်စည်း တစုံ၊ စောင်းတလက်နှင့် ကပြနေဟန်ကိုင်၊ မင်းတုန်းမင်းကြီး၏ ပုရပိုက်ဖြူတွင် ပါသော ပန်းချီကားချပ် တခုတွင် မိဖုရား၊ သို့မဟုတ် မင်းသမီးတပါးအား အနီးမှ အပျိုတော် တဦးက နှိပ်နယ်နေ၍၊ ရှေ့တော်၌ အမျိုးသမီးတဦးက စောင်းတီးလျက်၊ တဦးက လက်ခတ်စည်းကိုတီးကာ၊ တဦးက ကပြနေဟန်ကိုင်း တွေ့ရခြင်းကိုထောက်၍ အငြိမ့် နှစ်မျိုးစလုံးသည် မြန်မာမင်းများ လက်ထက်ကပင် ရှိခဲ့သည်ဟု ယူဆ



ပုဂံ အာနန္ဒာ အုတ်ကျောင်း နံရံမှ ဆေးရေး အငြိမ့်ကဟန်

ဖွယ် အကြောင်းရှိသည်။ သို့ရာတွင် တိတိကျကျ အားဖြင့် မည်သူမည်ဝါသည် မည်သည့် အတီးတော်နှင့် တွဲဖက်၍ မည်ကဲ့သို့ ကပြရသည်ဟူသော မှတ်သား ချက်များ မတွေ့ရှိရသေးသဖြင့် နန်းတွင်းအငြိမ့်ဟူသည် ယောကျ်ားမိန်းမ ထိုင်ဆို တီးဝိုင်းသာ ဖြစ်သည်၊ အကအခုန် မပါဟု အချို့ပညာရှင်များက ရေးသားခဲ့ကြခြင်း ဖြစ်ဟန်တူသည်။

စာပေ ကျမ်းဂန်များ၌မူ တီးမှုတ်ရသော တူရိယာကို လိုက်၍ အငြိမ့်များကို ခွဲထားပြဆိုသည်။ ကုသပျို၌ "ညှင်းနှင့် မိကျောင်း၊ စောင်း အောင်းကလေး၊ ရွှေရေး ပတ္တလား၊ အငြိမ့်များကို" ဟုရင်း၊ နာရဒပျို၌"စောင်း ညှင်း မိကျောင်း၊ အောင်းကလေး တခြား၊ ပတ္တလားနှင့်၊ လက်ဖျား သံနှော၊ တယောဟူသည်၊ ခြောက်မည် ငြိမ့်မျိုး" ဟုရင်း၊ မဃဒေဝ လင်္ကာ၌ "စောင်းညှင်းမိကျောင်း၊ အောင်း ပတ္တလား၊ တယောအားဖြင့်၊ ခြောက်ပါး ငြိမ့်မျိုး"ဟုရင်း ရေးသားခဲ့ကြသည်။ ယင်းသည်ကို ထောက်၍ ၎င်း၊ ဘုရားတန်ဆောင်းဂူကျောင်းများ၌ တွေ့ရသည့် ကုန်းဘောင်ခေတ် ဆေးရေးပန်းချီများကို ထောက်၍၎င်း ကုန်းဘောင်ခေတ် အငြိမ့်များတွင် အပြည့်တီးမှုတ်ပေးသောပုံ၊ လေမှုတ်ကရိယာနှင့် စည်းမှ လွဲလျှင် စောင်းဖြင့်၎င်း၊ မိကျောင်းဖြင့်၎င်း၊ တလက်ကောင်းသာ တီးသည်ဟု ယူဆဖွယ် ဖြစ်သည်။ စောင်း၊ မိကျောင်း၊ ပတ္တလား၊ တယော စသည်တို့သည် ငြင်သာ ငြိမ့်ငြောင်းစွာ အသံထွက်သည့် တူရိယာမျိုးများ ဖြစ်ကြသောကြောင့် ယင်းတို့ဖြင့် အသုံးတော်ခံသော သဘင်ကို အငြိမ့်ဟု ခေါ်ခဲ့ကြခြင်းဖြစ်သည်ဟု ယူသော် ရနိုင်သည်။

ပုဂံခေတ် ဥယျာဉ်တော် ပွဲသဘင်များမှ ထိုင်ဆို အငြိမ့်တို့သည် ကုန်းဘောင်ခေတ်တွင် တပင်တိုင်အငြိမ့် အသွင်သို့ပြောင်းလဲ လာခဲ့သည်ဟု တွေးထင်ဖွယ် ရှိသည်။ နရပတိစည်သူမင်း လက်ထက် သီဟိုဠ်ကျွန်းမှ ကြွရောက်လာသော မထေရ်မြတ်တို့အား ပူဇော်ပွဲသဘင် ကျင်းပရာတွင် ကချေသည် အချို့ ပါဝင်ကပြကြောင်း သိရရာ အငြိမ့်၊ သို့မဟုတ် တပင်တိုင်အက ကဲ့သို့သော အကတမျိုးသည် ပုဂံခေတ်ကတည်းကပင် ပေါ်ပေါက် ခဲ့ဟန် ရှိသလောဟု ယူဆဖွယ် ဖြစ်သည်။ ရှေး အခါက ဘုရင်မင်းမြတ်ထံ ရတု ရကန် မော်ကွန်း စသည်တို့ကို ဆက်သရာ၌ စာတော်ဖတ်၊ သို့မဟုတ် စည်းဝါးပိုင်နိုင်စွာ ဆိုတတ်သူ နန်းတွင်းသူ၊ နန်းတွင်းသားတဦးက အသံနေ အသံထားဖြင့် ဘုရင့်ရှေ့တော်ဝယ် ဖတ်ပြ

ရသည်။ ယင်းသို့ ဖတ်ပြရာတွင် အနီးမှ တဦးက တူရိယာ တခုခုဖြင့် ကူညီ တီးမှုတ်ပေးပြီးလျှင် အခြားတဦးက စည်း လိုက်ပေးရသည်။ များသောအားဖြင့် ဘုရင်များကို ညဥ့် ဦးယံဝယ် ထိုင်ဆိုများဖြင့် ဖျော်ဖြေလေ့ ရှိကြသည်။ ထို ပြင် ကုန်းဘောင်ခေတ်တွင် မြေဝိုင်းအကများ ခေတ်စားလာ ရာ၊ ယင်း အကအဖွဲ့များမှ ထူးချွန်သူ အမျိုးသမီးတို့အား နန်းတွင်း၌ ခစားစေ၍ အပျင်းတော်ပြေစေမှု အတွက် အက အမျိုးမျိုးဖြင့် အပျော်တော် ဆက်စေရာမှ တပင်တိုင်အငြိမ့် များ ပေါ်ခဲ့ဟန်တူသည်။ နန်းရပ်ပွဲသဘင်နှင့် ဥယျာဉ်တော် ပွဲများ၌ရင်း၊ မိဖုရားကြီးငယ်များနှင့် ပင်တိုင်စံမင်းသမီးတို့ ၏ အဆောင်တော်များတွင်ရင်း ယင်းသို့ပင် ထိုင်ဆိုအငြိမ့်၊ တပင်တိုင်အငြိမ့်တို့ဖြင့် ကပြဖျော်ဖြေမှုများ ရှိခဲ့ကြောင်း ကို ကုန်းဘောင်ခေတ် ပန်းချီလက်ရာများအရ သိသာ လေသည်။

ရှေးအခါက အငြိမ့်သဘင်ကို နန်းတွင်း၌သာ ကပြအသုံး တော်ခံလေ့ရှိ၏။ သီပေါမင်း ပါတော်မူပြီးနောက် နန်းတွင်း ၌သာ ကပြခဲ့လေ့ရှိသော အငြိမ့်ပညာသည်များသည် ရုတ် ခြည်း ပြင်ပတွင် ကပြရန် စိတ်မရဲဖြစ်ကြသည်။ ထိုကြောင့် ပညာသည်ကြီးများက လူငယ်ပိုင်းအား သင်ကြားပေးကာ အငြိမ့်ကို ပြန်လည် အသက် သွင်းကြသည်။ ဦးစွာ၌ မြေပြန့်မှာပင် ကစေပြီးလျှင် စောင်းနှင့် ပြွေ တွဲဖက် တီး သည်။ စောင်းကို နတ်ကြီးသည်ဟု ယူဆကာ စင်မြင့် ပေါ်တင် တီးကြသည်။ မြန်မာ မင်းများ ပါတော်မူ၍ မြန်မာသဘင် ပညာသည်များသည်လည်း အလှည့် သင့်ရာ နေထိုင် ရောက်ရှိနေကြရာ စလေ ဦးပုညထံ တပည့်အဖြစ် ခံယူခဲ့သော စာဆိုတော် စောင်းဆရာကြီး ဦးဖေဖူသည် ရန်ကုန်မြို့သို့ ရောက်လာသည်။ ဆရာဖူသည် ရန်ကုန်မြို့၌ ပရိသတ် အလယ်တွင် ကုတင်ကလေးပေါ်၌ ထိုင်ကာ စောင်း တီးပြလေ့ ရှိသည်။ ထိုစောင်းတီးဝိုင်းတွင် တဦးက ထိုင်၍ဆိုကာ အခြားတဦးက ပြွေကို မတိုးမကျယ် မှုတ်ပေး ရသည်။ နောက်မကြာမီ ထိုစောင်းတီးဝိုင်းတွင် လကျ်ာ အဆို လက်ဝဲ အဆိုဟု အဆို နှစ်ဦး ထားကာ သီဆို တီးမှုတ် လာခဲ့သည်။ တဖြည်းဖြည်း စောင်းနှင့်သာ မဟုတ်၊ ပတ္တ လားနှင့်ပါ ဖျော်ဖြေကြသည်။ အငြိမ့်ပတ္တလား တီးဆိုကြ ရာ၌ ပြွေမှုတ်သူနှင့် စည်းကိုင်၍ ဆိုသူမျှသာ ပါသည်။ ထို နောက် ပတ္တလား၊ ဘာဂျာ၊ ပြွေ တွဲ၍၊ ထိုမှတဆင့် ပုံကလေး နှစ်လုံးပါ တွဲလာသည်။ ထိုအခါက ဆရာဖူအပြင် ထင်ရှား သော ထိုင်ဆို အငြိမ့်သဘင် ပညာသည်များမှာ ဂန္ဓာဒေဝ


ဒေါ်စိန်သုံး


ဒေါ်စိန်ဆင်


တက္ကသိုလ် ပြည်သိန်းတင်


ချင်းမလေး အောင်စိန်


ရှမ်းမကလေး စိန်ရင်


ဂျီးဂျာမယ် မခင်သန်း


ဒီးဒုတ် ခင်မြိုင်

ဘွဲ့ခံ ဦးဦးကံ (စောင်း)၊ ဆရာညွန့်(ပတ္တလား)၊ ဦးတက်တူ (ထိုင်ဆိုသံပျက်)၊ ဦးမြတ်ဖြူ(ထိုင်ဆို)၊ ဦးဘာဘူ(ထိုင်ဆို)၊ ဦးသာဒွန်း (ထိုင်ဆို)၊ ဦးကျော်တင် (ထိုင်ဆို)၊ သံစုံဦးရှက် (ထိုင်ပြော) တို့ ဖြစ်သည်။ ယင်းတို့သည် မင်းပွဲ စိုးပွဲ အလှူပွဲများတွင် အသုံးတော်ခံရသော ပုဂ္ဂိုလ်ကျော်များ ဖြစ်ကြလေသည်။

ထိုင်ဆိုများ ရိုးလာသောအခါ ၁၂၅၀ ပြည့်နှစ် ခန့်တွင် အကပါ ထည့်၍ ဖျော်ဖြေကြပြန်သည်။ အငြိမ့်အကသည် နာမည်ကြီး ဇာတ်မင်းသမီး တဦးဖြစ်သော မော်လမြိုင် စိန်ငုံကြီးနှင့် စသည်ဟု ဆိုကြသည်။ မင်းသမီးကိုယ်တိုင် ထကသည်ဟု ဆိုသော်လည်း ကိုယ်တိုင်သီဆိုခြင်းကား မပြုသေးချေ။ အဆိုတော် တဦးက ဘေးမှ သီဆိုပေးရလေသည်။ အငြိမ့်ကသော မင်းသမီးသည် စင်မင်းသမီးရုပ်ကလေးများ ကသကဲ့သို့ ကြိုးမျိုးစုံအောင် ကျကျနန ကရသည်။ အငြိမ့်ထွက်ချိန်မှာ ရှစ်နာရီခန့်မှစ၍ မင်းသမီးသည် တနာရီခန့် ကသည်။ထိုနောက် ထိုင်ဆိုနှစ်ဦးက ၁၁ နာရီတိုင်အောင် ဆိုပြီးလျှင် ၁၁ နာရီမှ ၁၂ နာရီအတွင်း မင်းသမီး ပြန်ထွက်လာ၍ ကလေ့ ရှိသည်။ ၁၂ နာရီတွင် ပွဲသိမ်းသည်။ ထိုခေတ်က ထင်ရှားလာသော အငြိမ့်ဆရာများမှာ ဆရာညီ (စောင်း)၊ ဦးရေကောင်း (ထိုင်ဆို)၊ ဦးကန်သူ(ထိုင်ဆို)၊ ဦးကြာပေါ် (ထိုင်ဆို) စသည်တို့ ဖြစ်ကြသည်။

စိန်ငုံကြီး ခေတ်ကုန်သောအခါ မင်းသမီး စိန်လုံ ခေတ်ထလာသည်။ စိန်လုံ၏ ခေတ်တွင် တပါးသူ သီဆိုပေးသည်ကို ကရခြင်းသည် မင်းသမီးသိက္ခာ ကျသည် ဟု ယူဆ၍လောမသိ၊ မင်းသမီးကိုယ်တိုင် သီချင်းဆို၍ ကလေသည်။ မင်းသမီးတယောက်တည်း သီချင်းဆိုနေရသဖြင့် အမောပြေစေရန်နှင့် ကကွက် ထောက်ပေးရန် လူရွှင်တော် (လူပြက်) တယောက်လည်း ပါလာလေသည်။ ထိုခေတ် တီးဝိုင်းတွင် စောင်းနှင့်ပြွေအပြင် ဝါးပတ္တလားနှင့် ပုံ လေးလုံးကိုပါ ဖြည့်စွက်ခဲ့သည်။ ယခင်အခါများက ပြွေကို တော်သင့်ရုံ မှုတ်သော်လည်း ယခုမူ ပုံ လေးလုံးတွင် ဒိုးလုံးကြီးပါ ထည့်တီးသဖြင့် တကြောင်း၊ ဝါးပတ္တလားသံကြောင့် တကြောင်း အသံချင်းညီမျှစေရန် အသံကျယ်ကျယ်ဖွင့်၍မှုတ်လေသည်။

မင်းသမီး စိန်လုံ ခေတ်ကုန်လျှင် မင်းသမီး စိန်နှဲကြီး တခေတ် ထလာသည်။ စိန်နှဲသည် ကုလားသွေး ပါသူ တယောက်ဖြစ်ရာ ဖာရစီ ကုလားအကတွင် နာမည်အလွန်ကြီးသည်။ မင်းသမီးများသည် မိမိသန်ရာ ကကွက်သို့ ရောက်ရန် လူရွှင်တော် လုပ်သူက အပြောနှင့် ဆွဲယူကြသည်။ ပမာအားဖြင့် လူရွှင်တော် လုပ်သူက မင်းသမီးအား တပြည်မှ တပြည်သို့ သွားရာတွင် ရိုးရိုးအဝတ်အစားနှင့် သွားခဲ့လျှင် ချောမောလှပသောအသွင်သဏ္ဌာန်ကြောင့် ဘေးအန္တရာယ် ဖြစ်ဖွယ် မြင်သဖြင့် တောသမ်းခရီး၌ ဘေး အန္တရာယ် လုံခြုံစေရန် ဖာရစီကုလားမကလေးကဲ့သို့ ဝတ်စား သွားပါဟု တောင်းပန် လိုက်ရသည်။ ထိုအခါမှ မင်းသမီးက ဖာရစီ အဝတ် ဝတ်ကာ ဖာရစီ ကကွက်ကို ကလေသည်။ မင်းသမီး စိန်နှဲ ခေတ်မှ စ၍ မြန်မာ အငြိမ့်သဘင် လောကတွင် ကုလားမ အကများ ခေတ်စား လာခဲ့သည်ဟု ဆိုကြသည်။ ယင်းသို့ဖြင့် နှောင်းခေတ် အငြိမ့်မင်းသမီးများသည် မိမိပိုင်နိုင်ရာဖြစ်သော ဇော်အက၊ ကရင်အက စသည်ဖြင့် ထွင်၍ ကပြလာကြသည်။

စင်ပေါ်တွင် လူရွှင်တော် (လူပြက်) နှင့် မင်းသမီးများ မြိုင်မြိုင်ဆိုင်ဆိုင် ဖြစ်လာသောအခါ အငြိမ့်ထွက်ပုံ တမျိုးခန့်လာသည်။ မင်းသမီးသည် ဝတ်စား ဆင်ယင်ပြီး၍ ပွဲထွက်ချိန် နီးကပ်လာသည်နှင့် တပြိုင်နက် တီးဝိုင်းရှေ့သို့ လာကာ ပရိသတ်ကို ကျောခိုင်းလျက် တီးဝိုင်းကို မျက်နှာမူထိုင်ရသည်။လူရွှင်တော်များက လေပြေထိုး ခွန်းဆင့်ဖြင့် မင်းသမီးကို ခေါ်သံဆုံးသောအခါ မင်းသမီးသည် ကြေးဝိုင်းနှင့် ပတ္တလား အကြား အငြိမ့်စင်၏ ဝဲဖက်မှ ထွက်လာကာ ယာဖက်ဆီသို့ လာရရိုးထုံးစံ ရှိသည်။ ပဌမ ဦးစွာ ပဏာမကန်တော့ပန်း ဆင်ခြင်း၊ တေး သီဆိုခြင်း၊ ပရိသတ် နှင့် မိတ်ဆက်ခြင်းများ ပြုပြီးနောက်၊ နောက်ဖက်မှ ငြိမ့်ငြောင်းစွာ တီးမှုတ်ပေးနေသည့် တူရိယာသံ အလိုက် ယဉ်ကျေးသိမ်မွေ့စွာ ကပြ အသုံးတော်ခံလေသည်။

စိန်နှဲနောက် ရုပ်ရည် ချောမောလှပသည့် အပြင် အသံလည်းကောင်း အကလည်း ကောင်းသော မင်းသမီး မစိန်ညွှာ ခေတ်စားလာသည်။ မစိန်ညွှာ၏ ခေတ်တွင် ကကြိုးကကွက် အနေဖြင့် တိုးတက်မှု မရှိသော်လည်း တီးဝိုင်းအနေနှင့် ပြောင်းလဲတိုးတက်မှု ရှိခဲ့သည်။ ထိုအချိန်က လက်ဆွဲဘာဂျာများပေါ် ပေါက်နေပြီဖြစ်သဖြင့် တကြောင်း၊စောင်းသံထက် လက်ဆွဲဘာဂျာသံသည် ပိုမိုစူးသဖြင့် တကြောင်း၊ ပိုမိုမြိုင်သဖြင့် တကြောင်း စောင်းအစား လက်ဆွဲဘာဂျာကိုသုံး၍ ပုံကိုလည်း ခြောက်လုံးအထိ တိုး၍ အသုံးပြုသည်။ ထို့ပြင် စည်တိုကိုလည်းထည့်၍ တီးသည်။ မင်းသမီး စိန်ညွှာကြီးနောက်တွင် စိန်အေးမေနှင့် စိန်မာတို့သည် တဦးပြီး တဦး ခေတ်စားလာသည်။ မင်းသမီး မော်လမြိုင် စိန်ငုံကြီးမှ စိန်မာအထိ စောင်းဆရာ ဦးဖေဖြူထောင်သော အငြိမ့်ဟု ဆိုကြသည်။ထိုနောက်အငြိမ့်အဖွဲ့များ များပြားလာသည်။ တဖွဲ့တဖွဲ့တွင်လည်း မင်းသမီးတလက်သာ မဟုတ် နှစ်လက် ပါဝင်လာသည်။

ယင်းသို့ မော်လမြိုင် အငြိမ့်မှ စ၍ အငြိမ့်အတော်များများ ရန်ကုန်တွင် ခေတ်စား လာသောအခါ ရန်ကုန်မြို့ခံ အငြိမ့်ဆရာများသည် မော်လမြိုင်အငြိမ့်ထက် သာသော အငြိမ့်ထောင်ရန် တိုင်ပင်ပြီးလျှင် ပုဇွန်တောင် ရေကျော်ချပ်မှ ဖျတ်ဖျတ်လတ်လတ်ရှိသော မပုဆိုသူ အမျိုးသမီးကလေး

ကို သင်ကြားပေးပြီးနောက် ရေကျော်စိန်ပု အမည်နှင့် အငြိမ့်ထောင်ကြသည်။ ရေကျော်စိန်ပု အငြိမ့်တွင် မင်းသမီးနှစ်လက်ဖြစ်သဖြင့် နှစ်ပါးသွားခန်းများ ပါလာသည်။ အခြား အငြိမ့်ထက်ပို၍ သာအောင်လည်း လူရွှင်တော်နှစ်ယောက်ပါ ထည့်သည်။ လူရွှင်တော် တောင်စဉ်နှင့် ညှပ်ကြီးတို့သည် ရေကျော်စိန်ပု အငြိမ့်တွင် ပါဝင်သူများဖြစ်ကြသည်။ လူရွှင်တော်များသည်အင်္ကျီမပါ၊ခေါင်းပေါင်းပုခုံးတင်၊ပုဆိုးခါးပုံထိုး၍ ရောင်ထုံးထားကြသည်။ထိုခေတ် လူရွှင်တော် ပြက်လုံးသည် ခါးအထက် မနိမ့်ကြရချေ။ မင်းသမီးနှစ်လက်သည် တဦးစီထွက်၍ကပြီးနောက် နှစ်ပါးသွားခန်း ကကြသည်။ ထိုမျှသာမက ဇာတ်ထုပ် ဇာတ်ကွက်ယောင်ယောင် တိုးချဲ့၍ ဖျော်ဖြေ ကပြကြသည်။ အငြိမ့်အဖွဲ့များ များပြားလာသောကြောင့် တဦးထက်တဦးပို၍ ကောင်းစေလိုသည့် စိတ်ဓာတ်ဖြင့် ချဲ့ထွင်လာကြဟန် တူသည်။ ရေကျော်စိန်ပုသည် ၁၂ နှစ် ၁၃ နှစ်အရွယ် ဇိုးဇိုးဇတ်ဇတ် ပြောတတ် ဆိုတတ် ကတတ်၍ ယဉ်ကျေးပိပြားလှသည် မဟုတ်သော်လည်း ငယ်ဂုဏ်ကြောင့် ပရိသတ်က မေတ္တာ ထားကြသည်။ ရေကျော်စိန်ပု အငြိမ့်ကို မန္တလေးမြို့မှ ရန်ကုန်သို့ ဆင်းလာသည့် လူရွှင်တော် ဦးချစ်ဖွယ် တည်ထောင်သည်ဟု အချို့က ဆိုကြ၍ အချို့ကရေကျော်စိန်ပု အငြိမ့်ထောင်ပြီး နောက်တနှစ်ကျမှ ဦးချစ်ဖွယ်နှင့် ကသည်ဟု ဆိုကြလေသည်။

ဦးချစ်ဖွယ်သည် ထင်ရှားသော လူရွှင်တော်သာမဟုတ်၊ အငြိမ့်ထောင်သူလည်း ဖြစ်သည်။ (ချစ်ဖွယ်၊ ဦး — ရှု။) ဦးချစ်ဖွယ်၏ ပဌမဇနီး ဒေါ်စိန်ကျော့သည်၎င်း၊ဒုတိယဇနီး ဒေါ်စိန်သုံးသည်၎င်းနာမည်ကျော်အငြိမ့်မင်းသမီးကြီးများ ဖြစ်ကြသည်။ (စိန်သုံး၊ ဒေါ် — ရှု။)ဒေါ်စိန်သုံးသည် အဆိုအက ပျော့ပျောင်း ညက်ညော၍ ယဉ်ကျေး သိမ်မွေ့ အိန္ဒြေရသူ ဖြစ်သဖြင့် ဒေါ်စိန်သုံး၏အငြိမ့်ကို အရွယ်သုံးပါး နှစ်သက်ကြသည်။ ဒေါ်စိန်သုံးသည် အသက်ကလေး ထောက်လာသောအခါ အငြိမ့်မကတော့ဘဲ ထိုင်ဆိုအငြိမ့်ကြီး ဖွဲ့ကာ အသုံးတော်ခံရာ သုမင်္ဂလာ အခမ်းအနားများက မရမက ငှားကြရသည်အထိ ကျော်ကြားသည်။ ဦးချစ်ဖွယ် ဒေါ်စိန်သုံးအငြိမ့် ကျော်ကြားခြင်းသည် ဒေါ်စိန်သုံး၏ အကညက်၍သာ မဟုတ်၊ ဦးချစ်ဖွယ်၏ ကာလ ဒေသ ပယောဂနှင့် လိုက်လျောညီစွာ ကဗျာလင်္ကာနှင့် နဘေထပ်များကို ပရိသတ်စွဲလောက်အောင် ရွတ်ဆိုနိုင်မှုနှင့် တီထွင်ဉာဏ် ကောင်းမှုကြောင့်ဖြစ်သည်ဟု ဆိုရပေမည်။ မြန်မာနိုင်ငံတွင် အငြိမ့်ပွဲများကို ပတ္တလားဝိုင်းများဖြင့် ကပြလေ့ ရှိရာမှ စန္ဒရားဝိုင်းနှင့် တွဲဖက်သော အငြိမ့်များ ပေါ်ပေါက်လာခြင်းမှာ



ယူနီဗာစိတီ မြသန်းကြည်



တလိုင်း မမြကြင်



လေဘာတီ မမြရင်

ဦးချစ်ဖွယ်၏ ကြိုးစား အောင်မြင်မှုပင် ဖြစ်သည်။ စန္ဒရား အငြိမ့်များ မည်မျှ ခေတ်စားလာသနည်းဟူမူ အငြိမ့်အဖွဲ့ အမည်များတွင် စန္ဒရားဟူသောစကား ထည့်သုံးကာ စန္ဒရား မမကြီးအငြိမ့်၊ စန္ဒရားမမြရီအငြိမ့် ဟူ၍ပင် ပေါ်ပေါက်လာ ခဲ့လေသည်။

စန္ဒရားမမကြီး အငြိမ့်တွင် စန္ဒရား တီးသူမှာ မမကြီးဖြစ် သည်။ မမကြီးသည် ရွာစားကြီး စိန်ဗေဒါ၏အကို ဆိုင်း ဆရာကြီး ဆရာစိမ့်၏ သမီး ဖြစ်သည်။ အဒေါ်ဖြစ်သူမှာ လည်း နာမည်ကျော် အငြိမ့်မင်းသမီး ဒေါ်ငွေလှိုင် ဖြစ် သည်။ စန္ဒယားမမကြီးအငြိမ့်မှ ခေါင်းဆောင် မင်းသမီးမှာ မစိန်ဥ ဖြစ်သည်။ မစိန်ဥသည် နောင် ခင်ပွန်းသည်ဖြစ်သူ ဦးချစ်မောင်နှင့်အတူ ၁၂ဂဂ ခုနှစ်ခန့်တွင် မြန်မာညွန့် အငြိမ့် အဖွဲ့ကို ထောင်လေသည်။ မစိန်ဥကား မြန်မာနိုင်ငံ လွတ် လပ်ရေးရသောခေတ်တွင် ပန်တျာမှူးမှန် ပြုပြင်ရေး အဖွဲ့ဝင် ဒေါ်အောင်ကြည် ဖြစ်သည်။ မြန်မာညွန့်အငြိမ့် ထောင်စဉ် က ပါဝင်သော မင်းသမီးများမှာ နေပြည်တော် မြရီ၊ ဗား မင်းနီးယား မြသီ၊ ဥသြမယ်တင့်တို့ ဖြစ်ကြသည်။ မြန်မာ ညွန့်အငြိမ့်မှ စ၍ အတီးဆရာများ၊ စာရေးဆရာများကိုယ် တိုင် ဇာတ်စင်ရှေ့တွင် ထွက်၍ တီးမှုတ် သီဆိုရသော စံနစ် ကို တီထွင်ခဲ့သည်ဟု ဆိုသည်။ ထိုစဉ်က ထက်အောက် ညာ ကြေ ကျော်ကြားသော အငြိမ့် မင်းသမီးများမှာ အိန္ဒိယ မစိန်မှုံ၊ မစိန်ဆင်၊ မစိန်တင်၊ မစိန်မြိုင်၊ မစိန်လှိုင်၊ မစိန်ချစ်၊ မစိန်လွင်၊ ဗိလတ်ပြန်စိန်တင်၊ ယုဇနအေးစိန်၊ ပေါ်လင်းတင်၊ အာဝါဒေး မမြတင်၊ ချင်းမကလေး အောင်စိန်၊ ပလိုတီယာ မသိန်း၊ ရွှေခြေကျင်း မသန့်စင်တို့ ဖြစ်ကြသည်။

အငြိမ့် မင်းသမီးများသည် အိန္ဒြေရရ လေးလေးတွဲ့တွဲ့ ကကြရာမှ အိန္ဒိယ စိန်မှုံခေတ် ရောက်လာသောအခါ ဇိုးဇိုး ဇတ်ဇတ် စ ကရုံမက၊ ဇာတ်ခုံ၏ လက်ဝဲ လက်ျာဒေါင့် မကျန် ပရိသတ်များကို ချိုရှင်သော မျက်နှာထားပေး၍ ကစ ပြု သည်။ လူရွှင်တော်နှင့် မင်းသမီး အော်လိုက် ငေါက်လိုက် ယပ်တောင်နှင့် ရိုက်လိုက် စသည့် အလေ့များလည်း စခဲ့ သည်ဟု ဆိုကြသည်။ မစိန်ဆင်မှာမူ ယောကျ်ားလို စဝတ်၍ အိုးစည်တီး အကတွင် အလွန်ကောင်းသူ ဖြစ်သည်။ (စိန် ဆင်၊ ဒေါ်—ရှု။) ယုဇနအေးစိန်တို့ခေတ် ရောက်သော အ ခါ မင်းသမီးသည် ပြုံးရုံမက ကြာပါပါ သီချင်းဆိုကာ မေး ထိုးပြီးလျှင် မျက်စ ကို ဗယ်တဖက် ညာတဖက် ပစ်၍ ကခဲ့ လေသည်။ ထိုခေတ်က အောက်လင်းဓာတ်မီး မပေါ်သေး သဖြင့် လက်ဆွဲမှန်အိမ်များ ထွန်း၍ ကရလေရာ မင်းသမီး ကြာပစ်ပုံကို ပရိသတ် သဲသဲကွဲကွဲ မမြင်ရမည် စိုးသော ကြောင့် လက်ဆွဲမှန်အိမ်ကို ဖွင့်တ်၍ မျက်နှာအနားကပ်ကာ ကိုင်မြှောက်ပြကြသည်ဟု ဆိုသည်။ ပရိသတ် အလွန် စွဲမက် ကြသဖြင့် ကြာသီချင်းနှင့် ကြာပေးခြင်း ခေတ်စားလာ သည်။ ယုဇနအေးစိန်ကား ကြာသီချင်းနှင့်ကြာပေးခြင်းကို စတင်ခဲ့သူ ဖြစ်သည်။ ရွှေခြေကျင်း မသန့်စင်သည် အိန္ဒိယ နိုင်ငံ ဒေလီမြို့တော်သို့ သွားရောက် ကပြရာမှအပြန် ဒေလီ ညွန့်ဟူသော အမည်ကို ခံယူသည်။ ဒေလီညွန့်သည် လွတ်



ဖက်ရှင် မအောင်ငွေ

လပ်ရေးရသည့်ခေတ်တွင် ပန်တျာကျောင်း၌ အဆိုနည်းပြ ဆရာမကြီး အဖြစ် ဆောင်ရွက်ခဲ့လေသည်။

ရန်ကုန် ရေကျော် စိန်ပု အငြိမ့် နာမည်ကျော်သဖြင့် မန္တလေးမြို့ လက်ဝှေ့နာမည်ကျော် ကိုပေါ်လှိုင်က သူ၏ သမီးကလေးကို ဆီကြော် စိန်ပုဟု အမည်ပေးကာ အငြိမ့် ထောင်၍ ရန်ကုန်သို့ ဆင်း အသုံးတော်ခံသည်။ သို့ရာတွင် ရေကျော်စိန်ပုလောက် ပရိသတ်မစွဲချေ။ ထိုခေတ်က အငြိမ့် များကို လူကြိုက်များ၍ ခေတ်စားသောကြောင့် သူထက် ငါ ထောင်ကြရာ တရုပ်ကလပ်များတွင် အငြိမ့် မပြတ်မလတ် ကပြကြရသည်။

အငြိမ့်အဖွဲ့များ များပြားလာသလောက် အငြိမ့် တီးဝိုင်း များ၌လည်း တူရိယာများ တိုးသည်ထက် တိုးလာသည်။ ၁၂၆၅ ခုနှစ်ခန့်တွင် ပုံခြောက်လုံးနှင့် စည်တို အပြင် စာခွန့် ထည့်သွင်း၍ တီးလာသည်။ စာခွန့်နှင့် တွဲဖက်ဖြစ်သော လင်း ကွင်းပါ ထည့်၍ လာလေသည်။ ယခင်က ခတ်စည်းကိုသာ အသုံးပြုခဲ့သော်လည်း စာခွန့်နှင့် လင်းကွင်းကို မှိုင်မှိုင် ဆိုင်ဆိုင် တီးသောအခါ ခတ်စည်း၏အသံ မြုတ်နေသော ကြောင့် ဆိုင်းစည်းဟု ခေါ်သော ရိုက်စည်းခေါ် သံလွင် စည်းကို အသုံးပြုလာကြသည်။ အငြိမ့်အဖွဲ့များ များပြား လာသောအခါ ပွဲဆရာများ ရှားပါး၍ တကြောင်း၊ ပွဲ သံသည် မပေါ်လွင်သဖြင့် တကြောင်း ပွဲအစား နှဲကို သုံး လာကြသည်။ ဝါး ပတ္တလားနှင့် လက်ဆွဲဘာဂျာ အစား သံပတ္တလားကို ထည့်သုံးခဲ့ကြသည်။

အငြိမ့်အဖွဲ့ များလာသလောက် အငြိမ့်စည်းကမ်းလည်း ပျက်လာခဲ့သည်ဟု ဆိုရပေမည်။ လူရွှင်တော်နှင့် အငြိမ့် မင်းသမီး သူ့ထက်ငါ လုယက် ပြောဆိုလာကြသည်။ အပေး အယူ စည်းကမ်း ပျက်လာကြသည်။ လူရွှင်တော်များသည် စွတ်ကျယ်အင်္ကျီ မဝတ်၊ ပုဆိုးဒူးဖုံး ခါးတောင်းကြိုက်၊ ပုဝါကို ခါးမှာစီးကာ လက်ခေါက်မှုတ်လိုက် လက်ခုပ်တီးလိုက်နှင့် အငြိမ့်မင်းသမီးကို သားပြော မယားပြော ပြောဆိုခြင်း၊ ဇာတ်ခုံပေါ်၌ မင်းသမီးနှင့် လူရွှင်တော် မိုးတိုး မတ်တတ် ရှုတ်ရှက်ခတ် သွားလာခြင်းများ ဖြစ်လာသည်။ သီချင်း တပိုဒ် မဆုံးမီ အပြင်စကားများ ဝင်စွက် ရှုတ်ထွေးလာရာ ဆိုသော သီချင်းစာကို ပရိသတ်များ မမှတ်မိတော့ချေ။

ဒုတိယ ကမ္ဘာစစ်ကြိုခေတ်တွင် အငြိမ့်အဖွဲ့များ၌ တူရိ ယာလည်း ပိုစုံလာသည်။ ဟွန်းတရော၊ မင်ဒလင်၊ ဘင် စ သော အနောက်နိုင်ငံ တူရိယာများ လှိုင်လှိုင်ကလေး ပါ လာသည်။ မင်းသမီးလည်း နှစ်လက် သုံးလက် ဖြစ်လာ သည်။ လူရွှင်တော်များလည်း ပိုမို၍ အရေးပါလာသည်။ ထိုခေတ်က ထင်ရှားသော လူရွှင်တော်များမှာ ဦးကျင်ခဲ၊ ဦးဓာတ်ခိုး၊ ဦးသင်္ခါ၊ ဦးဒန်ပေါက်၊ ဦးညှာကြီး၊ ဦးဗေဒါ၊ ဦးဓာတ်ဆီ၊ ဦးဓာတ်စံတို့ ဖြစ်ကြသည်။ နာမည်ကြီး အငြိမ့်




မြန်မာ့ညွန့် အငြိမ့်အဖွဲ့။ ရှေ့တန်း ဝဲ မှ ယာ - ရတနာပုံ ခင်ကြည်၊ ဒေါ်အောင်ကြည်၊ နေပြည်တော် မဂျမ်းစိန်။
အလယ်တန်း - ဝိုင်အမ်ဘီ ဆရာတင် (ဝဲ-ဆုံးလူ)၊ မြန်မာ့ညွန့် ဦးချစ်မောင် (ယာ-ဆုံးလူ)



ယုဒတိစီ ရွှေနှင်းဆီ မတင်ညွန့်

အဖြစ် ခန့်အပ်ခြင်း ခံရသည်။ လေဘာတီ မမြရင်သည် အကကောင်း၊ ရုပ်ချောရုံသာမက အသံလည်း အလွန်ကောင်းသဖြင့် အသံမင်းသမီးဟူ၍ပင် ခေါ်စမှတ် ပြုကြသည်။ (မြရင်၊ လေဘာတီ — ရှု။) မမြရင်တို့ခေတ်က မိုက္ကရိုဖုန်းခေါ် အသံချဲ့ခွက်လည်း မရှိချေ။ အငြိမ့်အဖွဲ့တွင် မင်းသမီး နှစ်လက်၊ လူပြက် နှစ်ယောက် တီးဝိုင်းအဖွဲ့ဝင် ငါးယောက်နှင့် ထမ်းဆင့်ခေါ် အငြိမ့်ပစ္စည်းထိန်းသိမ်းရသူ တယောက် ပေါင်း ၁၀ ယောက်ခန့်သာ ပါသည်။ ယခုခေတ်ကဲ့သို့ အငြိမ့်အဖွဲ့ဝင် မများဟု ဆိုသည်။ မမြလွင်မှာ နောင်အခါ ကောလိပ်စိန်ဟူသော အမည်နှင့် ကျော်ကြား လာသော မင်းသမီးဖြစ်သည်။ (မြလွင်၊မ၊ကောလိပ်စိန် — ရှု။) အသက် ခုနစ်နှစ်အရွယ်တွင် ဝါးခယ်မမြို့ပေါ်မှ အရပ်အငြိမ့် တခုတွင် ပါဝင်ကပြခဲ့၍ ၁၀ နှစ်အရွယ်တွင် တလိုင်းမမြကြင် အငြိမ့်အဖွဲ့၌ လက်ထောက်အဖြစ် ပါဝင်ကပြပြီးလျှင် ၁၂ နှစ်အရွယ်တွင် ရန်ကုန်မြို့ ၁၄ လမ်း အငြိမ့်ဆရာ ဦးဘိုးသင် (ဦးဘိုးဆင်၏ညီ) ၏ အငြိမ့်တွင် မင်းသမီးကြီး ဩဘာညွန့်နှင့်အတူ ကပြခဲ့သည်။ ယုနီဗာစီတီ မြသန်းကြည်သည် ရုပ်လှသည်။ ကာလသားကြိုက် ကတတ်သည်။

ဒုတိယကမ္ဘာစစ်ကြိုခေတ်က ရန်ကုန် မျူနီစီပယ်အဖွဲ့သည် မြို့သူ မြို့သားများအား ဖျော်ဖြေရန် ရပ်ကွက်အလိုက် မင်းသမီးများမှာ မြခြေကျင်း မငွေမှိုင်၊ ဩဘာသောင်း၊ ဩဘာညွန့်၊ လေဘာတီ မမြရင်၊ ဥက္ကလာ အေးကြည်၊ ဂီတမယ် လှကလေးစိန်၊ ဒေါပုံ ခင်ကြည်၊ ယိုးဒယား အောင်သိန်းတင်၊ ဒဂုံ ခင်လှကြည်၊ ရတနာပုံ ခင်ကြည်၊ နေပြည်တော် မဂျမ်းစိန်၊ တလိုင်း မမြကြင်၊ ချင်းမကလေး အောင်စိန်၊ မမြလွင်၊ ယူနီဗာစီတီ မြသန်းကြည်၊ တရုပ်မကလေး မတင်ကြည်၊ တက္ကသိုလ် ပြည်သိန်းတင်၊ ဝိဇ္ဇာမယ်၊ ရွှေနှင်းဆီ မတင်ညွန့်၊ ဒီးဒုတ်ခင်မြိုင် စသည်တို့ ဖြစ်ကြသည်။ မြခြေကျင်း မငွေမှိုင်သည် အသက် ၁၂ နှစ်အရွယ်မှ စ၍ ကပြအသုံးတော် ခံခဲ့သော်လည်း အသက် ၂၉ နှစ် အရွယ်ကျမှ အငြိမ့် နှစ်နှစ် ကသည်။ (မြခြေကျင်း၊ မငွေမှိုင် — ရှု။) မြခြေကျင်း အငြိမ့်ကစဉ်က အငြိမ့်ထောင် ဆရာမှာ မြန်မာညွန့် ဦးချစ်မောင်ဖြစ်သည်။ မငွေမှိုင်က ခေါင်းဆောင် မင်းသမီး ဖြစ်၍ အောင်မေလှိုင်နှင့် မအုန်းကြည်တို့က ရှေ့ထွက်မင်းသမီးများ ဖြစ်ကြသည်။ ရတနာပုံ ခင်ကြည်နှင့် နေပြည်တော်မဂျမ်းစိန်တို့သည်လည်း မြန်မာညွန့် အငြိမ့်အဖွဲ့တွင် ပါဝင်သော မင်းသမီးများ ဖြစ်သည်။ ဩဘာသောင်းသည် ဒေါ်ထွေးလေး၏ တပည့်ဖြစ်၍ ယိုးဒယားက ကောင်းသူဖြစ်သည်။ ကကြိုးလည်း စုံသည်။ လွတ်လပ်ရေးခေတ်တွင် မန္တလေးပန်တျာကျောင်း အကဆရာမကြီး



တက္ကသိုလ် စိန်

ပန်းခြံများတွင် တပတ် တကြိမ် အငြိမ့်ခံ၍ ဖျော်ဖြေသည့် အလေ့လည်း ရှိသည်။ တက္ကသိုလ် ကျောင်းသားများက လည်း တက္ကသိုလ်ဆောင်များ၌ နှစ်ပတ်လည် ပျော်ပွဲရွှင်ပွဲများ ကျင်းပကြသောအခါ အငြိမ့်ခံလေ့ရှိသည်။ ယင်းသို့ အငြိမ့်ခံရာမှ ကြိုက်နှစ်သက်ရာ မင်းသမီးများ၏ အမည်များရှေ့တွင် တက္ကသိုလ်၊ ယူနီဗာစီတီ၊ ကောလိပ် စသော ဂုဏ်ထူးဆောင် အမည်များ ချီးမြှင့်လေ့ ရှိသည်။ ကောလိပ်စိန်၊ ယူနီဗာစီတီ မြသန်းကြည်၊ တက္ကသိုလ် ပြည်သိန်းတင်တို့သည် ယင်းသို့ ရရှိခဲ့သည့် အမည်များ ဖြစ်ကြသည်။

ဒုတိယ ကမ္ဘာစစ် အတွင်းနှင့် စစ်ပြီးခေတ်တွင် စစ်ကြိုခေတ်က လောက် အငြိမ့်များ ခေတ်မစားတော့ချေ။ ပြဇာတ်များ၊ ရုပ်ရှင်များကို လူကြိုက်များ၍ ခေတ်စားလာသောကြောင့် ဖြစ်ဟန်တူသည်။ စစ်ကြိုခေတ်ကပင် စတင်ကပြခဲ့၍ စစ်ပြီးခေတ်အထိ ကျော်ကြားသော မင်းသမီးနှစ်ဦးမှာ ရွှေနှင်းဆီမတင်ညွန့်နှင့် ဖက်ရှင် မအောင်ငွေတို့ ဖြစ်ကြသည်။ ရွှေနှင်းဆီ သည် အကစုံသည်။ မင်းသားက ကောင်းသည်။အငြိမ့်၏နောက်ပိုင်းပြဇာတ်တွင် ယောကျ်ားခန်းများ၌ သဏ္ဌာန်လုပ် သရုပ်တူလှစွာ စွမ်းဆောင်နိုင်သူဖြစ်သည်။ ဖက်ရှင်မအောင်ငွေသည် မင်းသမီး တက္ကသိုလ် ပြည်သိန်းတင်၏ ညီမ ဖြစ်သည်။ ဘာသာမျိုးခြား အကများကို နိုင်နင်းသည်။ စစ်ပြီးခေတ် အခြား ထင်ရှား သော အငြိမ့်မင်းသမီးများမှာ ရွှေလိပ်ပြာ၊ ကောလိပ်မြိုင်၊ တက္ကသိုလ်စိန်၊ ယိုးဒယား အမာစိန်၊ ဆိုဗီယက်ပြန် နွဲ့နွဲ့စန်း စသူတို့ ဖြစ်ကြသည်။ အမာစိန်နှင့် နွဲ့နွဲ့စန်းတို့သည် မန္တလေး ပန်တျာကျောင်းထွက်များ ဖြစ်ကြ၍ ဒေါ်သြဘာသောင်း၏ အကပညာများဖြင့် အငြိမ့်စင်ပေါ်သို့ ရောက်လာကြသူများ ဖြစ်ကြလေသည်။

**မြန်မာအနုပညာ။** ။အနုပညာ — ရှု။

**မြန်မာ အဘိဓာန်။** ။မြန်မာနိုင်ငံတွင် ပင်းယခေတ်နှင့် ကုန်းဘောင်ခေတ်အတွင်း အဘိဓာန် အစောင်စောင် ပေါ်ထွက်ခဲ့ဘူးသည်။ သို့သော် ယင်းအဘိဓာန်တို့သည် မြန်မာ အနက်နှင့် ယှဉ်တွဲ ဖော်ပြထားသော ပါဠိဝေါဟာရ စာရင်းမျိုးသာ ဖြစ်ကြသည်။ ထိုနောက် အမေရိကန် သာသနာပြု ဒေါက်တာ ယုဒသန်သည် မြန်မာ-အင်္ဂလိပ် အဘိဓာန်ကြီး တစောင်ကို ရေးသား ပြုစုသည်။ (ယုဒသန် — လည်းရှု။) ယင်းအဘိဓာန်ကို ၁၈၂၆ ခုနှစ်တွင် အိန္ဒိယနိုင်ငံ၌ပုံနှိပ်သည်။ မစ္စတာ လိန်း အမည်ရှိ ဥရောပတိုက်သား တဦးသည်လည်း မက္ခရာမင်းသားကြီး၏ အကူအညီဖြင့် အင်္ဂလိပ်-မြန်မာ အဘိဓာန်တစောင်ကို ၁၈၃၃ ခုနှစ်တွင် ပြုစုဘူးသည်။ (အချို့ကလည်း မက္ခရာမင်းသား ပြုစုသည်ဆို၏။)

၁၉၁၃ ခုနှစ်သို့ ရောက်သောအခါ ဒေါက်တာ စတီးဝပ် အမှူးပြုသော အင်္ဂလိပ် ပညာရှင် တစုသည် မြန်မာ-အင်္ဂလိပ် အဘိဓာန်သစ်ကို ပြုစုကြပြန်ရာ ယခုအခါတွင် အဘိဓာန် သုံးတွဲ ထုတ်ဝေပြီးခဲ့ပေပြီ။

ဖျာပုံမြို့နေ အရှင်သြဘာသသည် ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်ပွားမီအချိန်က မြန်မာဝေါဟာရကို မြန်မာလို အနက်ဖွင့်သော အဘိဓာန်တစောင်ကို ပြုစုသည်။ သို့သော် ယင်းအဘိဓာန်စာမူတို့သည် စစ်အတွင်းက ပျောက်ဆုံးခဲ့သည်ဟု သိရ၏။ စစ်ပြီးခေတ်တွင် ပြန်လည်ပြုစုရာ၊ ၁၉၄၇ ခုနှစ်တွင် အဘိဓာန်နှစ်တွဲ ထုတ်ဝေနိုင်ခဲ့သည်။

ရန်ကုန် တက္ကသိုလ်တွင် ပြုစုလျက်ရှိသော တက္ကသိုလ် မြန်မာ အဘိဓာန်ကိုမူကား ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း ၁၉၄၄ ခုနှစ်ကပင် စတင်ခဲ့သည်။ ထိုနှစ်တွင် မြန်မာနိုင်ငံတော် ပညာ့တံခွန်အသင်းကို နိုင်ငံတော်အစိုးရ၏ အကူအညီဖြင့် တည်ထောင်သည်။ အသင်း၏ ရည်ရွယ်ချက်မှာ မြန်မာ့ယဉ်ကျေးမှု အရပ်ရပ်ကို လေ့လာသုံးသပ် ပြန်လည် ဖော်ထုတ်ရန် ဖြစ်၏။ အသင်း၏ လက်အောက်တွင် (က) ပညာစွယ်စုံဌာနနှင့် (ခ) အဘိဓာန်ဌာနဟူ၍ ဌာနနှစ်ခုရှိရာ၊ ပညာစွယ်စုံဌာနသည် ပညာစွယ်စုံကျမ်းကို ရေးသားပြုစုရန် ဖြစ်၍ အဘိဓာန်ဌာနသည် မြန်မာအဘိဓာန်ကျမ်းကို ရေးသားပြုစုရန်ဖြစ်သည်။ ပညာစွယ်စုံဌာနတွင် ဦးခင်မောင် (သူကြီးဇေက်) က စာတည်းအဖြစ် ဆောင်ရွက်၍ အဘိဓာန်ဌာနတွင် ဦးဝန်က စာတည်းအဖြစ်ဆောင်ရွက်သည်။ (ခင်မောင်၊ ဦး။ စွယ်စုံကျမ်း — လည်းရှု။)

အထက်ပါ ဌာနနှစ်ခုကို စစ်ဘေးသက်သာရာ ဟံသာဝတီ ခရိုင် ကွမ်းခြံကုန်းမြို့တွင် ဖွင့်လှစ်ထားရှိသည်။ အဘိဓာန် လုပ်ငန်းကိုမူ ၁၉၄၄ ခုနှစ် ဇန္နဝါရီလအတွင်း၌ စတင်ခဲ့သည်။

အဘိဓာန် ဌာနကို ကြည့်ရှု ကြီးကြပ်ရသော အဖွဲ့ငယ် တခု ရှိ၏။ အဖွဲ့ငယ် သဘာပတိမှာ ဦးဖေမောင်တင်ဖြစ်၍ အဖွဲ့ဝင်များမှာ ဦးခင်မောင်လတ်၊ ဦးသိမ်းမောင်၊ ဦးသိန်းဟန်၊ ဦးဝန် (အဘိဓာန် စာတည်း)၊ ဦးစိန်ဝင်း (လက်ထောက် အဘိဓာန် စာတည်း ) နှင့် ဦးတင် ( အသင်း၏ အတွင်းရေးမှူး) တို့ ဖြစ်ကြသည်။ တဖန် အဘိဓာန် ကျမ်း ပြုစုရေးတွင် အတိုင်ပင်ခံစာတည်း သုံးဦး ရှိပြန်ရာ ယင်းတို့မှာ ဦးဖေမောင်တင် (သဘာပတိ)၊ ဦးဘချို (ဒီးဒုတ်) နှင့် ဦးခင်မောင်လတ်တို့ ဖြစ်ကြသည်။ ပြုစု ပြီးစီးသော အဘိဓာန်မူကြမ်းကို အတိုင်ပင်ခံစာတည်းတို့ထံ တင်ပြရသည်။

အဘိဓာန် စာတည်း နှစ်ဦးသည် စာပြုခုနစ်ဦး၏ အကူအညီဖြင့် ခဲယဉ်းစွာ ရှာဖွေ ဝယ်ယူထားရသော စာအုပ်များကိုဖတ်ကာ အဘိဓာန်၏ အခြေခံ အုတ်မြစ်သဖွယ် ဖြစ်သော ပုဒ်စုလုပ်ငန်းကို စတင်ကြရသည်။ အဘိဓာန်

ဌာနရှိ စာအုပ်များ၏ အရေအတွက်မှာ အလွန်နည်းပါးလှသဖြင့် ဘာသာရပ် မစုံလင်ပေ။ သို့ဖြစ်စေကာမူ ခုနစ်လအတွင်း လက်လှမ်းမှီ ကျမ်းစာအုပ်ပေါင်း ၂၀၉ အုပ်မှ အညွှန်း စာရွက်ပေါင်း ၄၁,၇၅၅ ကို စုဆောင်းမိသည်။ အစိုးရ ဌာန အသီးအသီးရှိ ရာထမ်း မှုထမ်းများ၊ ပြင်ပ ပညာရှင်များ၊ အရွှေအာရှ လူငယ်များ အစည်းအရုံးဝင်များက အညွှန်းစာရွက်ပေါင်း ၁၄,၃၅၈ ကို စုဆောင်းပေးပို့ကြသည်။ အစုစု အညွှန်းစာရွက်ပေါင်း ၅၆,၂၁၃ ကို အခြေပြုကာ ကျောင်းသုံးအဘိဓာန်ငယ်တစောင်ကို စတင် ပြုစုကြသည်။ အနက်ဖော် လုပ်ငန်း စသည်မှ ကိုးလအကြာ (၁၉၄၅ ခုနှစ် ဧပြီလ)တွင် လေကြောင်းစစ်ဘေး ပြင်းထန်စွာ ဆိုက်ရောက်လာသဖြင့် အဘိဓာန်လုပ်ငန်းကို လုံးဝရပ်စဲပစ်လိုက်ရသည်။ ထိုအခါ (က) အက္ခရာမှ (င) အက္ခရာ တဝက်လောက်အထိ အပြီးသတ် တည်းဖြတ် ပြုစုပြီးစီးသည်။ (ဝ) အက္ခရာလောက်အထိကိုမူ အကြမ်း ပြုစုပြီးစီးသည်။

၁၉၄၈ ခုနှစ်သို့ ရောက်သောအခါ မြန်မာနိုင်ငံတော် ပညာ့တံခွန် အသင်းက အဘိဓာန်ဌာန လုပ်ငန်း အရပ်ရပ်ကို ရန်ကုန်တက္ကသိုလ်သို့ လွှဲပေး အပ်နှင်းလိုက်သည်။ ယင်းနှစ် ဇွန်လ ၁ ရက်နေ့တွင် ရန်ကုန် တက္ကသိုလ်၌ "ဘာသာပြန်နှင့် စာအုပ် ထုတ်ဝေရေးဌာန" ဟူ၍ ဌာနသစ်တခုကို ဖွင့်လှစ်ကာ မြန်မာစာဌာန ကထိက ဦးဝန်အား စာတည်းမှူးအဖြစ် ခန့်အပ် လုပ်ကိုင်စေသည်။ ဦးဝန်ကို ကူညီရန်အတွက် လက်ထောက်စာတည်း နှစ်ဦးနှင့် စာပြု ခြောက်ဦးကိုလည်း မရွေးမနှောင်းပင် ခန့်လိုက်သည်။ ဤတက္ကသိုလ် မြန်မာ အဘိဓာန်ကို ပြုစုရာတွင် ပါဠိကျမ်းဂန်ဖက်မှ နေ၍ ပါဝင် လုပ်ဆောင်ကြသော ပုဂ္ဂိုလ်ကြီးများမှာ ပဋ္ဌမကျော် ဦးကြီးဖေ၊ ပဋ္ဌမကျော် ဦးသန့်စင်၊ ပဋ္ဌမကျော် ဦးတင့်ရွှေ၊ ဦးသာတင် (မာဃ)၊ ဦးထွန်းမြင့်တို့ ဖြစ်ကြသည်။

ဌာနလုပ်ငန်းအတွက် အကြံကောင်း ဉာဏ်ကောင်းများ ပေးရန် အကြံပေးအဖွဲ့ တခုကိုလည်း ရန်ကုန်တက္ကသိုလ် ကောင်စီက ခန့်ထားသည်။ အကြံပေး အဖွဲ့တွင် (၁) သဘာပတိ ပါမောက္ခ ဒေါက်တာ ဘဟန် (ဒေါက်တာ ဘဟန် နုတ်ထွက်သွားသောအခါ ပါမောက္ခ ဦးဖေမောင်တင်က သဘာပတိအဖြစ် ဆောင်ရွက်သည်)၊ (၂) ဂုဏ်ထူးဆောင် ပါဠိ ပါမောက္ခ ဦးဖေမောင်တင် (ဦးဖေမောင်တင်အား သဘာပတိအဖြစ် ခန့်လိုက်သောအခါ ကျောက်စာဝန်ဟောင်း ဦးလူဖေဝင်းက ဆောင်ရွက်သည်)၊ (၃) ပါမောက္ခ ဦးလှအောင် (ဦးလှအောင် ကွယ်လွန်သွားသောအခါ ပါမောက္ခ ဦးအောင်သန်းက ဆောင်ရွက်သည်)၊ (၄) မြန်မာစာ ပါမောက္ခ ဦးဧမောင်၊ (၅) အင်္ဂလိပ်စာ ပါမောက္ခ ဦးမျိုးမင်း၊ (၆) တက္ကသိုလ် စာကြည့်တိုက်မှူး ဦးသိန်းဟန်နှင့် (၇) ဥပဒေ ပါမောက္ခ ဦးမြင့် တို့ ပါဝင်ကြသည်။ (ယင်း အကြံပေးအဖွဲ့ကို ၁၉၅၇ ခုနှစ် ဩဂုတ်လတွင် ဖျက်သိမ်းသည်။)

ပြည်ထောင်စု မြန်မာနိုင်ငံတွင် ပဌမဆုံး ရေးသား ပြုစုရသော အဘိဓာန် ဖြစ်သဖြင့် အဖက်ဖက်က ပြည့်စုံရန် လိုအပ်ရကား၊ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ အင်္ဂါရတ်ကျမ်း၊ လေှအတတ်၊ လှည်းအတတ်၊ ပန်းချီဆေးရေးအတတ် အစရှိသော အတတ်မျိုးဆိုင်ရာ ကျမ်းများကို ရှာဖွေ ဝယ်ယူကာ အဘိဓာန်ပုဒ်များကို ထပ်မံ စုဆောင်းရပြန်သည်။ ထိုနောက် စစ်အတွင်းက အဘိဓာန် လုပ်ငန်း လက်ငုတ်လက်စကို ပြန်လည် လုပ်ကိုင်ကြသည်။ မူလက ကျောင်းသုံးအဘိဓာန်လောက်ကိုသာ ပြုစုရန် ရည်ရွယ်ထားသော်လည်း အကြံပေး အဖွဲ့ဝင်တို့က အပြည့်စုံဆုံး အဘိဓာန်ကြီးကိုသာ တလက်စတည်း ရေးသား ပြုစုရန် အကြံပေး တိုက်တွန်းကြသဖြင့် အဘိဓာန်ကြီးကို ပြုစုကြရသည်။ ယင်းကဲ့သို့ ပြန်လည် လုပ်ကိုင်ရာ ၁၉၄၉ ခုနှစ် စက်တင်ဘာလတွင် အဘိဓာန် ပုဒ်ပေါင်း ၃,၄၆၉ ပါဝင်သော က အက္ခရာဆိုင်ရာ တက္ကသိုလ် မြန်မာ အဘိဓာန် ပဌမပိုင်းကို ပြုစုပြီးစီးသည်။ အဘိဓာန် ရှေ့ပိုင်းတွင် အားပေး ကူညီကြသော ပုဂ္ဂိုလ်များစာရင်း၊ ကိုးကားသော ကျမ်းများ စာရင်း၊ အဘိဓာန်တွင် အသုံးပြုသော သင်္ကေတများ စာရင်း၊ အဘိဓာန် အက္ခရာစဉ် ဇယား စသည်တို့ကို ထည့်သွင်း ဖော်ပြထားသည်။ အဘိဓာန်ကိုမူ ရန်ကုန်မြို့ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ စာပုံနှိပ်တိုက်က ရိုက်နှိပ်ဖြန့်ချိသည်။

အဘိဓာန်ပုဒ်များကို အနက်ဖော်ရာ၌ အနက် အဓိပ္ပါယ် ပြားလျှင် ပြားသလောက် အနက် ဖော်သည်။ ပရိယာယ် ရှိလျှင် ပရိယာယ် အမျိုးမျိုးကိုလည်း ဖော်ပြသည်။ ဓမ္မသတ်သုံး၊ ကဗျာသုံး၊ အရပ်သုံး၊ ဘန်းစကား၊ ပေါရာဏ၊ လွှတ်ရုံးသုံး၊ ဗေဒင်သုံး၊ ရာဇဝင်သုံး စသည်တို့ကိုလည်း ခေါင်းစဉ် စကားလုံး နောက်တွင် သင်္ကေတဖြင့် ဖော်ပြသည်။ ခိုင်လုံသော ကျမ်းများမှ ကျမ်းကိုး စာပုဒ်ကို အသုံးပြုလျှင် ကျမ်းကိုးအတိုမှတ်၊ ကျမ်းအတွဲ၊ စာမျက်နှာစသည်တို့ကို ဖော်ပြထားသည်။ အရင်းအမြစ်ကို ရှာဖွေ တွေ့ရှိသောအခါ အနက်အဓိပ္ပါယ် နောက်က ဖြစ်စေ၊ ကောက်နုတ်ချက်ပါလျှင် ကောက်နုတ်ချက် နောက်က ဖြစ်စေ ထည့်သွင်း ဖော်ပြသည်။

၁၉၅၄ ခုနှစ် ဇွန်လတွင် အဘိဓာန် ပုဒ်ပေါင်း ၂,၆၂၅ ပါဝင်သော ခ အက္ခရာဆိုင်ရာ ဒုတိယပိုင်းကိုရင်း၊ ၁၉၅၇ ခုနှစ် မေလတွင် အဘိဓာန် ပုဒ်ပေါင်း ၂,၀၀၄ ပါဝင်သော ဂ ဃ င ဆိုင်ရာ တတိယပိုင်းကိုရင်း၊ ၁၉၆၀ ပြည့်နှစ် အောက်တိုဘာလတွင် အဘိဓာန် ပုဒ်ပေါင်း ၃,၁၁၃ ပါဝင်သော စ အက္ခရာဆိုင်ရာ စတုတ္ထပိုင်းကိုရင်း၊ ၁၉၆၃ ခုနှစ်

ဩဂုတ်လတွင် အဘိဓာန်ပုဒ်ပေါင်း ၁,၉၀၉ ပါဝင်သော ဆ အက္ခရာဆိုင်ရာ ပဌမပိုင်းကိုရှင်း ပြုစုပြီးစီးသည်။ ကျန်အပိုင်းများကိုလည်း ဆက်လက် ပြုစုလျက် ရှိသည်။ ၁၉၅၅ ခု နှစ်ကုန်ထိ စာမျက်နှာပေါင်း သုံးသိန်း ငါးသောင်းကျော်၊ ကျမ်းပေါင်း တသောင်း ကိုးထောင်ကျော် ဖတ်ရှုပြီး၍ အညွှန်းစာရွက်ပေါင်း ခြောက်သောင်းကိုးထောင်ကျော် ရရှိပေသည်။ **ဦးတင်လှ**

**မြန်မာ အသံဖြစ်ပုံ။** ။မည်သည့် ဘာသာ၌မဆို စကားပြောင်းလဲခြင်းကို တွေ့ရ၏။ စကားပြောင်းလဲခြင်းသည် အသံပြောင်းလဲခြင်းပင် ဖြစ်၏။ ဘာသာစကား အသံပြောင်းလဲပုံကို ထင်ရှားစေခြင်းငှါ အသံဖြစ် ကရိယာများကို ဖော်ပြပေအံ့။

လူ၏ အသံဖြစ်ရာဌာနသည် ခံတွင်း၊ နှာတွင်းနှင့် လည်မျို (ရေမျို) ဟု ခေါ်ကြသော အသံအိုးဖြစ်၏။ အသံသည် ထွက်သက် ဝင်သက်ကြောင့် ဖြစ်၏။ များသောအားဖြင့် ထွက်သက်ကြောင့် ဖြစ်၏။

**အသံအိုးနှင့် အသံကြိုး။** ။လည်စေ့၌ လေပြွန် အနည်းငယ် ဖောင်းသောနေရာကို လည်မျို ဟု ခေါ်သည်။ လည်မျို၌ အသံဖြစ်သောကြောင့် လည်မျိုကို အသံအိုး ဟုလည်း ခေါ်၏။ လည်မျိုတွင် ရှေ့ကစလျက်၊ နောက်က ကွဲနေသော ညွှတ်ပျောင်း ခိုင်မာသည့် ကြိုး နှစ်ချောင်း ရှိသည်။ ယင်းတို့ကို အသံကြိုး ဟု ခေါ်၏။ အသက်မှန်မှန် ရှူလျှင် ဤကြိုး နှစ်ချောင်းသည် လှည်းထောက်ခွကဲ့သို့ ပွင့်လျက် ရှိရာ၊ အသက်သည် အဆီးအတား မတွေ့ဘဲ ဝင်ထွက်နိုင်၏။ နောက်က ကွဲနေသော အစွန်း နှစ်ခုကို စေ့လိုက်လျှင် လေပေါက်သည် လုံးလုံး ပိတ်သွား၏။ ဤကဲ့သို့ လုံးလုံးမပိတ်ဘဲ အလျားလိုက် လေပေါက်ကလေးသည် အနည်းငယ်သာ ပွင့်လျက် နေလျှင် ထွက်သက်သည် အသံကြိုးများကို အတင်းတိုးသဖြင့် ကြိုးများသည် လှုပ်ခါကြ၏။ ဤသို့ ကြိုးများ လှုပ်ခါခြင်းကြောင့် ဃောသ ခေါ်သော အသံ ဖြစ်၏။ လည်စေ့ပေါ်ကို လက်ချောင်းတင်၍ စမ်းလျှင် အသံကြိုး ခါသည်ကို သိနိုင်၏။ ဃောသအသံ ထွက်စဉ် နားပေါက်နှစ်ခုကို လက်နှင့်ပိတ်ထားလျှင်လည်း အသံကြိုး ခါသည်ကို သိနိုင်၏။ အကယ်၍ အဆိုပါ အလျားလိုက် လေပေါက်ကလေးကို ကျယ်ကျယ်ဖွင့်လျှင် ထွက်သက်သည် အသံကြိုးကို တိုးထွက်ရန် မလိုတော့သဖြင့် ဃောသအသံ မဟုတ်ဘဲ အသက်ရှူသံ၊ သို့မဟုတ် ဟ သံ ဖြစ်လာ၏။

**ခံတွင်းနှင့် အသံဖြစ် ကရိယာများ။** ။လေပြွန်နောက်၌ အစာဆင်းသော လည်ချောင်း ရှိ၏။ လျှာနောက် အောက်က ထွက်နေသော အသားမျှင်ကလေးကို အသံအိုးဖုံး ဟု ခေါ်၏။ အစာမျိုသောအခါ ထိုအဖုံးသည် အသံအိုးဝင်ပေါက်ကို ပိတ်လိုက်၏။ အောက်ဖက်ရှိ အသံအိုးနှင့် လည်ချောင်းသို့ရှင်း၊ အထက်ဖက်ရှိ ခံတွင်းနှင့် နှာတွင်းသို့ ရှင်း ပေါက်ရောက်သော နေရာကို အာစောက် ဟု ခေါ်၏။ ခံတွင်း၌ သွားများ၊ ပျော့ပျောင်းသော နှုတ်ခမ်း နှစ်ခုနှင့် အလွန်လှုပ်ရှားတတ်သော လျှာ ရှိသည်။ လျှာသည် ခံတွင်းတွင် ရွှေ့ချင်သလို ရွှေ့၍ အထက် မေးရိုးကို လိုအပ်သော နေရာ၌ ထိနိုင်သော ကြွက်သားစု ဖြစ်သည်။ လျှာဖျား၊ လျှာရှေ့၊ လျှာနောက် ဟူ၍ သုံးပိုင်း ခွဲထား၏။ အာခေါင်ကို သွားရိုး၊ အာခေါင်မာ၊ အာခေါင်ပျော့၊ လျှာခင် ဟူ၍




ပုံ ၁

လေးပိုင်း ခွဲထား၏။ နှာတွင်းသို့ လေမသွားရအောင် လျှာခင်က ပိတ်နိုင်၏။ အထက်ပါ ပုံ ၁ ကို ရှု။

**ဃောသ အဃောသ။** ။အသံကြိုးများ အနည်းငယ် ပိတ်သောကြောင့် ထွက်သက်သည် အသံအိုး၌ အဆီးအတား တွေ့၍ အသံ ဖြစ်ကြောင်းကို သိခဲ့ကြပြီ။ ထွက်သက်သည် အသံကြိုးများ ပွင့်နေသောကြောင့် အသံအိုး၌ အဆီးအတား မတွေ့၍ အသံမဖြစ်ခဲ့လျှင် ခံတွင်းသို့ ရောက်သောအခါ အဆီးအတားတွေ့မှ အသံဖြစ်နိုင်သည်။ အသံအိုး၌ အဆီးအတားကြောင့်ဖြစ်သော အသံကို ဃောသ ဟု ခေါ်ရကား၊ ခံတွင်း၌ အဆီးအတားကြောင့်ဖြစ်သော အသံကို အဃောသ ဟု ခေါ်၏။ (အသံအိုး၌ သော်ရှင်း၊ ခံတွင်း၌ သော်ရှင်း အဆီးအတားမရှိလျှင် အသံမဖြစ်နိုင်။)

ထွက်သက်သည် အဆီးအတားကို အာခေါင်ပျော့၌ တွေ့လျှင် က–သံထွက်၏။ အာခေါင်မာ၌ တွေ့လျှင်၊ ကျ–




ပုံ ၂

သံ ထွက်၏။ ကျ—သံထက် အနည်းငယ် နောက်ပိုင်းကျသော အသံသည် ဋ—သံ ဖြစ်၏။ သွားရိုး၌ အဆီးအတားကို တွေ့လျှင် တ—သံ ထွက်၏။ နှုတ်ခမ်း၌ အဆီးအတားကို တွေ့လျှင် ပ—သံ ထွက်၏။ က—ကျ—ဋ—တ—ပ—အသံ ထွက်ရာ၌ လျှာထားပုံကို အမှတ် ၂၊ ၃၊ ၄၊ ၅၊ ၆ ၌ ပြထားပေးသည်။

သို့ဖြစ်၍ ဃောသ အသံသည် အသံအိုး၌ ဖြစ်၍ အဃောသ အသံသည် ခံတွင်း၌ ဖြစ်၏။ ထွက်သက်သည် အဆိုပါပုံတို့၌ ပြထားသည့်အတိုင်း အဆီးအတားကို တိုး၍ ဖျတ်ခနဲ အဆီးအတား ပွင့်ရာ၊ အဆိုပါ အဃောသအသံ ငါးမျိုး အသီးအသီးသည် ပေါက်ကွဲသံကဲ့သို့ မြည်သဖြင့် ယင်းတို့ကို ပေါက်ကွဲသံဟု ခေါ်၏။ ပေါက်ကွဲသံသည် ရှည်ရှည် ဆွဲမြည်နိုင်သော အသံမျိုးမဟုတ်။

က၊ ကျ၊ ဋ၊ တ၊ ပ၊ အသံတို့သည် အသီးအသီး မြည်နိုင်သော အခြေအနေ၌ ရှိနေကြစဉ်၊ ထွက်သက်သည် အသံအိုး၌ အသံကြိုးများကို လှုပ်ခါ၍ ထွက်လျှင် က၊ ကျ၊ ဋ၊ တ၊ ပ တို့၏ ဃောသအသံ ဖြစ်သော ဂ၊ ဂျ၊ ဍ၊ ဒ၊ ဗ၊ အသံတို့ကို ရ၏။ အသံအိုး၌ စ၍ ဖြစ်သောကြောင့် ယင်းတို့ကို ဃောသ ဟု ခေါ်၏။




ပုံ ၃

အဆိုပါ အသံအသီးအသီး မြည်နေခိုက်၊ ပုံ (၂) (၃) (၄) (၅) (၆) တို့၌ ပြထားသည့်အတိုင်း လျှာခင်သည် အာစောက်ကို ထိသဖြင့် ထွက်သက်အလုံးသည် ခံတွင်းသို့ သွား၏။ အကယ်၍ အသံအိုးမှ ဃောသအသံ ထွက်နေခိုက်၊ ထွက်သက်သည် လျှာခင်နှင့် အာစောက်အကြားမှ နှာတွင်းသို့ ဝင်ပြီးလျှင် နှာပေါက်မှ ထွက်လျှင် နှာသံ ဖြစ်၏။ ပုံ (၇) ၌ နှာသံ ဖြစ်သော မ — ကို မြည်စဉ် လျှာခင်နှင့် အာစောက်အကြားမှ လေကြောင်းသွားပုံကို ပြထားသည်။ လျှာခင်သည် အာစောက်နှင့် ထိခြင်း မထိခြင်းသည် ပ — နှင့် မ — မြည်ပုံခြားနားခြင်း ဖြစ်သည်။ အဆိုပါ ပေါက်ကွဲသံ ငါးခုတို့နှင့်ဆိုင်သော နှာသံ ငါးမျိုး ရှိ၏။

က၊ ဂ....အသံတို့နှင့်ဆိုင်သောနှာသံသည် င....ဖြစ်သည်။
ကျ၊ ဂျ .... .... .... .... .... .... .... ည.... .... ....
ဋ၊ ဍ .... .... .... .... .... .... .... ဏ.... .... ....
တ၊ ဒ .... .... .... .... .... .... .... န .... .... ....
ပ၊ ဗ .... .... .... .... .... .... .... မ .... .... ....

က၊ ကျ၊ ဋ၊ တ၊ ပ ....အသံတို့ကို လေသံတင်းတင်းမြည်လျှင် ယင်းအသံအသီးအသီးတွင် ဟ — သံ ပါ၏။ သို့ဖြစ်၍ အဃောသ အသံ က — ကို လေသံတင်းတင်း မြည်လျှင် ခ — သံဖြစ်၏။

.... .... .... .... ကျ .... .... .... ချ .... .... .... ....
.... .... .... .... ဋ .... .... .... ဌ .... .... .... ....
.... .... .... .... တ .... .... .... ထ .... .... .... ....
.... .... .... .... ပ .... .... .... ဖ .... .... .... ....

ထိုနည်းအတူ

ဃောသအသံ ဂ — ကို လေသံ တင်းတင်းမြည်လျှင် ဃ— သံ ဖြစ်၏။

.... .... .... .... ဂျ .... .... .... .... ဃျ .... .... ....
.... .... .... .... ဍ .... .... .... .... ဎ .... .... ....
.... .... .... .... ဒ .... .... .... .... ဓ .... .... ....
.... .... .... .... ဗ .... .... .... .... ဘ .... .... ....

အထက်ပါဗျည်းများကို က — ဝဂ်၊ ကျ — ဝဂ်၊ ဋ — ဝဂ်၊ တ — ဝဂ်၊ ပ — ဝဂ် ဟူ၍ အောက်ပါအတိုင်းစီစဉ်၍ပြနိုင်၏။

| | အဃောသ | | ဃောသ | | နှာသံ |
|---|---|---|---|---|---|
| | လျော့ | တင်း | လျော့ | တင်း | |
| က-ဝဂ် | က | ခ | ဂ | ဃ | င |
| ကျ-ဝဂ် | ကျ | ချ | ဂျ | ဃျ | ည |
| ဋ-ဝဂ် | ဋ | ဌ | ဍ | ဎ | ဏ |
| တ-ဝဂ် | တ | ထ | ဒ | ဓ | န |
| ပ-ဝဂ် | ပ | ဖ | ဗ | ဘ | မ |

မှတ်ချက်။ ။

(၁) က – ဝဂ် ဗျည်း ငါးခုတို့ အသံထွက်ပုံကို ပုံ(၂)၌ပြထားသည်။ လျှာနောက်ပိုင်းဖြင့် အာခေါင်ပျော့ကို ထိ၍ ထွက်သော ယင်းအသံကို ပါဠိသဒ္ဒါ၌ ကဏ္ဍဇ – လည်ချောင်းသံ ဟု ခေါ်၏။

(၂) ကျ – ဝဂ် ပဉ္စမဗျည်း လေးခုတို့ကို စ၊ ဆ၊ ဇ၊ ဈ ဟု ရေးသင့်သော်လည်း၊ မူလ သက္ကတ ပါဠိအသံကို လိုက်၍ ကျ၊ ချ၊ ဂျ၊ ဃျ ဟု ရေးလိုက်သည်။ အသံထွက်ပုံကို ပုံ (၃) ၌ ပြထားသည်။

လျှာဖျားဖြင့် အာခေါင်မာကို ထိ၍ ထွက်သော ယင်းအသံတို့ကို ပါဠိသဒ္ဒါ၌ တာလုဇ ဟု ခေါ်၏။

(၃) ဋ – ဝဂ် ဗျည်း ငါးခုတို့ အသံထွက်ပုံကို ပုံ (၄)၌ ပြထားသည်။ လျှာဖျားဖြင့် အာခေါင် အလယ်လောက်ကို ထိ၍ ထွက်သော ယင်းအသံတို့ကို ပါဠိသဒ္ဒါ၌ မုဒ္ဓဇ ဟု ခေါ်၏။ ယခု မြန်မာအသံအားဖြင့် ဋ – ဝဂ်သည် တ – ဝဂ် မှ မခြားနားချေ။

(၄) တ´ – ဝဂ် ဗျည်း ငါးခုတို့ အသံ ထွက်ပုံကို ပုံ (၅) ၌ ပြထားသည်။ လျှာထိပ်ဖြင့် သွားရိုးနောက်ကို ထောက်၍ထွက်သော ယင်းအသံတို့ကို ပါဠိသဒ္ဒါ၌ ဒန္တဇ ဟု ခေါ်၏။

(၅) ပ – ဝဂ် ဗျည်း ငါးလုံးတို့ အသံထွက်ပုံကို ပုံ (၆)၌ ပြထားသည်။ နှုတ်ခမ်းပိတ်ပြီးမှ ဖွင့်၍ ထွက်သော ယင်းအသံတို့ကို ပါဠိသဒ္ဒါ၌ ဩဋ္ဌဇ ဟု ခေါ်၏။

(၆) ယခု မြန်မာအသံအားဖြင့် ဂ နှင့် ဃ ခြားနားခြင်း မရှိချေ။

.... .... .... ဂျ .... .... .... ဃျ .... .... .... .... ....
.... .... .... ဒ .... .... .... ဎ .... .... .... .... ....
.... .... .... ဒ .... .... .... ဓ .... .... .... .... ....
.... .... .... ဗ .... .... .... ဘ .... .... .... .... ....

ပုံ (၇) ၌ ပြထားသည့်အတိုင်း လေသွားရာ လမ်းကြောင်း ကျဉ်းမြောင်း၍ သွားကြားမှ လေထွက်လျှင် စ၊ ရှ – တည်းဟူသော သွားကြားသံများကို ရ၏။ လေသွားရာ လမ်းကြောင်း ကျဉ်းမြောင်းအောင် လျှာဖျားကို သွားရိုးသို့ မြှောက်ထားစဉ် လေသည် သွားကြားမှ ထွက်သောအခါ၌ ဖြစ်သော အသံသည် စ – သံ ဖြစ်၏။ ရှ – ကို မြည်ရာ၌ကား စ – ထက် အနည်းငယ် နောက်ကျကျ လေသွားရာ လမ်းကြောင်းကို ကျဉ်းမြောင်း စေပြီးလျှင် လျှာထိပ်သည် သွားရိုးနောက် အောက်ကနေစဉ်၊ လေသည် လျှာအလယ်ကြောင်းကို လျှောက်၍ တိုးထွက်၏။ က – သည် ခ၊ ဂ၊ ဃ တို့နှင့် အသံအားဖြင့် တော်စပ် သကဲ့



ပုံ ၄



ပုံ ၅



ပုံ ၆



ပုံ ၇



ပုံ ၈



ပုံ ၉



ပုံ ၁၀



ပုံ ၁၁

သို့၊ စ – သည်လည်း ဆ၊ ဇ၊ ဈ တို့နှင့် အသံအားဖြင့် တော်စပ်၏။ သို့ဖြစ်၍ စ၊ ဆ သည် အဃောသ အသံလျော့၊ အသံတင်း ဖြစ်ကြ၍ ဇ၊ ဈ သည် ဃောသ အသံလျော့၊ အသံတင်း ဖြစ်ကြ၏။

သွားကြားသံသည် သွားကြားမှ လေထွက်သောကြောင့် ဖြစ်ရကား၊ လေထွက်နေသမျှ ကာလပတ်လုံး ဆက်၍ မြည်နိုင်သော အသံ ဖြစ်၏။ ပေါက်ကွဲသံများကား ဤကဲ့သို့ ဆက်၍ မမြည်နိုင်ချေ။

လျှာထိပ်ကို မလိပ်စေဘဲ သွားရိုးနှင့် ထိ၍ ထားစဉ် လျှာဘေးတဖက်၊ သို့မဟုတ် နှစ်ဖက်ကို လျှောက်၍ လေထွက်စေလျှင် လ – သံ ဖြစ်၏။ ပုံ (၉) ရှု။

လျှာနောက်ပိုင်းကို အာခေါင်ပျော့သို့ အနည်းငယ် မြှင့်လျှင် ဠ – သံ ဖြစ်၏။

လျှာဖျားကို မြှင့်၍ လျှာလိပ်အောင် လေမှုတ်လျှင် လျှာလိပ်သံ ခေါ်သော ရ – သံ ဖြစ်၏။ ပုံ (၁၀) ရှု။

လျှာထိပ်ကို အထက်သွားများ၊ သို့မဟုတ် အထက်သွားအောက်သွား အကြားသို့ ကပ်ရုံမျှ ကပ်ထားစဉ်၊ လေတိုး၍ ထွက်သော အသံသည် သ – သံ ဖြစ်၏။ သင်း (နာမ်စား)၊ သို့မဟုတ် – တို့၌ မြည်သော သ – သံသည် ဃောသအသံ ဖြစ်၏။ ပုံ (၁၁) ရှု။

ယ နှင့် ဝ သည် ဗျည်းတပိုင်း သရတပိုင်း အသံ ဖြစ်၏။ ဣ – သရ မြည်ခိုက် လျှာဖျားဖြင့် အာခေါင်မာကို ထိလိုက်လျှင်၊ ယ – သံထွက်၏။ ဥ – သရ မြည်ခိုက် နှုတ်ခမ်းကို ဝိုင်းလိုက်လျှင်၊ ဝ – သံထွက်၏။ သို့ဖြစ်၍ ယ – သည် ဣ – သရနှင့် နီးစပ်၍၊ ဝ – သည် ဥ – သရနှင့် နီးစပ်၏။

**သရ။** ။သရသည် အသံထွက်ရာ၌ ဗျည်းနှင့်မတူ၊ အသံအိုးမှ ဖြစ်၍ ခံတွင်း၌ အဆီးအတား မတွေ့ဘဲ ထွက်သော အသံကို သရ ဟု ခေါ်၏။

ပါးစပ်ကို ကျယ်ကျယ်ဖွင့်ပြီးလျှင် လျှာကို ပြားပြားထားခိုက် လှုပ်ခါနေသော အသံကြိုး နှစ်ခုအကြားမှ ခံတွင်း၌ အဆီးအတား မတွေ့ဘဲ ထွက်သော သရသံသည် အာ–သရ ဖြစ်၏။ သရသည် အသံတို၊ အသံရှည်ဟု နှစ်မျိုးရှိ၏။ အ-ကဲ့သို့ မတြာတခု ကြာသော သရကို အသံတို ဟု ခေါ်၏။ အာ – ကဲ့သို့ မတြာနှစ်ခု ကြာသော သရကို အသံရှည် ဟု ခေါ်၏။ (မတြာသည် လက်ဖစ်တတွက်၊ လျှပ်စစ်တပြက်၊ မျက်စိတမှိတ်ဟု ဆိုသော အခန့်ကာလ ဖြစ်သည်။) ထိုပြင် လူတယောက်ကို ဟစ်ခေါ်ရာ၌ ဆွဲထားသော အသံရှည်မျိုးလည်း ရှိသေး၏။ မတြာ သုံးခု ကြာသည် ဟူ၏။ အသံတိုကိုလည်း သာ၍တိုအောင် မြည်နိုင်သေး၏။ အရုပ် ဟူသော စကား၌ အ – သည် မတြာဝက်မျှ ရှိ၏။

**သရအမျိုးမျိုး။** ။ပါးစပ်ကို ကျယ်ကျယ် ဖွင့်ပြီးလျှင်၊ လျှာကို ပြားပြားထားခိုက် မြည်သော အာ – သည် မူလ

သရဖြစ်၏။ ယင်း အနေအထားမှ စ၍ ပါးစပ်ပေါက်ကို တဖြည်းဖြည်း ကျဉ်းစေ၍ လျှာကို တဖြည်းဖြည်း မြှင့်လျှင် ရှေ့သရများကို ရ၏။ ထိုနည်းအတူ ပါးစပ်ပေါက်ကို တဖြည်းဖြည်း ပိတ်ကာ လျှာနောက်ကို တဖြည်းဖြည်း မြှင့်၍ နှုတ်ခမ်းကို ဝိုင်းစေလျှင် နောက်သရများကို ရ၏။ ရှေ့သရနှင့် နောက်သရ အကြားတွင် ကြား သရများ ရှိ၏။

ရှေ့သရများတွင် အီ — သရဖြစ်သော နေရာသည် အမြင့်ဆုံးဖြစ်၍၊ နောက်သရများတွင် အူ — သရဖြစ်သော နေရာသည် အမြင့်ဆုံးဖြစ်၏။အာ— နှင့် အီ — အကြားတွင် အယ် —နှင့် အေ—ရှိ၏။အာ—နေရာမှ လျှာ ရှေ့ကို အနည်းငယ်မြှင့်လျှင် အယ်—သံ ထွက်၏။ သည့်ထက် တိုး၍ လျှာကို မြှင့်လျှင် အေ — သံ ထွက်၏။သည့်ထက်တိုး၍ လျှာကို မြှင့်လျှင် အီ — သံ ထွက်၏။

ထိုနည်းအတူ အာ — နေရာမှ အနည်းငယ် လျှာနောက်ကို မြှင့်၍ နှုတ်ခမ်းကို ဝိုင်းလျှင် အော် — သံထွက်၏။ သည့်ထက် တိုး၍ လျှာကို မြှင့်၊ နှုတ်ခမ်းကို ဝိုင်းလျှင် အို — သံ ထွက်၏။ သည့်ထက် တိုး၍ လျှာကို မြှင့်၊ နှုတ်ခမ်းဝိုင်းလျှင် အူ — သံ ဖြစ်၏။ ပုံ (၁၂) တွင် ကြက်ခြေခတ်သော နေရာသည် လိုရာသရ မြည်ရာ၌ လျှာအမြင့်ဆုံး နေရာကို ပြသည်။




ပုံ ၁၂

မြန်မာ ဘာသာ၌ သရသံပေါင်း ၅၀ ရှိ၏။ ယင်းတို့ကို အသံနီးစပ်သည့်အတိုင်း စု၍ အောက်၌ စီစဉ်ထား၏။

| | က | ခ | ဂ |
|---|---|---|---|
| အတန်း ၁ | အာ အ အား | အတ် | အန် အန့် အန်း |
| အတန်း ၂ | အီ အိ အီး | အစ် | အင် အင့် အင်း |
| အတန်း ၃ | အို အို့ အိုး | အုတ် | အုန် အုန့် အုန်း |
| အတန်း ၄ | အေ အေ့ အေး | အိတ် | အိန် အိန့် အိန်း |
| အတန်း ၅ | အူ အူ့ အူး | အွတ် | အွန် အွန့် အွန်း |
| အတန်း ၆ | အယ် အယ့် အဲး | အက် | |
| အတန်း ၇ | | အိုက် | အိုင် အိုင့် အိုင်း |
| အတန်း ၈ | | အောက် | အောင် အောင့် |
| အတန်း ၉ | အော်အော့အော | | အောင်း |

ဤအစီအစဉ်သည် ထင်သလောက် မရှုပ်ထွေးချေ။

အတန်း ၁၊၂၊၃၊၄၊၅ တို့တွင် အတန်းတိုင်း၌ ရှိသော သရ ခုနစ်ခုတို့ကို က၊ ခ၊ ဂ၊ ဟူ၍ သုံးပိုင်းခွဲခြားနိုင်၏။ က — အပိုင်းရှိ သရ သုံးခုတို့သည် အသံရှည်၊ အသံတို (အောက်မြစ်)၊ ဝစ္စနှစ်လုံးပေါက်သံများ ဖြစ်ကြ၏။ ပုံစံ — အတန်း ၁ ၌ အသံရှည် — အာ၊ အသံတို အောက်မြစ်သံ — အ၊ ဝစ္စနှစ်လုံးပေါက်သံ — အား ဖြစ်ကြ၏။ ခ — အပိုင်းရှိ သရသည် အသတ်သံဖြစ်၍၊ ဂ အပိုင်းရှိ သရ သုံးခုသည် နှာသံ (အရှည်၊ အောက်မြစ်၊ ဝစ္စပေါက်) များ ဖြစ်ကြ၏။

အတန်း ၆ ၌ နှာသံ မရှိချေ။

အတန်း ၇၊ ၈ ၌ ကအပိုင်း သရများ မရှိကြချေ။

အတန်း ၉ ၌ အသတ်နှင့် နှာသံ မရှိချေ။

ပုံ (၁၂) ၌ ဖော်ပြထားသော သရ ခုနစ်ခုတို့ကို အစွဲပြု၍ ကျန်သရတို့ ဖြစ်ရာနေရာများကို အကြမ်းအားဖြင့် အောက်ပါအတိုင်း ပြနိုင်သည်။ အာ-အီ-အူကို တြိဂံကဲ့သို့ ပြထားသည်။

ပုံ (၁၃) ၌ အောက်မြစ်သံနှင့် ဝစ္စပေါက်သံတို့ကို ဖော်ပြရန် မလိုတော့ချေ။ အောက်မြစ်သံနှင့် ဝစ္စပေါက်သံအဖို့ လျှာ၏ အနိမ့်အမြင့်သည် ဆိုင်ရာ အသံရှည်အဖို့ လျှာ၏ အနိမ့်အမြင့်ပင် ဖြစ်၏။ အာ-အေ-အီ-အစရှိသော နှစ်မတြာ ကြာသည့် အသံရှည်သည် ခံတွင်း၌ အဆီးအတား မတွေ့ဘဲ အသံအိုးတွင် မြည်သော အသံဖြစ်သည်။ ပိတ်နေသော အသံကြိုး နှစ်ခုကို အောက်က လေတိုးရာ ဖျတ်ခနဲ ကြိုး နှစ်ခု ပွင့်ခြင်းကြောင့် မြည်သော အသံသည် အ-အေ့-အိ- အစရှိသော တစ်မတြာကြာသည့် အောက်မြစ်အသံတို ဖြစ်သည်။ ဝစ္စပေါက်သံသည် အသံရှည်ကို လေးလေးနက်နက် မြည်သော ဂရုသံ ဖြစ်သည်။ အသတ်သံသည် အောက်မြစ် သံကို အနည်းငယ် မြင့်အောင် ဆတ်ဆတ်မြည်သော အသံ ဖြစ်သည်။ နှာသံသည်လည်း အသံရှည်၊ အောက်မြစ် သံ၊ ဝစ္စပေါက်သံ ဟူ၍ သုံးမျိုးပြား၏။

မတြာဝက် အသံသည် အာ-အယ်-အော် သုံးနေရာ၏ ဗဟိုလောက်တွင် ကျသည်။

အသံဖြစ်ပုံကို ထောက်၍ အသံ ပြောင်းလွဲခြင်း၏ အကြောင်းရင်းကို သိနိုင်၏။

(၁) ရ — အသံမှ ယ — အသံသို့ ပြောင်းလဲခြင်း။

ကြောင်း၊ ကြား အစရှိသည်တို့၌ ရ — သည် ယ — အသံသို့ ပြောင်းလဲ၏။

လျှာလိပ်သံခေါ်သော ရ—သံကို မြည်ရသည်ထက် သရ တပိုင်း ဗျည်းတပိုင်းသံဖြစ်သော ယ—သံကို မြည်ရသည်က သာ၍လွယ်ကူ၏။ ဘာသာစကား အသံပြောင်းလဲခြင်း သည်လည်း ခက်ခဲသော အသံမှ လွယ်ကူသော အသံသို့ ပြောင်းလဲခြင်း ဖြစ်ရကား၊ ခက်ခဲသော ရ—သံသည် လွယ်ကူသော ယ—သံသို့ ပြောင်းလဲ၏။

(၂) လ—အသံ ပြောင်းလဲခြင်း။

ပုဂံကျောက်စာများ၌ ယ၊ ရ အစား လ—ဆွဲသည်ကို တွေ့ရ၏။ ထားဝယ် ဒေသန္တရ၌လည်း ယခုတိုင် လ—ဆွဲသံကို ကြားရ၏။ လ—သံ မြည်အောင် လျှာဘေး တဖက် နှစ်ဖက်လျှောက်၍ လေမထွက်လျှင် ယ—သံထွက်၏။ ခက်သော လ—သံကို ဂရုမစိုက်ခြင်းကြောင့် လွယ်သော ယ—သံသို့ ပြောင်းလဲခြင်းဖြစ်၏။ ယခုခေတ် မြန်မာ လျှာ၊ လျှပ်၊ လျှား၊ လျှောက်၊ လျှို၊ လျှိုး အစရှိသည်တို့၌ကား လ—သံကို လုံးလုံး မကြားရတော့ချေ။

(၃) ယ—အသံ ထည့်သွင်းခြင်း။

ကျိပ်၊ ကျိန်း၊ ကျိ၊ ချိပင့်၊ ပန်းချီ၊ ချိန်၊ ချေး၊ ချီးမွမ်း၊ စာချီ အစရှိသည်တို့ကို ပုဂံကျောက်စာများ၌ ရေးရာတွင် ယပင့်—မပါချေ။ ယ—ပင့်ကို ယခုမှထည့်သွင်းကြ၏။

ထိုနည်းအတူ ကြည့်၊ ခြေ၊ ချေ (သားကောင်)၊ ချိန်၊ လူကြီးမင်း အစရှိသည်တို့တွင် ထားဝယ် ဒေသန္တရ၌ ယ—ပင့်သံကို မကြားရချေ။

ထိုပြင် ပစ်၊ ပစ္စည်း၊ တပည့်၊ ကမ္ဗည်း၊ မည်၊ မေတ္တာ၊ အစရှိသည်တို့ကို ရေးရာ၌ ယ—ပင့် မပါသော်လည်း ဖတ်ရာ၌ ယ — ပင့်အသံ ထည့်၍ ယခု ဖတ်ကြသည်။

ယ — ပင့်သံ ထည့်သွင်းရခြင်း၏ အကြောင်းကား ဤသို့ ဖြစ်သတည်း။

အဆိုပါ စကားလုံးများ၌ သရသံများသည် လျှာကို မြှင့်၍ မြည်ရသော ရှေ့သရသံများ ဖြစ်ကြသည်။ သရသံကိုမြည်ရာ၌ သတိမမူဘဲ လျှာဖျားဖြင့် အာခေါင်မာကို ထိရုံမျှ ထိမိလျှင် ယ—သံ ထွက်၏။ ပုံ၈....ကီ ဟုမြည်ရာ၌ လျှာသည် အီ—သရ ဖြစ်သောနေရာ၌ရှိ၏။ အာခေါင်မာကိုလျှာဖြင့် မထိရ၊ အကယ်၍ သတိ ကောင်းစွာမထားဘဲ လျှာကို အာခေါင်မာနှင့် ထိမိလျှင် ယ—ပင့်သံ ဝင်လာ၍၊ ကျီ—ဟု အသံမြည်၏။

(၄) နောက်အသံသည် နီးစပ်ရာ ရှေ့အသံသို့ ပြောင်းခြင်း။

က—ကို ယ—ပင့်၍ ဖတ်သော် ခံတွင်း၌ နောက်သံဖြစ်သော က—နှင့် ခံတွင်း၌ ရှေ့သံဖြစ်သော ယ—တွေ့ကြရာ၊ နောက်သံဖြစ်သော က—သည် ရှေ့သံဖြစ်သော ယ—မှ ဝေးရကား၊ အသံပြေပြစ်စိမ့်သောငှာ နီးစပ်သော ရှေ့သံဖြစ်သည့် တ—သံသို့ ပြောင်းလိုက်၏။

သို့ဖြစ်၍ က ယ—ပင့် ကျသည် တျ ဟု အသံထွက်၏။

(၅) အဃောသမှ ဃောသသို့ ပြောင်းလဲခြင်း။

လာစမ်း—လာဇမ်း။ဝန်ကြီး—ဝန်ဂြီး။မီးပုံး—မီးဗုံး။ အုန်းပင်—အုန်းဗင်။ တောကြောင်—တောဂြောင်အစရှိသည်တို့၌



ပုံ ၁၃

ဒုတိယဗျည်းသည် အဃောသမှ ဃောသ အသံသို့ ပြောင်းလဲ၏။ ဤသို့ပြောင်းလဲခြင်းတို့တွင် လာစမ်း ဟူသောစကား၌ လာသည် အာ—သရနှင့် ဆုံး၍၊ စမ်းသည် စ—ဗျည်းနှင့် စ၏။ဤသို့ အာ—သရနှင့် စ—ဗျည်းတို့ တွေ့ဆုံကြရာ ဃောသအသံဖြစ်သော အာ—သရနှင့် အဃောသအသံ ဖြစ်သော စ—ဗျည်းတို့ တွေ့ဆုံကြခြင်း ဖြစ်၏။ ဃောသနှင့် အဃောသ တွေ့ဆုံခြင်းထက် ဃောသနှင့် ဃောသ တွေ့ဆုံခြင်းသည် သာ၍ ပြေပြစ်ရကား၊ အဃောသဖြစ်သော စ—ကို ဃောသ ဖြစ်သော ဇ—သို့ ပြောင်းလိုက်လျှင် လာစမ်းသည် လာဇမ်း ဟူ၍ ပြေပြစ်သောအသံ ဖြစ်လာ၏။

ဝန်ကြီး ဟူသော စကား၌လည်း ဝန် — သည် ဃောသ နှင့် ဆုံးသဖြင့် အဃောသနှင့်စသော ကြီး — ကို ဃောသနှင့် စသော ဂြီး — သို့ ပြောင်းလိုက်၏။ အခြားပုံစံတို့၌လည်း ထိုနည်းအတိုင်းပင်။ သို့သော် အကြောင်း တစုံတခုကြောင့်

အသံကွဲပြားစေလိုလျှင် ဒုတိယ အဃောသ ဗျည်းကို ဃော သသို့ မပြောင်းဘဲ ထား၏။ ပြယုဂ်—စော်ကဲ၊ ဦးကောင်း (လူအမည်)။

ရှေ့က သရ မရှိသော်လည်း အောက်ပါ အဃောသ ဗျည်းတို့ကို ဖတ်သောအခါ ဃောသအသံ ထွက်တတ်၏။ ကွင်း (ကျယ်သည်)၊ ကျွမ်း (ထိုးသည်)၊ ကြား (လမ်း)၊ ကြို (ထိုးသည်)၊ (ဦး)ခေါင်း၊ ချိုး (ငှက်)၊ ချောင် (တောင်ကြား)၊ ချောက် (တောင်ကြား)၊ ချိုင့် (ဝှမ်း)၊ ချိတ် (နှင့် ချိတ်သည်)၊ ခွေ (စက်ဝိုင်းပုံ)၊ ခွ(ကျသည်)၊ ခုံ (ပေါင်းကူး)၊ ချိုင်း( လက်ကတီးကြား)၊ ဆီး (သီး)၊ တုတ် (နှင့် ရိုက်သည်)၊ တန်း (စီးသည်)၊ ထား (နှင့် ခုတ်သည်)၊ ထောင့် (အကွေး)၊ (ဝမ်း)ပိုက်၊ သင်း(နာမ် စား)၊ သို့(မဟုတ်)၊

(၆) မတြာဝက်အသံသို့ ပြောင်းလဲခြင်း။

အောက်ပါ ပုံစံများ၌ ပဌမ သရသံတို့သည် မတြာဝက် အသံသို့ ပြောင်းကြ၏။ စာရေး၊ ငါးစိမ်း၊ သိကြား၊ ဘီလူး၊ လည်းကောင်း၊ ဖယ်လှယ်၊ ပုတီး၊ သူကြီး၊ ကူးတို့၊ တံခါး၊ နံ့သာ၊ သန်ကောင်၊ သေနတ်၊ အစ်ကို၊ လင်းကွင်း၊ ခက်ရင်း၊ နှုတ်ခမ်း၊ ပုန်းတောင်း၊ ကျွန်မ၊ ခေါင်းတုံး၊ တိန်ညင်း၊

လျှာ ထားပုံအားဖြင့် အာ အယ် အော် သုံးနေရာ၏ ဗဟို လောက်ကျသော မတြာဝက် အသံသည် လျင်မြန်စွာ မြည်သောအသံ ဖြစ်၏။ ထိုကြောင့်အထက်တွင်ဖော်ပြသည့် အတိုင်း များသော သရတို့သည် ယင်း အသံသို့ လွယ်ကူစွာ ပြောင်းလဲကြ၏။ ဤအချက် တခုတည်းဖြင့် မြန်မာတို့ သည် လျင်မြန်သော စကားသံကို နှစ်သက်ကြောင်း ထင် ရှား၏။ **ဦးဖေမောင်တင်**

**မြန်မာ အလေးချိန်နှင့်အခြင့်အတာ။** ။အလေးချိန် နှင့် အခြင့်အတာ — ရှု။

**မြန်မာ အိုးခွက်လုပ်ငန်း။** ။အိုးသည် ရှေးနှစ်ပေါင်း ၅၀၀ ခန့်ကပင် ပေါ် ပေါက်လာခဲ့သည်ဟု ခန့်မှန်းရသည်။ ထို အထောက်အထားကို တရုပ်နိုင်ငံ၌ တွေ့ရသည်။ ရှေးခေတ် က ကမ္ဘာ့သူ ကမ္ဘာ့သားတို့သည် ဝါးဆစ်ဗူး၊ သစ်ရွက်၊ ကျောက်ခွက် စသည်တို့ကို ထည့်စရာ အဖြစ် သုံးစွဲကြရာမှ အိုးကို တီထွင် ဖန်တီးခဲ့ခြင်း ဖြစ်လေသည်။

မြန်မာ နိုင်ငံ၌ ရှေးအခါက ထမင်း ဟင်း စားသုံးသော မြေစလုံ၊ ပန်းကန်လုံး အကြီး အငယ်၊ အလတ်စား တို့ကို မဲနယ်မှုန့်များ သုတ်လိမ်း၍ ပြုလုပ်ခဲ့ကြသည်။ ထို ပြာနှမ်း နှမ်းမြေစလုံအကျား အမျိုးမျိုးတို့ကို ပစ္စည်းဥစ္စာ ကြွယ်ဝ၍ ချမ်းသာသော ဥစ္စာရှင်များကသာ စားသောက် ကြရာ၌ သုံးစွဲနိုင်ကြလေသည်။ တောင်သူ လယ်သမား ဆင်းရဲသား တို့ကမူ နှီးကို ဖြာ၍ ရက်လုပ်ထားသည့် နှီးစားပျစ်နှင့်တမျိုး၊ ဗန်း စကောကို သစ်စေးသုတ်နှင့် တဖုံ၊ စဉ့် သုတ်မထားသော မြေအိုး၊ မြေစလောင်းဖုံး၊ မြေပန်းကန်၊ မြေစလုံ သက်သက် တို့ဖြင့် တလည့် ထမင်း ဟင်းလျာများကို ထည့်၍ စား သောက် ခဲ့ကြရလေသည်။ နောက်ပိုင်း ခေတ်များတွင် ချမ်းသာသူများ သုံးသည့် ကျွန်းသားကို တွင်ခံထားသည့် ဗျပ်များပေါ် လာသည်။ (တွင်ခံသည်ဆိုသည်မှာ ပွတ်ခံထား ခြင်းကို ဆိုလိုပေသည်။)



မြန်မာလူငယ်တဦး အိုးလုပ်နေစဉ်

ဗျပ်ကို ပြုလုပ်ရာ၌ တတောင်၊ တတောင့်ထွာ၊ နှစ်တောင် ရှိသည့် ကျွန်းပင်ချောချော ပင်လုံးပင်တံတို့ကို ငမန်းလွှ ကြီးဖြင့် ငါးလက်မမှ ခြောက်လက်မ အထိ တိတိကျကျ ပိုင်းဖြတ်ပြီးလျှင် ထိပ်တည့်တည့်မှ ပွတ်ခံပေးရသည်။ ထို အခါ အလယ်ခွက်၍ နှစ်လက်မခွဲ သုံးလက်မခန့် စောက်ရှိ သော ကျွန်းသားအဝိုင်း ဗျပ်ဖြစ်လာသည်။ ထိုဗျပ်ကို သစ် စေး၊ ဟသ်ပြဒါး သုတ်ထားသဖြင့် နီမြန်းရဲတောက်သော အသွေးအရောင် ရှိသည်။ ထိုဗျပ်နှင့် အိမ်သူအိမ်သား လေး ငါး ခြောက်ယောက်တို့သည် ထမင်း၏အလယ်ဗဟိုတွင် ဟင်း ခွက်ကို တည်၍ စားကြရသည်။ ထိုသို့ ရှေးမြန်မာများသည် ဗျပ်ဝိုင်း၊ ဒေါင်းလန်း၊ စားပျစ်၊ မြေစလုံ၊ အင်တုံ စဉ့်သုတ်တို့ နှင့် အစားအသောက်များကို စားသောက်ခဲ့ကြရလေသည်။

အိုးသည် လူအဖို့ မရှိလျှင် မဖြစ်သော ပစ္စည်းတခု ဖြစ် လေသည်။ မျက်မှောက်ခေတ်တွင် ဒန်အိုး၊ သတ္တုအိုးစသည် တို့ ပေါများလ ာသည်မှာ မှန်ပေသည်။ သို့သော် ၈၅ ရာခိုင် နှုန်းမျှသော မြန်မာလူမျိုးတို့သည် မြေအိုးကို လက်မလွှတ် ကြသေးချေ။ ထိုအချက်မှာ ထမင်း၊ ဟင်း ချက်ခြင်း၊ ရေ နွေးကျိုခြင်းဟူသော မီးဖိုချောင်သုံး အတွက်ကိုသာ ဆို

လိုခြင်း ဖြစ်ပေသည်။ မြန်မာလူမျိုးတိုင်း မြေအိုးမှ အပ အခြား ပစ္စည်းကို အစားထိုး၍ မသုံးစွဲသေးသော နေရာ တနေရာရှိ၏။ ယင်းမှာ သောက်ရေအိုး ဖြစ်လေသည်။ မြန်မာအိမ်များရှိ သောက်ရေအိုးကို ကြည့်လိုက်လျှင် မြေအိုး ကိုသာ တွေ့ရမည် ဖြစ်ပေသည်။ အချို့ နိုင်ငံခြား တိုင်းပြည် များ၌ပင် သောက်ရေတည်ရန် မြေအိုးကို အသုံးပြုသည်ဟု သိရပေသည်။

မြန်မာ့ ယဉ်ကျေးမှု တရပ် အဖြစ်ဖြင့် စေတီ၊ ပုထိုးများ ကို ရေချမ်းဆက်ကပ်သည့် နေရာတွင် မြန်မာလုပ် မြေအိုး သည် ပန်းအရဆုံး ဖြစ်လေသည်။ သပြေပန်း ထိုး၍ အောင် နိမိတ်ဆင်ကြသည့် ရေချမ်းအိုးမှာ မြေအိုးပင် ဖြစ်သည်။ နှစ်သစ်ကူး သင်္ကြန်ပွဲတော်၊ ကဆုန် ညောင်ရေသွန်းပွဲ တော်စသော နေ့ထူးရက်မြတ် အခါများတွင် မြန်မာ အမျိုး သမီးကလေးများ ကျောင်းကန် ဘုရားများသို့ ရွက်သွားကြ သော ရေအိုးများမှာ မြေအိုးများဖြစ်ကြသည်။ တောလက် ကျေးရွာများ၌ နေဝင်ရိုးရီ အချိန်၌ တေးများ ကျူးရင့်၍ ရေခပ်ကြသော ကျေးတောသူ လုံမေတို့ အသုံးပြုကြသည့် ရေအိုးများမှာလည်း မြေအိုးများသာ ဖြစ်ကြလေသည်။

လူသုံး ပစ္စည်းတို့တွင် မရှိလျှင် မဖြစ်သလောက် အရေး ပါလှသော အိုးကို မည်သို့ မည်ပုံ ပြုလုပ်ပါသနည်း။ ပြုလုပ်ပုံ မှာ ထုထောင်းပြီးသော မြေညက်များကို နူးနပ်၍ သမစေရန် ရေဖြင့် ဆွတ်လောင်းပြီးလျှင် အကြိမ်ကြိမ် မွှေနှောက်ပေးရ သည်။ မြေညက်ဟု ဆိုရာတွင် တနယ်မြေခေါ် မြေနက်တဆ၊ မြေနီ တဆခွဲ ရောစပ်ရသည်။ မြေနီက ကြမ်းနေလျှင် ဆတူ ရောစပ်ပေးရသည်။ ထိုသို့ ပြုလုပ် စီရင်ပြီးသော မြေကြီး သည် အိုးလုပ်ရန် အသင့် ဖြစ်နေပေပြီ။

အိုးလုပ်ရန် လိုအပ်သော ကရိယာတို့မှာ (၁) အိုးထိန်း စက် (အိုးတွင်းစက်ဟုလည်း ခေါ်ကြသည်။) (၂) ပလာ (၃) လက်ခုတို့ ဖြစ်ကြသည်။

(၁) အိုးထိန်းစက် ဆိုသည်မှာ အကျယ် တတောင်ခန့် ရှိသော သစ်သားဝိုင်းတခုကို အလယ်တွင် ဝင်ရိုးတိုင်ကဲ့သို့ တိုင်တိုကလေး စိုက်ထား၍ ထိုတိုင်ငုတ်ကလေးတွင် အ ကျယ်တတောင်ခန့်ရှိသော သစ်ပြားဝိုင်းတခုကို ဆုံလည်ကဲ့ သို့ စရွေးစွပ်ထားခြင်းဖြစ်သည်။ ထိုသစ်ပြားဝိုင်း၏ ဘေး နှစ် ဖက်တွင် လက်ကိုင်ရန် သစ်သားစွန်းကလေးနှစ်စ ပြုလုပ် ထားသည်။ ထိုအစွန်းကလေးနှစ်စကို လက်နှင့် ကိုင်၍ လှည့် လျှင် သစ်ပြား ဝိုင်းကလေးသည် အလွယ်တကူ လည်ပတ် နိုင်လေသည်။

(၂) ပလာ ဆိုသည်မှာ အရှည် တပေခန့်နှင့် ပြက် သုံး လက်မခန့် ရှိသော သစ်သားလက်ရိုက်တမျိုး ဖြစ်သည်။ ထိုပလာတွင် (က) ပြည် ပလာ (ခ) မော်လုံး ပလာ (ဂ) ပန်း ပလာဟူ၍ သုံးမျိုး ရှိပြန်သည်။ ပြည်ပလာကို အိုးအထူ အပါး ညီစေရန် ညှိရာ၌ အသုံးပြုသည်။ မော်လုံး ပလာကို အိုး အထူအပါး ညှိရာ၌ပင် အိုး၏ ဖင်ပိုင်းကဲ့သို့ ရှိုသား ထူ သည့် နေရာမှ ရှိုသားပါးသည့် နေရာသို့ ဖြန့်ညှိရာ၌ အသုံးပြု သည်။ ပန်းပလာကိုမူ အထူအပါးညှိ၍ စိတ်ကြိုက်ပုံစံသို့ ရောက်သည့်အခါ မှန်ကူကွက်ကလေးများ၊ ပန်းနွယ် ပန်းပွင့် ကလေးများ၊ ကျေးရုပ်ကလေးများ စသည်ဖြင့် အိုးကိုအလှ ဖော်ရာ၌ အသုံးပြုလေသည်။

(၃) လက်ခု ဆိုသည်မှာ မြေညက်ကို မီးဖုတ်ထားသော လက်သီးဆုပ် သာသာ အရွယ်ရှိသည့် ခုံးပြားပြားပုံသဏ္ဌာန်



လိုရာပုံသဏ္ဌာန်ကို လက်ဖြင့် တဖြေးဖြေး ဆွဲယူပုံသွင်းယူရသည်။

ရှိသော ကရိယာတမျိုး ဖြစ်သည်။ လက်ခုတွင် ခတ်လက်ခု နှင့် လုံးလက်ခုဟူ၍ နှစ်မျိုးရှိသည်။ ခတ်လက်ခုကို အိုး၏ အထူအပါးကို ညှိရာ၌ ပြည်ပလာ၊ ပန်းပလာတို့နှင့် တွဲဖက်၍ အသုံးပြုသည်။ လုံး လက်ခုကိုမူ ရှိုသားထူသည့် နေရာမှ ရှိုသားပါးသည့် နေရာသို့ ဖြန့်ညှိရာ၌ မော်လုံး ပလာနှင့် တွဲဖက်၍ အသုံးပြုသည်။ ဖော်ပြပါ အိုးထိန်းစက်၊ ပလာ၊ လက်ခုတို့နှင့် ရှိုမြေညက်ကရိယာများ ရှိနေလျှင် အိုးကို ပြုလုပ်နိုင်ပေပြီ။

အိုးပုံ လောင်းရာ၌ လူနှစ်ယောက် လုပ်ကိုင်တတ်ကြ သည်။ ပဌမ လူတယောက်က အိုးထိန်းစက်ကို ချာချာလည် အောင် လှည့်ပေးရသည်။ ဒုတိယ လူတယောက်က အသင့် ရှိပြီးဖြစ်သော ရှိုမြေညက်ကိုလုံး၍ ချာချာ လည်နေသော အိုးထိန်းစက်၏ အလယ်ဗဟိုတွင် တည်ကာ လက်နှစ်ဖက် ဖြင့် အလိုရှိသော အိုးပုံစံသို့ ရောက်အောင် ပြုပြင်ပေးသည်။ ထိုသို့ အိုးပုံလောင်းခြင်းသည် သုံးမိနစ်မျှကြာလျှင် ပြီးစီး သည်။ အိုး၏ အကြီးအငယ်ကို လိုက်၍ ရှိုမြေကို မှန်းဆကာ ယူငင်ပြီးလျှင် ချာချာလည်နေသော အိုးထိန်းစက်ပေါ်သို့ တင်လိုက်ပုံသည်ငင်း၊ ထိုရှိုတုံးကို လက်နှစ်ဖက်ဖြင့် ပြုပြင်



အိုးများကို စဥ့်ရည်သုတ်ပေးစဥ်

ပေးရုံမျှဖြင့် တဖြည်းဖြည်း အိုးဖြစ်လာပုံသည်ရင်း အလွန်ကြည့်၍ ကောင်းပေသည်။ ထိုလုပ်ငန်းကို "အိုးထွင်း"သည်ဟု ခေါ်ကြသည်။ ထွင်းပြီး (ပုံလောင်ပြီး) သော အိုးကို အိုးခတ်မည့်သူထံ ပို့ရလေသည်။

အိုးခတ်သူသည် အထက်တွင် ဖော်ပြခဲ့သော လက်ခုကို အိုး၏ အတွင်းဘက်မှ ခု၍ ခံ၍ အပြင်ဘက်မှ ပလာဖြင့် ခတ်၍ ပုတ်၍ အထူအပါးကို ညှိပေးသည်။ ထိုသို့ အထူအပါးညှိရာ၌ မြေနက်၊ မြေနီ ရောစဥ်က အချိုးမကျခဲ့လျှင် ပလာတွင် ရှံ့မြေညက်များကပ်၍ ပါလာတတ်သည်။ ထိုသို့ ဖြစ်လျှင် သဲကြမ်းကို ဖြူး၍ ပေးရသည်။ သဲကြမ်း အဖြူးများသော အိုးသည် နောင်အခါ၌ ရေစိမ့်များ၍ ရေအေးသည်။ ပြာသိုလတွင် ပြုလုပ်သည့် ရေအိုးသည် အေးသည်ဟု ဆို၍ သောက်ရေအိုးတည်ရန် ပြာသိုအိုးကို ရွေးချယ်၍ ဝယ်လေ့ရှိကြသည်။ အမှန်မှာ ပြာသိုလတွင် လုပ်သဖြင့် ရေအေးသည် မဟုတ်ပေ။ အိုးခတ်စဥ်က သဲကြမ်းများများ ဖြူးပေးခြင်းကြောင့်သာ အေးခြင်း ဖြစ်သည်။ အိုးခတ်၍ ၁၅ မိနစ်ခန့်ကြာသော အခါ မှန်ကူကွက် စသော ပန်းပုံကလေးများ ဖော်ပြီးသည်အထိ အိုးတလုံးကို အချောကိုင်ပြီး ဖြစ်လေသည်။ အချောကိုင်ပြီးလျှင် နေပူရာတွင်ဖြစ်စေ၊ လေသလပ်ရာတွင်ဖြစ်စေ ဖြန့်ချထားရသည်။

အချောကိုင်ပြီး သွေ့ခြောက်ပြီးသော အိုးများကို မီးဖုတ်ပေးရန် လိုသေးသည်။ မီးဖုတ်ရာ၌ အိုးပေါင်း ၃၀၀ မှ ၅၀၀ အထိ တပြိုင်တည်း မီးဖုတ်ပေးကြသည်။ အိုးဖုတ်ရန် မီးဖိုဟူ၍ အထူးအခြားမရှိချေ။ အိုးအနည်းအများ အလိုက် မြေနေရာကို သတ်မှတ်ပြီးလျှင် ကောက်ရိုး၊ နွားချေး စသော လောင်စာများကို ခင်းထားကြသည်။ ထိုနောက် လောင်စာများ အပေါ်တွင် အိုးများကို ဆင့်ကာဆင့်ကာ စီ၍ တင်ထားပြီးသော် ယင်းအိုးများ၏ဘေးပတ်လည်၌ရင်း၊ အပေါ်၌ရင်း လောင်စာများကို ထည့်ပေးကြသည်။ မီးတောက်အရှိန်ညီစေရန် ပြင်ဆင်ပြီးသောအခါတွင် မီးရှို့ပေးသည်။ ထိုသို့ ပြုလုပ်သည်ကို အိုးဖိုသည် ဟူ၍ရင်း၊ အိုးဖုတ်သည် ဟူ၍ရင်း ခေါ်ကြသည်။ နှစ်နာရီခန့် ကြာ၍ မီးအရှိန်ကျသွားသောအခါ အိုး၏နခမ်းကို တီးခေါက်၍ကြည့်လျှင် 'ဒေါင်၊ ဒေါင်၊ ဒေါင်၊ ဒေါင်' ဟူသော အသံ ထွက်ပေါ်လာသည်။ ထိုအခါ အိုးအဖြစ်သို့ အပြီးတိုင် ရောက်ရှိသွားလေပြီ။

ခြောက်သွေ့သော အိုးခွက်တို့ကို ဆေးဒန်းမှုန့် ဖျော်ထားသော ရေဖြင့် သုတ်လိမ်း၍ မီးဖုတ်လိုက်လျှင် စဥ့်ရည်သုတ်ပြီး နီဝါသဏ္ဌာန် အသွေးအရောင် ဖြစ်လာလေသည်။ ဆေးဒန်းမှုန့်အစား ကန့်မှုန့်၊ ဇဝက်သာမှုန့်၊ ဒုတ္ထာမှုန့်များ ကိုလည်း သုတ်နိုင်ပေသည်။ စိန်နှင့် ဟင်းရိုင်းချေးများသည် အနီရောင်ကို ပေးနိုင်သော်လည်း ရှေးအခါကပင် ထိုပစ္စည်းများ အဖိုးတန်သောကြောင့် သုတ်လိမ်းခြင်း နည်းပါးခဲ့သည်။ ထိုခဲတ်ဆေးမှုန့်ကို တမာစေးကျဲကျဲနှင့် ဖျော်၍ သုံးလျှင် အကျိုး ရှိနိုင်ပေသည်။

အိုးဆိုရာတွင် အိုးပုတ်မှ စ၍ ချိုးရုပ်၊ စလယ်ဝင်အိုး၊ ခွက်ဝင်အိုး၊ အိုးစရည်း၊ အိုးကြီးထုတ်များ အထိ ပုံစံအရွယ် အမျိုးမျိုးရှိလေသည်။ အချို့အရပ်များတွင် သောက်ရေအိုး၊ ရေတကောင်း၊ လက်ဖက်ရည် ကရား စသည်တို့တွင် ကိန္နရာ



အိုးထွင်းပြီးနောက် အိုးနခမ်း အချောကိုင်စဥ်

ရုပ်၊ နဂါးရုပ်၊ ဘီလူးရုပ် စသည်ဖြင့် အနုပညာလက်ရာများ ဖော်ထားသည်ကို တွေ့ရလေသည်။ မြန်မာဘုရင်များ အုပ်စိုးစဉ်က အိုးလုပ်ငန်းကို အရေးတယူ အသား ပေးခဲ့ကြသဖြင့် အိုးတော်ဆက် အမှုထမ်းများ နေထိုင်ရန် ရပ်ကွက်များကိုပင် သီးသန့်၍ ပေးခဲ့ကြလေသည်။ ထို့ကြောင့် စစ်ကိုင်း၊ အင်းဝ၊ အမရပူရ၊ မန္တလေး၊ ရွှေဘို စသော ထီးစိုက်နန်းတည် မြို့ကြီးများ၌ ယခုတိုင် "အိုးတော်ရပ်" "အိုးဖိုရပ်" ဟူသော အမည်များဖြင့် ရပ်ကွက်များ တည်ရှိနေကြသည်။ တွံ့တေးမြို့၊ မော်လမြိုင်မြို့တို့၌လည်း အိုးခွက် လုပ်သော လုပ်ငန်းများ ရှိကြသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတွင် ခေတ်သစ် မြေထည်၊ ကြွေထည် လုပ်ငန်း လိုအပ်သည့်အတွက်၎င်း၊ မြန်မာနိုင်ငံရှိ မြေထည်၊ ကြွေထည် လုပ်ငန်းများ၏ အဆင့်အတန်း တိုးတက်အောင် ပြုလုပ်ပေးရန်အတွက်၎င်း ၁၉၅၄ ခု နှစ်ဦးပိုင်းက ပြည်ထောင်စု မြန်မာနိုင်ငံ လက်တွေ့သုတေသနလုပ်ငန်း အဖွဲ့တွင် မြေထည်၊ကြွေထည်လုပ်ငန်း သုတေသန ဓာတ်စမ်းခန်းတခုကို ဖွင့်လှစ်ခဲ့လေသည်။ ထိုသုတေသန ဓာတ်စမ်းခန်းကို တည်ဆောက်ရာတွင် ဒိန်းမတ်နိုင်ငံက ကုလသမဂ္ဂမှ တဆင့် အကူအညီ များစွာပေးခဲ့သဖြင့် ဓာတ်ခွဲခန်းရှိ ကရိယာ တန်ဆာပလာ အများအပြားမှာ ဒိန်းမတ်နိုင်ငံဖြစ်များ ဖြစ်ကြပေသည်။ ထိုပြင် မြေအိုး၊ မြေခွက် လုပ်ငန်း ဆိုင်ရာ ဒိန်းမတ်နိုင်ငံသား ပါရဂူတဦးကိုလည်း ကုလသမဂ္ဂမှ တဆင့် မြန်မာနိုင်ငံသို့ စေလွှတ်ခဲ့ပေသည်။ ဓာတ်စမ်းခန်း ဆောက်လုပ်ပြီးစီးသည့် ၁၉၅၄ ခု နှစ်နှောင်းလောက် အချိန်မှ စ၍ မြန်မာ ရွှံ့မြေများနှင့် အခြား မြေထည်ကြွေထည် လုပ်ငန်းဆိုင်ရာ ပစ္စည်းများကို စံနစ်တကျ စုဆောင်း စမ်းသပ် စစ်ဆေး လာခဲ့ကြပေသည်။ ယင်းသို့ စမ်းသပ် စစ်ဆေးရာတွင် မြန်မာ နိုင်ငံတွင်းရှိ မြေထည်လုပ်ငန်းများ၌ အသုံးပြုသော သဘာဝ ပစ္စည်းရိုင်းများကို ဓာတ်သဘောအရ စမ်းသပ်ခြင်း၊ မြေထည်၊ ကြွေထည် ပစ္စည်းသစ်များ တိုးတက်ဖြစ်မြောက်အောင် လုပ်ဆောင်ပေးခြင်း၊ အရောင်တင် ကြွေအကောင်းစားများ ပြုလုပ်ပေးခြင်း၊ ကြွေထည်ပစ္စည်းများ၊ မီးခံအုတ်၊ နံရံကပ် ကြွေပြားနှင့် အိမ်တွင်း လက်မှုလုပ်ငန်းများအတွက် အုတ်ကြွပ်ပြားများ ဖြစ်မြောက်လာရေး အတွက် စမ်းသပ်မှုများ ပြုလုပ်ပေးခြင်း အစရှိသည်တို့ ပါရှိကြပေသည်။ ထိုပြင် မြန်မာနိုင်ငံတွင်းရှိ အိုးဖိုများအတွက် မြေထည်၊ ကြွေထည် ပြုလုပ်ရန် နည်းသစ်များကို စီမံ ပေးသော လုပ်ငန်းများလည်း ပါရှိလေသည်။

**မြန်မာ အက္ခရာထုပွတ်။** ။စာပေ အက္ခရာ အထုပွတ်သည် စာပေ လောကအတွင်း အရေးပါ အရာရောက်လာရသည်မှာ ကျောက်စာများ (ရှေး အရေးအသား) ကို သုတေသနနည်းဖြင့် စုံစမ်း ရှာဖွေ၍ ရမှုကြောင့် ဟုယူဆသင့်သည်။ အက္ခရာများကို စတင် ရေးသားထား၍ သာလျှင် လူမျိုး တမျိုး၏ အမျိုး ဘာသာ သာသနာ စာပေနှင့်တကွ ရည်မွန်မှု ယဉ်ကျေးမှု တိုးတက်လာရသည်မှာ ယုံမှားဖွယ် မရှိချေ။

ရည်မွန်မှုသည် သိမြင် နားလည်မှု၏ သယ်ယူ ပို့ဆောင်သော ယာဉ်သဖွယ် ဖြစ်သည်ဟု ပညာကျော်များက ယူဆကြ၏။ ထိုနည်းတူစွာ စာပေ အရေး အသားကိုလည်း ယဉ်ကျေးမှု၏ သယ်ယူပို့ဆောင်သော ယာဉ် ဟုလည်း ယူဆထိုက်ပေသည်။ အက္ခရန္တ ဗဟုသုတ (ဝါ) လိပ္ပန္တရ ဗဟုသုတ တည်းဟူသော အက္ခရာ အရေးအသား အကြား အမြင်များနှင့် ပြည့်စုံမှသာလျှင် ဘာသန္တရ ဗဟုသုတနှင့် ဒေသန္တရ ဗဟုသုတတို့၏ အထူးတလည် အထောက်အပံ့ ရချေမည်။

ထိုမျှ မကသေး၊ အက္ခရာများကို တီထွင် ရေးသား ထား၍ သာလျှင် စာပေ အရေးအသား ပေါ်ရချေ၏။ စာပေ အရေး အသား ပေါ်၍သာလျှင် အမျိုး ဘာသာ သာသနာနှင့်တကွ ရည်မွန်မှု ယဉ်ကျေးမှုတို့ တိုးတက် ကြီးပွားရချေ၏။ များသောအားဖြင့် နိုင်ငံတနိုင်ငံ၏ အလံတော်နောက်က ကုန် ကူးသန်းရောင်းဝယ်မှုသည် ထက်ချပ်မကွာ လိုက်လာဘိသကဲ့သို့ ကိုးကွယ်သည့် အယူဝါဒ နောက်သို့ အက္ခရာ အရေးအသားနှင့် တကွ ရည်မွန်မှု ယဉ်ကျေးမှု စသည်တို့သည် ထက်ချပ်မကွာ လိုက်မြဲသာ ဖြစ်ချေသည်။ အက္ခရာများကို ခေတ်အလိုက် အသုံး ပြုကြ၏။ ရှေးခေတ် အက္ခရာများသည် ယခုခေတ် အက္ခရာများ၏ ဘိုးဘွား မိဖများသဖွယ် ကျေးဇူး အထူးများလှ၏။ ယခုခေတ် အက္ခရာ များသည် ရှေးခေတ် အက္ခရာများမှ အဆင့်ဆင့် ဖြစ်ပေါ်လာသော အက္ခရာပွားများသာလျှင် ဖြစ်ပေသည်။

သို့ဖြစ်လေရကား ယခုခေတ် အက္ခရာများကို ကျေးဇူး အထူးပြုပေဘူးသော ရှေးခေတ်အက္ခရာများ၏ ဇာစ်မြစ်နှင့် တကွ ဖြစ်ပုံပျက်ပုံ အလုံးစုံကို ကုံလုံစေ့အောင် သုတေသန နည်းဖြင့် စုံစမ်း ရှာဖွေလျက်ပင် နေရချေသေးသည်။ ထိုအပြင် "အက္ခရာထုပွတ် စာပေဇာတ်" ကို တခမ်းတနား စုံလင်စွာ ရေးသား နိုင်စေခြင်းအလို့ငှာ ကြိုးစား ရှာဖွေ စုံစမ်းလျက်ပင် နေကြရသေးသည်မှာ သိသာထင်ရှားလေသည်။

အက္ခရာများကို မည်သည့် ခေတ်တွင် မဆို မှန်ကန်စွာ ဖတ်ရန်နှင့် ရေးသားရန် အထူး လိုလားအပ်သည်မှာလည်း ထင်ရှားလှ၏။ အက္ခရာ ပျက်ခဲ့လျှင် အနက် အဓိပ္ပါယ် အယူအဆ လွဲရချေ၏။ အနက် အဓိပ္ပါယ် လွဲလျှင် လိုရာ ခရီးသို့ မရောက်သဖြင့် ဆင်းရဲ ကြီးစွာပင် ရချေသေး၏။ ထို့ကြောင့် ပဌမ မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးကလည်း အောက်ပါလင်္ကာကို ဖွဲ့ဆိုတော်မူခဲ့လေသည်။

"အက္ခရာ ပျက်၊ ယွင်း သွေကွက်၊ အနက် ချွတ်တိမ်းရာ။"

"အနက် မဖြောင့်၊ နည်းယူမှောင့်၊ ယှင်းထောင့် ကျင့်မှုရာ။"

"အကျင့် ပေါက်ပြဲး၊ နိဗ္ဗာဏ်လွဲး၊ ငရဲးလားဘို့သာ။"

"အက္ခရာ မှန်၊ ယင်းအပြန်၊ နိဗ္ဗာဏ် မလွဲရာ။" ဟု မစုသာရတ္တ သတ်ပုံကျမ်းတွင် ရေးထုံးမှန်အက္ခရာမှန်ရေးရန် လိုလားအပ်ကြောင်းနှင့် စပ်လျဉ်း၍ ရေးသား စပ်ဆိုတော်မူခဲ့၏။

အက္ခရာမှန် ရေးသား၍ ဖတ်ဆိုရန် လိုလားသည့် အတိုင်း အက္ခရာမှန်ဖြင့် ရေးသား မှတ်ထားရန် ကိုလည်း ရှေး သူဟောင်းတို့က "နှုတ်တရာ စာတလုံး" ဟု ဆိုထုံးရှိသည်ကို လည်း အထူးမှတ်သား ဆင်ခြင်ရာကုန်၏။

## အက္ခရာ အရေးအသားစောင့် နတ်များ

ရှေးသူဟောင်းတို့သည် အက္ခရာ စာပေ အရေး အသားကို မထွေးမမှားရလေအောင် ရေးသားထားရုံမျှ မကသေး၊ ယင်းအက္ခရာများကို တီထွင်ရေးသားကြသော နတ်မင်းကြီးများနှင့်တကွ အက္ခရာနှင့်တကွ စာပေ ပညာစောင့် နတ်မင်းကြီးများ ရှိသည်ဟုပင် ယူဆကြသေးသည်ကို အောက်ပါ ဇယားအားဖြင့် အနည်းငယ် ဖော်ပြထားသည်။

| လူမျိုးအမည် | အက္ခရာတီထွင်သောနတ်၊ သို့မဟုတ် အက္ခရာနှင့် ပညာ တိုးတက် ကြီးပွားမှုစောင့်နတ် |
|---|---|
| အီဂျစ်လူမျိုး | ထော့ နှင့် အိုင်ဆစ် |
| ဗက်ဗီလုံး | နေဗို |
| ယဟူဒီ | မိုးဇက် (မောရှေ) |
| ဂရိ | ဟားမီး |
| အိန္ဒိယတိုင်းသား အာရိယန်လူမျိုး | ဗြဟ္မာကြီး (ဗြာဟ္မီ အက္ခရာကို ရေးသားတီထွင်သည် ဟု ရှေး အိန္ဒိယတိုင်းသားတို့ ယူဆကြ၏။) |
| ဟိန္ဒူ၊ ဇိန (ဂျိန်း) နှင့် ဗုဒ္ဓအယူဝါဒကိုးကွယ်သူများ | သူရဿတီ နတ်သမီး (စာပေနှင့် ပိဋကတ် သုံးပုံစောင့် နတ်သမီး) |

ထိုအတူ ရှေးတရုပ်နှင့် အခြား လူမျိုးတို့ကလည်း အက္ခရာနှင့် စာပေစောင့်နတ်များ ရှိသည်ဟု ယူဆကြပေသေးသည်။

## အက္ခရာများ၏ ဇာစ်မြစ်သမိုင်း

အက္ခရာ အရေးအသား၏ ဇာစ်မြစ်သမိုင်းကို တာဝန်ခံ၍ ရေးသားသူသည်လည်း ကဗျာ လင်္ကာ ဆရာကဲ့သို့ပင် "သမုဒ္ဒရာ ကမ်းနား တလျှောက် ပြေးလွှားနေသော ကလေးသူငယ်နှင့် တူပေသည်။" အဘယ်ကြောင့် ဆိုသော် ရှေး အက္ခရာ အရေးအသားများ၏ အထုပ္ပတ္တိကို ယခုထက်တိုင် သုတေသန နည်းဖြင့် ရှာမှီး စုံစမ်းလျက်ပင် ရှိသေးသည်။ အောက်ပါ အချက်များကိုလည်း တိကျပြတ်သားစွာ သိရန် လိုသေးသည် ဟုလည်း ထင်မြင် ယူဆပေသည်။

(၁) အက္ခရာများကို တီထွင် ရေးသားသူတို့၏ အမည်များ။

(၂) အက္ခရာများကို စတင် ရေးသားသော ခုနှစ်သက္ကရာဇ်။

(၃) အက္ခရာများကို မည်သည့် အယူဝါဒနှင့် ဘာသာစကားအတွက် ရှေးဦးစွာ ရည်မှန်း၍ ရေးသားကြောင်း။

(၄) အက္ခရာများကိုတလုံးမကျန်တိကျစွာဖော်ပြခြင်း။

(၅) အက္ခရာ များကို မည်သည့် ရေးစရာ အရာဝတ္ထုများပေါ်တွင် စတင် ရေး၍ မည်သည့် အရပ်ဒေသမှ မည်သည့် အရပ်ဒေသသို့ အဆင့်ဆင့် ကူးပြောင်း ယူဆောင်သွားကြသည့် ခုနှစ် သက္ကရာဇ်မှန်နှင့် သမိုင်းမှန် စသည်တို့၏ ဖြစ်ပုံ ပျက်ပုံ အလုံးစုံကို ကုံလုံစေအောင် သိပ္ပံနည်းဖြင့် အမှန်အကန် ရသည်ထက် ရအောင် ကြိုးစား၍ စုံစမ်းလျက်ပင် ရှိချေသေးသည်။ ပုံစံ ဆိုသော် မြန်မာနိုင်ငံတွင် 'ပျူ' စာကို ယခုထက်တိုင်အောင် လုံးစေ့ပါဌ်စေ့ အနက်အဓိပ္ပါယ် မဖော်ပြနိုင်သေးသည်မှာ ထင်ရှားသော အထောက်အထား တရပ်ပင် ဖြစ်ချေသည်။ ထိုအတူ အခြားနိုင်ငံများတွင်လည်း ရှေးအက္ခရာအရေးအသားတို့၏ အနက်ကို ကုန်စင်အောင် သိရန်အလို့ငှါ ကြိုးစားလျက်ပင် ရှိကြသေးသည်။

အက္ခရာ သမိုင်း (ဝါ) အက္ခရာ ထုပ္ပတ်ကို အထူး ဘာသာ တရပ် အဖြစ်နှင့် တက္ကသိုလ်များတွင် မသင်ကြားကြသေးသော်လည်း ကျောက်စာ အတတ်ပညာနှင့် ရှေးအက္ခရာ အရေးအသား အတတ်ပညာများကို များမကြာမီက တစတစ ဆည်းပူး လေ့လာကြသည်မှာ ထင်ရှားပေသည်။

ကမ္ဗည်း ကျောက်စာ ဆိုသည်မှာလည်း လက်တင် ကျောက်စာ၊ ဂရိ ကျောက်စာ၊ ဟီဗြူကျောက်စာ။ ဗြာဟ္မီ ကျောက်စာ အစရှိသည်ဖြင့် အများ အပြား ရှိသကဲ့သို့ ရှေး အရေးအသားများတွင်လည်း လက်တင် ရှေး အရေးအသား၊ ဂရိ ရှေး အရေးအသား၊ ဟီဗြူ ရှေး အရေးအသားနှင့် ဗြာဟ္မီ ရှေး အရေးအသား စသည်ဖြင့် အများအပြားပင် ရှိကြချေသေးသည်။

အီဂျစ်ပြည်၊ ဥရောပတိုက်နှင့် အာရှတိုက် တို့တွင် အရေးအသား အမျိုးမျိုးအဖုံဖုံ ရှိကြ၏။ ရှိကြသည့် အလျောက်လည်း ယင်း အရေးအသားတို့၏ ဖြစ်ပေါ် ပုံ ယူဆရာ၌လည်း ဝါဒကွဲများ ရှိချေ သေး၏။ ဤအက္ခရာ ထုပ္ပတ်တွင် များသောအားဖြင့် ပညာကျော်တို့ ယူဆပုံ တူသည်ကို ရေးသား ဖော်ပြမည့် အပြင်၊ မြန်မာနိုင်ငံသည် အိန္ဒိယ နိုင်ငံမှ ကိုး ကွယ်သည့် အယူဝါဒ၊ စာပေ အရေးအသား၊ ရည်မွန်မှု ယဉ်ကျေးမှုစသည်တို့ ဆက်သွယ်သည့် အလျောက် အိန္ဒိယ

ကျောက်စာ အက္ခရာ အရေးအသားကိုသာ မူတည်ထား၍ အယူ အဆနှင့် ဆင်ခြင်မှုတို့ကို ရေးသားမည် ဖြစ်ပေသည်။

အဘယ်ကြောင့် ဆိုသော် ဤအက္ခရာ ထုပ္ပတ် ရေးသားရာတွင် အာဖရိကတိုက်၊ ဥရောပတိုက်နှင့် အာရှတိုက် အနောက်ပိုင်း၊ အလယ်ပိုင်းမှ တွေ့ရသော အက္ခရာ အရေးအသားများနှင့် အိန္ဒိယနိုင်ငံတွင် ရှေးဦးစွာ တွေ့ရသော ခရောသျှဋ္ဌီနှင့် ဗြာဟ္မီအက္ခရာတို့ ဆက်သွယ်ပုံကို အတိအကျ မှန်ကန်စွာ မပြောနိုင်ကြသေးချေ။ ထို့ပြင် အလွန် နက်နဲခက်ခဲလှသော ပြဿနာ ဖြစ်သဖြင့် ယင်း အက္ခရာတို့၏ အထုပ္ပတ္တိကို အကျယ်တဝံ့ ဖော်ပြရလျှင် ကျမ်းလေးရကျိုး နပ်မည်မဟုတ်သည့်အပြင် လိုရာခရီးကိုပင် ရုတ်တရက် ရောက်နိုင်တော့မည်မဟုတ်ချေ။ ပုံစံဆိုသော် အီဂျစ်ပြည်၏ အရုပ်စာများ၊ အာရေဗျပြည်မှ ဆီးမိုက်လူမျိုးတို့၏ ဆီမစ်တစ်စာများ၊ မက်ဆိုပိုတေးမီးယားပြည်မှ ဆူမားရီးယန်း လူမျိုးတို့၏ ကျူနီဖောင်းခေါ် မြားဦးအရေးအသားတို့ကိုဤအက္ခရာ ထုပ္ပတ်တွင် မူတည်ထား၍ ရေးသားမည့် ဗြာဟ္မီနှင့် ဗြာဟ္မီပွား အက္ခရာများနှင့် နှိုင်းယှဉ်၍ပြရန် မလိုဟု ယူဆသည့် အလျောက် အနောက်ဖက်ရှိ အထက်ဖော်ပြပါ အက္ခရာများ အကြောင်းကို လုံးဝ ချန်လှပ်၍ထားမည် ဖြစ်ပေသည်။

ခရောသျှဋ္ဌီ အက္ခရာသည် ပါးရှားပြည် ဗက်တြီယာခရိုင်ကို အစွဲပြု၍ ဗက်တြီယန်အက္ခရာ ဟုလည်း ခေါ်ကြ၏။ ယင်း အက္ခရာသည် ပါးရှားပြည် အရာမေအန် လူမျိုးတို့၏ အရာမေအစ် အက္ခရာမှ ဆင်းသက်ဟန်တူကြောင်း ပညာရှိအများ ယူဆကြ၏။ ယင်းအက္ခရာများသည် ခရစ်တော်မပေါ်မီ လေးရာစုနှစ်မှ သုံးရာစုနှစ်အထိ ထင်ရှား ပေါ်လွင်ခဲ့၏။

ခရောသျှဋ္ဌီ အက္ခရာ၏ အဓိပ္ပါယ်ကား ကုလားအုဋ္ဌ (ကုလားအုပ်) နှုတ်ခမ်း သဖွယ် ကွေးကောက်နေသော ကမ္ပည်းစာ ဟုဆိုလိုသည်။ ခရောသျှဋ္ဌီ အရေးအသားသည် အာရိယန် အမျိုးသားတို့၏ အရေးအသား မဟုတ်ဘဲ၊ အနရိယန် (ဆီမစ်တစ်) တို့၏ အရာမေအစ် အရေးအသားသာလျှင် ဖြစ်ကြောင်းကို အချို့ ကျောက်စာ ပညာကျော်တို့က အတိအလင်း ရေးသားကြ၏။

### အိန္ဒိယ တိုင်းရင်း ကျောက်စာကြီးများ

အိန္ဒိယ တိုင်းရင်း ကျောက်စာကြီးများ အကြောင်းကို အကျဉ်းအားဖြင့် မဖော်ပြမီ အိန္ဒိယအမည်များကို သိသာရန်ဖော်ပြပေဦးမည်။ပါသျှန် (ဖာရစီ) ကျောက်စာများတွင် ဟိန္ဒုဟု ရေးသားထား၏။ ဂရိ လူမျိုးတို့က အိန္ဒိယ ဟု ခေါ်ကြ၏။ ဝေဒ (ဗေဒ) ကျမ်းနှင့် ဝေဒန္တီ ဒဒ်ကျမ်းများတွင် သင်္ကသိန္ဓဝဟနှင့် ဟပ်တ ဟိန္ဒု အာရိယန် လူမျိုးတို့၏ နိုင်ငံအမည် ခေါ်တွင်ချေ၏။ ရည်မွန်မှု ယဉ်ကျေးမှုတို့၏ မီးနေအိမ်သဖွယ် ဖြစ်သော အာရှတိုက်ခွဲကို ဖြတ်သန်း စီးသွားသည့် သိန္ဓုမြစ် (ဣန္ဒု) မြစ်ကို အစွဲပြု၍ သိန္ဓု၊ ဟိန္ဒု၊ ဟိန္ဒ၊ ဟိန္ဒု စထာန် စသည်ဖြင့် အလယ်ပိုင်းခေတ် စာရေးဆရာ များက ခေါ်ဝေါ်ကြောင်း တွေ့ရသည်။ ဟိန္ဒုစထာန်ကို ပါဠိလို အက္ခရာ ဖလှယ်သော် “စ” ကို ချေ၊ “ထ” ဆင်ထူးကို “ဌ” ဝမ်းဘဲပြု၍ ဟိန္ဒုဌာန် (ဟိန္ဒုတို့၏ နေရာဌာန) ဟု သိရှိနိုင်၏။ အတို ချုံးရမည် ဆိုသော် ပါသျှန် ကျောက်စာ အရေးအသား ဟိန္ဒု (မြန်မာတို့ ယခုအခေါ် ဟိန္ဒူ) ကိုဂရိလူမျိုးများက အိန္ဒိယဟုခေါ်ခြင်းပင်ဖြစ်သည်။

မြောက်ပိုင်း အိန္ဒိယ တိုင်းရင်း ကျောက်စာကြီးများကား (၁) ဂုတ္တာလိပိ၊ (၂) ကုဋိလ လိပိ၊ (၃) နာဂရီ၊ (၄) သျှာရဒါနှင့် (၅) ဗင်္ဂလာများ ဖြစ်ကြ၏။

တောင်ပိုင်း အိန္ဒိယတိုင်းရင်း ကျောက်စာကြီးများမှာ (၁) ပစ္ဆိမီ၊ (၂) မဈျပြဒေသျှီ၊ (၃) တေလုဂု-ကနဍီ၊ (၄) ဂြန္ထလိပိ၊ (၅) ကလိင် လိပိ၊ (၆) တာမိဠ လိပိနှင့် (၇) ဝေဋ္ဋဠုတ္တုများ ဖြစ်ကြသည်။ လိပိသည် စာအရေးအသား ဟု မြန်မာလို အနက်ရ၏။

ဗြာဟ္မီ အရေးအသားသည် အိန္ဒိယနိုင်ငံတွင် ရှေးအကျဆုံး ဖြစ်၏။ ခရစ်တော် မပေါ်မီ သုံးရာစုနှစ် တိုင်အောင် အသောကကျောက်စာ အရေးအသားများကို တွေ့ကြရ၏။ သို့ရာတွင် ခရစ်တော်မပေါ်မီ ငါးရာစုနှစ်အတွင်း ပိပြာဝါ အရပ်ရှိ ထူပ (စေတီပုထိုး) နှင့် ဗရလိရွာတွင် အနည်းအကျဉ်း နှစ်နေရာ ရေးသားထားသည်ကိုလည်း တွေ့ရ၏။

ဗြာဟ္မီ အက္ခရာ စတင် ရေးသားသော ခုနှစ် သက္ကရာဇ်နှင့် စပ်လျဉ်း၍ က မ္ဘာပေါ်ရှိ ကျောက်စာ ပညာကျော်များက ယခုထက်တိုင် အတိအကျ ဆုံးဖြတ်ချက် မချနိုင်သေးသည့် အပြင် အခြား ကျောက်စာများနှင့် ဆက်သွယ်ရေး မည်သို့ မည်ပုံ ရှိ မရှိလည်း ဝေဖန် စဉ်းစားကြလျက်ပင် ရှိသေး၏။ ကျောက်စာ လောကတွင် အံ့သြဖွယ်ဆုံး အခန်းတရပ်မှာ အိန္ဒိယနိုင်ငံ အနောက်မြောက်တွင် ပန်ဂျပ်နယ်ရှိ ဟာရပ္ပနှင့် သိန္ဓုနယ်ရှိ မိုဟိန်ဇိုဒရို မြို့ကြီးနှစ်မြို့နှင့် သိန္ဓုနယ် တောင်ပိုင်းရှိ ဆန္နုဒရို အစရှိသော မြို့ငယ်ကလေးများနှင့် ရွာများမှ လွန်ခဲ့သော နှစ်ပေါင်း ၃၀ ခန့်က တူးဖော်ရရှိသော “ဣန္ဒုမြစ်ဝှမ်း ကျောက်စာ အရေးအသား” များပင် ဖြစ်၏။ ယင်းကျောက်စာများ တံဆိပ်တုံးများ အစရှိသည် တို့ကို တွေ့မြင် စုံစမ်း စစ်ဆေးကြည့်ရှုရခြင်းအားဖြင့် သမိုင်း ရာဇဝင်တွင် စာမတင်မီခေတ်က ရေးသားမှု၊ ရည်မွန်မှု၊ ယဉ်ကျေးမှုတို့သည်ကား အံ့ဖွယ်ဘနန်း ရှိချေ၏။ ယင်းအရေးအသားများ၏ အဓိပ္ပါယ်ကို ဖော်၍ပင် မရသေးချေ။ ဤအရေးအသားများသည် အရုပ်စာများပင်ဖြစ်သည်ဟု သိရပေ၏။

ကျောက်စာ ရှေး အရေးအသား အမှတ်သင်္ကေတ လေ့လာ ဆည်းပူး ရာ၌လည်း (၁) စိတ်ရှည်ရှည် ထားရသည့် သည်းခံမှု၊ (၂) တဖက်သတ် လိုရာသို့ မယိမ်းယိုင်မှု၊ (၃)

သန့်ရှင်းတည်ကြည်၍ ပညာဥာဏ် ယှဉ်တွဲလျက် ဆုံးဖြတ်မှု အစရှိသော အချက်ကြီး သုံးချက်ကို အမြဲထာဝစဉ် ဂရုမူရချေမည်။ ကျောက်စာပညာကျော် လင်ဒန်၊ ဟန်တာနှင့် ဗီ၊ ဟရို ဇနီတို့ကလည်း အနည်းနည်းအဖုံဖုံ အိန္ဒိယအက္ခရာများ၏ ပုံစံရင်း မူလအခြေခံ ဖြစ်သော ဗြာဟ္မီအက္ခရာနှင့် ဆက်သွယ် ကြည့်ကြ၊ စိစစ်ကြ၊ အဓိပ္ပါယ် ကြံဆ၍ ဖော်ကြသော်လည်း ပညာရှင်တို့ သဘောပေါက်အောင် မစွမ်းဆောင်နိုင်သေးချေ။ မည်သို့ပင် ဖြစ်လင့်ကစား အစတွင် ဖော်ပြ ထားသည့်အတိုင်း ရှေးအက္ခရာတို့၏ ဆက်သွယ်ပုံကို စုံလင် ကုံအောင် ဝေဖန်နည်းများကို အကျယ်ရေးသားနေပါက လိုရာခရီး ဖြစ်သော မြန်မာ အက္ခရာထုပ္ပတ် ပန်းတိုင်သို့ လွယ်လင့်တကူ မရောက်နိုင်မည့် အပြင် ကျောက်စာမဆည်းပူးသူတို့အတွက် နားထွေးစရာ ဖြစ်မည်ကား မုချမလွဲတည်း။

ဗြာဟ္မီ အက္ခရာမှ အိန္ဒိယ အက္ခရာများ၊ ဂြန္ထ၊ ပျူနှင့် မွန်မြန်မာအက္ခရာများ အဆင့်ဆင့် တိုးပွားဆင်းသက်လာသည့် သက်သေခံပစ္စည်းများကား ခိုင်လုံသည်ဟုသာ ပညာကျော်အများ ဆုံးဖြတ်ယူဆမှု ရှိသည့်အလျောက် မွန် မြန်မာအက္ခရာသည် ဗြာဟ္မီအက္ခရာပုံစံရင်းမှ မည်သို့ သက်ဆင်းဟန် တူကြောင်းကိုသာ မှတ်ထား၍ ရေးသားဖော်ပြလိုပေသည်။

ဇမ္ဗူမြစ်ဝှမ်းအရေးအသားနှင့် ဗြာဟ္မီအက္ခရာ ဆက်သွယ်ဖြစ်ပေါ် လာပုံကို တိကျ ခိုင်လုံစွာ မဖော်ပြနိုင်သေးသည်မှာ သိသာ ထင်ရှား၏။ ဗြာဟ္မီအက္ခရာသည် အိန္ဒိယ နိုင်ငံ၏ သမိုင်းတွင် စာမတင်မီ ခေတ်က ရှေးပင်ရင်း ဇာတိ အက္ခရာဟောင်းများမှ ဆင်းသက်လာသည်။ သို့တည်း မဟုတ် ဗြာဟ္မီကို ဗြဟ္မာကြီးက တီထွင်၍ထားသော အက္ခရာပင် ဖြစ်သည် အစရှိသည်ဖြင့် ယူဆမှုတို့ကို စွဲလမ်းနေသည်မှာ အယူဝါဒရေး စိတ်ဓာတ် ပယောဂနှင့် မကင်းသလို ဖြစ်နေသည်ဟု ယူဆရပေသည်။ ပညာကျော်များက ဗြာဟ္မီအက္ခရာသည် ခရစ်တော်မပေါ်မီ ရှစ်ရာစု၊ ခုနစ်ရာစုနှစ်ခန့်တွင် စတင် ပေါ်ဟန် တူသည်ဟု ယူဆကြ၏။ ထိုပြင် တဝ အနောက်နိုင်ငံ ပညာရှင်များကလည်း အိန္ဒိယ အက္ခရာသည် သီးခြား အိန္ဒိယ နိုင်ငံသားတို့ တီထွင် မရေးသားဘဲ အခြားဒေသများမှ ရှေးအက္ခရာများကို အမှီသဟဲ ပြုရခြင်း ကင်းဟန်မတူဟု ယူဆကြသေး၏။ အိန္ဒိယ အက္ခရာတို့သည် လုံးဝ အက္ခရာစစ် မဟုတ်ဘဲ အက္ခရာဝက် အက္ခရာခြမ်းမျှသာ ဖြစ်သည်ဟုလည်း ယူဆကြ သေး၏။ ဗြာဟ္မီ အက္ခရာများမှ အိန္ဒိယ မြောက်ပိုင်းနှင့် တောင်ပိုင်း အက္ခရာများ တိုးပွားထွန်းကားလာသည်ဟု ပညာရှင်အများ ယူဆကြ၏။

အလွန် ထင်ရှားသော အသောက မင်းတရား၏ ကျောက်စာပေါင်း ၃၅ ခုကို ခရစ်တော် မပေါ်မီ ၂၇၄ ခုနှစ်မှ ခရစ်တော် မပေါ်မီ ၂၃၇ ခုနှစ်တိုင်အောင် ကျောက်တိုင်ကြီးများ၊ ဂူနံရံများနှင့် ကျောက်တိုင်များတွင် ဗြာဟ္မီအက္ခရာများဖြင့် ကျောက်ထက် အက္ခရာ တင်ထားသဖြင့် အသောက မင်းတရားကြီး၏ အစိုးရ အုပ်ချုပ်ပုံ နည်းစံနစ်များ၊ အကျင့်စာရိတ္တ ပြုပြင်ရေးနှင့် စပ်လျဉ်းသော လောကနီတိ ကျမ်းများ၊ မိမိကိုယ်၏ အတ္ထုပ္ပတ္တိ စာတမ်းများကို များစွာစိတ်ဝင်စားဖွယ်ကောင်းအောင် စုံလင်စွာ ရေးသားထား၏။ ယင်း ကျောက်စာများတွင် ထူးခြားသော အကြောင်းရပ်များ သီးခြား ပါဝင်သည့် အပြင် နီတိကျမ်းများနှင့် အမိန့်တော် ပြန်တမ်းများလည်း မြောက်မြားစွာ ရေးသားထား၏။ ကမ္ဘာပေါ်တွင် မည်သည့် ကေရာဇ်မင်းများမှ ရှေးက ဤကဲ့သို့ စုံလင်စွာ ရေးသား မထားခဲ့ဘူးချေ။

အသောက မင်းတရား ကျောက်စာ များသည် အိန္ဒိယနိုင်ငံတွင် ဘာသာစကားနှင့် စာပေ အရေးအသား လောက၌ နေလသဖွယ် ရှိသည်မှာ ထင်ရှားလျက် ရှိ၏။ အသောကကျောက်စာများသည် စာတတ် ပေတတ်များ အတွက်သာမဟုတ်ဘဲ၊ စာပေများစွာ မတတ်သူတို့ အတွက်ပါ ရည်စူးလျက် အကွင်းအကွက်ကျသော လမ်းမကြီးများနှင့် ဘုရားဖူးရန် အရပ်များမှာ စိုက်ထူ ထား၏။ ကျောက်စာများကို လူနည်းစု အတွက်သာ အကျိုးရှိသော စာသံပေသံ ပြောင်လှသော သက္ကတ ဘာသာဖြင့် မရေးသားဘဲ ပြကတိ အများ နားလည်နိုင်သော ပြာကြိုက် (ပြာကရိတ- ပြကတိ၊ ရိုးရိုးနှင့် ထီးသံ နန်းသံ မပါသော ကျေးလက်သုံး ဆင်းရဲသား ဘာသာစကား)ဖြင့်သာ ရေးသားထား၏။ အသောက ကျောက်စာများကို စကားလုံး ထွားထွားနှင့် ခန့်ညားကြီးကျယ်စွာ မရေးသားထားချေ။ အသောက ကျောက်စာများသည် ပါဠိ ဘာသာမှ မြန်မာဘာသာပြန် ဆရာတို့ နည်းယူလောက်အောင် လူထု နားလည်မှုကိုသာ အရင်းခံထား၍ ပြာကြိုက်ဘာသာဖြင့် ရေးသားခဲ့လေသည်။

ဤသို့ ရေးသားပြီး သကာလ သာသနာပြု၍သာလျှင် အသောက မင်းတရား၏ သာသနာ ဖြန့်ချိရေး လုပ်ငန်းတွင်ကျယ်မှု အကြောင်းကြီးတရပ် ဖြစ်ပေါ်လာချေသည်။ အသောက ကျောက်စာများသည် ဗြာဟ္မီအက္ခရာဖြင့် ရေးသားထားသည်ကို ဟိမဝန္တာတောင်ခြေမှ မိုက်ဆိုနယ် အထိနှင့် ဗင်္ဂလားအော် ကမ်းခြေမှ အာရေဗျ ပင်လယ်ကမ်းခြေ အထိ ထင်ရှားစွာ တွေ့ရ၏။ ထိုကျောက်စာများကို ရှေးအလွန်ကျသည့် ဗြာဟ္မီကြီး မဟုတ်သည့်တိုင်အောင် မောရိယဝံသီ—နှောင်းဗြာဟ္မီ အက္ခရာဖြင့် ရေးသားထားသည်ဟု ဆိုရချေမည်။

## မြောက်ပိုင်း အိန္ဒိယကျောက်စာ

(၁) ဂုတ္တလိပိ-ဂုတ္တဝံသီ မင်းများ ခေတ်အခါတွင် အိန္ဒိယပြည် မြောက်ပိုင်း တပိုင်းလုံးတွင် ယင်းကျောက်စာ အရေး

အသားကို ခရစ် လေးရာစုနှစ်နှင့် ငါးရာစုနှစ် အကြားတွင် အသုံးပြုသဖြင့် ဂုတ္တလိပိ ဟု ခေါ် ဟန် တူသည်။

(၂) ကုဋိလလိပိ–ဤအက္ခရာများရေးသားရာ၌ထူးခြားသော အချက်တရပ်မှာ သရများ၌ ရေးချ၊ လုံးကြီးတင်၊ ချောင်းငင်၊ သဝေထိုး၊ သဝေထိုးရေးချ စသော အမှတ်လက္ခဏာတို့သည် အတွန့်အတက်၊ အကောက်အကွေး ပုံများ ရှိသဖြင့် ကုဋိလ ဟု အမည်နာမ ပေးထားခြင်း ဖြစ်သည်။ ကုဋိလ အရေး အသားသည် ဂုတ္တလိပိ အက္ခရာပွား ဖြစ်၍ ခရစ်နှစ် ခြောက်ရာစုမှ ကိုးရာစုတိုင်အောင် အသုံးပြုသည့် အပြင်၊ ယင်း အရေးအသားမှ တဖန် နာဂရီနှင့် သျှရဒါ အက္ခရာများ ထပ်ဆင့်တိုးပွား၍ ပေါ်လာပြန်ချေသည်။

(၃) နာဂရီ–ယင်း အက္ခရာသည် အိန္ဒိယ မြောက်ပိုင်း၌ ခရစ် ကိုးရာစုနှစ်ခန့်တွင် တွေ့ရ၏။ သို့ရာတွင် အိန္ဒိယ တောင်ပိုင်း၌ကား ခရစ် ရှစ်ရာစုနှစ်မှ စ၍ အသုံးပြုကြ၏။ အကြောင်းမှာမူ တောင်ပိုင်းအရပ် ရဋ္ဌကူဋဝံသမင်း ပိုင်နယ်ရှိ၊ သာမနဂဍနှင့် ကောလှာပုရ ကေရာဇ်မင်း အုပ်ချုပ်နယ်တွင် သက္ကရာဇ် ၆၇၅ ခု သက သံဝတ်နှစ် (ခရစ်နှစ် ၇၅၄) ၌ အလှူတော် ပေးလွှာများကို နာဂရီဖြင့် ရေးသားထားသည်ကို တွေ့ရသောကြောင့် ဖြစ်သည်။ တောင်ပိုင်းဒေသများတွင် ဆက်လက် စိုးစံသော မင်းများလည်း ယင်း အရေး အသားကို ဆက်လက် အသုံးပြုပြီး သကာလ ခရစ် ၁၆ ရာစုနှစ်နောက် အသွင် တမျိုးဖြင့် ဤအက္ခရာများကို ရေးကြပြန်၏။ တောင်ပိုင်းအရပ်တွင် ဤအရေးအသားကို နန္ဒိ-နာဂရီ ခေါ်တွင်လေ၏။ ရှေး အရေးအသား နာဂရီမှ ရှေးကျသော ဗင်္ဂလာ (ဗင်္ဂလီ) အရေးအသား ပေါက်ပွားလာ၏။

နာဂရီ အရေးအသားမှ တဖန် ကဲတီ၊ မဟာဇနီ၊ ရာဇထာနီ နှင့် ဂုဇရာတီ အရေးအသားများ ပွားထွက် လာ၏။ အိန္ဒိယ အရေးအသားများအနက် အရေးအကြီးဆုံး ဟု ယူဆကြသော နာဂရီ(ဝါ) ဒေဝနာဂရီသည် ဂျာမန်ကျောက်စာပညာကျော် ဗျူလား အမည်ပေးသော သိဒ္ဓမာတြိက အက္ခရာမှ တဆင့် ရသော ဂုတ္တအက္ခရာပွား ဟုဆိုကြ၏။ နာဂရီ၏ မူရင်းအဓိပ္ပါယ်ကို တပ်အပ်သေချာစွာ မဖော်နိုင်ကြသေးသော်လည်း အချို့ ကျောက်စာ ပညာကျော်များက လလိတ ဝိတ္ထာရ ခေါ် ဗုဒ္ဓဝင်တွင် ရှေးဦးစွာ ရေးသားထားသော နာဂလိပိ (ဝါ) နာဂတို့၏ အရေးအသား ဟု ယူဆကြ၏။ ဒေါက်တာ အယ်၊ ဒီ၊ ဗားနက်ကမူ နာဂလိပိနှင့် ဒေဝနာဂရီ မည်သို့မျှ အဆက်အသွယ် မရှိဟု ယူဆ၏။ အချို့ အရပ်ခေါ်မှာ နာဂရ အရေးအသား (မြို့သုံးစာ) (ဝါ) နာဂရခေါ် ဂုဇရတ်ပုဏ္ဏားတို့၏ အရေးအသား ဟု ယူဆ၏။ ယခုခေတ်တွင်လည်း နာဂရီစာကို 'နတ်စာ'၊ 'ပုဏ္ဏားစာ' (ဝါ) နန်းသုံးထီးသုံးစာ ဟု ဆိုလိုကြသေး၏။ သည် ကြိုက်ကျမ်းများကို များသောအားဖြင့် ရှေးအထက်ကျော် ကာရီက စ၍ ဒေဝနာဂရီ အက္ခရာဖြင့်သာ ရေးကြ၏။

(၄) သျှာရဒါ–ဤအရေးအသားကို အိန္ဒိယ အနောက်မြောက်ပိုင်းရှိကသျှမီရနှင့်ပန်ဂျာဗ်နယ်တွင်အသုံးပြု၏။ ခရစ်ရှစ်ရာစုနှစ်တွင် မေရုဝမ္မာမင်း လက်ထက်တွင် ဤကျောက်စာများကို အသုံးပြုကြသည့် အပြင် ထိုအချိန်အခါတွင် ကုဋိလ ကျောက်စာလည်း ပန်ဂျာဗ် နယ်တွင် ခေတ်စားလျက်ပင် ရှိသေး၏။ ထိုနောက်တဖန် ဤကုဋိလမှ သျှရဒါကို ဆက်လက် တိုးပွား ရေးသားကြ၏။ ယခု တွေ့ရသရွေ့မှာ ရှေးအကျဆုံး သျှရဒါ အရေးအသားများကို စမ္ဗာကေရာဇ် မင်းပိုင်နယ် သရဟန် အရပ်တွင် ကျောက်စာ၊ ကြေးပေလွှာ အစ ရှိသည်တို့တွင် ရေးသားထားကြောင်း တွေ့မြင်ရ၏။

ဤ အရေးအသားကို ခရစ် ၁၀ ရာစုနှစ်တွင် ပေါ်ပေါက်ဟန် တူသည် ဟု ယူဆကြ၏။ ဤအရေးအသားမှ ရှေးကသျှမီရီနှင့် ဋာကရီ အရေးအသားများ ပွားထွက် လာကြ၏။ ထိုပြင် ပန်ဂျာဗီခေါ် ဂုရုမုခီအက္ခရာလည်း ယင်းသျှရဒါမှ ပေါ်ထွက်လာရသော အကြောင်းရင်း ခံချေ၏။

(၅) ဗင်္ဂလာ (ဗင်္ဂါလီ)–ဤ အရေးအသားသည် ရှေး နာဂရီအက္ခရာမှ ခရစ် ၁၀ ရာစုနှစ်ခန့်တွင် ပွားထွက်လာ၏။ ဗဒါလ ထမ္ဘ (ကျောက်တိုင်) ကို တူးဖော် ရရှိသော အခါ နာရာယဏပါလ မင်း လက်ထက်တွင် ခရစ် ၁၀ ရာစုနှစ်တွင် ဗင်္ဂလာအက္ခရာဖြင့် ရေးသားထားသည်ကို တွေ့ရ၏။ ယင်း ဗင်္ဂလာ (မြန်မာခေါ် ဗင်္ဂါလီ) အက္ခရာမှ ခရစ် ၁၁ ရာစုနှစ်တွင် နေပါလအက္ခရာ ပွားထွက်လာ၏။ ထိုအတူ ယခုခေတ်သုံး ဗင်္ဂါလီ၊ မဲထိလနှင့် ဥဒိယ အရေးအသားများ တဖန်ပွားထွက်လာပြန်၏။

## တောင်ပိုင်းအိန္ဒိယ ကျောက်စာများ

တောင်ပိုင်း ကျောက်စာများသည် ရှေးဗြာဟ္မီ အရေးအသားမှ ပုံအသွင် အဆင့်ဆင့် ပေါ်ထွန်းလာပြီးသကာလ ခေတ်ပြနှင့် အန္ဓရဝံသီမင်းများ လက်ထက်သုံး အက္ခရာများ ဖြစ်ပွားကြပြန်၏။ ထိုနောက် များမကြာမီ ဒက္ခိဏကုန်းပြင်မြင့်ရှိ နာဆိက၊ ကာရလီ အစရှိသော ဂူများအတွင်း၌ ရေးသား ကုန်သော ကျောက်စာများ ဖြစ်ကြပြန်၏။ ယင်း ကျောက်စာများသည် အောက်ပါအတိုင်း ဖြစ်၏။

(၁) ပစ္ဆိမ(အနောက်ပိုင်း ကျောက်စာ)–ဤ အရေးအသားကို အသုံးပြုခဲ့သော ကာဋ္ဌိအာဝါဍ၊ ဂုဇရာတ်၊ နာဆိက၊ ခါန်ဒေသျှနှင့် ဆတာရာ ခရိုင်များ၊ ဟိုက်ဒရာဗာဒ်စော်ဘွားမင်းပိုင်နယ်ရှိ အချို့ဒေသပိုင်းများ၊ ကုန်ကန်နှင့် အချို့ အချို့သော မိုက်ဆိုနယ်များတွင် ခရစ် ငါးရာစုနှစ်ခန့်မှစ၍ ကိုးရာစုနှစ်ခန့်အထိ တွေ့ရှိရ၏။ ခရစ် ငါးရာစုနှစ်ခန့်တွင် ရာဇပူတာနာနှင့် အိန္ဒိယအလယ်ပိုင်း၌ အချို့အချို့သော

ဒေသများတွင် ယင်းအရေးအသားများကိုတွေ့ရသေး၏။ ထိုနောက် မြောက်ပိုင်း အရေး အသားများ၏ လောင်းရိပ်ကိုလည်း အတော်အတန် မိလေ၏။ အိန္ဒိယနိုင်ငံ အနောက်ပိုင်းဒေသများ၌ ပိုမို အသုံးပြုသည်ကို အကြောင်း ပြု၍ ပစ္ဆိမီ အက္ခရာ ဟု အမည်ပေးဟန် တူ၏။

(၂) မဇ္ဈိမတိုင်း (မဇ္ဈပြဒေသျှိ) — ဤအရေးအသားကို အိန္ဒိယအလယ်ပိုင်းပြည်နယ်များ၊ဟိုက်ဒရာဗာဒ်နယ် မြောက်ပိုင်းနှင့် ဗုန်ဒေလခန္ဒရှိ အချို့ဒေသများတွင် ခရစ်ငါးရာစုနှစ်မှစ၍ ရှစ်ရာစုနှစ် နောက်ပိုင်းတိုင်အောင် တွေ့ကြရ၏။ ဤအရေး အသားများ၏ အက္ခရာတို့ ထိပ်ပိုင်းတွင် သေတ္တာများ ပုံသဏ္ဌာန် ရှိလေရာ များသောအားဖြင့် လေးထောင့်သေတ္တာများပုံမှာ ဟာလာဟင်းလင်း ဖြစ်၍ အချို့ အက္ခရာများ၌ ရုံခါ ရုံခါ မင်သည်း၍ ကင်းပိတ်ဖြစ်နေသည်ကို တွေ့ရ၏။ အက္ခရာတို့၏ ပုံသဏ္ဌာန်မှာ အနားထောင့်စွန်းများသည် များသောအားဖြင့် ညီမျှလျက် ရှိနေရကား ထောင်လိုက်ဖြစ်စေ၊ ပြားလိုက် ဖြစ်စေ ထွင်းရ ရေးရလွယ်၏။ အက္ခရာအဝိုင်း(စာလုံး)မရေးကြချေ။ ဤအရေးအသားသည် တခါတရံ ဗုံဗိုင်နယ် တောင်ပိုင်း ခပ်ကျကျ အရပ်များ၊ မိုက်ဆိုနယ်အပြင် အိန္ဒိယနှင့် အလှမ်းဝေးကွာသော အရှေ့ပိုင်းတိုင်းနိုင်ငံများအထိ ပြန့်ပွားဟန် တူ၏။ ဤအရေးအသားကို အထူးအားဖြင့် ကြေးပြားများတွင် ရေးသား ထား၍ ကျောက်ထက် အက္ခရာ တင်သည်က နည်းပါးလေသည်။

(၃) တေလုဂု-ကနဍီ—ယင်းအရေးအသားသည် ဗုံဗိုင်နယ် တောင်ပိုင်းဒေသများဖြစ်သော ဒက္ခိဏကုန်းပြင်မြင့်ရှိဒက္ခိဏဘာရတ၊ ဒက္ခိဏိမရာဌာပြဒေသျှ ဟုခေါ်ဝေါ်သော သျှောလာပုရ၊ ဗီဇာပုရ၊ ဗေလ ဂါမ၊ ခါရဝါဍနှင့် ကာရဝါဍ ခရိုင်များ၊ဟိုက်ဒရာဗာဒ်မင်းများ စိုးပိုင်သော တောင်ပိုင်း ဒေသများ၊ မိုက်ဆိုနယ်၊ မဒြာသ် ( မဒရပ် ) နယ် အရှေ့မြောက်ပိုင်းရှိ ဝိဇဂါပဋ္ဋမ်၊ ကာဒါဝရီ၊ ကရိသျှဏာကရနူလ၊ ဗီလာရီ၊ အနန္တပုရ၊ ကဒ္ဒပ္ပါနှင့် နေလ္လိုရ ခရိုင်များတွင် တွေ့ရ၏။

ဤအရေးအသားကို ခရစ် ငါးရာစုနှစ်မှ တဆဲ့လေးရာစုနှစ်တိုင်အောင် ပုံသဏ္ဌာန်တစတစ ပြောင်းရွှေ့ပြီးသကာလ ယခုခေတ်သုံး တေလုဂု-ကနဍီ အရေးအသားများအဖြစ် ပြောင်းလဲလာရချေသည်။ သို့ဖြစ်သောကြောင့် ဤ အရေးအသားကို တေလုဂု-ကနဍီ ဟု အမည် ပေးထားကြသည်။ ယင်း တေလုဂု-ကနဍီ ခေါ် ရှေးအရေးအသားများကို အသေးစိတ် ခွဲထုတ်သော် အုပ်ချုပ်စိုးမိုးသော မင်းများကို အစွဲပြု၍ ခေါ်သော ပလ္လဝ၊ ကဒံဗ၊ အနောက်ပိုင်း စာလုကျ၊ အရှေ့ပိုင်း စာလုကျ၊ ရာဋ္ဌကူဋ္ဌ၊ ဂင်္ဂါဝံသိ၊ ကာကတိ အရေး အသားများ အစရှိသည်တို့ ဖြစ်ကြသည်။

မြန်မာ နိုင်ငံတွင် ပျူစာကို လေ့လာ ဆည်းပူးလိုသူတိုင်းပင် ယင်း အရေးအသားများကို အထူးသင်ကြားရန် လိုအပ်လှသည်။ အဘယ်ကြောင့် ဆိုသော် ကျောက်စာ ပညာကျော်များ၏ ယူဆချက်အတိုင်း ဆိုလျှင် သိရိ ခေတ္တရာမြို့ဟောင်း (မှော်ဇာနှင့် ပြည်မြို့အကြားရှိ မြို့ဟောင်းနေရာ) ၌ ခရစ် ၁၈၉၇ ခုနှစ်တွင် တူးဖော် ရရှိသော မောင်းကန်ရွှေပေနှစ်ချပ်၊ ခရစ် ၁၉၂၇—၂၈ ခုနှစ်တွင် တူးဖော် ရရှိသော ခင်ဘရွှေပေ အချပ် ၂၀နှင့် ခရစ် ၁၈၈၆—၈၇ ခုနှစ်တွင် ပုဂံမြို့ မြင်းကပါတွင် တွေ့ရှိတူးယူရသော မြစေတီ ကျောက်စာ လေးမျိုးအနက် တမျိုးကို ပျူစာ ဟု ယူဆကြသည့် အပြင် ကဒံဗ ရှေးအရေးအသားနှင့် အတူဆုံး ဟု ယခုအချိန်အထိ ဆုံးဖြတ်ထားကြသည်။ မြန်မာအက္ခရာဟောင်း (ကျောက်စာ)နှင့် ယင်းတေလုဂု-ကနဍီအက္ခရာဟောင်းများ မည်ကဲ့သို့ ဆက်သွယ်ဟန်တူကြောင်း ယူဆပုံကိုလည်း အကျယ် ရေးသား ဖော်ပြမည်ဖြစ်သည်။ တေလုဂု-ကနဍီ ကျောက်စာ၊ ရွှေ ပေချပ်၊ ကြေး ပေချပ်၊ ရှေးပေစာ အစရှိသည်တို့ကို အကျယ်ဆည်းပူးလိုက အိန္ဒိယကျောက်စာများ၊ ကန္နဍီက ကျောက်စာနှင့် အိန္ဒိယရှေးဖြစ်အတ္ထုပ္ပတ္တိ စာများကို လေ့လာ ဖတ်သားရန် အလွန်အရေးကြီးလေသည်။

(၄) ဂြန္ထလိပိ—ဤအရေးအသားကို မဒရပ်နယ် မြောက်ပိုင်းနှင့် တောင်ပိုင်း၊ အရကဋ်၊ သလောမတြိစိနာပလိ၊ မဒူရာနှင့် တိန္နေဝေလ္လိ ခရိုင်များတွင် တွေ့ရသည်။အိန္ဒိယတောင်ပိုင်း၏ အရှေ့ဖက်ရှိ ကဉ္စိပုရမြို့တော်ကို စိုးပိုင်သော ပလ္လဝါမင်းများသည် ဂြန္ထအက္ခရာကို အများအပြား အသုံးပြုကြ၏။ ခရစ်ခုနစ် ရာစုနှစ်မှ ၁၅ ရာစုနှစ်တိုင်အောင် ရှေးအရေးအသား၏အသွင်အပြင်သည် အဆင့်ဆင့်ပြောင်းလဲ၍လာရာ ယခု အရေးအသား အခြေ အနေသို့ ရောက်ချေသည်။ ယခုလက်ရှိမာလာယာလမ်နှင့် တုဠု အရေးအသားတို့သည် ဂြန္ထလိပိမှ ပေါက်ပွားလာကြ၏။ မဒရပ်နယ်ရှိ တာမိဠ အရေးအသား၌ အက္ခရာ မစုံလင်သဖြင့် သံသကြိုက်ဘာသာကို မရေးနိုင်ကြချေ။

သံသကြိုက်ကျမ်းဂန်များကို ပြုစုရေးသားရာတွင် ဤဂြန္ထအရေးအသားဖြင့် ကျမ်းပြုလေ့ ရှိကြသဖြင့် သံသကြိုက် ဂြန္ထလိပိ (ဝါ)သံသကြိုက် ကျမ်းဂန် အရေးအသားဟု အမည်ရသည်။သံသကြိုက်ဂြန္ထကိုအတိုချုံး၍ ဂြန္ထဟု အဖျားဆွတ်ပြီးခေါ်ကြလေသည်။ဂြန္ထ၏ အဓိပ္ပါယ်သည် ပါဠိလို ဂန္ထ (ကျမ်းဂန်)ပင်ဖြစ်သည်။ကျမ်းဂန်ရေးရန်စာဟုဆိုလိုရင်းဖြစ်သည်။

(၅) ကလိင် လိပိ — ဤအရေးအသားကို မဒရပ်နယ်ရှိ စီ ကာကောလနှင့် ဂံဇာမ်နယ် နှစ်နယ်ကြားအရပ်ရှိ ဂင်္ဂါဝံသီမင်းများလက်ထက်တော်တွင် အလှူပေးလှူမျာ း ရေးသားရာ၌ ခရစ်ခုနစ် ရာစုနှစ်မှ ၁၁ ရာစုနှစ်ကိုပင် အနည်းငယ် ကျော်လွန်၍ ရေးသားကြသည်ကို တွေ့ရ၏။ ဤအရေးအသားကို ဂင်္ဂါဝံသီမင်းဆက် ဒေဝိန္ဒြဝမ္မန် မင်းက ဂါန်ဂေယ သံဝတ် နှစ် ၈၇ ခု၌ ရှေးအကျဆုံး အလှူပေးလှူတွင် ရေး

သွားထားသည်ကို တွေ့ရ၏။ ဤအရေးအသားတွင် မဓျပြဒေသျှီအရေးအသားနှင့် ရောပြွမ်းနေသည်ကို တွေ့ရသည်။ အက္ခရာများကို ဦးခေါင်းတွင် သေတ္တာသဏ္ဍာန်၏ အတွင်းမှာ လုံးဝ ပြည့်နှက်လျက် လေးထောင့် ရှည်လျားလျား တွေ့ရသည်။ များသောအားဖြင့် အက္ခရာများ၏ ထောင့်များသည် ညီညွတ်၏။ သို့ရာတွင် နှောင်းအခါ ကြေးပေလွှာများ ရေးကြရာတွင် အက္ခရာများ၏ ထောင့်များကို ဝိုင်းဝိုင်းရေးပြီးလျှင် ယင်းအက္ခရာများထဲ၌ နာဂရီ၊ တေလုဂု-ကနဍီ၊ ဂြန္ထ လိပိများနှင့် ရောပြွမ်း၍ ရေးကြ၏။

တေလုဂု-ကနဍီ အရေးအသား ဟုဆိုအပ်သော ပလ္လဝ၊ ကဒံဗနှင့် စာလုကျလိပိများကို လေ့လာ ဆည်းပူးထားသောသူများအတွက် ကလိင်္ဂ လိပိကို တနာဂရီအတွင်းမှာပင် ဖတ်နိုင်ပေမည်။ အဘယ်ကြောင့် ဆိုသော် ခရစ် ငါးရာစုနှစ်မှ ခုနစ် ရာစုနှစ်အတွင်း ရေးသားသော တေလုဂု-ကနဍီ အရေးအသားများသည် ကလိင်္ဂအရေးအသားနှင့် အလွန်ပင် တူသည်ကို တွေ့ရသောကြောင့် ဖြစ်ပေသည်။ ဤစာရေးသူ၏ ယူဆချက်အတိုင်းဆိုလျှင် ရှေးရေး ပျူ-မွန်-မြန်မာ ကျောက်စာများတွင် ကလိင်္ဂအက္ခရာများပင် အနည်းငယ် ရောနေသည် ဟုထင်ရပေသည်။

(၆) တာမိဠ လိပိ – ယင်း အရေးအသားသည် မဒရပ်နယ်၌ ရှေးဟောင်း ဂြန္ထ အရေးအသားများ ခေတ်စားသည့် ဒေသများ ဖြစ်သော အနောက်ဖက် ပင်လယ်ကမ်းခြေရှိ မလာဗာရနယ်တွင် တာမိဠ ဘာသာစကား အတွက် အသုံးပြုသော အရေးအသား ဟု ယူဆကြသည်။ ယင်းအရေးအသားသည် ခရစ်ခုနစ် ရာစုနှစ်က စ၍ ပေါ်လာသည် ဟု မှန်းဆကြသည်။ ဤအရေးအသားသည် များသောအားဖြင့် ဂြန္ထလိပိ၏ အက္ခရာများနှင့် ရောထွေးလျက် ရှိ၏။ သို့ရာတွင် က နှင့် ရကောက် အစရှိသော အချို့အက္ခရာများသည် မြောက်ပိုင်း ဗြာဟ္မီ အရေးအသားနှင့် မပြားမခြား ရှိချေ၏။ ဤအရေးအသား၏ ပုံသဏ္ဍာန်သည် တဖြည်းဖြည်း ပြောင်းလာပြီးလျှင် ယခုခေတ် ရေးသားသော တာမိဠ လိပိ အသွင်သို့ ဖြစ်ပေါ်လာချေသည်ဟု ယူဆသည် အလျောက် တာမိဠဟု အမည်ပေးထား၏။

ဝဋ္ဋေ ဠုတ္တုလိပိ၊ ဤအရေးအသားသည် တာမိဠ လိပိ၏ တစိတ်တဒေသ ဖြစ်သည့်အပြင် အသော့ ရေးထားသော (လက်ရေးသော့) တာမိဠ ဟုပင် ဆိုနိုင်ချေသည်။ ဤအရေး အသားကို မဒရပ်နယ် အနောက်ဖက် ပင်လယ်ကမ်းခြေနှင့် တောင်ပိုင်းစွန်းရှိ ဒေသများတွင် ခရစ် ခုနစ်ရာစုနှစ်မှ ၁၄ ရာစုနှစ် တိုင်အောင် စာပေများနှင့် အလှူပေလွှာများ၌ ရေးသားထားကြောင်း တွေ့ရ၏။ သို့ရာတွင် ၁၄ ရာစုနှစ် နောက် များမကြာမီပင် ဤအရေးအသားသည် တိမ်ကော၍ သွားလေ၏။

## အိန္ဒိယ ကျောက်စာဟောင်းကြီးများနှင့် ပျူ၊ မွန်၊ မြန်မာကျောက်စာများ ဆက်သွယ်ပုံ

ဤကဲ့သို့ အိန္ဒိယ ကျောက်စာဟောင်းကြီးများတွင် အပါအဝင် ဖြစ်သော မြောက်ပိုင်း ကျောက်စာများနှင့် တောင်ပိုင်း ကျောက်စာများ၏ အကြောင်းအရာကို သိသင့် သိထိုက်သလောက် မဖော်ပြပါမူ ပျူ - မွန် - မြန်မာ အက္ခရာများ၏ ဘိုးဘွားမိဖ ဇာစ်မြစ်သဖွယ်ဖြစ်သော အရေးအသားများကို မြုပ်ထားသည်နှင့် တူမည့် အပြင် ပျူ-မွန်-မြန်မာ အက္ခရာထုပ္ပတ်ကို စိစစ်ဝေဖန်ရန် အလွန် ခဲယဉ်းပေလိမ့်မည်။ ထိုအပြင် ကျောက်စာပညာကျော်များကလည်း ဗုဒ္ဓအယူဝါဒ စာပေကို အိန္ဒိယတောင်ပိုင်း အရေးအသားများဖြင့် တွေ့ရှိကြောင်း ခိုင်ခံ့သော အထောက် အထားများကို ပြကြ၏။ ထိုပညာကျော်ကြီးများ ယူဆသည့် အတိုင်း ဗုဒ္ဓအယူဝါဒ စာပေသည် မဒူရာ၊ တန်ဇိုရနှင့် ကဉ္စီပုရမြို့ကြီးများမှ စ၍ မြန်မာ နိုင်ငံသို့ သီဟိုဠကျွန်းနှင့် မဆက်သွယ်မီကပင် ရောက်လာခဲ့သည်ဟု ဤစာရေးသူက ယူဆသည့်အပြင် အထက်တွင် ဖော်ပြခဲ့သည့် အတိုင်း ကိုးကွယ်သည့် အယူဝါဒ၏ နောက်သို့ အက္ခရာ အရေးအသားနှင့်တကွ ရည်မွန်မှု၊ ယဉ်ကျေးမှုသည်လည်း ထက်ချပ်မကွာ လိုက်မြဲ ဖြစ်သည် ဟု ဆင်ခြင်မိပေသည်။

ကဒံဗနှင့် တူသည်ဟု ယူဆထားသော ပျူအက္ခရာများကိုလည်း သိရိခေတ္တရာမှ တူးဖော်ရရှိသော ရွှေပေချပ်များ အုပ်ချပ်များက ထင်ရှားစွာ သက်သေခံသည်။ ဒေါက်တာရန်ဂျန် ရိုင်း ရေးသားအပ်သော "မြန်မာပြည် ထေရဝါဒ ဗုဒ္ဓအယူဝါဒ" အကြောင်း စာမျက်နှာ ၃ဝ တွင် ထေရဝါဒ ဗုဒ္ဓအယူဝါဒကို ပါဠိဘာသာဖြင့် ခရစ် ငါးရာစုနှစ်မှ ၁၁ ရာစုနှစ် အထိ သိရိခေတ္တရာမြို့ဟောင်းတွင် မြောက်မြားစွာ ရေးသားထားကြောင်း အထောက်အထား ခိုင်လုံစွာ ဖော်ပြထား၏။ ပါဠိတော်များနှင့် အရိုးအိုး ကျောက်စာများကို ပျူအက္ခရာ (တေလုဂု–ကနဍီ အက္ခရာဟောင်း)ဖြင့် ရေးသားထား၏။

## ဒေသဆိုင်ရာ ဗြာဟ္မီအက္ခရာပွားများ

ပျူ-မွန်-မြန်မာ အက္ခရာများသည် ဒေသဆိုင်ရာ ဗြာဟ္မီ အက္ခရာ ပွားများဟု ကျောက်စာပညာကျော်တို့ ယူဆသည့် အလျောက် မည်သို့မည်ပုံ ပေါ်ထွန်းလာဟန်တူသည်ကို အက္ခရာတလုံးစီ အကျယ်ဖော်ပြရန် တာဝန်ရှိပေသည်။ ခရစ် ၁၂ ရာစုနှစ်ခန့်တွင် ရေးသားထားသော ပုဂံမြို့ရှိ မြစေတီ ပျူကျောက်စာသည် သိရိခေတ္တရာ မြို့ဟောင်းမှ တူးဖော်ရရှိသော ရှေးပျူ (ကဒံဗ) အက္ခရာများမှတဆင့် အနည်းငယ် ပုံသဏ္ဍာန် ပြုပြင် ပြောင်းလဲလာသည်မှာလည်း သိသာထင်ရှားပေသည်။

ဂုတ္တလိပိ၊ ကလိင် လိပိနှင့် ဂြန္ထလိပိ အရေးအသား များ အနည်းငယ် ရောပြွမ်းနေဟန် တူကြောင်းကိုလည်း တွေ့ရသည်။ ပဏ္ဍိတ် ဂေါ်ရီသျှန်ကား ဟီရာ စန္ဒ ဩဇျာ၏ အိန္ဒိယနိုင်ငံ ရှေးအရေးအသားကျမ်းတွင် ရေးသားလွှာချပ် များ အမှတ် ၇၂ နှင့် ၇၃ ၌ ယခုခေတ် အက္ခရာများသည် ရှေး အက္ခရာများမှ အဆင့်ဆင့် ပေါ်ထွက်လာပုံကိုလည်း အခြေခံထား၍ ရေးသားထားသည်။

ဗြာဟ္မီ အက္ခရာပွားဖြစ်သော ပျူ (ကဒံဗ) အရေးအသား များသည် မြန်မာနိုင်ငံသို့ မည်သည့် ခုနှစ် သက္ကရာဇ်တွင် ရောက်ကြောင်းကို အတိအကျ ပြောနိုင်ရန် ခဲယဉ်းလှ၏။ ထိုအတူ ဗြာဟ္မီအက္ခရာပွားများ ဖြစ်သော မွန် – မြန်မာ အက္ခရာတို့ကို မည်သည့် ခုနှစ်က စထွင် ရေးသားသည်ကို တပ်အပ်သေချာစွာ မည်သူမျှ မပြောနိုင်ချေ။

မဟာယာဉ်ဂိုဏ်း ဗုဒ္ဓ အယူဝါဒသည် ခရစ် ငါးရာစုနှစ် မတိုင်မီ မြန်မာနိုင်ငံသို့ ရောက်ဟန် တူသည်။ ရွှေပေချပ် များနှင့် ကျောက်စာ အထောက်အထားများ အရ ဆိုလျှင် ဟိနာယာဉ်ဂိုဏ်း ဗုဒ္ဓအယူဝါဒသည် ခရစ် ငါးရာစုနှစ်ခန့်တွင် စတင် ရောက်သည် ဟုမှန်းဆရသည်။ ထိုအတူ ယိုးဒယား နိုင်ငံရှိ လောပ္ပုရီမြို့တွင် တွေ့ရသော ရှေးဟောင်း မွန် ကျောက်စာ အထောက်အထားများ အရလည်း ခရစ် ငါး ရာစုနှစ်ခန့်တွင် ဟိနာယာဉ်(ထေရဝါဒ)ဂိုဏ်း ပေါ်ကြောင်း ယူဆရန် အကြောင်းတရပ် ရှိချေသည်။ ပြည်မြို့ နေရာ ဟောင်း(သိရိခေတ္တရာ)တွင် တူးဖော် ရရှိသော ပျူစာများ သည်လည်း ခရစ် ငါးရာစုနှစ်နှင့် ခြောက်ရာစုနှစ် အကြား တွင် အိန္ဒိယပြည်၌ အသုံးပြုသော ရှေးအရေးအသား ကဒံဗ အက္ခရာများနှင့် အလွန်ပင်တူချေသည်။ယင်းအရေးအသား များသည် ခရစ် သုံးရာစုနှစ်တွင် ကရိသျှနာမြစ်ဝှမ်းရှိ နာဂါ ရကောဏ္ဍနှင့် ဇဂ္ဂယျေပေတ မြို့များ၌ ဣက္ခွာကုမင်းများ အသုံးပြုသော အရေးအသားများနှင့်လည်း တူသည် ဟု ယူဆကြသေးသည်။ ခိုင်လုံသော အကိုးအကားများ ထပ်မံ မရသေးမီ ဟိနာယာဉ် (ထေရဝါဒ) ဗုဒ္ဓအယူဝါဒနှင့် ကဒံဗ (ပျူ) အက္ခရာများသည် ခရစ် ငါးရာစုနှစ်ခန့်တွင် မြန်မာ နိုင်ငံသို့ စတင်ရောက်ကြောင်း ယာယီ မှတ်ထားပေသည်။

### မွန်–မြန်မာ ကျောက်စာများ စတင်ရေးသားသည့် နှစ်

မွန်–မြန်မာ ဘာသာ စကားများကို ရေးသောအခါ မွန်–မြန်မာ အက္ခရာများသည် အိန္ဒိယ တောင်ပိုင်းသုံး ဗြာဟ္မီ အက္ခရာပွားများ ဖြစ်သည့် အလျောက် ကဒံဗနှင့် ဂြန္ထအက္ခရာများ၏ လောင်းရိပ်မကင်းရှိသည် ဟုယူဆသင့် ပေသည်။ မွန်စာကို သထုံနယ်တွင် ခရစ်နှစ် ငါးရာစုခန့်မှာ စတင် ရေးသားဟန် တူသည်။ ဒွါရဝတီ ကောင်းစားစဉ်က ရေးသား ထားသည်ဟု ယူဆရသော ပရပထုမ် ကျောက် စာသည် ရှေး ပျူ–မွန် အက္ခရာများနှင့် အလွန် တူသည်။ မြန်မာ ကျောက်စာကိုမူ ခရစ် ၁၀၅၈ ခုနှစ် (မြန်မာ ၄၂၀ ပြည့်နှစ်) တွင် ရှေးဦးစွာ ပုဂံပြည်၌ လက်သည်းရှည် ဘုရား ကျောက်စာအဖြစ် ထိုးထားသည်ကို တွေ့ရ၏။ အနော်ရထာ(အနုရုဒ္ဓ) မင်းသည် ခရစ် ၁၀၅၇ ခုနှစ်တွင် သထုံပြည် ကို အောင်မြင်၍ ပိဋကတ်သုံးပုံများနှင့်တကွ မွန်ဘုန်းတော် ကြီးများကို ပင့်ဆောင်လာခြင်း၊ မွန် လက်မှုစက်မှု ပညာရှင် များ ခေါ်ဆောင်လာခြင်း စသည်တို့မှာ မြန်မာရာဇဝင် သမိုင်းတွင် ထင်ရှားပေသည်။ သို့ရာတွင် ထိုသို့ ပိဋက စာပေ များရရှိပြီးနောက်မှသာ မြန်မာများ အက္ခရာ အရေးအသား အတတ်ပညာကို မွန်များထံမှ ရသည်ဟု မယူဆသင့်ချေ။ ပျူစာကို ခရစ်ငါးရာစုခန့်ကပင် သရေခေတ္တရာပြည်၌ အသုံး ပြုကြောင်းကို ဖော်ပြခဲ့ပြီး ဖြစ်၏။ မြစေတီပျူကို ဖတ်ရှုရ ပြန်သောအခါ ခရစ် ၁၁၁၂ (၁၂ ရာစု) ခုနှစ် အထိ ပျူစာ အရေးအသား ရှိသေးသည်ကို သိရပြန်၏။

ခရစ် ငါးရာစုနှစ်ခန့်တွင် သထုံပြည်သို့ စတင် ရောက်လာ သော ပါဠိ ဗုဒ္ဓအယူဝါဒစာပေသည် အိန္ဒိယတောင်ပိုင်းသုံး ဗြာဟ္မီအက္ခရာပွားများဖြင့် ရေးသားခြင်းသာလျှင် ဖြစ်ချေ မည်ဟု ယူဆအပ်ပေသည်။ မွန်အက္ခရာသည် ဂြန္ထအက္ခရာ ပွား ဖြစ်ကောင်းဖြစ်ပေမည်ဟုလည်း ဒေါက်တာ ဒီရင်းဂျား က "အက္ခရထုပ္ပတ္တိ"တွင် ယူဆထားလေသည်။ ဤစာရေး သူ၏ယူဆချက်နှင့်လုံးဝမတူချေ။ အဘယ်ကြောင့်ဆိုသော် ဂြန္ထအက္ခရာသည် အိန္ဒိယတောင်ပိုင်း အက္ခရာများအနက် အတွန့်အတက် အများဆုံးဖြစ်သည်။ ယိုးဒယားတွင် တွေ့ ရှိရသော မွန်ကျောက်စာများသည် အတွန့်အတက် နည်း ပါးသည့်အပြင် သိရိခေတ္တရာ ပျူအက္ခရာများနှင့် အလွန်တူ သည်။ ပျူအက္ခရာနှင့် မွန်အက္ခရာသည် အဖိုးတူ အဖွားတူ အက္ခရာများဟု ယူဆလျှင် မှားနိုင်မည်မဟုတ်ချေ။ ကဒံဗ၊ ပလ္လဝ၊ စာလုကျ၊ ဂြန္ထနှင့် ကလိင် အက္ခရာများသည်လည်း အိန္ဒိယ တောင်ပိုင်းသုံး ဗြာဟ္မီ အက္ခရာပွားသာ ဖြစ်သဖြင့် ဆင်တူယိုးမှား အက္ခရာများ ဖြစ်ချေသည်။

ခရစ် ငါးရာစုနှစ်နှင့် ခုနစ်ရာစုနှစ် အကြား ယင်းဖော်ပြ ပါ အက္ခရာများသည်လည်း ဆင်တူယိုးမှား ဖြစ်သည့် အ လျောက် တစတစ ရောပြွမ်း၍ လာလေသည်။ ပုံစံ ပြရမည် ဆိုသော် မွန်–မြန်မာ အက္ခရာများဖြစ်သော 'ည' နှင့် 'ဋ'ကို ဂြန္ထလိပိမှ တိုက်ရိုက် ကူးယူဟန် တူသည်။ ဤအက္ခရာနှစ်လုံး ကို အခြား ရှေးအရေးအသားများနှင့် ဆက်သွယ်ရန် အလှမ်း ဝေးကွာပေသည်။ ထို့အတူ မွန်–မြန်မာအက္ခရာ 'ဏ'နှင့်'မ' ကို ရှေးရှေး ကလိင်အက္ခရာမှ တိုက်ရိုက်ကူးယူဟန်တူသည်။ မွန်-မြန်မာအက္ခရာ 'ဈ'ကို အခြားရှေးအရေးအသားများနှင့် လုံးဝ ဆက်သွယ်၍မရကြောင်းကို ဈအက္ခရထုပ္ပတ္တိတွင် ဖော် ပြထားပေသည်။

ပါဠိတော်ကို သိရှိခဲ့တ္တရာ မြို့ဟောင်းနှင့် သထုံပြည်တွင် ဗြာဟ္မီအက္ခရာပွားဖြစ်သော တေလုဂု-ကနဍီ အက္ခရာဟောင်းများဖြင့်သာ ရေးသည်ဟု ယူဆသင့်ပေသည်။ အထူးမှတ်သားဖွယ် တရပ်မှာ ၁၉၄၃ ခုနှစ်တွင် ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း စစ်ဘေးစစ်ဒဏ်ကြောင့် လုံးဝပျက်စီးခြင်းခံရသော ရန်ကုန်မြို့ ဗိုလ်တထောင် (ကျိုက်ဒေးအပ်) စေတီတော် မြေအောက် ဌာပနာတိုက်ခန်းမှ မြတ်စွာဘုရား၏ ဆံတော်ဓာတ်နှင့်အတူ တူးဖော်ရရှိသော ဗုဒ္ဓမြတ်စွာ၏ ရုပ်လုံးပုံ အုပ်ခွက်၏ ကျောဖက်၌ပါရှိသော အက္ခရာများသည် တေလုဂု-ကနဍီ အက္ခရာဟောင်း ဖြစ်သော ကဒံဗနှင့်တူသည့် အပြင် "ယေ ဓမ္မာ ဟေ တုပ္ပဘဝါ" အစ ဖြာသော ရှင်အဿဇိ မထေရ်၏ ဓမ္မကထာ အကျဉ်းချုပ်သည် ခရစ် ၁၈၉၇ ခုနှစ်တွင် မှော်ဇာမြို့အနီး မောင်းကန်ရွာမှ တူးဖော်ရရှိသော မောင်းကန်ရွှေပေချပ် အမှတ် ၁ ၌ ရေးသားထားသော "ယေဓမ္မာ ဟေတုပ္ပဘဝါ"အစဖြာသည့်ဓမ္မကထာချုပ်နှင့်လည်း အလွန်တူကြောင်း ထင်ရှားပေသည်။ ဒေါက်တာဒီရင်းဂျားက မွန်အက္ခရာသည် ဂြန္ထ အရေး အသား မှ တိုးပွားလာကောင်း လာပေလိမ့်မည်ဟု ယူဆထား၍သာလျှင် ဂြန္ထအက္ခရာများနှင့် ယှဉ်တွဲ၍ ပြရခြင်းဖြစ်သည်။

ဤကျမ်း၌ အက္ခရာ တလုံးစီအတွက် ဖော်ပြထားသော "အက္ခရထုပ္ပတ္တိ" များတွင် မွန် – မြန်မာ အက္ခရာများကို ဘိုးဘွားမိဖ ခေတ်ပုံများကို သားသမီးမြေးမြစ်တို့ ခေတ်ပုံများနှင့် ယှဉ်ပြဘိသကဲ့သို့လည်းကောင်း၊ ဖားလောင်းငယ်၏ ဘဝမှ ဖားကြီးဘဝတိုင်အောင် အဆင့်ဆင့် ကူးပြောင်းပုံကို ရုပ်ပုံဖြင့် ပြဘိသကဲ့သို့လည်းကောင်း မွန်–မြန်မာ အက္ခရာများသည် ရှေးရေး တေလုဂု-ကနဍီ အက္ခရာများမှ ပေါက်ပွားသော ကဒံဗအက္ခရာပွားများသာလျှင် ဖြစ်သည်ဟု ယူဆသည့်အလျောက် ရှေးရေး အက္ခရာဟောင်းများဖြင့် အဆင့်ဆင့် ယှဉ်တွဲဖော်ပြထားသည်။

(၁) ဗြာဟ္မီ၊ (၂) ဗြာဟ္မီ ကုသန၊ (၃) ဂုတ္တာလိပိ၊ (၄) ဂြန္ထ၊ (၅) ကဒံဗ၊ (၆) မောင်းကန် ရွှေပေချပ်အက္ခရာ၊ (၇) ခင်ဗ ရွှေပေချပ် အက္ခရာ၊ (၈) ပျူစာ မြစေတီကျောက်စာနှင့် အရိုးအိုးစာများ၊ (၉) မွန်–မြန်မာကျောက်ထက်အက္ခရာ (လေးထောင့်စာ)၊ (၁၀) မွန်–မြန်မာပေထက်အက္ခရာ (စာလုံး) များ အဆင့်ဆင့်ပေါ် ထွန်းလာပုံကို ယှဉ်တွဲ ဖော်ပြထားသည်။

ကျောက်စာကို လေးထောင့် အက္ခရာများ အဖြစ် ကျောက်ပြားပေါ်တွင် ရေးထွင်း၍ ရသော်လည်း ပေရွက်ထန်းဖူးရွက်ပေါ်တွင် ရေးသားရာ၌ အဝိုင်း (စာလုံး) အဖြစ်ရေးမှသာလျှင် ပေရွက် ထန်းရွက်များ မပေါက်ပြဲဘဲ ဖြစ်နိုင်သဖြင့် အဝိုင်း (စာလုံး) အရေးအသားများ ပေါ်လာကြောင်း မှတ်သားရဘူးပေသည်။ ဦးသာမြတ်

**မြန်အောင်မြို့။** ။မြန်အောင်မြို့သည် ဟင်္သာတခရိုင် မြန်အောင်နယ်နှင့် မြန်အောင်မြို့နယ်တို့၏ ရုံးစိုက်မြို့ ဖြစ်သည်။ ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်း၊ ကြံခင်းမြို့ အရှေ့တောင်ဖက် ရှစ်မိုင် ကွာတွင် တည်ရှိသည်။ အထက်အောက် မြန်မာနိုင်ငံသို့ သွားလာသော သင်္ဘောများ ဆိုက်ကပ်ရာ မြို့နှင့် ဟင်္သာတ–ကြံခင်း မီးရထားလမ်းပေါ်ရှိ ဘူတာရုံမြို့လည်း ဖြစ်သည်။

မြန်အောင်မြို့သည် ဟင်္သာတခရိုင်တွင် ဒုတိယ အစည်ကားဆုံးမြို့ဖြစ်လျက်၊ ဆေးရုံ၊ အစိုးရရုံးများ၊ ပြည်သူ့ရဲစခန်းနှင့် နိုင်ငံတော် အထက်တန်းကျောင်းများ ရှိသည်။ ၁၈၈၆ ခုနှစ်ကစ၍ မျူနီစီပယ်အဖွဲ့ကို ဖွဲ့စည်း တည်ထောင်ကာ၊ မြို့ရွာ စည်ပင်သာယာရေးကို စီမံဆောင်ရွက်ခဲ့သည်။

မြန်အောင်မြို့ကို ခရစ်နှစ် ၁၂၅၀ ပြည့်လောက်ကပင် မွန်လူမျိုးတို့ တည်ထောင်ခဲ့သည် ဟု အဆိုရှိ၏။ ထိုအခါက ဂူထွတ် ဟု အမည်တွင်၍၊ နောင် အလောင်းဘုရားလက်ထက် (ခရစ်နှစ် ၁၇၅၄) သို့ ရောက်သောအခါမှ မြန်အောင် ဟု အမည်သစ် ခေါ်တွင် စေခဲ့လေသည်။ မြန်အောင်မြို့သည် ဂူထွတ် ဟု အမည် တွင်ခဲ့စဉ်အခါက မြန်မာနိုင်ငံသမိုင်းတွင် ထင်ရှားသော မြို့တမြို့ ဖြစ်ခဲ့လေသည်။ မွန်နှင့် မြန်မာတို့ စစ်ထိုးခဲ့ကြရာတွင် ဂူထွတ်မြို့၌ ထင်ရှားသော ရေကြောင်း တိုက်ပွဲများ ဖြစ်ပွား ခဲ့ဘူးသည်။ ထိုအခါက မွန်တို့၏ ခံတပ်မြို့ တမြို့လည်း ဖြစ်ခဲ့ဘူးလေသည်။

မြန်အောင် နယ်တွင် မြန်အောင်မြို့နယ်၊ ကြံခင်းမြို့နယ်နှင့် အင်္ဂပူ မြို့နယ်များ ပါဝင်သည်။ မြန်အောင်မြို့၏

မြန်အောင်မြို့တွင် အောင်မြင်စွာတူးဖော်ပြီးသည် ရေနံတွင်းများ

အင်္ဂါက ထွက်ကုန်မှာ ဆန်စပါး ဖြစ်သည်။ ၁၉၆၄ ခုနှစ်တွင် မြန်အောင်မြို့နယ် အတွင်း၌ ရေနံတူးဖော်တွေ့ရှိသဖြင့် တွင်ကျယ်စွာလုပ်ကိုင်ရန် စီမံဆောင်ရွက်လျက် ရှိသည်။ ၁၉၆၃ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ မြန်အောင်မြို့တွင် လူဦးရေ ၁၂,၁၂၆ ယောက် ရှိလေသည်။



ကရူးဆိတ်စစ်ပွဲတွင် ပါဝင်တိုက်ခိုက်ခဲ့သည့် လက်စတာနယ်စား ဆိုင်မွန် ဒီ မွန့်ဖတ်

**မွန့်ဖတ်,ဆိုင်မွန် ဒီ**(ခရစ် ၁၂၀၈ ခန့် — ၁၂၆၅)။ ။လက်စတာနယ်စားဘွဲ့ရ ဆိုင်မွန် ဒီ မွန့်ဖတ်သည် ဇာတိအားဖြင့် ပြင်သစ်လူမျိုး ဖြစ်သော်လည်း ဗြိတိသျှ ပါလီမန်ကို စတင်၍ အခြေခံချခဲ့သူ နိုင်ငံပြု သုခမိန်ကြီး အဖြစ်ဖြင့်၎င်း၊ စစ်သူရဲကောင်းကြီး အဖြစ်ဖြင့်၎င်း ထင်ရှားလေသည်။

မွန့်ဖတ်သည် ပြင်သစ်နိုင်ငံတွင် မွေးဖွား၍၊ သူ၏ ဖခင်သည်လည်း အင်္ဂလန်ပြည် လက်စတာနယ်စား ဘွဲ့ရ ပြင်သစ်လူမျိုး ဖြစ်သည်။ အင်္ဂလန်ပြည့်ရှင် ဂျွန်ဘုရင် လက်ထက်၌ ထိုအဆောင်အယောင် ရာထူးဘွဲ့ထူးများကို ရုပ်သိမ်းခြင်း ခံရသည်။ ၁၂၃၀ ပြည့်နှစ်တွင် သားဖြစ်သူ ဆိုင်မွန်ဒီမွန့်ဖတ်သည် ပြင်သစ် ပြည်တွင်းရေး အရှုပ်အထွေးများကြောင့် အင်္ဂလန်ပြည်သို့ လာရောက်၍ တတိယ ဟင်နရီ ဘုရင်ထံ၌ ခစားလေသည်။ ဟင်နရီဘုရင်လည်း ဂျွန်ဘုရင် လက်ထက်က သူ၏ဖခင်ထံမှ သိမ်းယူထားခဲ့သော နယ်စား အဆောင်အယောင်များကို ပြန်လည် ခြီးမြှင့်သည့်ပြင်၊ ၁၂၃၈ ခုနှစ်တွင် နှမတော် အယ်လီနာမင်းသမီးနှင့် လက်ထပ်ပေးခဲ့လေသည်။ ၁၂၄၀ ပြည့်နှစ်တွင် မွန့်ဖတ်သည် ကွန်းဝေါ နယ်စား ရစ်ချတ်နှင့်အတူ ကရူးဆိတ်စစ်ပွဲသို့ လိုက်ပါသွားလေသည်။

အင်္ဂလန်ပြည်သို့ ပြန်လည် ရောက်ရှိလာသောအခါ ပြင်သစ် နိုင်ငံ၌ တိုက်ခိုက်နေသည့် အင်္ဂလိပ် စစ်တပ်ကို ကွပ်ကဲရန် တာဝန်ပေးအပ်ခြင်း ခံရသည်။ ၁၂၄၈ ခုနှစ်တွင် ပြင်သစ် နိုင်ငံရှိ အင်္ဂလိပ်ပိုင် ဂက်စကိုနီပြည်နယ် ဘုရင်ခံအဖြစ် ခန့်အပ်ခြင်း ခံရလေသည်။

မွန့်ဖတ်သည် ဘုရင်နှင့် မကြာခဏ မသင့် မမြတ်ဖြစ်၍ ဘုရင်ခံ ရာထူးမှ နုတ်ပယ်ခြင်းကို ခံရ၏။ ထိုအချိန်တွင် မှူးမတ်များ၊ နိုက် သူရဲကောင်းများနှင့် မြို့ရွာ ခေါင်းဆောင်များသည် ဟင်နရီဘုရင်၏ တရားလက်လွတ် အုပ်ချုပ်ပုံကို မကျေနပ်ကြသဖြင့် ဘုရင်အား တော်လှန်ရန် ကြံစည်လျက် ရှိကြလေသည်။၁၂၅၈ ခုနှစ်တွင် မွန့်ဖတ်သည် ဘုရင်နှင့် ဆန့်ကျင်ဖက် ဂိုဏ်း၌ ခေါင်းဆောင် ဖြစ်လာ၍၊ တိုင်းပြည် အုပ်ချုပ်ရေးကို ဗဲရွန် သူကောင်းမျိုးများ ပါဝင်ဖွဲ့စည်းထားသည့် ကော်မီတီများ လက်သို့ အပ်ရန် ဘုရင်အားအကျပ်ကိုင်၍ လက်မှတ် ရေးထိုးစေသည်။ သို့ရာတွင် ၁၂၆၁ ခုနှစ်၌ ဘုရင်သည် ထိုကော်မီတီများကို ဖျက်သိမ်းလိုက်သဖြင့် မွန့်ဖတ် ခေါင်းဆောင်သော ဗဲရွန် သူကောင်းမျိုးတို့သည် လက်နက် စွဲကိုင်၍ ဘုရင်ကို တော်လှန်ကြသည်။

မွန့်ဖတ်တို့ဖက်မှအရေးသာသဖြင့် ၁၂၆၄ ခုနှစ်တွင် ဟင်နရီ ဘုရင်နှင့် သားတော် အက်ဒွပ်မင်းသားကို လူးတိုက်ပွဲ၌ လက်ရဖမ်းမိကြ၏။ ထိုသို့အားဖြင့် မွန့်ဖတ်၏ လက်ထဲသို့ တိုင်းပြည် အုပ်ချုပ်ရေးအာဏာ ရောက်ရှိသွားရာ၊ ၁၂၆၅ ခုနှစ်တွင် ကောင်စီ အစည်းအဝေးကြီးကို ဆင့်ခေါ်လေသည်။ ထိုကောင်စီ အစည်းအဝေးသို့ ရှေးအစဉ်အလာအရ မှူးမတ်များနှင့် ဘုန်းတော်ကြီးများသာမက ရှိုင်ယာနယ်တနယ်မှ နိုက်သူရဲကောင်းနှစ်ဦးကျစီနှင့် မြို့နယ်တနယ်မှ ကိုယ်စားလှယ် နှစ်ဦးကျစီကိုလည်း ဖိတ်ခေါ်၍ တိုင်းပြည်ရေးရာကို ဆွေးနွေးတိုင်ပင်၏။ ထိုကောင်စီ အစည်းအဝေးသို့ သာမန်လူတန်းစား ကိုယ်စားလှယ်များ ပဌမဦးဆုံးအကြိမ် တက်ရောက်ခွင့်ရသဖြင့် ယင်းအစည်းအဝေးကို ပဌမဦးဆုံး ပါလီမန် လွှတ်တော် အစည်းအဝေးဟု ခေါ်စမှတ်ပြုကြလေသည်။

ထိုအတွက်ကြောင့် မွန့်ဖတ်သည် လက်ရှိ အင်္ဂလန်ပြည် ပါလီမန်လွှတ်တော်ကို အခြေခံ ချပေးသူအဖြစ် ထင်ရှားသည်။ (ပါလီမန်လွှတ်တော် — လည်းရှု။)

မကြာမီ မွန့်ဖတ်နှင့် ဂလော့စတာနယ်စားတို့ မသင့်မြတ်

ကြသောကြောင့် အချင်းချင်း တိုက်ခိုက်ကြလေသည်။ ထိုအချိန်တွင် ဟင်နရီဘုရင်၏ သားတော် အက်ဒွပ်မင်းသားလည်း အချုပ်တွင်းမှ လွတ်မြောက်လာ၍ ဂလော့စတာနယ်စားနှင့် ပူးပေါင်းကာ မွန်ဖတ်၏ တပ်ကို တိုက်လေ၏။ နောက်ဆုံး၌ လူအင်အား အဆမတန် သာသော အက်ဒွပ် မင်းသားစစ်တပ်၏ လက်ချက်ဖြင့် မွန်ဖတ်သည် တိုက်ပွဲ၌ ကျဆုံးလေသည်။

အက်ဒွပ်မင်းသားသည် ထီးနန်းကို ဆက်ခံပြီးလျှင် မွန်ဖတ် စတင်ခဲ့သော ပါလီမန် စံနစ်ကို ဆက်လက် ကျင့်သုံးလေသည်။

# တခေတ်က ဝင့်ကြွားနိုင်ခဲ့သော အာရှအလယ်ပိုင်းသားများ

**အာရှတိုက် အလယ်ပိုင်း၌ နေထိုင်ခဲ့သော မွန်ဂိုလူမျိုးများသည် မြင်းစီးအတတ်၌ ကျင်လျှင်၍ အတိုက်အခိုက်၌ ဝါသနာပါသူများလည်း ဖြစ်၏။ တဆဲ့သုံး ရာစုနှစ်တွင် မွန်ဂိုစစ်ခေါင်းဆောင်များသည် ကမ္ဘာ့သမိုင်းတွင် အံ့ခြီးဖွယ်ရာတရပ်အဖြစ် မှတ်တမ်းတင်ရလောက်အောင် အာရှတိုက် တတိုက်လုံးနီးပါးမျှနှင့် ဥရောပတိုက်သို့ ချီတက် တိုက်ခိုက် အောင်မြင်ခဲ့သည်။**

**မွန်ဂိုလူမျိုး။** ။မွန်ဂိုလူမျိုးတို့သည် အာရှတိုက် အလယ်ပိုင်း၌ နေထိုင်သော လူမျိုးများဖြစ်ကြ၏။ သိုး၊ ဆိတ်၊ နွား၊ မြင်းပု၊ ကုလားအုပ်များကို ထိန်းကျောင်းကာ ရေကြည်ရာ မြက်နုရာသို့ အပြောင်းပြောင်း အလည်လည် သွားလာ နေထိုင်ကြသူများ ဖြစ်သည်။ မြင်းစီးအတတ်၌အထူးကျင်လျှင်၍ အတိုက်အခိုက်ဖက်၌ ဝါသနာပါသူများလည်း ဖြစ်၏။ ၁၃ ရာစု နှစ်သို့ ရောက်သောအခါ မွန်ဂို စစ်ခေါင်းဆောင်များသည် အာရှတိုက် တတိုက်လုံး နီးပါးမျှနှင့် ဥရောပတိုက်သို့ပင် ချီတက်တိုက်ခိုက် အောင်မြင်ခဲ့သဖြင့် ကမ္ဘာ့သမိုင်းတွင် အံ့ခြီးဖွယ်ရာ တရပ်အဖြစ် မှတ်တမ်းတင်ရလေသည်။



မွန်ဂိုလူမျိုးတို့သည် လွင်ပြင်များတွင် လွတ်လပ်ပျော်ရွှင်စွာ သွားလာနေထိုင်လေ့ ရှိကြသည်။ တနေရာတည်း၌ အတည်တကျ မနေတတ်ကြပေ။ ထိုသို့ဖြစ်သည်အလျောက် ပြောင်းရ၊ ဆောက်ရ လွယ်ကူအောင် သားရေဖြင့် ချုပ်လုပ်ထားသော ယတ်ခေါ် တဲရှင်များ၌ နေထိုင်လေ့ရှိကြသည်။



အတွင်းမွန်ဂိုးလီးယားပြည်နယ်မှ မွန်ဂိုမိသားစု။ အတွင်း မွန်ဂိုးလီးယားပြည်နယ်တွင် နေထိုင်ကြသည့် မွန်ဂိုလူမျိုးတို့သည် တရုပ်ယဉ်ကျေးမှု ထုံးတမ်း ဓလေ့နှင့် နီးစပ်သူများ ဖြစ်ကြသည်။



မွန်ဂိုလူမျိုးတို့သည် မြင်းစီး အလွန် ကျင်လျင်ကြသူများ ဖြစ်သည်။

ယခုအခါ၌မူကား မွန်ဂိုတို့သည် မူလကအတိုင်း မထင်မရှား ပင် သိုးဆိတ်ကျောင်း၍ လှည့်လည်နေထိုင်လျက်ရှိကြသည်။

မွန်ဂိုတို့သည် ဦးစွာ၌ တရုပ်မင်းများ၏ လက်အောက်ခံ အဖြစ် နေထိုင်ကြ၏။ သို့ရာတွင် ၁၃ ရာစု နှစ်ဦးပိုင်း၌ မွန်ဂို ဘုရင် ဂျင်ဂစ်ခန် (ခရစ် ၁၁၆၂—၁၂၂၇) ခေါင်းဆောင်သော မွန်ဂိုတို့သည် တရုပ်နိုင်ငံမြောက်ပိုင်း၊ တာကီစတန်ပြည်၊ ပါးရှားပြည် (အီရန်) နှင့် ရုရှားနိုင်ငံ တောင်ပိုင်းနယ်များ ကို တိုက်ခိုက်သိမ်းယူ၍ မွန်ဂိုနိုင်ငံကြီးကို တည်ထောင်ခဲ့ လေသည်။ (ဂျင်ဂစ်ခန် — လည်း ရှု။)

ဂျင်ဂစ်ခန်၏မြေး ကူဗလိုင်ခန် (ခရစ် ၁၂၁၆ – ၁၂၉၄) သည် လက်ရုံးရည် နှလုံးရည်နှင့် ပြည့်စုံသူ ဖြစ်၍၊ ဖိုးတော် ဂျင်ဂစ်ခန်၏ ရည်ရွယ်ချက်အတိုင်း ဆွန်ဘုရင်တို့ ပိုင်နက်ဖြစ် သော တရုပ်နိုင်ငံ တောင်ပိုင်းကို တိုက်ခိုက် သိမ်းသွင်းခဲ့လေ သည်။ မြို့တော်ကို ကယ်ရာကိုးရမ်းမှ တရုပ်နိုင်ငံ တံတိုင်းကြီး အတွင်းရှိ ယခု ပီကင်းမြို့နေရာသို့ ပြောင်းရွှေ့ခဲ့သည်။ တရုပ် နိုင်ငံ တခုလုံးကို အောင်မြင်ပြီးနောက် ယွန်မင်းဆက်ကို စတင် တည်ထောင်ခဲ့သော မင်းလည်း ဖြစ်သည်။ ကူဗလိုင် ခန်၏ နိုင်ငံတော်သည် အရှေ့ဖက်တွင် ပစိဖိတ် သမုဒ္ဒရာမှ အနောက်ဖက်တွင် ပင်လယ်နက် ကျော်သည်အထိ ကျယ်ပြန့်

လေသည်။ နရသီဟပတေ့မင်း လက်ထက်တွင် ကူဗလိုင်ခန်၏ စစ်တပ်များသည် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက် တိုက်ခိုက်ခဲ့ကြသည်။ ခန်မင်းကြီးထံတွင် အမှုထမ်းဘူးသူ ဗင်းနစ်မြို့သား မာကိုပိုလိုမှတဆင့် ဥရောပတိုက်သားတို့သည် မွန်ဂိုဘုရင်တို့ ဘုန်းတန်ခိုး ကြီးမားပုံကို ပဌမဦးဆုံး ကြားသိကြရသည်။ (ပိုလို့,မာကို — လည်း ရှု။) ကူဗလိုင်ခန်သည် စိတ်သဘောထား မြင့်မြတ်၏။ အနုသုခုမပညာရပ်များကိုလည်း အားပေး၏။ ပညာသည် များကိုလည်း ချီးမြှောက်၏။ (ကူဗလိုင်ခန် — လည်း ရှု။)

တဆဲ့လေး ရာစုနှစ်တွင် ဂျင်ဂစ်ခန်၏ အဆက်အနွယ်ဖြစ်သော တမာလိန်းအမည်ရှိမွန်ဂိုဘုရင်သည် ပါးရှား (အီရန်)၊ အာဖဂနိစတန်၊ အိန္ဒိယမြောက်ပိုင်း၊ မက်ဆိုပိုတေးမီးယား (အီရက်)၊ အာရှမိုင်းနားတို့ကို တိုက်ခိုက်အောင်မြင်သည်။



မြားပစ်ကစားခြင်းသည် မွန်ဂို လူမျိုးတို့၏ အမျိုးသား အားကစား ပညာတရပ် ဖြစ်သည်။

၁၄၀၅ ခုနှစ်တွင် တမာလိန်း ကွယ်လွန်ပြီးနောက် မွန်ဂို နိုင်ငံကြီးသည် ယိုယွင်းလာလေသည်။ နောင် နှစ်ပေါင်း တရာခန့်ကြာသောအခါ တမာလိန်း၏ အဆက်အနွယ်ထဲမှ ဗာဗာ (ခရစ် ၁၄၈၃–၁၅၃၀) ဆိုသူ မွန်ဂိုဘုရင်တပါးသည် အိန္ဒိယနိုင်ငံမြောက်ပိုင်းကို သိမ်းယူပြီးလျှင် မွန်ဂို၊ သို့မဟုတ် မဂိုအင်ပိုင်ယာကို တည်ထောင်ခဲ့လေသည်။

ဗာဗာ၏မြေးတော် အက္ကဗာ ဘုရင်သည် မဂိုဘုရင်များတွင် အထင်ရှားဆုံး ဖြစ်၍၊ အိန္ဒိယနိုင်ငံကို ခရစ် ၁၅၅၆ ခုနှစ်မှ ၁၆၀၅ ခုနှစ်အထိ အုပ်စိုးသည်။ အက္ကဗာဘုရင်သည် စစ်မှုရေးရာ၌ ထူးချွန်သည့် နည်းတူ အုပ်ချုပ်ရေးဖက်၌လည်း ကျွမ်းကျင်၏။ ကိုယ်တိုင်က အစ္စလမ် အယူဝါဒီ ဖြစ်သော်လည်း ဟိန္ဒူများကို အုပ်ချုပ်ရေးဌာန အသီးအသီးတို့၌ ခန့်ထားသည်။ ထိုသို့အားဖြင့် အယူဝါဒရေးကြောင့် မညီမညွတ် ဖြစ်နေသော အိန္ဒိယနိုင်ငံကို တစည်းတလုံးတည်းဖြစ်စေရန် ကြိုးပမ်း ဆောင်ရွက်ခဲ့သည်။ အက္ကဗာလက်ထက်တွင် အိန္ဒိယနိုင်ငံသည် အင်္ဂလန်နိုင်ငံနှင့် ပဌမဦးဆုံးအကြိမ် အဆက်အသွယ် ပြုလုပ်ခဲ့၏။

အက္ကဗာဘုရင် ကွယ်လွန်ပြီးနောက် ထီးနန်းကို ဆက်ခံကြသော မဂိုဘုရင်များအနက် မြေးတော် ဩဝ်ရင်ဇစ်ဘုရင်သည် မဂိုအင်ပိုင်ယာကို ချဲ့ထွင်ခဲ့၏။ သို့ရာတွင် အုပ်ချုပ်ရေးဖက်၌ လိမ်မာပါးနပ်မှုမရှိသဖြင့် မဂိုအင်ပိုင်ယာမှာ အကွဲကွဲအပြားပြား ဖြစ်ရလေသည်။ ဩဝ်ရင်ဇစ်ဘုရင် ကွယ်လွန်သည့် ၁၇၀၇ ခုနှစ် နောက်ပိုင်းတွင် မွန်ဂိုတို့ စိုးပိုင်ခဲ့သော အိန္ဒိယ နိုင်ငံသည် ဗြိတိသျှတို့ လက်အောက်သို့ ကျရောက်လေတော့သည်။

**မွန်ဂိုးလီးယား။** ။မွန်ဂိုးလီးယား ဟူ၍ အမည်တွင်သော အာရှတိုက် အရှေ့ပိုင်းရှိ ကုန်းပြင်မြင့်ကြီးသည် မွန်ဂို လူမျိုးတို့ နေထိုင်ရာ ဒေသဖြစ်၏။ မြောက်ဖက်တွင် ရုရှပိုင် ဆိုက်ဗီးရီးယားကငင်း၊ အရှေ့ဖက်၊ အနောက်ဖက်နှင့် တောင်ဖက်တွင် တရုပ် ပြည်သူ့သမတနိုင်ငံကငင်း ဝိုင်းရံလျက်ရှိသည်။ အကျယ်အဝန်းအားဖြင့်စတုရန်းမိုင်ပေါင်း ၁,၇၇၅,၀၀၀ ရှိ၍ ပင်လယ်ပြင်မှ ပေပေါင်း ၃,၀၀၀–၄,၀၀၀ မျှမြင့်သော ကုန်းပြင်မြင့် ဖြစ်သည်။

ပထဝီဝင် အရ မွန်ဂိုးလီးယားကို သုံးပိုင်း ခွဲခြားနိုင်၏။ တောင် ထူထပ်သော အနောက်မြောက်ပိုင်းကို အပြင် မွန်ဂိုးလီးယား ဟုခေါ်သည်။ အရှေ့တောင်ဖက် မြေပြန့်ပိုင်းကို အတွင်းမွန်ဂိုးလီးယား ဟု ခေါ်သည်။ ထိုအပိုင်းနှစ်ပိုင်း အကြားတွင် ဂိုဗီသဲကန္တာရကြီး ရှိသည်။

တဆဲ့ခုနှစ် ရာစုနှစ်အတွင်း၌ မွန်ဂိုးလီးယား၊ မန်ချူးရီးယားနှင့်တရုပ်နိုင်ငံတို့သည် မန်ချူးဘုရင်တို့၏လက်အောက်ခံတိုင်းပြည်များဖြစ်ကြသည်။ ၁၉၁၁ ခုနှစ်သို့ ရောက်သော



မွန်ဂိုဘုရင် ဂျင်ဂစ်ခန် တည်ထောင်ခဲ့သော မွန်ဂိုအင်ပိုင်ယာ၏ မြို့တော် ကယ်ရာကိုးရမ်းမြို့ တည်နေရာပြ လိပ်ရုပ် အထိမ်းအမှတ်။ အဝေး တွင် မြင်ရသော ထူပါရုံစေတီများမှာ လာမာဘုန်းတော်ကြီးများ၏ အထိမ်းအမှတ်များ ဖြစ်သည်။

လွတ်လပ်ပျော်ရွှင်စွာ နေထိုင်လေ့ ရှိသည့် မွန်ဂိုလူမျိုးများ၏ တီးမှုတ်ပျော်ရွှင်ပွဲတခု



အူလန်ဗတော မြို့တော် ရှုခင်း တစိတ်တဒေသ။ ရှေ့ပိုင်းတွင် တွေ့မြင်ရသော တဲများမှာ ရွှေ့ရပြောင်းရ လွယ်ကူသော သားရေတဲများ ဖြစ်သည် ။(ပေါ်) မွန်ဂိုလူမျိုးတို့သည် တိရစ္ဆာန် မွေးမြူရေး လုပ်ငန်းတွင် ကျွမ်းကျင်သူများ ဖြစ်ကြသည်။ (အောက်)




မွန်ဂိုးလီးယားသည် ရုရှနိုင်ငံ တရုပ်နိုင်ငံတို့နှင့် လေကြောင်းခရီးအားဖြင့် ဆက်သွယ်ထားရှိပေသည်။

အခါ တရုပ် တော်လှန်ရေး ပေါ်ပေါက်လာသဖြင့် မွန်ဂိုးလီးယားသည် မန်ချူးတို့၏အာဏာစက်အောက်မှလွတ်မြောက်ခဲ့လေသည်။ ယင်းသို့အားဖြင့် အပြင် မွန်ဂိုးလီးယားကို လာမာ ဘုန်းတော်ကြီးများက အုပ်ချုပ် လာခဲ့ပြီးနောက်၊ ၁၉၂၄ ခုနှစ်တွင် ရုရှနိုင်ငံ၏ အကူအညီဖြင့် ပြည်သူ့သမတနိုင်ငံ အဖြစ် ကြေညာလေသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း ၁၉၄၅ ခုနှစ်က အပြင်မွန်ဂိုးလီးယားသည် ရုရှနိုင်ငံနှင့် ပူးပေါင်း၍ ဂျပန်နိုင်ငံကို စစ်ကြေညာခဲ့သည်။ ၁၉၄၆ ခုနှစ်တွင် တရုပ်နိုင်ငံက အပြင်မွန်ဂိုးလီးယား၏ လွတ်လပ်ရေးကို အသိ အမှတ် ပြုလေသည်။ မြို့တော်မှာ အူလန်ဗတောမြို့ ဖြစ်၍ မွန်ဂိုးလီးယား တခုလုံးတွင် အကြီးဆုံး မြို့လည်း ဖြစ်သည်။ လူဦးရေ တသိန်းခန့် ရှိသည်။

အတွင်းမွန်ဂိုးလီးယားသည် တရုပ်ပြည်သူ့ သမတ နိုင်ငံတွင် ပါဝင်၍ ကိုယ်ပိုင် အုပ်ချုပ်ရေး ရသော ပြည်နယ် ဖြစ်သည်။ ဟွန်ဟိုမြစ်သည် ဤပြည်နယ်တောင်ပိုင်းကို ဖြတ်သန်း စီးဆင်းသည်။

မွန်ဂိုးလီးယားတွင် ပြင်းထန်လှန်ကဲသော ရာသီဥတုရှိ၏။ အပူအအေး မညီမျှချေ။ လေပြင်း အစဉ် တိုက်ခတ်သည်။ နွေရာသီတွင် အပူချိန် ဒီဂရီ ၉၀ မျှရှိ၍၊ ဆောင်းရာသီတွင် ဒီဂရီ ၄၀ အထိ ကျဆင်းတတ်သည်။ မိုးအလွန်ပါး၍ တနှစ်လျှင် မိုးရေချိန် ရှစ်လက်မမှ ၁၂ လက်မအထိသာ ရွာသွန်းလေသည်။

ရေရှားသောအရပ် ဖြစ်ခြင်းကြောင့် မွန်ဂိုလူမျိုးတို့သည် သိုး၊ ဆိတ်၊ နွား၊ မြင်းပု၊ ကုလားအုပ်များကို မွေးမြူ၍ ရေကြည်ရာ မြက်နုရာသို့ လှည့်လည်နေထိုင်လေ့ ရှိကြသည်။ ထိုကြောင့် အိုးအိမ် အတည်တကျ မရှိဘဲ၊ သားရေဖြင့် ချုပ်လုပ်ထားသော ယတ် ခေါ် တဲရှင်များ၌ နေထိုင်ကြသည်။



မွန်ဂိုလူမျိုးတို့သည် မြင်းစီး ကျင်လျင်၍ ခရီးသွားလာရေးတွင် မြင်းကို အဓိက အားထားကြရသည်။

မွန်ဂို လူမျိုးတို့သည် မိမိတို့အတွက် လိုသမျှပစ္စည်းကို မွေးမြူထားသည့် တိရစ္ဆာန်များမှ ရရှိလေသည်။ အစား အစာအတွက် အသား၊ နို့၊ ထောပတ်၊ ဒိန်ခဲကိုရင်း၊ အဝတ် အတွက် သားမွေးကိုရင်း၊ နေထိုင်ရန် တဲအတွက် သားရေကို

ငင်း ထိုတိရစ္ဆာန်များမှ ရရှိကြသည်။ ကုလားအုပ်နှင့် မြင်းကို ဝန်တင် တိရစ္ဆာန်အဖြစ် အသုံးပြုကြသည်။ ထွက်ကုန်များဖြစ်သော ရွှေ၊ သားမွေး၊ သားရေ၊ သိုးမွေးတို့ကို လက်ဖက်ခြောက်၊ ဂျုံ၊ သကြား၊ ဆေး၊ ခြည်ထည်၊ သားရေထည်ပစ္စည်း၊ လက်ဝတ် လက်စားတို့နှင့် လဲလှယ်ကြသည်။

တဆဲ့ကိုးရာစုနှစ် နောက်ပိုင်းတွင် အတွင်း မွန်ဂိုးလီးယားသို့ တရုပ်လူမျိုး မြောက်မြားစွာ ဝင်ရောက် လာပြီးလျှင် ခေတ်မီ စိုက်ပျိုးနည်းများဖြင့် ထွန်ယက် စိုက်ပျိုး လုပ်ကိုင်လျက်ရှိကြ၏။

မွန်ဂိုးလီးယားတွင် လူဦးရေနှစ်သန်းခန့် ရှိသည်။ အတွင်း မွန်ဂိုးလီးယားသည် လူနေအစိပ်ဆုံးဒေသဖြစ်၏။ တိဗက်ပြည်မှ ဗုဒ္ဓအယူဝါဒနှင့် ဆင်တူသော လာမာ အယူဝါဒကို သက်ဝင် ယုံကြည်ကြသည်။

တဆဲ့သုံးရာစုနှစ်ခန့်က မွန်ဂိုဘုရင် ဂျင်ဂစ်ခန်လက်ထက်တွင် မွန်ဂိုလူမျိုးတို့သည် စည်းလုံးမိပြီးလျှင် အနီးအနားရှိ တိုင်းပြည်များကိုသာမက ဥရောပ တိုက်ဖက်သို့ပင် စစ်ဦးလှည့်ကာ တိုက်ခိုက် အောင်မြင်ခဲ့လေသည်။ ထိုနောက် မြေးတော် ကူဗလိုင်ခန် လက်ထက်၌ မွန်ဂို အင်ပိုင်ယာကြီးမှာ အရှေ့ဖက် ပစိဖိတ် ကမ်းခြေမှ အနောက်ဖက် ပင်လယ်နက်အထိ ကျယ်ပြန့်လေသည်။ သို့ရာတွင် နောက်ဆုံး၌ မွန်ဂိုးလီးယားသည် မန်ချူးဘုရင်တို့၏ လက်အောက်သို့ ကျရောက်ခဲ့ရလေသည်။ (မွန်ဂိုလူမျိုး — လည်းရှု။)

**မွန်တားနားပြည်နယ်။** ။မွန်တားနား ပြည်နယ်သည် အမေရိကန် ပြည်ထောင်စု နိုင်ငံတွင် တက်ဆက်ပြည်နယ်နှင့် ကာလီဖိုးနီးယားပြည်နယ်တို့မှ လွဲလျှင် အကြီးဆုံး ပြည်နယ်ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၁၄၇,၁၃၈ စတုရန်းမိုင်မျှ ရှိ၏။ လူဦးရေမှာ ၇၀၆,၀၀၀ (၁၉၆၂) ဖြစ်သည်။ မြောက်ဖက်တွင် ကနေဒါ နိုင်ငံနှင့် နယ်ချင်းစပ်လျက် တည်ရှိသည်။ ပြည်နယ် အနောက်ဖက်ပိုင်းတွင် ရော့ကီးတောင်တန်းများရှိ၍ တောင်ထူထပ်လျက် အရှေ့ဖက်သို့ ပြေဆင်းသွားသည်။ မွန်တားနား ဟူသော အမည်မှာ တောင် ထူထပ်သောဒေသ ဟု အဓိပ္ပါယ်ရသည်။

မိဇူးရီးမြစ်သည် မွန်တားနား ပြည်နယ် အနောက်တောင်ပိုင်းတွင် မြစ်ငယ် သုံးသွယ်ပေါင်း၍ မြစ်ဖျားခံလျက် အရှေ့ဖက်သို့ ဖြတ်သန်း စီးဆင်းသည်။ ဤပြည်နယ်၌ မိဇူးရီးမြစ်နှင့် ယင်း၏ မြစ်လက်တက်များမှ ရေသွယ်၍ စိုက်ပျိုးခြင်းလုပ်ငန်းသည် အလွန် ကြီးကျယ်၏။ ရာသီဥတု ညီညွတ်မျှတသည်။

မွန်တားနား ပြည်နယ်တွင် စိုက်ပျိုးခြင်းနှင့် တိရစ္ဆာန်မွေးမြူခြင်း လုပ်ငန်းတို့သည် အဓိက လုပ်ငန်းများ ဖြစ်၏။ ဂျုံကို အများဆုံး စိုက်ပျိုးသည်။ အခြား ကောက်ပဲသီးနှံပင်များမှာ အာလူး၊ ပိုက်ဆံပင်၊ မုန်လာဥနီ၊ ကျွဲစာ နွားစာတို့ဖြစ်သည်။ သစ်သီးပင်များကိုလည်း စိုက်ပျိုးကြသည်။

ပြည်နယ် အရှေ့ပိုင်း မြေနိမ့် ဒေသတွင် တိရစ္ဆာန်များကို မွေးမြူသည်။ တက်ဆက် ပြည်နယ်မှ လွဲလျှင် မွန်တားနားပြည်နယ်သည် သိုးအများဆုံး မွေးမြူသော ပြည်နယ် ဖြစ်၍ သိုးမွေးသည် ထင်ရှားသော ထွက်ကုန်ဖြစ်၏။

မွန်တားနား ပြည်နယ်သည် တွင်းထွက် ပစ္စည်း ကြွယ်ဝသော ပြည်နယ် ဖြစ်၍ ကြေးနီ အများဆုံးထွက်သည်။ ရွှေ၊ ငွေ၊ သွပ်၊ ခဲ၊ ရေနံ၊ ကျောက်မီးသွေးနှင့် မန်ဂနိစ်တို့ကိုလည်း တူးဖော်လုပ်ကိုင်ကြသည်။ နီလာတွင်းများလည်း ရှိလေသည်။

မွန်တားနား ပြည်နယ်၏ မြို့တော်မှာ ဟယ်လီနားမြို့ဖြစ်၍ လူဦးရေ ၁၇,၅၈၁ ယောက် ရှိသည်။အခြား ထင်ရှားသော မြို့ကြီးများမှာ ဗတ်မြို့၊ ဂရိတ်ဖော့မြို့၊ ဗီးလင်းမြို့နှင့် မစ္စူလာမြို့များ ဖြစ်လေသည်။

**မွန်တီကာလိုမြို့။** ။မွန်တီကာလိုမြို့သည် ၁၈၅၆ ခုနှစ်ခန့်မှစ၍ အပြည်ပြည်မှ လောင်းတမ်းကစားသူတို့ စုဝေးရာ ဒေသအဖြစ် ထင်ရှားလာသည်။ ပြင်သစ်နိုင်ငံ တောင်ပိုင်း မြေထဲပင်လယ် ကမ်းခြေရှိ မွန်နာကို နိုင်ငံတွင် တည်ရှိ၍ နီးစ်မြို့နှင့် ကိုးမိုင်ကွာဝေးသည်။ မွန်နာကို နိုင်ငံသည် ပြင်သစ်နိုင်ငံနှင့် ဣတလီ နိုင်ငံတို့ နယ်နိမိတ်ချင်း စပ်ရာ ဒေသအနီးတွင် တည်ရှိ၍ မွန်နာကိုနယ်စားမင်းသားက အုပ်ချုပ်သည်။ (မွန်နာကို နိုင်ငံ — ရှု။)

နှစ်စဉ် နိုင်ငံခြားမှ ဧည့်သည်ပေါင်း မြောက်မြားစွာတို့သည် မွန်နာကို နိုင်ငံသို့ အပန်းဖြေ လာရောက်လည်ပတ်လေ့ရှိ၏။ မွန်တီကာလိုမြို့တွင် ကဆီးနိုး ခေါ် ကစားဝိုင်းများ ပြုလုပ်ရာ အဆောက်အအုံကြီးကို ၁၈၇၈ ခုနှစ်၌ ဆောက်လုပ်ပြီးစီးခဲ့သည်။ ထိုကစားဝိုင်းများမှ နှစ်စဉ် ဝင်ငွေအမြောက်အမြား ရရှိသဖြင့် မွန်နာကို နိုင်ငံသားတို့သည် အခွန် အကောက် ထမ်းဆောင်ခြင်းမှ လွတ်ငြိမ်းခွင့် ရရှိကြလေသည်။ သို့ရာတွင် နိုင်ငံသူ နိုင်ငံသားများကို ထိုကစားဝိုင်းများ၌ ပါဝင်ကစားခွင့် မပြုချေ။

မွန်တီကာလို မြို့တွင် လူဦးရေ ၁၁,၀၀၀ ခန့် ရှိသည်။

**မွန်တီနီးဂရိုးပြည်နယ်။** ။ယခုအခါ မွန်တီနီးဂရိုး ပြည်နယ်သည် ယူဂိုစလားဗီးယား နိုင်ငံတွင် ပြည်နယ်တနယ် အဖြစ်ပါဝင်သည်။ (ယူဂိုစလားဗီးယား နိုင်ငံ — ရှု။) အယ်လဗေးနီးယားနိုင်ငံ မြောက်ဖက်၊ အေဒြီယက်တစ်ပင်လယ် အရှေ့ဖက် ကမ်းခြေ၌ တည်ရှိသည်။ ၃,၇၃၃ စတုရန်းမိုင် ကျယ်ဝန်း၍ တောင်ထူထပ်၏။ မွန်တီနီးဂရိုးဟူသောအမည်မှာ တောင်နက် ဟု ဆိုလိုသည်။



ကမ္ဘာကျော် ကစားဝိုင်းကြီးများ ဖွင့်လှစ် တည်ထောင်ထားလျက် ရှိသည့် မွန်တီကာလိုမြို့



ဖော်လကန်ဒေသ ဖော့စနီးယားပြည်နယ်နှင့် အယ်လဗေးနီးယား နိုင်ငံတို့ကြားရှိ မွန်တီနီးဂရိုး ပြည်နယ်မှ ရှုခင်း

ရှေးအခါက ကိုယ့်မင်း ကိုယ့်ချင်းနှင့် အုပ်ချုပ်ခဲ့သော တိုင်းပြည်ဖြစ်၍ တူရကီနိုင်ငံက ဗော်လကန် ကျွန်းဆွယ်ကို အကြိမ်ကြိမ် တိုက်ခိုက် သိမ်းပိုက်ရာတွင် အညံ့မခံ အရှုံးမပေးဘဲ တူရကီတို့၏ ရန်ကို တွန်းလှန်ခဲ့သော တိုင်းပြည်လည်း ဖြစ်သည်။ ၁၉၁၀ ပြည့်နှစ်တွင် ဘုရင်အုပ်စိုးသော တိုင်းပြည် ဖြစ်လာ၍ ပဌမ ကမ္ဘာစစ်အတွင်းက မဟာမိတ်နိုင်ငံများနှင့် ပူးပေါင်းလျက် ဂျာမနီနှင့် ဩစတြီးယားနိုင်ငံတို့ကို တိုက်ခိုက်ခဲ့သည်။ နစ်ကလတ်ဘုရင်၏ သစ္စာဖောက်မှုကြောင့် ဂျာမန်နှင့် ဩစတြီးယန်းတို့ လက်အောက်သို့ ကျရောက်ရာမှ ၁၉၁၈ ခုနှစ်၌ တဖန် လွတ်မြောက်လာသည်။ ပဌမ ကမ္ဘာစစ်ပြီးသည့်နောက် မွန်တီနီးဂရိုးပြည်သည် ဆားဗီးယားပြည်နှင့် ပူးပေါင်း၍ ယူဂိုစလားဗီးယား နိုင်ငံတွင် ပြည်နယ်အဖြစ် ပါဝင်လေသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန် စစ်တပ်များသည် မွန်တီနီးဂရိုး ပြည်နယ်ကို သိမ်းပိုက်ထားရာ၊ ၁၉၄၅ ခုနှစ်တွင် မဟာမိတ် စစ်တပ်များ၏ အကူအညီဖြင့် လွတ်မြောက်လာခဲ့၏။

မွန်တီနီးဂရိုး ပြည်နယ်သားများသည် ဆလဗ်လူမျိုး အဆက်အနွယ်ဖြစ်၍ အတိုက်အခိုက်ဖက်၌ အထူးကျွမ်းကျင်ကြသည်။ လူဦးရေမှာ ၁၉၆၁ ခုနှစ် သန်းကောင် စာရင်း



မွန်တီနီးဂရိုးပြည်နယ်သားတို့ ဝတ်စား ဆင်ယင်ပုံ

အရ ၄၇၁,၈၉၄ ယောက်ရှိသည်။ ချိုင့်ဝှမ်းဒေသတွင် ဆေးပင်၊ ပြောင်းပင်တို့ကို စိုက်ပျိုး၍ တောင်စောင်း မြက်ခင်းများ၌ တိရစ္ဆာန်များကို မွေးမြူကြသည်။

**မွန်တီဗစ်ဒီအိုမြို့။** ။မွန်တီဗစ်ဒီအိုမြို့သည် တောင် အမေရိကတိုက်ရှိ အူရုဂွေး နိုင်ငံ၏ မြို့တော် ဖြစ်သည်။ ထိုနိုင်ငံတွင် အကြီးဆုံး ဆိပ်ကမ်းမြို့လည်းဖြစ်သည်။ ပလိတ်မြစ်ဝ အရှေ့ဖက်ကမ်းပေါ်တွင် တည်ရှိ၍ တောင်အမေရိကတိုက်၌ သင်္ဘောဆိပ်ကောင်းရှိသော မြို့တမြို့ဖြစ်ပေသည်။

မွန်တီဗစ်ဒီအိုမြို့တွင် စံနစ်တကျ ဖောက်လုပ်ထားသော လမ်းမ ကျယ်များ တလျှောက်၌ သစ်ပင်များကို အစီအရီ စိုက်ပျိုးလျက် ပန်းခြံများ၊ ဥယျာဉ်များကို ကျနစွာ ပြုပြင်ထားသဖြင့် လှပတင့်တယ်သောမြို့ ဟူ၍ ထင်ရှားသည်။ မြို့ကွက်တပိုင်းသည် တောင်စွယ်အငူပေါ်၌ရှင်း၊ ကျန်တပိုင်းသည် ကမ်းနားတလျှောက်ရှိ တောင်ကုန်းကလေးများပေါ်၌ရှင်း တည်ရှိသဖြင့် သဘာဝအလျောက် ရေဆင်းရေကျကောင်းသောကြောင့် ကျန်းမာရေးနှင့် ညီညွတ်သော မြို့တမြို့လည်း ဖြစ်သည်။ မွန်တီဗစ်ဒီအို အမည်မှာ ပေါ်တူဂီ ဘာသာ စကားဖြင့် "တောင်ကုန်းမြင်ရပြီ" ဟူ၍ ဖြစ်၏။

ကမ်းနား တလျှောက်ရှိ မြို့ဟောင်းပိုင်းတွင် စီးပွားရေး လုပ်ငန်း ဆိုင်ရာ အဆောက်အအုံများ ရှိသည်။ မြို့သစ်ပိုင်း၌ မူကား အူရုဂွေး တက္ကသိုလ်၊ အစိုးရရုံး၊ ဇာတ်ပွဲဇာတ်ရုံ၊ အမျိုးသားပြတိုက် စသည့် ထင်ရှားသော အဆောက်အအုံများ ရှိလေသည်။

မွန်တီဗစ်ဒီအိုမြို့တွင် အဓိက လုပ်ငန်းမှာ အသားကို တာရှည်ခံအောင် ပြုလုပ်၍ နိုင်ငံခြားသို့ တင်ပို့သည့် လုပ်ငန်းဖြစ်သည်။ အခြားထွက်ကုန်များမှာ သိုးမွေး၊ သားရေနှင့် နွားနို့ထွက်ပစ္စည်းများ ဖြစ်သည်။

၁၇၂၆ ခုနှစ်တွင် စပိန်လူမျိုးတို့က မြို့ကို တည်ခဲ့၍ အူရုဂွေးနိုင်ငံ လွတ်လပ်ရေးရသည့် ၁၈၂၈ ခုနှစ်၌ မြို့တော် ဖြစ်လာခဲ့လေသည်။ လူဦးရေ ၁,၁၇၃,၁၁၄ ခန့် ရှိသည်။

**မွန်တက်စကျူး** (ခရစ် ၁၆၈၉ – ၁၇၅၅)။ ။ပြင်သစ် စာရေး ဆရာ မွန်တက်စကျူးသည် ၁၆၈၉ ခုနှစ် ဇန္နဝါရီလ ၁၈ ရက် နေ့တွင် ဗော်ဒိုးမြို့အနီး လာဗရီဒ ရဲတိုက်၌ မွေးဖွားသည်။ ဇွီးလီမြို့နှင့် ဗော်ဒိုးမြို့များ၌ ပညာသင်ကြားပြီးနောက်၊ ၁၇၁၆ ခု နှစ်တွင် ဦးရီးတော်သူ ထံမှ ပစ္စည်း ဥစ္စာနှင့် ဘွဲ့ထူးဂုဏ်ထူးတို့ကို ဆက်ခံရရှိလေသည်။ ထိုနှစ်၌ပင် ဗော်ဒိုး ပါလီမန်လွှတ်တော် ဥက္ကဋ္ဌ ရာထူး၌ ခန့်အပ်ခြင်းခံရသည်။ သို့ရာတွင် မကြာမီ ထိုရာထူးမှ နုတ်ထွက်၍ စာပေ လေ့လာရေးသားခြင်းကို ပြုလုပ်လေသည်။

မွန်တက်စကျူး အပါအဝင် ဖြစ်သော ထိုခေတ်က ပြင်



အုရုဂွေးနိုင်ငံ၏ မြို့တော်ဖြစ်သော မွန်တီဗစ်ဒီအိုမြို့သည် ပလိတ်မြစ်ဝ အရှေ့ဖက်ကမ်းပေါ်တွင် တည်ရှိသည်။

သစ်စာရေးဆရာ တစုသည် လူထု နိုးကြားစေဖို့ အတွက် ပညာပေးရမည်။ အမှန်တရားကို ထုတ်ဖော် တင်ပြရမည် ဟူသော ယုံကြည်ချက်ဖြင့် စာပေများကို ရေးသား ခဲ့ကြသည်။ တိုင်းပြည် ပြုပြင်ပြောင်းလဲမှုကို အကြမ်းမဖက်၊ အနုနည်းသက်သက်ဖြင့် ဆောင်ရွက်စေလိုသော ဆန္ဒ ရှိကြသည်။ သို့ရာတွင် လူထု အုံကြွမှုသည် နောက်ဆုံး၌ ၁၇၈၉ ခုနှစ်တွင် ပြင်သစ်တော်လှန်ရေး ပေါ်ပေါက်သည် အထိ ပြင်းထန်၍ လာလေသည်။

၁၇၂၁ ခုနှစ်တွင် မွန်တက်စကျူးရေးသားထုတ်ဝေသော 'ပါးရှင်း ပေးစာများ' ၌ ပြင်သစ် နိုင်ငံသို့ အလည်အပတ် ရောက်ရှိလာသော ပါးရှင်းလူမျိုး လူကုံထံနှစ်ဦးက အချင်းချင်းထံသို့၎င်း၊ ပါးရှားပြည်ရှိ မိတ်ဆွေများထံသို့၎င်း စာရေးဟန်ဖြင့် ရေးထား၏။ ထိုခေတ် ပြင်သစ် လူမျိုးတို့၏ လူနေမှု စံနစ်နှင့် စပ်လျဉ်း၍ နိုင်ငံခြားသား အမြင်ဖြင့် မြင်ရပုံကို ထိထိမိမိ ဝေဖန် ရေးသားထားလေသည်။ မွန်တက်စကျူး၏ အထင်ရှားဆုံး စာပေလက်ရာမှာ ၁၇၄၈ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေသော "ဥပဒေ၏ သဘော" စာအုပ် ဖြစ်သည်။ ထိုစာအုပ်တွင် ကမ္ဘာ့သမိုင်းတလျှောက်၌ ပေါ်ပေါက်ခဲ့သော အစိုးရ အုပ်ချုပ်ပုံ စံနစ် အမျိုးမျိုးကို လေ့လာ၍ အစိုးရ အဖွဲ့၌ အုပ်ချုပ်မှုဌာန၊ ဥပဒေပြု ဌာန၊ တရားစီရင်မှု ဌာန ဟူ၍ သီးခြား ခွဲခန့် သတ်မှတ်ထားမှသာလျှင် နိုင်ငံရေး လွတ်လပ်မှုကို ရနိုင်မည်ဟု ယုံကြည်



ပြင်သစ် စာရေးဆရာ မွန်တက်စကျူး

ကြောင်း ထုတ်ဖော်ရေးသားထား၏။ပြင်သစ်နိုင်ငံမှာကဲ့သို့ လူတဦး တယောက်၏ လက်ထဲ၌ အာဏာကို စုပုံ အပ်နှင်းခြင်းသည် တရား လက်လွတ် အုပ်စိုးမှုကို ဖြစ်ပေါ် စေသည်ဟု ဆိုသည်။ ဌာနတခုက အခြားဌာန တခု၏ လုပ်ငန်းကို နယ်မကျံစေရန် အတား အဆီး အကန့်အသတ်များ ရှိရန် လိုအပ်ကြောင်းဖြင့်လည်း မိမိ၏ နိုင်ငံရေးအခြေခံ သဘောများကို ရေးသား ဖော်ပြခဲ့လေသည်။

မွန်တက်စကျူးသည် ၁၇၅၅ ခုနှစ် ဖေဖွာရီလ ၁၀ ရက်နေ့တွင် ပါရစ်မြို့၌ ကွယ်လွန်လေသည်။



ပညာရေး စံနစ်သစ်ကို တီထွင်ခဲ့သူ ဣတာလျံ ပညာကျော် မာရီယာ မွန်တက်ဆိုးရီး

**မွန်တက်ဆိုးရီး,အမ်** (ခရစ် ၁၈၇၀–၁၉၅၂)။ ။မာရီယာ မွန်တက်ဆိုးရီးသည် ဣတာလျံ အမျိုးသမီး ပညာရေး သုတေသီ ဖြစ်၍ မွန်တက်ဆိုးရီး ပညာသင်ကြားနည်းကို တီထွင်သူ ဖြစ်သည်။ ၁၈၉၄ ခုနှစ်တွင် ရောမတက္ကသိုလ်မှ ဆေးပညာဘွဲ့ကို ဣတာလျံ အမျိုးသမီးထဲတွင် ပဌမဦးဆုံး ရရှိသူ ဖြစ်ပေသည်။ ဒေါက်တာ မွန်တက်ဆိုးရီးသည် စိတ်ပျော့သည့်သောကလေးများ ကျောင်းတွင် ကျောင်းဆရာမကြီး အဖြစ် အမှုထမ်းနေစဉ် ပညာသင်ကြားရေး နည်းသစ်များကို စမ်းသပ်ကြည့်ရာ အောင်မြင်ကြောင်း တွေ့ရလေသည်။ ထိုနောက် သာမန် ကလေးသူငယ်များကိုလည်း မိမိတီထွင်သော ပညာသင်ကြားရေး နည်းသစ်များဖြင့် သင်ကြားပေးရလျှင် ပို၍ အောင်မြင်ရမည်ဟူသော ယုံကြည်ချက်ဖြင့် ၁၉၀၇ ခုနှစ်တွင် ရောမမြို့၌ မွန်တက်ဆိုးရီး စာသင်ကျောင်းကို စတင် တည်ထောင်လေသည်။ ထိုကျောင်းကို "ကလေးဂေဟာ" ဟူ၍ ကင်ပွန်းတပ်သည်။ ၁၉၂၂ ခုနှစ်တွင် အစိုးရက ဒေါက်တာ မွန်တက်ဆိုးရီးကို ပညာဝန်အဖြစ် ခန့်အပ်လေသည်။

မွန်တက်ဆိုးရီး ပညာသင်ကြားနည်းကို ကမ္ဘာ အရပ်ရပ်ရှိ စာသင်ကျောင်းများ၌လည်း လိုက်နာကျင့်သုံးလျက် ရှိကြသည်။ ဒေါက်တာ မွန်တက်ဆိုးရီးသည် ဥရောပတိုက်ရှိပညာရေး စံနစ်များကို လေ့လာရာ၌ စာသင်သား ကလေးများကို ချုပ်ချယ်လွန်းသည် ဟု ထင်မြင် သဘောရရှိခဲ့လေသည်။ တင်းလွန်းလျှင် ပြတ်၊ မာလွန်းလျှင် ဆတ် ဟု ဆိုသကဲ့သို့ ကလေးများအပေါ်တွင် ပညတ်ချက် များလွန်းပါက စည်းကမ်းပေးရာ မရောက်ဘဲ၊ သူတို့၏ ပင်ကိုယ် အရည်အချင်းကို ဖျက်ဆီးရာ ရောက်မည် ဟူ၍လည်း ယုံကြည်၏။ ထို့ကြောင့် မွန်တက်ဆိုးရီး ပညာသင်ကြားနည်းတွင် ပဌမ အဓိက အခြေခံ ချက်မှာ ကလေးများကို လွတ်လပ်စွာ လှုပ်ရှားခွင့်ပေး၍ ထိန်းကျောင်းခြင်းပင် ဖြစ်သည်။ သို့ရာတွင် ကလေးများသည် မိမိတို့ရရှိသော လွတ်လပ်စွာ လှုပ်ရှားခွင့်ကို ကျင့်သုံးသည့်အခါ၌ စည်းကမ်းမဲ့ မဖြစ်စေရန် သတိချပ်ရသည်။ ကလေးများကို မိမိတို့ စိတ်ကြိုက်ရာ ရွေးချယ် လုပ်ကိုင်စေခြင်းအားဖြင့် ကိုယ့်ကံကြမ္မာကို ကိုယ်တိုင် ဖန်တီးနိုင်ခြင်း၊ မကြောက်မရွံ့ လုပ်ကိုင်ဝံ့ခြင်း၊ သူတပါးအား အခွင့်အရေးပေးရန် ဆန္ဒဖြစ်ပေါ်ခြင်း စသော အရည်အချင်းများနှင့် ပြည့်စုံလာနိုင်သည်ဟူ၍လည်း သဘောပေါက်ခဲ့သည်။ ကလေးများသည် အတန်းဆရာ၏ အခြိမ်းအခြောက်၊ အမြောက်အပင့်ကြောင့် မဟုတ်ဘဲ၊ မိမိတို့ ဝါသနာ ပါရာကို လုပ်ကိုင်စေခြင်းဖြင့် စိတ်ပါဝင်စားမှုကို ထိန်းပေးနိုင်သည်။ သို့ဖြစ်၍ မွန်တက်ဆိုးရီး၏ ကျောင်းတွင် လွတ်လပ်မှုကို အဓိက ထားလေသည်။

မွန်တက်ဆိုးရီး ပညာသင်ကြားနည်းတွင် ဒုတိယ အဓိက အခြေခံချက်မှာ အာရုံ ခွဲခြားသိမှုအတွက် လေ့ကျင့်ခန်းများ ဖြစ်သည်။ မွန်တက်ဆိုးရီးသည် ကလေးများအဖို့ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ် စသော အင်္ဂါအရပ်ရပ်တို့ဖြင့် အာရုံခံစားရာ၌ ခွဲခြားသိတတ်ရန်အတွက် အလွယ်ကူဆုံးနှင့် အသင့်လျော်ဆုံး ပစ္စည်းကရိယာများကို တီထွင်ထားသည်။ ကလေးကို ဆရာ၏အကူအညီ မပါဘဲ၊ ထိုပညာပေး ပစ္စည်းကရိယာများဖြင့် ကစားစေသည်တွင် အာရုံ ခွဲခြားသိလာမှုကို အလိုအလျောက် ရရှိနိုင်လေသည်။ ပုံစံအားဖြင့် သူ့အပိုင်းနှင့် သူ အထူးအပါးညီမှ ဆက်စပ်၍ ရအောင် ခွဲစိတ်ဖြတ်တောက်ထားသော ကစားစရာတခုကို ကလေးအား

ပြန်လည် ဆက်စပ်စေခြင်းအားဖြင့် ပုံပန်းသဏ္ဌာန်တခုနှင့် တခုကိုသော်၎င်း၊ အထူအပါး တခုနှင့် တခုကိုသော်၎င်း ခွဲခြား၍ သိမြင်လာနိုင်ပေသည်။ ထိုနည်းတူ အခြား အာရုံများအတွက်ကိုလည်း သင့်ရာပစ္စည်းကရိယာများဖြင့် လက်တွေ့ ခွဲခြား သိမြင်လာစေရန် ကလေးတို့အား သင်ကြားရလေသည်။

စာရေး စာဖတ်ကို သင်ကြားရာ၌လည်း စက္ကူကပ်ပြားပေါ်တွင် သဲစက္ကူ (ကော်ပတ်စက္ကူ) ဖြင့် အက္ခရာစာလုံးကို ဖော်၍ ကပ်ထားသည်။ ထိုသဲစက္ကူအက္ခရာပေါ်တွင် ကလေး၏ လက်ဖြင့် ထပ် ရေးဆွဲစေ၍၊ နှုတ်မှ ထိုအက္ခရာ အသံထွက်ကို ရွတ်ဆိုစေသည်။ ရောင်စုံပုတီးစေ့များ၊ ဂေါ်လီလုံးများဖြင့်လည်း အပေါင်း၊ အနုတ်၊ အရေအတွက် စသည်တို့ကို လက်တွေ့ သင်ပြသည်။ ယင်းသို့အားဖြင့် ကလေးတို့သည် အရေး၊ အဖတ်၊ အတွက်ကို သင်ကြရာ၌ အလုပ်ဟူ၍ မထင်မှတ်ဘဲ ကစားနေရသည် ဟူ၍ပင် ထင်မှတ်စေရာ ရောက်ပေသည်။

မွန်တက်ဆိုးရီး ပညာသင်ကြားနည်းတွင် ဒုတိယ အခြေခံချက်မှာ နေ့စဉ်ဆောင်ရွက်ရသည့် ကိစ္စများအတွက် လက်တွေ့ လေ့ကျင့်ခဏ်းများ ဖြစ်၏။ ကလေးသည် ကြယ်သီး တပ်ခြင်း၊ ဖိနပ်ကြိုးတပ်ခြင်း၊ တံမြက်လှည်းခြင်း၊ ဆေးကြောခြင်း၊ အရောင်တင်ခြင်း အစရှိသည်ဖြင့် လက်တွေ့လုပ်ငန်းများကို သင်ကြား လေ့လာရလေသည်။ ထိုအလုပ်များသည် လူကြီးများအဖို့ မခက်ခဲသော်လည်း မိမိတို့၏ ကိုယ်အင်္ဂါအစိတ်အပိုင်းများကို ကျင်လျင်စွာ အသုံး မပြုတတ်သေးသူ ကလေးများအဖို့မူကား လွယ်ကူသော အလုပ် မဟုတ်ချေ။ အကြိမ်ကြိမ် အမှားမှား အယွင်းယွင်း ဖြစ်ရပြီးမှ အမှန်အတိုင်း လုပ်ဆောင်နိုင်မည်ပင် ဖြစ်သည်။ ထိုသို့အားဖြင့် ကလေးတို့၏ စိတ်ကူးဉာဏ် ထက်သန်လာ၍ မိမိကိုယ်ကို မိမိအားကိုးစိတ် ပေါ်ထွက်လာမည်ဟူ၍ ဒေါက်တာ မွန်တက်ဆိုးရီးက ယုံကြည်လေသည်။

၁၉၁၂ ခုနှစ်တွင် ထုတ်ဝေသော "မွန်တက်ဆိုးရီး ပညာသင်ကြားနည်း" စာအုပ်၌ "ကလေးဂေဟာ" ကျောင်းများတွင် အသက် သုံးနှစ်မှ ခြောက်နှစ်အရွယ်အထိ ကလေးတို့ကို အထက်ဖော်ပြပါနည်းများဖြင့် မည်ကဲ့သို့ လက်တွေ့စမ်းသပ်သင်ကြား၍ မည်မျှ အောင်မြင်ကြောင်းကို ရေးသား ထားသည်။ ဒေါက်တာ မွန်တက်ဆိုးရီးသည် ၁၉၅၂ ခုနှစ် မေလ ခြောက်ရက်နေ့တွင် ကွယ်လွန်လေသည်။

**မွန်တိန်း, အမ်၊ အီ** (ခရစ် ၁၅၃၃ – ၁၅၉၂)။ ။ ပြင်သစ်စာရေး ဆရာ မွန်တိန်းသည် သိုးဆောင်း စာပေ၌ 'အက်ဆေး'ဟု ခေါ်သော စာမွန်ရေးနည်းကို ၁၅၇၁ ခုနှစ်တွင် စတင်တီထွင်ခဲ့သူဖြစ်ပေသည်။ (စာမွန် — လည်းရှု။)

မွန်တိန်းသည် စာမွန်စာပေကို ရေးရာ၌ မိမိ၏ ကိုယ်တိုင်အတွေ့အကြုံ အတွေးအခေါ် အလေ့အကျင့်တို့အပေါ်၌ တည်၍ ရေးခဲ့သဖြင့် စာပေလောကတွင် ထင်ရှားကျော်ကြားလေသည်။ မွန်တိန်းသည် နက်နဲသော တွေးခေါ်ချက်များကိုလည်း စကားပြေ ဖွဲ့၍ ရေးခဲ့သည်။ နာမည်ကျော် အင်္ဂလိပ် စာရေးဆရာများဖြစ်သော ဝီလျံ ရှိတ်စပီးယားနှင့် ဖရန်စစ် ဗေကင်တို့သည် မွန်တိန်း၏ စာမွန်စာပေများကို သေချာစွာ ဖတ်ရှုလေ့လာကြ၏။ ၁၆၁၀ ပြည့်နှစ်တွင် ဂျွန်ဖလိုရီအိုသည် မွန်တိန်း၏ စာမွန်များကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့သည်တွင် စာပေဂုဏ်မြောက်သော အင်္ဂလိပ် စကားပြေ လက်ရာကောင်းအဖြစ် ထင်ရှားပေသည်။

မွန်တိန်း၏ ရှေးဦးစာပေ လက်ရာမှာ ရေမွန် ဆီးဗုန်း ဆိုသူ ရေးသည့် "သဘာဝ ဗြဟာဒေဝ ဗေဒ" ဘာသာပြန် ဖြစ်သည်။ ၁၅၇၁ ခုနှစ်တွင် ဖခင်ထံမှ အမွေပစ္စည်းများကို ဆက်ခံပြီးနောက် ၁၅၈၀ ပြည့်နှစ်၌ ဆွစ်ဇာလန် နိုင်ငံ၊ ဂျာမနီနိုင်ငံနှင့် ဣတာလီနိုင်ငံများသို့ ခရီး ထွက်ခဲ့လေသည်။ မွန်တိန်းသည် ထိုအချိန်အတွင်း စာပေအရာ မြောက်သော စာမွန်များ ရေးခဲ့လေသည်။

မွန်တိန်းသည် ပြင်သစ် နိုင်ငံ ဗော်ဒိုး မြို့အနီး မွန်တိန်း




ခေတ်သစ် စာမွန်ရေးဟန်ကို ရှေ့ဆောင်လမ်းပြခဲ့သူ ပြင်သစ် စာရေး ဆရာကြီး မွန်တိန်း

ရဲတိုက်တွင် ၁၅၃၃ ခုနှစ် ဖေဖွာရီလ ၂၈ ရက်နေ့၌ ဖွားမြင်သည်။ အသက် ခြောက်နှစ်အရွယ် မတိုင်မီ လက်တင်ဘာသာကို တတ်မြောက်ပြီးဖြစ်၏။ ဗော်ဒိုးကောလိပ်ကျောင်းမှ ထွက်ပြီးနောက် ဥပဒေပညာကို ဆက်လက်၍ သင်ကြားလေသည်။ ၁၅၅၇ ခုနှစ်မှ ၁၅၇၀ ပြည့်နှစ်အထိ မွန့်တီန်းသည် ဗော်ဒိုး ပါလီမန် လွှတ်တော်တွင် အတိုင်ပင်ခံ အဖြစ်ဖြင့်၎င်း၊ ၁၅၈၁ ခုနှစ်မှ ၁၅၈၅ ခုနှစ် အထိ ဗော်ဒိုး မြို့တော်ဝန်အဖြစ်ဖြင့်၎င်း အမှုထမ်းခဲ့သည်။

မွန့်တီန်း ရေးသော စာမွန်များတွင် မိမိကိုယ်တွေ့ ခံစားချက်တို့ကို မကွယ်မထောင့်ဘဲ တင်ပြသည်သာ မက၊ ရေးဟန်ကလည်း ထူးခြားသဖြင့် ၁၇ ရာစုနှစ်နှင့် ၁၈ ရာစုနှစ်များ၌ ထင်ရှားသော ပြင်သစ် စာရေးဆရာတို့၏ စာပေလက်ရာများတွင် မွန့်တီန်း၏ အတွေးအခေါ် နှင့် ရေးဟန်တို့ကို အကဲခတ်မိနိုင်ပေသည်။ မွန့်တီန်းသည် အရာခပ်သိမ်းတို့၏ အကြောင်းကို သိချင်၏။ နားလည်ချင်၏။ သို့ရာတွင် ထိုအကြောင်းအရာအားလုံးတို့ကို သိဟန်မဆောင်ဘဲ သူ၏ ဆောင်ပုဒ်မှာ "ငါ ဘာသိသလဲ" ဟူ၍ ဖြစ်လေသည်။ မွန့်တီန်းသည် ၁၅၉၂ ခုနှစ် စက်တင်ဘာလ ၁၃ ရက်နေ့တွင် ကွယ်လွန်၏။



မွန်နာကိုမြို့ရှိ မွန်နာကို နယ်စား မင်းသား၏ စံအိမ်တော်

**မွန်နာကို နိုင်ငံ။** ။ပုပ်ရဟန်းမင်း နေထိုင်သော ဗက်တီကင် နန်းမြို့မှလွဲလျှင် မွန်နာကို နိုင်ငံသည် ဥရောပတိုက်ရှိ လွတ်လပ်သော နိုင်ငံတို့တွင် အငယ်ဆုံးနိုင်ငံ ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၃၆၈ ဧကမျှသာရှိ၍ လူဦးရေ ခန့်မှန်းခြေ ၂၀,၄၄၃ (၁၉၆၁) ရှိသည်။မွန်နာကိုနိုင်ငံသည် မြေထဲပင်လယ် ကမ်းခြေတွင် ပြင်သစ်နိုင်ငံနှင့် ဣတလီ နိုင်ငံတို့ နယ်နိမိတ်ချင်းစပ်ရာ ဒေသအနီး၌ တည်ရှိ၍ မွန်နာကို နယ်စားမင်းသား တတိယ ရေနယာ က အုပ်ချုပ်သည်။

မွန်နာကို နိုင်ငံသည် ကမ္ဘာကျော် လောင်းတမ်း ကစားဝိုင်းများရှိသော မွန်တီကာလိုမြို့ကြောင့်ထင်ရှားလေသည်။




မွန်နာကို နိုင်ငံ တည်နေရာပြ မြေပုံ

(မွန်တီကာလိုမြို့ — ရှု။) နှစ်စဉ် နိုင်ငံခြားမှ ဧည့်သည်ပေါင်းမြောက်မြားစွာ မွန်နာကိုနိုင်ငံသို့ အပန်းဖြေရန် လာရောက်လည်ပတ်လေ့ ရှိကြ၏။မွန်နာကိုမှ ပြင်သစ်နိုင်ငံရှိ နီးစ်မြို့သို့ ခေတ်မီ မော်တော်ကားလမ်းကောင်း ဖောက်လုပ်ထားသည်။ မွန်နာကို နိုင်ငံတွင် ရေငန် သက်ရှိလောကနှင့် ဆိုင်သော နာမည်ကျော် ပြတိုက်ရှိ၏။

မွန်နာကိုနိုင်ငံရှိ မြို့များသည် မြေထဲပင်လယ်ကို မျက်နှာမူလျက် တောင်ကုန်းပေါ်တွင် တည်ရှိသဖြင့် အလွန် သာယာပေသည်။ မြို့တော်မှာ မွန်နာကိုမြို့ ဖြစ်၍၊ လူဦးရေ ၂,၀၀၀ ခန့်ရှိသည်။ ကျန်မြို့နှစ်မြို့မှာ လာကွန်ဒါမင်းမြို့နှင့် မွန်တီကာလိုမြို့များ ဖြစ်သည်။ မွန်နာကို နိုင်ငံသားတို့သည် များသောအားဖြင့် ဟိုတယ်နှင့် စားသောက်ဆိုင်တို့၌ လုပ်ကိုင်ကြသည်။ မွန်နာကိုနိုင်ငံသည် ကစားဝိုင်းများမှ ဝင်ငွေအမြောက်အမြား ရရှိလေသည်။ နိုင်ငံသားများကိုမူ ထိုကစားဝိုင်းများ၌ ဝင်ရောက်ကစားခွင့် မပြုချေ။

မွန်နာကိုနိုင်ငံမှ သံလွင်ဆီ၊ လိမ်မော်သီးနှင့် ရေမွှေး ထွက်လေသည်။

ရောမ သာသနာစောင့် နိုင်ငံကို တည်ထောင်သူ ဧကရာဇ်ဘုရင် ပဌမ အော့တိုးသည် မွန်နာကို နိုင်ငံကို နှစ်ပေါင်းများစွာ အုပ်စိုးခဲ့၍ ၁၂၉၇ ခုနှစ်မှစ၍ မွန်နာကိုသည် ဂရီနီးအာ



မွန်နာကိုမြို့တော်သည် မြေထဲပင်လယ် ကမ်းခြေတွင် သာယာအေးချမ်းစွာ တည်ရှိသည်။

မင်းဆက် လက်အောက်သို့ ရောက်ရှိခဲ့သည်။ ၁၇၁၅ ခုနှစ်တွင် ဆာဒင်းနီးယား နိုင်ငံ၏ စောင့်ရှောက်ခံနယ် အဖြစ်ဂုင်း၊ ၁၈၆၁ ခုနှစ်တွင် ပြင်သစ်နိုင်ငံ၏ စောင့်ရှောက်ခံ နယ်အဖြစ်ဂုင်း တည်ရှိခဲ့၏။ ယခုအခါ မွန်နာကိုနိုင်ငံကို ၁၉၁၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ နယ်စား မင်းသားက အုပ်ချုပ်လျက်ရှိသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်စစ်တပ်များသည် မွန်နာကိုနိုင်ငံကို သိမ်းပိုက်ခဲ့ကြသည်။ မင်းသား ဒုတိယလူဝီသည် မွန်နာကိုနိုင်ငံကို ၁၉၂၂ ခုနှစ်မှ ၁၉၄၉ ခုနှစ်အထိ အုပ်ချုပ်သည်။ လူဝီမင်းသား ကွယ်လွန်ပြီးနောက် မြေးတော် တတိယ ရေနယာမင်းသားက မွန်နာကိုနိုင်ငံကို ဆက်လက်၍ အုပ်ချုပ်လျက်ရှိ၏။ ဥပဒေပြုရေး အာဏာသည် နယ်စားမင်းသားနှင့် အဖွဲ့ဝင် ၁၈ ဦးပါဝင်သော အမျိုးသားကောင်စီ၌ တည်ရှိလေသည်။ လူထုက ထိုအမျိုးသားကောင်စီအဖွဲ့ဝင်များကို လေးနှစ် တကြိမ် ရွေးကောက်တင်မြှောက်ကြရသည်။

၁၉၆၅ ခုနှစ်တွင် အမျိုးသမီးများလည်း မဲဆန္ဒပေးခွင့် ရရှိခဲ့ကြလေသည်။ ပြင်သစ်ဘာသာမှာ ရုံးသုံးဘာသာဖြစ်လေသည်။

**မွန်နေဘွား လူမျိုး။** ။မွန်နေဘွား လူမျိုးသည် ကယား၊ ယင်းတလဲ၊ ယင်းဘော်၊ ပဒေါင်၊ ဇယိမ် အစရှိသော တောင်ပေါ်ကရင် လူမျိုးစုတွင် ပါဝင်လေသည်။ ဘာသာစကား၌ ပကု လူမျိုးတို့ကဲ့သို့ စကောကရင်တို့နှင့် နီးစပ်သည်။ လူဦးရေ ၂,၀၀၀ ကျော်မျှသာရှိ၍ တောင်ငူခရိုင်ရှိ တောင်တန်းများပေါ်၌ နေထိုင်ကြလေသည်။ (ကရင်လူမျိုး — လည်းရှု။)

# ရှေးအကျဆုံး တိုင်းရင်းသားလူမျိုး

**မွန်လူမျိုးသည် အမျိုးအနွယ်အားဖြင့် မွန်ဂိုလ်လိုက် အနွယ်ဝင်ဖြစ်သော မြန်မာနှင့် အနွယ်တူသည်။ သို့သော် ဘာသာစကားဖက်တွင် လုံးဝကွဲပြားသည်။ သို့ကွဲပြားစေကာမူ မွန်ဂိုလ်လိုက် အနွယ်တူဖြစ်၍ ရုပ်ရည် တူညီကြပြန်သဖြင့် ရင်းနှီးချစ်ခင်ခဲ့ကြလေသည်။ မွန်နှင့် မြန်မာတို့သည် ပုဂံခေတ်မှ စ၍ ဆက်ဆံပေါင်းသင်းလာခဲ့ကြသဖြင့် အများဆုံး ရောစပ်ခဲ့ကြလေသည်။**

**မွန်လူမျိုး။** ။ပြည်ထောင်စု မြန်မာနိုင်ငံတွင် ယနေ့တွေ့ရှိရသည့် တိုင်းရင်းသား လူမျိုးများ အနက် မွန်လူမျိုးသည် ရှေးအကျဆုံး ဖြစ်သည် ဟု ယူဆရသည်။

အမျိုးအနွယ် အားဖြင့် မွန်လူမျိုးသည် မွန်ဂိုလ်လိုက် အနွယ်ဝင်ဖြစ်သော မြန်မာနှင့် အနွယ် တူကြလေသည်။ သို့သော် ဘာသာစကားအနေဖြင့် မွန်လူမျိုးသည် မွန်-ခမာ အုပ်စုဝင် ဖြစ်ပြီးလျှင် တိဗက်-မြန်မာ အုပ်စုဝင် ဖြစ်သော မြန်မာတို့နှင့်ဘာသာစကားဖက်တွင် လုံးဝကွဲပြားကြသည်။

ဘာသာစကားဖက်တွင် ကွဲပြားခြားနားကြသော်လည်း အမျိုးအနွယ်ဖက်တွင်တူညီနေသဖြင့် မွန်နှင့်မြန်မာတို့သည် ရုပ်ရည် လက္ခဏာကို ကြည့်လျှင် မည်သူက မွန် မည်သူက မြန်မာ ဟူ၍ ခွဲခြားပြရန် အလွန်ပင် ခက်ခဲလှပေသည်။

## မွန်လူမျိုး ဆင်းသက်လာပုံ

အလွန် ရှေးကျသော ကာလ၌ မြန်မာနိုင်ငံတွင်းသို့ နီဂရီတို ခေါ် ကပ္ပလီအနွယ်ဝင်များ ရှေးဦးစွာ ဖြတ်သန်းခဲ့ဘူးသည်ဟု ပညာရှင်ကြီးများ ယူဆကြ လေသည်။ ထိုနောက် မွန်လူမျိုးများ ဆိုက်ရောက်လာကြလေသည်။ မွန်လူမျိုးများသည် ဘီစီ ၂၀၀၀ ခန့်တွင် ရာမညဒေသသို့ ဆိုက်ရောက်ကြဟန် တူကြောင်း ပါမောက္ခ ဒေါက်တာ လု(စ) က မိန့်ကြားဘူးလေသည်။ ထိုစဉ်က ဆန်စပါး စိုက်ပျိုးရေး ယဉ်ကျေးမှုကို မွန်များ ယူဆောင်ခဲ့သည်ဟုလည်း ထင်မြင်ဖွယ် ရှိကြောင်း ပါမောက္ခကြီးက ဆက်လက်မိန့်ဆိုပြန်လေသည်။

မွန်များ ရာမညဒေသသို့ ရောက်ရှိသည့် အချိန်တွင် နီဂရီတိုများသည် တောင်ဖက်သို့ ရွှေ့ဆင်း နေထိုင်ကြဟန် တူလေသည်။ ဘီလူးကျွန်းနှင့် ကပ္ပလီကျွန်းတို့တွင် နီဂရီတို အနွယ်ဝင် စမင်း(ဆေမန်) လူမျိုးများ နေထိုင်ခဲ့ဟန် တူသည်။ မော်လမြိုင်နှင့် တဖက်ကမ်းရှိ ဘီလူးကျွန်းကို မွန်တို့က တကော့ခမိုင်း ဟု ခေါ်သည်။ တကော့၏ အဓိပ္ပါယ်မှာ ကျွန်း ဖြစ်သည်။ ခမိုင်း ဝေါဟာရ ခေတ်မွန်စကားတွင် မရှိပေ။ သို့သော် (မွန်ဘာသာ) ရှင်မွေ့နွန်း မင်းနန္ဒာပျို့တွင် ခမိုင်းကို အကိုင်း အခက်များသော သစ်ပင် တပင်ဟု ဆိုသည်။ ထိုသစ်ပင်ပေါ်တွင် နားနေကြသော သိမ်းငှက် မောင်နှံတို့မှ လူထူးလူဆန်း တယောက် ပေါက်ဖွားသည်ဟု ဖော်ပြထားသည်။ ဤဒဏ္ဍာရီကို လေ့လာပြီးလျှင် သုတေသနသဘောဖြင့် ဆင်ခြင်လိုက်သော် ခမိုင်း ဝေါဟာရသည် စမင်း လူမျိုးကို ဆိုလိုဟန် တူကြောင်း တွေးမိသည်။ စမင်းလူမျိုးများ ဘီလူးကျွန်းတွင် နေထိုင်ခဲ့ဟန် တူပေလိမ့်မည်။ ထိုခေတ်တွင် ယင်းတို့သည် အဝတ်အစား မရှိ၊ နှုတ်ခမ်းထူ၊ ဆံပင်ကောက်၊ အသားမဲ၊ ရေကူးသန်၊ ခက်ထန်ကြမ်းတမ်းပြီးလျှင် ဘီလူးနှင့် တူကြသဖြင့် ထိုကျွန်းကို ယက္ခကျွန်း၊ ဘီလူးကျွန်း ဟု ခေါ်ဝေါ်ခဲ့တန်ရာသည်။

စမင်း လူမျိုးများကို ယနေ့ထိ မလ္လာယု ကျွန်းဆွယ်တွင် တွေ့မြင်နိုင်ပြီးလျှင် ယင်းတို့၏ ဘာသာ စကားတွင် ရှေးဟောင်း မွန်စကားများနှင့် တူညီသော ဝေါဟာရများစွာ ရှိသည်ကို ဒေါက်တာ ဗလက်ဒင်နှင့် စကိတ်တို့ ပြုစုသော "မလ္လာယု ကျွန်းဆွယ်ရှိ ဘာသာတရား အသိအမြင်ကင်းမဲ့သော လူမျိုးစုများ" စာအုပ်တွင် လေ့လာ နိုင်လေသည်။ ဤအချက်ကို ထောက်ရှု၍ ဘီလူးနှင့်တူသော စမင်းလူမျိုးနှင့် မွန် လူမျိုးများ ရှေးအခါကာလ၌ ရင်ဆိုင်တွေ့ဆုံ ဆက်ဆံခဲ့ရကြောင်း ထင်ရှားလှပေသည်။ မွန်ဘာသာ သမိုင်းတွင် သုဝဏ္ဏဘုမ္မိ သထုံပြည်သို့ ဘီစီ ၂၅၀ ခန့်က ကြွရောက်လာသည့် ဗုဒ္ဓသာသနာပြု အရှင် သောဏထေရ်နှင့် ဥတ္တရထေရ် နှစ်ပါး အမှူးပြုသော ရဟန်းများသည် မွန်တို့ကို အန္တရာယ် ပြုသည့် ရေသူရဲ ဘီလူးယက္ခများကို မင်္ဂလာပရိတ်တော်များကို ရွတ်ဖတ် သရဇ္ဈာယ်ပြီးလျှင် နှင်ထုတ်ရသည်ဟု ဖော်ပြထားလေသည်။ မွန်သမိုင်းတွင် ပါရှိသည့် ရေသူရဲ၊ ဘီလူး ယက္ခများသည် ရေကူး သန်စွမ်းပြီးလျှင် ရက်စက်ခက်ထန် ကြမ်းကြုတ်သည့် ကပ္ပလီအနွယ်ဝင် စမင်းလူမျိုးများကို ဆိုလိုဟန် တူကြောင်း ရှေးဟောင်း သုတေသန ပညာရှင်များ တွေးဆပုံကို ဒေါက်တာ ဂျီ၊ အေ၊ ဂရီအာဆင် ပြုစုသော "အိန္ဒိယနိုင်ငံ ဘာသာစကားလေ့လာမှု စစ်တမ်းကြီး" စာအုပ်တွင် ဖော်ပြထားလေသည်။

မွန်လူမျိုးများသည် မည်သည့် အရပ်ဒေသမှ ထွက်ခွာလာကြောင်းကို တိတိကျကျ ဖော်ပြ နိုင်ရန် အလွန်ပင် ခက်ခဲလှ ပေသည်။ မွန်ဂိုလီးယားပြည်မှ ဆင်းသက်လာသည် ဟု အချို့က ယူဆကြသည်။ သို့သော် အရှေ့တိုင်း ရာဇဝင်ဖက်တွင် အလွန်ဝါရင့်သည့် အထူး ပါမောက္ခကြီး ဒေါက်တာ လု(စ)ကမူ မွန်များသည် တရုပ်နိုင်ငံ အရှေ့တောင်ပိုင်း တုန်ကင် လွင်ပြင်မှ ဆင်းသက်လာမည် ဟု ထင်မြင်ကြောင်း မြွက်ကြားဘူး လေသည်။ မွန်များသည် သုဝဏ္ဏဘုမ္မိ သထုံသို့ မရောက်မီ ယိုးဒယား နိုင်ငံ တောင်ပိုင်းတွင် ဒွါရဝတီနိုင်ငံ ဟူ၍ အင်ဒိုချိုင်းနား၌ ထင်ရှားခဲ့သော နိုင်ငံတနိုင်ငံကို စတင် ထူထောင်ခဲ့ကြောင်းကို ပဍပထုံနှင့် လော့ဗူရီ မွန် ရှေးဟောင်း ကျောက်စာများက ထောက်ခံလျက် ရှိလေသည်။ ပဍပထုံ မွန် ကျောက်စာသည် သထုံနှင့်ပုဂံ မွန် ကျောက်စာထက် နှစ်ပေါင်း ၅၀၀ ခန့် ဦးလေသည်။ ဒွါရဝတီ မွန်နိုင်ငံတော်ကို အေဒီ ၁၀ ရာစုနှစ်ကျော်မှ ခမာ ခေါ် ကမ္ဘောဒီးယား လူမျိုးများက တိုက်ခိုက်ကြသဖြင့် မြောက်ပိုင်း ဇင်းမယ်အနီး၊ ဟာရီဗုဉ္ဇ ခေါ် လန်ဖွန်းသို့ ရွှေပြောင်းခဲ့ရလေသည်။ ထိုမှတဖန် ယိုးဒယား လူမျိုးများက မြောက်ဖက်မှနေ၍ တိုက်ခိုက်ပြန်သဖြင့် ၁၂ ရာစု၊ ၁၃ ရာစု နှစ်များတွင် ဒွါရဝတီမွန်များ တိမ်မြုပ် ပျောက်ကွယ်ခဲ့ကြလေသည်။

## မွန်အမည်

ရာမည ဟူသော အမည်ကို အလွန်ရှေးကျသည့် သီဟိုဠ်ရာဇဝင် (မဟာဝံသ-အခန်း ၇၆) တွင် ရှေးဦးစွာ တွေ့ရပြီးလျှင် မွန်လူမျိုး၏အမည်ကို ပုဂံခေတ်ထိုး ကျန်စစ်သား၏ နန်းတော် မွန်ကျောက်စာတွင် မေ ည် ဟူ၍ ရှေးဦးစွာ တွေ့ရလေသည်။ အသံထွက် 'ရမင်း' ဖြစ်သည်။ ထိုကျောက်

စာတွင်ပင် မြန်မာ လူမျိုးကိုလည်း ရှေးဦးစွာ မိမ်ာ (မိရမာ) ဟူ၍ တွေ့ရလေသည်။

ဟံသာဝတီခေတ်ထိုး မွန်ကျောက်စာများနှင့် ကြေးပြား စာများတွင် မွန်ကို မိဋ် (မိန် – ရမန်) ဟူ၍ အနည်းငယ် ပြောင်းလဲ လာပြန်သည်။ အသံထွက်မှာ ရမန် ဖြစ်သည်။ ယိုးဒယား နိုင်ငံတွင် ယနေ့ထိ မွန်ကို ရမန် ဟူ၍သာ ခေါ်ဝေါ်လျက် ရှိသေးသည်။

ရာမည ဒေသတွင် မန်–မွန် ဟူ၍သာ ခေါ်ဝေါ် ကြတော့သည်။

| ပုဂံခေတ် | ဟံသာဝတီခေတ် | ယခုခေတ် |
|---|---|---|
| မေိညဲ–မေိည် | မိဋ် – မိန် | မန် – မွန် |
| မေိည်– ရမေည် | မိန် – ရမန် | မန် |

### တလိုင်းဝေါဟာရ

တလိုင်း ဝေါဟာရနှင့် စပ်လျဉ်း၍ ပုဂံခေတ် မြန်မာ ကျောက်စာ အချို့နှင့် ပရိမ္မ ထီးလှိုင်ရှင်ဘုရား ကျောက်စာ တွင် တန်လိုင်ဟူ၍ မွန်ကို သုံးနှုန်းထားကြောင်း တွေ့ရသည်။ ပရိမ္မ ကျောက်စာသည် ကျန်စစ်သားခေတ်က ထိုးသော မူရင်း ကျောက်စာ မဟုတ်ချေ။ အက္ခရာ အရေးအသား အသုံး အနှုန်းကို ကြည့်ခြင်းအားဖြင့် ယင်းကျောက်စာ သည် အင်းဝ ခေတ်ဦးလောက်ကျမှ နောက်လူများ စပ်ထိုး သည့် နောက်ထိုး ကျောက်စာ ဖြစ်သည်။ ဤကျောက်စာ အရ မွန်များကို အင်းဝခေတ်ဦးမှ စပြီးလျှင် တန်လိုင် ဟူ၍ ခေါ်ဝေါ် ခဲ့ကြောင်း ထင်ရှားလေသည်။

မွန်ဘာသာ ရာဇဝင် သမိုင်းတွင် သုဓမ္မဝတီ (ဝါ) သုဝဏ္ဏ ဘုမ္မိ သထုံပြည်သို့ မဇ္ဈိမဒေသ ကာလိင်္ဂတိုင်း၊ တိလိင်္ဂနတိုင်း မှ မင်းညီမင်းသားများ ရောက်ရှိကာ သိကြားမင်း၏ အကူ အညီဖြင့် မွန်လူမျိုးတို့အား စီမံအုပ်ချုပ်ခဲ့သည်ဟု ဆိုထား လေသည်။ ဤသမိုင်းစဉ်ကို ထောက်ရှု၍ တိလိင်္ဂန တိုင်း သားများသည် ရာမညတိုင်းသို့ မကြာခဏ ရောက်ရှိကြမည် ဟု ယူဆရလေသည်။ တိလိင်္ဂန တိုင်းသားများကို အစွဲပြု၍ မွန်များကိုလည်း သိမ်းကျုံးကာ တလိုင်းဟူ၍ တခါတရံ ခေါ်ဝေါ်ကြဟန် တူလေသည်။

ယနေ့ မွန်များယူဆသော တလိုင်းဝေါဟာရ၏အဓိပ္ပါယ် မှာ အမျိုးမစစ် အဖမဲ့ ဟူ၍ ဖြစ်သဖြင့် မိမိတို့အား တလိုင်း ဟုခေါ်ဝေါ်ပါက လုံးဝ မကြိုက်မနှစ်သက်ကြပေ။ အမျိုး မစစ် ဟု ဆဲဆိုသကဲ့သို့ နာကြည်း ကြလေသည်။ ထိုကြောင့် နိုင်ငံ အစိုးရသည် ပြည်ထဲရေး ဝန်ကြီးဌာန အနေဖြင့်ရင်း၊ ယဉ်ကျေးမှု ဝန်ကြီး ဌာန အနေဖြင့်ရင်း မွန်လူမျိုးကို 'တ လိုင်း' ဟူ၍ ခေါ်ဝေါ်ရေးသား သုံးနှုန်းခြင်း မပြုရန် ညွှန် ကြားချက်များ သုံးကြိမ်မျှ ထုတ်ပြန်ခဲ့ဘူးလေသည်။ ယခု အခါ ပြည်ထောင်စုသား အများကပင် 'မွန်' ကို 'တလိုင်း' ဟူ၍ ခေါ်ဝေါ်ရေးသား သုံးနှုန်းခြင်း မပြုကြတော့ဘဲ မွန် ဟူ၍သာ အသုံးတွင်လျက် ရှိလေပြီ။

### မွန်စာပေ ယဉ်ကျေးမှု

ရွှေတိဂုံဘုရား ကျောက်စာ အရ အရှင်ဂေါတမ မြတ် စွာဘုရား ပွင့်စဉ်ကပင် မွန်ကုန်သည် ညီနောင် တဖုဿနှင့် ဘလ္လိကတို့သည် ဆံတော်ဓာတ် ရှစ်ဆူကို ရရှိခဲ့ကြသည်။ (ဘလ္လိက နှင့် တဖုဿ — လည်း ရှု။) ထိုနောက် သီရိဓမ္မာ သောကမင်းကြီး တတိယ သင်္ဂါယနာတင်ပြီးလျှင် ကိုးတိုင်း ကိုးဌာနသို့ သာသနာပြုများ စေလွှတ်ရာ ဘီစီ ၂၅၀ ခန့်တွင် သောဏထေရ်နှင့် ဥတ္တရထေရ် အမှူးပြုသော ရဟန်းများ သုဝဏ္ဏဘုမ္မိသို့ ကြွရောက်လာပြီးသော် မွန်တို့အား ဗုဒ္ဓအယူ ဝါဒကို ယူဆောင်ပေးလေသည်။ ထိုနောက် သုဝဏ္ဏဘုမ္မိမှ ရှင်ဗုဒ္ဓဃောသသည် အေဒီ လေးရာစုနှစ်တွင် သီဟိုဠ်ကျွန်းမှ ပိဋကတ်တော်များကို မွန်အက္ခရာဖြင့်ကူးယူခဲ့ပြန်လေသည်။ မွန်တို့၏ရှေးကျသောအက္ခရာများကို လေ့လာခြင်းအားဖြင့် မွန်တို့သည် အိန္ဒိယတောင်ပိုင်း၊ ပလ္လဝ၊ ကဒံဗ အက္ခရာများ မှတဆင့် အက္ခရာစာပေကို ရရှိသည်ဟု ယူဆရလေသည်။

အေဒီ ငါးရာစုနှစ်၊ ခြောက်ရာစုနှစ် ထိုး ပရပထုံ မွန် ကျောက်စာများ၊ အေဒီ ခုနစ်ရာစုနှစ်၊ ရှစ်ရာစုနှစ် ထိုး



ယဉ်ကျေးမှု အဆင့်အတန်း မြင့်မားသော မွန် အမျိုးသားတို့သည် မြန်မာတို့ကဲ့သို့ပင် ဝတ်စားဆင်ယင်ကြသည်။

လေဘ့ဖူရီ မွန်ကျောက်စာနှင့် အေဒီ ၁၁ ရာစုနှစ်မှ ၁၃ ရာစုနှစ် ထိုး လန်ဖွန်း မွန်ကျောက်စာများကို ယိုးဒယားနိုင်ငံ တောင်ပိုင်း၊ အလယ်ပိုင်းနှင့် မြောက်ပိုင်းတို့တွင် အသီး အသီး တွေ့ရှိနိုင်လေသည်။ လေဘ့ဖူရီ မွန်ကျောက်စာကိုမူ ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့ အမျိုးသားပြတိုက်တွင် ပြသထားလေသည်။

မြန်မာနိုင်ငံတွင် ဘားအံမြို့ အနီး ကော့ဂွမ်းဂူတွင်၎င်း၊ သထုံမြို့ ရွှေစာရံ ဘုရားတွင်၎င်း ၁၀ ရာစုနှစ် နောက်ပိုင်းထိုး မွန်ကျောက်စာများကို တွေ့ရပြီးလျှင် ၁၁ ရာစုနှစ် မွန်ကျောက်စာများကို ပုဂံ၌ အများဆုံး တွေ့ရသည်။ ကျောက်ဆည်၊ ပြည်၊ ဗဂိုး (ပဲခူး) အရွှေ ရွှေနံ့သာနှင့် သထုံ စသော ဌာနများတွင်လည်း အသင့်အတင့် တွေ့ရလေသည်။ ဟံသာဝတီခေတ် မွန်ကျောက်စာနှင့် ခေါင်းလောင်းစာများကို ပုသိမ်၊ ရန်ကုန်၊ ဗဂိုး(ပဲခူး)၊ပုဂံ၊ သထုံ၊ ကေလာသတောင်၊ မုတ္တမ၊ ကျိုက်မရော၊ ထားဝယ်စသော ဌာနများတွင် တွေ့ရှိရလေသည်။

မွန်ပေမူ ရှေးဟောင်း စာပေများကို ယိုးဒယား နိုင်ငံရှိ မွန်ရွာများနှင့် သထုံနှင့် ကျိုက္ခမီခရိုင်အတွင်းရှိ မွန်ရွာများတွင် အများအပြား တွေ့နိုင်လေသည်။ ယခုအခါ ရန်ကုန်မြို့ နိုင်ငံတော် စာကြည့်တိုက်နှင့် မော်လမြိုင်မြို့ မွန် စာကြည့်တိုက်တွင်လည်း မွန်ပေမူ များစွာကို ကူးယူ စုဆောင်း ထားရှိလေသည်။

ယဉ်ကျေးမှု ဝန်ကြီး ဌာန၊ ရှေးဟောင်း သုတေသန ဌာနရှိ မွန် ရှေးဟောင်းစာပေနှင့် ယဉ်ကျေးမှုဌာနတွင် မွန်ဘာသာ စာအုပ်များ၊ ကျောက်စာများ၊ ဇာတ်တော်များကို တည်းဖြတ် ပုံနှိပ်ခဲ့လေသည်။ မွန်- မြန်မာ အဘိဓာန် ကျမ်းကိုလည်း ပြုစုလျက် ရှိလေသည်။

ပုဂံခေတ်တွင် မွန်အက္ခရာကို မှီတည်၍ မြန်မာ အက္ခရာကို တီထွင်ခဲ့ခြင်း ဖြစ်ကြောင်းကို မြစေတီ ကျောက်စာအရ ထင်ရှားလေသည်။ မွန်ရဟန်း ရှင်အရဟံ၏ ရွှေဆောင်သာသနာပြုချက်အရ ပုဂံတွင် အနော်ရထာမင်းစောသည် ထေရဝါဒ ဗုဒ္ဓသာသနာတော်ကို ရရှိပြီးနောက် မွန်အက္ခရာဖြင့် ပါဠိဘာသာ အုတ်ခွက်စာများကို ဘုရား ရုပ်တုတော်၏ ကျောဖက်တွင် ကမ္ပည်းထိုးခဲ့ပေသည်။ ပုဂံတွင် ထိုစဉ်က ပျူအက္ခရာ ရှိသော်လည်း မြန်မာတို့ လက်မခံခဲ့ပေ။ မြန်မာဘုရင်တို့၏ ဆရာတော်များသည် ရှင်အရဟံနှင့် အပေါင်းပါ မွန်ရဟန်း ပညာရှိများ ဖြစ်သဖြင့် ကျန်စစ်သားတခေတ်လုံး၌ မွန်ဘာသာဖြင့်သာ စာပေ ရေးသားရာတွင် သုံးနှုန်းခဲ့ခြင်း ဖြစ်လေသည်။ အာနန္ဒာဘုရားတွင် မွန်ဘာသာ စဉ့်ကွင်းစာပေါင်း တထောင်ကျော်မျှ တွေ့ရသည်။ မြင်းပြဂူ၊ အပယ်ရတနာ၊ ဖြတ်စရွှေဂူ၊ လောကထိပ်ပန်၊ ပုထိုးသားများ၊ နဂါးရုံ၊ ဂူပြောက်ကြီးနှင့် အလိုပြည့်ဂူဘုရားများတွင်လည်း မွန်ကမ္ပည်းစာ (မင်စာ) များစွာ တွေ့နိုင်လေသည်။

ကျန်စစ်သား ခေတ်တွင် မြန်မာဘာသာဖြင့် လုံးဝရေးသားခဲ့ခြင်း မတွေ့ရပေ။ သို့သော် ကျန်စစ်သား၏ သားတော် ရာဇကုမာရ်၏ အေဒီ ၁၁၁၂ ခုနှစ် ထိုး မြစေတီကျောက်စာ ခေါ် ရာဇာကုမာရ် ကျောက်စာတွင်သာလျှင် မြန်မာဘာသာဖြင့် ရှေးဦးစွာ စတင် ရေးသားခဲ့လေသည်။ နရပတိ စည်သူမင်း လက်ထက်မှ စ၍ မြန်မာဘာသာ စာပေများ ထွန်းကားလာပြီးလျှင် မွန်ဘာသာ စာပေများ ပုဂံတွင် တိမ်ကောခဲ့ရ ပြန်လေသည်။ ဟံသာဝတီခေတ်တွင် ရှင်စောပု မွန်ဘုရင်မနှင့် ဓမ္မစေတီ ခေါ် ရာမ ဓိပတိ မွန်ဘုရင် လက်ထက်ကျမှ မွန်စာပေများ တဖန် ထွန်းကားပြန်လေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၂၀၀ ကျော်က အလောင်းဘုရားခေတ်တွင် မွန်များ အရေးနိမ့်ခဲ့သည့် နှစ်မှ စ၍ မွန်စာပေများ တိမ်ကောခဲ့ရပြန် လေသည်။

## မွန်ရာဇဝင်

မွန်ရာဇဝင် မင်းဆက်စာရင်းကို သထုံတွင် သီဟရာဇာမှ မနုဟာမင်း အထိ ၅၇ ဆက်မျှ အုပ်စိုးခဲ့သည်ဟု ဘွဲ့အမည်များနှင့် တကွ ဖော်ပြ ထားလေသည်။ ထိုမင်းများသည် သထုံသာ မက ဒွါရဝတီ နိုင်ငံ (ယခု ယိုးဒယားနိုင်ငံ) ကိုလည်း တဆက်တည်း အုပ်စိုး ခဲ့ဟန် တူလေသည်။ အေဒီ ၁၀၅၇ ခုနှစ်တွင် အနော်ရထာမင်းစောသည် မနုဟာမင်းကို တိုက်ခိုက်စဉ်က သထုံ မဟုတ်ဘဲ ပရပထုံ ဖြစ်သည်ဟုပင် ယိုးဒယား နိုင်ငံရှိ ရာဇဝင်ဆရာ အချို့က ယူဆကြလေသည်။ ဤကား တွေးဆဖွယ် အချက်တရပ်ပင်။

ဒုတိယ မွန်မင်းဆက် စာရင်းတွင် ဟံသာဝတီ ဗဂိုးတွင် သမလ ဝိမလမင်းမှ စ၍ တိဿမင်းအထိ မင်းပေါင်း ၁၇ ဆက် စိုးစံခဲ့သည်ဟု ဖော်ပြလေသည်။ တတိယ မွန်မင်းဆက်စာရင်းတွင် မုတ္တမဘုရင် ဝါရီရူမင်းသည် ယိုးဒယားမင်းသမီးကို မိဖုရားမြှောက်ခဲ့လေသည်။ ဗညားဦး လက်ထက်တွင် ဗဂိုးသို့ ပြောင်းရွှေ့ခဲ့လေသည်။ ဗညားဦး၏ သားတော် ဗညားနွဲ့ခေါ် ရာဇာဓိရာဇ်သည် သူရသတ္တိဖက်တွင် အထင်ရှားဆုံး မွန် ဘုရင် ဖြစ်သည်။ ရာဇာဓိရာဇ်သည် အင်းဝဘုရင် မင်းကြီးစွာစော်ကဲ၊ သားတော် မင်းခေါင်ကြီးတို့နှင့် နှစ်ပေါင်းများစွာ စစ်ခင်း ကစားခဲ့လေသည်။ ယင်း၏ သူရဲကောင်း သုံးယောက် ဖြစ်သော သမိန်ဗရမ်း၊ လဂွန်းအိန်နှင့် အဲမွန်ဒယာတို့သည် ရာဇဝင်တွင် အထူး ကျော်ကြားလေသည်။

သက္ကရာဇ် ၁၁၁၉ ခုနှစ်တွင် နောက်ဆုံး မွန်မင်းဆက်ဖြစ်သည့် ဗြမောင်ဓိရာဇ်သည် အလောင်းဘုရားအား အရေးနိမ့်ခဲ့ရာမှ မွန်မင်းဆက် ပြတ်ခဲ့လေသည်။



ရေးမြို့နယ် စေ့ကနင်ရွာမှ မွန်ယဉ်ကျေးမှုအဖွဲ့ဝင် နှစ်ဦးတို့၏ ရှေးခေတ် မွန်နှစ်ပါးသွား ကဟန်

## ယခုခေတ် မွန်

မွန်နှင့် မြန်မာတို့သည် ပုဂံခေတ်မှ စ၍ ဆက်ဆံပေါင်းသင်းလာခဲ့ကြသဖြင့် အများဆုံး ရောစပ် ခဲ့ကြလေသည်။ မွန်နှင့် မြန်မာတို့သည် ဘာသာစကား ကွဲပြားကြစေကာမူ မွန်ဂိုလွိုက် အနွယ်တူ ဖြစ်ကြ၍ ရုပ်ရည် တူညီကြပြန်သဖြင့် သာ၍ ရင်းနှီး ချစ်ခင်ခဲ့ကြလေသည်။ မွန်တို့သည် မြန်မာစကားကို လွယ်ကူစွာ တတ်မြောက်ကြပြီးလျှင် မွန်စကားကို ပစ်ပယ်ကာ မြန်မာစကားကိုသာ ပြောဆိုကြသဖြင့် သား သမီးများသည် မိမိတို့ မွန်လူမျိုးဖြစ်သည်ကို မသိမြင်ကြတော့ဘဲ မြန်မာလူမျိုး ဟုသာ ထင်မြင်ခဲ့ကြလေသည်။ ထိုကြောင့် ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းတွင် မွန်လူမျိုး ဦးရေမှာ သုံးသိန်းခွဲမျှသာ ရှိလေသည်။ ၁၉၃၉ ခုနှစ်မှ စ၍ မွန်အသင်းများ စတင် ပေါ်ပေါက်လာခဲ့သဖြင့် ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းတွင် မွန်လူမျိုးဦးရေမှာ ခြောက်သိန်းကျော်မျှ တိုးတက်လာသည် ဟု ခန့်မှန်းရသည်။ ယခုအခါ မွန်လူမျိုးဦးရေကို စာရင်းသစ်ယူပါက သန်းကျော်ပြီ ဟု ခန့်မှန်းရလေသည်။ မွန်စကားတတ်သော မွန်လူမျိုးကို တွေ့လိုလျှင် ကျိုက္ခမီနှင့် သထုံခရိုင်ရှိ မွန်ရွာများတွင်သာ တွေ့နိုင်လေသည်။ မြို့ပေါ်တွင် မြန်မာစကားပြောသော မွန်လူမျိုးက များလေသည်။

နိုင်ပန်းလှ

**မွန်သီချင်း။** ။ယနေ့တိုင် ကျန်ရှိနေသည့် ရှေးမြန်မာ သီချင်း ဂီတဆိုင်ရာ မှတ်တမ်းမှတ်စုများ၌ မွန်သီချင်းများနှင့် စပ်လျဉ်း၍ အများအပြား မတွေ့ရှိရဘဲ၊ မွန် – အလေးမေ့ခေါ် "တောင်ယံတောက မောလေအောင်" အစချီ တောင်ယံတော လေး၊ တောင်ယံတော ကြီး မွန်သီချင်း နှစ် ပုဒ်၊ မွန် – ကြာစေ့ကောက် ခေါ် "နှင်းယွန်းဂိမ္မာန်" အစချီ သီချင်း၊ "စိန်ခြယ် ညီးလင်း" အစချီသီချင်း၊ မွန် – သံစုံခေါ်

"ကောင်းကြီးသခ်ါ" အစချီသီချင်း၊ မွန် – ဆဲ့နှစ်ခန်းခေါ် "ညွင်းညွင်း"အစချီ သီချင်း၊ ဗိမ္မာသားလွှဲချင်းခေါ် "စိန်မြရံခြယ်" အစချီသီချင်းနှင့် "သောင်းကျေး ဒီပါဘွေ" အစချီ သီချင်း ရှစ်ပုဒ်လောက်သာလျှင် တွေ့ရှိရလေသည်။

အဆိုပါ မွန်သီချင်း ဟူ၍ အမည်တပ်ထားသော သီချင်း ရှစ်ပုဒ်မှာ ရှေးမွန်သီချင်းအလိုက် တေးသွားများကို တိုက်ရိုက် သီကုံး စပ်ဆိုထားသော သီချင်းမျိုးများ မဟုတ်ဘဲ ယိုးဒယားသီချင်း ဟူ၍ အမည် တပ်ထားသော ရှေးမြန်မာ သီချင်းမျိုးများကဲ့သို့ ရှေးမွန်သီချင်းများ၏ အဆဲ့ အငင် အဖွဲ့အနွဲ့ လေယူလေသိမ်း အဖြတ်အတောက် စည်းဝင် စည်းထွက် အတောတီးချက် စသည်များကိုသာလျှင် အတုယူလျက် တမျိုး တဘာသာ တီထွင် စပ်ဆို သီကုံးထားသည့် မြန်မာသီချင်းများသာလျှင် ဖြစ်လေသည်။

မွန် သီချင်းအမည်များ၌ "အလေးမေ့" နှင့် "ကြာစေ့ကောက်"ဟူသောအသုံးအနှုန်းများမှာလည်း မြန်မာစကား အခေါ်အဝေါ်များ မဟုတ်ဘဲ၊ မွန်ဘာသာ အခေါ်အဝေါ် အသုံးအနှုန်းများ ဟူ၍ ယူဆရသည်။

မွန်သီချင်း ရှစ်ပုဒ်၏ စပ်ဆို သီကုံးထားသော အလိုက် တေးသွားများကို လေ့လာကြည့်မည်ဆိုလျှင် ကောင်းကြီးဘခ်ါ အစချီ သီချင်းနှင့် ညွင်းညွင်း အစချီ သီချင်းနှစ်ပုဒ်မှ အပ ကျန်သီချင်း ခြောက်ပုဒ်၏ အလိုက် တေးသွားများ၊ သီကုံး စပ်ဆိုပုံများမှာ တပုဒ်နှင့် တပုဒ် အနည်းငယ်ဆင်တူ ယိုးမှား သီကုံးစပ်ဆိုထားသည်ကို တွေ့ရှိနိုင်ရုံမျှမက အလိုက် တေးသွားအားဖြင့် တူညီသော အချို့သီချင်းပိုဒ်များ၌ စာသားများကိုပါ တပုဒ်နှင့်တပုဒ် ဆင်တူယိုးမှား စပ်ဆိုထားသည်ကို အောက်ပါအတိုင်း တွေ့မြင်ရပေသည်။

"ထူးထူးထွေထွေ၊ ထူးထူး ငယ် များထွေထွေ၊ သောင်ငွေ ယမုန်ထဲ၊ သဲခုံဘေ့-ငှက်ဖော်စုံရွှေ" (နှင်းယွန်းဂိမ္မာန်)

"ထူးထူး ထွေထွေ၊ စုံခြေရဂုံတော၊ ငှက်မွန်လေ ဖော်ချင်းနှော" (ကောင်းကြီးသခ်ါ)

"တိုင်းကျေးငယ် ဝေးမြေတာ၊ ပျော်တော် နိုင်ပါရေး၊ ဘေ့သီဟာ ဘေ့သီဟာ" (စိန်ခြယ်ညီးလင်း)

"တိုင်းကျေးမြေတာ၊ တိုင်းကျေးငယ် ဝေးမြေတာ၊ ဖန်ရာ လွန်ကြည်ကွဲ၊ ကြုံတော်ပြန်လှာ" (စိန်မြရံခြယ်)

"သွန်းဖြိုး မန္တာ၊ သွန်းဖြိုးငယ် မိုးမန္တာ၊ တံမြှာ ရွှေစည်ကျူး၊ ထူးသံသာ၊ ထူးသံသာ" (တောင်ယံတောကြီး)

"သွန်းဖြိုး မန္တာ၊ သွန်းဖြိုးငယ် မိုးမန္တာ၊ ဘီလာတိမ်ခြေဦး၊ စံရာဘေ့၊ မန်းညာရွှေ" (သောင်းကျေး ဒီပါဘွေ)

မွန်သီချင်း အချီပိုဒ်များ၌ အလိုက် တေးသွားအားဖြင့် အမျိုးမျိုး စပ်ဆိုကြသည်ကို တွေ့ရှိရသော်လည်း အချပိုဒ်များတွင် "ညွင်းညွင်း" အစချီ သီချင်းတပုဒ်မှအပ ကျန် သီချင်းများ၌ "စိန်ခြယ်ညီးလင်း" အစချီ သီချင်းရှိ အောက်ဖော်ပြပါအလိုက် တေးသွားအချပိုဒ်မျိုးကဲ့သို့ စပ်ဆို သီကုံးကြသည်ကို တွေ့ရှိရသည်မှာ မွန်သီချင်းများ၏ထူးခြားချက် တရပ်ပင် ဖြစ်သည်။

"သောရာမြင့်၊ သုံးဆင့်သံချီညွန်း၊ ယုန်ငွေဝန်း၊ ဖန်ခါခါ ဆေးကြောင်း၊ တိမ်ခြေ ငွေနှင်းပေါင်း၊ လေပြန်လာ သွန်းလောင်း၊ နန်းသူ ပူဆွေးကြောင်း၊ ဘေ့သည်ကြာ မင်းပေါင်း ငယ်လေ ခွေညှိုးပျောင်း။ ။"

မွန်သီချင်း ရှစ်ပုဒ်အနက် "စိန်ခြယ်ညီးလင်း" အစချီ မွန်သီချင်း တပုဒ်သာလျှင် မြဝတီမင်းကြီး ရေးသား၍ ကျန်သီချင်းများကို ပြင်စည်မင်းသား ရေးသားခဲ့လေသည်။ (စ၊ ဦး၊ မြဝတီဝန်ကြီး။ ပြင်စည်မင်းသား — ရှု။) ပြင်စည်မင်းသား ရေးသားခဲ့သော "နှင်းယွန်း ဂိမ္မာန်" အစချီ သီချင်းနှင့် မြဝတီမင်းကြီး ရေးသားခဲ့သော ဥက္ကလာပပြန်ခေါ် "စိန်ခြယ်ညီးလင်း"အစချီ သီချင်းနှစ်ပုဒ်မှာ သက္ကရာဇ် ၁၂၀၃ ခုနှစ်တွင် ရွှေဘိုမင်းသည် ရွှေတိဂုံစေတီတော်မြတ်အားဖူးမျှော်ရန်အတွက် အမရပူရမှ ဥက္ကလာပ ခေါ် ရန်ကုန်မြို့သို့ စုံဆင်းလာစဉ် ရန်ကုန်မြို့၌ ရေးသား ဆက်သွင်းသော သီချင်းများဖြစ်သဖြင့် မွန်သီချင်းများသည် ရွှေဘိုမင်းလက်ထက်အခါလောက်မှစ၍ ထွန်းကားပေါ် ပေါက်လာသည် ဟု ယူဆရသည်။

ထိုအချက်နှင့် စပ်လျဉ်း၍ သက္ကရာဇ် ၁၁၉၉ ခုနှစ် ရွှေဘိုမင်း နန်းမတက်မီ မွန်သီချင်း ဟူ၍ တသီးတခြား မပေါ် ပေါက်သေးကြောင်း အခိုင်အလုံ သိရှိရသော သာဓက တရပ်မှာ ဘိုးတော်မင်းတရား လက်ထက် သက္ကရာဇ် ၁၁၆၇ ခုနှစ် တန်ဆောင်မုန်းလဆန်း ၅ ရက်နေ့တွင် အိမ်ရှေ့မင်း အမိန့်တော်အရ ရှေးအစဉ်အဆက် ပသခဲ့သည့် ၃၇ မင်းနတ်တို့ကို ပွဲကန္နားသဘင်ကျင်းပရာ၌ ပတ် နဲ့ လင်းကွင်းများ မည်သို့ တီးမှုတ်လျက် မည်သို့ ကခုန်သည့် အချက် အလက်များကို ဆိုင်းတော်တီး ဦးမြတ်သာ၊ ဦးတရုပ်နှင့် တကွ ပန်တျာပညာသည်များကို စစ်ဆေး မေးမြန်း မှတ်သားစေပြီးလျှင်၊ သက္ကရာဇ် ၁၁၇၂ ခုနှစ် သီတင်းကျွတ်လဆန်း ၄ ရက်နေ့တွင် နတ်ထိန်းကြီး ကဝိ ဒေဝကျော်၊ ရာဇဝင် ဆရာ ဦးနန္ဒနှင့်တကွ အခြား ရာဇဝင်ပညာရှိများနှင့်အတူ တိုက်ဆိုင်၍ ၃၇ မင်းနတ်စဉ်၊ အမျိုးအမည်၊ ဆင်ယင် ပသနည်း၊ တီးမှုတ်နည်း နတ်သံများကို မြဝတီမင်းကြီး မှတ်သား စုဆောင်းထားသည့် မှတ်တမ်းရှိ မွန်အမျိုးအနွယ် နတ်များနှင့် စပ်လျဉ်း၍ သုံးပန်လှ နတ်အကြောင်းတွင်–

"ကြေး နဲ့ ပတ်ဝန်းများက တီးမှုတ်ရသည်။ အလျင်တလိုင်းဘာသာ နှစ်ကြိမ် တီးသည်။ နောက် မြန်မာဘာသာ သာကွင်းတီးသည်။သုံးခါကပြီးမှ နတ်သံပစ်သည်" ဟူ၍၎င်း၊

သံတော်ခံ နတ်အကြောင်းတွင် –

"နတ်သံချလျှင် ကြေး နဲ့ ပတ်ဝန်းများက တီးမှုတ်ကြရသည်မှာ တလိုင်းသီချင်းကို တလိုင်းတီး တီးသည်" ဟူ၍ ၎င်း၊

မယ်တော် ရွှေစကားနတ် အကြောင်းတွင် –

"နတ်သံ ချလျှင် ပတ်က တီးရသည်မှာ တျောဒိုနှင့် တျာဒူးတွင် တလိုင်းချက်နှင့် တီးသည်။ 'မီးခေါင်ပေါက်ကယ် နောက်ဆံစည်း' ပီအောင် တီးသည်" ဟူ၍၎င်း၊

ထီးဖြူဆောင်း မယ်တော်နတ် အကြောင်းတွင် –

"ကြေး နဲ့ ပတ်ဝန်းများက တီးရသည်မှာ တလိုင်းချက်နှင့် တျောဒို ဖက်၍ တလိုင်းလို အထက် မယ်တော်ရွှေစကားနတ်နည်း တီးရသည်" ဟူ၍၎င်း

တွေ့ရှိရသဖြင့် ထိုအချိန်တိုင်အောင် မွန်သီချင်း ဟူ၍ တသီးတခြား ခေါ်ဝေါ်သော မြန်မာသီချင်းမျိုးများ မပေါ်ပေါက်သေးဘဲ၊ မွန်ဘာသာ သီချင်းအလိုက် တေးသွားအတိုင်း တိုက်ရိုက်တီးမှုတ်သည့် မွန်တီးချက်များသာလျှင် ထွန်းကား ပေါ်ပေါက်နေသည်မှာ သိသာ ထင်ရှားလေသည်။

သက္ကရာဇ် ၁၁၄၅ခုနှစ်တွင်ဇေယသင်္ခယာရေးသားခဲ့သော ရွှေဘုံနိဒါန်း၌လည်း မြန်မာမင်းများ၏ ဝင်စည်တော် တီးမှုတ်ရာ၌ မွန်တီးချက်နှင့်မွန်ဘာသာ တေးသွားအတိုင်း တိုက်ရိုက် တီးမှုတ်ကြောင်းကို အောက်ပါအတိုင်း တွေ့ရှိရသည်။

"စည်ငါးလုံး၊ နဲ့လေးစင်း၊ ပုံ တစ်၊ စည်းစုပ် တစ်၊ စည်ချင်းမှာ သမိန်ဗြမ်း တီးသည်။ သမိန်မှာ မြန်မာ ပြန်လျှင် "မင်း" ဆိုသည်၊ ဗြမ်းမှာ "ဘုန်းတန်ခိုးကြီးသည်" ဆို၏။ ဘုန်းတန်ခိုးကြီးသောမင်း ဆိုလိုသည်။ နဲ့ချင်းမှာ "သီရိ ပဝရ အဂ္ဂမဟာရာဇာ မဟာစက္ကဝေါ သမိန်ထော လွှတ်တရ" ဟူ၍ မှုတ်သည်။ ပါဠိမှာ မြန်မာ တလိုင်း ယွန်းအက္ခရာ အတူတူပင် ဖြစ်သည်။ သမိန်ထောမှာ "မင်းတရား" ဆိုသည်။ လွှတ်တရမှာ "ဝင်တော့" ဆိုသည်။ မင်းတရားဝင်တော်မူတော့ ဆိုသည့် စကားပင်ဖြစ်သည်။"

ထိုပြင် လွန်ခဲ့သည့် နှစ်ပေါင်း ၁,၅၀၀ ခန့်မှစ၍ မွန်တို့၏ ဒေသဖြစ်သော မြန်မာနိုင်ငံအောက်ပိုင်းရှိ ပဲခူးမြို့နှင့် သထုံမြို့များနှင့် ပျူတို့၏ အရပ်ဒေသဖြစ်သော မြန်မာနိုင်ငံအလယ်ပိုင်းရှိ သရေခေတ္တရာ မြို့များမှာ ယဉ်ကျေးမှုအားဖြင့် နှစ်ပေါင်းများစွာ အဆက်အသွယ် ရှိခဲ့ခြင်း၊ ကျန်စစ်သားမင်း၏ နန်းတည်ကျောက်စာ၌ ပုဂံနန်းတည် အခမ်းအနားတွင် မွန်အတီးအမှုတ်များနှင့် ပျူအတီးအမှုတ်များ ပါဝင်သည် ဟူ၍ တွေ့ရှိရခြင်း၊ သက္ကရာဇ် ၁၀၃၅ ခုနှစ် မင်းရဲကျော်ထင်မင်း ဥကင်တော်ဖွင့် မင်္ဂလာအခမ်းအနား ဆင်ယင် ကျင်းပရာတွင် ပါဝင်ကပြရန်နှင့် စပ်လျဉ်း၍ သက္ကရာဇ် ၁၀၃၄ ခုနှစ် တန်ခူးလဆန်း ၃ ရက်နေ့ နာခံပြေ့မှူးကြီး၏ လွှတ်ပြန် အမိန့်တော်၌ "မြန်မာအတီးအက-နောက် ၄၀ ရွေ ၈၀၊ မွန်အတီးအက၊ ယိုးဒယားအတီးအက နောက် ၁၅ ရွေ ၃၀ " ဟူ၍ တွေ့ရှိရခြင်း၊ အင်းဝခေတ်မင်းများ လက်ထက်တွင် မင်းခမ်းမင်းနား သဘင်များ ဆင်ယင်ကျင်းပကြသည့်အခါ၌ ပါဝင်တီးမှုတ်ကြသည့် မြန်မာတူရိယာများအထဲတွင် "မွန်နဲ့" ဟု ခေါ်သော နဲ့တမျိုး အစဉ် ထည့်သွင်း တီးမှုတ်လေ့ ရှိကြောင်း ပျို့ကဗျာများ၌ တွေ့ရှိရခြင်း၊ သက္ကရာဇ် ၁၁၈၇ ခုနှစ် မုံရွေးဆရာတော် ရေးသားခဲ့သည့် မဟာ သီလဝ ပျို့၌ "တုလောင်ငွေမောင်း၊ စည်ပန်းတောင်းက၊ သံညောင်း ပန်းတိယား၊ အခြားခြားတည့်၊ သားများသားနည်း၊ဂျမ်း ကျည်း ယွန်း မွန်၊ အတန်တန်ကို၊ စိတ်ဥဘဏ်မှတ်ပိုက်၊ ဇာတ်စရိုက်ဖြင့်၊ သမိုက်သမျှ၊ တီးမျိုး စသား၊ ရာဇဘွယ်ရာ၊ စိတ်တော်သာတိုင်း၊ အခါမလွဲ၊ ရွှေနန်းထဲတွင်၊ သဲသဲထိတ်ထိတ်၊ ကရဝိတ်တွန်သံ၊ ပုံနှင့်စံ၍၊ညံညံမစဲ၊ရွှေနန်းပွဲကို၊ ခံမြဲ ခံတော်မူပါလေ့" ဟူ၍ တွေ့ရှိရခြင်း၊ သက္ကရာဇ် ၁၂၂၇ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီးသည် ကျောက်တော်ကြီး ဘုရားကို ဖူးမြော်ရန်အတွက် ထွက်တော်မူလာပုံ ဆေးရေး ပုရပိုက်တဆူတွင် မြန်မာဆိုင်းဝိုင်း တူရိယာများထဲ၌ မွန်တူရိယာဖြစ်သော ကြေးကောက်တူရိယာကို တွေ့ရှိရခြင်း စသည့် အချက်အလက်များကြောင့် ထိုခေတ် အခါက မြန်မာလူမျိုးများနှင့် မွန်လူမျိုးများတို့သည် ပန်တျာအတီးအမှုတ် ပညာရပ်များကို တဦးထံမှတဦးဖလှယ်နည်းယူ လက်ခံ တီးမှုတ် သီဆိုကြမည်မှာ ယုံမှားဖွယ်မရှိချေ။

"ဓေခြုံရေးချိုက်" အစချီ ယိုးဒယားဘာသာ သီချင်း တေးသွားအတိုင်း တိုက်ရိုက် စီကုံး ရေးသား စပ်ဆိုခဲ့သည့် "လွမ်းပိုအောင်" အစချီ ယိုးဒယား သီချင်းမျိုးကဲ့သို့ ရှေးအခါက ခေတ် အစားဆုံး မွန်သီချင်းများ၏ အလိုက် တေးသွားများနှင့် အတော တီးချက်အတိုင်း နှောင်းခေတ် ဆရာတဦး မြန်မာဘာသာဖြင့်တိုက်ရိုက် စပ်ဆို သီကုံးခဲ့သည့် မွန်သံဟောင်း သီချင်း ခေါ် "တလိုင်းသံ နှိုင်းစံပယ်ခွာ" အစချီ သီချင်းတပုဒ်သည်လည်း မြန်မာ့ ပန်တျာ လောကတွင် ယနေ့တိုင် ခေတ်စားလျက် ရှိပေသည်။

မွန်သီချင်းများသည် များသောအားဖြင့် အလွမ်းသံ အဆွေးသံများ ဖြစ်သဖြင့် ယနေ့ ဇာတ်သဘင်များ ကပြရာ လွမ်းခန်း ဆွေးခန်းများ၌ ဇာတ်လမ်း ဇာတ်ကွက်နှင့် ဆီလျော်ရာသီချင်းပိုဒ်များကို ကောက်နုတ် သီဆို တီးမှုတ်လေ့ရှိကြသည်။

**ဦးမြဦး**

**မွန်းထရီးအောမြို့။** ။မွန်းထရီးအော မြို့သည် ကနေဒါနိုင်ငံတွင် အကြီးဆုံးသော မြို့ဖြစ်၍ ကွိဗက်ပြည်နယ်၌ တည်ရှိ၏။ မြို့၏ အနောက်ဖက်၌ ရှိသော မောင့်ရွိုင်ယယ်ခေါ် ကျောက်တောင်ကို အစွဲပြု၍ ထိုအမည်ဖြင့် မှည့်ခေါ်ခြင်း ဖြစ်လေသည်။ မွန်းထရီးအောမြို့သည် စိန်လောရင့် မြစ်နှင့်



ကနေဒါနိုင်ငံ၏ စီးပွားကုန်သွယ်ရေး အချက်အခြာမြို့ဖြစ်သော မွန်းထရီးအောမြို့၏ ရှုခင်း

အောတဝါမြစ်တို့ ပေါင်းဆုံသည့်နေရာတွင် ရှိသော မွန်းထရီးအောကျွန်းပေါ်၌ တည်ရှိလေသည်။ ကုန်းမနှင့် တန်တားပေါင်း ဆဲ့သုံးခုဖြင့် ဆက်သွယ်ထား၏။

မွန်းထရီးအောမြို့သည် ကနေဒါ နိုင်ငံတွင် ရေလမ်း၊ ကုန်းလမ်း၊ မီးရထားလမ်း၊ လေကြောင်းလမ်းတို့၏ လမ်းဆုံမြို့ဖြစ်လေသည်။ ကနေဒီယန် အမျိုးသား မီးရထား ကုမ္ပဏီနှင့် ကနေဒီယန် ပစိဖိတ် မီးရထားကုမ္ပဏီတို့၏ ဌာနချုပ်ရှိရာမြို့လည်း ဖြစ်သည်။ စိန်လောရင့် မြစ်ကမ်းဖက်၌ ရှိသော သင်္ဘောဆိပ်သည် သမုဒ္ဒရာနှင့် မိုင် ၁,၀၀၀ နီးပါးမျှ ဝေးကွာသော်လည်း မြစ်ရေ ခဲသည့် ဆောင်းရာသီတွင်းမှ အပ အခြား အချိန်တွင် ပင်လယ်ကူး သင်္ဘောကြီးများသည် မြို့အထိ ဆန်တက်နိုင်၏။ ထို့ကြောင့် မွန်းထရီးအောမြို့သည် ကနေဒါနိုင်ငံတွင် အကြီးဆုံး သင်္ဘောဆိပ်မြို့ ဖြစ်သည့်အပြင် မြောက်အမေရိကတိုက်ရှိ သင်္ဘောဆိပ်မြို့များအနက် နယူးယော့မှ လွဲလျှင် အကြီးဆုံးသင်္ဘောဆိပ်မြို့လည်း ဖြစ်သည်။ ဂရိတ်လိတ် ဒေသနှင့်လည်း တူးမြောင်းများဖြင့် ဆက်သွယ်လျက်ရှိ၏။

မွန်းထရီးအောမြို့သည် စီးပွားရေးဖက်၌လည်း ကနေဒါနိုင်ငံတွင် အချက်အခြာမြို့ကြီး ဖြစ်သည်။ မြို့အနီးတွင် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရန်အတွက် ရေအား လုံလောက်စွာ ရရှိသဖြင့် စက်မှုလုပ်ငန်း အကြီးအကျယ် ထွန်းကားရာ မြို့လည်း ဖြစ်သည်။ ထိုမြို့တွင် လုပ်သားပေါင်း ၂၂၀,၀၀၀ ခန့်မျှ လုပ်ကိုင်လျက်ရှိသော စက်ရုံပေါင်း ၄,၅၀၀ ကျော် ရှိလေသည်။ စက်ရုံများမှ ထွက်သော ပစ္စည်းတန်ဖိုးမှာ ဒေါ်လာငွေ သန်းပေါင်း နှစ်ထောင်ကျော် ဖြစ်၏။ စက်မှု လုပ်ငန်းများတွင် အမဲဟင်းလျာ ထုတ်လုပ်ရောင်းချရေး လုပ်ငန်း၊ ဖိနပ်ချုပ် လုပ်ငန်း၊ မီးရထားတွဲ လုပ်ငန်း၊ စက္ကူလုပ်ငန်း၊ ဂျုံကြိတ်လုပ်ငန်း၊ ဗိလတ်မြေလုပ်ငန်း၊ သံမဏိနှင့် စက်ကရိယာလုပ်ငန်း၊ သင်္ဘော တည်ဆောက် ပြင်ဆင်ရေးလုပ်ငန်း၊ လျှပ်စစ်ပစ္စည်းလုပ်ငန်း စသည်တို့ ပါဝင်လေသည်။

မွန်းထရီးအောမြို့ရှိ စီးပွားရေး လုပ်ငန်းများမှာ များသောအားဖြင့် ဗြိတိသျှ လူမျိုးတို့၏ လက်ထဲ၌ ရှိသည်။ သို့ရာတွင် မြို့လူဦးရေ လေးပုံသုံးပုံခန့်မှာ ပြင်သစ်လူမျိုး အဆက်အနွယ်များ ဖြစ်ကြသည်။ အင်္ဂလိပ်နှင့် ပြင်သစ်နှစ်ဘာသာစလုံးကို ပြောဆိုကြသည်။ လူဦးရေ တသန်းကျော်ရှိ၍ များသောအားဖြင့် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်သည်။

မွန်းထရီးအောမြို့တွင် တင့်တယ် ခန့်ညားသော အယူဝါဒရေးဆိုင်ရာ အဆောက်အအုံ များစွာရှိလေသည်။ နိုထရာဒမ်ဘုရားရှိခိုးကျောင်းမှာ ပါရစ်မြို့ရှိ နိုထရာဒမ် ဘုရားရှိခိုးကျောင်းပုံစံအတိုင်း ဆောက်လုပ်ထား၏။ စိန့်ဂျိမ်း ဘုရားရှိခိုး ကျောင်းမှာကား ရောမမြို့ရှိ စိန်ပီတာ ဘုရားရှိခိုးကျောင်းနှင့် ပုံတူ ဖြစ်ပေသည်။

မွန်းထရီးအော တက္ကသိုလ်ကျောင်းသည် ပြင်သစ် ဘာသာသုံး ကနေဒါနိုင်ငံပိုင်းတွင် အကြီးဆုံးတက္ကသိုလ် ဖြစ်သည်။ ထိုပြင် မဂ္ဂီးတက္ကသိုလ်တွင် အပါအဝင် ဖြစ်သော ဆေးကျောင်းမှာ ကမ္ဘာကျော် ဖြစ်ပေသည်။

မွန်းထရီးအောမြို့ တည်ရာအရပ်သို့ ပဌမဦးဆုံး ရောက်ရှိလာသော ဥရောပတိုက်သားမှာ ပြင်သစ်လူမျိုး ဇက် ကာတီယေး ဆိုသူဖြစ်၏။ (ကာတီယေး,ဂျေ — ရှု။) ၁၅၃၅ ခုနှစ်တွင် ကာတီယေးသည် စိန်လောရင့်မြစ်ကို ဆန်တက်ခဲ့ရာ ယခု မွန်းထရီးအောမြို့ တည်ရှိသည့် နေရာ၌ တိုင်းရင်းသား လူရိုင်းတို့၏ ဟော့ချီလာဂါရွာကလေးကို တွေ့ရှိလေသည်။ ထိုနောက် ၁၆၄၂ ခုနှစ်တွင် ရှားဒါမေဆွန်နုဗ္ဗားဆိုသူခေါင်းဆောင်သော ပြင်သစ်လူမျိုးတစုက ထိုရွာကို သားမွေးလဲလှယ်ရာ စခန်းအဖြစ် စတင် တည်ထောင်ခဲ့ကြလေသည်။ ခုနစ်နှစ်စစ်ပွဲအပြီး ၁၇၆၃ ခုနှစ်တွင် ပါရစ်မြို့စစ်ပြေငြိမ်းရေး စာချုပ် အရ မွန်းထရီးအောမြို့သည် ဗြိတိသျှတို့ လက်သို့ ရောက်ရှိခဲ့လေသည်။ (ခုနစ်နှစ် စစ်ပွဲ — လည်းရှု။)



ဝတ္ထုနှင့် ပြဇာတ်ရေးဆရာ ဝီလျံ ဆမ္မားဆက် မွမ်း

**မွမ်း,ဆမ္မားဆက်** (ခရစ် ၁၇၇၄–၁၉၆၅)။ ။ဝီလျံဆမ္မားဆက် မွမ်းသည် အင်္ဂလိပ် လူမျိုး၊ ဝတ္ထုနှင့် ပြဇာတ်ရေး ဆရာဖြစ်သည်။ ကန်တာဗာရီမြို့ ဘုရင့်ကျောင်းတွင် ပညာသင်ကြားပြီးနောက် ဂျာမနီနိုင်ငံ ဟိုင်ဒယ်လဗတ် တက္ကသိုလ်၌ တနှစ်မျှ ပညာ ဆက်လက် ဆည်းပူးခဲ့သည်။ ထိုနောက် လန်ဒန်မြို့ စိန်တောမတ် ဆေးရုံမှ ဆေးပညာဘွဲ့ကို ရရှိ၏။ သို့ရာတွင် ဆရာဝန် အလုပ်ကို မလုပ်ကိုင်ခဲ့ချေ။ ပဌမကမ္ဘာစစ်အတွင်းက ကြက်ခြေနီအသင်း၌၎င်း၊ဗြိတိသျှ ထောက်လှမ်းရေးဌာန၌၎င်း ဝင်ရောက် အမှုထမ်းခဲ့သည်။ မြန်မာနိုင်ငံ အပါအဝင် ကမ္ဘာ့အရပ်ရပ်သို့လည်း လည်ပတ်ခဲ့ဘူးသူ ဖြစ်၏။

ဆမ္မားဆက်မွမ်းသည် ၁၇၇၄ ခုနှစ် ဇန္နဝါရီလ ၂၅ ရက်နေ့တွင် ပြင်သစ်နိုင်ငံ ပါရစ်မြို့၌ ဖွားမြင်၏။ ထိုအခါက မွမ်း၏ ဖခင်မှာ ဗြိတိသျှ သံရုံး အမှုထမ်းတဦး ဖြစ်သည်။ ၁၉၁၅ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေသော "အော့ ဟျူးမင်း ဗွန်းဒိတ်" ခေါ် ဝတ္ထုအားဖြင့် ဆမ္မားဆက်မွမ်းသည် စာရေးဆရာအဖြစ် နာမည် ထင်ရှားလာသည်။ ထိုဝတ္ထုမှာ မိမိ၏ အတ္ထုပ္ပတ္တိပင် ဖြစ်၍ ၂၀ ရာစုနှစ် ဂန္ထဝင် ဝတ္ထုတပုဒ် ဟူ၍ အများက ယူဆကြ၏။ မွမ်း၏ "သ ရေဇာ အက်ဂျ" ဝတ္ထု (၁၉၁၉)၊ "ရိန်း" ဝတ္ထု (၁၉၂၂) နှင့် "သမွန်း အင် စစ်ပင့်" ဝတ္ထု (၁၉၄၅) တို့ကို ရုပ်ရှင် ရိုက်ကူးခဲ့ကြသည်။

မွမ်းသည် ဝတ္ထုတို များစွာကိုလည်း ရေးခဲ့သည် ။ ဝတ္ထုရှည်များ၌၎င်း၊ ဝတ္ထုတိုများ၌၎င်း မွမ်းသည် လူ့သဘာဝကို အဓိကထား၍ရေးသည်။ ၁၉၆၅ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် ကွယ်လွန်သည်။

**မှာတမ်း**။ ။မှာတမ်း ဆိုသည်မှာ တဖက်သား၏ စိတ်နှလုံးကို ညွတ်နူး တိမ်းမပ်စေလျက် မြတ်နိုး ကြင်နာလာအောင် အောက်ကျို့ ချော့မော့၍ ရေးသားသောစာ ဖြစ်သည်။ တနည်းဆိုသော် တဦးအပေါ် တဦးက ရည်ငံစေရန် ပေးသော စာဖြစ်သည်။ မှာတမ်းကို စကားပြေ ရိုးရိုးဖြင့် ရေးသည်ထက် ဒွေးချိုး၊ လေးချိုး၊ သဖြန် စသည်တို့ဖြင့် ချုပ်ကာချုပ်ကာ ကာရန်ယှူလျက် ရေးသားကြသည်။ တဦးနှင့်တဦး ချစ်ခင်တမ်းတလျက် နွမ်းလျနေသည့်သဘောမျိုး ပါဝင်သော စာမျိုးဖြစ်၍ မှာတမ်းဟု ခေါ်ကြောင်းကို ကဗျာဗန္ဓသာရကျမ်းတွင် ဖော်ပြထားသည်။ တဦးနှင့် တဦး ရည်ငံသည့်အလျောက် ပေးသောစာမျိုးကိုသာ မှာတမ်းဟု ခေါ်သည်မဟုတ်သေး၊ မြန်မာမင်းများလက်ထက်တော်အခါက ဗြိတိုက်မှ လွှတ်တော်သို့၎င်း၊ လွှတ်တော်မှ ဗြိတိုက်သို့၎င်း ပေးပို့ကြသော အမှာစာများကိုလည်း မှာတမ်း ဟူ၍ပင် ခေါ်ဝေါ်ကြကြောင်း သိရသည်။

မှာတမ်း အရေးအသားသည် ကုန်းဘောင် ခေတ်တွင် ပေါ်ထွန်း၍ ခေတ် ထခဲ့သည်။ ကုန်းဘောင်ခေတ် စာဆိုတော်တဦး ဖြစ်သူ ဦးစံသူ(ဦးစံတူလည်း ဟူ၏။)သည် ရွှေနန်းဘွဲ့မှာတမ်း စာစုကိုရေးသားခဲ့၏။ ဦးစံသူသည် ကုန်းဘောင်ခေတ်တွင် မှာတမ်းရေးသားခြင်းဖြင့် ထင်ရှားသော

စာဆို ဖြစ်သည်။ စလေ ဦးပုညသည်လည်း မှာတမ်းအများကို ရေးသားခဲ့သည်ဟု မြန်မာစာပေ ဂန္ထဝင်များတွင် ဖော်ပြပါရှိသော်လည်း အပြည့် အစုံ မတွေ့ရသေးချေ။ လူကြီးလူငယ်တို့ နှုတ်တက်ဆောင်လျက်ရှိသော "ပန်းစမွှယ်၊ နန်းလယ်မှာ မပေါ် ခိုက်ဟာမို့၊ အလိုက်တော် တန်သင့်ရုံပ၊ ခံပွင့်ကို ကုံး။ ။နန်းရဝေ၊ မန်းမြေ စမွှယ်လှိုင်တော့၊ ခံပန်းခိုင်ယာယီရွှေတယ်၊ တောလေ့ရှာသုံး။" ဆိုသည့် ဒွေးချိုးမှာ ဦးပုညရေးသော မြမန်းဂီရိန်၊ မဟီသိန်ဝယ် ချီသည့် မယ်ဘွဲ့ မှာတမ်းတွင် ပါဝင်သည်။ ထို့ပြင် အဆွေးနယ်ချဲ့သူတို့ ညည်းလေ့ရှိသည့် "ကြင်ရသူ ဝင့်ကယ်၊ ခွင့်မအား လင့်စားတွယ်တာလို့၊ ဘယ့်လောက်ကြာ ကမ္ဘာဆန်းကာမှ၊ သာခန်း တကြိမ်တွေ့မယ်လို့၊ အောက်မေ့မိတယ်။ ။ခက်စရာ အပွေ့မှုတွင်ဖြင့်၊ စက္ကဝါ ကုဋ္ဌေသုဟာမို့၊ ဆွေသမု မြစမွှယ်၊ ခတယ်လို့ ခွင့်မတုံး။ ။မှိုတ်လှိုသာ လောရ၊ လိပ်ကျော ကြောင်ကလော်သို့၊ ပြောင်ချော်ချော် သည်အချစ်ကိုဖြင့်၊ တခေတ်တွင် တခါတွေ့ရတယ်၊ ပြောရွှေ မဆုံး"ဟူသော လေးချိုးကိုလည်း ထိုမှာတမ်း၌ပင် တွေ့ရလေသည်။ ထိုမှာတမ်းကို ခွန်းတုံ့ပြန်သော "မင်္ဂလာဇေယျုံ၊ ရွှေဘုံဇာတိ" ချီသည့် မောင်ဘွဲ့ မှာတမ်းလည်း ရှိသေးသည်။ သို့ဖြင့် ဆရာ တဦးတည်းပင် မယ်ဘွဲ့၊ မောင်ဘွဲ့များကို မောင်နှင့် မယ်များအတွက် အပြန်ပြန်အလှန်လှန် ရေးပေးတတ်ကြောင်း သိသာနိုင်သည်။ ကဗျာဗန္ဓသာရကျမ်းတွင် မန္တလေး မောင်ဘိုးရင်ဆိုသူ ရေးသည့် မောင်ဘွဲ့ မှာတမ်းတစောင်ကိုလည်း တွေ့ရသေးသည်။

ထိုနောက် မှာတမ်းရေးခြင်းဖြင့် ထင်ရှားသူ တဦးမှာ မင်းတုန်းမင်း လက်ထက်၊ ရတနာပုံ သတင်းစာ အယ်ဒီတာ ဦးထင်ခေါ် ဘိုးဝဇီရဖြစ်သည်။ (ဝဇီရ၊ ဘိုး — ရှု။) ဘိုးဝဇီရမှာ ပဌမဆုံး မြန်မာသတင်းစာ ဆရာကြီးလည်း ဖြစ်၏။ သူသည် မှာတမ်းကို အမြောက်အမြား ရေးသားခဲ့လေသည်။ ဘိုးဝဇီရ၏ မှာတမ်းများမှာ အချစ်ရေးကို မဏ္ဍိုင်ပြု၍ ဆဲ့နှစ်ရာသီဘွဲ့များကိုရေးသားထားသော မှာတမ်းများဖြစ်သည်။ တနည်းဆိုသော် ဘိုးဝဇီရသည် ချစ်မေတ္တာကို မတည်၍ ဆဲ့နှစ်ရာသီဘွဲ့မှာတမ်းများကို ရေးသားပြုစုခဲ့သည်။ ထို့ကြောင့် သူ၏ မှာတမ်းများကို ဆဲ့နှစ်ရာသီဘွဲ့ မှာတမ်းများ ဟုခေါ်ဆိုသင့်၏။ ဘိုးဝဇီရသည် ဆဲ့နှစ်ရာသီဘွဲ့မှာတမ်းများအပြင် မိတ်သင်္ဂဟများ တောင်းပန်သောကြောင့်ရေးပေးရသော ရည်းစားပေးမှာတမ်းများကိုလည်း ပြုစုခဲ့သေးသည်။

**မှော်ပညာ။** ။ကမ္ဘာဦး လူများသည် တစုံတခုကို ပြုလုပ်ပေးခြင်းဖြင့် အဝေးနေသူ တဦး၏ ကျန်းမာရေးကို ဖြစ်စေ၊ အကျင့်စာရိတ္တကို ဖြစ်စေ ပြုပြင်ပေးနိုင်သည်ဟု ယုံကြည်ခဲ့ကြ၏။ ထို့မျှ မကသေး၊ ဂါထာမန္တရားအချို့ကို ရွတ်ဖတ်ပေးခြင်းဖြင့် မိုးရွာစေခြင်း၊ လေတိုက်စေခြင်း စသော သဘာဝတရားများကိုပင် ပြုပြင်ပေးနိုင်သည်ဟု ယုံကြည်ခဲ့ကြသည်။ တနည်းဆိုရလျှင် ထိုကမ္ဘာဦးလူများသည် မှော်အတတ်တွင် ယုံကြည်ခဲ့ကြလေသည်။

ကမ္ဘာဦး လူများအဖို့ မှော်ပညာသည် အယူဝါဒရေးရာဖြစ်ခဲ့လေသည်။ မှော်ပညာက လူကို အထက်ရှိ တန်ခိုးရှင်များနှင့် နီးစပ်စေနိုင်သည်ဟု ယုံကြည်ခဲ့ကြသည်။ မှော်ပညာဖြင့် မကောင်းမှုကို ကာကွယ်ပေးနိုင်သည်၊ ရောဂါ ဖြစ်ခြင်းမှ ကာကွယ် ပေးနိုင်သည် ဟု ယုံကြည်ကြရုံ မက၊ လူ့ဘဝ၏ ပြဿနာအရပ်ရပ်ကို မှော်ပညာက ဖြေရှင်း ပေးနိုင်သည် ဟုလည်း ယုံကြည်ခဲ့ကြသည်။ မှော်ပညာဖြင့် နေ၊ လနှင့် ကြယ်တာရာတို့ကို ရွေ့ရှားစေသော တန်ခိုးရှင်များကို မြင်နိုင်သည် ဟု ယုံကြည်ခဲ့ကြသည်။

ရှေးခေတ်မှော်ဆရာများ၏ တာဝန်မှာ သူတို့ကို ယုံကြည်ကိုးစားသူများအား မကောင်းသည့် အန္တရာယ်များ ကျရောက်မည့်ဘေးမှ ကာကွယ်ပေးရန်နှင့် ကောင်းကျိုးများဖြစ်ထွန်းစေခြင်းကို ဖန်တီးပေးရန် ဖြစ်သည်။ ထိုမှော်ဆရာများ၏ ညွှန်ကြားချက်များ အရ မကောင်းမှု မဖြစ်ပေါ်စေရန် သူတို့ ညွှန်ကြားသည့် အမှုများကို ပြုလုပ်ကြရ၏။ ကောင်းမှုများဖြစ်ရန် အတွက်လည်း သူတို့၏ ညွှန်ကြားချက်အတိုင်း ဆောင်ရွက်ကြရလေသည်။ သို့သော် ထိုညွှန်ကြားချက်များကို ပြုလုပ်လျက်နှင့် ကောင်းမှုများလည်း မဖြစ်ပေါ် လာ၊ ဘေးများကိုလည်း မတားဆီးနိုင်ကြသောအခါတွင် မှော်ပညာသည် တဖြည်းဖြည်း အယုံအကြည်နည်းပါးခြင်းကို ခံလာခဲ့ရလေသည်။ ထိုသို့ မှော်ပညာတွင် အယုံအကြည် နည်းပါးလာကြရာမှ အယူဝါဒရေးရာများပေါ် ပေါက်လာခဲ့လေသည်။ သို့သော် ထို အယူဝါဒရေးရာများတွင်လည်း မှော်ပညာ၏အရိပ်အရောင်များသည် ယှက်သန်းလျက်ပင် ရှိခဲ့လေသည်။

မှော်ပညာကို ရှေး ဗက်ဗီလုံလူမျိုး၊ အဆီးရီးယန်းလူမျိုးနှင့် အီဂျစ်လူမျိုးတို့က ယုံကြည်ခဲ့ကြရာမှ ဂရိနှင့်ရောမနိုင်ငံတို့သို့ ထိုပညာ ရောက်သွားခဲ့သည်။ ထိုမှတဖန် ဥရောပတိုက်အနောက်ပိုင်းသို့ရောက်သွားကာ ထိုဒေသများရှိ လူများ၏ ယုံကြည်ချက်များတွင် ထိုပညာ ရောဝင်သွားခဲ့လေသည်။

ရှေးအီဂျစ်လူမျိုးတို့သည် ကြယ်များကို ကြည့်ကာ နေ့ကောင်း ရက်သာများကို ရွေးလေ့ရှိခဲ့ကြသည်။ ထိုသို့ ရွေးချယ်ပြီးနောက် ထိုနေ့ကောင်းရက်သာ များတွင် ဆေးသောက်ခြင်း၊ လယ်ယာစိုက်ပျိုးခြင်းနှင့် လုပ်ငန်းရပ်ကြီးများကို စတင် ဆောင်ရွက်ကြလေသည်။

ရန်သူကသာ စည်းကမ်းတကျနှင့် မှော်အတတ်ကို အသုံးပြုမည်ဆိုက ကောက်ပဲသီးနှံများပျက်စီးခြင်း၊ လူမကျန်းမာဖြစ်ခြင်းနှင့် လူကို သေစေခြင်းတို့ကိုပင် ဖြစ်စေနိုင်သည် ဟု

ရှေးက ယုံကြည်ခဲ့ကြသည်။ ထိုအတိုင်းပင် ယခုတိုင် နေရာအနှံ့အပြား၌ ယုံကြည်သူများ ရှိနေကြသေးသည်။

လူတို့သည် မော်အတတ်နှင့် ဆက်စပ်လျက် ရှိသော အဆောင်ပစ္စည်း များကိုလည်း ယုံကြည် ကြသေးသည်။ ဂါထာမန္တရားများဖြင့် ဖန်တီးထားသည့် လက်ဖွဲ့၊ သို့မဟုတ် အရုပ်တခုခုကို ဆောင်ထားခြင်းဖြင့် ဘေးဥပဒ် မကျရောက်နိုင်ဟု ယုံကြည်ကြသည်။ (အင်းအိုင် ခါးလှည့် လက်ဖွဲ့ — လည်းရှု။)

ယခု အခါတွင် လူတို့၏ အသိဉာဏ်သည် တိုးတက် လာပြီ ဖြစ်သည့် အလျောက် မော်ပညာနှင့် စပ်လျဉ်းသော ယုံကြည်ချက်များကို အယူသည်းမှုများသာ ဖြစ်သည်ဟု နှိမ့်ချ ပြောဆို နေကြသော်လည်း အစဉ်အဆက် စွဲလမ်းလာခဲ့ကြသော အယူသည်းမှု အနည်းအကျဉ်းကား ကမ္ဘာအရပ်ရပ်တွင် ယခုတိုင်ပင် ရှိနေပေသေးသည်။

**မော်ဘီမြို့။** ။မော်ဘီ မြို့သည် ယခင်က အင်းစိန်ခရိုင် အတွင်း၌ ပါဝင်ကာ ရန်ကုန်မှ မီးရထားလမ်းအားဖြင့် ၂၅ မိုင်ကွာဝေး၍၊ ရန်ကုန်-ပြည် မော်တော်ကားလမ်းအားဖြင့် ၃၁ မိုင်ဝေးသော မြို့ကလေး ဖြစ်သည်။ စိုက်ပျိုးရေးဌာနမှ စံပြဥယျာဉ်ရှိ၍ ကောက်ပဲ သီးနှံ အမျိုးမျိုးကို စမ်းသပ် စိုက်ပျိုးသည့်နည်းမျိုး စုံသဖြင့် စိတ်ပါဝင်စားသူများ သွားရောက် ကြည့်ကြသည်။ နိုင်ငံသမိုင်းတွင် များစွာ မထင်ရှား လှသော်လည်း မြန်မာပညာရှိတဦး ဖြစ်သော မော်ပီဆရာသိန်းကြီး၏ နေရပ်ဖြစ်ခဲ့သဖြင့် လူသိများသော မြို့ကလေးလည်း ဖြစ်သည်။

သို့သော် ၁၉၆၅ ခုနှစ် အောက်တိုဘာလ ၁ ရက် နေ့မှ အစပြု၍ အင်းစိန်ခရိုင်ကို မော်ဘီခရိုင်ဟု ပြောင်းလဲ ခေါ်ဝေါ် သတ်မှတ်လိုက်၍ မော်ဘီမြို့ကိုလည်း ခရိုင်ဝန် ရုံးစိုက်မြို့အဖြစ် သတ်မှတ်လိုက်လေသည်။ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ ၅၃၇၂ ယောက် ဖြစ်သည်။

**မှို။** ။လူသိအများဆုံး စားကောင်းသည့် မှိုကို ရုက္ခဗေဒအလိုအရ အက်ဂါရိကပ် ကမ်ပက်စထရစ် ဟုခေါ်သည်။မှိုကို ကောင်းမွန်စွာ ချက်ပြုတ်လျှင် လွန်စွာ အရသာ ရှိသည်။ အရသာပင် ရှိသော်လည်း အာဟာရ ဖြစ်စေရာတွင်မူ အရည်ရွှမ်းသည့် ဂေါ်ဘီထုပ် အရွက်များနှင့် မထူးခြားလှ ဟု အာဟာရ ပညာရှင်များက ဆိုသည်။

မှိုကို အလွန်ရှေးကျသည့် အခါကပင် လူတို့ ကြိုက်နှစ်သက်ခဲ့ကြသည်။ ဂရိနှင့် ရောမလူမျိုးတို့သည် မှိုကို ကြိုက်နှစ်သက်စွာ စားသုံးခဲ့ကြသည်။ မှိုကို စားသည့် လူဦးရေသည် ဥရောပတိုက်တွင် အမေရိကတိုက်ထက်ပင် ပို၍ များသည် ဟု ဆိုသည်။

ရုက္ခဗေဒပညာရှင်များက စားကောင်းသည့်မှိုနှင့်အဆိပ်ဖြစ်စေသဖြင့် မစားကောင်းသည့် မှို ဟူ၍ မှိုကို အုပ်စုနှစ်ခု မခွဲခြားကြချေ။ စားကောင်းသည့် မှိုသည် အုပ်စု တခုတည်းဝင် အဆိပ်သင့်စေသောမှို၏ အနွယ် ဖြစ်ကောင်း ဖြစ်ပေမည်။ စားကောင်းသည့်မှိုနှင့် မစားကောင်းသည့်မှိုများကို ကျွမ်းကျင်သူများသာလျှင် ခွဲခြားနိုင်ပေသည်။

မှိုမျိုးရင်း၌ သိပြီးမှို မျိုးစိတ်ပေါင်း ၃၇,၀၀၀ ခန့် ရှိသည်။ မှိုတမျိုးစီသည် တမျိုးနှင့် တမျိုးတွင် ပုံသဏ္ဌာန်၌၎င်း၊ အရောင်၌၎င်း ကွဲပြားသည်။ သာမန် ထီးပုံသဏ္ဌာန်၊ သို့မဟုတ် သန္တာပုံသဏ္ဌာန်ကဲ့သို့၎င်း၊ သို့မဟုတ် ပန်းပင်၏ အကိုင်း ပုံသဏ္ဌာန်ကဲ့သို့၎င်း ဖြာထွက်နေတတ်သည်။ အရောင်တွင်လည်း အဖြူမှ နီရဲရဲအထိနှင့် မဲ့ပြာရောင် ခပ်ခြောက်ခြောက်မှ ကတ္တီပါကဲ့သို့ တောက်ပြောင်၍ အညိုရောင်အထိ ရှိတတ်သည်။

မှို၏ အဓိက အစိတ်အပိုင်းသည် မြေအောက်၌ တည်ရှိ၏။ ထိုအပိုင်းသည် ပင့်ကူအိမ်နှင့်တူ၍ အမျှင်များ ရှိတတ်သည်။ တခါတရံတွင် သက္ကလတ်ကြမ်း အစတခုကဲ့သို့ စုနေတတ်သည်။ မှိုပင်၏ ထိုအစိတ်အပိုင်းကို မိုင်စီလီယမ် ဟုခေါ်သည်။ လူသိများသော ထီးပုံသဏ္ဌာန်ရှိသည့် မှိုပွင့်သည် စင်စစ်အားဖြင့် မိုင်စီလီယမ်မှ ပေါက်ထွက်လာသော ပင်ရိုးသာ ဖြစ်သည်။ ထိုပင်ရိုးကို အခြား အပင်မျိုးမှ အသီးနှင့် နှိုင်းရှည့်နိုင်သည်။ ထိုသို့ နှိုင်းရှည့်နိုင်ခြင်းမှာ ယင်းမှ ဆဲများကို ပျံ့ထွက်စေပြီးလျှင် မှိုပင် အသစ်များကို ပေါက်စေခြင်းကြောင့် ဖြစ်သည်။ မှို၏ ထီးပုံသဏ္ဌာန် အစိတ်အပိုင်းကို စပိုရိုဖိုး ဟု ခေါ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းသည် စပိုး ခေါ် မျိုးမှုန်များကို သယ်ဆောင်ထားခြင်းကြောင့် ဖြစ်သည်။ ထို့ကြောင့် စပိုရိုဖိုးကို မျိုးမှုန်အိမ် ဟု ခေါ်နိုင်သည်။ ပင်ရိုး၏ထိပ် မျိုးမှုန်အိမ် အတွင်း၌ ပေါက်စပြုနေသော အစိတ်အပိုင်းကို အင့် ဟုခေါ်၍ အင့်မှ ထီးကဲ့သို့ ကားထွက်လာသည်။ မှိုပင် ကြီးရင့်လာသောအခါ ထိုထီးပုံသဏ္ဌာန်ရှိသော အစိတ်အပိုင်း၏ အောက်ဖက်တွင် အလွှာတန်းကလေးများ ရှိနေသည်ကို တွေ့နိုင်သည်။ ထိုအလွှာတန်းကလေးများတွင် မျိုးမှုန်ကလေးများ ရှိသည်။ အဆိုပါ မျိုးမှုန်ကလေးများသည် ဆဲကလေးများ ဖြစ်သဖြင့် မှိုပင် အသစ်ကလေးများ စိုက်ပျိုးရန် အထူး သင့်လျော်လေသည်။ မျိုးမှုန်တခုကို ရိုးရိုး မျက်စိဖြင့် မမြင်နိုင်။ မိုက္ကရိုစကုပ် (အဏုကြည့် မှန်ပြောင်း) ဖြင့် ကြည့်မှ မြင်နိုင်သည်။

မှိုသည် ဖန်းဂပ် ခေါ် မှိုမျိုးဝင်ဖြစ်၍ ကလိုရိုဖီ ခေါ် စိမ်းရောင်ဒြပ် မပါရှိချေ။ စိမ်းရောင်ဒြပ်ရှိသော အပင်စိမ်းများသည် မိမိတို့အစာအဖြစ် လိုအပ်သော ကာဗိုဟိုက်ဒြိတ်ကို ပြုလုပ်ရန်အတွက် နေရောင်ကို အသုံးပြုနိုင်သည်။ ယင်းတို့



အလွန်ရှေးကျသည့် အခါကပင် လူတို့ကြိုက်နှစ်သက်ကြသော အရသာဆိမ့်သည့်မှို

သည် ရေနှင့် လေတွင် ပါရှိသော ကာဗွန်ဒိုင်အောက်ဆိုက်မှ ကာဗိုဟိုက်ဒြိတ်ကို လုပ်ယူသည်။ မှိုတွင် စိမ်းရောင်ဒြဗ် မပါရှိသောကြောင့် အခြား အပင်စိမ်းများက လုပ်ထားသည့် အစာကိုပင်အသုံးပြုရလေသည်။ဤသို့ဖြင့် သစ်ငုတ်တိုကြီးများတွင်ရင်း၊ သစ်တုံးကြီးများတွင်ရင်း၊ ဆွေးမြည့်နေသော သစ်ကိုင်းများ၊ သို့မဟုတ် သစ်ရွက်များတွင်ရင်း မှိုများပေါက်နေသည်ကို တွေ့နိုင်သည်။ အသက်ရှင်နေသော အပင်များတွင် ပေါက်သောမှိုများကို ပရဆိုက်(ဝါ)ကပ်ပါးပင်များ ဟု ခေါ်သည်။

မှို၏ အဓိက အစိတ်အပိုင်းဖြစ်သော မိုင်စီလီယမ်သည် အာဟာရရှိသော ပစ္စည်း၏ အတွင်းဖက်၌သာ တည်ရှိသည်။ သစ်တုံးတတုံးပေါ်တွင်ဖြစ်စေ၊ သစ်ပင်တပင်ပေါ်တွင်ဖြစ်စေ မှိုပေါက်လျှင် ထိုမှိုက သစ်တုံး၊ သို့မဟုတ် သစ်ပင်ကို ဆွေးမြည့်သွားစေသည်။ ဤသို့ ဆွေးမြည့်ခြင်းသည် မှိုအတွက် အစာကို ပို၍ပေးနိုင်သည်။

မှိုသည် ရေငွေ့အမြောက်အမြားကို လို၏။ နွေကူး ရာသီ၊ နွေရာသီ၊သို့မဟုတ် ဆောင်းကူးရာသီတို့၌ မိုးတကြိမ်နှစ်ကြိမ်လောက် ရွာအပြီးတွင် မှိုများ ရုတ်တရက် ပေါက်လာသည်ကို တွေ့ရသည်။

မှိုကို လူကြိုက်များသဖြင့် အချို့က စီးပွားရေးအဖြစ် စိုက်ပျိုးယူကြသည်။ အထူးသဖြင့် ဥရောပတိုက်တွင် စိုက်ယူကြသည်။ မှိုကို စိုက်ပျိုးရာတွင် အထူး ပြုပြင်ထားသည့် ဆွေးမြည့်နေသော နွားချေး၊ သို့မဟုတ် မြင်းချေးများကို အသုံးပြုကြသည်။ အပူချိန် သင့်တော်သောအခါ မှိုဥများကို ထိုသို့အထူးပြုပြင်ထားသည့် မြေဩဇာ၏ အောက်ဖက်တွင် တပေခန့်စီ ခွာ၍ စိုက်ပျိုးလေ့ ရှိကြသည်။

မြန်မာနိုင်ငံ၌ ပေါက်ရောက်သော မှိုများတွင် တောင်ပို့မှို ခေါ် မှိုခြေတံရှည်သည် အထင်ရှားဆုံး ဖြစ်သည်။ ထိုမှိုသည် အမည်နှင့်လိုက်အောင် တော်သလင်းလ၌ တောင်ပို့များတွင် ပေါက်ရောက်တတ်သည်။ ဤကဲ့သို့ တောင်ပို့များပေါ်၌ ပေါက်ရောက်တတ်သော အခြား ထင်ရှားသည့် မှိုများမှာ မှိုဦးနက်နှင့် မှိုခြေတံကြီး ဖြစ်သည်။ မှိုဦးနက်တွင် မှိုပွင့်၏ထိပ်၌ အနက်ကွက်ပါရှိ၍ တမိုးတွင်းလုံး ပေါက်တတ်သည်။ မှိုခြေတံကြီးမှာ ခြေတံ၌ပါရှိသော အဖုကြီးကို အစွဲပြု၍ ခေါ်ခြင်း ဖြစ်သည်။ မှိုဦးနက်ကဲ့သို့ပင် တမိုးတွင်းလုံး ပေါက်ရောက်တတ်သော်လည်း တနေရာတည်း၌ တကြိမ်လျှင် သုံးလေးပွင့်ထက် ပို၍ တွေ့ရခဲသည်။ တောင်ပို့မှိုကဲ့သို့ အလားတူ ထင်ရှားသော အခြား မှိုတမျိုးမှာ ဖက်သွတ်မှို ဖြစ်သည်။ ဖက်သွတ်မှိုကို မြန်မာနိုင်ငံ အထက်ပိုင်း၌ ငှက်ကျေစား၊ သို့မဟုတ် မှို ဖြူ ဟု ခေါ်သည်။ ဤမှိုမျိုးသည် နယုန်လလောက်တွင် လှိုင်လှိုင်ကြီး ပေါက်ရောက်တတ်၍ တခါတရံ ဤမှိုများ ပေါက်ရောက်တတ်သော နေရာ

အကျယ်အဝန်းမှာ မြင်းတပြေးပင်ရှိသည် ဟု အဆိုရှိသည်။ ရှင်ပြုသော မျက်နှာရှိသူကို မှိုရသော မျက်နှာ ဟု တင်စား သုံးစွဲကြရာ၌ ဖက်သွတ်မှိုကဲ့သို့ မှိုခင်းကြီးကို တွေ့ရသူဟု ဆိုလိုဟန် တူသည်။ အခြား ထင်ရှားသော မှိုများမှာ မိုး တွင်း၌ ပေါက်ရောက်တတ်သည့် ဝါးမှို၊ နယုန်လလောက် ၌ ပေါက်ရောက်တတ်သော မှိုကြက်တောင်၊ မိုးဦးကျ တွင် ပေါက်ရောက်တတ်သော ကောက်ရိုးမှိုနှင့် မြက်ကြား မှို ခေါ် ဆန်ကွဲမှိုများ ဖြစ်သည်။ အထက်ပါ မှိုများမှာ စားကောင်းသောမှိုများ ဖြစ်သော်လည်း အလေ့ကျသာ ပေါက်ရောက် တတ်သဖြင့် မှိုရှာသူများသည် အဆိပ် ရှိသော မှိုများနှင့် မမှားရအောင် အလွန် သတိကြီးစွာ ထားရသည်။ မှိုဥအမျိုးမျိုးမှာလည်း မှိုထဲ၌ အကျုံးဝင် သည်။ မြန်မာနိုင်ငံတွင် ရှိသော မှိုဥတမျိုးမှာ ကဆုန်၊ နယုန်လများ၌ တောင်ကုန်းများတွင် ပေါက်ရောက်တတ် သည်။ မှိုဥ ဟူသမျှမှာ အဆိပ်အတောက် ကင်း၍ ယင်းတို့ ကို လူတို့ စားသုံးကြသည်။ သို့သော် အရသာမှာ အမျိုး မျိုး ကွဲပြားကြ၍ အချို့သော မှိုဥများ၌ ခါးသက်သော အရသာပင်ရှိသည်။ မှိုဥများ ကြီးရင့်လာသောအခါ အထဲ ၌ အမျှင်များနှင့် မျိုးမှုန်များ ဖြစ်လာသဖြင့် ငယ်၍ နုနေ သောအခါ စားသုံးရန် အကောင်းဆုံးဖြစ်သည်။ သို့သော် အဆိပ်ကို ဖြစ်စေတတ်သည့် မှိုအချို့သည် အပင်ပေါက်စ၌ အလုံးပုံရှိ၍ ဤမှိုများနှင့် မမှားယွင်းရအောင် အထူး ဂရု ပြုရသည်။ မှိုဥများ ပေါက်ကွဲသွားသောအခါ အထဲ၌ ရှိသော မျိုးမှုန်တို့သည် မီးခိုးကဲ့သို့ ထွက်လာလေသည်။

အဆိပ်ရှိသောမှိုများသည် အားလုံးပင် အမန်နီတာမျိုး စု၌ အကျုံးဝင်၍ ဤမျိုးစု၏ လက္ခဏာများကို သေချာစွာ သိရှိရန် အရေးကြီးသည်။အမန်နီတာမျိုး၌မှိုများသောအား ဖြင့် ဖြူသော မျိုးမှုန်နှင့် အလွှာတန်းများ ပါရှိကြသည့်ပြင် ငယ်သော မှိုပွင့်များ၌ အမြှေးဖုံးအုပ်ပါရှိတတ်သည်။ မှိုပွင့် ကြီးလာသောအခါမှိုတံထိုးတက်လာသဖြင့် ဤအမြှေးသည် ပေါက်ထွက်သွား၍ မှိုတံရင်း၌ ခွက်သဖွယ်ဖြစ်၍ ကျန်ရစ် လေသည်။ ထိုခွက်ကို အချို့မှိုမျိုး၌ သေချာစွာ တွေ့မြင်ရ သော်လည်း အချို့ မှိုမျိုး၌မူကား ထင်ထင်ရှားရှား မတွေ့ ရချေ။ အချို့သော မှိုမျိုး၌ မှိုတံ ထိုးတက်လာသောအခါ အမြှေး၏ အထက်ဖက်ခြမ်းသည် ပြတ်၍ မှိုထိပ်တွင် စွပ် လျက် ပါသွားသည်။ အမြှေး၏ ကျန်တပိုင်းသည် မှိုတံ ရင်း၌ ခွက်သဖွယ် ထင်ထင်ရှားရှား ကျန်ရစ်လေသည်။ မှိုထိပ်တွင် ပါသွားသော အမြှေးသည် မှိုပွင့်လာသောအခါ မှိုပွင့်နှင့်အတူ ကြီးလာ၍ ချပ်လွှာသဖွယ် အကြေးများ ဖြစ်လာသည်။ အက်ဂါရီကပ်မှိုတို့၌လည်း မကြီးရင့်မီ ဖြူ သော အလွှာတန်းများ ရှိတတ်ရာ၊ အထက်ဖော်ပြပါ အမန် နီတာမျိုးစုတွင် ပါဝင်သော မှိုများနှင့် ခွဲမရဘဲ ရှိတတ် သည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် မှိုထိပ်၌ ချပ်လွှာကဲ့သို့ အကြေး ရှိ မရှိကိုင်၎င်း၊ မှိုတံရင်း၌ ခွက်ကဲ့သို့ အမြှေးငယ် ရှိ မရှိကိုင်၎င်း စုံစမ်း၍ တမျိုးနှင့်တမျိုးကို ခွဲခြား သိရှိရာ သည်။ ကျွန်ုပ်တို့သည် မှိုများကို မစားသောက်မီ အဆိပ် အတောက် ကင်းကြောင်းကို အသေအချာ သိရှိရန် ရွေး ချယ်ရုံနှင့် မပြီးသေးဘဲ လတ်ဆတ်သော မှိုများကိုသာ ရွေး ချယ်၍ ချက်ပြုတ် စားသောက်ရန်လည်း အရေးကြီးသည်။

မှိုများကို စား၍ အဆိပ်တောက်ပြီးလျှင် သေဆုံးမှုများ ကို ကျွန်ုပ်တို့ မကြာခဏ ကြားရသည်။ တခါတရံ အိမ် လုံးကျွတ်လိုပင် မှိုတောက်၍ မူးဝေခြင်း၊ အော့အန်ခြင်း စသော ဝေဒနာကို အပြင်းအထန် ခံစားရတတ်သည်။ ဤ သို့ ဖြစ်ရခြင်း အကြောင်းကို သေချာစွာ စေ့ငုကြည့်သော အခါ များသောအားဖြင့် လူတို့သည် အမန်နီတာခေါ် အ ဆိပ် ရှိသော မှိုကို စားသောက်မိခြင်းကြောင့် ဖြစ်ကြောင်း ကို တွေ့ရသည်။ အချို့သော သူတို့မှာ စားကောင်းသော မှိုများကို စားလျက်နှင့်ပင် မှိုတောက်၍ သေဆုံးသွား တတ်ရာ၊ ဤသို့ ဖြစ်ရခြင်းမှာ ပုပ်သိုးနေသော မှိုများကို စားသောက်၍ ဖြစ်ရသည်ဟု ထင်မှတ်ဖွယ်ရာရှိသည်။ အ ကယ်၍ မှိုကြောင့် အဆိပ်အတောက် ဖြစ်ခဲ့သော် လူနာကို အနီးဆုံး ဆရာဝန်ထံသို့ မြန်နိုင်သမျှ မြန်အောင် ပို့ဆောင် ပေးရပေမည်။ အဆိပ် တောက်ခါစလူတွင် ဖြစ်ပျက်တတ် သော လက္ခဏာများမှာ အော့အန်ခြင်း၊ ဓာတ်လျှောခြင်း၊ တံထွေး များစွာထွက်ခြင်း၊ ဆီးချုပ်ခြင်း၊ မျက်လုံးဝေလာ ခြင်းများ ဖြစ်ပြီးလျှင်၊ ထိုင်းမှိုင်းခြင်း၊ ချွေးထွက်ခြင်းနှင့် နှလုံးသွေးအားနည်းခြင်း စသည်များ ဖြစ်လာတတ်သည်။ ကု မရသော ဝေဒနာတွင် နှစ်ရက်သုံးရက်မျှ ထိုင်းမှိုင်းနေ ပြီးလျှင် လူနာသည် သွေးအားနည်း၍ သေဆုံးသွားလေ သည်။ မှိုကြောင့်အဆိပ်တောက်နေသော လူတယောက်ကို ကုစားရာ၌ စားသောက်ထားသောမှိုကို အစာကြောင်းမှ ထုတ်ပစ်ပြီးလျှင် အက်တြိုပင်ကဲ့သို့သော ဆေးကို ထိုးပေး ရလေသည်။

**မှိုမျိုး။** ။တန်းမြင့် အပင်မျိုးများတွင် ပါလေ့ရှိသော ကလိုရိုဖီ ခေါ် စိမ်းရောင်ဒြဗ် မပါရှိသည့် အပင်မျိုးအားလုံး သည် မှိုမျိုးတွင် ပါဝင်ကြ၏။ ယင်းတို့၌ ပင်စည်၊ အရွက်နှင့် အပွင့်များ မရှိကြချေ။ ထိုအပင်မျိုးသည် နေရာတိုင်းတွင် ပေါက်ရောက်နိုင်၏။ မှိုမျိုးတွင် အမျိုးပေါင်း ၂၅,၀၀၀ မျှ ပါဝင်ရာ၊ ယင်းတို့သည် အရွယ်နှင့် ပုံသဏ္ဍာန်တွင် အမျိုး မျိုး ရှိကြလေသည်။ ထိုမှိုမျိုးများအနက် သုံးပုံတပုံခန့်ကို သာ အမည်ပေးနိုင်သေးသည်။ တဆေးနှင့်ဗက်တီးရီးယား ခေါ် မှိုမျိုးသည် သေးငယ်လွန်းသဖြင့် သာမန် မျက်စိနှင့် မမြင်နိုင်၍ မှန်ဘီလူးဖြင့် ကြည့်ယူရပေသည်။ အချို့မှိုမျိုး

ကမူ အချင်း နှစ်ပေမကပင် ရှိတတ်ကြသည်။ မှိုမျိုးသည် အရွယ်တွင် အမျိုးမျိုး ရှိသကဲ့သို့ ပုံသဏ္ဌာန်လည်း အမျိုးမျိုးရှိသည်။

မှိုမျိုးတွင် စိမ်းရောင်ဒြပ် မပါရှိသဖြင့် ကိုယ်တိုင်အစာကို လုပ်မယူနိုင်ချေ။ ထို့ကြောင့် အစာအတွက် အခြားသက်ရှိ သက်မဲ့ အပင်နှင့် တိရစ္ဆာန်များကို အမှီပြု၍ ဖြစ်ထွန်းလာကြရသည်။ သက်ရှိ အပင်နှင့် တိရစ္ဆာန်များကို အမှီပြု၍ ဖြစ်ထွန်းလာကြသော မှိုမျိုးကို ပရဆိုက်မှိုမျိုး ဟု ခေါ်၍ သက်မဲ့၊ သို့မဟုတ် ဆွေးမြည့်နေသော အပင်နှင့် တိရစ္ဆာန်များကို အမှီပြု၍ ဖြစ်ထွန်းလာကြသော မှိုမျိုးကို ဆပရိုဖိုက်မှိုမျိုး ဟု ခေါ်သည်။ ပရဆိုက်မှိုမျိုးသည် များသောအားဖြင့် ဘေးဖြစ်စေတတ်ကြပြီးလျှင် အသုံးဝင်သည့် အပင် အမြောက်အမြားကို ပျက်စီးစေတတ်သည်။ ပရဆိုက်မှိုမျိုးများအနက် မှိုသိမ်နှင့် ဗက်တီးရီးယား ပါဝင်သော မှိုမျိုးသည် အရေးကြီး၏။ အချို့သော ပရဆိုက်မှိုမျိုးတို့သည် လူ၊ တိရစ္ဆာန်နှင့် အပင်များကို ရောဂါ ဖြစ်စေကြသည်။ ဆပရိုဖိုက် မှိုမျိုးများကမူ အပုပ်အစပ်များကို ရှင်းလင်းသုတ်သင်ပေးကြသဖြင့် လူ့အကျိုးကို သည်ပိုး ပေးကြသည် ဟု ဆိုရပေမည်။ သို့သော် ဘေးဖြစ်စေတတ်သော ဆပရိုဖိုက် မှိုမျိုးလည်း ရှိသေးသည်။

အချို့သော မှိုမျိုးကို ဆေးဖက်ဝင်ပစ္စည်းအဖြစ်ဖြင့် သုံးနိုင်၍၊ အချို့ကို ဆိုးဆေးအဖြစ်ဖြင့် အသုံးပြုနိုင်လေသည်။

**မှိုသိမ်။** ။မှိုသိမ်ကို ရုက္ခဗေဒ အလိုအရ အက်စကိုမိုင်စီးတီး ဟု ခေါ်သည်။ အပင်၏ အရွက်များ၊ အသီးများ၊ စိုထိုင်းသည့် အဝတ်အစားနှင့် စိုထိုင်းသည့် စားစရာများပေါ်တွင် မကြာခဏ အကွက်ကလေးများ ရှိတတ်သည်ကို တွေ့ကြရ၏။ တခါတရံတွင် ထိုအကွက်ကလေးများသည် အတော်ကြီးသည်ကို တွေ့ရသည်။ ထိုသို့ဖြစ်ရခြင်းသည် မှိုသိမ်များ စွဲနေကြခြင်းကြောင့် ဖြစ်သည်။ မှိုသိမ်သည် ရုတ်တရက် ဖြစ်ပေါ်လာတတ်၏။ မှိုသိမ် နှစ်မျိုးရှိရာ တမျိုးတွင် အမှုန့်ကလေးများ ပါရှိ၍၊ ကျန်တမျိုးတွင် မွေးနုကလေးများ ပါရှိသည်။

အမှုန့်ကလေးများ ပါရှိသော မှိုသိမ်သည် အပင်စိမ်းများတွင် ဖြစ်ပေါ်တတ်ပြီးလျှင်၊ မွေးနုကလေးများ ပါရှိသော မှိုသိမ်သည် အရွက်များ၊ သို့မဟုတ် အသီးကလေးများပေါ်တွင် ဖြစ်ပေါ်တတ်သည်။ အပွင့်ပွင့်သောအပင်မျိုးပေါင်း ၁,၅၀၀ ခန့်တွင် အမှုန့်ကလေးများပါရှိသော မှိုသိမ်များ ဖြစ်ပေါ်တတ်၍ ယင်းတို့သည် များသောအားဖြင့် အရွက်ပေါ်တွင် ဖြစ်ပေါ်တတ်သည်။ တခါတရံတွင် ပင်စည်နှင့် အသီးများပေါ်၌ ပန်းပွင့်နှင့်တူသော အပိမ့်များ ဖြစ်ပေါ်လာတတ်သည်။ ထိုအပိမ့်များသည် စင်စစ်အားဖြင့် မှိုမျှင်ကလေးများ ဖြစ်ပြီးလျှင် ထိုအမျှင်ကလေးများမှ တဖန် အမျှင်တိုကလေးများသည် ဖြာထွက်နေကြ၏။ ထိုအမျှင်တိုကလေးများတွင် စုတ်ယူနိုင်သော အင်္ဂါကလေး



အဆုတ်ရောင်နာ၊ ကာလသားရောဂါ စသည်တို့ကို ကုသနိုင်သည့် ပင်နီဆလင် ဆေးကို ပင်နီဆီလီယမ်နိုတေတမ်ခေါ် မှိုမှ ထုတ်ယူရသည် (အပေါ်ပုံ အဖြူစက်ကြီး)။



ယင်းမှိုကို ပါမောက္ခ ဖလင်းမင်း စတင်တွေ့ရှိခဲ့၍ အဆ ၆၀၀ ပုံကြီးချဲ့ မြင်ရပုံဖြစ်သည် (ယာ)။

များ ပါရှိရာ ထိုအင်္ဂါကလေးများဖြင့် ပင်စည်နှင့် အသီးများကို စုတ်ယူကြသည်။ ထိုသို့ဖြစ်ပေါ်ခြင်းကို ကန့်မှုန့်များ ဖြူးပေးခြင်းဖြင့် ကာကွယ်နိုင်သည်။

မွေးနုကလေးများ ပါရှိသော မှိုသိမ်များသည် အရွက်နှင့် အသီးကလေးများပေါ်တွင် အဝါစက်ကလေးများ အဖြစ် ဖြစ်ပေါ်လာတတ်သည်။ ယင်းတို့သည် သခွား၊ ဂေါ်ဘီထုပ်၊ ကြက်သွန်နီနှင့် ဆလတ်ပင်တို့တွင် ဖြစ်ပေါ်တတ်သည်။ ဗော်ဒိုးမစ်စချာ ပက်ဖျန်းပေးခြင်းဖြင့် ယင်းတို့ကို ကာကွယ်နိုင်သည်။

စိုထိုင်းသည့် အပူပိုင်းဒေသရှိ တိုင်းပြည်များတွင် မှိုသိမ်များ ဖြစ်ပေါ်တတ်၏။ ထိုဒေသမျိုးရှိ တိုင်းပြည်များ၌ အဝတ်အစားများကို သွေ့ခြောက်စွာ မထားနိုင်လျှင် မှိုသိမ်များ ဖြစ်ထွန်းလာတတ်သည်။ သမပိုင်းဒေသရှိ တိုင်းပြည်များ၌ပင် အဝတ်အစားများကို တာရှည်စွာ စိုထိုင်း၍ နေစေလျှင် မှိုသိမ်များ ဖြစ်ပေါ်လာတတ်သည်။

စိုထိုင်းသည့် တိုင်းပြည်များတွင် စာအုပ်များကို စာအုပ်သေတ္တာတွင်ထည့်၍ ပါရာဖော်မဲလဒီဟိုက် အမှုန့်များကို ဖြူးမထားလျှင် မှိုသိမ်များ ဖြစ်ပေါ်လာတတ်သည်။

အမှုန့်ကလေးများပါရှိသော မှိုသိမ်သည် အဲရီဆစ်ပါစီအီး မှိုမျိုးရင်းဝင် ဖြစ်၍ မွေးနုကလေးများပါရှိသော မှိုသိမ်သည် ပါရိုနိုစပိုရာစီအီး မှိုမျိုးရင်းတွင် ပါဝင်သည်။

**မှတ်၊ ဆရာ** (ခရစ် ၁၈၃၂–၁၉၁၅)။ ။ဒေါက်တာ ဂျွန် အက်ဗင်နီဇာ မတ်သည် မင်းတုန်းမင်း၊ သီပေါမင်းတို့နှင့် ရင်းနှီးသော ရေဖျန်းဂိုဏ်းမှ ခရစ်ယန် သာသနာပြု ပုဂ္ဂိုလ် ဖြစ်လေသည်။ သို့ရာတွင် ဒေါက်တာမတ်သည် ပညာရေးဖက်၌ အထူးအာရုံစိုက် ဆောင်ရွက်ခဲ့သူ ဖြစ်သဖြင့် မြန်မာနိုင်ငံ ပညာရေးသမိုင်းနှင့် ပို၍ ဆက်စပ်ထင်ရှားပေသည်။ စင်စစ်အားဖြင့်လည်း ဒေါက်တာမတ်သည် အစအဦးတွင် မြန်မာနိုင်ငံ၌ ပညာရေးလုပ်ငန်းကို ဆောင်ရွက်ရန် ရေဖျန်းဂိုဏ်းမှ စေလွှတ်ချက်အရ လာရောက်ခဲ့ခြင်း ဖြစ်လေသည်။ ထိုစဉ်အခါက ဘုရင်စိုးမင်းနှင့်တကွ မင်းညီမင်းသား၊ တိုင်းသူပြည်သား အပေါင်းတို့က ကြည်ညို လေးစားခြင်းကို ခံရသော ကျောင်းဆရာကြီး ဖြစ်သောကြောင့် ဆရာမှတ်ဟူ၍ အမည် ခေါ်တွင်ခဲ့လေသည်။

ဆရာမှတ်သည် ၁၈၃၂ ခုနှစ် ဇွန်လ ၄ ရက်နေ့တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ ဖွားမြင်သည်။ ယဟူဒီ မျိုးရိုးအဆက်အနွယ်ဖြစ်သည်။ ကျန်းမာရေး မကြာခဏ ချွတ်ယွင်းလေ့ရှိသော်လည်း ၈၃ နှစ်အရွယ်အထိ အသက်ရှည်သည်။ ငယ်စဉ်က လန်ဒန်မြို့အရှေ့ပိုင်းရှိ ကျောင်းတကျောင်းတွင် ပညာသင်ကြားခဲ့ရလေသည်။ ထိုကျောင်း၌ပင် စေတနာ့ဝန်ထမ်း ကျောင်းဆရာအဖြစ် ဆောင်ရွက်ခဲ့ ပြီးနောက် ဝုလဗာဟမ့်ပတန်မြို့၊ ဗာမင်ဂမ်မြို့နှင့် အိဗရှမ်မြို့ များတွင် ကျောင်းဆရာအဖြစ် ဆက်လက် အမှုထမ်းရလေသည်။ ထိုနောက် တီ၊ အို၊ ဂွတ်ချိုင်း ဆိုသူ ဘုန်းကြီးတပါးထံမှ ခေါ်ဖိတ်ချက်အရ၊ လန်ဒန်မြို့ အရှေ့မြောက်ပိုင်းရှိ စာသင်ကျောင်းတကျောင်းသို့ သွားရောက် အမှုထမ်းရသည်။ ထိုကျောင်းမှ ကျောင်းသားတို့သည် လူပေ လူတေကလေးများ ဖြစ်ကြသော်လည်း ဆရာမှတ်၏ ကြိုးပမ်းမှုကြောင့် ဆရာကို ကျိုးနွံလာကြလေသည်။

၁၈၅၉ ခုနှစ်တွင် ဆရာမှတ်သည် မော်လမြိုင်မြို့၌ အက်စ၊ ပီ၊ ဂျီ ခေါ် ရေဖျန်းခရစ်ယန်ဂိုဏ်းက ဖွင့်လှစ်ထားသော စာသင်ကျောင်းတွင် ကျောင်းဆရာအဖြစ် အမှုထမ်းရန် မြန်မာနိုင်ငံသို့ရောက်ရှိလာလေသည်။သုံးနှစ်မျှအမှုထမ်းပြီးနောက် ကာလကတ္တားမြို့မှ ဂိုဏ်းအုပ် ကော့တွန်က ဆရာမှတ်ကို သိက္ခာတင်ဘုန်းကြီး ဖြစ်မြောက်ရေးအတွက် ထိုမြို့ရှိ ဗိရှော့ ကောလိပ်ကျောင်းတွင် ဓမ္မပညာကို ဆည်းပူးနိုင်အောင် စီစဉ် ပေးခဲ့လေသည်။ ဆရာမှတ်သည် ကာလကတ္တားမြို့ရှိ ကသီဒရယ် ဘုရားရှိခိုးကျောင်း၌ ၁၈၆၃ ခုနှစ်တွင် သင်းထောက်အဖြစ်ရင်း၊ ၁၈၆၆ ခုနှစ်တွင် ဘုန်းကြီးအဖြစ်ရင်း သိက္ခာတင် ချီးမြှင့်ခြင်းကို ခံရလေသည်။



**ဆရာမှတ်ဟူ၍ အမည်ခေါ်တွင်ခဲ့သူ ဒေါက်တာ အက်ဗင်နီဇာ မတ်။ ဒေါက်တာမတ်သည် သာသနာပြုပုဂ္ဂိုလ်ဖြစ်၍ မင်းတုန်းမင်း လက်ထက်တော်၌ မန္တလေးနေပြည်တော်တွင် ခရစ်ယန်သာသနာကျောင်း တည်ထောင် ဖွင့်လှစ်ခဲ့ကာ သီပေါမင်းသား အပါအဝင် မင်းသားများနှင့် နန်းတွင်းသားတို့အား ပညာပို့ချပေးခဲ့သည်။**



ခရစ်ယန် သာသနာပြု ကျောင်းအုပ်ဆရာကြီး ဒေါက်တာမတ်နှင့်တပည့်မင်းသားများ မင်းတုန်းမင်း ရွှေတော်မှောက် အခစားဝင်ရောက်ကြစဉ်

ဆရာမှတ်သည် မော်လမြိုင်မြို့၊ မန္တလေးမြို့နှင့် ရန်ကုန်မြို့တို့တွင် ကလေးသူငယ် ပညာသင်ကြားရေး လုပ်ငန်း၌ အားသွန်ခွန်စိုက် ဆောင်ရွက်ခဲ့သည်။ ရန်ကုန်မြို့တွင် ယခု လမ္မတော် အစိုးရအထက်တန်းကျောင်း အမှတ် ၁ ဟု ထင်ရှားတည်ရှိသော စိန့်ဂျွန်း အထက်တန်းကျောင်းသည် ဆရာမှတ် တည်ထောင်ခဲ့သောကျောင်း ဖြစ်သည်။ ရှေးအခါက စိန့်ဂျွန်းကောလိပ် ဟု အမည်မှည့်ခေါ်ထားသော်လည်း ဆရာမှတ်ကျောင်း ဟူ၍သာ လူသိများခဲ့လေသည်။

၁၈၇၉ ခုနှစ်တွင် ဂိုဏ်းချုပ်တိတ်က ဆရာမှတ်ကို အယူဝါဒ ပညာရပ်ဆိုင်ရာ ပါရဂူဘွဲ့ (ဒီ၊ ဒီ) ချီးမြှင့် ခဲ့သည်။ ဒေါက်တာမတ်သည် ၁၉၀၀ ပြည့်နှစ်တွင် သာသနာပြု လုပ်ငန်း အရပ်ရပ်မှ အနားယူပြီးနောက် ၁၅ နှစ် ကြာသောအခါ အင်္ဂလန်နိုင်ငံ၌ အနိစ္စရောက်လေသည်။

ဆရာမှတ်သည် ပညာရေးဖက်၌ ဆောင်ရွက်ချက်ကြောင့် သော်၎င်း၊ သာသနာရေးဖက်၌ ဆောင်ရွက်ချက်ကြောင့်သော်၎င်း ထင်ရှားသည်ထက် အပေါင်းအသင်းဝင်ဆံ့သည့်အချက်ကြောင့် ပို၍ ထင်ရှားသည် ဟု ဆိုနိုင်ပေသည်။ မန္တလေးမြို့၌ နေထိုင်စဉ်အခါက၎င်း၊ ရန်ကုန်မြို့၌ နေထိုင်စဉ်အခါက၎င်း မိမိနေအိမ်သို့ လူမျိုးမရွေး၊ လူတန်းစား မရွေး ဝင်ထွက်ခွင့် ပြုထားလေသည်။ စိန့်ဂျွန်းကျောင်းဝင်းအတွင်းရှိ နေအိမ်သို့ မဟာဝန်ရှင်တော်မင်းကြီးမှအစ စစ်ဖက်၊ နယ်ဖက် အရာရှိများ၊ ကုန်သည် သင်္ဌေးများ၊ ရန်ကုန်မြို့ပေါ်ရှိလူကုံထံများ အမြဲဝင်ထွက်လျက် ရှိလေသည်။ ဆရာမှတ်၏ ခင်မင်တတ်သောစိတ်၊ ရက်ရောသော စေတနာ၊ ရွှင်ပျသော မျက်နှာထားတို့ကြောင့် လူမျိုးရေး၊ အယူဝါဒရေး၊ အဆင့်အတန်းကွာခြားရေးနှင့်ဆိုင်သော အတားအဆီး ဟူသမျှတို့ ပြိုပျက်၍ ရောက်လေရာ အရပ်တွင် အဆွေခင်ပွန်း ပေါများလေသည်။ ဆရာမှတ်သည် ဗြိတိသျှတို့ သိမ်းပိုက်ထားသော မြန်မာနယ်မြေကို အုပ်ချုပ်ရသည့် ပဌမဦးဆုံး မဟာ ဝန်ရှင်တော်မင်းကြီး ဆာ အာသာ ဖယ်ယာမှ အစ နောင်အဆက်ဆက် အုပ်ချုပ်ရသူ မင်းပိုင်းစိုးပိုင်းတို့နှင့်လည်း ရင်းနှီးလေသည်။ အထူးသဖြင့် ဆာ ချားလ် ဗားနဒ်နှင့် ပို၍ ရင်းနှီးပုံရလေသည်။ တခါက ဆာ ချားလ် ဗားနဒ်သည် စိန့်ဂျွန်းကောလိပ်၌ ဖျားနာနေသော ဆရာမှတ်ထံသို့ ကိုယ်တိုင်လာပြီးလျှင် အစိုးရအိမ်တော်သို့ ယူဆောင် ပြုစုသည် ဟု သိရလေသည်။

### မင်းတုန်း မင်းတရားကြီးနှင့် ဆရာမှတ်

ဆရာမှတ်သည် ၁၈၆၈ ခုနှစ်မှ ၁၈၇၄ ခုနှစ်အထိ မန္တလေးမြို့၌ နေထိုင်စဉ် မင်းတုန်းမင်းထံသို့ မကြာခဏ ဝင်ရောက် ခစားခွင့် ရသည့်အပြင်၊ ဘုရင့်ထံမှ အကူအညီ အထောက်အပံ့ကိုလည်း ရရှိခဲ့လေသည်။ မန္တလေးမြို့သို့ မိမိထက် ဦးစွာရောက်နှင့်နေကြသော ရောမ ကက်သလစ်ဂိုဏ်းမှ ဘုန်းကြီးသည်၎င်း၊ အာမီးနီးယန်း ဂိုဏ်းအုပ်သည်၎င်း

ဘုရင်၏ အကူအညီ အထောက်အပံ့ကို ခံယူရရှိလျက် ရှိလေသည်။ မင်းတုန်းမင်းကြီးသည် နေပြည်တော်တွင် ရေဖျန်းဂိုဏ်းအတွက် ဘုရားရှိခိုးကျောင်း တည်ဆောက်ရန်သော်၎င်း၊ ခရစ်ယန်သာသနာကျောင်း တည်ထောင်ရန်သော်၎င်း ဆရာမှတ်အား ခွင့်ပြုတော်မူလေသည်။ ထို့ပြင် သီပေါမင်းသား အပါအဝင် မင်းသား ကိုးပါးနှင့်တကွ အခြားနန်းတွင်းသားတို့ကို ဆရာမှတ်ကျောင်းသို့ ပို့၍ စာသင်စေသည်။

## ဆရာမှတ်၏ ပညာရေးဆောင်ရွက်ချက်

ဆရာမှတ်ကို သာသနာပြုဆရာတယောက်အဖြစ် မှတ်မိကြသည်ထက် ကျောင်းဆရာကြီးတယောက်အဖြစ် ပို၍ မှတ်မိကြသည်ဟု ဆိုနိုင်ပေသည်။ ဆရာမှတ်သည် မော်လမြိုင်မြို့သို့ ကျောင်းဆရာအလုပ်ဖြင့်ပင် ရောက်ရှိလာခဲ့လေသည်။ ဆရာကြီး၏ အောင်မြင်မှုမှာ ပညာသင်ကြားရေးနည်းစံနစ်၊ စည်းရုံးမှု နည်းစံနစ် ကောင်းလှခြင်းကြောင့်ဟု ဆိုရမည်ထက် တပည့်အပေါင်းတို့ကို သားရင်းမြေးရင်းပမာ ချစ်ခင်၍ မိမိ၏ အချိန်၊ ငွေ၊ ကျန်းမာရေးတို့ကို တပည့်များ၏ အကျိုးအတွက် စွန့်နိုင်ခြင်းကြောင့် ဟု ဆိုရပေမည်။ မိမိ၏ တပည့် တစုံတယောက် ဖျားနာနေလျှင် တညဥ့်လုံး မအိပ်ဘဲ ပြုစု စောင့်ရှောက်လေ့ ရှိလေသည်။ ဆရာမှတ်သည် မြန်မာနိုင်ငံ၌ အက်စ၊ ပီ၊ ဂျီ သာသနာကျောင်းများကို အနှံ့အပြား တည်ထောင် ဖွင့်လှစ်ခဲ့လေသည်။ ရန်ကုန်မြို့ရှိ စိန့်ဂျွန်းကျောင်းမှာ အထင်ရှားဆုံးဖြစ်သည်။ စိန့်ဂျွန်းကျောင်းကို ၁၈၆၄ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် "သည်ကောတိတ်" ခေါ် အိမ်တဆောင်၌ စတင် ဖွင့်လှစ်ခဲ့လေသည်။ အိမ်ငှားခ တလလျှင် ငွေ ၁၀၀ ကျပ် ပေးရသည်။ နေ့ကျောင်းသားများအပြင် ကျောင်းအိပ် ကျောင်းစားများကိုလည်း လက်ခံထားလေသည်။ ထိုအချိန်အခါမှစ၍ ဆရာမှတ်ကျောင်းသည် ကြီးပွားတိုးတက်လာခဲ့လေသည်။ တပည့်ကျောင်းသားတို့ကလည်း ဆရာကြီး၏ ကျေးဇူးကို တုံ့ပြန်သည့်အနေဖြင့် ဆရာမှတ် ကျောင်းဆရာကြီးအလုပ်မှ အငြိမ်းစား ယူသည့် ၁၈၉၈ ခုနှစ်တွင် "မတ် အထိမ်းအမှတ်ရန်ပုံငွေ" ကို စတင် ဖွင့်ခဲ့ကြလေသည်။ ထိုရန်ပုံငွေမှာ ဆရာမှတ်ကျောင်းထွက် ကျောင်းသားဟောင်းတို့က မိမိတို့ဆရာကြီးအား ထောက်ပံ့ရန်ပင် ဖြစ်လေသည်။ ဆရာကြီး အနိစ္စရောက်ပြီးသည့်နောက်၌ပင် ထိုရန်ပုံငွေကို ရပ်ဆိုင်း၍ မထားဘဲ၊ စိန့်ဂျွန်းကျောင်းဝင်း၌ ဆရာမှတ် အထိမ်းအမှတ်



မန္တလေးမြို့၌ ဆရာမှတ် တည်ထောင် ဖွင့်လှစ်ခဲ့သော သံတဲကျောင်း

ဘုရားရှိခိုးကျောင်းတဆောင် ဆောက်လုပ်ရန်နှင့် ဆင်းရဲနွမ်းပါးသော မြန်မာတိုင်းရင်းသား ကျောင်းသားတို့အား ငွေကြေး ထောက်ပံ့ရန် ဆက်လက် ထားရှိခဲ့ကြလေသည်။ ဆရာမှတ်သည် ပြည်သူတို့နှင့် ဆိုင်သော ရပ်ရွာအရေးကိစ္စတို့၌လည်း ပါဝင် ဆောင်ရွက်လေ့ရှိလေသည်။ ဆရာကြီးသည် စိန့်ဂျွန်းကောလိပ် အရံတပ်ဖွဲ့ကိုလည်း ဦးစီး တည်ထောင်ခဲ့သူ ဖြစ်ပေသည်။

**မှတ်ဉာဏ်။** ။မှတ်ဉာဏ် ဆိုသည်မှာ လွန်ခဲ့သည့် အတွေ့အကြုံများကို ပြန်လည် ဖော်ထုတ်နိုင်စွမ်းရှိသည့် စိတ်၏စွမ်းအားပင်ဖြစ်သည်။ မှတ်မိသည် ဆိုရာ၌ နှစ်မျိုးရှိရာ တမျိုးမှာ သတိရခြင်းဖြစ်၍၊ ကျန်တမျိုးမှာ မှတ်မိခြင်းဖြစ်သည်။ ပုံစံအဖြစ် ပြရလျှင် ယခင်က မြင်ဘူးသည့် ပုဂ္ဂိုလ်တဦးအား စဉ်းစားကြည့်ရာတွင် မရနိုင်က ထိုသူ၌ သတိရမှုသည် ချွတ်ယွင်းနေသည် ဟု ဆိုနိုင်သော်လည်း၊ စဉ်းစားမိသည့် ပုဂ္ဂိုလ်ကိုသာ ထိုသူ မြင်လိုက်ရလျှင် မြင်လိုက်သည်နှင့်တပြိုင်နက် ထိုပုဂ္ဂိုလ်ကို မှတ်မိနိုင်ပေသည်။

မှတ်ဉာဏ်ကို ခွဲစိတ်ကြည့်လျှင် ဆက်စပ်ခြင်း၊ မှတ်မိနိုင်စွမ်းရှိခြင်း၊ သတိရခြင်းနှင့် မှတ်မိခြင်းတို့ ရှိသည်ကို တွေ့ရပေမည်။ ပုံပမာ – လူတယောက်သည် တနေ့၌ လမ်းလျှောက်သွားစဉ် လမ်းထောင့်တခုသို့ ရောက်သွားချိန်တွင် မော်တော်ကားနှစ်စီး အရှိန်ပြင်းစွာနှင့် တိုက်မိကြသည်ကို တွေ့လိုက်ရ၏။ ထိုအခါ နောင်တွင် ထိုသူသည် ထိုလမ်းထောင့်သို့ ရောက်သည့်အခါတိုင်း မော်တော်ကား နှစ်စီးတိုက်မိခြင်းကို အစဉ် သတိ ရပေလိမ့်မည်။ ထိုသို့ဖြစ်ခြင်းမှာ ထိုလမ်းထောင့်နှင့် မော်တော်ကား နှစ်စီး တိုက်မိခြင်းတို့သည် ဆက်စပ်လျက် ရှိခြင်းကြောင့် ဖြစ်လေသည်။ အခြားလမ်းထောင့်များသို့ ရောက်သောအခါတွင် ထိုသို့ သတိရမည် မဟုတ်ချေ။ ထိုသို့ ဖြစ်ရသည်မှာ ဆက်စပ်မှု မရှိခြင်းကြောင့် ဖြစ်ပေသည်။

မှတ်မိနိုင်စွမ်းရှိခြင်းသည် လူတဦးနှင့် တဦးတွင် မတူချေ။ အင်္ဂလိပ်စာကို ပဌမ စ၍သင်ကြားသော ကျောင်းသားငယ်တဦးသည် အင်္ဂလိပ်စာလုံး ဆဲ့ငါးလုံးကို အရကျက်မည် ဟု သူ့စိတ်ကိုပိုင်းဖြတ်ကာ ကျက်၏။ သို့သော် နောက်တနေ့ နံနက်တွင် သူကျက်ထားသော စာလုံးအားလုံး လိုလိုကို သူသည် မမှတ်မိဘဲ ဖြစ်တတ်သည်။ သို့သော် မမှတ်မိသော စာလုံးများကို ပြန်၍ကျက်လျှင် မမှတ်မိခြင်းသည် နည်းပါး သွားမည် ဖြစ်ပြီးလျှင်၊ မမှတ်မိတိုင်း ဆက်၍သာ ကျက်သွားမည်ဆိုပါက မကြာမီရက်အတွင်း၌ စာလုံးအားလုံးကို လုံးဝ မှတ်မိသွားပေလိမ့်မည်။ စာသင်ကျောင်းများ၌ တနေ့လုံးအဖို့ တဘာသာတည်းကိုသာ မသင်ကြားဘဲ၊ ဘာသာစုံကို တချိန်စီ၌ ကန့်သတ်၍ သင်ကြားပေးခြင်းဖြင့် ကျောင်းသူ ကျောင်းသားများ၏ မှတ်ဉာဏ်သည် နေ့ရက် များလာသည်နှင့်အမျှ တိုးပွားလာနိုင်ပေသည်။

သတိရခြင်း ဆိုသည်မှာ ဆက်စပ်လျက်ရှိသော အကြောင်းများကို မှတ်မိခြင်းပင် ဖြစ်သည်။ ကျောင်းသားငယ် တဦးအား ဂဏန်းသင်္ချာ သင်ကြားချိန်၌ ဆရာလုပ်သူက သုံး ခုနစ်လီ ဘယ်လောက်လဲ ဟု မေးလိုက်လျှင် ထိုသူငယ်သည် နှစ်ဆဲ့တစ် ဟု ရုတ်ခြည်း ဖြေနိုင်ကောင်း ဖြေနိုင်ပေလိမ့်မည်။ သို့မဟုတ် အချိန် အနည်းငယ်အတွင်း၌ ဖြေနိုင်ပေလိမ့်မည်။ ထိုအခါ ထိုသူငယ်သည် ထိုအချက်ကို သတိ ပြုထားသည်မှာ ထင်ရှားသည်။

မေးခွန်းကို ဖြေနိုင် မဖြေနိုင်ကို ကြည့်၍ ကျောင်းသား၏ မှတ်ဉာဏ်ကို အကဲခတ်နိုင်ပေသည်။ စာမေးပွဲ ဖြေနေစဉ် သက်ဆိုင်ရာ အဖြေကို သတိမရဘဲ အချိန်လွန်မှ သတိရလျှင် အကျိုးထူးမည် မဟုတ်ချေ။ မှတ်ဉာဏ်ကောင်းရန် အကျိုးအကြောင်းကို လျင်မြန်စွာ ဆက်စပ်နိုင်ရပေမည်။ အဆက်အစပ်ကို တွေ့လျှင် အားလုံးကို မှတ်မိနိုင်ပေလိမ့်မည်။ မြန်မာနိုင်ငံ သမိုင်းကို လေ့လာရာ၌ သက္ကရာဇ်ကို အလွယ်တကူ မှတ်မိနိုင်စေရန် ဆိုလျော်သည့် စကားစု ကလေးများကို တီထွင်၍ ထားသည်ကို တွေ့ရပေသည်။ ဥဒါဟရုဏ်ပြရလျှင် ဥ ညြ အော် မြည် (၁၁၁၅) ကုန်းဘောင်တည် ဟု ဆိုထားသဖြင့်၊ ၁၁၁၅ ခုနှစ်ကို ကုန်းဘောင်မင်းဆက်များနှင့် ဆက်စပ်၍ သတိရစေလေသည်။ ထိုနည်းအတူ သိုဟန်ဘွား ဖျက်၍ တိုင်းပြည်ပျက်သည်ကို မှတ်မိစေရန်၊ ဂ ငယ်သုံးခု (ဂဂဂ ခုနှစ်) ဥသျှစ်ထု ဟူ၍၎င်း၊ သီပေါမင်း ပါတော်မူသည့် သက္ကရာဇ်ကို မှတ်မိစေရန်၊ အင်္ဂလိပ်တက် (၁၂၄၇ ခုနှစ်) မန်းမြို့ပျက် ဟူ၍၎င်း ဆိုင်ရာဆိုင်ရာ သင်္ကေတများကို ပြုလုပ်ထားခဲ့ကြသည်။ ထိုသို့သော ဆက်စပ်မှုများကို သိခြင်းသည် ဆိုင်ရာ အကြောင်းအရာများကို ရွေးနုတ် ထုတ်ယူ သုံးစွဲနိုင်သော ဇာဂနာ၊ ကြိုက်ရာကို ဆွဲချူ အရယူနိုင်သည့် တံချူသဖွယ် ဖြစ်လေသည်။

ထိုနောက်တွင် မှတ်မိခြင်းသည် အရေးကြီး၏။ သာမန်အားဖြင့် သတိရခြင်းနှင့် မှတ်မိခြင်းသည် ဆင်တူယိုးမှား ဖြစ်၏။ သို့သော် လူတဦး၏ အမည်ကို သတိမရသော်လည်း လူကိုကား မှတ်မိနေတတ်ပေသည်။

မှတ်ဉာဏ် ကောင်းရန်အတွက် အကောင်းဆုံးနည်းမှာ ထပ်တလဲလဲ ပြုလုပ်ရန်၊ သို့မဟုတ် ရွတ်ဆိုရန် ဖြစ်သည်။ သို့သော် ထိုသို့ အထပ်ထပ် ပြုလုပ် ရွတ်ဆိုနေသော်လည်း ထိုသို့ပြုလုပ်ရွတ်ဆိုနေချိန်၌ ပြုလုပ်ရွတ်ဆိုနေသည့် ကိစ္စတွင် အာရုံကို စူးစိုက်ထားရန် အရေးကြီးပေသည်။ စာကိုအထပ်ထပ် ကျက်၍နေသော်လည်း ထိုစာကို ကျက်နေသည့် ကလေး၏စိတ်သည် ကစားရာသို့ ရောက်နေလျှင် ထိုကလေးသည် သူကျက်နေသောစာကို ရနိုင်မှတ်မိနိုင်မည်မဟုတ်ချေ။

မှတ်မိရန် ကြိုးစားရာတွင် ထိုအကြောင်းအရာ၏ အရေးကြီးသော အချက်အလက်များကို မှတ်မိခြင်းသည် အရေးမကြီးသော အချက်အလက်ကလေးများကို မှတ်မိခြင်းထက်ပို၍ အရေးပါသည်။

မှတ်ဉာဏ် တိုးပွားစေရန် ကျောင်းသားတဦးသည် သူဖတ်နေသည့် စာအုပ်ကို ခေတ္တပိတ်ပြီးလျှင် ပြန်၍ စဉ်းစားကြည့်သင့်၏။ အရေးကြီးသော အချက်အလက်များကို မမှတ်မိသေးလျှင် စာအုပ်ကို ပြန်၍ ဖွင့်ပြီးလျှင် တဖန်မှတ်ယူသင့်သည်။ ထိုသို့ပြုလုပ်ခြင်းဖြင့် ကျောင်းသား၏ မှတ်ဉာဏ်သည် တိုးပွားလာနိုင်ပေသည်။ ထို့ပြင် မိမိလေ့ကျက်ထားသည့် အကြောင်းရပ်ကိုအခြားသူတဦး၏ အမေးကို ဖြေကြားခြင်းဖြင့်လည်း မှတ်ဉာဏ်ကို တိုးပွားစေနိုင်ပေသည်။

**မှန်စီ ကျောက်စီ ပညာ။** ။မြန်မာနိုင်ငံ အရပ်ရပ်ရှိ တန်ခိုးကြီး ဘုရားများသို့ ရောက်ဘူးသူတိုင်းပင် တန်ဆောင်းပြာသာဒ်များတွင်၎င်း၊ ဘုရားပလ္လင်တော်နှင့် ဂန္ဓကုဋ္ဋိနံရံများတွင်၎င်း အရောင် အမျိုးမျိုးရှိသည့် ဖန်စ မှန်စတို့ဖြင့် စီချယ်ထားသည်ကို တွေ့မြင်ကြရပေလိမ့်မည်။ ဤသို့ မှန်ကျောက်တို့ဖြင့် စီမံချယ်လှယ်ခြင်းကို ရှေးမြန်မာဘုရင်များ၏ နန်းတော်များနှင့် ဘုရား၊ ကျောင်း စသော သာသနိက အဆောက်အအုံများ၌ အထူး ပြုလုပ်ခဲ့ကြလေသည်။ (မြန်မာ ယဉ်ကျေးထည် လုပ်ငန်း — လည်း ရှု။)

အနောက်တိုင်းများမှာမူကား မှန်ကိုသာမက အခြားအုတ် ကျောက် ရောင်စုံများဖြင့် အင်္ဂတေများပေါ်တွင် ပုံပန်း သဏ္ဌာန် အမျိုးမျိုးဖြစ်အောင် ပုံဖော် သွင်းမြှုပ်၍ မွမ်းမံ ချယ်လှယ်ခဲ့ကြလေသည်။

ဤ မှန်စီ ကျောက်စီ ပညာသည် ယခုခေတ်မှာသာ မဟုတ်။ ရှေးနှစ်ပေါင်း များစွာကတည်းက ပေါ်ပေါက်ခေတ်စားခဲ့ပေသည်။ ရှေးအီဂျစ်လူမျိုးများသည် ဤအတတ်ကို ကောင်းစွာ တတ်မြောက်ခဲ့ကြရာ သူတို့၏ လက်ရာများကို ယနေ့တိုင် တွေ့ရှိနိုင်ပေသည်။ မှန်စီ ကျောက်စီ ပညာသည် ဗိုင်ဇင်းတိုင် အင်ပိုင်ယာခေတ်တွင် ထွန်းကားခဲ့ပြီးနောက် ဣတလီပြည်တွင်မူကား ၁၃ ရာစုနှစ်များတွင်မှ ထွန်းကားလာလေသည်။ ဂရိလူမျိုးများ၊ အဆီးရီးယန်းလူမျိုးများသည်လည်း မှန်စီ ကျောက်စီ ပညာကို ကောင်းစွာ တတ်မြောက်ကြ၍ အယူဝါဒဆိုင်ရာ အဆောက်အအုံများတွင် ကောင်းစွာ အသုံးပြုခဲ့ကြလေသည်။ မီးတောင်ပေါက်ကွဲခြင်းကြောင့် ပျက်စီးသွားသော ပွန်ပီယိုင်မြို့၌ တူးဖော် ရရှိသော အဆောက်အအုံ အချို့တို့တွင် ကြမ်းပြင်ကို မှန်ကျောက်တို့ဖြင့် စီချယ်ထားသည်ကို တွေ့ရှိရပေသည်။ လန်ဒန်မြို့တွင်လည်း အဆောက်အအုံများ ဆောက်လုပ်ရန်အတွက် မြေကြီးကို တူးဖော်သည့်အခါ ရှေးဟောင်းဗြိတိန်လူမျိုးတို့ သုံးစွဲခဲ့သော မှန်စီ ကြမ်းပြင်များကို မြေအောက် ၁၂ ပေ ၁၅ ပေအတွင်း၌ တွေ့ရှိကြရလေသည်။' ရှေးခေတ်ကမူ မှန်ကျောက် စီချယ်ခြင်းကို အယူဝါဒဆိုင်ရာ အဆောက်အအုံ များတွင် အများဆုံး အသုံးပြုကြလေသည်။ ဣတလီနိုင်ငံ ဗင်းနစ်မြို့၌ စိန်မတ် ဘုရားရှိခိုးကျောင်းကြီး၏ အတွင်းဖက် တခုလုံးတွင် တမန်တော်၏ ရုပ်ပုံ အမျိုးမျိုးကို မှန်ဖြင့် စီ၍ ဖော်ပြထားသည်ကို တွေ့ရသည်။ ပြင်သစ်နိုင်ငံ ၁၄ ဆက်မြောက် လူဝီဘုရင်၏ နန်းတော်သည် ဗာဆေးမြို့တွင် တည်ရှိ၍ အချို့ မှန်နန်းဆောင်များသည် ကမ္ဘာကျော်ခဲ့လေသည်။

**မှန်တော့ပင်။** ။မှန်တော့ပင်သည် အိန္ဒိယနိုင်ငံ တောင်ပိုင်းနှင့် မလေးရှားနိုင်ငံများတွင် မူလ ပေါက်ရောက်သည့် သစ်ပင်မျိုး ဖြစ်၍ မြန်မာနိုင်ငံတွင် အနှံ့အပြား ပေါက်ရောက်လေသည်။ အချိုးအစားကျ၍ ရွက်အုံကောင်းသည့် အပင်မျိုး ဖြစ်သည်။ အမြင့် ၂၅ ပေမှ ပေ ၃၀ အထိ ရှိတတ်သည်။ အရွက်များသည် ကြီးမား မာကျော ပျဉ်းတွဲပြီးလျှင် ၁၀ လက်မမှ ၁၅ လက်မအထိ ရှည်၍ သုံးလက်မခန့်ကျယ်သည်။ များသောအားဖြင့် ဒီဇင်ဘာလမှ ဖေဖွာရီလအတွင်း ချောမွတ်၍ အဝါရောင်ရှိသည့် မက်မောဖွယ်ကောင်းသော အသီး အမြောက်အမြား သီးသည်။ အသီး၏ အရွယ်အစားနှင့် ပုံသဏ္ဌာန်မှာ သေးငယ်သော လိမ်မော်သီးများနှင့် တူသည်။ အသီး၏ အဖျားဖက်တွင် ဝတ်ဆံမထိပ်ကဲ့သို့ ချွန်ထွက်နေသည်။

အရည်ရွှမ်း၍ အဝါရောင်ရှိသော အသားများကို စားနိုင်သည်။ အရသာမှာ ချဉ်သော်လည်း နှစ်သက်စဖွယ်ဖြစ်၏။

မှန်တော့ပင်၏ အခေါက်များမှ အဝါရောင် ဆိုးဆေးရရှိနိုင်ပေသည်။ အာသံပြည်နယ်တွင် ထိုဆိုးဆေးဖြင့် အဝတ်အထည်များကို ဆိုးလေ့ရှိကြသည်။

အသားထူသော အစေ့ကြီးများကို ပျိုးယူခြင်းဖြင့် မှန်တော့ပင်များကို စိုက်ပျိုးနိုင်ပေသည်။

မှန်တော့ပင်သည် ဂတ်တစ်ဖာရီး မျိုးရင်းတွင် ပါဝင်သည်။ ထိုအပင်ကို ရုက္ခဗေဒ အလိုအရ ဂါဆီနီးယား ဇန်သိုခိုင်းမတ် ဟူ၍ ခေါ် သည်။

**မှန်နန်းရာဇဝင်။** ။မြန်မာ့ရာဇဝင်များ — ရှု။

**မှန်ဘီလူး။** ။ကင်မရာ ခေါ် ဓာတ်ပုံရိုက် ကရိယာများ၌၎င်း၊ မျက်မှန်များ၌၎င်း၊ မှန်ပြောင်းများ၌၎င်း ကျွန်ုပ်တို့သည် မှန်ဘီလူးကလေးများကို အမျိုးမျိုး အစားစား တွေ့



မှန်စီကျောက်စီ မွမ်းမံချယ်လှယ်ခြင်းကို နန်းတော်များနှင့် ဘုရား ကျောင်း စသော သာသနိက အဆောက်အအုံများ၌ အထူး ပြုလုပ်လေ့ရှိသည်။

မြင်ကြရ၏။ မှန်ဘီလူးတို့ကို မည်သည့်အတွက် တပ်ဆင်ထားရသနည်း။ မှန်ဘီလူးတို့၌ မည်သို့သော သတ္တိထူးများ ရှိသနည်း။

မှန်ဘီလူးများသည် မူလ သဘောအားဖြင့် နှစ်မျိုး နှစ်စား ကွဲပြားလေသည်။ အလယ်တွင်ထူ၍ နံဘေးသို့ ပါးသွားသော မှန်ဘီလူးမျိုးကို မှန်ဘီလူးခုံး ဟု ခေါ်ပြီးလျှင်၊ နံဘေး၌ ထူ၍ အလယ်သို့ ပါးသွားသော အမျိုးကို မှန်ဘီလူးခွက် ဟု ခေါ်သည်။ ထိုနှစ်မျိုးတွင် တဖန် မျက်နှာပြင် နှစ်ဖက်စလုံးခုံးသည်ကို နှစ်ဖက်ခုံးဟူ၍၎င်း၊ နှစ်ဖက်စလုံးခွက်လျှင် နှစ်ဖက်ခွက် ဟူ၍၎င်း၊ တဖက်က မျက်နှာပြင်ညီ၍ တဖက်က ခုံးသည်ကို တဖက်ခုံး ဟူ၍၎င်း၊ တဖက်ညီ တဖက်ခွက်သည်ကို တဖက်ခွက် ဟူ၍၎င်း အသေးစိတ် ထပ်မံ ခွဲခြား၍ မှတ်သားကြပြန်သည်။

မှန်ဘီလူး၏ ထူးခြားသော သတ္တိမှာ မိမိအပေါ်သို့ ကျရောက်လာသော လင်းတန်းကို တိမ်းစောင်းစေခြင်း၊ တနည်း ယိုင်စေခြင်း ဖြစ်သည်။ ထိုသတ္တိနှင့် သက်ဆိုင်သည့် စကြာဆိုင်ရာ သဘာဝစည်းကို "လင်းတန်းယိုင်စည်း" ဟု ခေါ်၍ ထိုစည်း၏ သဘော အချုပ်မှာ ဤသို့ ဖြစ်သည်။ သိပ်သည်းခြင်းနည်းသော ကြားခံ ပစ္စည်းတခု (ပုံပမာ—လေ)ကို ဖြတ်သန်းလာသော လင်းတန်းတခုသည် ထိုပစ္စည်းထက် ပိုမိုသိပ်သည်းသော ကြားခံပစ္စည်းတခု(ပုံပမာ—ဖန်)၏ မျက်နှာပြင်ပေါ်သို့ စောင်းလိုက်ကျရောက်ပါက ထိုလင်းတန်းသည် ဖန်ထဲ၌ မိမိထိတွေ့ရာ နေရာကို ဖြတ်ဆွဲထားသော မျဉ်းမတ်ဖက်သို့ ယိုင်သွားပြီးလျှင် ဖန်မှ ဖန်ထက် သိပ်သည်းခြင်းနည်းသော လေထဲသို့ တဖန် ထွက်သွားသောအခါ အလားတူ မျဉ်းမတ်မှ ကား၍ ထွက်သွားလေသည်။

မှန်ဘီလူးခုံးများကို ဖြတ်သန်းသွားသော လင်းတန်းတို့သည် မှန်ဘီလူး၏ အခြားဖက် တနေရာတွင် သွားရောက်ဆုံမိရာ အချက်ကို မှန်ဘီလူး၏ (အလင်း) ဆုံချက် ဟု ခေါ်သည်။ (အလင်း) ဆုံချက်နှင့် မှန်ဘီလူး၏ အလယ်ဗဟိုချက်တို့၏ အကွာအဝေးကို မှန်ဘီလူး၏ ဆုံတာ ဟု ခေါ်သည်။ မှန်ဘီလူးခွက်များတွင်မူ ဖြတ်သွားသော လင်းတန်းတို့သည် အခြားဖက်တွင် အပြင်ဖက်သို့ ကား၍ ထွက်ကြသဖြင့် ထိုကား၍ ထွက်သွားသည့် လင်းတန်းများကို နောက်ပြန်မျဉ်းဆက်ဆွဲမှ ရရှိသော မျဉ်းကြောင်းများ ဆုံမိရာ နေရာချက်ကို (အလင်း) ဆုံချက်အဖြစ် မှတ်ယူရလေသည်။ "ဆုံတာ" မှာမူ အထက်ပါအတိုင်းပင် ဖြစ်သည်။



သိပ္ပံရေးရာ သုတေသန လုပ်ငန်းအတွက် အထူး အသုံးဝင်သည့် ချဲ့အား အဆ ၁၀၀၀ ရှိသည့် မှန်ဘီလူးကြီး

ဆိုတာ၏ အလျားမှာ မှန်ဘီလူး၏ ခုံးခွက်ပုံကို လိုက်၍ အတိုအရှည် ရှိလေသည်။

မှန်ဘီလူးခုံးတခုကို နေရောင်တွင်ခံ၍ စက္ကူ၊ သစ်သားစသော အရာဝတ္ထု တခုခု အပေါ်၌ အဖြူစက်ကလေးတခု ထင်လာအောင် ရွှေ့တိုးနောက်ငင် ရွှေ့ပေးပါ။ အဖြူစက်ကလေး ပေါ်လာချိန်တွင် မှန်ဘီလူးကို နေရာမရွှေ့စေဘဲ ကိုင်ထားက ထိုနေရာတွင် ရှေးဦးစွာ အငွေ့ထွက်လာရာမှ မီးထတောက်သည်အထိ လောင်ကျွမ်းလာပုံကို တွေ့ရပေလိမ့်မည်။ အပူ စု၍ ကျရောက်သဖြင့် စက္ကူစ လောင်ကျွမ်းသွားသောနေရာမှာ အခြားမဟုတ် ဆုံချက်ပင် ဖြစ်သည်။

မျက်လုံးများ၌ သူငယ်အိမ်သည် မှန်ဘီလူးခုံးနှင့် အလားတူသည်။ သူငယ်အိမ်၌ ချွတ်ယွင်းချက် ရှိခဲ့လျှင် သူငယ်အိမ် ဆုံချက်သည် မျက်လုံး နောက်ပိုင်းရှိ ရက်တီးနား ခေါ် မြင်လွှာနှင့် တထပ်ထည်း မကျဘဲ ရှိတတ်သည်။ ထိုအခါ မြင်လွှာပေါ်၌ ထင်လာသည့် အရိပ်သည် မပြီပြ မထင်ရှားဘဲ ရှိတတ်သည်။ ထိုသို့ ဖြစ်သောအခါ မျက်လုံးသူငယ်အိမ်၏ ချွတ်ယွင်းချက်ကို ပြုပြင်ပေးရန် မျက်မှန် တပ်ဆင်ပေးရလေသည်။ မျက်မှန် တပ်ဆင်ခြင်းမှာ သင့်တော်သော မှန်ဘီလူး အပိုတခုဖြင့် အစားထိုး ဖြည့်စွက်ပေးခြင်းပင် ဖြစ်သည်။ သူငယ်အိမ်နှင့် မှန်ဘီလူးကို ပေါင်းစပ်ပေးခြင်းဖြင့် သူငယ်အိမ်နှင့် မြင်လွှာတို့၏ အကွာအဝေးကို မှုမှန်ဖြစ်စေသည့်အတွက် မျက်လုံးကို ကောင်းမွန်စွာ မြင်နိုင်စွမ်း ရှိစေလေသည်။

ဓာတ်ပုံရိုက် ကင်မရာများတွင်လည်း မှန်ဘီလူး၏ ဆုံတာ (ဖိုးကပ် အကွာအဝေး) သည် လွန်စွာ အရေးကြီးပေသည်။ ဆုံတာ အကွာအဝေး ချိန်သားမကိုက်ပါက ကင်မရာတွင် ရှိသော ပုံဖမ်း ကော်ပြားပေါ်၌ ကျရောက် ထင်ပေါ်သည့် အရိပ်သည် မပြတ်သား မပြီသနိုင်။ အရိပ် မပြတ်သားက ဓာတ်ပုံသည်လည်း ကြည်လင် ပြတ်သားမည် မဟုတ်ပေ။

မှန်ဘီလူး အခုံးနှင့် အခွက်တို့ မတူသော အချက်တခု ရှိသည်။ မှန်ဘီလူးတခုကို အရာဝတ္ထုတခုနှင့် နောက်ခံကားချပ် တခုတို့၏ အကြားတွင် ထား၍ နောက်ခံ ကားချပ်ပေါ်တွင် ကြည့်လျှင် အရာဝတ္ထု၏ အရိပ်သည် မှန်ဘီလူး အမျိုးအစားအလိုက် ကွဲပြားသည်ကို တွေ့ရပေလိမ့်မည်။ မှန်ဘီလူးသည် အခုံးဖြစ်လျှင် အရိပ်သည် စောက်ထိုးဖြစ်၍၊ မှန်ဘီလူးသည် အခွက်ဖြစ်လျှင် အရိပ်သည် နဂိုအတိုင်း တည့်မတ်စွာပင် ရှိပေလိမ့်မည်။ ဤသို့ ဖြစ်ခြင်းမှာ အရာဝတ္ထု တခုမှ လင်းတန်းတို့သည် မှန်ဘီလူး ခုံးကို ဖြတ်သွားသောအခါ အထက်မှလင်းတန်းသည် အောက်သို့ ယိုင်ဆင်းသွား၍၊ အောက်မှ လင်းတန်းသည် အထက်သို့ယိုင်တက်သွားသည့်အတွက် နောက်ခံ ကားချပ်ပေါ်တွင် ထင်သော အရိပ်သည် စောက်ထိုး ထင်ခြင်း ဖြစ်သည်။ မှန်ဘီလူးသည် အခွက်ဖြစ်လျှင်မူ ဖြတ်သွားသော လင်းတန်းတို့သည် အထက်မှအောက်သို့၊ အောက်မှ အထက်သို့ ယိုင်ခြင်း မရှိဘဲ နံဘေးသို့သာ ကား၍ထွက်သွားသောကြောင့် အရိပ်သည်လည်း တည့်မတ်စွာ ထင်ခြင်းဖြစ်သည်။

အဝေးကြည့် မှန်ပြောင်းနှင့် (မိုက္ကရိုစကုပ်) အဏုကြည့် မှန်ပြောင်းတို့ကို စီမံထားခြင်းမှာ မူလ အရာဝတ္ထုထက် အဆပေါင်း များစွာ ကြီး၍ မြင်ရအောင် ဖြစ်သည်။ ထိုမှန်ပြောင်းများ၌ မှန်ဘီလူးတခုတည်းကို မသုံးဘဲ သင့်တော်သော မှန်ဘီလူးအများကို သင့်တော်သလို စုပေါင်းပြီး တပ်ဆင်ရသည်။ ထိုအခါ မှန်ဘီလူးတခုကြောင့် ဖြစ်ပေါ်လာသော အရိပ်ကို ကျန်မှန်ဘီလူးများက တဆင့်ပြီး တဆင့် အကြီးချဲ့သွားသည့်အတွက် နောက်ဆုံးတွင် မူလ အရာဝတ္ထုထက် အဆပေါင်းများစွာ ကြီးသော အရိပ်ကို မြင်ရခြင်း ဖြစ်သည်။

မှန်ဘီလူး အကောင်းစားများကို ပြုလုပ်ရသော လုပ်ငန်းသည် အခက်ခဲ အသိမ်မွေ့ဆုံး လုပ်ငန်းတရပ် ဖြစ်သည်။ အဝေးကြည့် မှန်ပြောင်းကြီးများအတွက် မှန်ဘီလူး အကြီးစားများကို ပြုလုပ်ရာတွင် လ ပိုင်း နှစ် ပိုင်းအထိပင် ကြာတတ်သည်။

**မြွေ။** ။မြွေသည် ရက်ပတီလီယာ မျိုးပေါင်းတွင် စကွာမေတာမျိုးစု် ဆာပင်တီး မျိုးစဉ်ခွဲ၌ ပါဝင်၏။

မြွေကို ကိုင်ကြည့်လျှင် အေးခြင်းမှာ ယင်းသည် သွေးအေးသတ္တဝါ ဖြစ်ခြင်းကြောင့် ဖြစ်သည်။

လူတို့သည် မြွေကို များသောအားဖြင့် ကြောက်၏။ ထိုအချက်ကြောင့်ပင် မြွေကို ကြောက်စိတ် မရှိသူများအဖို့နှင့် ကြောက်စိတ်ကို ကျော်လွှန်နိုင်သူများအဖို့ မြွေသည် ပို၍ စိတ်ဝင်စားဖွယ် ကောင်းလာလေသည်။ မြွေကို လူသည် မွေးကတည်းက ကြောက်မလာချေ။ ကလေးသည် မြွေကို ကြောက်စိတ်နှင့် ကြည့်သည်ထက် စိတ်ဝင်စားစွာ ကြည့်သည်က များသည်။

ခြေထောက် မရှိသော တွားသွားသတ္တဝါများတွင် မြွေကို လူသိ အများဆုံး ဖြစ်သည်။ မြွေကို အခြားဒေသများတွင် တွေ့ရသည်ထက် မြန်မာနိုင်ငံကဲ့သို့သော အပူပိုင်းဒေသများတွင် ပို၍ တွေ့ရသည်။ အကြီးဆုံး မြွေများကိုလည်း အပူပိုင်း ဒေသများတွင်သာ တွေ့ရသည်။ အချို့ မြွေများသည် ပေ ၃၀ အထိ ရှည်တတ်ကြသကဲ့သို့ ငါးလက်မထက် ပို၍ မရှည်သော မြွေကလေးများကိုလည်း တွေ့ရသည်။ နယူးဇီလန်၊ အိုင်ယာလန်နှင့် ဟာဝိုင်းယန်းကျွန်းများတွင် မြွေကို မတွေ့ရချေ။ ဟာဝိုင်းယန်းကျွန်းတွင်မူ နောင်အခါ၌ ဘေးမပြုသော မြွေများကို ယူဆောင်သွားကြသဖြင့် တွေ့ရလေသည်။

ပါးပျဉ်းထောင်ကာ ရန်သူကိုပေါက်ရန် မာန်ဖီနေသည့် မြွေဟောက်။ မြွေဟောက်ကို အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင် အတွေ့ရများသည်။ အဆိပ်ပြင်းသောမြွေဖြစ်သည့်ပြင် အလွန်လည်း ရန်မူလွယ်သော မြွေမျိုးဖြစ်သည်။



အဆိပ်မပြင်းသည့် မြွေမျိုးတို့တွင် မြက်လျှောမြွေသည် အပါအဝင်ဖြစ်သည်။ မိုးဦးကျအခါတွင် မြက်လျှောများကို မြန်မာနိုင်ငံ အနှံ့အပြား၌ တွေ့ရလေ့ရှိသည်။



အရေလဲပြီးစ မြွေကို တွေ့မြင်ရခဲ့သည်။ မြွေသည် ဆိတ်ငြိမ်စွာ အရေလဲ၍၊ လဲပြီးစကာလ၌ အချိန် အနည်းငယ်ကြာအောင် ငြိမ်သက်စွာ နေတတ်သည်။

မျိုးစိတ်ပေါင်း ၂,၃၀၀ ခန့်ရှိသော မြွေများကို အနည်းငယ်မျှသော ကျွန်းများနှင့် အလွန်အေးသည့် ဒေသများမှ အပ ကျန်ဒေသများတွင် တွေ့နိုင်သည်။ အပူပိုင်း ဒေသရှိ အလွန် ထူထပ်သော တောများမှအစ၊ သဲကန္တာရများ၊ တောင်ထိပ်များနှင့် မြေကြီးအောက်ရှိ တွင်းများ အဆုံးထိ တွေ့နိုင်၏။ အချို့သော မြွေများသည် သစ်ပင်များပေါ်တွင် အနေများသည်။ အချို့ကို စိမ့်များ၊ ရေချိုအိုင်များနှင့် မြစ်များတွင် တွေ့ရသည်။ အချို့ကိုမူ ပင်လယ်များအတွင်း၌ တွေ့ရလေသည်။ ထိုပင်လယ်မြွေများကို အာရှတိုက်၊ အာဖရိကတိုက်တို့နှင့် ထိစပ်လျက်ရှိသော အပူပိုင်းဒေသ ပင်လယ်များတွင် အတွေ့ရများသည်။ ပင်လယ်မြွေများ၏ နံဘေးသည် ပြားနေကြသဖြင့် ရေကူးရာ၌ လွန်စွာ သန်ကြသော်လည်း ကုန်းပေါ်တွင်မူ ကောင်းစွာ မသွားနိုင်ကြချေ။ ပင်လယ်မြွေများသည် မျိုးစိတ်အားဖြင့် ၅၀ ခန့်ရှိ၍ အားလုံးသည် လွန်စွာ အဆိပ်ပြင်းကြလေသည်။ ယင်းတို့၌ အဆုတ်ကြီးများ ရှိကြသဖြင့် ရေနက်များတွင် နေနိုင်ကြ၍ စားရန် ငါးများကို လိုက်ဖမ်းကြလေသည်။

မြွေများ၌ မျက်ခွံများ မရှိကြချေ။ ထိုကြောင့် မည်သည့်အခါမျှ မျက်စိကို မမှိတ်ကြချေ။ မျက်စိများကို ကာကွယ်ရန် ပျဉ်းတွဲသော အလင်းပေါက်အမြှေး ရှိသည်။ ထိုသို့သော မျက်စိမျိုး ရှိခြင်းကြောင့် ယင်းအား သားကောင်ကို ညှို့နိုင်စွမ်း ရှိသည် ဟု အများက ထင်ကြခြင်း ဖြစ်သည်။ မြွေသည် ယင်း၌ အခြား တိရစ္ဆာန်များမှာကဲ့သို့ ခြေထောက်များ မရှိသဖြင့် နံရိုးများဖြင့်သာ သွားရသည်။ မြွေ၌ နံရိုးအမြောက်အမြားရှိ၍ တခုစီသည် ကျောရိုး အစိတ်အပိုင်းနှင့် ဆက်နေ၏။ ထိုသို့ ဆက်သည်မှာ လှုပ်ရှားမှု အများဆုံးကို ပေးနိုင်အောင် ဆက်နေကြသဖြင့် လွတ်လပ်စွာ လှုပ်ရှားသွားလာနိုင်လေသည်။

မြွေ၏ အစာများတွင် ပိုးကောင်များ၊ ငါး၊ ဖား၊ ဖွတ်ပုတတ်များ၊ ငှက်နှင့် ငှက်ဥ၊ မြေကြွက်နှင့် ကြွက်ဝမ်းဖြူ၊ တွင်းယုန်နှင့် အခြား နို့တိုက် သတ္တဝါငယ်များ ပါဝင်သည်။ မြွေအုပ်စု တခုကမူ အခြား မြွေမျိုးစိတ်များလောက်ကိုသာ စားသောက်ကြသည်။ စပါးကြီးမြွေနှင့် စပါးအုံးမြွေများကဲ့သို့သော အချို့ မြွေမျိုးစိတ်တို့သည် သားကောင်ကို ရစ်ပတ်၍ ချေပြီးမှ မျိုလေ့ရှိကြသည်။ အချို့ မျိုးစိတ်ကမူ သားကောင်ကို အဆိပ်ဖြင့် ပေါက်ပြီးမှ မျိုလေ့ရှိကြသည်။ သားကောင်ကို ရစ်ပတ်၍ ညှစ်လေ့ရှိသော မြွေမျိုးစိတ်သည် အကောင်တွင် ကြီးမားသော်လည်း လူကို အခြားမြွေမျိုးစိတ်များလောက် ဘေးအန္တရာယ် မပြုလှချေ။ အချို့မျိုးစိတ်က သားကောင်ကို ပဋ္ဌမ မသတ်ဘဲ အရှင်လိုက် မျိုချလေ့ရှိသည်။ မည်သို့ပင် ဖြစ်စေ မြွေအမျိုခံရသည့် သားကောင်များသည် မြွေ၏ ဝမ်းပိုက်အတွင်းသို့ ရောက်သွားသောအခါ ပျောက်ကွယ်သွားရလေသည်။ မြွေသည် မိမိထက် ကြီးမားသော သားကောင်များကို မျိုနိုင်ခြင်းမှာ မြွေ၏ ပါးစောင်ရိုး အနေအထားနှင့် အခြား ပါးစပ်နှင့် လည်ချောင်းတို့၏ ပတ်ဝန်းကျင်ရှိ အရိုး အစိတ်အပိုင်းများသည် ယေဘုယျအားဖြင့် လျော့လျည်းလျည်း ဆက်နေကြခြင်းကြောင့် ဖြစ်သည်။ အစာကို မျိုချလိုက်ရာတွင် ပါးစောင်ရိုးသည် မနာမကျင်ဘဲ ပြုတ်သွားလေသည်။ ထို

ကြောင့် အရှည်တွင် နှစ်ပေမျှသာရှိ၍ လုံးပတ်တွင် လူ၏ လက်ချောင်းထက် ပို၍မကြီးသော တောင်အာဖရိကတိုက်ရှိ မြွေတမျိုးသည် ကြက်ဥတလုံးကို အခွံမကွဲစေဘဲ မျိုချနိုင်ခြင်းဖြစ်သည်။ သို့သော် ဥသည် မြွေ၏လည်ချောင်းအလွန် လောက်သို့ ရောက်သွားသောအခါ ကျောရိုးမှ စွန်းထွက်နေသော အရိုးစွန်းနှင့်တိုက်မိပြီး ကွဲသွားလေသည်။ ထိုအခါတွင် ဥအခွံ၏ အစအနများသည် ထွက်လာကြလေသည်။

အဆိပ် အပြင်းထန်ဆုံး မြွေများမှာ မြွေဟောက် မျိုးရင်းဝင် မြွေများနှင့် မြွေပွေး မျိုးရင်းဝင် မြွေများ ဖြစ်ကြသည်။ မြွေဟောက်များ အကိုက် (အပေါက်) ခံရလျှင် မိနစ် အနည်းငယ်အတွင်း စကားမပြောနိုင်တော့ချေ။ အဆိပ် ပြင်းထန်သော မြွေမျိုးများ ရှိသကဲ့သို့ လုံးဝ ဘေးအန္တရာယ် မဖြစ်စေတတ်သော မြွေမျိုး အချို့လည်း ရှိသေးသည်။ အချို့ ဒေသများတွင် ထိုကဲ့သို့သော မြွေမျိုးကို ကြွက်ဝမ်းပြူနှင့် မြေကြွက်များ ဖမ်းယူစေရန် အိမ်၌ ချစ်စနိုး တိရစ္ဆာန် အဖြစ်ပင် မွေးမြူထားကြလေသည်။

မြွေသည် များသောအားဖြင့် ဥအုလေ့ရှိသည်။ သို့သော် မြွေပွေးနှင့် ပင်လယ်မြွေမျိုးသည် အကောင်လိုက် မွေးဖွားတတ်ကြသည်။ အမိဝမ်းမှ ကျွတ်လာသော မြွေကလေးများသည် အမိအဖ၏ စောင့်ရှောက် ကျွေးမွေးမှုကို မခံယူဘဲ ဘာသာဘာဝ အစာများကို ရှာဖွေ စားသောက်ကြလေသည်။

မြွေသည် တနှစ်အတွင်း အရေခွံကို ကြိမ်ဖန်များစွာလဲနိုင်၏။ ထိုသို့လဲရာတွင် အရေခွံ၏ အတွင်းဖက်ကို အပြင်သို့ ရောက်အောင် ထုတ်ပစ်ခဲ့ကြသည်။

မြွေသည် အစာကို တနှစ်၊ သို့မဟုတ် တနှစ်မက မစားဘဲ နေနိုင်သော်လည်း အချိန်မှန်မှန်နှင့် မကြာခဏ စားသောက်တတ်သည်။ ထိုသို့ စား၍ ပိုသောအစာများကို အဆီအဖြစ်ဖြင့် ကိုယ်တွင်း၌ သိုလှောင်ထားတတ်သည်။

ရှေးခေတ် လူများသည် မြွေကို ဥစ္စာဓနနှင့် ဉာဏ်ပညာကို ပေးနိုင်စွမ်း ရှိသည်ဟု ယုံကြည်ကြကာ ကိုးကွယ်ခဲ့ကြ၏။ အလယ်ခေတ်လောက်တွင်မူ စုန်းကဝေများနှင့် အဆက်အသွယ် ရှိသည်ဟု ယုံကြည်ခဲ့ကြလေသည်။ ထို့ပြင် ဂူများအတွင်း ဥစ္စာများကို စောင့်ရှောက်နေကြရသော ဥစ္စာစောင့် မြွေကြီးများ၏ ဒဏ္ဍာရီများကိုလည်း မကြာခဏကြားကြရပေသည်။



မြွေဆေးဖော်စပ်ရန်အတွက် သိပ္ပံနည်းအရ စံနစ်တကျ မြွေဆိပ်ထုတ်ယူနေပုံဖြစ်သည်။ ဘီပီအိုင်ခေါ် မြန်မာနိုင်ငံ ဆေးဝါးထုတ်လုပ်ရေး လုပ်ငန်းတွင် မြွေဆိပ်ဖြေ မြွေဆေးများ ထုတ်လုပ်လျက်ရှိသည်။

**မြွေပါ။** ။မြွေပါသည် ဗီဗာရီဒီး မျိုးရင်းဝင်ဖြစ်၍ ရုတ်တရက် ကြည့်က ရှဉ့်ကလေးများနှင့် သဏ္ဌာန် တူသည် ဟု ထင်ရသော်လည်း၊ အမြီးသည် ရှဉ့်ထက် တိုသည့်ပြင် ကိုယ်နေ ကိုယ်ထားလည်း တမျိုးစီဖြစ်၏။ ကိုယ်လုံး ၁၆ လက်မခန့်ရှည်၍ အရောင်ကား ပြာမှိုင်းမှိုင်း ညိုတိုတိုအရောင်ရှိပြီး လျှင် အမွေးရှည်သည်။ ပါးစောင်နှင့် လည်ပင်းတွင်မူ နီကြန်ကြန်အရောင်ရှိ၏။

မြွေပါသည် အလွန်စိတ်ခက်ထန်သော သတ္တဝါဖြစ်သော်လည်း ယဉ်အောင် သင်ရန် လွယ်ကူလေသည်။ မြွေပါကို အာရှတိုက်၊ အာဖရိကတိုက်တို့တွင် များစွာတွေ့ရ၏။ ဥရောပတိုက်တွင်မူ စပိန်နိုင်ငံ၌သာ တွေ့ရလေသည်။ အိန္ဒိယနိုင်ငံရှိ မြွေပါမျိုးစိတ်ကို ပါဏဗေဒ အလိုအရ ဟာပက်စတီးမန်ဂိုဟု ခေါ်၍ ယင်းတို့သည် အီဂျစ်နိုင်ငံရှိ မြွေပါများထက် သေးသည်။

မြွေပါသည် ကြွက်၊ မြွေ စသောသတ္တဝါတို့ကို ကိုက်သတ်နိုင်သဖြင့် ထင်ရှား၏။သို့ရာတွင် အဆိပ်ပြီး၍ကား မဟုတ်၊ ထိုအဆိပ်ပြင်းသော သတ္တဝါများထက် လျင်မြန်မှုကြောင့် ဖြစ်၏။ သူတို့၏ ပါးနပ် လျင်မြန်ခြင်း၊ မျက်စိရှင်ခြင်း၊ အမွေးထူခြင်းတို့ကြောင့် မြွေများက ပေါက်သော်လည်း လွတ်အောင် ရှောင်တိမ်းနိုင်၍ မြွေ၏ ဇက်ပေါ်သို့ ခုန်တက်ကာ ကိုက်သတ်နိုင်လေသည်။ ထို့ပြင် မြွေပါသည် စိတ်ဆိုးသောအခါ အမွေးအမှင်များကို ပွယောင်း ထောင်ကြွစေလျက် မာန်ဖီနိုင်သဖြင့် မြွေသည် မြွေပါကို ထိပါးရန် မလွယ်ကူချေ။ ထို့ကြောင့် မြွေပါသည် မြွေပေါ်များသော အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ အရှေ့အိန္ဒိယ ကျွန်းစု စသည်တို့၌ မြွေဘေး ကာကွယ်ရန် အထူး အသုံးဝင်လေသည်။ သို့ရာတွင် မြွေပါသည် မြွေကိုသာမက အခြား ကြက်ငှက်နှင့် ကြွက်များကိုလည်း ကိုက်သတ် ဖျက်ဆီးတတ်၏။ လွန်ခဲ့သောနှစ်များက ဗြိတိသျှပိုင် အနောက် အိန္ဒိယကျွန်းစုရှိ ဂျမေးကားကျွန်းစုသို့ သွင်းယူမွေးမြူခဲ့ရာ၊လျင်မြန်စွာပေါက်ပွားရှ်၍ လူတို့ မွေးမြူထားသော ဘဲကြက် စသည်တို့ကို အရမ်းမဲ့ ဖျက်ဆီးကြသဖြင့် ယခုအခါ ရှင်ကြီး ကျားထက်ဆိုးသော သတ္တဝါ ဖြစ်နေလေသည်။ ထို့ကြောင့် ပြည်ထောင်စု အမေရိကန်နိုင်ငံတွင် မြွေပါကို မမွေးမြူကြရန် ဥပဒေဖြင့် တားမြစ်ထားလေသည်။

**မြွေပါကြီး။** ။မြွေပါကြီးမျိုးစိတ် အမျိုးမျိုးကို ဥရောပတိုက်၊ အာရှတိုက်နှင့် အမေရိကတိုက် မြောက်ဖက်ပိုင်းတို့တွင် တွေ့နိုင်သည်။ ယင်းတို့သည် မြွေပါမြီးတို မျိုးရင်းဝင် ဖြစ်သည်။ နေရပ်ဒေသကိုလိုက်၍ ပါဏဗေဒအလိုအားဖြင့် မာတီးအမေရိကာနာ၊မာတီးပင်နန်တီ၊ မာတီးဖွိုင်းန စသည်ဖြင့် အမျိုးမျိုး ခေါ်တွင်လေသည်။ သေးသွယ်၍ ရှည်လျားသော ကိုယ်နှင့် တိုသည့် ခြေထောက်များရှိသည်။ အရွယ်မှာ ၁၇ လက်မမှ လက်မ ၄၀ ထိ ရှိတတ်သည်။ မြွေပါကြီးများသည် များသောအားဖြင့် သစ်ခေါင်းများတွင် နေလေ့ရှိသော်လည်း၊ တခါတရံ ကျောက်တွင်းများတွင်လည်း နေလေ့ရှိသည်။ သစ်ပင်တက် အလွန်ကျွမ်းကျင်၍ ရှဉ့်များကဲ့သို့ တပင်မှ တပင်သို့ ခုန်ကူးနိုင်သည်။

မြွေပါကြီးများသည် ယုန်၊ ရှဉ့်၊ ခါနှင့် အခြားငှက်များ၊ ကြွက်နှင့် အခွံမာသီးများကို စားသောက်သည်။ တမျိုး



မြွေထက် ပိုမိုလျင်မြန်ဖျတ်လတ်သည့် မြွေပါ



မြွေပါကြီးမျိုးကို ပူသောတိုင်းပြည်များတွင် တွေ့ရခဲ့သည်။ ဥနှင့် ကြက်ငှက်ငယ်များကို ရှာဖွေ သတ်ဖြတ်စားလေ့ ရှိသဖြင့် တောင်သူလယ်သမားများကို အထူး ဒုက္ခပေးတတ်သော တိရစ္ဆာန်မျိုး ဖြစ်သည်။

လျှင် ခြောက်ကောင်မှ ရှစ်ကောင်အထိ ရှိတတ်သဖြင့် အပွားမြန်သည်။

မြွေပါကြီးများ၏ သားမွေးသည် လူကြိုက်များသော ပစ္စည်းဖြစ်၍ တန်ဖိုးကြီးသည်။ အထူးသဖြင့် ကမ္ဘာ့မြောက်ဖက်စွန်း အနီးတွင် နေထိုင်သည့် မြွေပါကြီးများ၏ သားမွေးများကို ပို၍ ကြိုက်နှစ်သက်ကြသည်။ ဆောင်းတွင်း၌ ဖမ်းယူရရှိသော မြွေပါကြီးများ၏ သားမွေးသည် ပို၍ တန်ဖိုးကြီး၏။ ထိုသို့ ဖြစ်ရသည်မှာ ထိုအချိန်၌ သားမွေးသည် ပို၍ အမွေးထူပြီးလျှင် ပို၍ ရှည်သောကြောင့် ဖြစ်သည်။ ထိုသားမွေးများဖြင့် အနွေးထည်များကို ချုပ်ယူကြသည်။ ထိုသားမွေးဖြင့် လုပ်ယူသည့် ပန်းချီ စုတ်တံများသည်လည်း လွန်စွာကောင်းမွန်သည်ကိုတွေ့ရသည်။

မြွေပါကြီးများကို ထောင်ချောက်များဖြင့် ဖမ်းယူလေ့ရှိကြသည်။

**မြွေပါဖြူ။** ။မြွေပါဖြူကို ပါဏဗေဒ အလိုအရ မတ်စတီလာ အာမိနီယာ ဟု ခေါ်သည်။ ကမ္ဘာ့ မြောက်ပိုင်းဒေသ အလွန်အေးသော နေရာများတွင် မြွေပါဖြူ၏ ဆောင်းရာသီအရောင်မှာ အဖြူရောင် ဖြစ်သည်။ သို့သော် အမြီးဖျား၏ အရောင်မှာ အစဉ်သဖြင့် အမည်းသာ ဖြစ်သည်။ ထိုကဲ့သို့ ဆောင်းရာသီ၌ မြွေပါဖြူ၏အမွေးရောင် ပြောင်းလဲသွားခြင်းသည် မြွေပါဖြူအား အထူး အဆင်ပြေစေသည်။ အဘယ်ကြောင့်ဆိုသော် ရေခဲပြင်ပေါ်တွင် သားကောင်များအား ယင်းတို့၏ရန်သူ လိုက်လာသည်ကို မမြင်စေနိုင်ခြင်းကြောင့်ဖြစ်သည်။ မြွေပါဖြူသည် သေးငယ်သော်လည်း သတ္တိရှိ၍ လျင်မြန်သည်။ ထိုပြင် အငြိမ်မနေဘဲ သတ်ဖြတ်လိုသည့် ဆန္ဒရှိသော တိရစ္ဆာန် ဖြစ်သည်။

မြွေပါဖြူ၏ အလျားသည် အမြီးမပါ ၁၀ လက်မရှိ၏။ အမြီး၏ အလျားမှာ လေးလက်မခန့်ရှိ၍ အမွေးထူသည်။ နွေရာသီတွင် မြွေပါဖြူ၏ အရောင်မှာ အပေါ် ပိုင်း၌ အနီရင့်ရောင်ဖြစ်၍ အောက်ပိုင်းတွင် ဖြူသည်။

မြွေပါဖြူမျိုးစိတ်ကို သမပိုင်းနှင့် အအေးလျော့ပိုင်းဒေသများတွင် မူရင်းဒေသအဖြစ် တွေ့ရသည်။ ချုံများရှိရာနှင့် ကျောက်ပေါများရာ ဒေသများတွင် နေထိုင်သည်။ ထိုပြင် ပွေးကောင်နှင့် အခြား တွင်းအောင်း တိရစ္ဆာန်များစွန့်ပစ်သွားသည့် တွင်းဟောင်း များတွင်လည်း နေထိုင်သည်။ တိရစ္ဆာန် ကလေးများ၊ ငှက်နှင့် ဥများသည် မြွေပါဖြူတို့၏ အစာ ဖြစ်ကြ၏။

အလယ်ခေတ်အတွင်းက မြွေပါဖြူ သားမွေး ပါရှိသော အဝတ်များကို ဘုရင်၊ မိဖုရားနှင့် မင်းညီ မင်းသားများသာလျှင် အသုံးပြုနိုင်ခွင့် ရှိခဲ့ကြသည်။ ထိုနောက်တွင် တရားလွှတ်တော် တရားဝန်ကြီးများ အဝတ်များတွင်သာ ထည့်၍



ကမ္ဘာ့မြောက်ပိုင်းဒေသ အလွန်အေးသော နေရာများတွင် မြေပါဖြူ၏ ဆောင်းရာသီအရောင်သည် အဖြူရောင်ဖြစ်သည်။ နွေရာသီတွင်မူ မြေပါဖြူ၏ အရောင်သည် အပေါ်ပိုင်း၌ အနီရင့်ရောင်ဖြစ်၍ အောက်ပိုင်းတွင် ဖြူသည်။

အသုံးပြုရန် ခွင့်ပေးခဲ့သည်။ ထိုသို့ ပြုလုပ်ခြင်းသည် တရား ဥပဒေ၏ ခန့်ညားဖွယ် ကောင်းကြောင်းကို ဖော်ပြလို၍ဖြစ် ကောင်း ဖြစ်မည်ဟု ယူဆရပေသည်။

**မြေပါမြီးတို။** ။ပါဏဗေဒ အလိုအရ မြေပါ မြီးတိုကို မတ်စတီလာ နီဗာလစ် ဟု ခေါ်သည်။ ယင်းသည် မတ်စတယ်လီဒီး မျိုးရင်းဝင် ဖြစ်၏။ ထိုမျိုးရင်းတွင် မြေပါကြီး၊ ခွေးတူဝက်တူ၊ စကန့်ကောင်နှင့် ဖျံတို့လည်း ပါဝင်ကြသည်။ မြေပါမြီးတိုတွင် ရှည်သော ခေါင်းနှင့် တိုသော ခြေထောက် များရှိသည်။ သွား ၃၄ ချောင်းရှိသည်။ ခြေထောက်၌ ခြေချောင်းကလေး ငါးချောင်းရှိသည်။ မြေပါမြီးတိုသည် အလျား ၁၂ လက်မမှ ၁၅ လက်မထိ ရှည်တတ်ရာ၊ ထိုအလျားတွင် အမြီး၏အလျားက သုံးပုံ တပုံခန့် ပါဝင်သည်။ မြေပါမြီးတိုတွင် အထီးက အမထက် ပို၍ကြီးသည်။

မြေပါမြီးတိုသည် အနံ့ခံကောင်း၍ အမြင်အလွန်သန်၏။ သားကောင်ကို လိုက်ရာတွင် လွန်စွာ လျင်မြန်သည်။ ယုန်သည် အလွန်အပြေးမြန်သည် ဟု ဆိုသော်လည်း မြေပါမြီးတိုကိုမူ လွတ်အောင် ပြေးနိုင်ခဲ့သည်။ ကြွက်ကိုလိုက်ရာတွင် ကြွက်သည် ရန်သူဘေးမှ လွတ်မြောက်စေရန် တွင်းထဲသို့ ပြေးဝင်သော်လည်း မြေပါမြီးတိုသည် တွင်းထဲသို့ပင် ကြွက်ကို မမိမခြင်း လိုက်ဖမ်းလေ့ရှိသည်။ မြေပြင်မှ အတော်မြင့်မြင့်တွင် ပျံနေသော ငှက်ကိုလည်း ခုန်၍ ဖမ်းယူနိုင်သည်။ သားကောင်ကို တိုက်ခိုက်ရာတွင် လည်ကုပ်၊ သို့မဟုတ် လည်ချောင်းကို ကိုက်ခဲထားပြီးလျှင် သွေးကို စုတ်ယူလေ့ရှိသည်။ ထိုနောက် ဦးနှောက်ကို စားလေ့ရှိသည်။ ထိုမျှနှင့် မဝသေးသောအခါမှ ကျန်အစိတ်အပိုင်းများကို စားလေ့ ရှိသည်။



ရန်သူကြီးငယ်မရွေး ခုခံ ပြန်လှန်တိုက်ခိုက်လေ့ရှိသည့် မြေပါမြီးတို

ထိုသို့ သားကောင်များကို ရက်စက်ကြမ်းကြုတ်စွာ လိုက်၍ ကိုက်သတ် စားသောက်နိုင်သော်လည်း၊ ယင်းတို့ကိုယ်တိုင်လည်း ဇီကွက်၊သို့မဟုတ် သိမ်းငှက်တို့၏ သုတ်ယူစားသောက်ခြင်းကို ခံရတတ်ကြသည်။ မြွေပါမြီးတိုသည် ကြွက်၊ ပွေး၊ ဂရောက်ရစ်၊ ယုန်နှင့် ကြက်ကလေးများကို ကြိုက်နှစ်သက်သည်။ ငှက်ဥများကိုလည်း ခိုးစားတတ်သည်။ ယင်းတို့သည် လူတို့ မွေးမြူထားသည့် ကြက်များကို စားသောက်ပစ်ခြင်းဖြင့် အနှောင့်အယှက် ဖြစ်စေသော်လည်း၊ လူတို့၏ ရိက္ခာဖြစ်သော သီးနှံပင်များကို ဖျက်ဆီးသည့် သတ္တဝါများကို သုတ်သင် ရှင်းလင်း ပေးခြင်းဖြင့် လူတို့အား အကူအညီ ပေးလေသည်။

မြွေပါမြီးတိုသည် သစ်ပင်အိုကြီးများ၏ အမြစ်များ အကြားရှိ အပေါက်များတွင် သစ်ရွက်ခြောက်နှင့် မြက်များဖြင့် ပြုလုပ်ထားသော အသိုက်တွင် နေထိုင်သည်။ ဆောင်းရာသီအတွက် အစာကို သိုလှောင်စားတတ်၏။ ထိုအချိန်၌ သားပေါက်ကြ၍ တမြုံလျှင် သားငယ် ငါးကောင် ခြောက်ကောင် ရှိတတ်သည်။ ရန်သူသားကောင်အပေါ်၌ ရက်စက်သော်လည်း မိမိတို့၏ သားငယ်များ အပေါ်တွင်မူ ကြင်နာကြသည်။ သားငယ်များ ကြီးပြင်းလာသည့် တိုင်အောင် အစာကို ရှာဖွေကျွေးမွေးသည်။

မြွေပါမြီးတိုသည် အစာကို လိုသည်ထက် ပို၍ သတ်တတ်သည်။ မြင်းနှင့်နွားများကိုပင် တိုက်ခိုက်တတ်ကြောင်း မှတ်တမ်းတွင် တွေ့ရသည်။

မြွေပါမြီးတို၏ ဆောင်းရာသီအရောင်မှာ အဖြူဖြစ်သည်။ အနွေးထည်များ ချုပ်လုပ်ရန်အတွက် မျာသောအားဖြင့် မြောက်အမေရိကတိုက်နှင့် ဆိုက်ဗီးရီးယား ပြည်နယ်များမှ မြွေပါမြီးတိုတို့၏ သားမွေးများကို အသုံးပြုလေ့ ရှိကြသည်။



နာမည်ကျော် မင့်ခေါ် သားမွေးရှည် အနွေးထည်အတွက် လူတို့၏ သတ်ဖြတ်ခြင်းခံရသည့် မြွေပါမွေးရှည်

**မြွေပါမွေးရှည်။** ။မြွေပါမွေးရှည်သည် မြွေပါမြီးတိုနှင့် တူ၍ မတ်စတီလာ မျိုးစုဝင် ဖြစ်သည်။ လူသိအများဆုံးဖြစ်သော မြွေပါမွေးရှည် မျိုးစိတ်နှစ်ခုမှာ မတ်စတီလာ လတ်ထရီယိုလာနှင့် မတ်စတီလာ ဗီဆန် တို့ ဖြစ်ကြသည်။ မတ်စတီလာ လတ်ထရီယိုလာမျိုးစိတ်ကို ဥရောပတိုက် အရှေ့ပိုင်းတွင်တွေ့ရ၍ မတ်စတီလာ ဗီဆန်မျိုးစိတ်ကို မြောက်အမေရိကတိုက်တွင် တွေ့ရသည်။ ထိုမျိုးစိတ် နှစ်ခုသည် လွန်စွာတူကြ၏။ မြောက်အမေရိကတိုက်တွင် တွေ့ရသော မြွေပါမွေးရှည်သည် အမွေးထူသော ရှစ်လက်မခန့်ရှိ အမြီးအပါအဝင် နှစ်ပေမျှ ရှည်သည်။ သေးငယ်သည့် နားရွက်၊ ရှည်သောလည်ပင်းနှင့် တိုသောခြေထောက်များ ရှိသည်။ ဥရောပတိုက် မြွေပါမွေးရှည်မျိုးသည် အမေရိကတိုက် မြွေပါမွေးရှည်မျိုးထက် အနည်းငယ် သေးငယ်သည်။

အမျိုးသမီးများ အထူးနှစ်သက်သော သားမွေး အနွေးထည်များကို မြွေပါမွေးရှည်၏ သားမွေးများဖြင့် ချုပ်ယူလေ့ရှိကြသည်။

မြွေပါမွေးရှည်များသည် တောများနှင့် ကွင်းပြင်များရှိ ချောင်း မြောင်း အင်းအိုင်တို့၏ ကမ်းပါးများတွင် နေထိုင်လေ့ရှိကြသည်။ ယင်းတို့သည် ရေကူး ရေငုပ်ရာ အလွန်ကျွမ်းကျင်သည်။ အစာကို ကုန်းနှင့် ရေ နှစ်မျိုးစလုံးမှာပင် ရှာဖွေကြသည်။ ငှက်များကို အစာအဖြစ် ကြိုက်နှစ်သက်ကြ၍၊ တခါတရံ သစ်ပင်များကိုပင် တက်၍ ငှက်သိုက်များရှိ ငှက်ဥများကို ခိုးစားလေ့ရှိကြသည်။ ထိုပြင် ဖား၊ ငါးနှင့် ဖွတ် ပုတတ်များကိုလည်း စားသောက်ကြသည်။

ကမ္ဘာ့ မြောက်ပိုင်းတွင် တွေ့ရသော မြွေပါ မွေးရှည်တို့၏ သားမွေးသည် အကောင်းဆုံး ဖြစ်၏။ အရောင်မှာ များသောအားဖြင့် အညိုရင့်ရောင် ဖြစ်သည်။ ကျောဖက်ရှိ အရောင်မှာ ပို၍ရင့်ပြီးလျှင်၊ အမြီး၏အရောင်မှာ အနက်နီးပါး ဖြစ်သည်။

မြွေပါမွေးရှည်တို့သည် ချောင်း မြောင်း အင်းအိုင် ကမ်းပါးရှိ တွင်းများ၊ သစ်တုံးရှိတွင်းများ၊ သို့မဟုတ် ကျောက်ဆောင်ရှိ တွင်းများတွင် တနှစ်တခါ ဧပြီလလောက်တွင် သားပေါက်ကြ၏။ တမြုံလျှင် သားငယ် ငါးကောင် ခြောက်ကောင် ရှိတတ်သည်။

မြွေပါမွေးရှည်အမသည် အထီးထက် ငယ်သည်။ အမြီးသည် အမွေးထူ၍ အဖျားဖက်သို့ ရှူးသွားသည်။ မြွေပါမွေးရှည်သည် ရန်သူနှင့် မရှောင်သာသော အခါများတွင် ကြောက်မက်ဖွယ် ကောင်းအောင် တိုက်ခိုက်တတ်၍၊ အနံ့ဆိုးများကိုလည်း ထုတ်လွှတ်တတ်သည်။

ဥရောပတိုက်နှင့် အမေရိကတိုက်များရှိ သားမွေးလုပ်ငန်းများတွင် မြွေပါ မွေးရှည်များကို မွေးမြူကြရာ အောင်မြင်လျက် ရှိပေသည်။

**မြွား၊ ဒိုင်း။** ။ဒိုင်းမြွား — ရှု။

**မြွားနတ်မောင်ပုံပြင်။** ။ကျူးပစ်နှင့် ဆိုက်ကီး — ရှု။



မြန်မာဗျည်း ၃၃ လုံးတွင် ယ သည် ၂၆ ခုမြောက် အက္ခရာ ဖြစ်သည်။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ ဟူသော အ ဝဂ်တွင်ပါဝင်၍ ယ အသံ၏ ဖြစ်ရာဌာနမှာ တာလုဌာန် အာစောက်အရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဍာန်ကိုလိုက်၍ ယ ပက်လက်ဟု အမည်တွင်သည်။ ယ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ကျောက်ဆူးပုံသဏ္ဍာန်ရှိသော ဗြာဟ္မီ အရေးအသား တွင် အလယ်၌ ထောင်မတ်နေသော မျဉ်းကို ထိပ်စွန်း ၂ ဖက်နှင့်ညီအောင် ညှိပြီး ရေးဖန်များသောအခါ မြန်မာအက္ခရာ ယ ဖြစ်ပေါ်လာသည်။ ယ အက္ခရာ၏ အဆင့်ဆင့် ပြောင်းလဲပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**ယတြာ။** ။လိုအပ်သောအကျိုး၊ မလိုအပ်သော အကျိုးနှစ်ပါးတို့ကို ကောင်းစွာ ဖြစ်စေတတ်၊ ရောက်စေတတ်သောကြောင့် ယတြာဟု ခေါ်သည်။ မတည်မငြိမ် နေရာရွှေ့ပြောင်းခြင်း စသော ကျိန်းချေခြင်းကို ယတြာချေသည်ဟု ခေါ်၏။ စစ်တိုက်ဝံ့အောင် လေ့ကျင့်ပြီးသော ဆင်မြင်းကို ယတြာရပြီးဆင်မြင်းဟု ခေါ်သည်။

ဆပွတ်၊ ပဥ္စပွတ်၊ စတုရန်း၊ တြိရန်းတို့ကို အကြောင်းပြု၍ ယတြာဆင်ခြင်း၊ ယတြာချေခြင်း၊ ဓာတ်ပြန်ခြင်း၊ အပဓာတ် ယတြာဖြင့် လူနာကို ကုသခြင်း စသည်တို့ကို ပြုရလေသည်။

'သူ့ကိုနိုင်လို၊ ဆနှင့်ခို၊ လိုရာ ဆေးဖော်သုံး' ဆိုသည့် လင်္ကာအရ တဦးတယောက်အား ကြာသပတေးနံ ဖြစ်သော 'မြွေ' ကိုက်လျှင် ထိုမြွေဆိုသည့် ကြာသပတေးနံကို အခြေခံထားလျက် ထိုကြာသပတေးနံ၏ ဆပွတ်ဖြစ်သော အင်္ဂါနံဖြစ်သည့် 'မီးစ' နှင့် ကိုက်မိသော နေရာတွင် ထိုးပေးလျှင် မြွေဆိုး၊ မြွေကြမ်း အကိုက်ခံရသည်ပင် ဖြစ်လင့်ကစား မြွေကိုက်ခံရသူသည် မုချချမ်းသာခွင့်ကို ရနိုင်ပေသည်။ နောက်မှ မီးစနှင့်ထိုးသော အနာကို ပျောက်ကင်းအောင် ကုသနိုင်သည် ဟု ဆိုသည်။

တနည်း စနေအဖျားနံဖြစ်သော 'လင်းတ' ငှက်ကို ထိုနံ၏ ဆပွတ်ဖြစ်သော ကြာသပတေးနံဖြစ်သည့် 'ဖော့' နှင့် မကြာခဏ ရိုက်နှက်ပေးလျှင် ထိုငှက်သည် ဓာတ်ခိုက်ပြီးလျှင် အမှန်သေဆုံးမည် ဟု ဆိုလေသည်။

ဓာတ်ပြန်အကြောင်းနှင့် စပ်လျဉ်း၍ 'လက်ပံ မြင်းလား၊ မှတ်သားတခန်း၊ ဖွဲကြမ်း ကင်ပွန်း၊ ဓာတ်ပြန် ညွှန်း၏' ဟူ၍ လာရှိရာ ဓာတ်ခိုက်ပုံကို သိလိုလျှင် အသီးရှိသော လက်ပံပင်ကို မြင်းလား၏ အစွယ်နှင့် ရိုက်ပေးလျှင် အပင်ပေါ်ရှိ အသီးများအားလုံး ကြွေကျကုန်သည်ကိုငင်း၊ အသီးရှိသော ကင်ပွန်းပင်၏ အရင်း၌ ဖွဲကြမ်းများကို စုပုံ၍ မီးရှို့လိုက်လျှင် အပေါ်သို့ မီးခိုးတက်၍ အသီးများကို အငွေ့ဓာတ်ထိသည်နှင့် တပြိုင်နက် အသီးများ ကြွေကျလာသည်ကိုငင်း တွေ့ရလိမ့်မည် ဟု ဆို၏။ ယတြာကောင်းလျှင် မင်းလောင်း ပျောက်သည်ဟုလည်း ဆိုလေသည်။

ရှေးမြန်မာဘုရင်များ လက်ထက်က ယတြာပြုခြင်းကြောင့် အကျိုးပြီးပုံကို သာဓကအဖြစ် ဖော်ပြရသော် သက္ကရာဇ် ၉၆၇ ခုနှစ်၌ အင်းဝမြို့ကို အုပ်စိုးလျက်ရှိသော အနောက်ဖက်လွန်မင်းတရားကြီးသည် တောင်ငူကို တိုက်ခိုက်လိုသဖြင့် မိမိကိုးကွယ်သည့် ဘားမဲ့ဆရာတော်အား လျှောက်ထားရာတွင် ဆရာတော်က တောင်ငူကို နိုင်လိုလျှင် တောင်ငူကို ပြောင်းပြန် (ဓာတ်ပြန်) ပြု၍ 'ငူတောင်' နှင့် နံတူဖြစ်သော ခံတက်ပင်ကို ရှာပြီးလျှင် မင်းတရားကြီး၏ နေ့နှင့်ဆိုင်ရာ တေဇအရပ်ရှိ ခံတက်ပင်တွင် မူလအခြေခံဖွယ် တပ်စခန်းချ၍ လုပ်ကြံလျှင် အောင်မြင်လိမ့်မည်ဟု မိန့်တော်မူလေသည်။

မင်းတရားကြီးသည် စစ်သည်တော် အမြောက်အမြားနှင့် တောင်ငူသို့ ချီတက်သွားပြီးလျှင် မင်းတရားကြီး၏ တေဇ အရပ်တွင် ခံတက်ပင်ကို ရှာဖွေစေသည်။ ရုတ်တရက်တွင် မတွေ့ရသော်လည်း အဆောက်အအုံများ ဆောက်လုပ်ရန် ထားရှိသော ပျဉ်ပုံကို ရွှေ့လိုက်သောအခါတွင် မင်းတရားကြီး၏ တေဇအရပ်၌ပင် ခံတက်ပင်ကို တွေ့ရှိသဖြင့် ထိုနေရာ၌ပင် တပ်စခန်းကို ချစေလေသည်။

သို့သော် တောင်ငူမြို့ရှိ ဘုရင်မင်းမြတ် ကိုးကွယ် ဆည်း

ကပ်ထားသော ရှင်မုန်ယို အမည်ရှိသည့် ဆရာတော်က လည်း ယတြာဆင်ထားသဖြင့် ကျွဲခေါင်းရိုးနှင့် နွားခေါင်း ရိုး ပုံသဏ္ဌာန်များသည် လာ၍ တဖက်စစ်သည်တော်များ ဖြစ်သော လူ၊ မြင်းနှင့် ဆင်များကို လိုက်လံပစ်ခတ်ကြ သဖြင့် မင်းတရားကြီး၏တပ်သည် မကြာခဏ လန့်ဖျပ်လေ သည်။ ထိုကြောင့် မင်းတရားကြီးသည် ဘားမဲ့ဆရာတော် ထံသို့ မြင်းစေကျော်များ လွှတ်၍ ထိုအကြောင်းကိုလျှောက် စေလေသည်။ ဘားမဲ့ဆရာတော်သည် ထိုအကြောင်းကို သိရသောအခါ မည်သို့မျှ မိန့်ကြားတော်မမူဘဲ ဒေါက်ချာ တခုကို ယူကာ ဦးခေါင်း၌ စွပ်၍ အတန်ငယ်ကြာက ဦး ခေါင်းမှ ချွတ်ကာ ကြမ်းပြင်ပေါ်သို့ ပစ်ချပြီးလျှင် ကျက် သရေခန်းတွင်းသို့ ဝင်သွားရာ ပြန်၍မထွက်တော့ချေ။ မြင်း စေကျော်များသည် တာရှည်မနေဝံ့ကြသဖြင့် အလျင်အ မြန် မင်းတရားကြီးထံသို့ ပြန်ကြပြီးလျှင် အကြောင်းစုံကို သံတော်ဦး တင်ကြလေသည်။

ထိုအခါ မင်းတရားကြီးက ဤကိစ္စသည် ဘာသာရေး၊ သာသနာရေးနှင့် သက်ဆိုင်၍သော ဆရာတော်က မမိန့် ကြားလိုက်ခြင်း ဖြစ်ရမည်ဟု စဉ်းစားပြီးလျှင် အတိတ် နိမိတ်ကို ကောက်ယူတော်မူလေသည်။ နိမိတ်ကောက်ယူ တော်မူပုံမှာ တောင်ငူမြို့နှင့် တပိုင်တည်း တည်ခဲ့သော မြတ်စောညီနောင်ဘုရားမှ ထီးတော်ကို ချစေလိုခြင်း ဖြစ် ရမည် ဟူ၍ ဖြစ်သည်။ ထိုသို့ကောက်ယူပြီးသည်နှင့် တပိုင် နက် မြတ်စောညီနောင် ဘုရားမှ ထီးတော်ကို ချစေသည်။ ထိုသို့ချပြီးသည်နှင့် တပိုင်နက် ယခင် ကျွဲခေါင်းရိုးနှင့် နွားခေါင်းရိုး သဏ္ဌာန်များလည်း ပျောက်ကွယ်ကုန်ကြလေ သည်။ ဤသို့ဖြင့် အနောက်ဖက်လွန် မင်းတရားကြီးသည် တောင်ငူကို ဆက်၍ တိုက်ခိုက်ရာ ကောင်းစွာ အောင်မြင် ခဲ့လေသည်။

**ယမနေပင်**။ ။ယမနေပင်ကို ရုက္ခဗေဒ အလိုအရ ဂမီလီ နာ အာဗိုရီယ ဟု ခေါ်သည်။ အိန္ဒိယ၊ မြန်မာ၊ သီဟိုဠ်နှင့် မလေးရှားနိုင်ငံများတွင်ယမနေပင်များပေါက်ရောက်သည်။ မြန်မာနိုင်ငံတွင် စိုစွတ်သော သစ်တောများ၌ မြေပြင်မှ ပေ ပေါင်း ၃,၅၀၀ အထိတွင် ယမနေပင်တို့သည် ဝါးပင်များနှင့် ရောနှော၍ ပေါက်ကြသည်။ ယမနေပင်သည် ပေ ၆၀ ထိ မြင့်နိုင်၍၊ ယင်းတွင် အရိပ်ကောင်းကို ဖြစ်စေနိုင် သည့် အဖက်ဖက်သို့ ဖြာထွက်နေကြသော အကိုင်းများနှင့် အရွက်များ ရှိသည့် ထိပ်ပိုင်း ရှိသည်။ အခေါက်တွင် ညိုမွဲမွဲ အရောင်ရှိ၍ အခေါက်ဟောင်း ကွာသွားသည့် နေရာတွင် အညိုရောင် ပျော့ပျော့အကွက်များ ရှိသည်ကို မြင်နိုင်ပေ သည်။ အရွက်များသည် နှလုံးပုံ (ညောင်ရွက်ပုံ) ရှိကြသော် လည်း ချွန်သည်။ အရှည်မှာ ငါးလက်မဖြစ်၍ ရိုးတံရှည်များ ရှိသည်။ အပွင့်များသည် တောက်ပသည့် အဝါရောင် ဖြစ် ကြသော်လည်း အညိုရောင် သန်းနေကြသည်။ အသီးများ သည် အသားများ၍ ကြက်ဥပုံ ခွံမာသီးဖြစ်သည်။ တလက် မခန့် ရှည်၍ ချောမွတ်သည်။ မှည့်သောအခါ အဝါရောင် ဖြစ်လာသည်။

ယမနေပင်သည် လှပသော်လည်း နွေအခါ၌ နှစ်လခန့် အရွက်များ ပြုတ်နေတတ်သည်။ ထိုအချိန်၌ အပွင့်များ ပွင့်လာတတ်သည်။ ယမနေပင်သည် အကြီးမြန်သောအပင် မျိုးဖြစ်၍ ယင်းကို မျိုးစေ့မှဖြစ်စေ၊ အကိုင်းဖြတ်၍ ဖြစ်စေ စိုက်ယူနိုင်သည်။ မိုးမစမီ အသီးများ မှည့်ကြသည်။ မျိုး စေ့များမှ အညှောက်များသည် လွယ်လင့်တကူနှင့် ထွက် မလာကြချေ။ ကျွန်းပင်ကို စိုက်ပျိုးသကဲ့သို့ စိုက်ပျိုးယူ သင့်သည်။ နောက်တမိုးတွင် အပင်ကလေးများကို စိုက် နိုင်ပေသည်။ ဇူလိုင်နှင့် ဩဂုတ်လများတွင် အကိုင်းများကို ဖြတ်၍စိုက်လျှင် အမြစ်များသည် လွတ်လပ်စွာ ထွက်လာ နိုင်ကြလေသည်။ လမ်းဘေးတွင် ယမနေပင်များ စိုက်လျှင် တပင်နှင့် တပင်ကို ပေ ၄၀ ခွာ၍ စိုက်သင့်ပေသည်။

ယမနေသားသည် ဖြူဖယ်ဖယ် အရောင်ရှိ၍ ပေါ့ပါး ပျော့ပျောင်းသည်။ အသားသေအောင် ပြုလုပ်ရန် လွယ် ကူ၍ အရောင်တင်ခံသော အသားလည်း ဖြစ်သည်။ ထို ကြောင့် ယမနေသားသည် အိမ်အသုံးအဆောင်ပစ္စည်းများ၊ သေတ္တာများနှင့် ကြမ်းခင်းများအတွက် ကောင်းမွန်သည်။ ပန်းပုထုရန်နှင့် မှန်ကူကွက်များဖော်ရန်လည်း အသုံးပြုနိုင် သည်။ ယမနေသားကို လောင်းလုပ်ရာနှင့် လှေစပ်ရာတွင် လည်း အသုံးပြုကြသည်။

မြန်မာနိုင်ငံတွင် သစ်သားအမျိုးမျိုး ရှိသည့် အနက် စက္ကူပြုလုပ်ရန် ကောင်းမွန်သော သစ်သားမျိုးတွင် ယမနေ သားလည်း ပါဝင်သည်။ နှောသားနှင့် ယမနေသားတို့ သည် မြန်မာနိုင်ငံတွင် ပုံနှိပ်ဗလောက်တုံးများ ပြုလုပ်ရန် သင့်တော်သော သစ်သားများ ဖြစ်ကြသည်။

ယမနေရွက်ကို ညှစ်၍ရသော အရည်ဖြင့် ယဉ်းနေသော အနာများကို ကုသနိုင်သည်။ ယမနေမြစ်ကိုလည်း အစာ အိမ် အားတိုးဆေးအဖြစ် အသုံးချနိုင်ပေသည်။

တနင်္သာရီတိုင်း၌ ပေါက်သော ယမနေ အနီပင်၊ ယမနေ အဖြူပင်နှင့် တောင်ယမနေပင်တို့သည် အပင်ငယ်များ ဖြစ် ကြသည်။

**ယမမင်း**။ ။စာတုမဟာရာဇ်နတ်တို့တွင် အပါအဝင် ဖြစ် သော ဝေမာနိကပြိတ္တာမင်းကို ခေါ်ခြင်းဖြစ်သည်။ ထိုယမ မင်းသည် တခါတရံ နတ်စည်းစိမ်ကို ခံစား၍၊ တခါတရံတွင်မူ မကောင်းမှုကံ၏ အကျိုးကို သာမန် ပြိတ္တာများကဲ့သို့ပင် ခံစားရသည်။

ယမမင်းသည် တဦးတည်းရှိသည် မဟုတ်။ အဝီစိ ငရဲကြီးတွင် တံခါး လေးမျက်နှာရှိရာ တမျက်နှာလျှင် တယောက်ကျစီ စိုးအုပ်စောင့်နေရသည်ဖြစ်၍ လေးဦးရှိသည်။ အဝီစိငရဲကြီး၌ ယမမင်း လေးဦးရှိသကဲ့သို့ ကြွင်းသောငရဲ ခုနစ်ထပ်တို့၌လည်း ယမမင်း လေးယောက် လေးယောက်စီ ရှိသဖြင့်၊ ငရဲကြီး ရှစ်ထပ်တို့၌ ယမမင်းပေါင်း သုံးဆဲ့နှစ်ယောက် ရှိလေသည်။

ငရဲသို့ ကျရောက်လာ သူတိုင်းပင် ယမမင်း၏ အစစ်အဆေးကို ခံရသည်မဟုတ်။ အကုသိုလ်အားကြီး၍ ပြစ်မှုထင်ရှားသူတို့သည် တခါတည်း ငရဲသို့ ကျကြရကုန်သည်။ အကုသိုလ် နည်းပါးသူများအတွက်သာ လွတ်လိုလွတ်ငြား အနေဖြင့် ယမမင်းထံတွင် အစစ်ဆေးခံခွင့် ရရှိလေသည်။ ယမမင်းသည် မိမိရှေ့မှောက်သို့ ရောက်ရှိလာသော ငရဲသားအား ဒေဝဒူတ ငါးမျိုးကိုဖော်ပြလျက် စစ်ဆေးလေ့ရှိသည်။ ဒေဝဒူတဆိုသည်မှာ ယမမင်း၏ တမန်တော် ဟု အဓိပ္ပါယ်ရသည်။ ယမမင်း၌ တမန်တော် ငါးဦးရှိရာ (၁) ကလေး၊ (၂) သူအို၊ (၃) သူနာ၊ (၄) သူသေ နှင့် (၅) အာဏာသား တို့ ဖြစ်သည်။ စစ်ဆေးပုံမှာ —

ယမမင်း—မောင်မင်းသည် လူ့ပြည်၌ ရှိစဉ် မိမိ၏ ကျင်ကြီးကျင်ငယ်ကိုပင် မသုတ်သင်နိုင်ဘဲ၊ ကျင်ကြီးကျင်ငယ် ထဲ၌ လူးကာလိမ့်ကာ နေရရှာသော ကလေးများကို မတွေ့ခဲ့ဘူးသလော။

ငရဲသား — တွေ့ခဲ့ဘူးပါသည်။

ယမမင်း—မိမိကိုယ်တိုင် နားလည်သောအရွယ်သို့ ရောက်သောအခါ ထိုကလေးများကို ကြည့်ရှု၍ ငါသည် ဤကဲ့သို့ ဘာမျှ နားမလည်ရှာသော ယခုကလေးကဲ့သို့ဖြစ်ရန် နောင်ခါ ပဋိသန္ဓေ နေရချေဦးမည်။ ပဋိသန္ဓေ နေခြင်းသဘောကို မလွတ်မြောက် နိုင်သေး။ ယခုအခါမှ စ၍ ကိုယ်၊ နှုတ်နှင့် စိတ်ကို စောင့်စည်းလျက် ကောင်းကောင်းနေမှ တော်တော့မည် ဟု အကြံအစည်များ မဖြစ်ခဲ့ဘူးလား။

ငရဲသား—ကျွန်တော် မေ့လျော့သည့်အတွက် ကုသိုလ်ကောင်းမှုဖက်၌ စိတ်မဝင်စားမိခဲ့ပါ။

ယမမင်း — မကောင်းမှုကို ဆွေမျိုး၊ ဉာတိ၊ ဆရာ၊ မိဖ စသည်တို့က ပြုပေးကြသည် မဟုတ်။ မောင်မင်းကိုယ်တိုင် ပြုခဲ့သည် ဖြစ်၍ ပြုခဲ့သမျှ အပြစ်ဒဏ်ကို မေ့လျော့သူတို့ ထုံးစံအတိုင်း မောင်မင်းသာ ခံရချေတော့မည်။

အထက်ပါနည်းအတိုင်း ဒုတိယအကြိမ် သူအိုကိုညွှန်ပြ၍ တတိယအကြိမ် သူနာကိုညွှန်ပြ၍၊ စတုတ္ထအကြိမ် သူသေကို ညွှန်ပြ၍၊ တဖန် ပဉ္စမအကြိမ် အာဏာသားကို ညွှန်ပြ၍ မေးပြန်သည်။ ထိုသို့ ယမမင်းက မေးမြန်းသဖြင့် ပဌမ အကြိမ်တွင် ကုသိုလ်ကောင်းမှု ပြုခဲ့ဘူးသည်ကို သတိပြန်ရသော ငရဲသားသည် ငရဲသားဘဝမှ စုတေပြီးလျှင် သုဂတိဘဝသို့ ရောက်သွားလေသည်။ ထိုသို့ ပဌမ တမန်တော်နည်းဖြင့် သတိပေး၍ ကုသိုလ်ကောင်းမှု ပြုလုပ်ခဲ့ဘူးသည်ကို သတိမရသေးလျှင် ဒုတိယတမန်တော်နည်းဖြင့် မေး၍ သတိပေးပြန်သည်။ ထိုနည်းဖြင့် သတိမရသေးလျှင် တတိယ တမန်တော် နည်းဖြင့် မေး၍ သတိပေးပြန်သည်။ ထိုနည်းဖြင့် သတိမရသေးလျှင် စတုတ္ထ တမန်တော်နည်းဖြင့် မေး၍ သတိ ပေးပြန်သည်။ ထိုနည်းဖြင့် သတိမရသေးလျှင် ပဉ္စမ တမန်တော် နည်းဖြစ်သော အာဏာသားနည်းဖြင့် သတိ ပေးပြန်သည်။ သတိပေးပုံမှာ —

ယမမင်း — မောင်မင်းသည် လူ့ပြည်၌ ဖြစ်သောအခါက "အိုလူများအပေါင်းတို့၊ ငါ့ကိုရှုကြကုန်လော့၊ ငါသည် လက်ခြေကိုဖြတ်ခြင်း အစရှိသော သုံးဆဲ့နှစ်ပါးသော မကောင်းမှုတို့ကို ပြုသဖြင့် နှိပ်စက်ညှဉ်းပန်းသည် ရှိသော်၊ တောတောင်၊ မြေပြင်၊ သစ်ပင်၊ အုတ်ကျောက် စသည်တို့၌ နှိပ်စက်ညှဉ်းပန်းသည် မဟုတ်။ သင်တို့ကဲ့သို့ ဝိညာဉ်ရှိသူ လူတို့၌သာ နှိပ်စက် ညှဉ်းပန်းသည်။ ထို့ကြောင့် သုံးဆဲ့နှစ်ပါးသော မကောင်းမှုတို့ကို ပြုသဖြင့် မနှိပ်စက် မညှဉ်းပန်းမီ ကာလက မဂ်ဖိုလ်နိဗ္ဗာန်သို့ ရောက်ကြောင်း ကောင်းမှု ကုသိုလ်ကို ကြိုးစား အားထုတ်ကြကုန်လော့" ဟု မတိုက်တွန်းသော်လည်း တိုက်တွန်းဘိသကဲ့သို့ အာဏာသားကို မြင်သောအခါ ဤသူသည် သူတပါးကိုသာ နှိပ်စက်ညှဉ်းပန်းသည်မဟုတ်၊ ငါ့ကိုလည်း နှိပ်စက်ညှဉ်းပန်းလိမ့်မည် ဟု နှလုံးပိုက်၍ မဂ်ဖိုလ်နိဗ္ဗာန်သို့ ရောက်ကြောင်း ကောင်းမှုကုသိုလ်တရားကို အောက်မေ့အားထုတ်ခဲ့ဘူး၏လော။

ငရဲသား—အားမထုတ်ခဲ့ဘူးပါ။

ယမမင်း—မကောင်းမှုကို မောင်မင်း၏ ဆွေမျိုး ဉာတိ၊ဆရာ၊မိဖ စသည်တို့က ပြုပေးကြသည်မဟုတ်၊ မောင်မင်းကိုယ်တိုင် ပြုခဲ့သည်ဖြစ်၍ ပြုခဲ့သမျှ အပြစ်ဒဏ်ကို မေ့လျော့သူတို့ ထုံးစံအတိုင်း မောင်မင်းသာလျှင် ခံရချေတော့မည်။

ထိုသို့ သတိပေးလျက်နှင့်မှ ကောင်းမှုကုသိုလ် ပြုလုပ်ခဲ့ဘူးသည်ကို သတိမရသေးလျှင်၊ ယမမင်းသည် ထိုငရဲသား လူဖြစ်စဉ်က ကုသိုလ်ကောင်းမှု ပြုလုပ်ပြီးလျှင် မိမိအား အမျှပေးဝေခဲ့ဘူးသလော ဟု စဉ်းစားပြန်သည်။ စဉ်းစား၍ သတိရလျှင် ထိုငရဲသား ပြုလုပ်ခဲ့ဘူးသည့် ကုသိုလ်ကောင်းမှုကို သတိပေးလေသည်။ ထိုသို့ သတိပေးသဖြင့် ငရဲသားက မိမိ ပြုလုပ်ခဲ့ဘူးသည့် ကုသိုလ်ကောင်းမှုကို သတိရလျှင်၊ ငရဲသားဘဝမှ စုတေပြီးလျှင် သုဂတိဘဝသို့ ရောက်သွားလေသည်။

ထိုသို့ အထက်ပါ ဒေဝဒူတ ငါးမျိုးကို ဖော်ပြလျက်၊ ငရဲသားကို သတိပေးလျက်နှင့် ငရဲသားက မိမိကုသိုလ်ကောင်းမှု ပြုလုပ်ခဲ့ဘူးသည်ကို သတိမရလျှင်ဖြစ်စေ၊ ယမမင်းက

ရေသားသည် လူဖြစ်စဉ်က ကုသိုလ်ကောင်းမှုကို ပြုလုပ်ပြီးလျှင် မိမိအား အမျှပေးဝေခဲ့ဘူးသည်ကို စဉ်းစား၍ မရသောအခါတွင်ဖြစ်စေ ဆိတ်ဆိတ်သာနေလိုက်လျှင်၊ရေထိန်းတို့က ထိုရေသားအား အလုံ့တပြောင်ပြောင် တောက်လောင်လျက်ရှိသော သံမြေပြင်သို့ ဆွဲငင်ပြီးလျှင် အလုံ့တပြောင်ပြောင် တောက်လောင်နေသော သံဆောက်ပုတ်တို့ဖြင့် ရိုက်နှက်၍ အမျိုးမျိုး ညှဉ်းပန်း နှိပ်စက်ခြင်းကို ပြုလုပ်ကုန်ကြလေသည်။

**ယမုနာမြစ်။** ။ယမုနာမြစ်သည် အိန္ဒိယနိုင်ငံ မြောက်ပိုင်းရှိ၊ ဂင်္ဂါမြစ်၏ အရေးအကြီးဆုံး မြစ်လက်တက်တခု ဖြစ်သည်။ ပိဋကတ် စာပေတို့၌ ထင်ရှားသော ဂင်္ဂါ၊ အစိရဝတီ၊ ယမုနာ၊ သရဘူ၊ မဟီ တည်းဟူသော မွေ့လျော်ဖွယ်မြစ်ကြီး ငါးသွယ်တို့တွင် အဝင်အပါ ဖြစ်၏။ ယမမင်း၏ နှမတော်ဖြစ်ခြင်းကြောင့် ယမုနာမြစ်ခေါ်သည် ဟု ပုရာဏ်ကျမ်းများမှာ အဆိုရှိသည်။ ထိုယမုနာမြစ်သည် ဟိမဝန္တာ တောင်၊ ယမ္မနေ့ာ့ထရီ ရေခဲမြစ်တွင် မြစ်ဖျားခံ၍ တောင်ဖက်သို့ စီးဆင်းသွားသည်။ ထိုနောက် အနောက်တောင်ဖက်သို့ စီးဆင်းကာ တဖန် တောင်ဖက်တည့်တည့်သို့ စီးဆင်းသွားသည်။ ထိုသို့ စီးဆင်းသွားစဉ် မြစ်လက်တက် အမြောက်အမြား စီးဝင် ပေါင်းဆုံလာကြသည်။ မြောက်ဖက်မှ စီးဆင်းလာသော ရေစီးသန်သည့် ထွန်း ဆိုသော ချောင်းနှင့် ပေါင်းဆုံမိပြီးနောက်တွင် ထိုယမုနာမြစ်သည် အရှေ့ ပန်ဂျပ်နှင့် ဥတ္တရပြည်နယ်တို့ကို ပိုင်းခြားထားသော နယ်နိမိတ်အဖြစ် တည်ရှိလေသည်။

ထိုနောက် ယမုနာမြစ်သည် အရှေ့တောင်ဖက်သို့ စီးဆင်းသွားရာ ဝိန္ဓိယ (ဝိန္ဓျ) တောင်တန်းမှ စီးဆင်းလာကြသည့် ချမ်းဗော၊ ဆင်း၊ ဗီတွာနှင့် ကင်း စသည့် မြစ်လက်တက်များ စီးဝင် ပေါင်းဆုံလာကြသည်။ ယမုနာမြစ်သည် အာလဟာဗက် မြို့တွင် ဂင်္ဂါမြစ်အတွင်းသို့ စီးဝင်သည်။ အာလဟာဗက်မြို့အထိ မြစ်၏ အလျားမှာ မိုင်ပေါင်း ၈၅၀ ရှည်သည်။ ယခုအခါ အာလဟာဗက် ဟု ခေါ်ဆိုကြသော မြို့မှာ ရှေးအခါက ပယာဂဆိပ် ဖြစ်၏။ ပယာဂဆိပ်သည် မြတ်စွာဘုရား ဝေရဥ္စရာတိုင်း၌ ဒွါဒသမဝါ ကပ်ဆိုတော်မူကာ ဝါကျွတ်၍ ဒေသစာရီ ကြွချီတော်မူသောအခါ ဗာရာဏသီသို့ ကူးကြွတော်မူရာ ဆိပ်ကမ်းဖြစ်သည်။ ပယာဂ ဟူသည် လွန်ကဲမြင့်မြတ်သော ပူဇော်ရာဌာန၊ သို့မဟုတ် မြတ်သောဒါန ကောင်းမှုပြုရာ ပုညခေတ် ဟု အဓိပ္ပါယ် ဆိုလိုသည်။ ဟိန္ဒူ လူမျိုးတို့အတွက် လွန်စွာ အရေးကြီးသော ပုညတိတ္ထ ဖြစ်သည်။

ဂင်္ဂါမြစ်နှင့် ယမုနာမြစ်တို့ အကြား ဒိုအပ် မြေသည် ကောက်ပဲသီးနှံ စိုက်ရန် မြေဩဇာ အကောင်းဆုံး ဖြစ်သဖြင့် လူဦးရေမှာလည်း ကမ္ဘာပေါ်တွင် အထူထပ်ဆုံး ဒေသတခု ဖြစ်သည်။

ယမုနာမြစ်သည် ဥတ္တရဒေသပြည်နယ်အတွင်း၌ စီးဆင်းရာတွင် ဂင်္ဂါမြစ် စီးဆင်းသည်ထက် ပို၍ရှည်လျား၏။ သို့သော် မြစ်ဝှမ်းမှာ မကြီးမားသည့်အပြင် ထင်လည်း မထင်ရှားချေ။ နွေရာသီ၌ အာဂရာမြို့၏အထက်ဖက်တွင် ယမုနာမြစ်သည် ချောင်းငယ်တမျှ သေးငယ်နေလေသည်။ ထိုသို့ဖြစ်ရသည်မှာ တစိတ်တဒေသအားဖြင့် မြစ်၏ အရှေ့နှင့် အနောက်ဖက်တို့ရှိ ယမုနာ တူးမြောင်းများကြောင့် ဖြစ်သည်။ အရှေ့ ယမုနာတူးမြောင်းသည် ဥတ္တရဒေသပြည်နယ် အတွင်းရှိ လယ်ဧကပေါင်း ၄၀၀,၀၀၀ ခန့်ကိုရင်း၊ အနောက် ယမုနာ တူးမြောင်းသည် ပန်ဂျပ်ပြည်နယ်အတွင်းရှိ လယ်ဧကပေါင်း ၅၅,၀၀၀ ကိုရင်း ရေသွင်းပေးလေသည်။

ယမုနာမြစ်အတွင်းဝယ် ဝမ်းပြား ကုန်တင်လှေကြီးများဖြင့် ကူးသန်း သွားလာကြသည်။ ယမုနာမြစ်၏ ရေအယဉ်သည် ကြည်လင် သန့်စင်၍ ပြာလဲ့သော အဆင်းရှိ၏။

ယမုနာမြစ်နှင့် ဂင်္ဂါမြစ်တို့ဆုံရာတွင် တည်ရှိသော အာလဟာဗက်မြို့အပြင်၊ ယမုနာမြစ်ပေါ်တွင် ဒေလီ၊ အာဂရာနှင့် မုတြ မြို့များတည်ရှိသည်။ ဒေလီ၊ မုတြ၊ အာဂရာနှင့် အာလဟာဗက်မြို့များတွင် ယမုနာမြစ်ကို မီးရထားလမ်း တန်တားကြီးများဖြင့် ဖြတ်ကျော်ထားလေသည်။

**ယသောဓရာ။** ။ယသောဓရာမှာ ယသောဓရာ ဗိမ္ဗာဒေဝီကိုအတိုချုံး၍ ခေါ်ထားခြင်းဖြစ်သည်။ ဘဒ္ဒကစ္စနာ ဟုလည်း ခေါ်ကြသည်။ ထိုယသောဓရာ ဗိမ္ဗာဒေဝီ မေါ် ဘဒ္ဒကစ္စနာမင်းသမီးသည် ဒေဝဒဟပြည့်ရှင် သုပ္ပဗုဒ္ဓမင်းကြီးနှင့် အမိတာ မိဖုရားတို့မှ ဂေါတမ မြတ်စွာဘုရား အလောင်း သိဒ္ဓတ္ထမင်းသားကို ဖွားသည့်နေ့၌ ဖွားမြင်လေသည်။

အမည်မှည့်သောအခါ အကြိမ်တရာ လှော်ပြီး ဦးပြီးသော ရွှေဇမ္ဗူရာဇ်ကို နတ်ဖြစ်ပန်းချီတို့သည် ပိပြင်စွာ ပြုလုပ် ရေးထားသကဲ့သို့ အလွန် လှပတင့်တယ် စင်ကြယ်ကောင်းမြတ်ခြင်းနှင့် ပြည့်စုံရကား ဘဒ္ဒကစ္စနာ ဟူသော အမည်ကို မှည့်ကုန်၏။ ဘဒ္ဒကစ္စနာမင်းသမီးကား နတ်ရပ်ခြောက်မည် လူ့ပြည်တဝန်း ကျွန်းကြီးကျွန်းငယ် အသွယ်သွယ်ဌာန၌ ဘုရားလောင်းမှ တပါးသော ယောကျ်ား မိန်းမ ဟူသမျှတို့သည် တုမျှတန်၏ ဟု နှိုင်းစံ ဖက်ယှဉ်စရာ မရှိ။ လူနတ်တို့၏ အဆင်းကို လွန်၏။ မနောမယဖြစ်သော မဏိဇောတိရည် ကျောက်မြတ်ရတနာကဲ့သို့ လွန်စွာ ထွန်းလင်းသော ကိုယ်အဆင်းအရောင်နှင့်လည်း ပြည့်စုံ၏။ မယ်တော်ခမည်းတော်တို့နှင့် တကွသော သာကီဝင် မင်းအပေါင်းတို့သည်လည်း သောင်းသောင်းကြွေးကြော် အံ့သြော် ခြီးကျူး

လျက် မြတ်နိုးတနာရှိကုန်သည်ဖြစ်၍ တသောင်းမျှလောက်သော အထိန်းအယ မိန်းမ အခြံအရံတို့ကို ဆောက်နှင်းပေ၏။ ယင်းသို့ဖြင့် အစဉ်အတိုင်း ချမ်းသာစွာ ကြီး၍ မင်းသမီး တဆဲ့ခြောက်နှစ် အရွယ်သို့ ရောက်သော ကာလ ဘုရားလောင်း သိဒ္ဓတ္ထ ကုမာရနှင့် စုံဖက်လေသည်။ သိဒ္ဓတ္ထ ကုမာရ မင်းသားသည် လေးသောင်းသော မောင်းမတို့၏ ထိပ်ထား ဘဒ္ဒကစ္စနာကို ယသောဓရာ ဗိမ္ဗာဒေဝီ ဟူသော အမည်ဖြင့် ဘိသိက်သွန်း၍ အဂ္ဂမဟေသီအရာ ထားတော်မူသည်။

ထိုယသောဓရာ ဗိမ္ဗာဒေဝီ၏ အကြောင်းမှာ ဤကမ္ဘာမှ ပြန်၍ ရေတွက်သော် သင်္ချေ နှစ်ဆယ်နှင့် ကမ္ဘာတသိန်း ထက်၌ ပွင့်တော်မူကြသော ဗြဟ္မဒေဝ အစရှိသည့် ဘုရားရှင်တို့၏ လက်ထက်တော်ကပင် ဂေါတမမြတ်စွာဘုရား အလောင်းတော်နှင့် တွေ့ကြုံကြ၍ ပိယသံဝါသဖြင့် ဘဝအဆက်ဆက် မပျက်သောမေတ္တာဖြင့် ပါရမီဖြည့်ရ၍ အတူတကွပင် ဘဝအထွတ်တိုင်စေသော ဟု မနောပဏိဓိ ရှိကြသည်နှင့်အညီ ပါရမီ ဖြည့်ခဲ့သမျှ အပရိမေယျ ဘဝတို့၌ အတူတကွသာ ဖြစ်ရသည်က များလေသည်။ ဤသို့ရှည်လျားလှစွာသော သံသရာ၌ ဘုရားလောင်း၏ အကျိုးငှာသာ ခံနိုင်ခဲစွာသော ဒုက္ခတို့ကို ခံ၍ အဆက်ဆက် လာကြသဖြင့် ဂေါတမ မြတ်စွာဘုရားအလောင်း သုမေဓာ ရှင်ရသေ့ဖြစ်သောအခါ ရမ္မဝတီပြည်၌ သုမိတ္တာ ဟု အမည်တွင်သော သတို့သမီးဖြစ်ခဲ့၍ ကြာရှစ်လက်တို့ကို ဘုရားလောင်းအား ကမ်းကာ ရည်မှန်းခဲ့ဘူးသောအတိုင်းပင် ဆုတောင်း၍ ပါရမီ ဖြည့်ကြသဖြင့် ပဒုမုတ္တရဘုရား လက်ထက်တော်သို့ ရောက်သောအခါ နိယတ ဗျာဒိတ်ကို ရရှိခဲ့လေသည်။ ထိုနောက် ဘဝများစွာ ကျင်လည်ခဲ့ပြီးလျှင် (ဂေါတမဘုရားလောင်းနှင့် အတူပင်) တုသိတာနတ်ပြည်မှ စုတေခဲ့၍ ဘုရားလောင်းနှင့်အတူ တနေ့တည်းတွင် ဖွားမြင်သည်။ အသက် တဆဲ့ခြောက်နှစ် အရွယ်တွင် ဘုရားအလောင်း သိဒ္ဓတ္ထ ကုမာရ မင်းသားနှင့် စုံဖက်ပြီးနောက် အသက် ၂၉ နှစ် အရွယ်တွင် သားတော် ရာဟုလာကို ဖွားမြင်လေသည်။ ထိုအခါမှစ၍ ယသောဓရာ ဗိမ္ဗာဒေဝီကို ရာဟုလမာတာ ဟုလည်း ခေါ်ကြလေသည်။

သားတော် ရာဟုလာကို ဖွားမြင်သည့်နေ့မှာပင် မောင်တော် သိဒ္ဓတ္ထမင်းသား တောထွက်၍ ရဟန်းပြုတော်မူ၏။ ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာ အကျင့်ကို ကျင့်ပြီးလျှင် ဘုရားဖြစ်တော်မူသည်။

ဘုရားဖြစ်ပြီးနောက် ကပိလဝတ်ပြည်သို့ ကြွတော်မူလာသောအခါ ယသောဓရာသည် ခုနစ်နှစ်မျှသာ ရှိသေးသော သားတော် ရာဟုလာမင်းသားကို ဘခင်ဘုရားထံ အမွေတောင်းစေ၏။ ထိုအခါ မြတ်စွာဘုရားသည် သားတော် ရာဟုလာအား ရဟန်းပြုစေလေသည်။ (ရာဟုလာထေရ် — လည်းရှု။) ရာဟုလာ ရဟန်းပြုပြီးနောက်တွင် မယ်တော် ဂေါတမီ မိဖုရား၊ ယောက်မတော် ဇနပဒ ကလျာဏီတို့လည်း ဘိက္ခုနီမ ပြုကြကုန်၏။ ကပိလဝတ်ပြည်၏ နန်းရိုး ဥပရာဇ် နန္ဒမင်းသားမှကား ရာဟုလာ၏အလျင် ရဟန်းပြုခဲ့ပြီး ဖြစ်လေသည်။

ယင်းတို့ အသီးအသီး သာသနာဘောင်သို့ ခိုဝင်ကြ၍ ဘုရင် သုဒ္ဓေါဒနလည်း ထီးဖြူအောက်တွင် ပရိနိဗ္ဗာန်ပြုတော်မူပြီးနောက်၊ ယသောဓရာ ဗိမ္ဗာဒေဝီသည် ဤကဲ့သို့သာ ရဟန်းပြုကြလျှင် ကပိလဝတ်ပြည်ကြီး ရွှေထီးရွှေနန်းသည် စိုးမြန်းဆက်ခံသူ ဆုံး၍ သုဉ်းဖျင်း ပျက်စီးလေရာသည်။ မိမိလည်း မိန်းမသားဖြစ်၍ မင်းမှုခြင်းငှာ မသင့်သေး။ သားတော် ရာဟုလာကို ဘုရားထံမှ တောင်း၍ ထီးဆောင်း ဘိသိက်ခံစေအံ့ ဟု အကြံဖြစ်လျက် မြတ်စွာဘုရားရှိရာ ဝေဠုဝန် ကျောင်းတော်သို့ သွားရောက်၍ အကျိုးအကြောင်း လျှောက်ထားလေသည်။ ထိုအခါ မြတ်စွာဘုရားသည် သံသရာ၏ ထိတ်လန့် ကြောက်ရွံ့ဖွယ် အချင်းအရာကို ပြလျက် အခြား ဆွေတော်မျိုးတော်တို့နည်းတူ ရဟန်းပြုရန် ဟောပြောတိုက်တွန်းတော်မူသည်။ ယင်းသို့ ဘုရားသခင် ဟောတော်မူသော တရားတော်ကို နာကြားရသဖြင့် ယသောဓရာသည် လေးပါးသော သစ္စာကို မြင်၍ ဘုရားသခင်အား ညွတ်တွားပူဇော်ခဲ့ပြီးသော် ကျောင်းတော်မှ ဆင်းခဲ့၍ အခြံအရံဖြစ်သော မောင်းမတို့နှင့်တကွ ဇနပဒကလျာဏီ ထေရီ၏ အထံ၌ ရဟန်းပြုလေ၏။ ရဟန်းဖြစ်သောအခါမှစ၍ ကမ္မဋ္ဌာန်း ဝိပဿနာကို လွန်စွာ အားထုတ်သဖြင့် မကြာမီအတွင်း၌ပင် ပဋိသမ္ဘိဒါ လေးပါး၊ အဘိညာဉ်ခြောက်ပါး၊ သမာပတ် ရှစ်ပါး တရားအထူးတို့နှင့်တကွ အရဟတ္တဖိုလ်သို့ ရောက်၏။ ထိုအခါ သာသနာ၌ ဘဒ္ဒကစ္စနာထေရီ ဟု ထင်ရှားစွာ ဖြစ်သည်။ ထိုဘဒ္ဒကစ္စနာသည် ပုဗ္ဗေနိဝါသ ဉာဏ်အရာ၌ တပါးသော ရဟန္တာမိန်းမတို့ထက် ကဲလွန်စွာ မြင်နိုင်၏။ ပဋိလောမအားဖြင့် ပြန်၍ ရေသော် တသင်္ချေ၊ နှစ်သင်္ချေ၊ လေးသင်္ချေ၊ တဆဲ့ခြောက်သင်္ချေသောကာလ၌ ဖြစ်ဖြစ်သမျှသော ဘဝတခုကိုလည်း တခုသော အာဝဇ္ဇန်းရှိသည့် ဝီထိစိတ်အစဉ်ဖြင့် တပြိုင်နက် မြင်နိုင်၏။ ထို့ကြောင့် ဘဒ္ဒကစ္စနာခေါ် ယသောဓရာကို သာဝတ္ထိပြည်သို့ ရောက်သောအခါ မဟာဘိညာ တေဒဂ်အရာ၌ ထားတော်မူလေသည်။

**ယဟူဒီလူမျိုး။** ။ကမ္ဘာပေါ်ရှိ လူမျိုးအသီးအသီးတို့၏ သမိုင်းတွင် ယဟူဒီလူမျိုးတို့၏ သမိုင်းမှာ ထူးခြားစိတ်ဝင်စားဖွယ် ကောင်းပေသည်။ ယဟူဒီ လူမျိုးတို့သည် နှစ်ပေါင်း ၁,၉၀၀ ခန့်မျှ ကိုယ်ပိုင် တိုင်းပြည်ဟူ၍ မရှိဘဲ၊ ကမ္ဘာ



ယဟူဒီလူမျိုးတို့သည် ဘာသာတရား လွန်စွာ ကိုင်းရှိုင်းသူများ ဖြစ်ကြသည်။

အရပ်ရပ်တွင် လှည့်လည်၍ လူအမျိုးမျိုးနှင့် ရောနှောနေထိုင်ခဲ့ရသော လူမျိုးဖြစ်သည်။ အနှိပ်စက် အညှဉ်းဆဲခံရဆုံး လူမျိုးလည်းဖြစ်၏။ ယဟူဒီတို့၏သမိုင်းသည် ရှေးကျ၍ ရှည်လျားသော်လည်း လူမျိုးတမျိုးအနေဖြင့် ယခုထက်တိုင် တည်တံ့လျက် ရှိပြီးလျှင် မိမိတို့၏ ဓလေ့ထုံးစံ၊ အယူဝါဒကို ထိန်းသိမ်းမြဲ ထိန်းသိမ်းထားကြသည်။ ထိုလူမျိုးထဲမှ ကမ္ဘာကျော် အနုပညာရှင်၊ သိပ္ပံပညာရှင်၊ စာရေးဆရာ၊ စက်မှုလက်မှုပညာရှင် စသည်ဖြင့် လူရည်ချွန် အများအပြား ပေါ်ထွက်ခဲ့ပေသည်။

သမ္မာကျမ်းစာအလိုအားဖြင့် ယဟူဒီတို့သည် ဆီးမိုက်လူမျိုးအနွယ်များ ဖြစ်၍ အာရေဗျ သဲကန္တာရဖက်မှ ပယ်လက်စတိုင် ပြည်သို့ ဘီစီ ၂၀၀၀ ခန့်က ဝင်ရောက် လာကြလေသည်။ ခေါင်းဆောင်မှာ ယဟူဒီတို့၏ဖခင် အဗရာဟင် (အာဗြဟံ)ဖြစ်သည်။ အဗရာဟင်သည် ယူဖရေးတီးမြစ်ကို ဖြတ်ကျော် လာရသည့်အတွက် "ဖြတ်ကျော်သည်" ဟူ၍ အဓိပ္ပါယ်ရသော "ဟီဗြူ" (ဟေဗြဲ) အမည်ဖြင့်လည်း ခေါ်တွင်သည်။ ထို့ကြောင့် ယဟူဒီတို့ကို တခါတရံ ဟီဗြူ လူမျိုး ဟုလည်းခေါ်သည်။ (ပယ်လက်စတိုင် — လည်းရှု။)

အဗရာဟင်၏သား အိုင်ဇက် (ဣဇက်)၌ အီစော (ဧသော)နှင့် ဂျက်ကော့ (ယာကုပ်) ဟူ၍လည်း သားအမြွာနှစ်ယောက်ရှိသည်တွင် ဂျက်ကော့သည် အစ္စရီယယ် (ဣသရေလ) အမည်ဖြင့် ခေါင်းဆောင် ဖြစ်လာလေသည်။ ယဟူဒီတို့သည် ဂျက်ကော့၏သား တဆဲ့ နှစ်ယောက်မှ ပေါက်ပွား လာကြသူများဖြစ်၍ အစ္စရီယယ် လူမျိုးဟူ၍လည်း အမည်တွင်သည်။

ဂျက်ကော့၏သား ဂျိုးဇက် (ယောသပ်)သည် အီဂျစ်ပြည် (အဲဂုတ္တုပြည်)သို့ ရောက်ရှိသွားရာမှ ကျန် ယဟူဒီလူမျိုးတို့သည်လည်း လိုက်ပါသွားကြလေသည်။ ကာလ အတန်ကြာသော် ယဟူဒီတို့သည် အီဂျစ်ပြည်၌ ကျွန်အဖြစ်နှင့် နှစ်ပေါင်းများစွာ နှိပ်စက် ညှဉ်းဆဲခြင်းကို ခံကြရ၏။ ထိုနောက် မိုးဇက် (မောရှေ) ဆိုသူ ခေါင်းဆောင်က ယဟူဒီများကို အီဂျစ်ပြည်မှ ကယ်၍ ပယ်လက်စတိုင်ပြည်သို့ ပို့ဆောင်ခဲ့လေသည်။ ခရီးစပ်ကြားတွင် အနှစ်လေးဆယ်မျှ လှည့်လည်နေရစဉ် ပညတ်တော်ဆယ်ပါးကို မိုးဇက်မှတဆင့် လက်ခံရရှိကြသည်။ (မိုးဇက် — ရှု။) မိုးဇက် ကွယ်လွန်ပြီးနောက် ဂျော့ရွား(ယောရှု)က ယဟူဒီတို့ကို ခေါင်းဆောင်၍ ဂျော်ဒန်မြစ် (ယော်ဒန်)ကို ဖြတ်ကျော်လျက် ပယ်လက်စတိုင်ပြည်ကို သိမ်းယူကြသည်။

ထိုအခါက ပယ်လက်စတိုင်ပြည်တွင် ဆီးမိုက်အနွယ်ဝင် ဖြစ်၍ ယဉ်ကျေးမှု အဆင့်အတန်း မြင့်သော ကနန်နိုက် (ခါနန်)လူမျိုးက အုပ်စိုးလျက်ရှိရာ ယဟူဒီတို့သည် ကနန်နိုက်တို့ထံမှ စိုက်ပျိုးနည်း၊ အဝတ်အထည်ရက်နည်းနှင့် စာရေးစာဖတ် အတတ် စသောယဉ်ကျေးမှုများကို ဆက်ခံရရှိကြလေသည်။ သို့ရာတွင် ယဟူဒီလူမျိုးတို့သည် အေးချမ်းစွာ မနေထိုင်ရချေ။ အနီးအနားရှိ တိုင်းပြည်များမှ မိုအာဗိုက် လူမျိုး၊ အမ္မိုနိုက်လူမျိုးနှင့် ဖိလစ္စတင်း (ဖိလိတ္တိ) လူမျိုးတို့သည် ပယ်လက်စတိုင်ပြည်ကို မကြာခဏ စစ်ချီတိုက်ခိုက်သဖြင့် ယင်းတို့၏ ရန်ကို တွန်းလှန်လျက် နေရ၏။ ထို့ကြောင့် ယဟူဒီလူမျိုးတို့ကို ဦးစီးရန် ဂိဒယွန်၊ ဒဗိုရာ၊ ဆမ္မဆန် (ရှံဆုံ) ကဲ့သို့သော အမျိုးသား ခေါင်းဆောင်များ ပေါ်ထွက်ခဲ့လေသည်။ (ဖိလစ္စတင်းလူမျိုး။ ဆမ္မဆန် — ရှု။)

ဘီစီ ၁၁ ရာစုနှစ်ခန့်တွင် ဆယ်မျူယယ် (ရှမွေလ) ဆိုသူ ပရောဖက်တဦး ပေါ်ပေါက်လာ၍ ယဟူဒီ တဆဲ့နှစ်မျိုးကို ပေါင်းစည်းလျက် ဘုရင်အုပ်ချုပ်ရေး စံနစ်ကို တီထွင်ခဲ့လေသည်။ ဆော (ရှောလု) ဆိုသူကို ပဌမဆုံးဘုရင်အဖြစ် ရွေးကောက် တင်မြှောက်ကြသည်။ ဆောဘုရင်လက်ထက်တွင် ယဟူဒီတို့သည် သွေးစည်းမိပြီးလျှင် ဖိလစ္စတင်းတို့ကို တိုက်ခိုက် အောင်မြင် ခဲ့လေသည်။ ဆော ဘုရင်နှင့် သားတော် ဂျိုနသန် (ယောနသန် ) တို့လည်း တိုက်ပွဲ၌ကျဆုံးကြ၏။

ထိုနောက် ဒေးဗစ် (ဒါဝိဒ်) (ဘီစီ ၁၀၁၀–၉၇၀ ခန့်)သည် ယဟူဒီတို့၏ဘုရင် ဖြစ်လာ၍ ဂျရုးဆလမ်မြို့ (ယေရုရှလင်) ကို မြို့တော်အဖြစ် ထားရှိလေသည်။ ယဟူဒီတို့၏ နိုင်ငံသည်လည်း စည်ပင်သာယာလျက် ရှိပေသည်။ ဒေး

လျက် မြတ်နိုးတနာရှိကုန်သည်ဖြစ်၍ တသောင်းမျှလောက်သော အထိန်းအယ မိန်းမ အခြံအရံတို့ကို ဆောက်နှင်းပေ၏။ ယင်းသို့ဖြင့် အစဉ်အတိုင်း ချမ်းသာစွာ ကြီး၍ မင်းသမီး တဆဲ့ခြောက်နှစ် အရွယ်သို့ ရောက်သော ကာလ ဘုရားလောင်း သိဒ္ဓတ္ထ ကုမာရနှင့် စုံဖက်လေသည်။ သိဒ္ဓတ္ထ ကုမာရ မင်းသားသည် လေးသောင်းသော မောင်းမတို့၏ ထိပ်ထား ဘဒ္ဒကစ္စနာကို ယသောဓရာ ဗိမ္ဗာဒေဝီ ဟူသော အမည်ဖြင့် ဘိသိက်သွန်း၍ အဂ္ဂမဟေသီအရာ ထားတော်မူသည်။

ထိုယသောဓရာ ဗိမ္ဗာဒေဝီ၏ အကြောင်းမှာ ဤကမ္ဘာမှ ပြန်၍ ရေတွက်သော် သင်္ချေ နှစ်ဆယ်နှင့် ကမ္ဘာတသိန်း ထက်၌ ပွင့်တော်မူကြသော ဗြဟ္မဒေဝ အစရှိသည့် ဘုရားရှင်တို့၏ လက်ထက်တော်ကပင် ဂေါတမမြတ်စွာဘုရား အလောင်းတော်နှင့် တွေ့ကြုံကြ၍ ပိယသံဝါသဖြင့် ဘဝအဆက်ဆက် မပျက်သောမေတ္တာဖြင့် ပါရမီဖြည့်ရ၍ အတူတကွပင် ဘဝအထွတ်တိုင်စေသော ဟု မနောပဏိဓိ ရှိကြသည်နှင့်အညီ ပါရမီ ဖြည့်ခဲ့သမျှ အပရိမေယျ ဘဝတို့၌ အတူတကွသာ ဖြစ်ရသည်က များလေသည်။ ဤသို့ရှည်လျားလှစွာသော သံသရာ၌ ဘုရားလောင်း၏ အကျိုးငှာ သာ ခံနိုင်ခဲစွာသော ဒုက္ခတို့ကို ခံ၍ အဆက်ဆက် လာကြသဖြင့် ဂေါတမ မြတ်စွာဘုရားအလောင်း သုမေဓာ ရှင်ရသေ့ဖြစ်သောအခါ ရမ္မဝတီပြည်၌ သုမိတ္တာ ဟု အမည်တွင်သော သတို့သမီးဖြစ်ခဲ့၍ ကြာရှစ်လက်တို့ကို ဘုရားလောင်းအား ကမ်းကာ ရည်မှန်းခဲ့ဘူးသောအတိုင်းပင် ဆုတောင်း၍ ပါရမီ ဖြည့်ကြသဖြင့် ပဒုမုတ္တရဘုရား လက်ထက်တော်သို့ ရောက်သောအခါ နိယတ ဗျာဒိတ်ကို ရရှိခဲ့လေသည်။ ထိုနောက် ဘဝများစွာ ကျင်လည်ခဲ့ပြီးလျှင် (ဂေါတမဘုရားလောင်းနှင့် အတူပင်) တုသိတာနတ်ပြည်မှ စုတေခဲ့၍ ဘုရားလောင်းနှင့်အတူ တနေ့တည်းတွင် ဖွားမြင်သည်။ အသက် တဆဲ့ခြောက်နှစ် အရွယ်တွင် ဘုရားအလောင်း သိဒ္ဓတ္ထ ကုမာရ မင်းသားနှင့် စုံဖက်ပြီးနောက် အသက် ၂၉ နှစ် အရွယ်တွင် သားတော် ရာဟုလာကို ဖွားမြင်လေသည်။ ထိုအခါမှစ၍ ယသောဓရာ ဗိမ္ဗာဒေဝီကို ရာဟုလမာတာ ဟုလည်း ခေါ်ကြလေသည်။

သားတော် ရာဟုလာကို ဖွားမြင်သည့်နေ့မှာပင် မောင်တော် သိဒ္ဓတ္ထမင်းသား တောထွက်၍ ရဟန်းပြုတော်မူ၏။ ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာ အကျင့်ကို ကျင့်ပြီးလျှင် ဘုရားဖြစ်တော်မူသည်။

ဘုရားဖြစ်ပြီးနောက် ကပိလဝတ်ပြည်သို့ ကြွတော်မူလာသောအခါ ယသောဓရာသည် ခုနစ်နှစ်မျှသာ ရှိသေးသော သားတော် ရာဟုလာမင်းသားကို ဘခင်ဘုရားထံ အမွေတောင်းစေ၏။ ထိုအခါ မြတ်စွာဘုရားသည် သားတော် ရာဟုလာအား ရဟန်းပြုစေလေသည်။ (ရာဟုလာထေရ် — လည်းရှု။) ရာဟုလာ ရဟန်းပြုပြီးနောက်တွင် မယ်တော် ဂေါတမီ မိဖုရား၊ ယောက်မတော် ဇနပဒ ကလျာဏီတို့လည်း ဘိက္ခုနီမ ပြုကြကုန်၏။ ကပိလဝတ်ပြည်၏ နန်းရိုး ဥပရာဇ် နန္ဒမင်းသားမှုကား ရာဟုလာ၏အလျင် ရဟန်းပြုခဲ့ပြီး ဖြစ်လေသည်။

ယင်းတို့ အသီးအသီး သာသနာဘောင်သို့ ခိုဝင်ကြ၍ ဘုရင် သုဒ္ဓေါဒနလည်း ထီးဖြူအောက်တွင် ပရိနိဗ္ဗာန်ပြုတော်မူပြီးနောက်၊ ယသောဓရာ ဗိမ္ဗာဒေဝီသည် ဤကဲ့သို့သာ ရဟန်းပြုကြလျှင် ကပိလဝတ်ပြည်ကြီး ရွှေထီးရွှေနန်းသည် စိုးမြန်းဆက်ခံသူ ဆုံး၍ သုဉ်းဖျင်း ပျက်စီးလေရာသည်။ မိမိလည်း မိန်းမသားဖြစ်၍ မင်းမှုခြင်းငှာ မသင့်သေး။ သားတော် ရာဟုလာကို ဘုရားထံမှ တောင်း၍ ထီးဆောင်း ဘိသိက်ခံစေအံ့ ဟု အကြံဖြစ်လျက် မြတ်စွာဘုရား ရှိရာ ဝေဠုဝန် ကျောင်းတော်သို့ သွားရောက်၍ အကျိုးအကြောင်း လျှောက်ထားလေသည်။ ထိုအခါ မြတ်စွာဘုရားသည် သံသရာ၏ ထိတ်လန့် ကြောက်ရွံ့ဖွယ် အချင်းအရာကို ပြလျက် အခြား ဆွေတော်မျိုးတော်တို့နည်းတူ ရဟန်းပြုရန် ဟောပြောတိုက်တွန်းတော်မူသည်။ ယင်းသို့ ဘုရားသခင် ဟောတော်မူသော တရားတော်ကို နာကြားရသဖြင့် ယသောဓရာသည် လေးပါးသော သစ္စာကို မြင်၍ ဘုရားသခင်အား ညွတ်တွားပူဇော်ခဲ့ပြီးသော် ကျောင်းတော်မှ ဆင်းခဲ့၍ အခြံအရံဖြစ်သော မောင်းမတို့နှင့်တကွ ဇနပဒကလျာဏီ ထေရီ၏ အထံ၌ ရဟန်းပြုလေ၏။ ရဟန်းဖြစ်သောအခါမှစ၍ ကမ္မဋ္ဌာန်း ဝိပဿနာကို လွန်စွာ အားထုတ်သဖြင့် မကြာမီအတွင်း၌ပင် ပဋိသမ္ဘိဒါ လေးပါး၊ အဘိညာဉ်ခြောက်ပါး၊ သမာပတ် ရှစ်ပါး တရားအထူးတို့နှင့်တကွ အရဟတ္တဖိုလ်သို့ ရောက်၏။ ထိုအခါ သာသနာ၌ ဘဒ္ဒကစ္စနာထေရီ ဟု ထင်ရှားစွာ ဖြစ်သည်။ ထိုဘဒ္ဒကစ္စနာသည် ပုဗ္ဗေနိဝါသ ဉာဏ်အရာ၌ တပါးသော ရဟန္တာမိန်းမတို့ထက် ကဲလွန်စွာ မြင်နိုင်၏။ ပဋိလောမအားဖြင့် ပြန်၍ ရေသော် တသင်္ချေ၊ နှစ်သင်္ချေ၊ လေးသင်္ချေ၊ တဆဲ့ခြောက်သင်္ချေသောကာလ၌ ဖြစ်ဖြစ်သမျှသော ဘဝတခုကိုလည်း တခုသော အာဝဇ္ဇန်းရှိသည့် ဝီထိစိတ်အစဉ်ဖြင့် တပြိုင်နက် မြင်နိုင်၏။ ထို့ကြောင့် ဘဒ္ဒကစ္စနာခေါ် ယသောဓရာကို သာဝတ္ထိပြည်သို့ ရောက်သောအခါ မဟာဘိညာ တေဒဂ်အရာ၌ ထားတော်မူလေသည်။

**ယဟူဒီလူမျိုး။** ။ကမ္ဘာပေါ်ရှိ လူမျိုးအသီးအသီးတို့၏ သမိုင်းတွင် ယဟူဒီလူမျိုးတို့၏ သမိုင်းမှာ ထူးခြားစိတ်ဝင်စားဖွယ် ကောင်းပေသည်။ ယဟူဒီ လူမျိုးတို့သည် နှစ်ပေါင်း ၁,၉၀၀ ခန့်မျှ ကိုယ်ပိုင် တိုင်းပြည်ဟူ၍ မရှိဘဲ၊ ကမ္ဘာ



ယဟူဒီလူမျိုးတို့သည် ဘာသာတရား လွန်စွာ ကိုင်းရှိုင်းသူများ ဖြစ်ကြသည်။

အရပ်ရပ်တွင် လှည့်လည်၍ လူအမျိုးမျိုးနှင့် ရောနှောနေထိုင်ခဲ့ရသော လူမျိုးဖြစ်သည်။ အနှိပ်စက် အညှဉ်းဆဲခံရဆုံး လူမျိုးလည်းဖြစ်၏။ ယဟူဒီတို့၏သမိုင်းသည် ရှေးကျ၍ ရှည်လျားသော်လည်း လူမျိုးတမျိုးအနေဖြင့် ယခုထက်တိုင် တည်တံ့လျက် ရှိပြီးလျှင် မိမိတို့၏ ဓလေ့ထုံးစံ၊ အယူဝါဒကို ထိန်းသိမ်းမြဲ ထိန်းသိမ်းထားကြသည်။ ထိုလူမျိုးထဲမှ ကမ္ဘာကျော် အနုပညာရှင်၊ သိပ္ပံပညာရှင်၊ စာရေးဆရာ၊ စက်မှုလက်မှုပညာရှင် စသည်ဖြင့် လူရည်ချွန် အများအပြား ပေါ်ထွက်ခဲ့ပေသည်။

သမ္မာကျမ်းစာအလိုအားဖြင့် ယဟူဒီတို့သည် ဆီးမိုက်လူမျိုးအနွယ်များ ဖြစ်၍ အာရေဗျ သဲကန္တာရဖက်မှ ပယ်လက်စတိုင် ပြည်သို့ ဘီစီ ၂၀၀၀ ခန့်က ဝင်ရောက် လာကြလေသည်။ ခေါင်းဆောင်မှာ ယဟူဒီတို့၏ဖခင် အဗရာဟင် (အာဗြဟံ)ဖြစ်သည်။ အဗရာဟင်သည် ယူဖရေးတီးမြစ်ကို ဖြတ်ကျော် လာရသည့်အတွက် "ဖြတ်ကျော်သည်" ဟူ၍ အဓိပ္ပါယ်ရသော "ဟီဗြူး" (ဟေဗြဲ) အမည်ဖြင့်လည်း ခေါ်တွင်သည်။ ထိုကြောင့် ယဟူဒီတို့ကို တခါတရံ ဟီဗြူး လူမျိုး ဟုလည်းခေါ်သည်။ (ပယ်လက်စတိုင် — လည်းရှု။)

အဗရာဟင်၏သား အိုင်ဇက် (ဣဇက်)၌ အီစော (ဧသော)နှင့် ဂျက်ကော့ (ယာကုပ်) ဟူ၍လည်း သားအမွှာနှစ်ယောက်ရှိသည်တွင် ဂျက်ကော့သည် အဇ္ဇရီယယ် (ဣသရေလ) အမည်ဖြင့် ခေါင်းဆောင် ဖြစ်လာလေသည်။ ယဟူဒီတို့သည် ဂျက်ကော့၏သား တဆဲ့ နှစ်ယောက်မှ ပေါက်ပွား လာကြသူများဖြစ်၍ အဇ္ဇရီယယ် လူမျိုးဟူ၍လည်း အမည်တွင်သည်။

ဂျက်ကော့၏သား ဂျိုးဇက် (ယောသပ်)သည် အီဂျစ်ပြည် (အဲဂုတ္တုပြည်)သို့ ရောက်ရှိသွားရာမှ ကျန် ယဟူဒီလူမျိုးတို့သည်လည်း လိုက်ပါသွားကြလေသည်။ ကာလ အတန်ကြာသော် ယဟူဒီတို့သည် အီဂျစ်ပြည်၌ ကျွန်အဖြစ်နှင့် နှစ်ပေါင်းများစွာ နှိပ်စက် ညှဉ်းဆဲခြင်းကို ခံကြရ၏။ ထိုနောက် မိုးဇက် (မောရှေ) ဆိုသူ ခေါင်းဆောင်က ယဟူဒီများကို အီဂျစ်ပြည်မှ ကယ်၍ ပယ်လက်စတိုင်ပြည်သို့ ပို့ဆောင်ခဲ့လေသည်။ ခရီးစပ်ကြားတွင် အနှစ်လေးဆယ်မျှ လှည့်လည်နေရစဉ် ပညတ်တော်ဆယ်ပါးကို မိုးဇက်မှတဆင့် လက်ခံရရှိကြသည်။ (မိုးဇက် — ရှု။) မိုးဇက် ကွယ်လွန်ပြီးနောက် ဂျော့ရှွား(ယောရှု)က ယဟူဒီတို့ကို ခေါင်းဆောင်၍ ဂျော်ဒန်မြစ် (ယော်ဒန်)ကို ဖြတ်ကျော်လျက် ပယ်လက်စတိုင်ပြည်ကို သိမ်းယူကြသည်။

ထိုအခါက ပယ်လက်စတိုင်ပြည်တွင် ဆီးမိုက်အနွယ်ဝင်ဖြစ်၍ ယဉ်ကျေးမှု အဆင့်အတန်း မြင့်သော ကနန်နိုက် (ခါနန်)လူမျိုးက အုပ်စိုးလျက်ရှိရာ ယဟူဒီတို့သည် ကနန်နိုက်တို့ထံမှ စိုက်ပျိုးနည်း၊ အဝတ်အထည်ရက်နည်းနှင့် စာရေးစာဖတ် အတတ် စသောယဉ်ကျေးမှုများကို ဆက်ခံရရှိကြလေသည်။ သို့ရာတွင် ယဟူဒီလူမျိုးတို့သည် အေးချမ်းစွာ မနေထိုင်ရချေ။ အနီးအနားရှိ တိုင်းပြည်များမှ မိုအာဗိုက် လူမျိုး၊ အမ္မိုနိုက်လူမျိုးနှင့် ဖိလစ္စတင်း (ဖိလိတ္တိ) လူမျိုးတို့သည် ပယ်လက်စတိုင်ပြည်ကို မကြာခဏ စစ်ချီတိုက်ခိုက်သဖြင့် ယင်းတို့၏ ရန်ကို တွန်းလှန်လျက် နေရ၏။ ထိုကြောင့် ယဟူဒီလူမျိုးတို့ကို ဦးစီးရန် ဂိဒယွန်၊ ဒဗိုရာ၊ ဆမ္မဆန် (ရှံဆုံ) ကဲ့သို့သော အမျိုးသား ခေါင်းဆောင်များ ပေါ်ထွက်ခဲ့လေသည်။ (ဖိလစ္စတင်းလူမျိုး။ ဆမ္မဆန် — ရှု။)

ဘီစီ ၁၁ ရာစုနှစ်ခန့်တွင် ဆယ်မျူယယ် (ရှမွေလ) ဆိုသူ ပရောဖက်တဦး ပေါ်ပေါက်လာ၍ ယဟူဒီ တဆဲ့နှစ်မျိုးကို ပေါင်းစည်းလျက် ဘုရင်အုပ်ချုပ်ရေး စံနစ်ကို တီထွင်ခဲ့လေသည်။ ဆော (ရှောလု) ဆိုသူကို ပဌမဆုံးဘုရင်အဖြစ် ရွေးကောက် တင်မြှောက်ကြသည်။ ဆောဘုရင်လက်ထက်တွင် ယဟူဒီတို့သည် သွေးစည်းမိပြီးလျှင် ဖိလစ္စတင်းတို့ကို တိုက်ခိုက် အောင်မြင် ခဲ့လေသည်။ ဆော ဘုရင်နှင့် သားတော် ဂျိုနသန် (ယောနသန် ) တို့လည်း တိုက်ပွဲ၌ကျဆုံးကြ၏။

ထိုနောက် ဒေးဗစ် (ဒါဝိဒ်) (ဘီစီ ၁၀၁၀—၉၇၀ ခန့်) သည် ယဟူဒီတို့၏ဘုရင် ဖြစ်လာ၍ ဂျရုးဆလမ်းမြို့ (ယေရုရှလင်) ကို မြို့တော်အဖြစ် ထားရှိလေသည်။ ယဟူဒီတို့၏နိုင်ငံသည်လည်း စည်ပင်သာယာလျက် ရှိပေသည်။ ဒေး

ဗစ်၏ ထီးနန်းအရိုက်အရာကို ဆက်ခံသော သားတော် ဆောလမွန် (ရှောလမုန်) ဘုရင် လက်ထက်တွင် ယဟူဒီတို့၏ နိုင်ငံသည် အထွတ်အထိပ်သို့ ရောက်ရှိလေသည်။ ဆောလမွန်ဘုရင် ဉာဏ်ပညာကြီးမားပုံနှင့် စည်းစိမ်ကြွယ်ပုံ သတင်းမှာ အနီးအနားရှိ တိုင်းပြည်များသို့ ပျံ့နှံ့ခဲ့၏။ (ဒေးဗစ်။ ဆောလမွန်ဘုရင် — တို့လည်းရှု။)

ဆောလမွန် ဘုရင်သည် ဂျရုးဆလမ်မြို့တော်၌ အလွန်ကြီးကျယ် ခမ်းနားသော ဘုရားတန်ဆောင်းကြီး (ဝါ) ဗိမာန်တော်တခုကို ဆောက်လုပ်ခဲ့၏။ သို့ရာတွင် နောက်ဆုံး၌ ဘုရင်ကြီးသည် တိုင်းပြည်အုပ်ချုပ်ရေးဖက်၌ ပေါ့လျော့ လာခြင်းကြောင့်၎င်း၊ ဘာသာအယူဝါဒ ကိုးကွယ်ရေးဖက်၌ ပေါ့ဆ လာခြင်းကြောင့်၎င်း တိုင်းသူပြည်သားတို့သည် ဘုရင့်အပေါ်၌ မကျေမနပ် ဖြစ်ကြလေသည်။ သို့ဖြစ်၍ ဘုရင်ကြီးနတ်ရွာစံပြီးနောက် သားတော်လက်ထက်တွင် ယဟူဒီတို့၏ တိုင်းပြည်သည် မြောက်ပိုင်းနှင့် တောင်ပိုင်းဟူ၍ နှစ်ပိုင်း ကွဲလေတော့သည်။

ယဟူဒီ (ဝါ) အစ္စရီယယ် တဆဲ့နှစ်မျိုးအနက် ၁၀ မျိုးတို့သည် ပယ်လက်စတိုင်ပြည် မြောက်ပိုင်းတွင် အစ္စရီယယ်နိုင်ငံ ဟူ၍ သီးခြားနိုင်ငံတခုကို တည်ထောင်ကြသည်။ ကျန် အစ္စရီယယ် နှစ်မျိုးတို့သည်ကား တောင်ပိုင်းတွင် ဂျူဒါ ( ယုဒ ) နိုင်ငံကို တည်ထောင်ကြလေသည်။ အစ္စရီယယ် နိုင်ငံသည် ဂျူဒါနိုင်ငံထက် မြေဩဇာ ကောင်းမွန်၍ စည်ပင် ဝပြောသည်။ ဂျူဒါ နိုင်ငံတွင် ဂျရုးဆလမ်မြို့မှလွဲလျှင် အခြား မြို့ကြီးပြကြီး ဟူ၍ မရှိချေ။ ခြောက်သွေ့သော အရပ်ဖြစ်၏။ နိုင်ငံ အချင်းချင်းလည်း မသင့်မတင့်ကြချေ။

ဘီစီ ၇၂၁ ခုနှစ်တွင် အဆီးရီးယန်း လူမျိုးတို့သည် တန်ခိုး ကြီးလာ၍ အစ္စရီယယ် နိုင်ငံ၏ မြို့တော်ဖြစ်သော ဆမေးရီးယားမြို့ကို တိုက်ခိုက် သိမ်းပိုက်ပြီးလျှင် အစ္စရီယယ် လူမျိုးများကို ကျွန်အဖြစ် ခေါ်ဆောင်သွားလေသည်။

မြောက်ပိုင်း အစ္စရီယယ်နိုင်ငံ ကျဆုံးပြီးနောက် နှစ်ပေါင်းဘရာကျော် ကြာသောအခါ အဆီးရီးယားဘုရင် ဆင်နာခရစ်သည် ဂျူဒါ နိုင်ငံကိုလည်း ချီတက် တိုက်ခိုက်လေသည်။ သို့ရာတွင် အလိုမပြည့်ဘဲရှိချေသည်။ ထိုနောက် ဗက်ဗီလုံးနီးယား (ဗာဗုလုံ) နိုင်ငံသည် အင်အား ကြီးမားလာသဖြင့် ဘီစီ ၅၈၆ ခုနှစ်တွင် နက်ဗျူခက်နက်ဇာ ဘုရင်သည် ဂျူဒါ နိုင်ငံကို တိုက်ခိုက် အောင်မြင်၍ ဂျရုးဆလမ်မြို့နှင့် တကွ ဘုရားတန်ဆောင်းကြီးကို ဖျက်ဆီးပစ်လေသည်။ ဂျူဒါ ပြည်သူ ပြည်သား အမြောက်အမြားတို့ကိုလည်း ဗက်ဗီလုံးမြို့တော်သို့ ဖမ်းဆီး ခေါ်ဆောင် သွားလေ၏။ (ဗက်ဗီလုံးနီးယားနိုင်ငံ။ ဗက်ဗီလုံးမြို့ — ရှု။)

ထိုနောက် ဗက်ဗီလုံးပျက်စီး၍ ပါးရှင်းလူမျိုးများ တန်ခိုးကြီးလာသောအခါ ပါးရှင်းဘုရင် ဆိုင်းရပ်သည် ဘီစီ ၅၃၈ ခုနှစ်တွင် ယဟူဒီတို့ကို ဂျရုးဆလမ်မြို့သို့ ပြန်ခွင့်ပေး၏။ ဂျရုးဆလမ်မြို့၌လည်း ဘုရားတန်ဆောင်းကြီးကို ပြန်လည်ဆောက်လုပ်ခွင့်ပြုသည်။ (ဆိုင်းရပ် — ရှု။) ဘီစီ ၄၄၄ ခုနှစ်တွင် ပါးရှင်းဘုရင်က ယဟူဒီအမျိုးသား နေဟမီးယားကို ဂျူဒီးယားပြည် (ဂျူဒါ) ၌ ဘုရင်ခံအဖြစ် ခန့်ထားလေသည်။ နေဟမီးယားလက်ထက်တွင် ယဟူဒီတို့သည် နိုင်ငံရေးရာ အရသော်၎င်း၊ အယူဝါဒရေးရာ အရသော်၎င်း တိုးတက်လာကြသည်။

ဘီစီ လေးရာစုနှစ်အတွင်း အယ်လက်ဇန္ဒာ ဘုရင်ကြီးသည် ပါးရှင်းတို့ကို တိုက်ခိုက်အောင်မြင်သဖြင့် ယဟူဒီတို့သည် ဂရိဘုရင်ကြီး လက်အောက်သို့ ကျရောက်ရပြန်သည်။ (အယ်လက်ဇန္ဒာ-သ-ဂရိတ် — ရှု။) အယ်လက်ဇန္ဒာဘုရင်ကြီး ကွယ်လွန်ပြီးနောက် အီဂျစ်ပြည်မှ တော်လမီ ဘုရင်များက ဂျူဒီးယားပြည်ကို နှစ်ပေါင်း ၁၀၀ ခန့် အုပ်စိုးကြလေသည်။ ထိုနောက် ဂျူဒီးယားပြည်သည် ဆီးရီးယားပြည် လက်အောက်သို့ ရောက်ရှိပြန်သည်။ အယ်လက်ဇန္ဒာဘုရင်ကြီး လက်ထက်၌သော်၎င်း၊ အီဂျစ်ဘုရင်များလက်ထက်၌သော်၎င်း ယဟူဒီတို့သည် လွတ်လပ်စွာ နေထိုင်ခွင့် ကိုးကွယ်ခွင့်ကို ရရှိခဲ့ကြ၏။ သို့ရာတွင် ဘီစီ ၁၆၈

တိုရာခေါ် သမ္မာကျမ်းဟောင်းကို ယဟူဒီများ ယူဆောင် လှည့်လည် လာကြစဉ်

ခုနှစ်၌ ဆီးရီးယား ဘုရင် အင်တီယိုခပ် အက်ပီဖေနီသည် ယဟူဒီတို့၏ အယူဝါဒကို စော်ကားလာသဖြင့် ပုန်ကန်ထကြွကြလေသည်။ မက္ကဗီ ညီအစ်ကို ငါးယောက်က ယဟူဒီတို့ကို ခေါင်းဆောင်၍ တော်လှန်ကြရာ ဆီးရီးယန်းတပ်များကို တိုက်ခိုက်အောင်မြင်ပြီးလျှင် လွတ်လပ်ရေးကို ပြန်လည်ရရှိကြပြန်သည်။

ယဟူဒီတို့သည် ထီးနန်းဆက်ခံရေးနှင့် စပ်လျဉ်း၍ အချင်းချင်း မသင့်မတင့် ဖြစ်ကြသောကြောင့် မဟာမိတ်ဖြစ်သော ရောမ နိုင်ငံကို ဖြန်ဖြေပေးရန် အကူအညီတောင်းရလေသည်။ ထိုအခါ ရောမဗိုလ်ချုပ် ပွန်ပီသည် အခွင့်ကောင်းယူလျက် ဘီစီ ၆၃ ခုနှစ်တွင် ပယ်လက်စတိုင်ပြည်ကို သိမ်းပိုက်လေ၏။ (ပွန်ပီ — လည်းရှု။) ရောမတို့သည် ပယ်လက်စတိုင်ပြည်ကို နိုင်ငံခြားသား ဘုရင်ခံများလက်အောက်တွင်ထား၍ အုပ်ချုပ်သည်။ ထိုဘုရင်ခံများသည် ယဟူဒီတို့ကို အလွန်ညှဉ်းပန်းကြသဖြင့် တော်လှန် ပုန်ကန်မှုများ မကြာခဏ ပေါ်ပေါက်လေသည်။ နောက်ဆုံး၌ ရောမဗိုလ်ချုပ် တိုင်တပ်သည် အေဒီ ၇၀ ပြည့်နှစ်တွင် ဂျရုဆလမ်မြို့ကို သိမ်းပိုက်၍ ဘုရားတန်ဆောင်းကြီးကို မီးရှို့ဖျက်ဆီးပစ်လေသည်။ ယဟူဒီပေါင်း ထောင်သောင်းမကအသတ်ခံရ၍ ကျန်လူများကိုလည်း ကျေးကျွန်အဖြစ် ဖမ်းဆီးသည်။ ထိုအချိန်မှစ၍ ယဟူဒီတို့သည် ထီးကျိုးစည်ပေါက်ဖြစ်ကြပြီးနောက် ကမ္ဘာအရပ်ရပ်သို့ ရောက်ရှိ ကြရလေသည်။

ယဟူဒီတို့သည် ဥရောပတိုက်၊ အာဖရိကတိုက်နှင့် အမေရိကတိုက်များသို့ သွားရောက်နေထိုင်ကြ၏။ သူတို့ရောက်ရှိသော တိုင်းပြည်များ၌ အများနည်းတူ အခွင့်အရေးများ မရရှိကြချေ။ မြို့တွင်း သီးခြားရပ်ကွက်၌သာ နေခွင့်ရ၏။ မြေယာပိုင်ခွင့်မရှိ။ ကုန်သွယ်မှုနှင့် ငွေချေးလုပ်ငန်းကိုသာ လုပ်ကိုင်နိုင်၏။ စီးပွားတိုးတက်လာလျှင်လည်း တိုင်းရင်းသားများက မယုံသင်္ကာ ဖြစ်လာတတ်သည်။ ထိုကြောင့် ယဟူဒီတို့သည် ရောက်ရာအရပ်၌ သူတပါး၏ အငြိုအငြင်ကို ခံရရုံမျှမက၊ တခါတရံ လူထုနှင့် ဝိုင်း၍ နှိပ်စက်ညှဉ်းဆဲသတ်ဖြတ်ခြင်းကိုပင် ခံရလေသည်။ သို့ရာတွင် ယဟူဒီတို့သည် မိမိတို့၏ အယူဝါဒကို စွဲမြဲစွာ ယုံကြည်လျက် မိုးဇက် ချမှတ်သော တရားကို တသွေမတိမ်း လိုက်နာလျက်ရှိကြ၏။

၁၉၃၃ ခုနှစ်တွင် ဂျာမနီမှ နာဇီခေါင်းဆောင် ဟစ်တလာသည် ယဟူဒီလူမျိုးကို ပြင်းပြင်းထန်ထန် နှိပ်ကွပ်လေသည်။ အစအဦးတွင် ယဟူဒီတို့ကို ဆရာဝန်အလုပ်၊ ကျောင်းဆရာအလုပ်မှ ဖယ်ရှား၏။ ထိုနောက် ယဟူဒီပိုင်ပစ္စည်းများကို သိမ်းယူ၏။ လူမျိုးရေး အဓိကရုဏ်းများကို လှုံ့ဆော်၍ နှိပ်စက် ညှဉ်းဆဲ၏။ နောက်ဆုံး ၁၉၃၉ ခုနှစ်တွင် နာဇီခေါင်းဆောင်များသည် ဥရောပတိုက် အရှေ့ပိုင်းနှင့် အလယ်ပိုင်း၌ နေထိုင်ကြသော ယဟူဒီလူမျိုး ခြောက်သန်းခန့်ကို သတ်ပစ်ကြလေသည်။

ပဌမကမ္ဘာစစ် (ခရစ် ၁၉၁၄–၁၉၁၈) အတွင်းက ယဟူဒီတို့သည် ပယ်လက်စတိုင်တွင် သီးသန့်နယ်ပယ် သတ်မှတ်ပေးရန် ဗြိတိသျှ အစိုးရထံ တောင်းဆိုကြသည်။ စစ်ပွဲအပြီး၌ ကမ္ဘာအရပ်ရပ်မှ ယဟူဒီတို့ကို ပယ်လက်စတိုင်တွင် နေရာချထားပေး၍ နိုင်ငံပေါင်းချုပ် အသင်းကြီး၏ အမိန့်အရ ဗြိတိသျှတို့က အုပ်ချုပ်လေသည်။ သို့ရာတွင် ယဟူဒီနှင့် အာရပ်တို့ နယ်လု၍ အချင်းချင်းတိုက်ခိုက်ကြလေသည်။ ဒုတိယကမ္ဘာစစ် ပြီးသည့်နောက် ၁၉၄၇ ခုနှစ်တွင် ဗြိတိသျှ အစိုးရသည် ပယ်လက်စတိုင်ပြည် အုပ်ချုပ်ခွင့်အာဏာကို ကုလသမဂ္ဂသို့ ပြန်အပ်၍ ယဟူဒီနှင့် အာရပ်တို့၏ ပြဿနာကို ဖြေရှင်းပေးရန် တင်ပြလေသည်။ ယင်းသို့အားဖြင့် ၁၉၄၈ ခုနှစ် မေလ ၁၄ ရက်နေ့တွင် ယဟူဒီတို့အတွက် ပယ်လက်စတိုင်ပြည် တပိုင်းကို အစ္စရေးယယ် သမတနိုင်ငံအဖြစ် တည်ထောင် ပေးခဲ့ကြသည်။ (အစ္စရေးယယ် နိုင်ငံ — ရှု။)

၁၉ ရာစုနှင့် ၂၀ ရာစုနှစ်များအတွင်းက ယဟူဒီအမျိုးသားထဲမှ လူရည်ချွန်မြောက်မြားစွာ ပေါ်ထွက်ခဲ့ပေသည်။ ကားလမတ် (ခရစ် ၁၈၁၈ – ၈၃)၊ အဲလဗတ်အိုင်းစတိုင်း (ခရစ် ၁၈၇၉–၁၉၅၅)၊ ပေါအာလစ်(ခရစ် ၁၈၅၄–၁၉၁၅)၊ ဟင်နရီဗတ်ဂဆန် (ခရစ် ၁၈၅၉–၁၉၄၁) နှင့် ဇီဂမွန့်ဖရွိုက် (ခရစ် ၁၈၅၆–၁၉၃၉) တို့မှာ ထင်ရှားသည်။ ဗင်ဂျမင် ဒစ်ဇရေလီ(ခရစ် ၁၈၀၄–၈၁)၊ လော့ရက်ဒင်း(ခရစ် ၁၈၆၀–၁၉၃၅)၊ လော့ဆယ်မျူယယ်(ခရစ် ၁၈၇၀–)နှင့် အက်ဒွင်မွန်တေဂူ (ခရစ် ၁၈၇၉–၁၉၂၄) တို့မှာ ဗြိတိန်နိုင်ငံတွင် ထင်ရှားသော ယဟူဒီ ခေါင်းဆောင်များ ဖြစ်ပေသည်။

**ယုဇနပင်။** ။ယုဇနပင်ကို သနပ်ခါးပင် ဟူ၍လည်း ခေါ်သည်။ ရုက္ခဗေဒ အလိုအားဖြင့် မာရယာ အိတ်ဇောတီးကား ဟု ခေါ်၍ ရူတာစီအီး မျိုးရင်းတွင် ပါဝင်သည်။ ယုဇနပင်သည် အမြဲစိမ်း အပင်မျိုးဖြစ်ပြီးလျှင် ချုံအကြီးမျိုး၊ သို့မဟုတ် သစ်ပင်အငယ်မျိုး ဖြစ်သည်။ အခေါက်မှာ မဲ့ပြာရောင်ဖြစ်သည်။ အသား ကျစ်လျစ်၍ အရောင်ဖြူသည်။ အရွက်ဖျားမှာ ချွန်မွတ်၍ တောက်ပြောင်သည်။ အပွင့်များမှာ ဖြူ၍ အနံ့မွှေးသည်။ ယုဇနပင်ကို အိန္ဒိယနိုင်ငံ၊ အာသံပြည်နယ် ၌လည်း တွေ့ရသည်။ အထက်အောက် မြန်မာနိုင်ငံ နေရာအနှံ့အပြားတွင် ယုဇနပင်များကို တွေ့နိုင်ပေသည်။ မတ်လမှ စက်တင်ဘာလထိ အပွင့်များ ပွင့်သည်။ မြန်မာအမျိုးသမီးများသည် အခေါက်များကို သနပ်ခါးကဲ့သို့ သွေး၍လိမ်းတတ်ကြသည်။

**ယုဒသန်** ( ခရစ် ၁၇၈၈ – ၁၈၅၀ )။ ။ယုဒသန်သည် ဘိုးတော်ဘုရား လက်ထက်တွင် အမေရိကန် ပြည်ထောင်စု နိုင်ငံမှ မြန်မာနိုင်ငံသို့ ရောက်လာသော ခရစ်ယန် သာသနာပြု ပုဂ္ဂိုလ် ဖြစ်သည်။ ယုဒသန် ဟူသော အမည်မှာ မြန်မာတို့က ''ဂျပ်ဆင်'' ဆိုသည့်စကားလုံးကို အသံလှယ်၍ခေါ်သော အသံထွက် ဖြစ်ပြီးလျှင် အမည်ရင်းမှာမူ အဒိုနီရမ် ဂျပ်ဆင် ဖြစ်လေသည်။ ယုဒသန်သည် မြန်မာ နိုင်ငံတွင် အမေရိကန် နှစ်ခြင်း ခရစ်ယန်ဂိုဏ်းကို စတင်တည်ထောင်သူ ဖြစ်သည်။ ယုဒသန်သည် မြန်မာနိုင်ငံ ခရစ်ယန် သာသနာ



မြန်မာ - အင်္ဂလိပ် အဘိဓာန် ကျမ်းပြုဆရာ ယုဒသန်

ရေး ဖက်၌သာမက စာပေဖက်၌သော်၎င်း၊ နိုင်ငံရေးဖက်၌ သော်၎င်း ထင်ရှားသော ပုဂ္ဂိုလ်တဦး ဖြစ်လေသည်။

ယုဒသန်သည် ၁၇၈၈ ခုနှစ် ဩဂုတ်လ ၉ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စုနိုင်ငံ၊ မက်ဆချူးဆက် ပြည်နယ် မော်လဒင်းမြို့၌ ဖွားမြင်သည်။ဗရောင်းတက္ကသိုလ်တွင် ပညာသင်ကြားခဲ့၏။ ၁၈၁၂ ခုနှစ် ဖေဖွာရီလ ၅ ရက်နေ့တွင် အန်ဟေဇယ်တိုင်ဆိုသူ အမျိုးသမီးနှင့် ထိမ်းမြားလက်ထပ် လေသည်။ နောက်တနေ့တွင် ယုဒသန်သည် အခြား အဖော် လေးဦးတို့နှင့် အတူ အရှေ့အာရှနိုင်ငံများသို့ သွား၍ သာသနာပြုရန် စေလွှတ်ခြင်းခံရ၏။ ယုဒသန် ဇနီးမောင်နှံတို့သည် ဖေဖွာရီလ ၁၉ ရက်နေ့တွင် ဆေလမ်မြို့ ဆိပ်ကမ်းမှ သင်္ဘောဖြင့် ထွက်ခွာခဲ့ကြသည်။ ဇွန်လတွင် အိန္ဒိယနိုင်ငံ ကာလကတ္တားမြို့သို့ ဆိုက်ရောက်သည်။

ထိုအချိန်က ဗြိတိသျှ အစိုးရနှင့် အမေရိကန် အစိုးရတို့ အချင်းချင်း မသင့်မတင့် ဖြစ်လျက် ရှိရကား အိန္ဒိယနိုင်ငံတွင် ရောက်ရှိနေသည့် ဗြိတိသျှတို့၏ အရှေ့ အိန္ဒိယ ကုမ္ပဏီသည် အမေရိကန် သာသနာပြုပုဂ္ဂိုလ်များကို ထိုတိုင်းပြည်၌ နေထိုင်ရန် မလိုလားချေ။ ထို့ကြောင့် အိန္ဒိယနိုင်ငံရှိ ဘုရင်ခံချုပ်က ယုဒသန်နှင့် ဇနီးတို့ကို မိမိတို့ စီးနင်း လိုက်ပါလာခဲ့သော သင်္ဘောဖြင့် အမေရိကန်နိုင်ငံသို့ပြန်ရန် အမိန့်ပေးလေသည်။ ထိုအခါ ယုဒသန်သည် ပြင်သစ်ပိုင် မောရစ်ရှပ်ကျွန်းသို့ ထွက်ခွာခဲ့ရသည်။ အိန္ဒိယနိုင်ငံ၌ ရှိနေစဉ် ယုဒသန်နှင့် သူ၏ ဇနီးတို့သည် နှစ်ခြင်း ခရစ်ယန်ဂိုဏ်းသို့ ကူးပြောင်းခဲ့ကြသည်။

ယုဒသန်သည် အရှေ့ အာရှနိုင်ငံများ၌ သာသနာ ပြုရန် ဟူသော မူလရည်ရွယ်ချက်ကို စွန့်လွှတ်ရမည်ကဲ့သို့ အခြေအနေတွင် ရောက်ရှိနေခဲ့သော်လည်း၊ ၁၈၁၃ ခုနှစ် ဇွန်လ ဆန်း၌ အရှေ့ဖက်သို့ ကြုံရာသင်္ဘောနှင့် သွားမည် ဟူသော အကြံဖြင့် အိန္ဒိယနိုင်ငံ မဒရပ်မြို့သို့ ထွက်ခွာခဲ့ကြပြန်သည်။ တဖန် မဒရပ်မြို့မှ တဆင့် ဂျောဂျီးယားနား အမည်ရှိ သင်္ဘောဖြင့် မြန်မာနိုင်ငံသို့ လိုက်ပါ လာခဲ့ကြရာ ဇူလိုင်လ ၁၃ ရက်နေ့တွင် ရန်ကုန်မြို့သို့ ဆိုက်ရောက်လေသည်။

ထိုအခါက ရန်ကုန်သည် ယခုကာလ ရန်ကုန်နှင့် လုံးဝ မတူချေ။ ဆူးလေစေတီတော်ကို အရှေ့ဖက်၊ အနောက်ဖက်နှင့် တောင်ဖက်တို့မှ အင်းကြီး တခု ကာလျက်ရှိသည်။ မြို့ကို အင်းကြီးနှင့် ချောင်းမြောင်း ထုံးအိုင်တို့ ဝန်းရံလျက် ရှိသဖြင့် ကျွန်းကြီးကဲ့သို့ ဖြစ်လျက် ရှိသည်။ မြို့မြောက်မျက်နှာ ဝန်ကြီးတံခါးမှ ထွက်၍ ချောင်းကို ကူးပြီးလျှင် ဝန်ကြီးလမ်းအတိုင်း ဆက်သွားပါမူ မိုင်ဝက်လောက် ခရီးတွင် နှစ်ခြင်းသာသနာပြု အိမ်ကြီးသို့ ရောက်လေသည်။ ယခု ဘားလမ်း၏ မြောက်စွန်းအနီးတွင် ဖြစ်သည်ဟု သမိုင်းဆရာများက ဆိုသည်။ ထိုအိမ်ရှင်မှာ အိန္ဒိယနိုင်ငံ ဆရမ်ပူမြို့ရှိ အင်္ဂလိပ် နှစ်ခြင်းခရစ်ယန်သာသနာပြု ဝီလျံကာရီ၏ သား ဖလစ်ကာရီ ဖြစ်သည်။ ထိုသာသနာပြုအိမ်၌ ယုဒသန်တို့ နေထိုင်ကြလေသည်။

ဟောရန် ပြောရန် သာသနာပြုရန် ရောက်လာကြသည် ဖြစ်သော်လည်း ယုဒသန်တို့သည် မြန်မာစကားကို တလုံးတပါဒမျှ မတတ်ကြ။ ထို့ကြောင့် မြန်မာစကားကို ဦးစွာ ကြိုးစား သင်ယူ ရသည်။ ထို့နောက် မြန်မာစာပေကို လေ့ကျက်ရသည်။ သို့ဖြင့် သုံးနှစ် သုံးမိုး ရှိလာသောအခါ ယုဒသန်သည် မြန်မာသဒ္ဒါကျမ်းတစောင်ကို ရေးသား ပြုစုပြီး လေ၏။ မြန်မာတို့အကြားတွင် သာသနာပြုဖို့ရန် မြန်မာတို့၏ အယူဝါဒ အလေ့အလာတို့ကိုလည်း နားလည်ရပေဦး

မည်။ ထို့ကြောင့် ယုဒသန်သည် လောကုတ္တရာစာပေများကို လေ့လာဆည်းပူးရာ၊ မြန်မာစကားကဲ့သို့ ဖြစ်နေသော ပါဠိ၊ သက္ကတစကားလုံးပေါင်း လေးထောင်လောက်ကို စုဆောင်းမိလေသည်။ ထိုစကားလုံးများကို အက္ခရာဝလိစဉ်၍ မြန်မာအနက်ပေးကာ ပါဠိ-မြန်မာအဘိဓာန်ကို စတင် ပြုစုလေသည်။ ထိုအဘိဓာန်တွင် ပါသော မြန်မာစကားလုံးများကို တဖန် အက္ခရာဝလိစဉ်ကာ အင်္ဂလိပ်အနက် ပေး၍ ပဌမ မြန်မာ-အင်္ဂလိပ် အဘိဓာန်ငယ်ကို ဆက်လက် ပြုစုပြန်သည်။

၁၈၁၆ ခုနှစ်တွင် ဗင်္ဂလားပြည်နယ် ဆရမ်ပူ သာသနာပြုကောလိပ်ကျောင်းက ပုံနှိပ်စက်တလုံးနှင့် မြန်မာ ခဲစာလုံးများကို လက်ဆောင် ပေးပို့လိုက်သည်။ ပုံနှိပ်စက်နှင့် အတူ ဆရာဟောက် ဆိုသူ ပုံနှိပ်ပညာတတ် အမေရိကန် သာသနာပြုပုဂ္ဂိုလ်တဦးလည်း ရောက်လာ၏။ ၁၈၁၇ ခုနှစ်တွင် ယုဒသန်သည် ရှင်မဿဲ ခရစ်ဝင်ကျမ်းကို မြန်မာ ပြန်ဆိုပြီးစီးသည်။ ထိုအခါ ယုဒသန်သည် တရား ဟောနိုင်လောက်အောင် စကားတတ်ပြီ ဟု အယူရှိလေသည်။ ထို့ကြောင့် သူသည် မြန်မာတို့ တရားနာလေ့ရှိသော စရပ်များသို့သွားကာ ဓမ္မကထိကများ ဟောသည်တို့ကို မြန်မာများနှင့်အတူ နာယူ၍ အတုယူ နည်းမှီးလေတော့သည်။ ထိုနောက် သာသနာပြု အိမ်ကြီးနှင့် မလှမ်းမကမ်း လူသွားလူလာများသော ခရီးတွင် စရပ်တဆောင် ဆောက်လုပ်သည်။ စရပ် မျက်နှာစာ ခန်းကို ဝါး ခနိတို့ဖြင့် ဆောက်လုပ်၍ အကာအရံမရှိ ဟင်းလင်းထားသည်။ ထိုအဆောင်တွင် ယုဒသန် ထိုင်၍ ခရီးသွားများကို တရားနာ လာရန် ဖိတ်ခေါ် လေ့ရှိသည်။ ကလေးသူငယ်များကိုလည်း သစ်သားသင်ပုန်းကြီးများ ခင်း၍ စာသင်ပေးလေ့ ရှိသည်။ ထိုစရပ်ကြီးတွင် ယုဒသန်သည် တရား စ၍ဟောသည်။ ကျမ်းစာများကိုလည်း ဆက်လက် ရေးသား ပြန်ဆိုကာ ပုံနှိပ် ထုတ်ဝေလေသည်။

သို့ဖြင့် ဘကြီးတော်ဘုရားလက်ထက်သို့ရောက်လာသော အခါ ဘုရင်မင်းမြတ်ထံမှ တရားဟောပြောခွင့် အမိန့်တော်ကို ခံယူရန် လိုသဖြင့် အခြား သာသနာပြုတဦးဖြစ်သူ ဆရာကိုးလမင်းနှင့် အတူ နေပြည်တော်သို့ ၁၈၁၉ ခုနှစ် ဒီဇင်ဘာလတွင် ဆန်တက် သွားကြလေသည်။ လမ်းခရီးတွင် တလကျော် ကြာပြီးနောက် အမရပူရမြို့တော်၌ ဘကြီးတော်မင်းတရားကြီးထံ အခစား ဝင်ရောက်ခွင့် ရ၍ ယုဒသန်က သာသနာ ပြုခွင့်ရရန် လျှောက်တင်လေသည်။ သို့ရာတွင် မင်းတရားကြီးက နှစ်သက်တော် မမူသဖြင့် အခွင့် မရဘဲ ရန်ကုန်မြို့သို့ စုန်ဆင်းခဲ့ရသည်။

ထိုအတော အတွင်း ယုဒသန်၏ ဇနီးမှာ ကျန်းမာရေး ချွတ်ယွင်းလျက် ရှိသဖြင့် ၁၈၂၁ ခုနှစ်တွင် အမေရိကန် နိုင်ငံသို့ ပြန်လေသည်။ ထိုနောက် မျက်စိရောဂါနှင့် နားရောဂါဖက်၌ အထူးကျွမ်းကျင်သော သာသနာပြု ဆရာဝန် ဒေါက်တာ ပရိုက်(စ)ဆိုသူသည် ၁၈၂၁ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်နေ့တွင် ရန်ကုန်မြို့သို့ရောက်လာသည်။ ၁၈၂၂ ခုနှစ် ဩဂုတ်လ ၂၈ ရက်နေ့တွင် ဒေါက်တာ ပရိုက်(စ) သည် အင်းဝမြို့တော်ရှိ ဘကြီးတော်မင်းတရားကြီးထံ အခစားဝင်ရောက်ရန် ဆန်တက်ရာ၌ ယုဒသန်လည်း စကားပြန်အဖြစ် ဒုတိယ အကြိမ် လိုက်ပါသွားပြန်လေသည်။ ထိုအချိန်၌ ဘကြီးတော် မင်းတရားသည် အင်းဝ မြို့တော်သို့ ပြောင်းရွှေ့စံနေတော်မူပြီ ဖြစ်၏။ တခါသော် ယုဒသန်သည် ဘကြီး




ယုဒသန် အကျဉ်းချခံခဲ့ရသော လက်မရှိုးထောင်နေရာ အထိမ်းအမှတ်

တော်မင်းတရား ရှေ့တွင် တရားဟောပြရလေသည်။ မင်းတရားကြီးက ယုဒသန်အား နေပြည်တော်၌ နေထိုင်ရန် မြေတကွက်ကို ပေးသနားတော်မူသည်။ ဒေါက်တာပရိုက်(စ)ကိုမူ စစ်ကိုင်းဖက်၌ အိမ်ဆောက်နေထိုင်ခွင့် ပေးလေသည်။

ထိုနောက် ယုဒသန်သည် ရန်ကုန်မြို့သို့ စုန်ဆင်းခဲ့သည်။ ၁၈၂၃ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့တွင် အန် ဟေဇယ်တိုင်သည် အမေရိကန်နိုင်ငံမှ ပြန်ရောက်လာသည်။ ၁၈၂၄ ခုနှစ် ဇန္နဝါရီလ ၂၃ ရက်နေ့တွင် ယုဒသန် ဇနီးမောင်နှံ နှစ်ဦးတို့သည် အင်းဝနေပြည်တော်သို့ ရောက်ရှိပြီးလျှင် အိမ်တဆောင် ဆောက်၍ နေထိုင်ကြလေသည်။

ယုဒသန်သည် မြန်မာမှူးမတ် ဆွေတော် မျိုးတော်တို့နှင့် သင့်မြတ်အောင် ပေါင်းသင်း၍ သူ၏ ဇနီးက ကျောင်း တကျောင်း ဖွင့်ကာ အပ်ချုပ်အတတ်နှင့် စာရေးစာဖတ်တို့ကို သင်ကြားပေးသည်။ ယုဒသန်သည် စကြာမင်းကလေး ခေါ် ညောင်ရမ်းမင်းသားထံ မပြတ်ခစားသည်။ ခဲပေါင် မြို့စား ဝန်ကြီး ဦးရွှေလူ၊ မြဝတီဝန်ကြီး ဦးစနှင့် မက္ခရာ မင်းသားကြီးတို့ထံသို့လည်း ဝင်ထွက်လေသည်။

ထိုအတော အတွင်း မြန်မာ အစိုးရနှင့် အင်္ဂလိပ် အစိုးရတို့သည် ရှင်မဖြူကျွန်း အရေးကြောင့် စစ်ဖြစ်ကြရာ ၁၈၂၄ ခုနှစ် မေလတွင် အင်္ဂလိပ်တို့က ရန်ကုန်မြို့ကို သိမ်းယူ လေသည်။ ထိုအချိန်တွင် နေပြည်တော်၌ နိုင်ငံခြားသားတို့အား ထိန်းသိမ်းစောင့်ကြပ်ထားရန် လိုအပ်သည့်အတိုင်း ယုဒသန်နှင့် ဒေါက်တာ ပရိုက်(စ)တို့ကို ဖမ်းဆီး၍ လက်မရှိထောင်သို့ ပို့ထားလေသည်။ အခြား အင်္ဂလိပ် လူမျိုးများလည်း ထိုနည်းအတူ အဖမ်းခံရသည်။ ၁၈၂၅ ခုနှစ် ဇန္နဝါရီလ ၂၆ ရက်နေ့တွင် ယုဒသန်၏ ဇနီး၌ သမီး ဖွားမြင်၍ မာရီယာဟု အမည် မှည့်ခေါ် သည်။

ယုဒသန်တို့ လူစုကို ထောင်ထဲ၌ ၁၁ လ အကျဉ်းချထားပြီးနောက် အောင်ပင်လယ်ထောင်သို့ တဖန် ပြောင်းရွှေ့ချုပ်နှောင် ထားလေသည်။ ယုဒသန်၏ ဇနီးလည်း မိမိ၏ ခင်ပွန်းသွားရာ အရပ်သို့ လိုက်ခဲ့သည်။ ထိုနှစ် နိုဝင်ဘာလတွင် ယုဒသန်အား ထောင်မှ လွှတ်ရန် အမိန့်ရောက်လာသည်။ မလွန်မြို့အနီး ညောင်ပင်ဆိပ် စခန်းတွင် အင်္ဂလိပ်နှင့် မြန်မာတို့ စစ်ပြေငြိမ်းရေးအတွက် နှစ်ဦးနှစ်ဖက် စေ့စပ်ဆွေးနွေးရာ၌ ယုဒသန်ကို စကားပြန် အဖြစ် စေလွှတ်ရန် အတွက် ဖြစ်သည်။ ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် အင်းဝသို့ ပြန်ရောက်လေသည်။

ထိုနောက် ခဲပေါင်မြို့စား ဝန်ကြီး ဦးရွှေလူ၏ ကူညီချက်ဖြင့် ယုဒသန်သည် ၁၈၂၅ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့တွင် ထောင်မှ လွှတ်သည်။ ထိုအချိန်တွင် ယုဒသန်၏ ဇနီး အသည်းအသန် ဖျားနာလျက်ရှိသည်။ ၁၈၂၆ ခုနှစ်တွင် ရန္တပိုစာချုပ် ချုပ်ဆိုသောအခါ ယုဒသန်သည် စကားပြန်အဖြစ်ဆောင်ရွက်ကာ အင်္ဂလိပ်မှ မြန်မာသို့၊ မြန်မာမှ အင်္ဂလိပ်သို့ ပြောသမျှစကား၊ ရေးသမျှစာတို့ကို ပြန်ဆိုပေးရလေသည်။ စစ်ပြေငြိမ်းသွားသော အခါတွင်ကား ယုဒသန်တို့သည် အောက်ပြည်သို့ စုန်၍ အင်္ဂလိပ် ပိုင်နက် ဖြစ်သော ကျိုက္ခမီမြို့၌ နေထိုင်ကြသည်။ (ရန္တပိုစာချုပ် — လည်းရှု။)

ယုဒသန်၏ ဇနီး အန် ဟေဇယ်တိုင်သည် ၁၈၂၆ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကွယ်လွန်သည်။ ထိုအချိန်တွင် ယုဒသန်သည် ဗြိတိသျှအစိုးရ ကိုယ်စားလှယ် ဂျွန်ကရောဖတ်နှင့်အတူ အင်းဝမြို့တော်သို့ အစိုးရကိစ္စဖြင့် ရောက်ရှိနေခိုက်ဖြစ်၏။ ၁၈၂၇ ခုနှစ် ဧပြီလ ၂၄ ရက်နေ့တွင် ယုဒသန်၏သမီး မာရီယာလည်း ကွယ်လွန်လေသည်။

ယုဒသန် ပြန်ဆိုခဲ့သော ဓမ္မသစ်ကျမ်းကို ၁၈၃၂ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် မော်လမြိုင်မြို့ သာသနာပုံနှိပ်တိုက်၌ ပဌမဦးဆုံးအကြိမ် ရိုက်နှိပ်ခဲ့သည်။ ဓမ္မဟောင်းကျမ်းကိုလည်း ဆက်လက် ပြန်ဆိုခဲ့ရာ ၁၈၃၅ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်နေ့တွင် ပုံနှိပ်ပြီးစီးလေသည်။ ဦးစွာ၌ယုဒသန်၏ အကြံမှာ အင်္ဂလိပ်—မြန်မာအဘိဓာန်နှင့် မြန်မာ—အင်္ဂလိပ် အဘိဓာန် နှစ်စောင်ကို တအုပ်တည်း ပုံနှိပ်ချုပ်လုပ်ရန် ဖြစ်သည်။ သို့သော်လည်း ၁၈၂၀ ပြည့်နှစ်က ပြုစုခဲ့သော အဘိဓာန်မှာ မပြည့်စုံသဖြင့် ၁၈၄၂ ခုနှစ်တွင် အဘိဓာန်ကို နှစ်စောင်ခွဲ၍ စတင် ပြုစုလေသည်။ အင်္ဂလိပ် အဘိဓာန်ကို ၁၈၄၉ ခုနှစ် ဇန္နဝါရီလ ၂၄ ရက်နေ့တွင် အပြီးသတ်သည်။ ထိုနောက် မြန်မာအဘိဓာန်ကို ဆက်လက် ပြုစု နေခိုက် မကျန်းမမာ ဖြစ်လာ၏။ ထို့ကြောင့် ၁၈၅၀ ပြည့်နှစ် ဧပြီလ ၈ ရက်နေ့တွင် ယုဒသန်သည် မော်လမြိုင်မြို့မှ သင်္ဘောဖြင့် ပင်လယ်ခရီး ထွက်သွားရာ ဧပြီလ ၁၂ ရက်နေ့၌ ကွယ်လွန်လေသည်။ ယုဒသန်၏အလောင်းကို ပင်လယ်ပြင်တွင် ရေမြှုပ် သင်္ဂြိုဟ်လိုက်ကြ၏။

ယုဒသန်၏ လက်ငုတ် ဖြစ်သော မြန်မာအဘိဓာန်ကို သာသနာပြု ဆရာ အီး၊အေ၊ စတီဗင်က ဆက်လက် လုပ်ကိုင်ခဲ့ရာ ၁၈၅၂ ခုနှစ်တွင် မော်လမြိုင်မြို့ အမေရိကန် သာသနာပုံနှိပ်တိုက်၌ ပဌမအကြိမ် စက်တင် ပုံနှိပ် နိုင်ခဲ့လေသည်။ ယုဒသန်သည် အဘိဓာန်နှင့် ခရစ်ယန်ကျမ်းများအပြင် "ရွှေချိန်ခွင်" စာအုပ်ကိုင်၊ "မြန်မာအမျိုးသမီး ဝတ်ဆင်ပုံ စာတမ်း"ကိုင်၊ "ပိဋကတ်အနှစ်စု" ကျမ်းကိုင်၊ မြန်မာဘာသာဖြင့် ရေးခဲ့လေသည်။

ယုဒသန်သည် ပဌမ ဇနီး အန် ဟေဇယ်တိုင် ကွယ်လွန်ပြီးနောက် ၁၈၃၄ ခုနှစ်တွင် မစ္စစ်ဗော့ဒမန် ဆိုသူ မုဆိုးမတဦးနှင့် ဒုတိယ အိမ်ထောင် ပြုသည်။ တဖန် ဒုတိယ ဇနီး ကွယ်လွန်ပြန်၍ ၁၈၄၆ ခုနှစ်တွင် မစ္စအမ္မလီချုူးဗတ် ဆိုသူနှင့် တတိယ အိမ်ထောင်ပြုလေသည်။ ကျန်ရစ်ခဲ့သောသားသမီးများအနက် သားဖြစ်သူ အက်ဒွပ် ဂျပ်ဆင်သည် ယုဒသန်၏

အတ္တုပ္ပတ္တိကို ရေးခဲ့လေသည်။ ယခင်က ရန်ကုန် တက္ကသိုလ်တွင် အပါအဝင်ဖြစ်သော ဂျပ်ဆင် ကောလိပ်မှာ ယုဒသန် အထိမ်းအမှတ် ကျောင်းပင် ဖြစ်ပေသည်။

**ယူကရိန်းနိုင်ငံ။** ။ယူကရိန်းနိုင်ငံသည် ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတ နိုင်ငံတွင် ပါဝင်သော သမတ နိုင်ငံတခု ဖြစ်သည်။ ယူကရိန်းနီယန် ဆိုဗီယက် ဆိုရှယ်လစ် သမတ နိုင်ငံ ဟု ခေါ်သည်။ ရုရှနိုင်ငံ အနောက်တောင်ပိုင်းတွင် တည်ရှိ၍ အနောက်ဖက်၌ ရူမေးနီးယား နိုင်ငံနှင့် ပိုလန်နိုင်ငံ၊ တောင်ဖက်၌ ပင်လယ်နက်တို့ ရှိလေသည်။ ထိုနိုင်ငံ၏ အကျယ် အဝန်းမှာ စတုရန်း မိုင် ၂၃၂,၆၀၀ ခန့်ဖြစ်၍ ဥရောပတိုက်တွင် မြေဩဇာထက်သန်သော ဒေသဖြစ်သည်။ အဖိုးတန် တွင်းထွက်သတ္တုများကိုလည်း ရရှိသည်။ နီးပါးမြစ်နှင့် နီးစတားမြစ်တို့သည် ယူကရိန်းနိုင်ငံကို ဖြတ်သန်း၍ ပင်လယ်နက်ထဲသို့ စီးဝင်သည်။ နီးပါးမြစ်မှ ရေအားဖြင့် လျှပ်စစ်ဓာတ်အားကို ထုတ်ယူ ရရှိသည်။

ယူကရိန်း နိုင်ငံသားတို့သည် ဆလဗလူမျိုး အနွယ်များဖြစ်ကြသည်။လူဦးရေ ၄၄,၁၀၀,၀၀၀ ယောက်ခန့်ရှိ၏။ယင်းတို့သည် မိမိတို့၏ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ၊ အယူဝါဒ တို့ကို မပျောက်ပျက်ရအောင်ထိန်းသိမ်းထားကြသည်။များသောအားဖြင့် လယ်ယာ စိုက်ပျိုး လုပ်ကိုင်ကြ၍ ဂျုံ၊ ရိုင်းစပါး၊ မုယော၊ အုတ် ဂျုံ၊ သကြား မုန်လာ၊ အာလူး၊ ပြောင်း၊ ဆေး၊ ဝါနှင့် ဘီသွာလျှော်ပင်များကို စိုက်ပျိုးသည်။ သတ္တုတွင်း တူးသည့်လုပ်ငန်းနှင့် စက်မှုလက်မှု လုပ်ငန်းများလည်း ထွန်းကားသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီက ဆိုဗီယက် ပြည်ထောင်စုမှထွက်သော ကျောက်မီးသွေး ငါးပုံ သုံးပုံမှာ ယူကရိန်းနိုင်ငံမှ ရရှိလေသည်။ သံနှင့် သံမဏိ လုပ်ငန်းကိုလည်း အကြီးအကျယ် လုပ်ကိုင်ကြသည်။ အခြား တွင်းထွက် သတ္တုများမှာ မန်ဂနိ၊ အလျူမီနီယမ်၊ ရေနံ၊ ဆားနှင့် ဂျစ်ပဆမ် တို့ဖြစ်သည်။

မြို့တော်မှာ နီးပါးမြစ်ပေါ်ရှိ ကီးယက်မြို့ ဖြစ်၏။ အခြားမြို့ကြီးများမှာ ပင်လယ်နက်ပေါ်ရှိ ဆိပ်ကမ်းမြို့ ဖြစ်သော အိုဒက်ဆာမြို့နှင့် ခါးရကပ် မြို့များဖြစ်သည်။

၁၆ ရာစုနှစ်အတွင်းက ယခု ယူကရိန်းနိုင်ငံတည်ရှိရာဒေသတွင် ကော့ဆက်လူမျိုးတို့ လှည့်လည် ကျက်စားခဲ့ကြ၏။ ထိုနောက် ၁၇ ရာစုနှစ်တွင် ပြည်နယ် အရှေ့ပိုင်းသည် ရုရှဇာဘုရင်၏ လက်အောက်ခံ ဖြစ်သွား၍ အနောက်ပိုင်းသည် ဩစတြီးယားပိုင် ဖြစ်သွားလေသည်။ ရုရှတော်လှန်ရေးပြီးသည့်နောက် ၁၉၁၉ ခုနှစ်တွင် ယူကရိန်းနီယန် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ ဟူ၍ ပေါ်ပေါက်လာသည်။ ၁၉၂၃ ခုနှစ်တွင် ယူကရိန်း သမတနိုင်ငံသည် ရုရှနိုင်ငံရှိ အခြား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံများနှင့် ပူးပေါင်းကာ



ယူကရိန်းနိုင်ငံမြို့တော် ကီးယက်မြို့၏ သာယာပြန့်ပြောသော ရှုခင်း

# ယူကရိန်းနိုင်ငံ



ရုရှနိုင်ငံ၏ အကြီးဆုံး ဂျုံစိုက်ခင်းများမှာ ယူကရိန်းနိုင်ငံရှိ ဂျုံခင်းများ ဖြစ်သည်။

ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံကို ဖွဲ့စည်းလိုက်လေသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက ယူကရိန်းနိုင်ငံသည် စစ်မြေပြင် ဖြစ်ခဲ့ရ၏။ ၁၉၄၁ ခုနှစ်တွင် ဂျာမန် စစ်တပ်များသည် တနိုင်ငံလုံးကို သိမ်းပိုက်ထားခဲ့လေသည်။ ၁၉၄၄ ခုနှစ်တွင် ရုရှစစ်တပ်များက ဂျာမန်တို့ကို နိုင်ငံတွင်းမှ တိုက်ထုတ်ခဲ့ကြသည်။ ထိုသို့အားဖြင့် ယူကရိန်း နိုင်ငံရှိ မြို့ကြီးများ၊ စက်ရုံကြီးများမှာ စစ်ဒဏ်ကြောင့် များစွာ ပျက်စီးကုန်၏။ စစ်ပွဲပြီးသောအခါ ချက်ကိုဆလိုဗားကီးယား နိုင်ငံက ရုသီးနီးယားနယ်ကို ယူကရိန်းနိုင်ငံသို့ ပေးအပ်ရလေသည်။

စစ်ပြီးခေတ်တွင် ယူကရိန်းနိုင်ငံသားတို့သည် ပြန်လည်ထူထောင်ရေး လုပ်ငန်းကို အားသွန်ခွန်စိုက် ဆောင်ရွက်ကြသည်။ ဤသို့အားဖြင့် ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံအတွင်း အဓိကအားဖြင့် စားနပ် ရိက္ခာနှင့် စက်မှုလက်မှုပစ္စည်းများ ထုတ်လုပ်ပေးသည့် နိုင်ငံအဖြစ်သို့ ပြန်လည်ရောက်ရှိခဲ့လေသည်။



ဂျီဩမေတြီခေါ် အာကာသ သင်္ချာ အခြေခံများကို ကြံဆကာ ပြုစုရေးသားခဲ့သူ ဂရိသင်္ချာပါရဂူ ယူကလစ်။ ယူကလစ်သည် အထူးသဖြင့် ပြင်ညီ အာကာသ သင်္ချာနှင့် ထု အာကာသ သင်္ချာတို့ကို ကျမ်းပြုခဲ့သည်။

**ယူကလစ်။** ။ယူကလစ်သည် အခြား ပညာလိုလားသူများနှင့်အတူ အက်သင်းမြို့ရှိ ပလေးတို၏ တပည့်များထံ၌ ပညာရပ်များကို ဆည်းပူးခဲ့ဘူးသူ ဖြစ်သည်။ အီဂျစ်နိုင်ငံ၏ ပဌမ တော်လမီဘုရင် (ဘီစီ ၃၀၆–၂၈၃) လက်ထက်တွင် အယ်လက်ဇန္ဒြီးယားမြို့သည် ကမ္ဘာ့ပညာရှင်ကြီးများ စုဝေးရာဌာနတခု ဖြစ်ခဲ့လေသည်။ ထင်ရှားသည့် ဆရာ အမြောက်အမြား ထိုမြို့သို့ ကျောင်းများ တည်ထောင်ရန် သွားရောက်ကြရာတွင် ဂရိလူမျိုး ယူကလစ်အမည်ရှိ ပုဂ္ဂိုလ်လည်း ပါဝင်သည်။ ဤသို့ ယူကလစ်သည် ဂရိလူမျိုး ဖြစ်၍ အယ်လက်ဇန္ဒြီးယားတွင် နေထိုင် စာပေသင်ကြားပို့ချခဲ့သည် ဟူသည်တို့က လွဲ၍ သူ၏အကြောင်းကို မည်မည်ရရ မသိခဲ့ကြပေ။

ယူကလစ်သည် ထိုခေတ် ပညာတတ်များကဲ့သို့ပင် ဂီတ၊ အနုပညာ၊ မြင်မှုပညာနှင့် အခြားပညာရပ်များတွင် ကျွမ်းကျင်လေသည်။ သို့သော် သူစိတ်အဝင်စားဆုံး ပညာရပ်မှာ သင်္ချာ ဖြစ်သည်။ သူ၏ တပည့်များအား ကြမ်းပြင်ပေါ်၌ သဲများကို ဖြူးကာ တုတ်တချောင်းဖြင့် ဂျီဩမေတြီပုံများကို ဆွဲ၍ သူ၏ အဆိုမှန်များနှင့် သက်သေပြချက်များကို ရှင်းပြလေ့ရှိသည်။

ယူကလစ်နှင့် ဂျီဩမေတြီကို ခွဲခြား၍ မဖြစ်နိုင်ချေ။ သူ ရေးသားခဲ့သော စာအုပ်များအနက် လူသိအများဆုံးဖြစ်သော အဲလီးမင့်ကျမ်းကို နှစ်ပေါင်း ၂,၀၀၀ ကျော် တိုင်အောင် ကျောင်းသုံးစာအုပ် အဖြစ် အသုံးပြုခဲ့ကြသည်။ ထို အဲလီးမင့်ကျမ်းသည် ၁၃ တွဲရှိရာ၊ ပဌမ ၄ တွဲနှင့် ဆဋ္ဌ တွဲလောက်ကိုသာ လေ့လာသူများသည်။ ထိုအဲလီးမင့်ကျမ်းကို ဘာသာ အမြောက်အမြားသို့ ပြန်ဆိုထားကြသည်။

တခါတွင် အီဂျစ် ဘုရင်က ယူကလစ်အား ဂျီဩမေတြီ ဘာသာရပ်ကို သင်ကြားရာ၌ အဲလီးမင့်ကို လေ့လာရသည်ထက် ပို၍ လွယ်ကူသောနည်း မရှိသလော ဟု မေးရာ ဂျီဩမေတြီသို့ သွားရန် မင်းလမ်းမကြီး မရှိပါ ဟု ပြန်လည်ဖြေကြားသည် ဟု ဆိုသည်။ တခါတွင်လည်း ဂျီဩမေတြီတွင် ပဌမဆုံးဖြစ်သည့် အဆိုကို သင်ကြား၍အပြီးတွင် တပည့်တဦးက ထရဲ ဤကိစ္စများကို သင်ကြားခြင်းဖြင့် မည်ကဲ့သို့ အကျိုးထူးများကို ရရှိနိုင်ပါမည်နည်း ဟု မေးလိုက်ရာ၊ ယူကလစ်က သူ၏အစေခံအား ခေါ်၍ သင်ကြားမှုအတွက် အကျိုးအမြတ်ကို ခံစားလိုလှတဲ့ ဒီလူကို သုံးပဲနီပေးလိုက်စမ်း ဟု ပြောဘူးသည် ဟု ဆိုလေသည်။

မျက်မှောက်ခေတ် ဂျီဩမေတြီစာအုပ်များသည် ယူကလစ်နှင့် အသေးအဖွဲ အချက်အလက်ကလေးများတွင်သာ ကွဲလွဲပြီးလျှင် သူ၏တွေ့ရှိချက်များပေါ် တွင် အဓိကအားဖြင့် မူတည် ထားသည်ကို တွေ့ရလေသည်။ အမှန်မှာ ထိုစာအုပ်များသည် အဲလီးမင့်ကို တမျိုးတဖုံ စီစဉ်ထားခြင်းမျှသာ ဖြစ်သည်။ ယူကလစ်သည် ဂျီဩမေတြီနှင့် စပ်လျဉ်းသော စာအုပ် အမြောက်အမြားကိုလည်း ရေးသားခဲ့သေးသည်။ ထိုပြင် မြင်မှုပညာဆိုင်ရာ ကျမ်းစာအုပ်နှင့် ဂီတပညာဆိုင်ရာ

ကျမ်းများကိုလည်း ရေးသားခဲ့သေးသည်။ သို့သော် သူ ရေးသားခဲ့သော စာအုပ်စာတမ်း အမြောက်အမြားပင် ပျောက်ကွယ် ဆုံးရှုံး ကုန်ခဲ့လေသည်။



ငှက်ခြောက်ပင် ဟူ၍လည်း ခေါ်တွင်သည့် ယူကလစ်တပ်ပင်၏ အသီး အပွင့်နှင့် အရွက်များ

**ယူကလစ်တပ်ပင်။** ။ယူကလစ်တပ်ပင်ကို ငှက်ခြောက်ပင် ဟူ၍လည်း ခေါ်ကြသည်။ ထိုအပင်သည် မာတဲမျိုးရင်းဝင်ဖြစ်၍ မျိုးစိတ်ပေါင်း ၃၅၀ မကရှိသည်။ အချို့ ယူကလစ်တပ်ပင်များသည် ကြီးမား၍ အချို့မှာ ချုံပင်မျှသာ ဖြစ်သည်။ များသောအားဖြင့် ပေ ၆၀ – ၇၀ ခန့်မြင့်တတ်ရာ တပင်မှာ ပေ ၄၇၀ အထိပင် မြင့်သည် ဟု ဆိုလေသည်။ အကိုင်း အခက်များကင်း၍ ပင်စည်ဖြောင့်မတ်ပြီးလျှင် အနားချောသော အရွက်စိမ်းကြီးများ ရှိသည့် ထိုမြင့်မားသော အပင်ကြီးများကို ကြည့်ရသည်မှာ ထူးခြားသော မြင်ကွင်း တရပ် ဖြစ်ပေသည်။

ထိုမြင့်မား၍ ခံနိုင်ရည် ရှိပြီးလျှင် အရွက်ပေါများသည့် ယူကလစ်တပ်ပင်သည် ဩစတြေးလီးယားတိုက်နှင့် တက်စမေးနီးယားကျွန်းတွင်မူရင်းဒေသအဖြစ်ပေါက်ရောက်သည်။ ထိုမှတဆင့် ဥရောပတိုက်၊ အယ်လဂျီးရီးယား၊ အီဂျစ်၊ အိန္ဒိယ၊ တောင်အမေရိကတိုက် နှင့် အမေရိကန် ပြည်ထောင်စုတို့သို့ ယူဆောင်စိုက်ပျိုးကြလေသည်။ ယူကလစ်တပ်ပင်သည် ဖာရင်ဟိုက်အပူချိန် ၂၂ ဒီဂရီထက် တာရှည် အောက်မကျသော နေရာများတွင် ဖြစ်ထွန်းသည်ကို တွေ့ရသည်။ သို့သော် ရေခဲသည့် အပူချိန်အောက်ထိ အေးသော ဒေသတွင်လည်း တည်တံ့နိုင်သည့် ယူကလစ်တပ်ပင် မျိုးစိတ်တခု ရှိသေးကြောင်းကို သတိပြုသင့်ပေသည်။

ယူကလစ်တပ်ပင်သည် ရေငွေ့အမြောက်အမြားကို အလိုရှိသဖြင့် ငှက်ဖျားပေါများရာဒေသများရှိ စိမ့်များ အနီးတွင် စိုက်ပျိုးလေ့ ရှိကြသည်။ ထိုသို့ စိုက်ပျိုးခြင်းဖြင့် ခြင်ကောင်ပေါများသော စိမ့်များမှ ရေများကို အလိုအလျောက်ခန်းခြောက်သွားစေသည်။ အမေရိကန် ပြည်ထောင်စု ကာလီဖိုးနီးယား ပြည်နယ်တွင် ယူကလစ်တပ် ပင်များကို မျိုးစိတ်ပေါင်း ၇၀ ထိ စိုက်ပျိုးထားသည်။ ထိုသို့စိုက်ပျိုးထားရာတွင် အချို့မှာ အလှအပအတွက်ဖြစ်၍ အချို့မှာမူ အသုံးချရန် ဖြစ်ပေသည်။ တခါတရံတွင် ယူကလစ်တပ်ပင်များကို လိမ်မော်နှင့် ရှောက်ပင်များ စိုက်ပျိုးထားသည့် ဒေသတဝိုက်တွင် စိုက်ပျိုးထားကြသည်။ ထိုသို့စိုက်ပျိုးထားကြခြင်းဖြင့် လိမ်မော်နှင့် ရှောက်ပင်များကို လေတိုက်ခတ်ခြင်းမှ ကာကွယ်ပေးနိုင်သည်။ ထို့ပြင် လမ်းဘေးများတွင်လည်း အရိပ်ရစေရန်အတွက် စိုက်ပျိုးထားတတ်ကြသည်။

ယူကလစ်တပ်ပင်သည် ဩစတြေးလီးယားတိုက်တွင် လွန်စွာ အရေးကြီးလေသည်။ ထိုတိုက်ရှိ အချို့ ယူကလစ်တပ်ပင်များသည် မဟောဂနီသားကဲ့သို့ နီနေသည်။ ယူကလစ်တပ်ပင်၏ အသားကို ပိုးများမဖောက်နိုင်သဖြင့် သင်္ဘောများ



ယူကလစ်တပ်ပင်သည် နွေး သမသော ဥတုရာသီကို ကြိုက်သည်။ မြန်မာနိုင်ငံတွင် အထက်မြန်မာနိုင်ငံ မေမြို့တဝိုက်၌ အနည်းအကျဉ်း ပေါက်ရောက်သည်။

ဆောက်လုပ်ရာတွင် ထိုအပင်၏အသားထက် ပို၍ ကောင်းမွန်သော အသားများ မရှိချေ။ ကြေးနန်းကြိုးများ သွယ်တန်းရန် တိုင်များနှင့် ငင်းခြံတိုင်များ အဖြစ်လည်း အသုံးပြုကြလေသည်။

ထို့ပြင် ယူကလစ်တပ်ပင်၏ အသားကို အရောင်တင်နိုင်သဖြင့် ထိုအသားဖြင့် အိမ်ထောင် ပရိဘောဂများကိုလည်း ပြုလုပ်လေ့ ရှိကြသည်။ အချို့ ယူကလစ်တပ်ပင်မျိုးစိတ်၏ အခေါက်များကို သားရေနယ်ရာတွင် အသုံးပြုကြသည်။ အချို့မျိုးစိတ်၏ အခေါက်များမှ ကြိုးကျစ်ရန် အမျှင်များကို ရရှိသည်။ ထိုအမျှင်များကို စက္ကူပြုလုပ်ရာ၌ငှင်း၊ အိမ်အမိုးများမိုးရာ၌ငှင်း အသုံးပြုလေ့ရှိကြသည်။

ယူကလစ်တပ်ပင်၏ အရွက်များတွင် အဖိုးတန်သည့် အဆီပါရှိသည်။ ထိုအဆီ၏ အနံ့သည် ပရုတ်နံ့နှင့် တူသည်။ ထိုအဆီကို အပုပ်နိုင်ဆေး(အနာမယဉ်းဆေး)၊ အနံ့ဖျက်ဆေးနှင့် အားကြွဆေးများအဖြစ် အသုံးပြုနိုင်သည်။ ထို့ပြင် အဆုတ်နာ၊ လည်ချောင်းနာအတွက်နှင့် အနာများကိုစည်းပေးရာတွင်လည်း အသုံးပြုနိုင်သည်။

ယူကလစ်တပ်ပင်၏ အပွင့်များသည် ငယ်၍ ဖြူကြသည်။ ဘောလုံးကလေးများနှင့် ဆင်တူသည်။ အတွင်း၌ ဝတ်ရည်များရှိသည်။ ထို့မှတဆင့် ခွက်နှင့်တူသော အသီး အဖြစ်သို့ ပြောင်းလဲသွားကြသည်။ ထို အသီးကလေးများအတွင်း၌ အစေ့ကလေးများ ရှိသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ ရှမ်းကုန်းပြင်မြင့်တွင် ယူကလစ်တပ်ပင် အနည်းအကျဉ်း ပေါက်သည်ကို တွေ့ရသည်။

# ဗော်လကန်ကျွန်းဆွယ်မြောက်ပိုင်းမှ ထွန်းသစ်စနိုင်ငံ

**ယူဂိုစလားဗီးယားနိုင်ငံသည် ထွန်းသစ်စ ဆိုရှယ်လစ် နိုင်ငံတခုဖြစ်သည်။ ဆိုရှယ်လစ်နိုင်ငံအဖြစ် တည်ထောင်နိုင်ရန် အခက်အခဲအမျိုးမျိုး ပြဿနာအဖုံဖုံတို့ကို ရင်ဆိုင်ကာ ဖြေရှင်းခဲ့ရသည်။ မည်သို့မည်ပုံ ဖြေရှင်းကာ အောင်ပန်းဆွတ်ခူးနိုင်ခဲ့ပုံနှင့်တကွ ပြောင်းလဲတိုးတက်လာပုံ အကြောင်းစုံတို့ကို ဖတ်ရှုလေ့လာရပေလိမ့်မည်။**

**ယူဂိုစလားဗီးယားနိုင်ငံ။** ။ယူဂိုစလားဗီးယား နိုင်ငံသည် ဗော်လကန်ကျွန်းဆွယ်တွင် မြောက်ဖက် အကျဆုံး နိုင်ငံဖြစ်သည်။ ယူဂိုစလားဗီးယား ပြည်ထောင်စု ပြည်သူ့သမတနိုင်ငံဟု ခေါ်တွင်၏။ မြောက်ဖက်တွင် သြစတြီးယားနိုင်ငံနှင့် ဟန်ဂေရီနိုင်ငံ၊ အရှေ့ဖက်တွင် ရူမေးနီးယား နိုင်ငံနှင့် ဗူးလဂေးရီးယား နိုင်ငံ၊ တောင်ဖက်တွင် ဂရိနိုင်ငံနှင့် အယ်လဗေးနီးယား နိုင်ငံ၊ အနောက်ဖက်တွင် အေဒြိယက်တစ်ပင်လယ်နှင့် ဣတလီနိုင်ငံတို့ အသီးအသီးရှိကြသည်။ ယူဂိုစလားဗီးယားနိုင်ငံသည် ၁၉၁၄ — ၁၉၁၈ ခုနှစ် ပဌမကမ္ဘာစစ် ပြီးသည့်နောက်တွင် သြစတြီးယား ဟန်ဂေရီ နိုင်ငံ၏ တစိတ်တဒေသဖြစ်သော ဗော့စနီးယား၊ ဟားဇီဂိုဗီးနား၊ ဒါလမေးရှား၊ ကရိုးအေးရှီးယား၊ ဆလာဗိုးနီးယားနှင့် ဆလိုဗင်းနီးယား ပြည်နယ် တစိတ်တဒေသတို့ကို ယခင် ဆားဗီးယားနိုင်ငံ၊ မွန်တီနီးဂရိုးနိုင်ငံတို့နှင့် စုပေါင်း၍ တည်ထောင်ခဲ့သောနိုင်ငံဖြစ်လေသည်။ ထိုစဉ်အခါက ဆဗ်၊ ကရိုးအက်နှင့် ဆလိုဗင်း နိုင်ငံဟု အမည်တွင်ခဲ့၏။ ဆားဗီးယားနိုင်ငံ ရင်ခွင်ပိုက် မင်းသားကြီးသည် ပဌမ အယ်လက်ဇန္ဒာဘုရင် အဖြစ် အုပ်စိုးခဲ့လေသည်။

ပြည်သူပြည်သားများမှာ ယခင်က သီးခြားပြည်နယ်များဖြင့် နေထိုင်ခဲ့ကြသော်လည်း၊ သွေးတူ သားတူ ဆလဗအမျိုးအနွယ် ဆဗ်လူမျိုး၊ ကရိုးအက်လူမျိုးနှင့် ဆလိုဗင်းလူမျိုးများသာ ဖြစ်ကြ၏။ (ဆလဗလူမျိုး — လည်း ရှု။)




ယူဂိုစလားဗီးယားနိုင်ငံ တည်နေရာပြ မြေပုံ

သို့ရာတွင် အုပ်ချုပ်သူ လူမျိုးခြားများလက်အောက်၌ တကွဲတပြားစီ ဖြစ်ခဲ့ရသဖြင့် ယဉ်ကျေးမှု အရာ၌သော်ငှင်း၊ တိုးတက်မှု အရာ၌သော်ငှင်း မတူကြချေ။ ကရိုးအက်လူမျိုးနှင့် ဆလိုဗင်းလူမျိုးတို့သည် ဥရောပအနောက်ပိုင်း ယဉ်ကျေးမှုကို ဆက်ခံရရှိကြ၏။ ဗရင်ဂျီဂိုဏ်းဝင် များ၏။ ဆဗ်လူမျိုးတို့မှာမူကား တူရကီ လက်အောက်တွင် အနေကြာ၍ အရှေ့ဆန်သော ယဉ်ကျေးမှုကို ဆက်ခံရရှိကြပြီးလျှင် ဂရိ ခရစ်ယန်ဂိုဏ်းဝင်များ ဖြစ်ကြသည်။ အစ္စလမ် အယူဝါဒီများလည်းရှိ၏။

ယူဂိုစလားဗီးယား နိုင်ငံသည် အကျယ်အဝန်းအားဖြင့်

၉၇,၇၆၆ စတုရန်းမိုင်ရှိ၍၊ ၁၉၆၁ ခုနှစ် ခန့်မှန်းခြေအရ လူဦးရေ ၁၈,၅၄၉,၂၉၁ ယောက်ရှိ၏။ ကမ်းရိုးတန်း တလျှောက်တွင် ကျွန်းများ၊ ပင်လယ်အော်များနှင့် ပင်လယ်လက်ကြားများ ပေါသဖြင့် သဘာဝသင်္ဘောဆိပ်ကောင်းများရှိသည်။ ကုန်းတွင်းပိုင်း၌မူကား တော ထူထပ်သော တောင်များ၊ မြေဩဇာ ထက်သန်သော ချိုင့်ဝှမ်းများနှင့် ခြောက်သွေ့သော ထုံးကျောက် ကုန်းပြင်မြင့်ဒေသတို့ရှိလေသည်။ နိုင်ငံ အလယ်ပိုင်းတွင် ဒန်းညူမြစ်လက်တက်များ စီးဆင်းရာ ပန်နိုနီယန် လွင်ပြင် တည်ရှိလေသည်။

ဒန်းညူမြစ် အပြင် ယူဂိုစလားဗီးယား နိုင်ငံ၏ အခြားထင်ရှားသော မြစ်များမှာ ဆားဗားမြစ်၊ ဒြေဗားမြစ်၊ မော်ရေးဗားမြစ်၊ ဗော့စနားမြစ်၊ ဗားဒါးမြစ်နှင့် နာရင်တာ မြစ်တို့ဖြစ်သည်။ တောင်ကုန်းများ အကြားတွင် ရှုခင်း တင့်တယ်လှပစွာ တည်ရှိသော အိုင်အများရှိရာ ထင်ရှားသော အိုင်များမှာ ယူဂိုစလားဗီးယားနိုင်ငံ တောင်ပိုင်းမှ စကုတာရီအိုင်၊ ပရက်စပါအိုင်နှင့် အိုရစ်အိုင်တို့ ဖြစ်လေသည်။

ရာသီဥတုမှာ အေဒြီယက်တစ် ကမ်းရိုးတန်းတလျှောက်တွင် အပူအအေးမျှတ၍ သာယာသည်။ နွေကူးရာသီနှင့် ဆောင်းကူး ရာသီတို့တွင် မိုးကောင်းသည်။ အထူး သဖြင့် တောင်ဖက်ပိုင်း၌ တနှစ်လျှင် မိုးရေချိန် ၆၅ လက်မအထိ ရွာသွန်း၏။ မြောက်ဖက် အတွင်းကျသော ဒေသတွင် ဥရောပအလယ်ပိုင်း ရာသီဥတုမျိုးရှိသည်။ မော်ရေးဗားနှင့် ဗားဒါးမြစ်ဝှမ်း မြေနိမ့်ပိုင်းဒေသတွင် နွေအခါ၌ ခြောက်သွေ့၍ ဆောင်းအခါ၌ အေးမြသောကုန်းတွင်းရာသီဥတုမျိုး ရှိလေသည်။



ယူဂိုစလားဗီးယားနိုင်ငံ ဗဲလဂရိတ်မြို့တော်သည် ဥရောပတိုက်တွင် ခေတ်မှီသောမြို့တမြို့ ဖြစ်သည်။

ယူဂိုစလားဗီးယား နိုင်ငံသည် သီးခြားနိုင်ငံအဖြစ် စည်းလုံးမိခဲ့သည့် အခါမှ စ၍ သဘာဝ ပင်ရင်းပစ္စည်းများကို ရှာဖွေ ထုတ်ဖော် လုပ်ကိုင်ခဲ့ရာ စီးပွားရေးဖက်၌ များစွာ တိုးတက်ခဲ့လေသည်။ ပန်နိုနီယန် လွင်ပြင်သည် လယ်ယာစိုက်ပျိုးရေးအတွက် အချက်အခြာ ဒေသ ဖြစ်ပေသည်။ စိုက်ပျိုးလုပ်ကိုင်နိုင်သော မြေ ၂၃ ရာခိုင်နှုန်းတွင် ကောက်ပဲသီးနှံပင်များကို စိုက်ပျိုးလျက် ရှိ၏။ လူဦးရေ ငါးပုံ လေးပုံခန့်မှာ စိုက်ပျိုးရေးဖြင့် အသက်မွေးသူများ ဖြစ်သည်။ ဂျုံ၊ မြင်းစားဂျုံ၊ မုယော၊ ပြောင်းဖူး၊ သကြား မုန်လာ၊ ပိုက်ဆံပင်နှင့် ဘီသွာပင်တို့ကို အဓိက စိုက်ပျိုးကြသည်။ သိုး၊ နွား၊ ဆိတ်၊ ဝက်၊ မြင်းနှင့် ကြက်ငှက်တို့ကိုလည်း မွေးမြူကြသည်။ ချိုင့်ဝှမ်းဒေသများ၌ စပျစ်ပင်၊ လိမ်မော်ပင်၊ဆီးပင် စသော သစ်သီးပင်များကိုလည်း စိုက်ပျိုးကြသည်။ သယ်ယူ ပို့ဆောင်ရေး အခက်အခဲကြောင့် ယူဂိုစလားဗီးယား နိုင်ငံရှိ စက်မှု လက်မှု လုပ်ငန်းများကို အနောက် မြောက်ပိုင်း၌သာ များသောအားဖြင့် တွေ့ရှိရသည်။ သတ္တုတူးဖော်ရေး လုပ်ငန်းဖက်၌မူ များစွာ တိုးတက်လျက်ရှိလေသည်။ကြေးနီ၊ သံ၊ ခဲ၊ သွပ်၊ ဗောက်ဆိုက်၊ ခနောက်စိမ်း၊ ရွှေ၊ ကရိုမီယမ်၊ မန်ဂနိ၊ ကျောက်မီးသွေးတို့ကို တူးဖော်ရရှိသည်။ ယူဂိုစလားဗီးယား နိုင်ငံသည် ဥရောပနိုင်ငံများတွင် ကြေးနီအခြေအမြစ် အများဆုံးရှိသောနိုင်ငံ ဖြစ်ပေသည်။

မြို့တော်မှာ ဗဲလဂရိတ်မြို့ ဖြစ်၏။ ထင်ရှားသော အခြားမြို့ကြီးများမှာ ဆားရာဂျဲဗိုမြို့၊ ဇာဂရက်မြို့၊ ဆူဗိုတိကားမြို့၊ စကုပ်လဲျမြို့နှင့် နိုးဗီဆတ်မြို့များ ဖြစ်သည်။ နိုင်ငံတွင်း လမ်းပန်းအဆက်အသွယ် အတော်အသင့် ကောင်းမွန်၏။ အထူးသဖြင့် ရေလမ်းမှ နိုင်ငံတွင်း အနှံ့အပြား ကူးသန်းသွားလာနိုင်လေသည်။

လွတ်လပ်သောနိုင်ငံ ဖြစ်မြောက်ရေးအတွက် ကြိုးပမ်းကြစဉ်က ဆပ်လူမျိုး၊ ကရိုးအက်လူမျိုးနှင့် ဆလိုဗင်း လူမျိုးတို့သည် စည်းလုံး မိခဲ့ကြသော်လည်း လွတ်လပ်သောနိုင်ငံ ဖြစ်လာသောအခါ အုပ်ချုပ်ရေးကို လူများစု ဖြစ်သော ဆပ်တို့က ကြိုးကိုင် ထားသဖြင့် ကရိုးအက်နှင့် ဆလိုဗင်းတို့က မကျေမနပ် ဖြစ်ကြလေသည်။ ထိုသို့အားဖြင့် လူမျိုးအချင်းချင်း မသင့်မတင့် ဖြစ်လာကြသည်တွင် အယ်လက်ဇန္ဒာဘုရင်သည် ၁၉၂၁ ခုနှစ် အခြေခံဥပဒေအတိုင်း စည်းမျဉ်းခံ ဘုရင့်အစိုးရ စံနစ်ဖြင့် နိုင်ငံကိုအုပ်ချုပ်ရန် ကြိုးပမ်းမှုမှာ မအောင်မြင်တော့ချေ။



ယူဂိုစလားဗီးယား နိုင်ငံတွင် လူနည်းစုဖြစ်သော ဂျစ်ပစီတို့သည် ခြေသလုံးအိမ်တိုင်ပြုကာ သွားလာနေထိုင်လေ့ ရှိကြသည်။

၁၉၂၉ ခုနှစ်သို့ ရောက်သောအခါ ပြည်သူ လွှတ်တော်တွင်း၌ သတ်ဖြတ်မှုများ ပေါ်ပေါက်လာသည်အထိ အခြေအနေမှာ ဆိုးရွားလာသဖြင့် အယ်လက်ဇန္ဒာ ဘုရင်သည် အခြေခံ ဥပဒေကို ပယ်ဖျက်ပြီးလျှင် နိုင်ငံကို အာဏာရှင်အဖြစ် အုပ်စိုးခဲ့လေသည်။ နိုင်ငံ၏ အမည်ကိုလည်း ယူဂို စလားဗီးယား ဟူ၍ ပြောင်းလဲခေါ်ဝေါ်ခဲ့၏။ ၁၉၃၁ ခုနှစ်တွင် အခြေခံ ဥပဒေသစ်တရပ်ကို ထုတ်ပြန် ကြေညာခဲ့ရာ အမည်အားဖြင့် ပါလီမန် အုပ်ချုပ်ရေး စံနစ်အရ အုပ်ချုပ်သည် ဟု ဆိုသော်လည်း စင်စစ်အားဖြင့် ဘုရင်သည် ယခင်ကကဲ့သို့ပင် အာဏာရှင်အဖြစ် အုပ်ချုပ်လျက် ရှိနေခဲ့သည်။



ယူဂိုစလပ်လူမျိုးတို့၏ ရိုးရာအက

၁၉၃၄ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့တွင် အယ်လက်ဇန္ဒာဘုရင်သည် ပြင်သစ်နိုင်ငံ မာဆေးမြို့၌ လုပ်ကြံ သတ်ဖြတ်ခြင်း ခံရလေသည်။ ထိုအခါ ၁၁ နှစ်အရွယ်မျှသာ ရှိသော သားတော် ဒုတိယ ပီတာသည် အယ်လက်ဇန္ဒာဘုရင်၏ ဝမ်းကွဲညီတော် ပေါမင်းသားကို ရင်ခွင်ပိုက် အုပ်စိုးသူအဖြစ်ထား၍ ထီးမွေ ဆက်ခံလေသည်။

ဒုတိယကမ္ဘာစစ် ဖြစ်ပွားစတွင် ယူဂိုစလားဗီးယား နိုင်ငံသည် ကြားနေနိုင်ငံအဖြစ် စစ်ကို ရှောင်ရန် ကြိုးပမ်းခဲ့၏။ သို့ရာတွင် ဂျာမန်စစ်တပ်များသည် ဩစတြီးယားနှင့် ချက်ကိုဆလိုဗားကီးယား နိုင်ငံတို့ကို သိမ်းပိုက်၍ ဟန်ဂေရီ၊ ရူမေးနီးယား၊ ဗူလဂေးရီးယား စသော ပတ်ဝန်းကျင်ရှိနိုင်ငံများ၌လည်း ခြေကုပ်ရနေကြပြီ ဖြစ်ရာ ၁၉၄၁ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ယူဂိုစလားဗီးယားနိုင်ငံသည် ဂျာမနီနိုင်ငံ ခေါင်းဆောင်သော ဝင်ရိုးတန်းနိုင်ငံအုပ်စု၌ ပါဝင်ကြောင်း စာချုပ်တရပ်ကို ချုပ်ဆိုခဲ့ရလေသည်။ ပြည်သူ ပြည်သားနှင့် တကွ တပ်မတော်တို့သည် ထိုစာချုပ်ကို သဘောမတူသဖြင့် အစိုးရကို တော်လှန် ပုန်ကန်ကြ၏။ မင်းသားပေါကို ပြည်နှင်ဒဏ်ပေး၍ ၁၇ နှစ်အရွယ်သာရှိသေးသော မင်းသားပီတာကိုလည်း အရွယ်ရောက်ပြီ ဟု ကြေညာကာ နန်းတင်ကြပြီးလျှင် ဂျာမန်တို့ကို ခုခံရန် စစ်ပြင်ကြလေသည်။ သို့ရာတွင် ဂျာမန်တို့သည် ယူဂိုစလားဗီးယားနိုင်ငံကို ရက်သတ္တနှစ်ပတ်အတွင်း တိုက်ခိုက်သိမ်းပိုက်မိကြသည်။ ပီတာဘုရင်နှင့် ယင်း၏အစိုးရ အဖွဲ့သည်လည်း ဗြိတိန် နိုင်ငံသို့ တိမ်းရှောင် ထွက်ပြေးကြရလေသည်။



အမျိုးသားဝတ်စုံနှင့် ပြုံးရွှင်စွာ တွေ့ရသော ယူဂိုစလပ်အမျိုးသမီး

ဂျာမန်နှင့် ဣတာလျံတို့သည် ဆားဗီးယားနှင့် ကရိုးအေးရှီးယားပြည်များတွင် ရုပ်သေးအစိုးရအဖွဲ့များ တည်ထောင်ခဲ့၏။ ယူဂိုစလားဗီးယားနိုင်ငံ ကျန်အပိုင်းများကိုမူ ဣတာလီနိုင်ငံ၊ ဟန်ဂေရီနိုင်ငံနှင့် ဗူလဂေးရီးယား နိုင်ငံတို့က ခွဲဝေယူကြသည်။ သို့သော်လည်း ဆားဗီးယားပြည်မှ ဗိုလ်ချုပ် မီးဟိုင်းလိုဗစ် ခေါင်းဆောင်သော မျိုးချစ်ပြောက်ကျားတပ်များသည် ဝင်ရိုးတန်း တပ်များကို ခုခံတိုက်ခိုက်ခဲ့ကြသည်။ ၁၉၄၂ ခုနှစ်တွင် မာရှယ် တီးတိုး ဟု အမည်တွင်သည့် ကွန်မြူနစ်ခေါင်းဆောင် ဂျိုးဆစ် ဗရော်ဇိုဗစ်ကလည်း အခြားပြောက်ကျားတပ်များ ဖွဲ့စည်း၍ ဂျာမန်နှင့်ဣတာလျံ တပ်များကို ခုခံ တိုက်ခိုက်လေသည်။ သို့ရာတွင် မကြာမီ ကွန်မြူနစ် ပြောက်ကျားတပ်များနှင့် ကွန်မြူနစ်ဆန့်ကျင်ရေး မျိုးချစ်ပြောက်ကျားတပ်များသည် အချင်းချင်း မသင့်မတင့် ဖြစ်လာကြ၏။ ထိုပြင် မာရှယ် တီးတိုး၏ အစီအမံကောင်းမှုကြောင့် ကွန်မြူနစ် ပြောက်ကျားတပ်များ အရေးသာလာသောအခါ မဟာမိတ် နိုင်ငံတို့သည် ယခင်က မီးဟိုင်းလိုဗစ်အား ပေးနေသော အကူအညီကို မာရှယ် တီးတိုးအား လွှဲပြောင်း ပေးကြလေသည်။ (တီးတိုး, မာရှယ် — ရှု။)

၁၉၄၄ ခုနှစ်တွင် မာရှယ် တီးတိုးသည် ရုရှတပ်များနှင့် ပူးပေါင်း၍ ဂျာမန်တပ်များကို ယူဂိုစလားဗီးယား နိုင်ငံမှ တိုက်ထုတ်ခဲ့သည်။ ထိုနောက်တွင် တီးတိုးနှင့် သူ၏ နောက်လိုက်များသည် ယူဂိုစလားဗီးယား တနိုင်ငံလုံးလိုလိုကို ကြိုးကိုင် အုပ်စီးမိလေသည်။ သို့သော် အခိုက်အတန့်အားဖြင့် အဝေးရောက် ဘုရင့်အစိုးရအဖွဲ့နှင့် ပူးပေါင်းခဲ့သည်။ ၁၉၄၅ ခုနှစ် ရွေးကောက်ပွဲ၌ တီးတိုး၏ ပါတီက အပြတ်အသတ် အနိုင်ရသောအခါ ယူဂိုစလပ်ဘုရင် ဒုတိယပီတာအား နန်းစွန့်စေခြင်းဖြင့် ဘုရင့်စံနစ်ကို ဖျက်သိမ်း၍ ထိုနှစ် နိုဝင်ဘာလ ၂၉ ရက်နေ့တွင် လွတ်လပ်သော ယူဂိုစလားဗီးယား ပြည်သူ့သမတ နိုင်ငံအဖြစ် ကြေညာခဲ့လေသည်။ တီးတိုးသည် ဝန်ကြီးချုပ်နှင့် ကာကွယ်ရေးဝန်ကြီးအဖြစ် ဆောင်ရွက်ရင်း ယူဂိုစလားဗီးယားနိုင်ငံ ပြန်လည်ထူထောင်ရေးလုပ်ငန်းများကို လူထုနည်းဖြင့် စွမ်းလွန်းတမံ ဆောင်ရွက်ခဲ့လေသည်။

၁၉၄၈ ခုနှစ်တွင် တီးတိုးနှင့် ကွန်မင်ဖောင်တို့ သဘောကွဲလွဲမှု ပေါ်ပေါက်ခဲ့လေသည်။ ကွန်မင်ဖောင်က ယူဂိုစလားဗီးယား၌ တီးတိုးခေါင်းဆောင်မှုမှာ အနောက်ပိုင်း နိုင်ငံများဖက်သို့ ယိမ်းယိုင်လျက် ရှိသဖြင့် ဆိုဗီယက်တို့၏ ဝါဒနှင့် ဆန့်ကျင်သည် ဟု စွပ်စွဲ၏။ ထိုကြောင့် တီးတိုးသည် မိမိကျင့်သုံးနေသော ဝါဒကို မပြောင်းလျှင် ခေါင်းဆောင် အရာမှ

ဖယ်ရှားပေးရမည် ဟု တောင်းဆိုလာ၏။ သို့သော်လည်း တီးတိုးက ကွန်မင်ဖောင်တွင် ပါဝင်သော မည်သည့်နိုင်ငံ၏ ဩဇာကို ဖြစ်စေ၊ ဆိုဗီယက်၏ ဩဇာကို ဖြစ်စေ နာခံမည် မဟုတ်ကြောင်း ထုတ်ဖော် ကျေညာခဲ့သည်။ ၁၉၄၇ ခုနှစ်၌ ပင် နိုင်ငံတွင်းရှိ တသီးပုဂ္ဂလပိုင် စက်မှုလက်မှု လုပ်ငန်းများကို ပြည်သူပိုင်အဖြစ် သိမ်းယူခဲ့သည်။

၁၉၅၃ ခုနှစ်တွင် မာရှယ်တီးတိုးသည် ယူဂိုစလားဗီးယားနိုင်ငံ၏ သမတ ဖြစ်လာလေသည်။



ယူဂိုစလားဗီးယား နိုင်ငံမှ စပျစ်သီးများလည်း ထွက်သည်။

**ယူဂန်းဒါးနိုင်ငံ။** ။ယူဂန်းဒါး နိုင်ငံသည် အာဖရိကတိုက် အရှေ့ပိုင်းတွင် တည်ရှိ၍ ဗြိတိသျှ ဓနသဟာယအဖွဲ့ဝင် သမတနိုင်ငံ ဖြစ်သည်။ ကုန်းတွင်းပိုင်းကျသော နိုင်ငံလည်း ဖြစ်၏။ အရှေ့ဖက်၌ ကင်းနယားနိုင်ငံရှိ၍ အနောက်ဖက်၌ ကွန်ဂိုနိုင်ငံ ရှိသည်။ မြောက်ဖက်တွင် ဆူဒန်နိုင်ငံ ရှိ၍ တောင်ဖက်တွင် တန်ဂန်ယီးကနိုင်ငံ (တန်ဇာနီယာနိုင်ငံ) ရှိသည်။ ယူဂန်းဒါး နိုင်ငံအတွင်း၌ တိုင်းရင်းသားစော်ဘွားပိုင် နယ်ကလေးပေါင်း များစွာ ရှိခဲ့လေသည်။ ထို စော်ဘွားပိုင် နယ်များအနက် ဗူဂန်းဒါးနယ်မှာ အထင်ရှားဆုံး ဖြစ်၍ ကာဗာကာ ခေါ် တိုင်းရင်းသား စော်ဘွားက အုပ်ချုပ်သည်။

ယူဂန်းဒါး နိုင်ငံသည် အပူပိုင်းဒေသ၌ ကျရောက်၍ ဝိတိုရိယအိုင်၊ အဲလဗတ်အိုင်၊ အက်ဒွပ်အိုင် စသော အိုင်ကြီးများရှိသည်။ အကျယ်အဝန်းအားဖြင့် ၉၃,၉၈၁ စတုရန်းမိုင် ရှိသည့်အနက် စတုရန်းမိုင် ၁၃,၆၈၀ သည် ရေပြင်ဖြစ်



ယူဂန်းဒါးနိုင်ငံ အက်ဒွပ်အိုင်တွင် ငါးများ ဖမ်းနေပုံ



ယူဂန်းဒါးနိုင်ငံတွင် သားငါး အထူး ပေါများသည်။ အနောက် ယူဂန်းဒါးနယ်သည် မြက်တောလွင်ပြင်ကြီးများ ထူပြောသည်ဖြစ်ရာ၊ အမဲလိုက် သားကောင်ပစ် လိုင်စင်ကို တိုင်းရင်းသားများ အဆင်သင့် ယူဆောင်ထားလေ့ ရှိကြသည်။

၏။ ဖော်ပြပါ အိုင်များအနက် နိုင်းမြစ် မြစ်ဖျားခံရာ ဖြစ်သော ဝိတိုရိယအိုင်မှာ အကြီးဆုံး ဖြစ်သည်။

ယူဂန်းဒါးနိုင်ငံ၏ မြို့တော်ဖြစ်သော ကမ်ပါလာမြို့သည် ယူဂန်းဒါး နိုင်ငံတွင် ကူးသန်းရောင်းဝယ်ရေး အတွက် အချက်အခြာမြို့ ဖြစ်သည်။ တနိုင်ငံလုံးတွင် ကုန်းကြောင်း၊ ရေကြောင်း၊ လေကြောင်း ဆက်သွယ်ရေး ကောင်းမွန်သည်။ ကင်းနယားနိုင်ငံနှင့် မီးရထားလမ်း အဆက်အသွယ် ရှိသည်။

ယူဂန်းဒါး နိုင်ငံမှ ထွက်ကုန်များမှာ ကာဖီ၊ လက်ဖက်ခြောက်၊ ဆေး၊ မြေပဲ၊ ကော်ဖတ်၊ သားရေနှင့် ဆင်စွယ်တို့ ဖြစ်သည်။ ၁၉၅၉ ခုနှစ် ခန့်မှန်းခြေအရ ယူဂန်းဒါးနိုင်ငံတွင် လူဦးရေ ၆,၅၂၃,၆၂၈ ယောက် ရှိ၍၊ ဥရောပတိုက်သား ဦးရေ ၁၀,၈၆၆ နှင့် အာရှတိုက်သား ဦးရေ ၇၁,၉၃၃ တို့ ပါဝင်လေသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက ဗြိတိသျှအစိုးရသည် ဗြိတိသျှ နန်းရင်းဝန် မစ္စတာ ချာချီနှင့် မြန်မာနိုင်ငံကိုစွ လာရောက် ဆွေးနွေးခဲ့သော မြန်မာနိုင်ငံ နန်းရင်းဝန် ဦးစောကို ဗြိတိန်နိုင်ငံမှ အပြန်တွင် ဂျပန်နှင့် အဆက်အသွယ်ရှိသည်ဆိုကာ ဖမ်းဆီးပြီးနောက် ယူဂန်းဒါးနယ်တွင် အကျယ်ချုပ် ချထားခဲ့ဘူးလေသည်။

ယူဂန်းဒါးနိုင်ငံသည် ယခင် ဗြိတိသျှ အစောင့်အရှောက် ခံနယ်ဖြစ်ခဲ့၍ ၁၉၆၂ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့မှ စတင်ကာ ဗြိတိသျှဓနသဟာယအဖွဲ့ဝင် လွတ်လပ်သော နိုင်ငံ ဖြစ်လာခဲ့လေသည်။



ယူဂန်းဒါး တိုင်းရင်းသူတဦးနှင့် သားငယ်များ

**ယူဂျင်းနစ်**။ ။မျိုးရိုးသန့်ပညာ — ရှု။

**ယူနီဗာစီတီ**။ ။တက္ကသိုလ် — ရှု။

# ဗြိတိသျှကျွန်းစု၏ ပူးပေါင်းထားသောနိုင်ငံ

**ဗြိတိသျှကျွန်းစုသည် ကမ္ဘာတွင် အရေးပါဆုံးသော ကျွန်းစုဖြစ်သည်။ တခေတ်က နေမဝင်နိုင်သော အင်ပိုင်ယာကြီးကို ထိန်းချုပ်ခဲ့သည့် ကျွန်းစုကြီးလည်း ဖြစ်ပေသည်။ ယူနိုက်တက်ကင်းဒမ်းသည် ထိုကျွန်းစုကြီးတွင် ပါဝင်သော အင်္ဂလန်ပြည်၊ ဝေလပြည်၊ စကော့တလန်ပြည်၊ အိုင်ယာလန်ပြည်မြောက်ပိုင်းတို့၏ နိုင်ငံအမည်ဖြစ်လေသည်။**

**ယူနိုက်တက်ကင်းဒမ်း**။ ။"ယူနိုက်တက်ကင်းဒမ်း"ဆိုသည်မှာ ပူးပေါင်းထားသော နိုင်ငံ ဟု ဆိုလို၍ "ဂရိတ် ဗြိတိန်နှင့် အိုင်ယာလန်မြောက်ပိုင်းတို့ကို ပူးပေါင်းထားသော နိုင်ငံ" ဟူသည့် အမည်၏ အတိုကောက်လည်း ဖြစ်သည်။ ယင်းအမည်ကို အင်္ဂလန်ပြည်၊ ဝေလပြည်၊ စကော့တလန်ပြည်၊ အိုင်ယာလန်ပြည် မြောက်ပိုင်းတို့ ပါဝင်သော နိုင်ငံ၏အမည်အဖြစ် ၁၈၀၂ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့မှ စ၍ အသုံးပြုခဲ့လေသည်။ ထိုနေ့တွင် ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန်ပူးပေါင်းရေး အက်ဥပဒေ အတည်ဖြစ်လာသည်။

ဂရိတ်ဗြိတိန် ဟူသော အမည်ကိုကား အန်းဘုရင်မ လက်ထက် ၁၇၀၇ ခုနှစ်တွင် အင်္ဂလန်ပြည်နှင့် စကော့တလန်ပြည် ပူးပေါင်းရေးအက်ဥပဒေ ပြဋ္ဌာန်းပြီးသည်မှစ၍ ထိုပူးပေါင်းထားသောနိုင်ငံ၏ အမည်အဖြစ် အသုံးပြုခဲ့ပေသည်။ ဝေလပြည်မှာ ပဋ္ဌမ အက်ဒွပ် လက်ထက်ကပင်လျှင် အင်္ဂလန်ပြည်တွင်းသို့ သိမ်းသွင်းခြင်း ခံရပြီးဖြစ်ရာ စင်စစ် ဂရိတ်ဗြိတိန်မှာ ပူးပေါင်းထားသော ဝေလပြည်၊ အင်္ဂလန်ပြည်နှင့်စကော့တလန်ပြည်တို့၏အမည် ဖြစ်လေသည်။

**ဟင်နိုဗာ မင်းဆက်**။ ။အန်းဘုရင်မသည် ၁၇၁၄ ခုနှစ်တွင် ကွယ်လွန်ခဲ့လေရာ နန်းလျာ မကျန်ခဲ့ချေ။ အန်းဘုရင်မ၏ အရိုက်အရာကို ပဋ္ဌမဂျိမ်းဘုရင်၏ သမီးတော်အငယ် အယ်လစ်ဇဗက် မင်းသမီးမှ ဆင်းသက်ခဲ့သော ဟင်နိုဗာမြို့စား ဂျာမန် မင်းသား ပဋ္ဌမ ဂျော့က ဆက်ခံခဲ့လေသည်။

ပဥ္စမဂျော့ဘုရင် နန်းတက်သောအချိန်တွင် ပါလီမန်မှာ နိုင်ငံတွင်း၌ အရေးအပါဆုံး အဓိကအင်အားစု ဖြစ်နေလေပြီ။ ထို့ပြင် ပဥ္စမ ဂျော့သည် အင်္ဂလိပ်စကား မတတ်သည့်ပြင် အင်္ဂလန်ပြည်၏ အရေးကိစ္စများတွင်လည်း စိတ်ပါဝင်စားလှခြင်းမရှိချေ။ ပါလီမန်ကို ကြီးစိုးနေသော ဝှစ်ပါတီနှင့်သာ လွှဲထားခဲ့သည်။ ဒုတိယဂျော့ လက်ထက်တွင်လည်း ထိုနည်းနှင်နှင်ပင် ဖြစ်ခဲ့လေရာ နိုင်ငံ၏တာဝန်မှာ ဘုရင်မှသည် သူ၏ ဝန်ကြီးများနှင့် ပါလီမန်သို့ လွှဲပြောင်း သွားလေတော့သည်။ ထိုဝန်ကြီးများ၏အစည်းအဝေးသို့ ပဥ္စမဂျော့ လက်ထက်မှစ၍ ဘုရင်များသည် သဘာပတိအဖြစ် တက်ရောက်မဆောင်ရွက်တော့သဖြင့် ဝန်ကြီးတဦးက ဘုရင့်ကိုယ်စား သဘာပတိအဖြစ် ဆောင်ရွက်လေသည်။

ထိုအခါက ဝှစ်ပါတီတွင် ခေါင်းဆောင်ဖြစ်သူ ဆာ ရောဗတ် ဝါလပိုသည် ထိုသို့ ဘုရင့်ကိုယ်စား ဆောင်ရွက်ရာမှ နောင်အခါတွင် ဝန်ကြီးများ၏ အကြီးအမှူး၊ တနည်းဆိုသော် ဝန်ကြီးချုပ် ဖြစ်လာလေသည်။ (ဝါလပို့ဆာ ရောဗတ် — လည်းရှု။) သို့ဖြင့် ဂရိတ်ဗြိတိန်ကို ပါလီမန်အတွင်း အများစုက အုပ်ချုပ်သည့် အစဉ်အလာ ပေါ်ပေါက်ခဲ့လေသည်။

၁၇၂၁ ခုနှစ်မှ ၁၇၄၂ ခုနှစ်အထိ ဝါလပိုသည် အင်္ဂလန်ပြည်ကို ဦးဆောင် အုပ်ချုပ်ခဲ့ရလေသည်။ ဝါလပို လက်ထက်တွင် လာဘ်ပေး လာဘ်ယူမှုများကြောင့် နာမည်ပျက်ခဲ့ရသော်လည်း သူ၏ဝါဒများမှာ တိုင်းပြည်အတွက်များစွာ အကျိုးရှိခဲ့လေသည်။ သူသည် ပါလီမန်ကို ယခင်ကထက် တန်ခိုး ကြီးလာအောင် ဆောင်ရွက်ခဲ့၏။ ပြည်တွင်း ပြည်ပ ငြိမ်းချမ်းမှုကို လိုလားခဲ့သည်။ သို့ဖြစ်၍ အင်္ဂလန်ပြည်သည် ဥရောပတိုက်စစ်ပွဲများတွင် မပါဝင်ဘဲ နေနိုင်သမျှ နေနိုင်အောင် ကြိုးပမ်းခဲ့လေသည်။ သို့ကြိုးပမ်းခဲ့သည်မှာလည်း တနည်းအားဖြင့် ကုန်စည် ကူးသန်းရောင်းဝယ်ရေး တိုးတက်ဖွံ့ဖြိုးစေရန်အတွက် ဖြစ်လေသည်။ အုပ်ချုပ်ရေးတွင် မျှတမှုရှိရန် လိုလားသည်ဟုဆိုသော်လည်း နိုင်ငံရေး အတိုက်အခံများကိုကား ပြင်းထန်စွာနှိပ်ကွပ်ခဲ့၏။ သို့ဖြစ်၍ သူ၏ပါတီဝင် အချို့ပင် ပါတီမှ နုတ်ထွက်ကာ အတိုက်အခံများနှင့် ပူးပေါင်းခဲ့သည် ဟု ဆိုလေသည်။ ဝါလပိုသည် ငြိမ်းချမ်းမှုလိုလားသူ ဖြစ်သော်လည်း ၁၇၃၉ ခုနှစ်တွင် စပိန်ပြည်နှင့် မတတ်သာဘဲ စစ်တိုက်ခဲ့ရလေသည်။ ထိုစစ်ပွဲမှာ ဩစတြီးယားနန်းလုစစ်ပွဲနှင့် ရောထွေးသွားသည်နှင့် ထိုနန်းလု စစ်ပွဲတွင်လည်း ပါဝင်ရ ပြန်လေသည်။ သို့ဖြစ်၍ ၁၇၄၂ ခုနှစ်တွင် ရာထူးမှ နုတ်ထွက်လိုက်လေသည်။

**နယ်သစ်များအရေး။** ။၁၆ ရာစုနှစ်မှစ၍ ဗြိတိန်မှ ကုန်သည်များသည် ဟဒ်ဆန်ဗေးကုမ္ပဏီ၊ အရှေ့အိန္ဒိယ ကုမ္ပဏီ စသည့် ကုမ္ပဏီများ တည်ထောင်ကာ ဝေးကွာလှသော ပင်လယ်ရပ်ခြား ဒေသများသို့ သွားရောက်၍ ကူးသန်းရောင်းဝယ်ရေး ဌာနများ ဖွင့်ခဲ့ကြလေသည်။ မြောက်အမေရိကတိုက်နှင့် အနောက်အိန္ဒိယ ကျွန်းစုများတွင်လည်း နယ်သစ်များ ဖွင့်လှစ်ခဲ့၏။ ထိုအဝေးရောက် ကုန်စည်ရောင်းဝယ်ရေး ဌာနခွဲများ၏ ဗဟိုဌာနကြီးများတည်ရှိရာ လန်ဒန်မြို့၌ နယ်သစ်များမှ လက်ဖက်ခြောက်၊ သကြား၊ သားမွေး၊ ဆေး စသည်တို့ကို အကြီးအကျယ် အရောင်းအဝယ် ပြုလုပ်လေသည်။ ထို့ကြောင့် ဂရိတ် ဗြိတိန်မှာ တဖြည်းဖြည်း တိုးတက်ကြီးပွားလာ၏။ ၁၇ ရာစုနှစ်လောက်တွင် ဥရောပတိုက်မှ နိုင်ငံများ တနိုင်ငံနှင့် တနိုင်ငံ ကုန်စည် ကူးသန်းရောင်းဝယ်ရေးတွင်၎င်း၊ နယ်သစ်များ ဖွင့်လှစ်ရေးတွင်၎င်း အပြိုင်အဆိုင် ဖြစ်လာကြလေသည်။ အထူးသဖြင့် ပြင်သစ်နိုင်ငံနှင့် ဗြိတိန်နိုင်ငံတို့သည် မြောက်အမေရိကတိုက်၌ နယ်သစ်များ အလုအယက် ချဲ့ထွင်ခဲ့လေ၏။ ထို့ကြောင့် ဥရောပတိုက်နှင့် အမေရိကတိုက်တွင် အင်္ဂလိပ်နှင့်ပြင်သစ်တို့ စစ်တိုက်ကြရလေသည်။

၁၇၅၆ ခုနှစ်မှ ၁၇၆၃ ခုနှစ် အထိ ဖြစ်ပွားခဲ့သော ခုနစ်နှစ်စစ်ပွဲ(၁၇၅၆–၁၇၆၃) တွင် ဗြိတိန်သည် အောင်ပွဲအလီလီရခဲ့လေသည်။ (ခုနစ်နှစ်စစ်ပွဲ — လည်းရှု။) ထိုအခါက ဝီလျံပစ် အကြီးသည် ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်နေခိုက် ဖြစ်သည်။ (ပစ်,ဝီလျံ (အကြီး) — လည်းရှု။) ဗြိတိသျှ ရေတပ်သည် အနောက်အိန္ဒိယကျွန်းစုနှင့် အာဖရိကတိုက်ရှိ ဗြိတိသျှ နယ်သစ် စခန်းများတွင် ပြင်သစ်တို့ကို အနိုင်ရလိုက်လေ၏။ အိန္ဒိယနိုင်ငံတွင် ဆာ ရောဗတ် ကလိုက်သည် ဗြိတိသျှ တန်ခိုးအာဏာကို ခိုင်မြဲစွာ အခြေစိုက်ခဲ့၍၊ မြောက်အမေရိကတိုက်တွင် ဂျင်နရယ်ဝုသည် ကွီဗက်အနီး၌ ပြင်သစ်ဗိုလ်ချုပ် မွန်းကမ်းကို အောင်မြင်ခဲ့သဖြင့် ကနေဒါပြည်နယ်သည် အင်္ဂလိပ်တို့အပိုင် ဖြစ်သွားခဲ့လေသည်။ ၁၇၆၃ ခုနှစ်တွင် စစ်ပွဲကြီးပြီးဆုံးသွားသောအခါ ဗြိတိသျှသည် မြောက်အမေရိကတိုက်၌ အတ္တလန္တိတ်ကမ်းခြေမှ မစ်စစ်စပီမြစ် အထိ ကျယ်ပြန့်သော နယ်မြေများကို ရရှိလိုက်လေသည်။

**အမေရိကန် ပြည်နယ်များ ဆုံးရှုံးရခြင်း။** ။၁၇၆၀ ခုနှစ်တွင် တတိယ ဂျော့ဘုရင် နန်းတက်၏။ ထိုဘုရင်မှာ တိုရီပါတီကို လိုလားသူဖြစ်လေသည်။ ထို့ပြင် တိုင်းပြည်ရေးရာများကို မိမိ၏အစိုးရအဖွဲ့ ဝန်ကြီးများနှင့်သာ လွှဲအပ်မထားလိုဘဲ ကိုယ်တိုင် ပါဝင် ဆောင်ရွက်လိုသူလည်း ဖြစ်၏။ တတိယဂျော့နှင့် လော့နော့တို့လူစုသည် တိုရီပါတီအာဏာရအောင် ကြိုးစားခဲ့သည်။ ပါလီမန်တွင် မိမိ၏ဖက်သို့ ပါမည့်သူများကို ပါတီဖွဲ့ကာ အင်အားဖြည့်တင်းပေးခြင်းဖြင့်၎င်း၊ ဝန်ကြီးအဖွဲ့တွင် မိမိယုံကြည်စိတ်ချရသူများကိုသာ ခန့်ထားခြင်းဖြင့်၎င်း ဝန်ကြီးတဖွဲ့ပြီး တဖွဲ့ ဖြုတ်ချနိုင်ခဲ့ပြီးလျှင် နောက်ဆုံး၌ သူ၏ ကိုယ်စားလှယ်တော် ဟု ဆိုရမည် ဖြစ်သော

လော့နော့သည် ဝန်ကြီးချုပ် ဖြစ်လာလေသည်။ ထိုအချိန်တွင် ပါလီမန်အတွင်း၌ ဘုရင့်မိတ်ဆွေများ ခေါ် သူ၏ ပါတီဝင်များမှာ အတော် အင်အားကောင်းလျက် ရှိနေလေပြီ။

ထိုသို့ ၄င်းပါတီနှင့် ဘုရင်တို့ အာဏာလုနေစဉ် အတောအတွင်း နယ်သစ်များ အရေးတို့ကို ဂရုမထားနိုင်ဘဲ ဖြစ်ကတတ်ဆန်း စီမံခန့်ခွဲ ဆောင်ရွက်ခဲ့လေသည်။ ထိုစဉ်က ဗြိတိသျှ အစိုးရမှာ ခုနစ်နှစ်စစ်ပွဲကြောင့် ကြွေးများစွာ တင်လျက်ရှိလေ၏။ ထိုကြောင့် ထိုကြွေးများကို ထိုနယ်သစ်များကပါ ကူညီပေးဆပ်ရန် ဆုံးဖြတ်ပြီးသော် ထိုအကြွေးများဆပ်နိုင်ရန် နယ်သစ်များတွင် အခွန်သစ်များ စည်းကြပ်စေ၍ အခွန်များကို အတင်းအကြပ် ကောက်ခံစေလေ၏။

နယ်သစ်များမှာ ဗြိတိသျှအစိုးရ၏ ဂရုတစိုက် အုပ်ချုပ်ခြင်း မခံရဘဲ ဗြိတိသျှ ပါလီမန်တွင်လည်း ကိုယ်စားလှယ်လွှတ်နိုင်ခွင့် မရခဲ့သောကြောင့် အခွန်များ ကောက်ခံခြင်းသည် ဥပဒေစည်းမျဉ်းနှင့် မလျော်ဟု မကျေမနပ် ဖြစ်ကာ အပြင်းအထန် ကန့်ကွက် ကြလေသည်။ ထိုမျှ မကသေး၊ ဗြိတိသျှတို့၏ ဥပဒေစည်းကမ်းများကို လိုက်နာခြင်း မပြုတော့ဘဲ၊ ဗြိတိသျှ စစ်တပ်များကိုပင် ခုခံရန် အသင့်ပြင်ဆင်ခဲ့ကြလေ၏။ ဂျော့ဘုရင်နှင့် လော့နော့တို့ကလည်း မိမိတို့၏ သဘောထားကို အလျှော့ပေးရန် ငြင်းဆိုခဲ့ကြလေသည်။ ထိုကြောင့် မကျေနပ်မှု ယမ်းအိုးကြီးသည် တဖြည်းဖြည်း အခြေအနေ ဆိုးလာပြီးလျှင် ၁၇၇၆ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် ပေါက်ကွဲလေသည်။ ယင်းသို့ဖြင့် အမိတိုင်းပြည်နှင့် နယ်သစ်တို့ တိုက်ကြရသော အမေရိကန် လွတ်လပ်ရေးစစ်ပွဲကြီး စတင် ဖြစ်ပွားလေတော့သည်။

ဗြိတိသျှ စစ်တပ်များသည် ဆာရာတိုဂါ တိုက်ပွဲတွင် အရေး နိမ့်ပြီးသောအခါ ပြင်သစ်တို့သည် နယ်သစ်များဖက်မှ ပါဝင် တိုက်ခိုက်လေသည်။ ခုနစ်နှစ်စစ်ပွဲအတွင်းက ဗြိတိသျှတို့အားအညံ့ခံခဲ့ရသည်ကိုလက်တုံ့ပြန်သောအားဖြင့်အခြားဥရောပနိုင်ငံများကလည်း နယ်သစ်များဖက်မှ ကူညီခဲ့လေရာ ဗြိတိန်မှာ တဦးနှင့်အများ ယှဉ်ပြိုင်နေရလေ၏။ ၁၇၀၁ ခုနှစ်တွင် ယော့တောင်း၌ ဂျင်နရယ် ကွန်းဝေါလစ်သည် နယ်သစ်တပ်များထံ လက်နက် ချလိုက်ရပြီးလျှင် ၁၇၈၂ ခုနှစ်တွင် လော့နော့သည် ရာထူးမှနုတ်ထွက်ရလေသည်။ အမေရိကန်နယ်သစ်များ ဆုံးရှုံးသွားရသည့်အတွက် ဘုရင့်အာဏာကို ကန့်သတ် လိုက်သကဲ့သို့ ဖြစ်သွားလေတော့သည်။ ယင်းသို့ဖြင့် ဝှစ်ပါတီသည် ပြန်၍အာဏာရရှိခဲ့ပြီးလျှင် အမေရိကန် နယ်သစ်များ၏ လွတ်လပ်ရေးကို အသိအမှတ် ပြုလိုက်



ယူနိုက်တက်ကင်းဒမ်းခေါ် ဓနသဟာယနိုင်ငံတို့၏ မိခင်ဖြစ်သော ဗြိတိန်နိုင်ငံတွင် လူ့အခွင့်အရေး တိုက်ပွဲများ မြောက်မြားစွာ ဖြစ်ပေါ် ခဲ့သည်။ ဒီမိုကရေစီ အခွင့်အရေးများ လိုက်လျောပေးခဲ့ရသည်။ ၁၈၁၉ ခုနှစ်တွင် မန်ချက်စတာမြို့၌ ဒီမိုကရေစီအခွင့်အရေး ပိုမိုရရှိခံစားနိုင်ရန် အခွင့်အရေးတောင်း စည်းဝေးပွဲ ကျင်းပခဲ့ရာ၊ အစိုးရ၏ဖိနှိပ်ခြင်းကို ခံခဲ့ရသည်။ ထိုဖြစ်ရပ်ကို ပီတာလူးလူသတ်ပွဲကြီးဟု ခေါ်ဝေါ်ခဲ့လေသည်။



အလုပ်သမား အခွင့်အရေးများ တောင်းဆိုခဲ့သည့် ချားတစ်လူထုစည်းဝေးပွဲ

လေ၏။ တတိယ ဂျော့ဘုရင်သည် မိမိတန်ခိုးအာဏာရရှိမှုကို ခေါင်းမာမာနှင့်ပင် ဆက်လက် ကြိုးစား ခဲ့သေးသည်။ သို့သော် အခြား ကိုယ်ရေးကိုယ်တာ သောကများလှသဖြင့် စိတ်ထိခိုက်သွားကာ မကြာမီ စိတ်နောက်သွားလေသည်။

**စက်မှုလုပ်ငန်း အရေးပုံ။** ။၁၈ ရာစုနှစ်များ အတွင်း ဗြိတိန်၌ အရေးပါသော ပြောင်းလဲမှု များသည် လယ်ယာလုပ်ငန်းတွင်၎င်း၊ သယ်ယူပို့ဆောင်ရေးတွင်၎င်း၊ ကုန်ထုတ်လုပ်ရေးတွင်၎င်း ပေါ်ပေါက်ခဲ့လေသည်။ လယ်ယာလုပ်ငန်းတွင် ရှေးသမရိုးကျ နည်းစံနစ်များအစား တိုးတက်ကောင်းမွန်သော နည်းသစ် စံနစ်သစ်များဖြင့် စမ်းသပ် လုပ်ကိုင်ခဲ့ရာ အသီးအနှံများ ပိုမိုဖြစ်ထွန်းလေသည်။ မျိုးကောင်း မျိုးသန့် တိရစ္ဆာန်များကိုလည်း ရရှိလေသည်။ ထိုအခါ တောရွာများရှိ ဘုံမြေများကိုပင် တိရစ္ဆာန်မွေးမြူရေးအတွက် သိမ်းယူကြသဖြင့် လယ်ယာ လုပ်ငန်းဖြင့် အသက်မွေးသူ အတော်များများသည် အလုပ်လက်မဲ့ ဖြစ်ကာ ရွာများမှ ထွက်ခွာခဲ့ရလေသည်။ ထိုအလုပ် လက်မဲ့များသည် မြို့များရှိ စက်ရုံများတွင် သွားရောက်လုပ်ကိုင်ကြလေသည်။ စက်ရုံများ ပေါ်ပေါက်လာသည်မှာလည်း မကြာလှသေးပေ။

ရှေးဦးစွာ အထည်အလိပ်များကို လက်ဖြင့် ရက်လုပ်ရာမှ စက်ဖြင့် ရက်လုပ်နိုင်ရန် ကြိုးစားကြံစည်ခဲ့သည်တွင် ဖြစ်မြောက် အောင်မြင်ခဲ့၏။ ထိုကြောင့် အထည်ရက်လုပ်သည့် လုပ်ငန်းမှာ အိမ်တွင်းလက်မှုလုပ်ငန်းတခု အဖြစ်မှ စက်မှုလုပ်ငန်း ဖြစ်လာလေသည်။ ဤသို့ဖြင့် စက်များကို ကျွမ်းကျင်သော လက်မှုပညာသည်များ နေရာတွင် အစားထိုးနိုင်ခဲ့ပြီးလျှင် စက်ရုံအများအပြား ပေါ်ပေါက်ခဲ့ လေသည်။ အစတွင် စက်များကို ရေအားဖြင့် လှည့်၏။ နောက် ရေနွေးငွေ့စက် တီထွင်အောင်မြင်သောအခါ ရေနွေးငွေ့ဖြင့် လည်စေလေသည်။ ထိုအခါ ကျောက်မီးသွေးနှင့် သံများ အကြီးအကျယ် တူးဖော် လုပ်ကိုင်လေသည်။ စက်ရုံများတွင်သာ မက သတ္တုတွင်းများတွင်လည်း ရေနွေးငွေ့စက်များကို အသုံးပြုကြ၏။ ကုန်ကြမ်းများ ရရှိနိုင်ရေးနှင့် ကုန်ချောများကိုဖြန့်ချိနိုင်ရေးအတွက် တူးမြောင်းများနှင့် လမ်းများကို ဖောက်လုပ်ကာ ဆိပ်ကမ်းများကိုလည်း ပိုမိုကောင်းမွန်အောင် ပြုပြင်ကြလေသည်။

ထို့ပြင် ရေနွေးငွေ့ဖြင့်မောင်းသော မီးရထား၊ မီးသင်္ဘောများကိုလည်း တီထွင် ခဲ့ကြ၏။ စက်ရုံများထွန်းကားရာ မြို့များသည် လျင်မြန်စွာ တိုးတက် ကြီးပွားလာကြလေသည်။ ထိုသို့ စက်ရုံများထွန်းကားလာသောကြောင့် ဗြိတိန်နိုင်ငံသည် "ကမ္ဘာ့အလုပ်ရုံကြီး" ဖြစ်လာလေသည်။

**ပြင်သစ်နှင့် စစ်ဖြစ်ပွားခြင်း။** ။ပြင်သစ် တော်လှန်ရေးသည် ၁၇၈၉ ခုနှစ်တွင် စတင် ဖြစ်ပွားရာမှ တကမ္ဘာလုံးနှင့် ဆိုင်သော တော်လှန်ရေးကြီး ဖြစ်လာလေသည်။ ထိုစဉ်က

အင်္ဂလိပ် ဝန်ကြီးချုပ်မှာ ဝီလျံပစ်အငယ် ဖြစ်၏။ (ပစ်,ဝီလျံ(အငယ်) — လည်းရှု။)၁၇၇၄ ခုနှစ်တွင် ဝန်ကြီးချုပ်ဖြစ်စက အသက် ၂၅ နှစ်မျှသာ ရှိသေးသည်။ တော်လှန်ရေးကြီးပေါ် ပေါက်စ ပဌမလေးနှစ်အတွင်း ဗြိတိန်သည် ဂရုမထားဘဲ နေခဲ့သော်လည်း ပြင်သစ်တို့သည် သူတို့၏ဘုရင်လူဝီ ၁၆ ကို အဆုံးစီရင်ကာ ယခု ဗဲလဂျီယမ် ခေါ် နယ်မြေကို သိမ်းယူခဲ့ပြီး နောက်တွင်ကား ဗြိတိန်သည် လက်ပိုက်ကြည့်မနေသာတော့ဘဲ အခြား ဥရောပနိုင်ငံများကို ခေါင်းဆောင်ကာ ၁၈၁၇ ခုနှစ်အထိ ပြင်သစ်တို့ကို တိုက်ခိုက်ခဲ့လေသည်။ ဗြိတိန်သည် စစ်ထဲဝင်၍ပါရသော်လည်း ကုန်းတပ်ထက် ရေတပ်ကို ပိုမိုအားထားကာ တိုက်ခိုက်ခဲ့ရလေ၏။ ရေတပ်ကို အားထားသည့်အတိုင်းပင် ရေကြောင်းဖက်တွင် အင်္ဂလိပ်တို့က ပြင်သစ်တို့အပေါ် အရေးသာ ခဲ့သည်ချည်းဖြစ်လေသည်။ အထင်ရှားဆုံးသော ဗြိတိသျှတို့၏ ရေတပ်အောင်ပွဲကြီးမှာ ၁၈၀၅ ခုနှစ်တွင် ဖြစ်ပွားသော ထရာဖဲလဂါတိုက်ပွဲကြီးဖြစ်၍ ထိုတိုက်ပွဲတွင် ရေကြောင်း ဗိုလ်ချုပ်ကြီး နယ်လဆင်က ပြင်သစ်ရေတပ်ကို အောင်မြင် ခဲ့လေသည်။ စင်စစ်သော်ကား အင်္ဂလိပ် ရေတပ်သည် ဗြိတိန်နိုင်ငံကို ကယ်တင်ခဲ့သည် ဟု ဆိုနိုင်ပေသည်။ ကုန်းဖက်တွင်ကား ဗြိတိသျှနှင့် မဟာမိတ်တပ်များ အောင်ပွဲများများ မရကြပေ။ သို့သော် နောက်ဆုံးတွင် မဟာမိတ်တပ်များသည် နပိုလီယန်၏ တပ်များကို ၁၈၁၅ ခုနှစ် ဝါးတာလူးတိုက်ပွဲတွင် အနိုင်ရလိုက်လေသည်။ ထိုစဉ်က ဗြိတိသျှတပ်များကို ဦးစီးအုပ်ချုပ်သူမှာ ဝယ်လင်တန် မြို့စား ဖြစ်ပေသည်။ အရည်အချင်းနှင့် ပြည့်စုံလှသော ခေါင်းဆောင်ကောင်း တဦးဖြစ်၍ ဝယ်လင်တန်သည် ထိုစစ်ပွဲအပြီးတွင် ပိုမိုထင်ရှားကျော်ကြားလာခဲ့၏။ ဗီယင်းနားတွင် စည်းဝေးဆွေးနွေးကာ ချုပ်ဆိုခဲ့သော စစ်ပြေငြိမ်းရေး စာချုပ်သည် ဥရောပတိုက်တွင် ပြန်၍ အာဏာကို မတင်းပေးခဲ့လေသည်။ ဗြိတိန်သည် အဖိုးတန် နယ်မြေများဖြစ်သော အာဖရိကတိုက် တောင်ပိုင်းမှ ကိပ်ကိုလိုနီ၊ မော်လတာကျွန်းနှင့် အခြားကျွန်းငယ်ကလေးအတော်များများကို ရရှိလိုက်၏။

ထိုစစ်ပွဲအတွင်းက ဝန်ကြီးချုပ် ပစ်အငယ်သည် ပြင်သစ်ကိုချိုးနှိမ်နိုင်ရန် များစွာကြိုးစားခဲ့ရလေ၏။ အခြားဥရောပနိုင်ငံများနှင့် မဟာမိတ်ဖွဲ့၍ ပြင်သစ်ကိုတိုက်ခိုက်နိုင်ရန် အတွက် ကြေးငွေ အမြောက်အမြား ထောက်ပံ့ခဲ့ရသည်။

ပြင်သစ်နှင့် စစ်ဖြစ်နေဆဲ၌ အိုင်ယာလန်ပြည်တွင် ဆူပူထကြွခဲ့လေ၏။ အင်္ဂလန်ပြည်၏ ရေတပ်အင်အားကောင်းသောကြောင့်သာလျှင် အမေရိကန် နယ်သစ်များ အရေးကကဲ့သို့ အိုင်ရစ်တို့အား ပြင်သစ်တို့ မကူညီနိုင်ဘဲ ရှိနေခဲ့၏။ ထို့ပြင် ပစ်သည် အိုင်ယာလန်ပြည်နှင့် ဂရိတ်ဗြိတိန်တို့ကို ပူးပေါင်းပေးပြီးနောက် ဗရင်ဂျီဂိုဏ်းဝင်တို့ သက်ညှာခွင့် ရရှိစေရန် ဆောင်ရွက် ပေးခြင်းဖြင့် အိုင်ရစ်အရေး အေးချမ်းအောင် ဆောင်ရွက်မည် ကြံလေသည်။ သို့သော် ဗရင်ဂျီဂိုဏ်းဝင်တို့ကို သက်ညှာခွင့်ပေးရေးနှင့် စပ်လျဉ်း၍ တတိယဂျော့ဘုရင်က ကန့်ကွက်သဖြင့် ပစ်သည် ၁၈၀၁ ခုနှစ်တွင် ရာထူးမှ နုတ်ထွက်ရလေ၏။

၁၈၀၀ ပြည့်နှစ်တွင် အိုင်ယာလန်ပြည်ကို ဂရိတ် ဗြိတိန်နိုင်ငံတော်၏ တစိတ်တဒေသအဖြစ် အသိအမှတ် ပြုသော ပူးပေါင်းရေး အက်ဥပဒေကို ပြဋ္ဌာန်းလိုက်ကြသည်။ သို့သော် ၁၈၂၉ ခုနှစ်တွင်မှ ဗရင်ဂျီဂိုဏ်းဝင်တို့ သက်ညှာခွင့်ရရှိရေး အက်ဥပဒေ စသည်တို့ကို ပြဋ္ဌာန်းရာ၌ အောင်မြင်လေသည်။

ပြုပြင်ရေးခေတ်။ ။ပြင်သစ်နှင့် စစ်ကြီး ဖြစ်ပြီးနောက်တွင် ဗြိတိန်နိုင်ငံသည် ကြွေးထူနေခဲ့လေသည်။ အထူးသဖြင့် တိုင်းသူပြည်သားတို့မှာ ဒုက္ခအသွယ်သွယ်နှင့် ကြုံခဲ့ရပေသည်။ တိုင်းသူပြည်သား အများစုဖြစ်သော ဆင်းရဲသားများသည် စက်မှုလုပ်ငန်း အရေးပုံကြောင့် အကျိုးမခံစားရသည့်ပြင် ထိုအရေးပုံ၏ ဒဏ်ကို ခံစားခဲ့ရလေသည်။ စက်ရုံများတည်ရှိရာ မြို့များရှိ ကျန်းမာရေးနှင့်လည်းမညီ၊ လူအများ ပြွတ်သိပ်ကာ ညစ်ပတ်ပေရေစွာ နေထိုင်ရသော ဆင်းရဲသား အလုပ်သမားရပ်ကွက်များတွင် အလုပ်လက်မဲ့များဖြင့် ပြည့်နှက်နေလေသည်။ ထိုအတောအတွင်း စစ်ထဲမှ ပြန်လာသောစစ်သားများသည် အလုပ်လက်မဲ့ဖြစ်ကာ ပို၍ အခြေအနေကို ဆိုးစေပြန်လေ၏။ ထို့ပြင် ဈေးနှုန်းများကျဆင်း၍ လယ်သမားများသည် သီးစားခများကိုပင် မပေးနိုင်အောင် ဖြစ်နေလေသည်။

ပါလီမန်ကား ထိုကဲ့သို့သော အရေးများကို အနည်းငယ်မျှပင် ဂရုမစိုက်ခဲ့ပေ။ ထို့ပြင် ဆင်းရဲသား လူထုလည်း မဲဆန္ဒပေးပိုင်ခွင့်မရှိချေ။ ယင်းသို့ဖြစ်နေသည်နှင့် လူထုသည် မခံမရပ်နိုင်တော့ဘဲ တော်လှန်ရေးကြီး ပေါ် ပေါက်တော့မည်ကဲ့သို့ ရှိနေစဉ် ၁၈၃၀ ပြည့်နှစ်တွင် စတုတ္ထ ဝီလျံဘုရင်သည် နန်းတက်လေသည်။ တိုင်းပြည်၏ အခြေအနေ ထိုသို့ ရှိနေသည်ကို တွေ့မြင် သိရှိထားသော ဝှစ်ပါတီသည် တိုရီပါတီကိုနှိမ်ဖို့ အခွင့်ကောင်း တွေ့ခဲ့လေသည်။ ထို့ကြောင့် လူလတ်တန်းစားများအား မဲဆန္ဒပေးခွင့်၊ အမတ်အဖြစ် အရွေးခံခွင့်နှင့် စက်မှုလုပ်ငန်း ထွန်းကားရာမြို့များမှ ပါလီမန်သို့ ကိုယ်စားလှယ်များ စေလွှတ်ခွင့်တို့ကိုပေးရန် ရည်ရွယ်သော ပြုပြင်ရေး ဥပဒေကြမ်းကို ပြင်ဆင် ခဲ့ကြလေ၏။ ထိုဥပဒေကြမ်းသည်သာ အက်ဥပဒေအဖြစ် မရောက်လျှင် တိုင်းပြည်၏ အခြေအနေသည် ပိုမိုဆိုးရွား လာလိမ့်မည် ဟုပင် အချို့က ထင်မြင်ကြလေသည်။

ထိုဥပဒေကြမ်းကို ၁၈၃၂ ခုနှစ်တွင် အတည်ပြု ပြဋ္ဌာန်းလိုက်လေသည်။ ထိုအက်ဥပဒေသစ် အရ ပဌမဆုံး ဖွဲ့စည်း

ခဲ့သော ပါလီမန်သည် ၁၈၃၃ ခုနှစ်၌ နယ်သစ်များတွင် ငွေဝယ်ကျွန်စံနစ်ကို ပယ်ဖျက်ခဲ့၏။ ထိုပြင် ဒေသန္တရ အုပ်ချုပ်ရေးကို တိုးတက်ကောင်းမွန်အောင် ပြုပြင်ပေးခဲ့သည်။ ဆင်းရဲသားနှင့် ကလေး အလုပ်သမားများ သက်သာချောင်ချိရေးအတွက် အက်ဥပဒေများကို ပြဋ္ဌာန်းပေးလေသည်။ သို့သော် အလုပ်သမား လူတန်းစားမှာ မဲပေးခွင့် မရသေးသဖြင့် မကျေမနပ် ရှိနေကြပြန်သည်။

**ဝိတိုရိယ ဘုရင်မကြီးလက်ထက်။** ။၁၈၃၇ ခုနှစ်တွင် ဝိတိုရိယ ဘုရင်မ နန်းတက်လေသည်။ ထိုဘုရင်မကြီး၏ နန်းသက်မှာ အတော်ပင် ရှည်လျား၍ သူ့လက်ထက်တွင် နိုင်ငံကြီး ငြိမ်းချမ်းသာယာ ဝပြောခဲ့လေသည်။ နန်းတက်စက အသက် ၁၈ နှစ် အရွယ်မျှသာ ရှိသေးသည်။ အုပ်ချုပ်ရေးကို ပါလီမန်နှင့် ဝန်ကြီးများက ကြိုးကိုင်နေသည် ဟု ဆိုရသော်လည်း ဝိတိုရိယဘုရင်မသည် အတော်ပင် ဝင်ရောက်စွက်ဖက်နိုင်ခဲ့၏။

ထိုဘုရင်မကြီး၏ လက်ထက်တွင် ထင်ရှား ကျော်ကြားလှသော နိုင်ငံပြု သုခမိန်ကြီးများ အတော်များများ ပေါ်ထွက်ခဲ့လေသည်။ ဆာ ရောဗတ် ပီးသည် အခြားတိုင်းပြည်မှ တင်ပို့သော ကောက်သီးကောက်နှံများ အပေါ်တွင် အကောက်တော်ခွန် လွတ်ငြိမ်းခွင့် ပြုလိုက်၏။ ထိုသို့ပြုလိုက်ခြင်းသည် ဗြိတိသျှတို့၏ လွတ်လပ်စွာ ကုန်သွယ်မှုဝါဒ ဖြစ်မြောက်အောင် ဆောင်ရွက်ရေးအတွက် ရှေ့တလှမ်း တိုးတက်လိုက်ခြင်း ဖြစ်ပေသည်။ ဗင်ဂျမင် ဒစ်ဇရေလီသည် ကွန်ဆားဗတစ် ခေါင်းဆောင်တဦးဖြစ်၍ ၁၈၆၇ ခုနှစ် ပြုပြင်ရေး အက်ဥပဒေဖြစ်မြောက်ရန် ဆောင်ရွက်ပေးခဲ့သူဖြစ်ပေသည်။ ၁၈၃၂ ခုနှစ်တွင် ပြုပြင်ရေး အက်ဥပဒေတရပ်ကို ပြဋ္ဌာန်းခဲ့သော်လည်း အလုပ်သမားလူတန်းစားသည် မဲပေးခွင့် မရသေးသဖြင့် မကျေမနပ် ရှိနေခဲ့သည်။ သို့ဖြစ်၍ အလုပ်သမားများသည် (၁)ယောကျ်ားမှန်သမျှ မဲပေးနိုင်ရန်၊ (၂) ညီမျှသော မဲဆန္ဒနယ်များ ထားရှိရန်၊ (၃) နှစ်စဉ် ပါလီမန် ရွေးကောက်ပွဲ ထားရှိရန်၊ (၄) ပါလီမန်အမတ်များအား လစာပေးရန်၊ (၅)လျှို့ဝှက်သော မဲပေးစံနစ်ကိုအသုံးပြုရန်၊ (၆)အမတ်များအတွက် ပစ္စည်းအရည်အချင်းမထားရန် ဟူသော အချက်ကြီး ခြောက်ချက်ပါဝင်သည့် လူထုစာတမ်းကြီးတရပ်ကိုရေးဆွဲလက်မှတ်ထိုးကာ ပါလီမန်သို့ဥပဒေပြုလုပ်ပေးရန်တင်သွင်းလေ၏။ သို့သော် ပါလီမန်ကငြင်းပယ်လိုက်သည်။ နောက်ထပ်မကြာခဏ ထိုသို့ တင်သွင်းခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ သို့သော် လူထုစာတမ်းကြောင့် လူထုလှုပ်ရှားမှု ပေါ်ပေါက်ကာ ၁၈၆၇ ခုနှစ်တွင် ပြုပြင်ရေး အက်ဥပဒေတရပ်ကို ပြဋ္ဌာန်းပေးရပြန်ခြင်း ဖြစ်လေသည်။



စပိန်ပိုင် ဂျီဗရောတာကို တိုက်ခိုက်သိမ်းပိုက်ကာ ယူနိုက်တက်ကင်းဒမ်း နယ်ချဲ့ခဲ့သည်။

ထိုအက်ဥပဒေကြောင့် မြို့များရှိအိမ်ငှားနေသူ အလုပ်သမားများ၊ နယ်များရှိ လယ်သီးစားများနှင့် မြို့ငယ် ရွာသိမ်များရှိ လူလတ်တန်းစားတို့ မဲပေးခွင့်ရလေသည်။ နောက်ငါးနှစ်ခန့်အကြာတွင် လျှို့ဝှက်မဲပေးခွင့် ရကြပြန်၏။ ဝီလံ့ ဂလက်စတုန်း ကြိုးပမ်းခဲ့သောကြောင့် ၁၈၈၄ ခုနှစ်တွင် အတည်ပြုပြဋ္ဌာန်းခဲ့သော ပြုပြင်ရေးအက်ဥပဒေသစ်အရ အိမ်ငှားနေသူ ယောကျ်ားအားလုံး မဲပေးခွင့် ရလေသည်။ မဲဆန္ဒနယ်များကိုလည်း ညီတူညီမျှလောက်ဖြစ်အောင်ပြုပြင်ပေးခဲ့၏။

ဝိတိုရိယဘုရင်မကြီး၏ လက်ထက်တွင် ဗြိတိန်၏ နေထိုင်မှုအဆင့်အတန်းသည် အတော်ပင် တိုးတက်ပြောင်းလဲသွားလေ၏။ ၁၈၀၁ ခုနှစ်လောက်တွင် တတိုင်းပြည်လုံးမှာ များမြောင်လှသော မီးရထားလမ်းနှင့် လမ်းမကြီးများဖြင့် ရှုပ်ရှက်ခတ်နေလေတော့သည်။ ကြေးနန်းနှင့် စကားပြောကြေးနန်းများကိုလည်း အသုံးပြုလျက်ရှိနေကြပေပြီ။ လူဦးရေသည်လည်း နှစ်ဆမျှ တိုးတက်လာလေသည်။ လူလတ်တန်းစားများသည် စီးပွားတိုးတက်ဖြစ်ထွန်းကြ၍ အောက်တန်းစားလူထုသည်လည်း ယခင်ကထက် အတော်ကလေး ချောင်ချောင် လည်လည် နေနိုင်လာကြ၏။

ဘုရင်မကြီး၏ လက်ထက်တွင် ငြိမ်းချမ်းသာယာ ဝပြောသည် ဟု ဆိုရသော်လည်း စစ်မက်ဖြစ်ပွား ဆူပူလှုပ်ရှားမှု အနည်းငယ်မျှ ပေါ်ပေါက်ခဲ့ပေသေးသည်။ ထိုအခါက ဥရောပတိုက်တွင် တန်ခိုးတက်လာသော ရုရှကို နှိမ်ရန် ကြိုးစားရာမှ ကရိုင်းမီးယားစစ် (၁၈၅၄ – ၁၈၅၆) ဖြစ်ပွားခဲ့လေသည်။ ထိုစစ်ပွဲတွင် ဗြိတိန်ကို ပြင်သစ်နှင့်တူရကီတို့က ကူညီခဲ့၏။ ၁၈၅၆ ခုနှစ်တွင် စစ်ပြေငြိမ်းခဲ့ရာ ဗြိတိန်နှင့် ပြင်သစ်တို့အတွက် အကျိုးကျေးဇူး များစွာမရှိလှပေ။ ၁၈၅၇ ခုနှစ်တွင် အိန္ဒိယပြည်တွင် စစ်တပ် တော်လှန်မှု ဖြစ်ပွားရာ ၁၈၅၈ ခုနှစ်တွင်မှ နှိမ်နင်း၍ အောင်မြင်လေ၏။ ၁၈၉၉ ခုနှစ်မှ ၁၉၀၂ ခုနှစ်အထိ နှစ်များအတွင်း အာဖရိကတိုက်တွင် ဗိုးဝါးတို့နှင့် စစ်ဖြစ်ခဲ့ရပြန်လေ၏။ ဗိုးဝါးစစ်ပွဲ အပြီးတွင်ကား ဗြိတိသျှတို့သည် ထရန်းစဗားနှင့် သြရိန်းရစ်ဗား နယ်များကို ရရှိခဲ့လေသည်။ ဆိုခဲ့သည့်စစ်ပွဲများကို တိုက်ခဲ့ရာတွင် ဗြိတိန်သည် မိမိ၏ အင်အားတောင့်တင်းသော ရေတပ်ကြီးနှင့် အလေ့အကျင့်ကောင်းစွာ ရထားသော အင်အားမများလှသည့် ကုန်းတပ်တို့ကို ယုံကြည်အားထားကာ အသုံးပြုခဲ့လေသည်။ ဘုရင်မကြီး၏ လက်ထက်အတွင်း အရေးပါသော ပြဿနာတရပ်မှာ အိုင်ယာလန်ပြည်ကို ကိုယ်ပိုင် အုပ်ချုပ်ရေး ပေးသင့် မပေးသင့် ပြဿနာပင် ဖြစ်လေ၏။ ထိုပြဿနာမှာ ၁၈ ရာစုနှစ် နောက်ပိုင်းမှ ၁၉ ရာစုနှစ် ရှေ့ပိုင်းတိုင်အောင် ဗြိတိသျှနိုင်ငံပြု သုခမိန်ကြီးများအတွက် အငြင်းပွားဖွယ်ရာအကြောင်းတရပ်ဖြစ်ခဲ့လေ၏။ ဝန်ကြီးချုပ်ဂလက်စတုန်းသည် အိုင်ယာလန်ပြည်ကို ကိုယ်ပိုင် အုပ်ချုပ်ရေး ပေးလို၏။ ထိုကြောင့် ၁၈၈၆ ခုနှစ်တွင် အိုင်ယာလန်ပြည် ကိုယ်ပိုင်အုပ်ချုပ်ရေး ဥပဒေကြမ်းကို ပါလီမန်တွင် သွင်းရာ ပါလီမန်က လက်မခံခဲ့ပေ။ ၁၈၉၃ ခုနှစ်တွင် ဒုတိယ အကြိမ် တင်သွင်းပြန်သောအခါ၌လည်း ရှုံးနိမ့်သွားပြန်လေသည်။ ထိုကြောင့် ဂလက်စတုန်း၏ လစ်ဗရယ်ပါတီသည် အစိုးရအဖွဲ့မှ နုတ်ထွက်ခဲ့လေရာ ကွန်ဆားဗတစ်တို့က အစိုးရအဖွဲ့ ဖွဲ့ကာ အုပ်ချုပ်ပြန်လေသည်။ ထိုကိုယ်ပိုင်အုပ်ချုပ်ရေး ဥပဒေကို ပဌမကမ္ဘာစစ်မတိုင်မီကလေးတွင် အတည်ပြုပြဋ္ဌာန်းခဲ့သော်လည်း အိုင်ယာလန်ပြည်သည် ၁၉၂၁ ခုနှစ်ကျကာမှ လွတ်လပ်သောတိုင်းပြည် ဖြစ်လာလေသည်။

**ပဌမ ကမ္ဘာစစ်အတွင်းက ဗြိတိန်။** ။၂၀ ရာစု နှစ်အစ ခန့်တွင် ဂျာမနီနိုင်ငံသည် အင်အားတိုးတက်လာ၍ ဗြိတိန်သည် ဂျာမနီ၏ တန်ခိုးကြီးလာမှုကို စိုးရိမ်လာရ ပြန်လေသည်။ ဂျာမန် စက်မှုလုပ်ငန်းများ အလွန်တိုးတက်လာရာ ဗြိတိန်သည် မမှီအောင်မလိုက်နိုင်သလောက် ဖြစ်လေသည်။ ထို့ပြင် ဂျာမနီသည် ရေတပ်သစ်ကို တည်ဆောက်၍ ကိုလိုနီနယ်သစ်များ ထူထောင် သိမ်းပိုက်မည့် လေသံများ ပစ်နေလေ၏။ ထိုကြောင့် ဗြိတိန်သည် ဂျာမနီကို နှိမ်နင်းရန် မဟာမိတ်များ ရှာထားရလေသည်။ ၁၉၀၄ ခုနှစ်တွင် ဗြိတိန်သည် ပြင်သစ်နှင့် မဟာမိတ်ဖြစ်လာ၍ ၁၉၀၇ ခုနှစ်တွင် ရုရှနှင့် မဟာမိတ်ဖွဲ့ပြန်၏။ ၁၉၁၄ ခုနှစ်တွင်ကား အရှေ့ဖက် ဗော်လကန်ပြည်နယ်များမှစ၍ မီးတောက်လာရာဥရောပစစ်ကြီး စတင်လေတော့၏။ (ကမ္ဘာစစ်၊ ပဌမ — လည်းရှု။)

ဂျာမနီက ဩစတြီးယား-ဟန်ဂေရီ၊ တူရကီနှင့် ဗူလဂေးရီးယားနိုင်ငံတို့နှင့် မဟာမိတ်ဖွဲ့ထားလေသည်။ ဂျာမနီသည် ကြားနေနိုင်ငံ ဖြစ်သော ဗဲလဂျီယမ်နိုင်ငံကို ဖြတ်ကျော်သောအခါ၊ ဗြိတိသျှနှင့် မဟာမိတ်များသည် ဂျာမနီကို စစ်ကြေညာလေ၏။ သို့သော် ၁၉၁၇ ခုနှစ်တွင် ရုရှနိုင်ငံတွင်း၌ တော်လှန်ရေး ဖြစ်ပွားသဖြင့် ရုရှသည် ဂျာမနီနှင့် မိမိတဦးတည်းသက်သက် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ရလေသည်။ ဗြိတိန်သည် မိမိ၏ မဟာမိတ်ထဲမှ ရုရှထွက်သွားသော်လည်း အမေရိကန်ပြည်ထောင်စု၊ ဣတလီနှင့် အခြားမဟာမိတ်များ ထပ်မံရရှိသဖြင့် ဂျာမနီနှင့် ယင်း၏ မဟာမိတ်များကို အနိုင်ရလိုက်လေသည်။ ပဌမ ကမ္ဘာစစ်၏ စစ်ပြေငြိမ်းရေး စာချုပ်အရ ပယ်လက်စတိုင်၊ အီရက်နှင့် အာဖရိကတိုက်ရှိ ဂျာမန်ကိုလိုနီများသည် ဂရိတ် ဗြိတိန်၏ သြဇာခံနယ်များ ဖြစ်လာကြ၏။

**စစ်ပြီး ပြဿနာများ။** ။စစ်နိုင်လိုက်သည့် အတွက် အတော်ပင် အရေးပါ အရာရောက်၍ အကျိုးကျေးဇူးရှိသည့် အချက်များရှိသော်လည်း ဗြိတိန်၏ နစ်နာဆုံးရှုံးချက်များသည်လည်း အတော်ပင်များပြားလေသည်။ ဗြိတိန်၏ ခြည်နှင့်သိုးမွေးထည်များ၊ ကျောက်မီးသွေး၊ သင်္ဘောနှင့်စက်ကရိ



ယူနိုက်တက်ကင်းဒမ်းမြို့တော် လန်ဒန်မြို့ရှိ ဘုရင့်စံနန်းတော်

ယာစသည့် ပစ္စည်းများအတွက် ဈေးအတော်ပင်လျော့သွားလေ၏။ စစ်သုံးပစ္စည်းများ ပြုလုပ်သော စက်ရုံကြီးတို့ကို ပိတ်လိုက်ရသဖြင့် လူမြောက်မြားစွာ အလုပ်လက်မဲ့ ဖြစ်သွားလေသည်။ စစ်ပွဲအတွင်း၌ လူခုနစ်သိန်းကျော် ကျဆုံးကြ၍ နှစ်သန်းကျော် ဒဏ်ရာ အပြင်းအထန် ရရှိခဲ့လေ၏။ သဘော်တန်ချိန် ခုနစ်သန်း ခုနစ်သိန်းကျော်မျှလည်း နှစ်မြှုပ်ဖျက်ဆီးခြင်း ခံရလေ၏။ နိုင်ငံတော်၏ကြွေးမှာ လည်ပင်း ခိုက်နေလေသည်။

လက်အောက်ခံ ကိုလိုနီနယ်များ အရေးသည်လည်း ဆူပူလှုပ်ရှားလာပြန်လေသည်။ အိန္ဒိယနိုင်ငံက လွတ်လပ်ရေး တောင်းလာ၏။ အိုင်ယာလန်ပြည်၏ အရေးသည်လည်း ၁၉၂၁ ခုနှစ်တွင် ဖရီးစတိတ် ဖြစ်လာသည့်တိုင်အောင် ငြိမ်းချမ်းခြင်း မရှိပေ။ ငြိမ်းချမ်းရေး စာချုပ်များ ချုပ်ဆိုရာ၌လည်း ချောချောမောမော မဖြစ်ပေ။ ထို့ကြောင့် ဗြိတိန်သည် တူရကီ၊ အီဂျစ်နှင့် ပယ်လက်စတိုင်တို့၌ စစ်တပ်များ ချထားရလေသည်။

ထိုအတောအတွင်း အစိုးရအဖွဲ့၌လည်း အပြောင်းအလဲ အတော်ပင် များခဲ့၏။ ရမ္မဆေး မက္ကဒေါ်နယ် ခေါင်းဆောင်သော လေဘာပါတီသစ်သည် ၁၉၂၄ ခုနှစ်တွင် ကိုးလမျှ အစိုးရအဖွဲ့ ဖွဲ့ကာ အုပ်ချုပ်ခဲ့၏။ ၁၉၂၉ ခုနှစ်တွင် တဖန် မက္ကဒေါ်နယ်သည် ဝန်ကြီးချုပ် ဖြစ်လာပြန်သည်။ သို့သော် အမျိုးသားစီးပွားရေးအတွက် မည်သည့် အစီအစဉ်မျှ ဖြစ်မြောက်ခဲ့သည် မရှိပေ။ (မက္ကဒေါ်နယ်, ရမ္မဆေး — လည်းရှု။)

မော်တော်ကားနှင့် လျှပ်စစ် ကုန်ပစ္စည်း ထုတ်လုပ်သည့် လုပ်ငန်းသစ်များသည် ဗြိတိန်တောင်ပိုင်းနှင့် လန်ဒန်တဝိုက်တွင် တိုးတက်လာလေ၏။ လျှပ်စစ်ဓာတ်အားကို တပြည်လုံး ပေါပေါသုံးနိုင်စေရန် ဓာတ်ကြိုးများ တီထွင်ရေး၌ အစိုးရက အားပေးခဲ့သည်။ သို့သော် မြောက်ပိုင်းနှင့် မစ်ဒလန်းနယ် တဝိုက်ရှိ လုပ်ငန်းဟောင်းများကား ဆုတ်ယုတ် နေလေသည်။ ထို့ကြောင့် အထည်လုပ်ငန်း၊ သင်္ဘောလုပ်ငန်း၊ ကျောက်မီးသွေး လုပ်ငန်းများမှ အလုပ်လက်မဲ့ အလုပ်သမားပေါင်း တသန်းကျော်မျှ ရှိနေလေ၏။

**အမျိုးသား အစိုးရ။** ။ဗြိတိန်၏ စီးပွားရေးအခြေအနေ ဆိုးရွားနေစဉ် ၁၉၂၉ ခုနှစ်၌ တကမ္ဘာလုံး၌ စီးပွားရေးကပ်ကြီးဆိုက်လေရာ တိုင်းပြည်၏ အခြေအနေသည် ဆိုးသည်ထက် ဆိုးလာလေတော့သည်။ ထွက်ကုန်များလည်း မတွင်ကျယ်တော့ချေ။ အစိုးရက သီးသန့် ထားသော ဘဏ္ဍာတော်ရွှေများလည်း လျော့ပါးလာ၏။ အစိုးရမှာ ဝင်ငွေထက် ထွက်ငွေက ပိုမိုများပြားနေလေသည်။ ၁၉၃၁ ခုနှစ်

တွင်ကား အလုပ်သမား လေးယောက်လျှင် တယောက်သည် အလုပ်လက်မဲ့ ဖြစ်နေလေပြီ။

ယင်းသို့ အခြေအနေ ဆိုးရွားလှသဖြင့် ရမ္မဆေး မက္ကဒေါ်နယ်သည် လေဘာဝန်ကြီးချုပ်အဖြစ်မှ နုတ်ထွက်လိုက်လေသည်။ ထိုနောက် လေဘာ၊ ကွန်ဆားဗတစ်နှင့် လစ်ဗရယ် ပါတီဝင်များကိုပါ ထည့်သွင်း၍ အမျိုးသား ညွန့်ပေါင်းအစိုးရကို ဖွဲ့စည်း၍ နိုင်ငံတော်၏အခြေအနေကိုပြုပြင်နိုင်ရန် ကြိုးစားကြ၏။ ယခင်က လွတ်လပ်စွာ ကုန်သွယ်မှုဝါဒကို ပယ်ဖျက်ကာ ဝင်ကုန်များအပေါ် အခွန် ကောက်လေသည်။ ရွှေစံချိန်အသုံးပြုခြင်းကို ခေတ္တ ရပ်ဆိုင်းထားရ၏။ အခွန်တော်များ တိုးမြှင့်၍ အစိုးရ အသုံးစရိတ်တို့ကို လျှော့ချလေသည်။ စိုက်ပျိုးရေး၊ သင်္ဘောလုပ်ငန်းနှင့် အိမ်ဆောက်လုပ်ရေးများတွင် အစိုးရကငွေထုတ်ပေးကာ ကူညီလေသည်။ ဤကြိုးစားချက်များကြောင့် ၁၉၃၃ ခုနှစ်တွင် အခြေအနေ အတော်ကလေး တိုးတက်လာလေသည်။

**ပြဿနာသစ်များ။** ။၁၉၂၂ ခုနှစ်တွင် ဣတလီ နိုင်ငံ၌ ဖက်ဆစ်အစိုးရ တန်ခိုးတက်လာလေ၏။၁၉၃၀ ပြည့်နှစ်တွင်ကား ကမ္ဘာ့ အရှေ့ဖျားဆီမှ ဂျပန်သည် တရုပ်နိုင်ငံ၌ နယ်ချဲ့လာလေသည်။ ထိုကြောင့် ဂျီနီးဗားမြို့တွင် ဗြိတိန်က ခေါင်းဆောင်ကာ လက်နက်လျှော့ပေါ့ရေး ညီလာခံတခု ကျင်းပရာ နိုင်ငံကြီးအများမှ တက်ရောက်ကြသည်။ သို့သော် ထိရောက်သော သဘောတူညီချက်၊ ဆုံးဖြတ်ချက်များမပြုလုပ်နိုင်ကြချေ။ ထိုကြောင့် နိုင်ငံကြီးများသည် လက်နက်များ တိုးချဲ့ တပ်ဆင်ကြလေ၏။ ၁၉၃၃ ခုနှစ်တွင်ကား ဟစ်တလာ ခေါင်းဆောင်သော နာဇီပါတီသည် ဂျာမနီနိုင်ငံ၏အုပ်ချုပ်ရေးအာဏာကို အရယူလိုက်ကြလေသည်။ ဂျာမနီ၊ ဣတလီနှင့်ဂျပန်တို့သည် ကမ္ဘာပေါ်တွင် တန်ခိုးအာဏာကြီးမြင့်လို၍ နယ်ချဲ့လိုကြ၏။ သို့သော် ထိုစဉ်က ဗြိတိန်၏ဝန်ကြီးချုပ်ဖြစ်သော ဗော်လဒွင်သည် ထိုအရေးတွင် အကင်းမပါးလှချေ။ ထိုနိုင်ငံများသည် နောင်တနေ့တွင် ဗြိတိန်အား ခြိမ်းခြောက်လာမည့်အရေးကို ၁၉၃၅ ခုနှစ်တိုင်အောင် မတွေးမိသေးချေ။

ထိုအတောအတွင်း မင်းပြောင်းမင်းလွဲကလည်းရှိလာပြန်လေသည်။ ဝေလမင်းသား ဟု လူသိများသော အင်္ဂလန် ဘုရင် (ယခု ဝင်ဆာမြို့စားကြီး)သည် အမေရိကန်ပြည်သူ တဦးလပ် မစ္စက်ဆင်ပဆင်နှင့် လက်ထပ်လိုသဖြင့် ထီးနန်းကို စွန့်လွှတ်လိုက်၏။ ထိုကြောင့် ညီတော် ယော့မြို့စားက ဆဋ္ဌ ဂျော့ဘုရင်အဖြစ် နန်းတက်လေသည်။

၁၉၃၇ ခုနှစ်တွင် ဗော်လဒွင်၏ နေရာတွင် ကွန်ဆားဗတစ်ပါတီဝင် နက်ဗီး ချိန်ဗာလိန်က တက်ရောက်ပြီးလျှင် ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်လေ၏။ ချိန်ဗာလိန်သည်လည်း စစ်မက်မလိုသားသူဖြစ်ရာ တရုပ်နိုင်ငံ၌ ဂျပန်နယ်ချဲ့ပုံနှင့် စပိန်နိုင်ငံ၌ ဖက်ဆစ်တို့ကို ဂျာမနီနှင့် ဣတလီတို့က ကူညီနေပုံများကို ဂရုမထားဘဲ နေခဲ့သည်။ တိုင်းသူပြည်သား များစွာကလည်း ဂျာမနီ၊ ဣတလီတို့သည် သူတို့၏ တောင်းဆိုချက်များ ရရှိပါက ကြေနပ်ကြလိမ့်မည် ဟု ထင်မှတ်နေကြရာ ချိန်ဗာလိန်၏ ဝါဒကို ထောက်ခံကြလေ၏။

သို့သော် ဖက်ဆစ်နိုင်ငံများကား သူတို့ မြော်လင့် ထင်မှတ်သည့်အတိုင်း မဟုတ်ပေ။ ၁၉၃၈ ခုနှစ်တွင် ဂျာမနီသည် ချက်ကိုဆလိုဗားကီးယား၏ တစိတ်တဒေသကိုပိုင်ဆိုင်ခွင့် ရှိသည် ဟု အတင်းအကြပ် တောင်းဆိုလာ၏။ ချိန်ဗာလိန်ကလည်း စစ်ကို ရှောင်လိုသဖြင့် ဂျာမနီ၏ တောင်းဆိုချက်ကို သဘောတူ ခွင့်ပြုလေသည်။ သို့သော် ဟစ်တလာကား ချက်ကိုဆလိုဗားကီးယား တနိုင်ငံလုံးကို ၁၉၃၉ ခုနှစ်တွင် သိမ်းပိုက်လိုက်လေသည်။ ထိုအခါကျမှ ဗြိတိန်သည် ဖုတ်ပူမီးတိုက် ဖြစ်လာကာ လက်နက်များ တပ်ဆင်၍ အရှယ်ရောက်သူ ယောကျ်ားတိုင်း စစ်မှုထမ်းရန် ဥပဒေပြုလုပ်ရလေ၏။ ထိုနောက် ပြင်သစ်နှင့်ပေါင်း၍ ဟစ်တလာသိမ်းပိုက်ရန် ကြံရွယ်ထားသော ပိုလန်နိုင်ငံကို ကူညီထောက်ပံ့ရန် စီစဉ် ထားလေ၏။

ဗြိတိသျှ အစိုးရသည် ဆိုဗီယက် ယူနီယန်နှင့်လည်း မဟာမိတ်ဖြစ်နိုင်ရန်ကြိုးစားခဲ့သော်လည်း ၁၉၃၉ ခုနှစ် ဩဂုတ်လတွင် ဂျာမနီနှင့် ဆိုဗီယက်တို့ တဦးနှင့်တဦး စစ်မတိုက်ရေး စာချုပ် ချုပ်ကြကြောင်း သိရှိရလေ၏။ ၁၉၃၉ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် ဂျာမန်စစ်တပ်များသည် ပိုလန်ကို ကျူးကျော်တိုက်ခိုက်လာရာ ဗြိတိန်နှင့် ပြင်သစ်တို့သည် ဂျာမနီအား စစ်ကြေညာလေတော့၏။ (ကမ္ဘာစစ်၊ ဒုတိယ — လည်းရှု။)

**ဒုတိယ ကမ္ဘာစစ်နှင့် ဗြိတိန်။** ။ဂျာမနီသည် လျှပ်တပြက် တိုက်နည်းဖြင့် ပိုလန်ကို လျင်မြန်စွာ သိမ်းပိုက်လိုက်လေသည်။ ထိုနောက် ဂျာမန်နှင့် ဗြိတိသျှတို့ နှစ်ဖက်စလုံး ခြောက်လခန့် ငြိမ်နေကြပြီးလျှင် ၁၉၄၀ ပြည့်နှစ် ဧပြီလတွင် နော်ဝေး၊ ဟော်လန်၊ ဗဲလဂျီယမ် နိုင်ငံများအတွင်းသို့ ၎င်း၊ မေလတွင် ပြင်သစ်နိုင်ငံတွင်းသို့၎င်း ဂျာမန်တို့သည် လျှပ်တပြက် တိုက်နည်းဖြင့် ဝင်ရောက် တိုက်ခိုက်လေ၏။ ထိုအခါ ဗြိတိန်တွင် ချိန်ဗာလိန်အစိုးရ နုတ်ထွက်ရ၍ ဝင်စတန် ချာချီ ဝန်ကြီးချုပ် ဖြစ်လာလေသည်။ ချာချီကား စစ်ရေးတွင် ပဲ့ကိုင်ကောင်းသူ ဖြစ်၏။ ချာချီက စစ်ကြီးကို အောင်မြင်နိုင်အောင် နိုင်ငံတော် လူထုတို့သည် သွေး၊ ချွေး၊ မျက်ရည်တို့ဖြင့် အရင်းခံကာ တိုက်ခိုက်ရမည် ဖြစ်ကြောင်းဖြင့် လူထုစိတ်ကို နှိုးဆွကာ အရှိုးကြေကြေ၊ အရေခမ်းခမ်း တိုက်ကြရန် မိန့်ခွန်းများ ပြောကြား လှုံ့ဆော်ပေး၏။

ဗြိတိန်လူထုကလည်း စစ်အောင်မြင်ရေးကိုသာ အဓိကထားကာ ဆောင်ရွက်ပေးလိုစိတ်များ ဖြစ်ပေါ်လာကြလေ

သည်။ အစိုးရသည် လူအားပစ္စည်းအား လိုသလောက်သိမ်း ယူနိုင်ခွင့် အာဏာ ရခဲ့လေသည်။ ဗြိတိန်ကို ကာကွယ်ရန် ပြည်စောင့် တပ်သားပေါင်း တသန်း ခုနစ်သိန်းကျော်မျှ ဖွဲ့စည်း ထားခဲ့၏။ ထိုနှစ် ဇွန်လတွင် ပြင်သစ်နိုင်ငံသည် ဂျာမန်တို့ လက်အောက် ကျရောက်သွား၍ ဣတလီက ဂျာမနီဖက်မှ စစ်ပွဲသို့ ဝင်ရောက်လာလေသည်။ ထိုကြောင့် ဗြိတိန်သည် တဦးတည်း စစ်ပွဲတွင် နွံရလေ၏။

ဂျာမန် လေတပ်သည် ဂရိတ်ဗြိတိန် နိုင်ငံမှ မြို့ကြီးများစွာတို့ကို တိုက်ခိုက် ဖျက်စီးခဲ့၏။ သို့သော် ဘုရင့် လေတပ်မတော် စောင့်ရှောက်နေသမျှ အင်္ဂလန်ပြည်ဖက်သို့ အင်္ဂလိပ်ရေလက်ကြားကိုဖြတ်၍ မကူးဝံ့ပေ။ ၁၉၄၁ ခုနှစ် ဇွန်လတွင်ကား ဂျာမနီသည် ဆိုဗီယက် ယူနီယန်ကိုလည်း ကျူးကျော်တိုက်ခိုက်ပြန်သည်။ ထိုအခါ ချာချီက ဗြိတိန်နှင့် ဆိုဗီယက်တို့ မဟာမိတ်ဖွဲ့ပြီးကြောင်း ကျေညာလေ၏။

၁၉၄၁ ခုနှစ်တွင် ကမ္ဘာ့အရှေ့ပိုင်း၌ ဂျပန်သည် အင်္ဂလိပ်နှင့် အမေရိကန်ပိုင် ပြည်နယ်များကို ကျူးကျော်တိုက်ခိုက်လာရာ တိုက်ခိုက်ခြင်းခံရသော ပြည်နယ်များထဲတွင် မြန်မာနိုင်ငံလည်း အပါအဝင် ဖြစ်လေသည်။ ထိုအခါ အမေရိကန်ပြည်ထောင်စုသည် ဗြိတိန်၏ မဟာမိတ်အဖြစ် စစ်ထဲသို့ဝင်လာ၏။ ၁၉၄၂ ခုနှစ်လောက်တွင် မြန်မာနိုင်ငံကဲ့သို့သော ဗြိတိသျှပိုင် ပြည်နယ်များနှင့် အမေရိကန်ပိုင် ပြည်နယ်များကို ဂျပန်က သိမ်းပိုက်လိုက်လေသည်။ အိန္ဒိယနိုင်ငံနှင့် ဩစတြေးလီးယားနိုင်ငံကြီးများကိုလည်း ဂျပန်က ခြိမ်းချောက်လာလေသည်။

ဂျာမန်များကား ဥရောပတွင်သာ မရပ်သေးဘဲ၊ အာဖရိကတိုက်ရှိ အီဂျစ်နိုင်ငံကို ထိပါးလာပြန်သည်။ ရုရှနိုင်ငံ အနောက်ပိုင်း ဒေသပေါင်းများစွာကိုလည်း ဂျာမန်တို့က သိမ်းပိုက်နိုင်လေသည်။ ဗြိတိန်နိုင်ငံနှင့် စစ်ပွဲများရှိရာ ဒေသများသို့ လက်နက်ရိက္ခာ တင်ပို့သော သင်္ဘောပေါင်းများစွာကို ဂျာမန် ရေငုပ်သင်္ဘောများက နှစ်မြုပ် ဖျက်ဆီးပစ်လေသည်။ ယင်းသို့ဖြင့် ဂျာမန်နှင့် ဂျပန်တို့ အတော်ပင် အရေးသာလျက် ရှိခဲ့လေ၏။ သို့သော် ဗြိတိန်နှင့် အမေရိကန် မဟာမိတ်တို့သည် ဖက်ဆစ်နိုင်ငံများအပေါ် တဖြည်းဖြည်း တန်ပြန် တိုက်ခိုက်နိုင်လာလေ၏။ မဟာမိတ်တို့သည် ဖက်ဆစ်ပိုင် အာဖရိက မြောက်ပိုင်းနယ်များနှင့် ဣတလီနိုင်ငံတွင်းသို့ ချီတက် တိုက်ခိုက်လာကြလေသည်။ ၁၉၄၄ ခုနှစ် ဇွန်လတွင်ကား မဟာမိတ် တပ်များသည် ပြင်သစ်နိုင်ငံတွင်းသို့ ချင်းနင်းဝင်ရောက်နိုင်ခဲ့ကြ၏။

ထိုနှစ်အကုန်လောက်တွင် မဟာမိတ်တို့သည် ဂျာမန်တို့၏ နယ်မြေများပေါ်သို့ ရောက်အောင်ပင် ချီတက်တိုက်ခိုက် အောင်မြင်နေကြ၍ နောက်ဆုံး ၁၉၄၅ ခုနှစ် မေလတွင် ဂျာမန်တို့ လက်နက်ချရလေ၏။ ထိုအချိန်တွင် အရှေ့ဖက်၌ ဂျပန်ကား အလျှော့မပေးသေးချေ။ ထိုကြောင့် မဟာမိတ်တပ်များသည် ဂျပန်တို့ကို ဖိ၍ တိုက်ကြရပြန်လေသည်။ ထိုနှစ် ဩဂုတ်လတွင် မဟာမိတ်တို့ အနုမြူဗုံးကို သုံးလေသည်။ ထိုလ မကုန်မီပင် မဟာမိတ်တို့ကို ဂျပန်တို့က အညံ့ခံလေသည်။

ဂရိတ် ဗြိတိန်နိုင်ငံသည် စစ်အောင်မြင်ရေး အတွက် အလွန်တရာ အနစ်နာခံကာ တိုက်ခိုက်ခဲ့သည်။ ကုန်ကြမ်းများအတွက် အခြားနိုင်ငံတို့ကို အားကိုးနေရသော ဗြိတိန်သည် ထိုစဉ် အခါက အတော်ပင် အကြပ်အတည်း တွေ့ခဲ့ရ၏။ နွားစားကျက်များကို ဂျုံ လယ်ကွင်းနှင့် ဟင်းသီး ဟင်းရွက် စိုက်ပျိုးကွင်းများအဖြစ် ပြောင်းလဲ လုပ်ကိုင်ကြရသည်။ အလှအပအတွက် သီးသန့်ထားသောမြက်ခင်းများ၊ ဥယျာဉ်ကြီးများ၊ အမဲလိုက်ရန် တောအုပ်များကို ရှင်းလင်း သုတ်သင်၍ စားစရာအတွက် စိုက်ပျိုးလုပ်ကိုင်ကြရ၏။

အစားအသောက်နှင့် အဝတ်အစားများကိုလည်း ကြပ်တည်းချွေတာစွာ ရာရှင်စံနစ်ဖြင့် ပေးရလေသည်။ လူတိုင်းစေ့ငအောင် ရရှိသော်လည်း နွားနို့၊ ဥ၊ အမဲသားငါးနှင့် သစ်သီးများ အလွန်ရှားပါးလေသည်။ အထည်စက်ရုံများကလည်း စစ်သုံးပစ္စည်းများသာ လုပ်ကိုင်လေ၏။ ဇိမ်ခံပစ္စည်းများအပေါ် အကောက်ခွန်နှုန်း မြှင့်ထား၍ အမြတ်တော်ကြေးများကိုလည်း နှစ်ဆမက တိုးထားလေ၏။ ယောကျ်ားမိန်းမ မဟူ အမှုထမ်းနိုင်သူမှန်သမျှ စစ်တပ်နှင့် စစ်တပ်အတွက် ကူညီပေးသည့် ဌာနများတွင် ဝင်ရောက်ဆောင်ရွက်ပေးကြရ လေသည်။

**စစ်ပြီး ဗြိတိန်နှင့် လေဘာအစိုးရ။** ။၁၉၄၅ ခုနှစ် ဥရောပစစ်ကြီး အပြီးတွင် ဗြိတိန်၌ ရွေးကောက်ပွဲ ကျင်းပရာ လေဘာပါတီက အနိုင်ရ၍ လေဘာအစိုးရက ဗြိတိန်ကို အုပ်ချုပ်ခဲ့သည်။ ၁၉၅၀ ပြည့်နှစ် ရွေးကောက်ပွဲတွင်လည်း လေဘာကသာ အနိုင်ရခဲ့၏။ ထိုသို့ လေဘာတို့ အစိုးရဖြစ်ရခြင်းမှာ ၁၉၃၁ ခုနှစ်မှစ၍ ပဌမဆုံးအကြိမ် တပါတီအစိုးရ ဖြစ်လာခြင်းပေတည်း။ ဝန်ကြီးချုပ်မှာ လေဘာခေါင်းဆောင် ကလီမင့် အက်တလီ ဖြစ်ပေသည်။

ဗြိတိန်သည် ကမ္ဘာစစ်ကြီး၏ဒဏ်ကို အလူးအလဲ ခံလိုက်ရသဖြင့် လေဘာအစိုးရသည် ဗြိတိန်ကိုပြန်လည်ထူထောင်ရန် များပြားကြီးလေးလှသော ပြဿနာများနှင့် ရင်ဆိုင်ရလေ၏။ ပင်လယ်ရပ်ခြား၌ ဗြိတိန်၏ အရင်းအနှီး မြှုပ်နှံထားသမျှတို့မှာလည်း စစ်အတွင်းကသုံးလိုက်ရသဖြင့် ကုန်သွားလေပြီ။ ထိုကြောင့် ဗြိတိန်ကို ပြန်လည်ထူထောင်နိုင်ရန် အမေရိကန်နှင့် ကနေဒါမှ ဒေါ်လာ အကူအညီ ယူရလေတော့၏။ ကျောက်မီးသွေး၊ အဝတ်အထည်နှင့်အစားအစာများလည်း အလွန်ရှားပါးခဲ့လေသည်။

ထိုအတောအတွင်း ကျယ်ပြန့်သော ဗြိတိသျှ အင်ပါ

ယာတွင် အပြောင်းအလဲများ ရှိလာလေ၏။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံ၌ အိန္ဒိယနှင့်ပါကစ္စတန် ဟု သီးခြားနိုင်ငံနှစ်ခု ခွဲပြီးလျှင် ဒိုမီနီယန်အုပ်ချုပ်ရေး ပေးလိုက်လေသည်။ ၁၉၄၈ ခုနှစ်တွင် မြန်မာနိုင်ငံသည် လွတ်လပ်သောပြည်ထောင်စု သမတနိုင်ငံ ဖြစ်လာသည်။ သီဟိုဠ်ကျွန်းလည်း ထိုနှစ်၌ပင် ဒိုမီနီယန်နိုင်ငံ အဆင့်အတန်းသို့ ရောက်ရှိလေသည်။ ၁၉၄၉ ခုနှစ် ဧပြီလတွင် အယ်ယာနိုင်ငံသည် ဗြိတိသျှဓနသဟာယနိုင်ငံထဲမှ ခွဲထွက်၍ လွတ်လပ်သော သမတနိုင်ငံ ဖြစ်လာလေသည်။

လေဘာပါတီသည် ဆိုရှယ်လစ်ဝါဒ ရှိသည်နှင့် အညီ ကုမ္ပဏီလုပ်ငန်းကြီးများကို ပြည်သူပိုင်ပြုလုပ်၏။ ထို့ကြောင့် ကျောက်မီးသွေးလုပ်ငန်း၊ အင်္ဂလန်ဘဏ်တိုက်ကြီး၊ လျှပ်စစ်နှင့် ဓာတ်ငွေ့လုပ်ငန်း၊ မီးရထားဌာနတို့ကို ပြည်သူပိုင် ပြုလုပ်ခဲ့လေ၏။ ထိုနောက် ဗြိတိန်နိုင်ငံတွင်း၌ မြေနှင့် ပစ္စည်းများကိုပြည်သူပိုင်ဖြစ်စေ၍ ယင်းတို့၏အဆမတန် စျေးကြီးမြင့်ခြင်းကို ပိတ်ပင်နိုင်ရန် ၁၉၄၈ ခုနှစ် ဇူလိုင်လ ၁ ရက်နေ့တွင် မှုပြုစီမံရေးဥပဒေကို ပြုလုပ်လေ၏။ ထိုဥပဒေသည် ဂရိတ်ဗြိတိန် နိုင်ငံကြီး၏ ပြန်လည်ထူထောင်ရေးကိုလည်း အကူအညီ ဖြစ်စေသည်။

၁၉၅၁ ခုနှစ်တွင် လေဘာအစိုးရ ကျပြီးနောက် ကွန်ဆားဗတစ်အစိုးရ တက်လာလေသည်။ ဝင်စတန်ချာချီဝန်ကြီးချုပ် ဖြစ်လာသည်။ ထိုနောက် ဆာ အန်ထော်နီ အီဒင် က ဝန်ကြီးချုပ် ရာထူးကို ဆက်ခံသည်။ ထိုနောက် မက္ကမီလန် ခေါင်းဆောင်သော ကွန်ဆားဗတစ် အစိုးရက ဗြိတိန်နိုင်ငံကို အုပ်ချုပ်ခဲ့သည်။ ၁၉၆၃ ခုနှစ်တွင် ကျန်းမာရေးအခြေအနေကြောင့် မက္ကမီလန် ဝန်ကြီးချုပ်ရာထူးမှ နုတ်ထွက်လိုက်သောအခါ ဆာ အယ်လက် ဒေါက်ကလပ် ဟုမ်းက ဆက်ခံခဲ့သည်။ သို့သော် ၁၉၆၄ ခုနှစ် ရွေးကောက်ပွဲတွင် လေဘာပါတီ အနိုင်ရ၍ ပါတီခေါင်းဆောင် ဟာရိုဝီလဆန်သည် ဝန်ကြီးချုပ် ဖြစ်လာလေသည်။

**ယူဖရေးတီးမြစ်။** ။ယူဖရေးတီးမြစ်သည် အာရှတိုက်အနောက်ပိုင်းတွင် အကြီးဆုံးဖြစ်၍ တူရကီနိုင်ငံ မြောက်ပိုင်းရှိ တောင်တန်းများတွင် မြစ်ဖျားခံပြီးလျှင် ဆီးရီးယားနိုင်ငံနှင့် အီရက်နိုင်ငံတို့ကို ဖြတ်သန်း စီးဆင်းလာရာ မိုင်ပေါင်း ၁,၇၀၀ ခန့် ရှည်လျားသည်။ မြစ်ဝမှအထက် မိုင် ၁၀၀ ခန့်တွင် ယူဖရေးတီးမြစ်သည် တိုင်းဂရစ်မြစ်နှင့် ပေါင်းဆုံပြီးလျှင် ရှက်-တယ်-အာရပ် အမည်ဖြင့် ပါးရှင်းပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။ မြစ်ဝတွင် ချောင်းငယ်များ အဖြာဖြာ ခွဲဆင်းလျက်ရှိ၏။ မီးသင်္ဘောဖြင့် မြစ်နှစ်သွယ် ဆုံရာအထိ ဆန်တက်နိုင်၍ လှေငယ်များဖြင့်မူကား မိုင် ၁,၂၀၀ မျှ အထိပင် ဆန်တက်နိုင်လေသည်။

ရှေးအခါမှ စ၍ ယခုထက်တိုင် မြစ်ရေကို ဆည်မြောင်းများဖြင့် သွယ်ယူလျက် မြစ်ဝှမ်းတွင် စိုက်ပျိုးလုပ်ကိုင်ကြသည်။ အီရက်နိုင်ငံ၌ ယူဖရေးတီး မြစ်ဝှမ်းသည် မြေသြဇာအထက်သန်ဆုံးအပိုင်း ဖြစ်သည်။ ယူဖရေးတီးမြစ်နှင့် တိုင်းဂရစ်မြစ်ဝှမ်းတို့သည် အလွန် ရှေးကျသောခေတ်က ယဉ်ကျေးမှုထွန်းကားရာ အချက်အခြာဒေသ ဖြစ်ခဲ့ခြင်းကြောင့် သမိုင်းတွင် ထင်ရှားသည်။ ဗက်ဗီလုံးမြို့တော်ဟောင်းသည် လည်း ရှေးအခါက ယူဖရေးတီး မြစ်ကမ်းပေါ်တွင် တည်ရှိခဲ့လေသည်။

**ယူရေးနီးယမ်း။** ။ယူရေးနီးယမ်းသည် ရွှေ ပါး သည့်သတ္တု ဒြပ်စင်တမျိုး ဖြစ်သည်။ ယင်း၏ ဓာတုသင်္ကေတမှာ U ဖြစ်၍၊ အက်တမ်အမှတ်စဉ်မှာ ၉၂ ဖြစ်သည်။ ထိုဒြပ်စင်သည် အက်တမ်စွမ်းအင် ထုတ်ယူရန်အတွက် အဓိက အခြေခံပစ္စည်း ဖြစ်သည်။ ယူရေးနီးယမ်းသည် ဖြူ၍ သံမဏိထက် အနည်းငယ်ပျော့သည်။ ရေထက် တဆဲ့ရှစ်ဆ ပိုလေးသည်။ ထိုဒြပ်စင်၏ အက်တမ်တခုသည် ဟိုက်ဒရိုဂျင် အက်တမ်တခုထက် ၂၃၈.၀၇ ဆ ပို၍လေးသဖြင့် သတ္တုများတွင် အလေးဆုံးဖြစ်သည်။ ထိုသတ္တုကို မည်သည့်အခါကမျှ စင်



ယူရေးနီးယမ်း အနုမြူ လုပ်ရှား လှည့်ပတ်နေပုံ ဖြစ်သည်။ အနုမြူစွမ်းအင် ထုတ်လုပ် အသုံးချရေးတွင် ယူရေးနီးယမ်းသည် အထူး အသုံးဝင် အရေးကြီးသည်။



ယူရေနီယမ် အနုမြူတခု၏ ဖွဲ့စည်းနေဟန်

ကြယ်သည့် အခြေတွင် မတွေ့ခဲ့ရချေ။ အဓိကအားဖြင့် ပစ်ချဗလင်းနှင့် ကာနိုတိုက်ခေါ် တွင်းထွက်များတွင် တွေ့ရသည်။ ယူရေနီယမ် အက်တမ်တခုကို ခွဲလိုက်သောအခါ ကရစ်ပတန်၊ စတြွန်ရှီယမ်၊ တယ်လျူရီယမ်၊ အိုင်အိုဒင်း၊ ဇီနွန်နှင့် ဗေရီယမ် စသော လေးလံသည့် ဒြပ်စင်များအဖြစ်သို့ ကွဲထွက်သွားသည်။ ယူရေနီယမ်၌ အိုက်ဆိုတုပ် ခေါ် လုံးဝနီးပါး တူညီသည့် ဒြပ်စင်အမျှား ပါဝင်လျက်ရှိသည်။ ထို အိုက်ဆိုတုပ်များကို ယင်းတို့၏ အလေးချိန် အလိုက် ပ ၂၃၄၊ ပ ၂၃၅ နှင့် ပ ၂၃၈ ဟု ခေါ်ကြသည်။ သဘာဝ အလျောက် ဖြစ်ပေါ်နေသော ယူရေနီယမ်တွင် ပ ၂၃၈ သည် ၉၉.၃ ရာခိုင်နှုန်း ပါဝင်၍ ပ ၂၃၅ သည် ၇ ရာခိုင်နှုန်းနှင့် ပ ၂၃၄ သည် .၀၀၆ ရာခိုင်နှုန်းမျှသာ ပါဝင်သည်။ ပ ၂၃၅ အိုက်ဆိုတုပ်ကို အက်တမ်စွမ်းအင် ထုတ်လုပ်ရာ၌ အသုံးပြုကြသည်။ ပ ၂၃၅ တပေါင်ကို လုံးဝကွဲထွက်စေခဲ့သော် တီ၊ အင်၊ တီ ခေါ် ပေါက်ကွဲစေတတ်သော ပစ္စည်း တန်ချိန် ၉,၀၀၀ ခန့်နှင့် ညီမျှနိုင်ပေသည်။

ပစ်ချဗလင်းကို ကနေဒါနိုင်ငံ အနောက်မြောက်ဖက်ပိုင်းရှိ ဂရိတ်ဗဲယားလိပ်ဒေသနှင့် ကွန်ဂို (လီယိုပိုဗီး) နိုင်ငံတို့တွင် တူးဖော် ရရှိသည်။ ကာနိုတိုက်ကို သြစတြေးလီးယားတိုက် တွင်၎င်း၊ အမေရိကန် ပြည်ထောင်စု ယူးတားပြည်နယ် အရှေ့ပိုင်းနှင့် ကော်လိုရားဒိုးပြည်နယ် အနောက်ပိုင်း တို့တွင်၎င်း၊ ပေါ်တူဂယ်နိုင်ငံနှင့် ဥရောပတိုက်ရှိ အခြားဒေသများ တွင်၎င်း တူးဖော် ရရှိနိုင်ပေသည်။

၁၇၈၉ ခုနှစ်ကပင် ယူရေနီယမ်သတ္တု ရှိကြောင်းကို ဂျာမန်လူမျိုး ဓာတုဗေဒပညာရှင်တဦးက သိရှိခဲ့လေသည်။ ထိုပုဂ္ဂိုလ်သည် မာတင် ကလပ်ပရုတ်ဖြစ်၍ သူသည် ယူရေနီယမ်အောက်ဆိုက် တမျိုးကို တွေ့ရှိခဲ့ရာ ယူရေနပ်ဂြိုဟ်ကို ဂုဏ်ပြုသောအားဖြင့် အဆိုပါဒြပ်စင်ကို ယူရေနီယမ် ဟု အမည် ပေးခဲ့လေသည်။ သို့ရာတွင် ၁၈၄၁ ခုနှစ်သို့ ရောက်မှ ပြင်သစ်လူမျိုး ဓာတုဗေဒ ပညာရှင်တဦး ဖြစ်သူ ယူဂျင်းပဲလီဂိုး ဆိုသူက ယူရေနီယမ်သန့်သန့်ကို ခွဲထုတ်နိုင်ခဲ့ပေသည်။

ယူရေနီယမ်ကို တန်ဆာပလာများ ပြုလုပ်ရန် ဖြစ်သော သံမဏိ စပ်ရာတွင်၎င်း၊ အိုးခွက်များကို အရောင်ခြယ်ရာ၊ ရောင်ပြောင်းတောက် ဖန်များ ပြုလုပ်ရာနှင့် အလင်းပေါက် ဆေးခြယ်ရာတို့တွင်၎င်း အသုံး ပြုကြလေသည်။ သိပ္ပံပညာရှင် အချို့က ခရစ်နှစ် ၂၀၀၀ လောက်သို့ ရောက်သောအခါ စီးပွားရေးသုံး စွမ်းအားအတွက်

ကျောက်မီးသွေးကို သုံးမည့်အစား ယူရေးနီးယမ်းကို အသုံးပြုကြဖွယ် ရှိသည် ဟု ယုံကြည်ကြလေသည်။

**ယူရေးနပ်ဂြိုဟ်။** ။ယူရေးနပ်သည် ကျွန်ုပ်တို့၏ နေစကြဝဠာ အတွင်းရှိ ဂြိုဟ်တလုံး ဖြစ်သည်။ နေမှ စ၍ အစဉ်လိုက် ရေတွက်လျှင် ထိုဂြိုဟ်သည် ခုနစ်ခုမြောက်ဂြိုဟ်ဖြစ်သည်။ ထိုဂြိုဟ်ကို ဂျာမန်-အင်္ဂလိပ် သွေးစပ်သည့် ဆာ ဝီလျံ ဟာရှယ် ဆိုသူ ထင်ရှားသော နက္ခတ္တဗေဒ ပညာရှင် တဦးက စတင် တွေ့ရှိခဲ့လေသည်။ ထိုပုဂ္ဂိုလ်ကြီးသည် သူ၏ နက္ခတ်ကြည့်ကရိယာများကို မကျေနပ်သဖြင့် တကြိမ်ထက် တကြိမ် ပို၍ ကြီးမားအားကောင်းသော နက္ခတ်ကြည့်မှန်ပြောင်းများကို ပြုလုပ်ခဲ့လေသည်။ ထိုသို့ အကြိမ်ကြိမ်ပြုလုပ်လာခဲ့ရာ ထိုခေတ်ရှိ အဝေးကြည့်မှန်ပြောင်းများ အနက် အကောင်းဆုံးကို ပြုလုပ်ပြီးသော ၁၇၈၁ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ယူရေးနပ်ကို ပဌမဆုံး စတင်တွေ့ခဲ့သည်။ စ၍ တွေ့စဉ်က ထိုဂြိုဟ်ကို ကြယ်တံခွန်တခုမျှသာ ဖြစ်သည်ဟု ထင်မှတ်ခဲ့လေသည်။

ထိုနောက် ညဉ့်တိုင်းဆက်၍ ထိုကြယ်တံခွန် ဟု ထင်ရသည့် အရာကို ကြည့်သောအခါတွင် ထိုအရာသည် ကြယ်များအကြား၌ နေရာရွေ့လျက် ရှိသည်ကို တွေ့ခဲ့လေသည်။ ထိုသို့ မြင်ရသည့် တိုင်အောင် သူမြင်ရသည့် အရာသည် ဂြိုဟ်တလုံး ဖြစ်လိမ့်မည် ဟု မထင်မိခဲ့ချေ။ ထိုသို့ မထင်မိခဲ့သဖြင့် သူ့အား အပြစ်မတင်ထိုက်ပေ။ အဘယ်ကြောင့်ဆိုသော် ထိုအခါက အဝေးကြည့်မှန်ပြောင်းများကို တီထွင်လာနိုင်ကြသည်မှာ နှစ်ပေါင်း တရာငါးဆယ်ကျော်လာပြီဖြစ်၍ ထိုအဝေးကြည့် မှန်ပြောင်းများဖြင့် ကောင်းကင်ပြင်ကို ရှာဖွေခဲ့ကြရာမှ ဂြိုဟ်အတော်များများကို တွေ့ရှိထားပြီး ဖြစ်သောကြောင့် ဖြစ်ပေသည်။ ထိုကြောင့် သူသည် ကြယ်တံခွန်တခုကို တွေ့ရှိထားသည့်အကြောင်း ရေးသားကာ ထုတ်ဝေလိုက်လေသည်။

ဥရောပတိုက်ရှိ အဓိက နက္ခတ်မျှော်စင်ကြီးများမှ ထိုကြယ်တံခွန် ဟု ထင်ရသောအရာကို ဂရုတစိုက်နှင့် ကြည့်ကြရာတွင် ကြယ်တံခွန်တခုက ပြုမူထိုက်သည်တို့ကို မပြုမူဘဲ နေသည်ကို တွေ့ခဲ့ကြလေသည်။ ထိုနောက် နေ့စဉ်ရက်ဆက် ဇွဲဖြင့် ကြည့်ရှုကြသောအခါတွင် ထိုကြယ်တံခွန် ဟု ထင်ရသော အရာသည် လမ်းတခုတွင် သွားလျက် ရှိသည်ကို တွေ့ခဲ့ကြလေသည်။ ထိုကြောင့် ဟာရှယ်အား ထိုဂြိုဟ်ကို စတင်၍ တွေ့ရှိသူဖြစ်သည် ဟု ဆိုကြလေသည်။ ထိုအခါ ဟာရှယ်က ပဌမတွင် သူ့အား စောင့်ရှောက်ထားသည့် အင်္ဂလန်ပြည့်ရှင် ဘုရင်ကို အမှမ်းတင်လိုသဖြင့် သူတွေ့ရှိခဲ့သည့် ထိုဂြိုဟ်ကို ဂျော်ဂျီယန် ဆိဒပ် ဟု အမည်ပေးလိုက်လေသည်။

ထိုအမည်ကို နက္ခတ္တဗေဒ ပညာရှင်များက သဘောမကျကြချေ။ ထိုကြောင့် နာမည် အမျိုးမျိုးကို ပေးခဲ့ကြရာ နောက်ဆုံးတွင် ဂျာမန်လူမျိုး နက္ခတ္တဗေဒ ပညာရှင် တဦးက ယူရေးနပ် ဟူသော အမည်ကို အကြံပေးလိုက်လေသည်။ ထိုသို့ အကြံပေးရာတွင် ရှေးယခင်ဂြိုဟ်များအား အမည်ပေးရာ၌ အသုံးပြုသည့်နည်းကို အသုံးပြုထားသဖြင့် နက္ခတ္တဗေဒပညာရှင်များက သဘောတူလက်ခံလိုက်ကြလေသည်။

ရှေးပညာရှင်များကမူ အထူးသဖြင့် ဂရိလူမျိုးတို့က ယူရေးနပ်မှာ ရှေးအကျဆုံးနတ် ဖြစ်သည် ဟု ယူဆခဲ့ကြသည်။ ထိုအမည်အရ ကောင်းကင်ပြင် ဟု အဓိပ္ပါယ် ရနေလေသည်။ ဂရိလူမျိုးတို့၏ ယုံကြည်ချက်အရ ထိုနတ်ကြီးက ကမ္ဘာမြေကြီးသို့ အပူ၊ အလင်းနှင့် မိုးများကို ပေးခဲ့သည်။ ယူရေးနပ်သည် ဂီယာအမည်ရှိသော ကမ္ဘာမြေကြီးနတ်သမီး၏ လင်ယောကျ်ားဖြစ်သည်။ သူသည် ဆိုင်းကလုပ်၊ တိုင်တန်နှင့် ရီးအ ဆိုသည့် လက်ပေါင်းတရာစီ ရှိသော ဘီလူးတို့၏ ဖခင်ဖြစ်သည်။ နောက်ဆုံးတွင် သူ၏ သားအငယ်ဆုံး ဆက်တန် (စနေဂြိုဟ်) က သူ၏ နန်းကို သိမ်းပိုက်ကာ သူ့အား သတ်ပစ်လိုက်သည်။ ဗျူရီး ခေါ် ဒေါသတရားသည် ယူရေးနပ်၏ သွေးမှ ဖြစ်ပေါ်လာခဲ့သည်။

ထိုဂြိုဟ်၏လမ်းကြောင်းကို နက္ခတ္တဗေဒ ပညာရှင်များက ပြည့်စုံစွာ တွက်ချက်ပြီးသောအခါတွင် ထိုယူရေးနပ် ဂြိုဟ်ကို ယခင်ကလည်း အကြိမ်ကြိမ် တွေ့ခဲ့ကြဘူးကြောင်း သိလာကြလေသည်။ သို့သော် ထိုစဉ်က ထိုဂြိုဟ်ကို တည်မြဲကြယ်တလုံးမျှသာ ဖြစ်သည် ဟု ယူဆခဲ့ကြလေသည်။

ယူရေးနပ်ဂြိုဟ်သည် နေနှင့် မိုင်ပေါင်း ၁,၇၈၂,၀၀၀,၀၀၀ မျှ ဝေးကွာပြီးလျှင်၊ ကိုယ်ပိုင် ဝင်ရိုးပေါ်၌ ၁၀ နာရီနှင့် မိနစ် ၅၀ မျှ အကြာတွင် တပတ်ပြည့်အောင် လည်လျက် ရှိလေသည်။ ထိုပြင် နေကို ပတ်သွားရာတွင် တပတ်ပတ်မိရန် ၈၄ နှစ်နှင့် ၈ ရက် ကြာလေသည်။ ကျွန်ုပ်တို့နေထိုင်လျက်ရှိသော ကမ္ဘာသည် ယူရေးနပ်နှင့် နေ၏အကြားသို့ ၃၆၉ ရက်နှင့် ၉ နာရီအကြာတွင် တကြိမ် ရောက်ရှိသွားလေသည်။ ယူရေးနပ်ဂြိုဟ်၏လမ်းတွင် ထူးခြားချက်ကို တွေ့ရှိကြရာမှ နက်ပကျွန်းဂြိုဟ်ကို တွေ့ရှိလာကြလေသည်။ ထိုနက်ပကျွန်းဂြိုဟ်၏ ပြုပြင်ပေးမှုကြောင့် ယူရေးနပ်၏ လမ်းတွင် ထူးခြားချက် ရှိနေခြင်း ဖြစ်ပေသည်။ (နက်ပကျွန်းဂြိုဟ် — လည်းရှု။)

ယူရေးနပ် ဂြိုဟ်၏ အချင်းမှာ မိုင်ပေါင်း ၃၂,၀၀၀ မျှရှိသည်ဟု ယုံကြည်ကြ၏။ တနည်းဆိုလျှင် ကျွန်ုပ်တို့ နေထိုင်လျက်ရှိသော ကမ္ဘာ၏ အချင်းထက် လေးဆမျှ ပို၍ကြီးလေသည်။အချို့နက္ခတ်ပညာရှင်များကမူ ထိုဂြိုဟ်၏အချင်းသည် မိုင်ပေါင်း ၂၈,၅၀၀ ရှိသည်ဟု ယုံကြည်ကြသည်။ ထိုဂြိုဟ်၏ ထုထည်သည် ကျွန်ုပ်တို့ ကမ္ဘာထက် အဆပေါင်း ၆၄ ဆမက ကြီးသည်။ ယင်း၏ ဒြပ်ထုမှာ ကျွန်ုပ်တို့ ကမ္ဘာထက် ၁၄း၅ ဆ

မျှ ပို၍၊ သိပ်သည်းမှုတွင် ယင်းသည်ကမ္ဘာ၏လေးချိုးတချိုးမျှသာ ရှိသည်။ ထိုဂြိုဟ်သည် ဓာတ်ငွေ့ တဝက်တပျက် အခြေ၌သာ ရှိကောင်းရှိလိမ့်မည် ဟု သိပ္ပံပညာရှင်များက ယူဆကြလေသည်။

ယူရေးနပ်၌ လ၊ သို့မဟုတ် အရံဂြိုဟ် ၅ လုံးရှိသည်။ ထိုလများကို (၁)အေရီယယ်၊ (၂) အမ်ဗရီယယ်၊ (၃) တိုင်တန်းနီးယား၊ (၄) အိုဗရွန်နှင့် (၅) မီရန်ဒါ ဟု အမည် ပေးထားသည်။ နက္ခတ္တဗေဒပညာရှင်များက ခြောက်ခုမြောက် လတလုံးပင် ရှိလိမ့်ဦးမည် ဟု ယူဆကြသည်။ ထိုအရံဂြိုဟ်ကလေးများသည် သေးငယ်လှသဖြင့် လွန်စွာ မှိန်ကြသည်။ ယင်းတို့၏လမ်းများမှာလည်း တခုနှင့်တခု နီးကပ်လျက် တည်ရှိနေကြသည်။ ထိုအရံဂြိုဟ်များ၏ ထူးခြားချက်မှာ ယင်းတို့၏ ပြင်ညီသည် ယူရေးနပ်ဂြိုဟ်၏ ပြင်ညီတွင်၊ သို့မဟုတ် ပြင်ညီလောက်တွင် တည်ရှိမနေကြခြင်း ဖြစ်သည်။ ထိုသို့ ယူရေးနပ်၏ ပြင်ညီတွင်မရှိဘဲ ထိုပြင်ညီနှင့် မျဉ်းမတ်နီးနီးတွင်တည်ရှိနေကြသဖြင့် ထိုအရံဂြိုဟ်များ၏ သွားလျက်ရှိသော ပြင်ညီများကို ကမ္ဘာမှ ကြည့်လျှင် တခါတရံ၌ အစွန်းဖက်ကိုသာ မြင်ရ၍၊ တခါတရံတွင်မူ ပြားလိုက် မြင်ရလေသည်။ ထိုအရံဂြိုဟ်များ၏ လမ်းများသည် ၉၈ ဒီဂရီမျှတွင် တည်ရှိကြသဖြင့် မျဉ်းမတ်ထက်ပင် ကျော်လွန်နေလေသည်။ ထိုကြောင့် ယူရေးနပ်၏ အရံဂြိုဟ်များသည် ယင်းတို့၏ လမ်းများကို သွားကြရာတွင် ပြောင်းပြန် သွားလျက်ရှိကြသည် ဟု ဆိုနိုင်သည်။

**ယူရယ်တောင်တန်း။** ။ယူရယ်တောင်တန်းသည် ဥရောပတိုက်တွင် အရှည်လျားဆုံး တောင်တန်း ဖြစ်၍ ပထဝီဝင်အရ ဥရောပတိုက်နှင့် အာရှတိုက်တို့ကို နယ်နိမိတ် သတ်ထားသကဲ့သို့ တည်ရှိလေသည်။ မြောက်ဖက် အာတိတ်သမုဒ္ဒရာမှ တောင်ဖက် ကက်စပျန် ပင်လယ်အထိ မိုင်ပေါင်း ၁,၆၀၀ ခန့်ရှည်လျားသည်။ ယူရယ်တောင်တန်းများသည် ဖျမ်းမျှခြင်း အားဖြင့် ပေ ၁,၅၀၀ ခန့် မြင့်သော်လည်း မြောက်ပိုင်းနှင့်တောင်ပိုင်းတွင် ပေ ၅,၀၀၀ ကျော်မြင့်သော တောင်ထိပ်များလည်း ရှိသည်။

ယူရယ် တောင်တန်းဒေသသည် တွင်းထွက်ပစ္စည်း ကြွယ်ဝသဖြင့် ရုရှနိုင်ငံတွင် စက်မှုလက်မှု ထွန်းကားရာ အချက်အခြာ ဒေသတခု ဖြစ်ပေသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း ၁၉၄၁ ခုနှစ်၌ ဂျာမန်စစ်တပ်များက ရုရှနိုင်ငံကိုချီတက်တိုက်ခိုက်ကြသောအခါ ရုရှတို့သည် မိမိတို့၏ စက်မှု လက်မှု လုပ်ငန်းများကို ယူရယ်တောင်တန်းဒေသသို့ ပြောင်းရွှေ့ လုပ်ကိုင်ခဲ့ကြလေသည်။ ယခုအခါ ထိုဒေသတွင် မြို့သစ်များ တည်၍ စက်မှုလက်မှု လုပ်ငန်းသစ်များကိုလည်း တိုးချဲ့လုပ်ကိုင်လျက် ရှိကြသည်။

၁၅ ရာစုနှစ်ကတည်းက ယူရယ် တောင်တန်း ဒေသတွင် ဆား၊ ငွေနှင့် ရွှေကို စတင် တူးဖော်ရရှိခဲ့ကြ၏။ ထို့နောက် ကြေးနီ၊ မန်ဂနိ စသော တွင်းထွက်သတ္တုများအပြင် အဖိုးတန်ကျောက်မျက်များကိုလည်း တူးဖော်ရရှိလေသည်။ ယခုအခါ ယူရယ် တောင်တန်းဒေသမှ ကျောက်မီးသွေး၊ သံ၊ ကြေးနီ၊ ရွှေ၊ ပလက်တီနမ်၊ ငွေ၊ နစ်ကယ်၊ အလျူမီနီယမ်၊ မန်ဂနိ၊ ခဲ၊ သွပ်၊ မဂ္ဂနီဇီယမ်၊ ကရိုမီယမ်၊ ပိုတက်၊ ဆား၊ ယူရေးနီးယမ်း၊ တယ်လျူရီယမ်တို့ထွက်သည်။ ယူရယ် တောင်တန်း အနောက်ဖက်တွင် ရေနံကို တူးဖော် ရရှိသည်။ အဖိုးတန် ကျောက်မျက်များ ဖြစ်သော ဥဿဖယား၊ နီလာ၊ မြ၊ မျက်ရွဲ၊ နီလာ ခရမ်းတို့လည်း ထိုဒေသမှ ရရှိလေသည်။

**ယူရစ်ပီးဒီး** (ဘီစီ ၄၈၀ — ၄၀၆)။ ။ယူရစ်ပီးဒီးသည် ဂရိလူမျိုး နာမည်ကျော် အလွမ်းပြဇာတ်ရေးဆရာ ဖြစ်သည်။ အသက်ရှင်စဉ်အခါက အခြားနာမည်ကျော် ဂရိ ပြဇာတ်ရေးဆရာများ ဖြစ်သော အက်စကိလပ်နှင့် ဆော့ဖကလီတို့လောက် မထင်ရှားခဲ့သော်လည်း၊ကွယ်လွန်ပြီးနောက် သူ၏ အလွမ်းပြဇာတ်များကို အများဆုံး ခင်းကျင်းပြသခဲ့ကြလေသည်။ (အက်စကိလပ်။ ဆော့ဖကလီ — လည်းရှု။) ဂရိစာပေပါမောက္ခ ဂီးလဗတ် မားရေး ဆိုသူကလည်း ယူရစ်ပီးဒီး၏ အလွမ်းပြဇာတ်အချို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆို



ကမ္ဘာကျော် ဂရိပြဇာတ်ရေးဆရာကြီး ယူရစ်ပီးဒီး

ရေးသားခဲ့သည်။ ယူရစ်ပီးဒီး၏ ဖခင်သည် အက်သင်းမြို့မှ ကုန်သည်တဦး ဖြစ်၍ ဂရိနှင့် ပါးရှင်းတို့ ဆလာမစ်ကျွန်း ရေကြောင်းတိုက်ပွဲ ဖြစ်ပွားသောနေ့တွင် ထိုကျွန်း၌ပင် မွေးဖွားသည် ဟု အဆိုရှိသည်။

ယူရစ်ပီးဒီးသည် ပြဇာတ်ပေါင်း ၉၀ ကျော် ရေးခဲ့၏။ အသက် ၂၅ နှစ်အရွယ်တွင် သူ၏ ပြဇာတ်ကို ပဌမ ဦးဆုံး အကြိမ် ခင်းကျင်းပြသခဲ့ရသည်။ သို့သော် အသက် ၃၉ နှစ်အရွယ်သို့ ရောက်မှ ပြဇာတ်ပြိုင်ပွဲတွင် ပဌမဆုကို ဆွတ်ခူး ရရှိလေသည်။ ယူရစ်ပီးဒီးသည် မိမိရေးသော ပြဇာတ်များ အတွက် ပဌမဆု ငါးကြိမ် ရရှိ၏။

ယူရစ်ပီးဒီး၏ ပြဇာတ်များတွင် ခေတ်ရွေပြေးအယူအဆ၊ စိတ်ကူး စိတ်သန်းများ ပါဝင်လေသည်။ သူ၏ ပြဇာတ်များတွင် လွမ်းခန်း သက်သက်ချည်း မဟုတ်ဘဲ တေးကဗျာ သီဆိုခန်းကိုလည်း ကြားညှပ်ထည့်ပေးသည်။ (ဂရိဘာသာနှင့် စာပေ — လည်းရှု။) ထိုကြောင့် ခေတ်ပြိုင် ပြဇာတ်ရေး ဆရာတို့၏ သရော်ခြင်းကို ခံရ၏။ သို့ရာတွင် ဂရိ သဘာ ဝတ္ထုဗေဒပညာရှင် အယ်ရစ္စတိုတယ် (ဘီစီ ၃၈၄ - ၃၂၂) က မူ ယူရစ်ပီးဒီး၏ ပြဇာတ်များသည် လူ့သဘာဝကျ၍ စိတ် အာရုံကို အလွန် ထိခိုက်စေနိုင်သည် ဟု ဆိုလေသည်။

ယူရစ်ပီးဒီးသည် မကွယ်လွန်မီ နှစ်အနည်းငယ်ခန့်က မက် ဆီဒိုးနီးယားပြည့်ရှင် အာခီလပ်ထံသို့ သွားရောက် ခစားရ သည်။ ထိုပြည်၌ပင် ဘီစီ ၄၀၆ ခုနှစ်တွင် အနိစ္စရောက်သည်။

**ယူရစ်သမစ်။** ။စည်းဝါးကိုက် ကိုယ်လက် လှုပ်ကျင့် ခြင်း—ရှု။

**ယူအက်စအေ။** ။အမေရိကန် ပြည်ထောင်စု — ရှု။

**ယူးကတန်။** ။ယူးကတန် ကျွန်းဆွယ်သည် အမေရိက တိုက် အလယ်ပိုင်းတွင် မက္ကဆီကို ပင်လယ်ကွေ့နှင့် ကယ်ရစ် ဗျန် ပင်လယ်အကြား၌ တည်ရှိသည်။ ကျွန်းဆွယ်၏ အ လျားမှာ မိုင် ၄၀၀ ခန့် ရှည်၍ အနံမိုင် ၂၀၀ ကျယ်သည်။ ယူးကတန်ကျွန်းဆွယ်တွင် မက္ကဆီကိုနိုင်ငံ၏ ပြည်နယ်များ ဖြစ်သော ယူးကတန်ပြည်နယ်၊ ကမ်ပီချီပြည်နယ်နှင့် ဗြိတိ သျှ ဟွန်ဒူးရပ်၊ ဂွားတီမားလ သမတနိုင်ငံ တစိတ်တဒေသ တို့ ပါဝင်လေသည်။ ယူးကတန်ပြည်နယ်သည် ၂၃,၉၂၆ စတုရန်းမိုင် ကျယ်ဝန်း၍ လူဦးရေ ၄၁၈,၂၁၀ ယောက်ခန့် ရှိသည်။ ကမ်ပီချီပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်း မိုင် ၁၉,၆၇၀ ဖြစ်၍ လူဦးရေ ၉၀,၄၆၀ ယောက်ရှိသည်။

ယူးကတန် ကျွန်းဆွယ်သည် ပူ၍ ခြောက်သွေ့၏။ မိုး အလွန်နည်းသည်။ ကမ်းခြေတလျှောက်တွင် မဟောဂနီ နှင့် အခြား အသားမာသစ်တောများ ပေါက်သည်။ မြေ ဩဇာကောင်းသော အရပ်များ၌ ဟင်နီကင် ခေါ် လျှော်ပင်၊ ပြောင်း၊ ဝါ၊ ဆေးပင်၊ ကြံ၊ ကာဖီပင်နှင့် ကာကေးအိုပင်များကို စိုက်ပျိုးသည်။

ယူးကတန်ကျွန်းဆွယ်တွင် တည်ရှိသော ထင်ရှားသော မြို့များမှာ ယူးကတန်ပြည်နယ်၏ မြို့တော် မဲရီဒါမြို့ (လူဦးရေ ၉၈,၆၃၆)၊ ကမ်ပီချီမြို့ (လူဦးရေ ၂၀,၁၂၅) နှင့် ဆိပ်ကမ်းမြို့ဖြစ်သော ပရိုဂရက်ဆိုမြို့ (လူဦးရေ ၁၁,၄၈၁) တို့ ဖြစ်ကြလေသည်။

ယူးကတန်ကျွန်းဆွယ်တွင် နေထိုင်သော တိုင်းရင်းသား များသည် မာယာ အင်ဒီးယန်းလူမျိုးတို့၏ အဆက်အနွယ် ဖြစ်ကြသည်။ မာယာတို့သည် ရှေးနှစ်ပေါင်း ၂,၀၀၀ ကျော် ခန့်မှစ၍ ယဉ်ကျေးမှု အဆင့်အတန်းမြင့်သော လူမျိုးများ ဖြစ်ပြီးလျှင် အေဒီ ၃၀၀ ပြည့်နှစ်သို့ ရောက်သောအခါ ကြီးကျယ်ခမ်းနားသော မြို့ကြီးပြကြီးများ တည်၍ နေထိုင် ခဲ့ကြသည်။ မာယာတို့ တည်ခဲ့သော မြို့ကွက်ဟောင်း နေရာ ပေါင်း တရာကျော်မျှကို ယူးကတန် ကျွန်းဆွယ် အနှံ့အပြား ၌ တွေ့ရှိရသည်။ နေအိမ်များမှာ များသောအားဖြင့် နှစ် ထပ်၊ သုံးထပ်ရှိသော အိမ်များဖြစ်၍ အထပ်ငါးထပ်ရှိသော အဆောက်အအုံပျက်များကိုပင် တူးဖော်တွေ့ရှိရလေသည်။ မာယာတို့သည် တိကျသော ပက္ခဒိန် စံနစ်ကိုလည်း တီထွင် ခဲ့ကြသည်။ အနုပညာဖက်၌လည်း လက်ရာမြောက်၏။ ဟိုင် ယာရိုဂလစ်ဖစ် ခေါ် ရုပ်ပုံစာရေးနည်း အတတ်ကိုလည်း တတ်ကြ၏။ နက္ခတ် တာရာတို့ကို လေ့လာ၍ ဂြိုဟ်သွား ဂြိုဟ်လာများကိုလည်း တိကျစွာ မှတ်သားခဲ့ကြသည်။

မာယာတို့၏ ယဉ်ကျေးမှုသည် အေဒီ ၃၀၀ နှင့် ၆၀၀ ပြည့် နှစ်များအတွင်း၌ အထွတ်အထိပ်သို့ ရောက်ရှိပြီးနောက်၊ ယင်းတို့သည် မြို့ကြီးများကို ရုတ်တရက် စွန့်ပစ်ခဲ့ကြလေ သည်။ မည်သည့်အတွက်ကြောင့် မြို့များကို ထိုကဲ့သို့ စွန့် ခွာသွားကြကြောင်းကိုမူ အတိအကျ မသိရချေ။ ထိုသို့ အားဖြင့် မာယာတို့၏ မြို့ကြီးများသည် နှစ်ပေါင်းများစွာ သစ်ပင်ချုံနွယ်များ အောက်တွင် ဖုံးအုပ် တိမ်မြုပ်လျက် ရှိနေခဲ့သည်။

၁၅၂၅ ခုနှစ်တွင် စပိန်လူမျိုး ဟာနန်ဒို ကောတက် ဆိုသူ သည် ယူးကတန် ကျွန်းဆွယ်ကို ဖြတ်ကျော်ခဲ့သည်။ ထို နောက် ၁၅၄၂ ခုနှစ်တွင် ဖရန်စစ္စကို ဒီ မွန်တီဂျိုသည် မာ ယာတို့ကို တိုက်ခိုက်၍ ကျွန်းဆွယ်ကို စပိန်အစိုးရလက် အောက်သို့ သိမ်းသွင်းခဲ့လေသည်။ ၁၈ ရာစုနှင့် ၁၉ ရာစု နှစ်များအတွင်းက မာယာတို့သည် မက္ကဆီကို အစိုးရကို အ ကြိမ်ကြိမ် တော်လှန်ခဲ့ကြ၏။ သို့ရာတွင် ၁၉၁၁ ခုနှစ်မှစ၍ မက္ကဆီကို အစိုးရသည် ယူးကတန်တွင် အုပ်ချုပ်ရေး စံနစ် သစ်အရ အုပ်ချုပ်လာခဲ့ရာ၌ မာယာတို့အတွက် စာသင် ကျောင်းများ ဆောက်လုပ်ပေးခြင်း၊ စိုက်ပျိုးရေး နည်း

သစ်များ တီထွင်ပေးခြင်း အစရှိသော ပြုပြင်ပြောင်းလဲရေး လုပ်ငန်းတို့ကို ဆောင်ရွက် ပေးခဲ့လေသည်။ ယခုအခါ မာယာတို့ကို ယူးကာတီကို ဟု ခေါ်သည်။

**ယူးကွန်းနယ်။** ။ယူးကွန်းနယ်သည် မြောက် အမေရိကတိုက်၊ ကနေဒါနိုင်ငံ၏ အနောက်မြောက်ဖက်တွင် တည်ရှိသည်။ ထိုနယ်မြေ၏ ပုံသဏ္ဌာန်မှာ တြိဂံပုံဆန်ဆန် ဖြစ်၍ အကျယ်အဝန်းမှာ ၂၀၇,၀၇၆ စတုရန်းမိုင် ဖြစ်လေသည်။ အာတိတ်ဒေသပိုင်းတွင် တစိတ်တဒေသ ကျရောက်သဖြင့် အလွန်အေးသော ရာသီဥတု ရှိသော်လည်း ရွှေထွက်သဖြင့် နာမည်ကျော်ကြားခဲ့လေသည်။

ယူးကွန်းဟူသော အမည်မှာ ထိုနယ်ကို ဖြတ်၍ စီးဆင်းသော မြစ်၏ အမည်ကို အစွဲပြု၍ ခေါ်ဝေါ်ခဲ့ခြင်း ဖြစ်၏။ ထိုနယ်တွင် ကော်ဒီလားရား တောင်တန်း၏အဆက် တောင်တန်းများတည်ရှိ၏။ ထိုတောင်တန်းများ အကြားတွင် မြေဩဇာ ကောင်းမွန်သော လွင်ပြင်နှင့် မြစ်ဝှမ်းဒေသများ ရှိသည်။ ကနေဒါနိုင်ငံ၌ အမြင့်ဆုံး ဖြစ်သော မောင့်လိုဂန် (၁၉,၈၅၀ ပေ) တောင်သည် ထိုနယ်တွင် တည်ရှိ၏။

ရာသီဥတုမှာ ဆောင်းရာသီတွင် အလွန်အေးမြသည်။ သို့သော် နွေရာသီတွင် တခါတရံ အလွန် ပူပြင်းတတ်၏။ ထိုပြင် နေ့တာရှည်လှ၍ တခါတရံ တနေ့လျှင် နာရီ ၂၀ ခန့်မျှ နေရောင်ကို တွေ့နေရတတ်ပေသည်။ သို့ဖြစ်၍ အပင်မာမျိုး ဖြစ်သော ဟင်းသီး ဟင်းရွက်နှင့် ကောက်ပဲသီးနှံများသာ နွေရာသီတွင် စိုက်ပျိုးလုပ်ကိုင်နိုင်၏။ များသောအားဖြင့် အာလူး၊ မုန်လာဥဝိုင်း၊ အုတ်ဂျုံနှင့် ရိုင်းစပါးတို့ကိုစိုက်ပျိုးကြ၏။

ယူးကွန်းနယ်တွင် ရွှေ၊ ငွေ၊ ခဲ၊ ကြေးနီ၊ သံနှင့် ကျောက်မီးသွေး စသည့် အဖိုးတန် သတ္တုများ ထွက်၏။ မကြာမီနှစ်များအတွင်းက တွင်းထွက် သတ္တုအချို့ကို ယခင်ကထက် ပိုမိုလုပ်ကိုင် တူးဖော်ခဲ့ကြပြီး ဖြစ်၏။

ထိုနယ်ကို ၁၈၄၀ ပြည့်နှစ်ခန့်က ရောဗတ် ကင့်ဗဲ ဆိုသူ ဗြိတိသျှလူမျိုး သားမွေးကုန်သည်တဦးက စတင် တွေ့ရှိခဲ့၏။ သို့သော် လူဖြူလူမျိုးတို့ အခြေစိုက် နေထိုင်ခြင်းမပြုကြသေးဘဲ သားမွေး အရောင်းအဝယ်ပြုရာ ဒေသအဖြစ်သာ ထားရှိခဲ့၏။ ထိုစဉ်က ထိုနယ်မှာ ဟဒ်ဆန်ဗေးကုမ္ပဏီပိုင် ဖြစ်ခဲ့လေ၏။ ၁၈၇၀ ပြည့်နှစ်တွင်ကား ကနေဒါနိုင်ငံ အစိုးရသို့ အနောက်မြောက်နယ်ပယ်များတွင် အပါအဝင်အဖြစ် ပေးအပ်လိုက်ရလေသည်။

၁၈၉၀ ပြည့်နှစ်လောက်မှ စ၍ ရွှေတွင်းတူးသူများ စတင်ရောက်ရှိလာခဲ့ကြ၏။ ၁၈၉၇ ခုနှစ်တွင် ရွှေအမြောက်အမြား စတင်တွေ့သောအခါ လူအမြောက်အမြား ရောက်လာကြလေသည်။ ထိုအခါ ထိုနယ်ကို စည်းကမ်းတကျ အုပ်ချုပ်နိုင်ရန်အတွက် ၁၈၉၈ ခုနှစ်တွင် သီးခြားနယ်အဖြစ် ခွဲထုတ်တည်ထောင် ခဲ့ရလေသည်။ ထိုနယ်မြေကို ကနေဒါနိုင်ငံဘုရင်ခံချုပ်က ခန့်ထားသော ကော်မရှင်နာမင်းကြီးက အဖွဲ့ဝင် ခုနစ်ဦးပါဝင်သော ဥပဒေပြုကောင်စီအဖွဲ့၏ အကူအညီဖြင့်အုပ်ချုပ်လေသည်။ ယင်းအဖွဲ့ဝင်များကို ထိုနယ်ရှိလူများက သုံးနှစ်တကြိမ် ရွေးကောက် တင်မြှောက်ကြလေသည်။ ကနေဒါနိုင်ငံ အောက်လွှတ်တော်သို့ အမတ်တဦး စေလွှတ်ခွင့် ရ၏။ ကလောင်ဒိုက်မြစ်နှင့် ယူးကွန်းမြစ်ဆုံရာတွင် ရှိသော ဒေါ်ဆန်မြို့တွင် လူဦးရေ ၁၀၄၃ ယောက်ရှိသည်။ ထိုနယ်၏ မြို့တော်ဖြစ်လေသည်။ တောင်ဖက်ရှိ သတ္တုတူးဖော်ရေး လုပ်ငန်းများ တည်ရှိရာ ဌာနတခုဖြစ်သော ဝှိုက်ဟောမြို့တွင် လေဆိပ်တခုရှိ၏။ ယင်းမြို့၌ လူဦးရေ ၇၅၄ ယောက်ရှိ၏။

ယခုအခါ ရွှေအထွက် အလွန် နည်းသွားသဖြင့် စရိတ်အကုန်အကျ များစွာခံ၍ ခဲယဉ်းစွာ တူးဖော်မှသာ ရရှိနိုင်လေတော့၏။ သို့သော် တောင်ဖက်ပိုင်းမှ ကျောက်မီးသွေးတွင်းများမှာ အကျိုး ဖြစ်ထွန်းစရာ အလားအလာများရှိလေသည်။ မည်သို့ပင်ဖြစ်စေ၊ ရွှေအထွက်နည်းသွားသည်နှင့် တပြိုင်နက် ထိုနယ်၏ လူဦးရေလည်း လျော့နည်းသွားလေသည်။ ရွှေ မြောက်မြားစွာ တူးဖော်ရရှိခဲ့စဉ်က ထိုနယ်၏ လူဦးရေမှာ ၂၇,၂၁၉ မျှဖြစ်ရာ၊ ရွှေအထွက်နည်းသွားသောအခါ တိုင်းရင်းသား အင်ဒီးယန်းလူမျိုး ၂,၀၄၇ ယောက်အပါအဝင် ၁၄,၆၂၈ ယောက် (၁၉၆၁) မျှသာဖြစ်လေသည်။

ထိုနယ်၏ မြောက်ပိုင်း အေးမြလှသော ဒေသများတွင် အက်စကီးမိုး လူမျိုးများလည်း နေထိုင်ကြသည်။ ယူးကွန်းနယ်၏အရေးအပါဆုံးသော လုပ်ငန်းမှာ သတ္တုတူးဖော်ခြင်းသာ ဖြစ်၏။အခြားလုပ်ငန်းများမှာ သစ်တောများရှိသဖြင့် သစ်လုပ်ငန်းနှင့် သားမွေးရှိသော တိရစ္ဆာန်များကို ထောင်ဖမ်းသည့် လုပ်ငန်းပင် ဖြစ်လေသည်။

**ယူးတားပြည်နယ်။** ။ယူးတား ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု အနောက်ဖက်ပိုင်း ရော့ကီး တောင်တန်းဒေသဖက်တွင် တည်ရှိသည်။ မြောက်ဖက်တွင် အိုက်ဒဟိုးပြည်နယ်၊ အရှေ့မြောက်ဖက်တွင် ဝိုင်အိုးမင်းပြည်နယ်၊ အရှေ့ဖက်တွင် ကော်လိုရားဒိုးပြည်နယ်နှင့် တောင်ဖက်တွင် အယ်ရီဇိုးနားပြည်နယ်တို့ အသီးအသီး ဝန်းရံလျက် ရှိ၏။ ယူးတားပြည်နယ် တခုလုံးသည် ကုန်းပြင်မြင့်ဖြစ်၍ ဝေါဆက် တောင်တန်းသည် ထိုပြည်နယ်ကို တောင်နှင့်မြောက် ဖြတ်လျက် တည်ရှိသည်။ အရှေ့မြောက်ဖက်၌ ယူအင်းတာ တောင်တန်းများ ရှိလေသည်။ ထင်ရှားသော မြစ်များမှာ ကော်လိုရားဒိုးမြစ်၊ ဝက်ဗာမြစ်၊ ငဲယားမြစ်နှင့် ဂျော်ဒန်မြစ်တို့ဖြစ်၏။ ဂျော်ဒန်မြစ်သည် ဂရိတ်ဆော့လိပ်ခေါ် ရေကန်



**ယူးတားပြည်နယ်၏ ထူးခြားသော ကျောက်နံကင်ညွန်ကြီး**



ယူးတားပြည်နယ် မြို့တော် ဆော့လိပ်စီးတီး၏ တင်းပဲစကွဲယားရပ်ကွက်

အိုင်ကြီးထဲသို့ စီးဝင်သည်။ ထိုရေငန်အိုင်ထဲရှိ ရေသည် ပင်လယ်ရေထက်ပင် သုံးဆကျော်မျှ ပို၍ ငန်၏။ ထိုအိုင်ကြီး၏ အနောက်ဖက်တွင်ရှိသော ဂရိတ်ဆော့လိပ် သဲပြင်ကြီးပေါ်၌ ကမ္ဘာ့စံချိန်ထွင်သည့် မော်တော်ကား အမြန်စီးပွဲများကို ကျင်းပလေ့ရှိသည်။

ယူးတားပြည်နယ်တွင်မိုးအလွန်နည်း၍ခြောက်သွေ့သဖြင့် စိုက်ပျိုးရေးအတွက် ဆည်မြောင်းများကို အားကိုးရသည်။ စိုက်ပျိုးရေးနှင့် သတ္တုတူးဖော်ရေးလုပ်ငန်းတို့သည် အရေးပါ အရာရောက်သော လုပ်ငန်းများဖြစ်သည်။ သိုးဆိတ်များကိုလည်း မွေးမြူကြသည်။ ဂျုံ၊ သကြား မုန်လာ၊ မြင်းစားဂျုံ၊ မုယော၊ အယ်လဖားဖားပင်၊ ဟင်းသီးဟင်းရွက်တို့သည် ထင်ရှားသောကောက်ပဲသီးနှံများဖြစ်၍ ယူးတားပြည်နယ်၌ ကြက်သွန်ကို အကြီးအကျယ် စိုက်ပျိုးသည်။

ယူးတားပြည်နယ်သည် တွင်းထွက်သတ္တုများဖြင့် ကြွယ်ဝ၍ ရွှေကိုအများဆုံးတူးဖော်ရရှိသည်။ အခြားထင်ရှားသော တွင်းထွက်သတ္တုများမှာ ကြေးနီ၊ ငွေ၊ ခဲ၊ သွပ်တို့ ဖြစ်သည်။

ယူးတား ဟူသော ပြည်နယ်အမည်မှာ ထိုဒေသ၌ မူလက နေထိုင်ခဲ့သော ယူတေး၊ သို့မဟုတ် ယူတော အင်ဒီးယန်း လူမျိုးကို အစွဲပြု၍ ခေါ်ထားသော အမည်ဖြစ်၏။ ၁၈၄၇ ခုနှစ်သို့ ရောက်သောအခါ၌ အမေရိကန်ပြည်ထောင်စု အရှေ့ပိုင်းမှ မော်မန်ဂိုဏ်းဝင် အချို့သည် ယူးတားပြည်နယ်သို့ လာရောက်၍ အခြေစိုက်နေထိုင်သည်။ ၁၈၄၈ ခုနှစ်တွင် ထိုနယ်ပယ်ဒေသသည် အမေရိကန် ပြည်ထောင်စု၏ ပိုင်နက်နယ်ပယ်ဖြစ်လာခဲ့သည်။ ၁၈၅၀ ပြည့်နှစ်တွင် ယူးတားပြည်နယ် ဟူ၍ဖွဲ့စည်းခဲ့၏။ထိုစဉ်အခါကယူးတားပြည်နယ်သည်ကုန်းခေါင်ခေါင်အရပ်ဖြစ်၏။ သို့ရာတွင် မော်မန်တို့၏ကြိုးပမ်းမှုကြောင့် နောင်အခါ စိုက်ပျိုးရေးလုပ်ငန်း၊ သတ္တုတူးဖော်ရေးလုပ်ငန်း၊စက်မှုလုပ်ငန်းတို့ဖြင့် စည်ကားသောပြည်နယ်ဖြစ်လာပေသည်။ ထို့ကြောင့် ယူးတားပြည်နယ်ကို "ပျားအုံပြည်နယ်" ဟုလည်း ခေါ်ကြသည်။ ယူးတားပြည်နယ်သည် ၁၈၉၆ ခုနှစ်တွင် ပြည်ထောင်စုအတွင်း ပြည်နယ်တနယ်အဖြစ် ပါဝင်ခွင့်ရခဲ့သည်။

ဒုတိယကမ္ဘာစစ်အတွင်းက ယူးတားပြည်နယ်ရှိ စက်ရုံများ၊ လယ်ယာခြံမြေများနှင့် သတ္တုတွင်းများတွင် ကုန်ထုတ်လုပ်မှု အကြီးအကျယ် တိုးတက်ခဲ့သည်။ ထိုနောက်တွင်လည်း စက်မှုလက်မှုလုပ်ငန်းများသည်များစွာတိုးတက်ထွန်းကားလျက် ရှိ၏။ ၁၉၅၂ ခုနှစ်တွင် ယူးတားပြည်နယ် အရှေ့အလယ်ပိုင်းတွင် ယူရေးနီးယမ်းသတ္တု တွေ့ရှိခဲ့သည်။

ယူးတားပြည်နယ်သည် ၈၄,၉၁၆ စတုရန်းမိုင် ကျယ်ဝန်း၍ လူဦးရေ ၈၉၇,၀၀၀ ယောက် (၁၉၆၂)ရှိသည်။ မြို့တော်မှာ လူဦးရေ ၁၈၉,၄၅၄ ယောက်ရှိသော ဆော့လိပ်စီးတီးမြို့ဖြစ်သည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကရူဇာ တိုက်သင်္ဘော | Battle Cruiser |
| ကလကတ် | Cotton Teal |
| ကာဇက် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ | Kazakh Soviet Socialist Republic |
| ကာယဗေဒ | Anatomy |
| ကီဂစ် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ | Kirghiz Soviet Socialist Republic |
| ကီးယက်မြို့ | Kiev |
| ကောရတ် ကုန်းပြင်မြင့် | Khorat Plateau |
| ကင်ပလင်း | Antidesma Velutinum, Tulasne |
| ကင်းဗဲ အစီရင်ခံစာ | Campbell's Report |
| ကင်းမွန် (ဝါ) ရေကြက် | Squid |
| ကင်းလိပ်ချော | Grass Lizard |
| ကံကျေး-ကျေးကျွန်စံနစ် | Feudal-Serfdom |
| "ကမ္ဘာ့အလုပ်ရုံကြီး" | "Workshop of the World" |
| ကုန်းနေ ရေသတ္တဝါ | Amphibia |
| ကုပ်ကလောင် | Blue-Throated Barbet |
| ကျားကြောင် | Tiger-Cat |
| ကျူ | Phragmites Karka, Trin |
| ကျေးသန္တာ | Indian Lorikeet |
| ကျောရိုးမဲ့ သတ္တဝါ | Invertebrate |
| ကျောရိုးရှိ သတ္တဝါ | Vertebrate |
| ကျောက်ဖျမြစ် | Chao Phya River |
| ကျောက်ဝါး | Pogonatherum Paniceum (Lam) |
| ကြခတ်ဝါး | Bambusa Arundinacea, Willd |
| ကြလိုဝါး (ဝါးပျဉ်း၊ သိုက်ဝါးပိုး) | Dendrocalamus Brandisii, Kurz |
| ကြသောင်းဝါး | Bambusa Polymorpha, Munro |
| ကြက်ရိုး | Vitex Pubescens, Vahl |
| ကြောင်ကတိုး | Small Civet |
| ကြံ့စာ | Toddalia Aculeata, Pers |
| ကွင်းယုန် | Hare |
| ခရုတုတ် | Open Bill |
| ခရုမျက်ပြဲ | Pila Globosa |
| ခရင်ဝါး (တပင်တိုင်ဝါး၊ ခရောင်းဝါး) | Melocanna Bambusoides, Trin |
| ခရမ်း ဘေး ရောင်ခြည် | Ultra-Violet Ray |
| ချာချာ ရူးသူ | Psychosis |
| ချားစဝု စာချွန်တော် | Charles Wood's Despatch |
| ချေသူငယ် မှက်မျိုး | Deer Fly |
| ချေး- ငှား စာချုပ် | Lease-Lend |

| | |
|---|---|
| ချိုးစိမ်း | Emerald Dove |
| ချိုးနီပု (ချိုးနီတိုး) | Red Turtle Dove |
| ချိုးပိန်တူး | Indian Rufous Turtle Dove |
| ချိုးလည်ပြောက် | Spotted-Necked Dove |
| ချိုးလင်းပြာ | Ring Dove |
| ခွေးမြီးဖူး | Setaria Lutescens, Hubb |
| ''ဂရိမီး'' | "Greek Fire" |
| ဂရော့တန်ကျောင်း | Groton School |
| ဂဝံကျောက်တော | Laterite Forest |
| ဂေါက်နာ | Gout |
| ဂျော်ဂျီယာ ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ | Georgian Soviet Socialist Republic |
| ငဆတ် | Triacanthus |
| ငို | Chiton |
| ငန်းတော်ကျား | Yellow-Banded Bungarus |
| ငှက်ငန္ဒား | Green-Imperial Pigeon |
| ငှက်ဆတ် | Long-Tailed Broadbill |
| ငှက်တစပ် (ဝါးရုံကြက်) | Brown Shrike |
| ငှက်တော်မြီး | Axonopus Compressus (SW.), Beauv |
| ငှက်တော်ပြာ | Red-Billed Blue Magpie |
| ငှက်ပျင်း (မြေဝပ်ငှက်) | Common Indian Nightjar |
| ငှက်ပြာစိတ် | Fairy Bluebird |
| စတာလင် ဆက်ရက် | Glossy Starling |
| စတင်းဒတ် ရေနံကုမ္ပဏီ | Standard Oil Company |
| စနိုက်ကြီး | Woodcock |
| စပါး | Oryza Sativa, Linn |
| စပါးကြီး | Python |
| စပါးရိုင်း | Oryza Coarctata, Roxb |
| စာနီ | Yellow-Breasted Bunting |
| စာဖြူ | Burmese Paradise Flycatcher |
| စာဗူးတောင်း | Pegu House Sparrow |
| စာဝတီး (ငှက်ပတီး) | Malay Chestnut-Bellied Munia |
| စာသူငယ် ဦးနှောက် | Cratoxylon Prunifolium, Dyer |
| စုပေါင်း လယ်ယာခြံ | Collective Farm |
| စက်ရက်ကန်း | Automatic Loom |
| စင်ပြွမ်း | Dillenia Pentagyna, Roxb |
| စောင်းပလေး (ဇောင်းပလေး) | Lagerstroemia Villosa, Wall |
| စစ် | Albizzia Procera, Benth |
| စစ္စလီကြီး | Large Whistling Teal |
| စစ္စလီခေါင်းမဲ | Lesser or Common Whistling Teal |
| ''စစ်တွေ ကူးသန်း ရောင်းဝယ်ရေး'' သတင်းစာ | "Akyab Commercial News" |
| ''စစ်မဖြစ်ရေး စီမံကိန်း'' | "No War Program" |
| စစ်သင်္ဘောကြီး | Battleship |
| စက်ဝိုင်းကြီး လွှင့်နည်း | Great Circular Sailing |
| စိတ်ညှိုးငယ်ခြင်း | Depression |
| စိတ်ရောဂါကု ဆရာ | Psychiatrist |
| စိန့်လောရင့် ဘုရား ရှိခိုးကျောင်း | St. Lawrence Church |
| စံကားဝါ | Michelia Champaca, Linn |

စွဲလန်းလွန်ခြင်း Mania

စွန်ခေါင်းဖြူ Common Brahminy Kite

ဆူးတော Thorn Forest

ဆူးပုလွေ (သစ်ပုလွေ) Balanites Triflora, Van Tiegh

ဆေးပညာ မဟာဌာန Faculty of Medicine

ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ Union of Soviet Socialist Republics

ဆင်ငိုမြက် Eleusine Indica, Gaertn

ဆန်တိုတောမတ် ယူနီဗာစီတီ Santo Tomas University

ဇီဝကိစ္စ ဗေဒ Physiology

ဇီဝဓာတုဗေဒ Bio-Chemistry

တမလန်း Dalbergia Oliveri, Gamble

တရော် Grewia Tiliaefolia, Vahl

တာဂျစ် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ Tadzhik Soviet Socialist Republic

တားဂါးလော့စာ Tagalog

တိဏဗေဒ Agrostology

တီးတုတ်ခြေ (မြက်လေးခွ) Dactyloctenium Aegyptium, Beauv

တူကမင် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ Turkmen Soviet Socialist Republic

တူရင်မြို့ အိုဗလိတ်များ Oblates of Turin

တော်ဝင် ပညာတတ်ခွန်အသင်း Royal Academy

တောခြောက် Dry Forest

တောဝက် Wild Boar

တောသရက် Mangifera Caloneura, Kurz

တိုကျို ပင်လယ်အော် Tokyo Bay

တက်ကွက်မျိုး Ischaemum Rugosum, Salisb

တက္ကသိုလ် ကောလိပ် Universtiy College

တက္ကသိုလ် ကောင်စီ University Council

တက္ကသိုလ် ဖွဲ့စည်းပုံကော်မီတီ University Organization Committee

တက္ကသိုလ် မ တည် ရံပုံငွေ University Endowment Fund

တင်းဝါး Cephalostachyum Pergracile, Munro

တောင်ပေါ်တော Hill Forest

တောင်ပေါ် တောခြောက် Dry Hill Forest

တောင်ပေါ် အမြဲစိမ်းတော Evergreen Hill Forest

တောင်သရက် Swintonia Floribunda, Griff

တုတ်ပြားကောင် Flat Worm

တန်ဂန်ယီးက နိုင်ငံ Tanganyika

တန်ဇာနီယာ နိုင်ငံ Tanzania

တံပူ Harrisonia Perforata, Merr

တံမြက်စည်းပင် (ထမဆိုင်း) Thysanolaena Agrostis

တွားသွား သတ္တဝါ Reptile

တွင်းယုန် Rabbit

ထစ်ပုတ် (ရေဝမ်းဘဲ) Indian Little Grebe

ထနောင်း Acacia Leucophloea, Willd

ထီးဝါး၊ ထီးရိုးဝါး Thyrosstachys Siamensis, Gamble

ထိုင်းလင်းနိုင်ငံ Thailand

ဒဟတ် Tectona Hamiltoniana, Wall

ဒိုးပိုး Ship Worm

ဒီရေတော Tidal Forest

ဓ

ဒီးဒူး Salmalia Insignis, Schott & Endl.

ဒိုင်းနီ Red Shield

ဒြပ်၏ ခန္ဓာအိမ် Structure of Matter

"ဓမ္မသိတင်းစာ" "The Religius Herald"

ဓာတ်ငွေ့အား အင်ဂျင်စက် Gas Engine

န

နဘဲ Lannea Grandis, Engler

နိုင်ငံပိုင်ခြံ State Farm

နတ်ဆင် ရေနံကုမ္ပဏီ Nathsingh Oil Company

နှော Adina Cordifolia, Hook.

နှင်းဆီရည် Attar of Rose

ပ

ပညာရေး စုံစမ်းမှု ကော်မီတီ Education Enquiry Committee

ပညာရေး ပြန်လည် ဖွဲ့စည်းမှု ကော်မီတီ Education Re-Organization Committee

ပညာရေး မဟာဌာန Faculty of Education

ပညာရေး ဝါဒ စုံစမ်းမှု ကော်မီတီ Education Policy Enquiry Committee

ပရိုတို့ဇ ကပ်ပါး Parasitic Protozoa

ပါမောက္ခ အဖွဲ့ Senate

ပါရစ်မြို့ အာဂန္တု မစ်ရှင် Mission Etrangeres De Paris

ပိတုန်း Bumble Bee

ပေါရာဏိက ဗေဒ Archaeology

ပိုးကောင်စားပင် Insectivorus Plant

ပိုးနသန်ကောင် Millepede

ပိုးဖလံ Moth

ပင်နိုနီယန်လွင်ပြင် Pannonian Plain

ပင်လယ်မြွေ Sea Serpent

ပင်လယ်ကမ်းရိုးတန်းတော၊ သို့မဟုတ် ပင်လယ်ကမ်းနား သောင်ပြင်နှင့် သဲခုံတော Beach and Dune Forest

ပင်လယ်ခူ Jelly Fish

ပင်လယ်ချပ်ပြား Sand Dollar

ပင်လယ် ငှက်မွေးကောင် Sea Lily

ပင်လယ်ပန်း Sea Feathers

ပင်လယ်ဖြူကောင် Sea Urchin

ပင်လယ် မြှော့ Sea Cucumber

ပင်လယ်ဝမ်းကောင် Marine Worms

ပုတ်သင်ပျံ Flying Chameleon

ပန်းတော်၊ သိန်းလွင် Dichanthium Theinlwinii

"ပျားအုံ ပြည်နယ်" "Beehive State"

ပြင်ညီ အာကာသ သင်္ချာ Plane Geomerty

ပြည်ထောင်စု ဆိုဗီယက် Soviet of the Union

ဖ

ဖယ်ဒရယ်စနစ် Fedral System

ဖျက်သင်္ဘော Destroyer

ဖွတ် Varanus

ဖွတ်မိကျောင်း Hydrosaurus

ဗ

ဗဟို ဆိုက်ဗီးရီးယန် ကုန်းပြင်မြင့် Central Siberian Plateau

ဗီတာ ရောင်ခြည် Beta Ray

ဗူဂန်းဒါးနယ် Buganda

ဗိုလဒါ တမံကြီး Boulder Dam

ဗက်တြီယန် အက္ခရာ Bactrian Script

ဗက်ပတစ် ကောလိပ် Baptist College

ဗိုင်လို ရုရှ ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ Byelo Russian Soviet Socialist Republic

ဗျိုင်းငန်း Large Egret

"ဗြိတိသျှ မြန်မာ သတင်း" "British Burma News"

ဗာနဗိုက် ဂိုဏ်း Barnabites

ဘဝဲ (ဝါ) ရေမျောက် Devil Fish

ဘီ ဘီ ပီ ကုမ္ပဏီ B.B.P. (British Burma Petroleum Company)

ဘီအိုစီ ကုမ္ပဏီ B.O.C. (Burma Oil Company)

ဘီအိုစီ (ကုန်သွယ်ရောင်းဝယ်ရေး) ကုမ္ပဏီ B.O.C. (Burma Trading) LTD.

ဘီအိုစီ(ချက်လုပ်ရေး) ကုမ္ပဏီ B.O.C. (Refinery) LTD.

ဘီအိုစီ (တူးဖော်ခွင့်) ကုမ္ပဏီ B.O.C. (Concessions) LTD.

ဘီအိုစီ (ရေနံတင် သင်္ဘော) ကုမ္ပဏီ B.O.C. (Tankers) LTD.

ဘီအိုစီ (ရေနံပိုက်လမ်း) ကုမ္ပဏီ B.O.C. (Pipe Lines) LTD.

ဘေးကင်း အဆို့ရှင် Safety Valve

ဘဲ့ပြား Cratoxylon Neriifolium, Kurz

ဘိုင်းတောင်ရှည် Kandelia Rheedeii, W & A

ဘုံမဲစာ Albizzia Chinensis (Osbeck), Merr.

မဲနမ်မြစ် Menam River

မော်လဒေးဗီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ Moldavian Soviet Socialist Republic

"မော်လမြိုင် ခရော်နီကယ်" သတင်းစာ "Maulmain Chronicle"

"မော်လမြိုင် တိုင်း" သတင်းစာ "The Maulmain Times"

"မော်လမြိုင် အော့ဗဇာဗား" သတင်းစာ "Moulmain Observer"

"မော်လမြိုင် အက်ဗာတိုက်ဇာ" သတင်းစာ "Maulmain Advertizer"

မဂ္ဂီး တက္ကသိုလ် McGill University

မန်တူအာ မြို့စား Duke of Mantua

မန္ဒာလီ (တောဘဲ) White-Winged Wood Duck

မျိုး ကူးစပ်ပေးခြင်း Hybridization

မျောက်ကျား Monkey-Tiger

မျောက်ညို Rhesus Monkey

မျောက်တံငါ Macaque Monkey

မျောက်နီ Bonnet Monkey

မျောက်ပုတီး Burmese Pigtailed Monkey

မျောက်မောင်းမ (မျောက်လျှောင်) Slow Loris

မျောက်မြီးတို Short-Tailed Monkey

မျောက်လွဲကျော် မျက်ကွင်းဖြူ Gibbon

မျောက်လွဲကျော် လက်ဖြူ White-Handed Gibbon

မြေစာမြက် (မြင်းစားမြက်) Bermuda Grass Or Boob Grass

မြက်ကားယားမျိုး Chloris Barata. SW.

မြက်ခါး Panicum Repens, Linn

မြက်ချို Echinochloa Crus-Galli, Beauv

မြက်မုံညှား Eragrostis Plumosa (Link)

မြက်သီး Echinochloa Stagnina, Beauv

မြင်ဝါး Dendrocalamus Strictus, Nees

မြစ်တွေးမျိုး Tern

မြန်မာနိုင်ငံ ပညာရေးစနစ် ပြန်လည် တည်ဆောက်ရေး ကော်မီတီ Burma Education Reconstruction Committee

မြန်မာနိုင်ငံ ပညာရေး ဆင်ဒီကိတ်အဖွဲ့ Burma Educational Syndicate

မြန်မာနိုင်ငံ ပေစာများ မှတ်စု
Notes of Burmese Manuscripts in Burma

"မြန်မာနိုင်ငံ ထေရဝါဒ ဗုဒ္ဓ အယူဝါဒ"
"Theravada Buddhism In Burma"

မြန်မာနိုင်ငံ လူထု ပညာရေး Mass Education, Burma

မြန်မာနိုင်ငံ သုတေသနအသင်း Burma Research Society

မြန်မာနိုင်ငံ သုတေသနအသင်း ဂျာနယ်
Journal of Burma Research Society

"မြန်မာ သံတော်ဆင့်" သတင်းစာ "Burma Herald"

မြန်မာ့ဆိုရှယ်လစ်လမ်းစဉ် Burmese Way To Socialism

"မြန်မာ့ အလင်း" သတင်းစာ
"The New Light of Burma"

မွန်တက်ဆိုးရီး ပညာသင်ကြားနည်း
Montessori System

မွန်ရိုး နန်းတော် Monroe Palace

မှို Mushroom

မှိုမျိုး Fungi

မှိုသိမ် Mildew

မှန်စီ ကျောက်စီ လုပ်ငန်း Mosaic

မှန်ဘီလူး Lens

မှန်ဘီလူးခုံး Convex Lens

မှန်ဘီလူးခွက် Concave Lens

မြွေပါ Mongoose

မြွေပါကြီး Marten

မြွေပါဖြူ Ermine

မြွေပါ မြီးတို Weasel

မြွေပါ မွေးရှည် Mink

မြွေပွေး Viper

မြွေဟောက် Cobra

ယူကရိန်း ဆိုဗီယက် ဆိုရှယ်လစ် သမတ နိုင်ငံ
Ukrainian Soviet Socialist Republic

ယူကလစ်တပ်ပင် Eucalyptus

ယူဂိုစလားဗီးယား ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ
Socialist Federal Republic of Yugoslavia

ယူဂန်းဒါး နိုင်ငံ Uganda

ယူနစ်ထရီ စံနစ် Unitary System

ယူရေးနပ် ဂြိုဟ် Uranus

ယူရယ် တောင်တန်း Urals (Or) Ural Mountains

ယူအင်းတာ တောင်တန်း Uinta Range

ယူးကတန် ကျွန်းဆွယ် Yucatan Peninsular

ယူးကွန်းနယ် Yukon

ယူးတားပြည်နယ် Utah

ယဲလိုးစတုန်း အမျိုးသားဥယျာဉ်
Yellowstone National Park

ယိုးဒယား အသင်းကြီး Siamese Society

ယောက်ဖ ခွေးခေါ် Indian Cuckoo

ယောင်ယင်ငှက် (အောင်လောင်ငှက်) Great Hornbill

ယင်းတိုက် Dalbergia Cultrata, Grah

ယင်းမာ Chukrasia Tabularis, A. Juss

ယစ်မျိုးခွန် Excise Duty

"ရတနာပုံ နေပြည်တော် သတင်းစာ"
"Mandalay Gazette"

ရာဇဌာန်ပြည်နယ် Rajasthan

| | |
|---|---|
| ရုရှ ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတ နိုင်ငံ | Russian Soviet Federal Socialist Republic |
| ရူသီးနီးယား နယ် | Ruthenia |
| ရူပဗေဒ | Physics |
| ရူမက်တစ်ဇင် ရောဂါ | Rheumatism |
| ရူးဝါးနယ် | Ruhr |
| ရူးသွပ်ခြင်း | Insanity |
| ရေကရားပင် | Pitcher Plant |
| ရေကာတန်တိုင်း | Breakwater |
| ရေကြက် | Moorhen |
| ရေကြက်ဒုံ | European Coot |
| ရေခဲခေတ် | Ice Age |
| ရေခဲတောင် | Iceberg |
| ရေငုံး | Ruddy Crake |
| ရေစေး | Hard Water |
| ရေဆေး ခြယ်နည်း | Water Colour Painting |
| ရေ ဆင်နှာမောင်း | Water Spout |
| ရေညှိပင် | Moss |
| ရေညှောင့်ကောင် | Green Sandpiper |
| ရေတပ် စစ်သူကြီး | Admiral of the Fleet |
| ရေတပ် ဗိုလ်ချုပ် | Rear-Admiral |
| ရေတပ် ဗိုလ်ချုပ်ကြီး | Vice-Admiral |
| ရေတပ် ဗိုလ်ချုပ်မှူး | Admiral |
| ရေတံခွန် | Waterfall |
| ရေတံခွန်ကုန်းတန်း | Fall Line |
| ရေတံခွန်လျှော | Cascade |
| ရေဒီယို သတ္တိ ကြွခြင်း | Radioactivity |
| ရေနေပင် | Water Plant |
| ရေနွေးငွေ့ တာဗိုင် အင်ဂျင်စက် | Steam Turbine |
| ရေနွေးငွေ့အား အင်ဂျင်စက် | Steam Engine |
| ရေပူစမ်း | Geyser |
| ရေပြင်ညှိဆည် | Lock |
| ရေဖိအားစက် | Hydraulic Machinery |
| ရေဗလုံ | Masked Finfoot |
| ရေမော် | Rapid |
| ရေမိန် | Aporosa Villosa, Baell |
| ရေမြင်း (ငါး) | Sea Horse |
| ရေမြင်း | Hippopotamus |
| ရေလက်ဝါးကောင် | Star Fish |
| ရေသူမ | Mermaid |
| ရေသစ် မြေသစ် ရှာဖွေခြင်း | Exploration |
| ရေသွယ်ခြင်း | Irrigation |
| ရေသွယ်ပြွန် | Aqueduct |
| ရေသွက် | Soft Water |
| ရေအားပညာ | Hydraulics |
| ရေအားသုံး လျှပ်စစ်စက်များ | Hydro-Electric Installations |
| ရေးသားလွှာချပ် | Lipi Patra |
| ရော့ကဖဲလား ဆေးဖက် သုတေသနအသင်း | Rockefeller Institute For Medical Research |
| ရော့ကီး တောင်တန်း | Rocky Mountains |

| | |
|---|---|
| ရော့မြစ် | Rotte River |
| ရောဂဗေဒ | Pathology |
| ရင်ကန်း | Zalacca Wallichiana, Mart |
| ရင်းကိုင်း | Sclerostachya Fusca (A. Camus) |
| ရိုင်ဇုမ် အတက် | Rhizome |
| ရစ် | Burmese Silver Pheasant |
| ရစ်မင်း | Burmese Barredback Pheasant |
| ရစ်ရင်မဲ | Black-Breasted Kalij Pheasant |
| ရန်ကုန် ကောလိပ် | Rangoon College |
| ''ရန်ကုန် ခရော်နီကယ်''သတင်းစာ | ''Rangoon Chronicle'' |
| ''ရန်ကုန် ဂေဇက်''သတင်းစာ | ''Rangoon Gazette'' |
| ရန်ကုန် တက္ကသိုလ် | Rangoon University |
| ''ရန်ကုန် တိုင်း'' သတင်းစာ | ''Rangoon Times'' |
| ''ရန်ကုန် ဒေးလီးမေ''သတင်းစာ | ''Rangoon Daily Mail'' |
| ရန်ကုန် ရေနံကုမ္ပဏီ | Rangoon Oil Company |
| ရုပ်ပိုင်း ဓာတုဗေဒ | Physical Chemistry |
| ရုံး | Anogeissus Acuminata, Wall |
| ရွက်စားသတ္တဝါ | Herbivorus |
| ရွက်ပြတ်ရော တော | Mixed Deciduous Forest |
| ရှား | Cutch |
| ရှေးဟောင်း သုတေသန | Archaeology |
| ရွှေပြည်စိုး | Common Lora |
| ရွှံ့ပွက်တော (စိမ့်တော) | Swamp Forest |
| လီပန်တို တိုက်ပွဲ | Battle of Lepanto |
| လူမျိုးစု ဆိုဗီယက် | Soviet of the Nationalities |
| ''လူမှု ပဋိညာဉ်'' | "The Social Contract" |
| လူမှုရေးရာ ပညာစီမံကိန်း | Scheme For Social Education |
| လူး | Panicum Miliaceum, Linn |
| လေဆင်နှာမောင်း | Tornado |
| လေယာဉ်ပျံတင် သင်္ဘော | Aircraft Carrier |
| လယ်စာ | Lagerstroemia Tomentosa, Presl |
| လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေ | The Land Nationalization Act. |
| ''လောဘ နိုင်ငံ'' | "El Filibusterismo" |
| လိုဂန် တောင်ထိပ် | Logan, Mt. |
| လက်ထုတ်ကြီး | Holarrhena Antidysenterica, Wall |
| လက်ပံ | Salmalia Malabarica (D.C.) Schott & Endl |
| လက်ပွတ် (နှ၍) | Flacourtia Cataphracta, Roxb |
| လောက်ယား | Schima Wallichii, Choisy |
| လင်းတန်းယိုင်စည်း | Law of Refraction |
| လင်းယော | Dillenia Pulcherrima, Kurz |
| လင်းလုပင် | Light Demander |
| လောင်းခိုပင် | Shade Bearer |
| လစ်သွေးနီးယား ဆိုဗီယက် ဆိုရှယ်လစ် သမဘနိုင်ငံ | Lithuanian Soviet Socialist Republic |
| လတ်ဗီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ | Latvian Soviet Socialist Republic |
| လျှပ်စစ် သံလိုက် ရောင်စဉ် | Electromagnetic Spectrum |
| ''လွတ်လပ်မှု လေးချက်'' | "The Four Freedoms" |
| ''လွတ်လပ်ရေး၊ သာတူ ညီမျှရေးနှင့် ချစ်ကြည်ရေး'' | "Liberty, Equality & Fraternity" |

လွန်းပျံ ရက်ကန်း — Flying Shuttle

လွိုက်ဆည်တမံ — Lloyd Barrage

ဝါဖလေး — Malay Large Green-Billed Malkoha

ဝါရှင်တန် ညီလာခံ — Washington Conference

ဝါးဖြူ (မြင်ဖြူဝါး၊ ဝါးနွ၊ သို့မဟုတ် ဝါးပျဉ်း) — Dendrocalamus Membranaceus, Munro

ဝါးဖြူကလေး (ဝါးနွယ်၊ ဝါးကုတ်) — Oxytenanthera Albo-ciliata, Munro

ဝါးပိုး — Dendrocalamus Gigenteus, Munro

ဝါးပိုးမျက်ဆန်ကျယ် — Dendrocalamus Hamiltonii, Nees

ဝါးယား (တလကျူ၊ သို့မဟုတ် ဝါးနက်) — Dendrocalamus Longispathus, Kurz

ဝါးရောင်းငှက် — Burmese Black Gorgeted Laughing-Thrush

ဝါးရောင်းငှက် ခေါင်းဖြူ — Burmese White-Crested Laughing-Thrush

ဝါးရုံမြက် — Echinochloa Notabile (Hook. F)

ဝယ်လင်တန်မြို့စား — Duke of Wellington

ဝက်ဝံ — Bear

ဝင်ဆာမြို့စားကြီး — Duke of Windsor

ဝိဇ္ဇာမဟာဌာန — Faculty of Arts

ဝံပို — Spotted-Billed Pelican

ဝံပို — Palla's Fishing Eagle

ဝံလို — Sea-Eagle

ဝံလက် — Osprey

ဝမ်းဘဲစာမြက် — Echinochloa Colona Link

သဒီ — Protium Serrata, Engler

သနပ်ခါး — Limonia Acidissima, Linn

သပြူ — Dillenia Indica, Linn

သပွတ်ကြီး — Miliusa Velutina, Hook. f & T

သဘာဝ ဗြဟဒေဝ ဗေဒ — Natural Theology

သဘာပတိ အဖွဲ့ — Presidium

သဘာဝ ယထာဘူတပညာ (ရူပဗေဒ) — Natural Philosophy (Physics)

သရက် — Mangifera Indica, Linn

သာမန်စက် — Medium Speed Engine

သာလိကာ — Indian Grackle

သာသနာပြန့်အဖွဲ့ ဘုန်းကြီးများ — Priests of the Propaganda

သားစားပင် — Carnivorous Plant

သားမင်း — Takin

သား သဲကန္တာရ — Thar Desert

"သူရိယ" သတင်းစာ — "The Sun"

"သေခြင်းတရားကို အသိတရားဖြင့် အောင်မြင်ခြင်း" — "Triumph of Knowledge Over Death"

သံပန်းတော်မြက် — Sporobolus Tremulus (Kunth)

သက်ငယ် — Imperata Cylindrica (Linn), Beauv

သက်ရင်းကြီး — Croton Oblongifolius, Muell. Arg.

သိုက်ဝါး — Bambusa Tulda, Roxb

သိုက်ဝါးကြီး — Bambusa Burmanica, Gamble

သင်္ကန်း — Hopea Odorata, Roxb

သင်္ကန်းတူ (သင်္ကဒူး) — Parashorea Stellata, Kurz

"သင်္ကန်းရောင် လွှမ်းသော တိုင်းပြည်" — "Land of Yellow Robe"

| | |
|---|---|
| သင်ပေါင်း | Phoenix Paludosa, Roxb |
| သင်ပန်း | Hibiscus Tiliaceus, Linn |
| သင်းခွေချပ် | Pangolin |
| သင်းဝင် | Millettia Pendula, Benth |
| သောင်တင်း (သိဖ) | Small Indian Pratincole |
| သစ် | Leopard |
| သစ်ကြောင် | Leopard Cat |
| သစ်ကြံပိုး | Cinnamomum Tamala, F. Nees. |
| သစ်ခါး | Pentace Burmanica, Kurz |
| သစ်ချ | Quercus Spp. (Oaks) |
| သစ်ဆွေး မိးသွေးညွန်အိုင် | Peat Bog |
| သစ်ဆိမ့် | Terminalia Belerica, Roxb |
| သစ်တော စုံစမ်း ရှာဖွေရေးဌာန | Forest Research Institute |
| သစ်တောက်ငှက် | Woodpecker |
| သစ်မန်ကျည်း | Albizzia Odoratissima, Benth |
| သစ်ယာ | Shorea Oblongifolia, Thw |
| သစ်အယ် | Castanea Sattiva, Miller |
| သန်း | Terminalia Oliveri, Brandis |
| သိပ္ပံ မဟာဌာန | Faculty of Science |
| သိမ်း | Indian Sparrow-Hawk |
| သိမ်းကျား | Pied Harrier |
| "ဟာကရု" သတင်းစာ | "Hakaru" |
| ဟသ်ာ | Ruddy Shelduck or Brahminy Shelduck |
| ဟိုင်ဒြာကောင် | Hydra |
| ဟွန်းအငူ | Cape Horn |
| အငွေ့ရည် ဖွဲ့ခြင်း | Condensation of Water Vapour |
| အဆို့ရှင် | Throttle-Valve |
| အဇာဗိုင်ဂျန် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ | Azerbaidzhan Soviet Socialist Republic |
| အဋ္ဌမ အက်ဒွပ် ဘုရင် | Edward VIII |
| အတိနီယို ဂျက်ဇူးအစ် သာသနာပြုကျောင်း | Ateneo Jesuit School |
| "အတိတ်နှင့်ပစ္စုပ္ပန် မြန်မာပြည်" | "Burma Past and Present" |
| အထက် ရွက်ပြတ်ရော တောခြောက် | Dry Upper Mixed Deciduous Forest |
| အထက် ရွက်ပြတ်ရော တောစို | Moist Upper Mixed Deciduous Forest |
| အနီအောက် ရောင်ခြည် | Infra-Red Ray |
| အနဲလစ်တစ်ကယ် စိတ်ပညာ | Analytical Psychology |
| အနန်း | Fagraea Fragrans, Roxb |
| အနှေး ခုတ်စက် | Low Speed Engine |
| အပူငုတ် | Latent Heat |
| အပေါင်းပါကောလိပ် | Constituent College |
| အပြည်ပြည်ဆိုင်ရာ ရူးဝါး အာဏာပိုင် အဖွဲ့ | International Ruhr Authority |
| အမေရိကန် နှစ်ခြင်းသာသနာပြုအဖွဲ့ | American Baptist Mission |
| အမေရိကန် ဗက်ပတစ် သာသနာပြုအဖွဲ့ | American Baptist Mission |
| အမြဲစိမ်းတော | Evergreen Forest |
| အမြောက်တင် သင်္ဘောငယ် | Gun Boat |

အမြန် ခုတ်စက်
High Speed Engine

အရာမေအစ် အက္ခရာ
Aramaeic Alphabet

အရှေ့တိုင်းနှင့် အာဖရိကတိုက် ဘာသာန္တရကျောင်းထုတ် စာစောင်
Bulletin of the School of Oriental and African Studies

အရှေ့ အိန္ဒိယ ကုမ္ပဏီ
East India Company

အလိုကျူ
Arundo Donax, Linn

(အလင်း) ဆုံချက်
Focus

(အလင်း) ဆုံတာ
Focal Length

အလှေး
Flea

အာမီးနီးယန် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ
Armenian Soviet Socialist Republic

ဥဇဗက် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ
Uzbek Soviet Socialist Republic

ဥနှဲ (အုတ်နှဲ)
Streblus Asper, Lour

ဥပဒေ မဟာဌာန
Faculty of Laws

ဥပန်း
Oriental Darter or Snakebird

ဥဗျိုင်း
Little Egret

"ဥပဒေ၏ သဘော"
"Spirit of Laws"

ဥရောပ ကျောက်မီးသွေးနှင့် သံမဏိ အဖွဲ့
European Coal & Steel Community

ဥဩ
Malay Koel

အယ်လဖာ ရောင်ခြည်
Alpha Ray

အဲလဗတ် တောင်ထိပ်
Elbert, Mt.

အဲလီးမင့်ကျမ်း
Elements

အော်ယော ငှက်
Little Cormorant

အိုရစ်ဇဗာ တောင်ထိပ်
Orizaba, Mt.

"အက္ခရတ္ထုပ္ပတ္တိ"
"The Alphabet"

အက်စတိုးနီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ
Estonian Soviet Socialist Republic

အောက်ချင်း
Pied Hornbill

အောက်ရှက်ပြတ်ရော တော
Lower Mixed Decidious Forest

အင်
Dipterocarpus Tuberculatus, Roxb

အင်ကြင်း
Pentacme Siamensis (Miq.) Kurz.

အင်္ဂလို အီရေးနီးယန်း ရေနံကုမ္ပဏီ
Anglo-Iranian Oil Company

အင်ဂျင်နီယာ မဟာဌာန
Faculty of Engineering

အင်တိုင်းတော
Indaing Forest

အင်ဖို
Dipterocarpus Obtusifolius, Teysm. Ex. Miq.

အင်ဗာဒေသ
Emba Region

"အင်းဝ နေပြည်တော်သွား သံတမန်တဦး၏ မှတ်တမ်း"
"Journal of an Embassy to Ava."

အိုင်ဘီပီ ကုမ္ပဏီ
I.B.P. (Indo-Burma Petroleum Company)

အန်းဒီး တောင်တန်း
Andes Mountains

"အိန္ဒိယနိုင်ငံ ရှေး အရေးအသားကျမ်း"
"Palaeography of India"

အုပ်မိုးပင်
Dominant Tree

အုံတုံ
Litsaea Glutinosa (Lour) C.B. Robins

# အသံလှယ် အမည်များ

| | |
|---|---|
| ကရော့ကိုဒိုင်လပ် ပယ်လတ်စတြစ် | Crocodilus Palustris |
| ကရော့ကိုဒိုင်လပ် ပေါ်ရိုဆပ် | Crocodilus Porosus |
| ကရော့စ | Cross |
| ကရောဖတ်, ဂျွန် | Crawfurd, John |
| ကရင်းမဲ | Krimmel |
| ကရပ် | Krupp |
| ကလိဗလန် | Cleveland |
| ကလက်ပရော့, မာတင် | Klaproth, Martin |
| ကလိင်္ဂ လိပိ | Kalinga Lipī |
| ကလျူချက်ဗစကာယာ ဆိုပကာ | Klyuchevskaya Sopka |
| ကာကတိ | Kakati |
| ကာကိုမန်တစ်မဲရူလီနပ် | Cacomantismerulinus |
| ကာဂျီး, ဒေးဗစ် ဆိုင်း | Cargill, David Sime |
| ကာဌိအာဝါဒ | Kathiawar |
| ကာတာ, အိပ်ချ | Carter, H. |
| ကာနာဗွန်, လော့ | Carnarvon, Lord |
| ကာနေဂျီ | Carnegie |
| ကာနိုတိုက် | Carnotite |
| ကာဗာကာ | Kabaka |
| ကာရာဂန်ဒါ | Karaganda |
| ကာလမ်ဗာ | Calamba |
| ကီလိုနီယာ | Chelonia |
| ကုဋိလ လိပိ | Kutila Lipi |
| ကုသ | Kusa |
| ကူကင်နမ် | Kukenaam |
| ကူလီကိုဗို | Kulikovo |
| ကူအီးဗိရှက် | Kuibyshev |
| ကေကေယီ | Kaikeyi |
| ကေရီ, ဖဲလစ် | Carey, Felix |
| ကေရီ, ဝီလျံ | Carey, William |
| ကေး, ဂျွန် | Kay, John |
| ကယ်လဆီယမ် နိုက်ထရိတ် | Calcium Nitrate |
| ကယ်လူလာ ဂတ်တူလေတာ | Callula Guttulata |
| ကယ်လူလာ ပူလခရာ | Callula Pulchra |
| ကယ်လော်ရမ်းဖပ် ဖူလီဂျိနိုးဆပ် | Caloramphus Fuliginosus |
| ကယ်လိုတီး | Calotes |
| ကယ်လိုဖရိုင်နပ် အင်ဘာလီနီအေတာ | Calophrynus Interlineata |
| ကဲထိ | Kaithi |
| ကော့စမစ်ရေး | Cosmic Ray |
| ကော်ဒက်တာ | Chordata |
| ကော်နေးယီး, ပီယဲ | Corneille, Pierre |
| ကော်ဗိဒီး | Corvidae |
| ကော်လိုရားဒိုး | Colorado |
| ကောနဲ, အဲဇ်ရာ | Cornell, Ezra |
| ကောသလျာ | Kausalya |
| ကိုပေး ဒတ် | Kopet Dagh |
| ကိုရာဆိုင်အီးဖော်မီး | Coraciiformes |
| ကိုလီမာ | Kolyma |

| | |
|---|---|
| ကိုလံဗီဒီး | Columbidae |
| ကိုလံဗီဖောမီး | Columbiformes |
| ကိုလံဗီး | Columbae |
| ကက်စကီး | Catskill |
| ကက်ပိတိုနီဒီး | Capitonidae |
| ကင်း | Ken |
| ကင်းဗဲ, အယ်လက်ဇန္ဒာ | Campbell, Alexander |
| ''ကောင့် အော့ မွန်တီ ကရစ္စတို'' | "The Count of Monte Cristo" |
| ကမ်ပီချီ | Campeche |
| ကမ်ပီဖက်ဂျီဒီး | Campephagidae |
| ကျူကျူလပ် စပါဗီရီအိုအိဒီး | Cuculus Sparverioides |
| ကျူကျူလပ် မိုင်ကရော့တီးရပ် | Cuculus Micropterus |
| ကျူကျန် | Kiukiang |
| ကျူနီကိတ် | Tunicate |
| ကျူနီကိတ်တာ | Tunicata |
| ကျူရီ, ပီယဲ | Curie, Pierre |
| ကျူရီ,မေရီ | Curie, Mary |
| ကျောက် ဖ မောင်ကွတ် | Chao Fa Mongkut |
| ကွန်ဒါ, ချား | Conder, Charles |
| ''ကွန်ဖက်ရှင်း'' | "Confession" |
| ကွန်မင်ဖောင် | Cominform |
| ခရ | Khara |
| ခရောသျှဌီ | Khroshthi |
| ခါန်ဒေသျှ | Khandesh |
| ချာစကီး | Chersky |
| ချာနစ်စကီ ဗစကီ | Chernyski Vsky |
| ချူဗတ်ရှ | Chuvash |
| ချပ်ကရာဆီယာ တာဗျူလာရစ္စ ဂျပ်ဆီယူ | Chukrasia Tabularis Jussieu |
| ချပ်ကရာဆီယာ ဗီလူတီနာ ရိုးမာ | Chukrasia Velutina Roemer |
| ချမ်းဗော | Chambal |
| ဂမီလီနာ အာဗိုရိယ | Gmelina Arborea |
| ဂရူးဝီးယား | Grewia |
| ဂရူးဝီးယား မိုက်ကရိုကော့ | Grewia Microcos |
| ဂရယ်လီး | Grallae |
| ဂရော့ဇနီ | Grozny |
| ဂရိတ် ဆော့ လိပ် | Great Salt Lake |
| ဂရိတ် ဗြိတိန် | Great Britain |
| ဂရပ် ဂရပ် | Grus Grus |
| ဂရပ် အန်တီဂိုနီ | Grus Antigoni |
| ဂလဲရီယိုလာ ပရက်တင်ကိုလာ | Glareola Pratincola |
| ဂလဲရီယိုလီဒီး | Glareolidae |
| ဂလော့စီဒီယမ် ကျူကျူလိုအိဒီး | Glaucidium Cuculoides |
| ဂလော့စီဒီယမ် ဗရိုဒီစီ | Glaucidium Brodici |
| ဂလစ်ဖိုဂလော့ဆပ် မော်လပ်ဆပ် | Glyphoglossus Molussus |
| ဂါစထရန်း ပရော်ဖက်ဆာ | Garstrang Professor |
| ဂါဆီနီးယား ဇန်သိုခိုင်းမတ် | Garcenia Xanthochymus |
| ဂါဆိုးပါး | Gersoppa |

| | |
|---|---|
| "ဂါဒီယန်" | "The Guardian" |
| ဂါဗာနာ | Governor |
| ဂါဗာနီ | Gavarnie |
| ဂါလီဆီယာ-ဗိုလီနျ | Galicia-Volynia |
| ဂီယာတင် | Girtin |
| ဂီးလဗတ်, ဆာ ဟမ်ဖရီ | Gilbert, Sir Humphrey |
| ဂုဇရာတ် | Gujarat |
| ဂယ်လီနာဂို စတင်နျူရာ | Gallinago Stenura |
| ဂယ်လီနာဂို ဆိုလီတာရီယာ | Gallinago Solitaria |
| ဂယ်လီနာဂို မီဂါလာ | Gallinago Megala |
| ဂယ်လီနီး | Gallinae |
| ဂယ်လီနျူလာ ကလိုရိုပတ် | Gallinula Chloropus |
| ဂယ်လီဖောမီး | Galliformes |
| ဂေါ့တင်းဂျင်း | Gottingen |
| ဂက်ကိုနီဒီး | Gechonidae |
| ဂက်စကိုနီ | Gascony |
| ဂင်္ဂါဝံသီ | Gangavamshi |
| ဂုတ္တ လိပိ | Gupta Lipi |
| ဂန်းဗုတ် | Gun Boat |
| ဂံဇာမ် | Ganjam |
| ဂမ်မာ ရေး | Gamma Ray |
| ဂျူဒီးယား (ယုဒ) | Judea |
| ဂျူး | Joule |
| ဂျူးလီ | Juilly |

| | |
|---|---|
| ဂျော်ဂျီးယန် ဆီဒပ် | Georgian Sidus |
| "ဂျော်ဂျီးယားနား" | "Georgiana" |
| ဂျော်ရှွား (ယောရှု) | Joshua |
| ဂျိုနသန် (ယောနသန်) | Jonathan |
| ဂျိုးဇက် (ယောသပ်) | Joseph |
| ဂျက်ကော့ (ယာကုပ်) | Jacob |
| ဂျိုင်ပူ | Jaipur |
| ဂျပ်ဆင်, အဒိုနီရမ် | Judson, Adoniram |
| ဂြန္ထ လိပိ | Grantha Lipi |
| ဂျွန်, လစ်တဲ | John, Little |
| စကရူး ဝမ်း | Screw Worm |
| စကားလက်, ဝီ | Scarlet, Will |
| စကုတာရီ | Scutari |
| စကိုလိုပါစီဒီး | Scolopacidae |
| စကိုးစဘီ, ဝီလျံ | Scoresby, William |
| စကင်ဆီဒီး | Scincidae |
| စကန်ဆိုရီး | Scansores |
| စကွာမေတာ | Squamata |
| စတာနီဒီး | Sturnidae |
| စတာနိုဗိုအီး | Stanovoy |
| စတီဗင်, အီး၊ အေ | Stevens, E.A. |
| စတီးဘရားသား | Steel Brothers |
| စတီးဝပ်, ဂျေ၊ အေ | Stewart, J.A. |
| စတေးဗယ် ဖလိုင်း | Stable Fly |

| | | | |
|---|---|---|---|
| စတော့ဗက် | Staubbach | ဆား ဒါရယာ | Syr Darya |
| စတက်ပန် ရာဇင် | Stepan Razin | ဆားဗား | Sava |
| စပိုရိုဖိုး | Sporophore | ဆားဗီးယား | Servia |
| စပိုး | Spore | ဆားရာဂျဲဗို | Sarajevo |
| စပင်နာရက် | Spinnerette | ဆီစီလီအီဒီး | Caeciliidae |
| စဖင်နျူရပ် စဖင်နျူရပ် | Sphenurus Sphenurus | ဆီလဗာ ကလိုရိုက် | Silver Chloride |
| စဖင်နျူရပ် အပီကောဒါ | Sphenurus Apicauda | ဆီလင်တာရေးတား | Celenterata |
| စာလုကျ | Chalukya | ဆီလင်တာရိတ် | Coelenterate |
| စီကာကောလ | Cikakaul | ဆီးဂျင်း | Siegen |
| စီကိုနီယာ နီဂရာ | Ciconia Nigra | ဆုခေါ်ထိုင်း (သောက္ကတဲ) | Sukhothai |
| စီကိုနီအီဒီး | Ciconiidae | ဆူပရင်း ဆိုဗီယက် | Supreme Soviet |
| စူဠာလောင်ကွန် | Chulalongkorn | ဆူပါ ဒရက်ဒနော့ | Super Dreadnought |
| စိန် ဖရန်စစ် ဇေးဗီးယား | St. Francis Xavier | ဆူဗိုတိကား | Subotica |
| ဆ တာရာ | Satara | ဆူး ဆန့် မာရီ | Sault Sainte Marie |
| ဆန္နူ ဒရို | Chanhu Daro | ဆေဗရီ, တောမတ် | Savery, Thomas |
| ဆပရိုဖိုက် | Saprophyte | ဆေယန် | Sayan |
| ဆမေးရီးယား | Samaria | ဆဲလျူလို ဇန်သိတ် | Cellulose Xanthate |
| ဆလမန်ဒရီဒီး | Salamandridae | ဆော့ဒီး, ဖရက်ဒရစ် | Soddy, Frederick |
| ဆလိုဗင်းနီးယား | Slovenia | ဆော့ လိပ် စီးတီး | Salt Lake City |
| ဆာပင်တီး | Serpentes | ဆော (ရှောလု) | Saul |
| ဆာဗူလတ် ဩရိယပ် | Cervulus Aureus | ဆိုဒီယမ် နိုက်ထရိတ် | Sodium Nitrate |
| ဆာမာရှန် | Samartian | ဆိုဗီယက် ယူနီယံ | Soviet Union |
| ဆာရစ် ထာနာရတ်, မာရှယ် | Sarit Thanarat, Marshal | ဆက်ဆီကိုလိနီး | Saxicolinae |
| ဆာလာမစ် | Salamis | ဆင်နတ်သီးဒီး | Syngnathidae |

| | |
|---|---|
| ဆစ်ဂဆစ်စမန် ကာလချီ | Sigsismund Calchi |
| ဆစ်တာ ကက်စတာနီယာ နီဂလက်တာ | Sitta Castanea Neglecta |
| ဆစ်တာစီဒီး | Psittacidae |
| ဆစ်တာ ဖရွန်တားလစ် | Sitta Frontalis |
| ဆစ်တီဒီး | Sittidae |
| ဆတ်သာလင် | Sutherland |
| ဆန်ဂျာမာနို | Sangermano |
| ဆပ် | Sus |
| ဆမ်နိုပိသိကပ် | Semnopithecus |
| ဆမ်နိုပိသိကပ် ခရိုင်အိုဂတ်စတာ | Semnopithecus Chryogaster |
| ဆမ်နိုပိသိကပ် ကရစ္စတေးတပ် | Semnopithecus Critatus |
| ဆမ်နိုပိသိကပ် ပီလီအေလပ် | Semnopithecus Pilealus |
| ဆမ်နိုပိသိကပ် ဗာဗိုင် | Semnopithecus Barbei |
| ဆမ်နိုပိသိကပ် အော့စကူရပ် | Semnopithecus Obscurus |
| ဇာဂရက် | Zagreb |
| ဇီနိုဖရစ် မွန်တီကိုလာ | Xenophrys Monticola |
| ဇီနွန် | Xenon |
| ဇဂ္ဂယေျ ပေတ | Jaggeyya Peta |
| ဇွတ်ဂဇား | Dzhugdzhur |
| တဗာ | Tver |
| တမာလိန်း | Tamerlane |
| တာ့ဆစ် | Turksib |
| တာကို-တာတာ | Turko-Tartar |
| တာမိဠ လိပိ | Tamil Lipi |
| တီယင် ရှန် | Tien Shan |
| တူဠု | Tulu |
| တူဂီလာ | Tugila |
| တေလုဂု-ကနဍီ | Telugu-Canarese |
| တယ်လီဗစ်ရှင်း ရေဒါ | Television Radar |
| ဘင်မလိုင်အီဒီး | Timaliidae |
| တိုင်တန်းနီးယား | Titania |
| တိုင်လိုထြိုင်တန် ဗာရူကိုဆပ် | Tylotriton Verrucosus |
| တိန္နေဝေလ္လိ | Tinnevelli |
| တပ်,ဖရိုင်းယား | Tuck, Friar |
| ထနွမ် ကစ်တီကာချွန် | Thanom Kittikachorn |
| ထရက်စကီ အော်နီသီဒီး | Threski Ornithidae |
| ထရင်ဂါ အော့ခရိုပပ် | Tringa Ochropus |
| ထရမ်းမဲလဗက် | Trummelbach |
| ဒဗီနာ | Dvina |
| ဒရက်ဒနော့ | Dreadnought |
| ဒသရထ | Dasaratha |
| ဒါပီးတန် | Dapitan |
| ဒါရ ဒွန်း | Dehra Dun |
| ဒီကရူရိဒီး | Dicruridae |
| ဒီမီထရီ ဒွန်စကိုဝီ | Dmitri Donskoy |
| ဒီမော့ကရိတပ် | Democritus |
| ဒီရင်းဂျား, ဒေးဗစ် | Diringer, David |

| | |
|---|---|
| ဒီးယား ဖလိုင်း | Deer Fly |
| ဒူဇယ်ဒေါ့ | Dusseldorf |
| ဒူရွားဇဲ, ချား | Duroisselle, Charles |
| "ဒေးလီး ရီဗျူး" | "Daily Review" |
| ဒယ်လဖိနိုရင်းခပ် ရော့စတြေးတပ် | Delphinorynchus Rostratus |
| ဒယ်လဗားဂျီးယား ကာလတြေတာ | Delbergia Cultrata |
| ဒေါ့တမွန် | Dortmund |
| ဒေါမန် - စမစ်, ဆာ ရယ်ဂျီနယ် | Dorman-Smith, Sir Reginald |
| ဒဏ္ဍက | Dandaka |
| ဒစ်ပလိုပိုးဒါး | Diplopoda |
| ဒျူတီးရီးယမ်း အောက်ဆိုက် | Deuterium Oxide |
| ဒြေဗား | Drava |
| ဒွိဇဗု | Duisburg |
| ဒွိုင်အန်ကာ | Doi Angka |
| နယူးဒီး | New Deal |
| နာဂရီ | Nagari |
| နာဂါရ ကောဏ္ဍ | Nagara Kond |
| နာဆိက | Nasik |
| နာရင်တာ | Narenta |
| နီပင်သီး | Nepenthes |
| နီပင်သေးစီအီး | Nepenthaceae |
| နီမက်တိုဗလတ်စ | Nematoblast |
| နီမက်ဟယ်လမင်သီးစ | Nemathelminthes |
| နေဟမီးယား | Nehemiah |
| နော့, လော့ | North, Lord. |
| နော့ဗဂိုရော့ | Novgorod |
| "နိုလီ မေ တန်ဂါ" | "Noli Me Tangere" |
| နိုးဗီ ဆတ် | Novi Sad |
| နက်ဗစကီ, အယ်လက်ဇန္ဒာ | Nevsky, Alexander |
| နိုင် ပရီဒီး | Nai Pridi |
| နျူကိုမင်, တောမတ် | Newcomen, Thomas |
| နျူမျူလိုက် | Nummulite |
| နွိုင်း, အဲလဖရက် | Noye, Alfred |
| ပစကော့ | Pskov |
| ပနွန်း | Panung |
| ပမီး-အာလေး | Pamir-Alay |
| ပရီဆီဒီယမ် | Presidium |
| ပရိုဂရက်ဆို | Progresso |
| ပရိုတိုကော်ဒက်တာ | Protochordata |
| ပရိုတိုဇွ | Protozoa |
| ပရိုတိုနီမာ | Protonema |
| ပရိုတိုအက်တင်နီယမ် | Protoactinium |
| ပရိုဗို | Provo |
| ပရက်စပါ | Prespa |
| ပရိုက်, ဒေါက်တာ | Price, Doctor |
| ပလက်တီဟယ်လမင်သီးစ | Platyhelminthes |
| ပလင်တက်ဂျနက် | Plantagenet |

| | |
|---|---|
| ပလင်မတွန် | Plympton |
| ပလန့် | Planck |
| ပါဆင်း, ဆာ ချား | Parsons, Sir Charles |
| ပါရာဖော်မယ်လဒီဟိုက် | Paraformaldehyde |
| ပါရာမီးဆီယမ် | Paramoecium |
| ပါရိုနိုစပိုရာစီအီး | Peronosporaceae |
| ပါးလဗီးလပ် | Pulvillus |
| ပိပြာဝါ | Piprava |
| ပီခိုရာ | Pechora |
| ပီအီးပတ် | Peipus |
| ပုဂါချက်, ယီမီလျံ | Pugachev, Yemelyan |
| ပယ်လီကင်နီဖောမီး | Pelechaniformes |
| ပဲထရီ, ဆာ ဖလင်းဒါး | Petrie, Sir Flanders |
| ပဲလီးဂိုး, ယူဂျင်း | Peligot, Eugene |
| ပေါ်ဒီစီပီတီဒီး | Podicipitidae |
| ပေါ်ဒီစီပီတီဖောမီး | Podicipitiformes |
| ပေါ်ဒီစက် ကရစ္စတေးတပ် | Podiceps Cristatus |
| ပေါ်ဒီစက် ရူဖီကောလစ် | Podiceps Ruficollis |
| ပေါ်ဇာနာ ဖွတ်စက ဗေကာရီ | Porzana Fusca Bakeri |
| ပေါ်လီပီဒေတီး | Polypedates |
| ပိုရေးဖရာ | Porifera |
| ပိုလော့စက | Polotsk |
| ပိုလိုနီယမ် | Polonium |
| ပက်ဆာရီး | Passeries |
| ပိုက်ဆီ | Pisces |
| ပစ်ချဗလင်း | Pitchblende |
| ပက္ခိမိ | Pakshimi |
| ပစ်တာ မိုလပ်ဆင်ဆစ် | Pitta Moluscensis |
| ပဏ္ဍိတ် ဂေါ်ရီရှန်ကား ဟီရာစန္ဒ သြဈာ | Pandit Gaurishankar Hirachand Ojha |
| ပတ်စကဲ | Pascal |
| ပန်နိုလီယ အယ်လဒီ | Panolia Eldi |
| ပန်း, ဘီ အာ | Pearn, B.R. |
| ပလ္လဝ | Pallava |
| ဖရာချာဒီပေါက် | Prajadhipok |
| ဖရူ ဖလိုင်း | Fruit Fly |
| ဖရင်ကိုလင်နပ် ပင်တေဒီးနပ် | Francolinus Pintadeanus |
| ဖရန်စစ္စကို သေ မွန်တေယို | Francisco De Montejo |
| ဖရန်စစ္စကို ရီဇား မာကားဒိုး | Francisco Rizal Mercado |
| ဖလင်းမစ် | Flemish |
| ဖာစီအင်နီဒီး | Phasianidae |
| ဖာနီဗယ်, ဂျေ အက်(စ) | Furnivall, J.S. |
| ဖီဒရေ | Phedre |
| ဖီး, ဆိုင်းရပ် ဝက်စ | Field, Cyrus West |
| ဖူမိဖွန် အဒူလဒက် | Phumiphon Aduldet |
| ဖူလိကာ အက်ထရာ | Fulica Atra |
| ဖူးကား, ဖာဒီနန် | Foucar, Ferdinand |
| ဖူးကား အင် ကုမ္ပဏီ | Foucar & Company |
| ဖယ်လကို အမျူရင်းဆစ် | Falco Amurensis |

| | |
|---|---|
| ဖယ်လာကရိုကိုရက်စီဒီး | Phalacrocoracidae |
| ဖဲလစ် | Felis |
| ဖဲလစ် တိုက်ဂရစ် | Felis Tigris |
| ဖဲလစ် ပါဒတ် | Felis Pardus |
| ဖော့, ရိုဇီတာ | Forbes, Rosita |
| ဖိုးမင့်, ဟယ်လီနာ | Fourment, Helena |
| ဖင်ဒလေ အင် ဖလင်မင် ကုမ္ပဏီ | Findlay & Flemming Company |
| ဖင်းနို-အူဂရီယန် | Finno-Ugrian |
| ဖစ်ဆစ်ကယ် ကင်မစ္စတြီ | Physical Chemistry |
| ဖန်းဂပ် | Fungus |
| ဗဇာဇစ် | Bajazet |
| ဗရလီ | Barli |
| ဗရော်ဇိုဗစ်, ဂျိုးဆစ် | Broz, Josip |
| ဗရက်, ဂျွန်ဒဗျူ | Brett, John W. |
| ဗရက်ခီအိုပေါ့ | Brachiopod |
| ဗရက်ခီအိုပိုးဒါး | Brachiopoda |
| ဗရိုက်, ချား | Bright, Charles |
| ဗရင်းဒစ်, ဆာ ဒီအက်ထရစ် | Brandis, Sir Dietrich |
| ဗရန့်, အဇ္ဇဗဲလား | Brant, Isabella |
| ဗလာဒီမာ-ဆူဇဒယ် | Vladimir-Suzdal |
| ဗလိုးဖလိုင်း | Blow-Fly |
| ဗလက်ဒင်, ဂျီ၊ အို | Blagden, G.O. |
| ဗလိုက် | Blythe |
| ဗာခိုယန့်စက | Verkhoyansk |

| | |
|---|---|
| ဗာထိုး ရှဗာ့ | Berthold Schewartz |
| ဗာဗလပ် အာနီ | Barbalus Arni |
| ဗာလီ | Valin |
| ဗာလီးနော့ပတဲရာ အက်ဒီနီ | Balaenoptera Edini |
| ဗာလီးနော့ပတဲရာ အင်ဒိကာ | Balaenoptera Indica |
| ဗာဟီနီဒီး | Burhinidae |
| ဗာဟီနပ် အင်ဒိကပ် | Burhinus Indicus |
| ဗားဒါး | Vardar |
| ဗားနက်, အယ်၊ ဒီ | Barnett, L.D. |
| "ဗားမင်း" | "The Burman" |
| ဗိဘီသန | Vibhisana |
| ဗီတွာ | Betwa |
| ဗီဗာရီဒီး | Beaveridae |
| ဗီဗီရာ ဇီဗက်သာ | Viverra Zibetha |
| ဗီဗီရာ တန်ဂလန်ဂါ | Viverra Tangalunga |
| ဗီဗီရီကျူလာ မလက်ဆင်းဆစ် | Viverricula Malaccensis |
| ဗီဗန် | Bevan |
| ဗီးဗီ, ဝီလျံ | Beebe, William |
| ဗီးရာ မား | Beira Mar |
| ဗူကာရော့စ ဗိုင်ကောနစ် | Buceros Bicornis |
| ဗူကာရိုတီဒီး | Bucerotidae |
| ဗူပါတယ် | Wupertal |
| ဗူဖို | Bufo |
| ဗူဖို မီလန်နိုစတစ်တပ် | Bufo Melanostictus |

